http://www.dhammadownload.com

# မြန်မာနိုင်ငံ ရဟန္တာနှင့် ရဟန်းထူးများ

## (ဒုတိယတွဲ)

ဝိဇ္ဇာအထွေထွေဂုဏ်ထူး၊ မဟာဝိဇ္ဇာဂုဏ်ထူးဘွဲ့ရ
ဦးလှမြင့်အမည်ခံ ကဗျာဆရာ၊ စာရေးဆရာ၊ စာပေသုတေသီ၊
ယခင် ရန်ကုန်တက္ကသိုလ် မြန်မာစာဌာန၊ မြန်မာစာဆရာ

မောင်ပန်းမွေး

ပြုစုသည်

http://www.dhammadownload.com

ရာဇကျော်ဆရာတော် ငါးစပ်ကြီးဆရာတော် ရေကြိုဆရာတော် မဟာဝိသုဒ္ဓါရာမဆရာတော် ရက်ကန်းစင်တောင်ဆရာတော်
ရွှေချောင်ပြဲဆရာတော် ဒုတိယအောင်ကြွမ်းပင်ဆရာတော် နတ်စင်တစ်ရာဆရာတော် မဟော့ချောင်ဆရာတော် ကျောက်တန်း
မဟာဗောဓိဆရာတော် လေ့စ်ကားတောရကျောင်းဆရာတော် အမွဲရာမကျောင်းတိုက်ဆရာတော် တောင်ဗိလာဆရာတော် ရွှေ
ညောင်ပင်ဦးသီလ ထားဝယ်မြို့ဇေယျဝတီကျောင်းတိုက်ဦးသီလ ဖင်းမျိုးဦးဥက္ကံသ မဟာမြိုင်ဦးစန္ဒာသူရိယ ကန်ကျောင်းဆရာတော်
အရှေ့ကျောင်းဆရာတော် ဦးစန္ဒန ရှမ်းတဲကြီးတောကျောင်းဆရာတော် ဦးကိတ္တိ တောင်ပွားဆရာတော် ပထမ မင်းကွန်းဓမ္မနာဒ
ဆရာတော် မိုးကောင်းမြို့အဘိညာဉ်ရဆရာတော် ညောင်လေးပင်တောရဆရာတော်ကြီး မြစ်သားသိမ်တောင် ဦးသံဝရဗုဒ္ဓိ ဇီးကုန်းမြို့
ကျောင်းကြီးတိုက် ဦးသောဂ ထားဝယ်မြို့ ဇေယျဝတီကျောင်းတိုက် ဆရာတော် ဦးနန္ဒိယ ထားဝယ်ဘုန်းကြီး စီပို ဦးပညာဝံသ ပေါင်း
တည်မြို့ဘုရားသုံးဆူကိုရင်ကြီး တောင်ဗိလာဆရာတော် ဦးဝိလာသ ပထမနာဂလိုဏ်ဂူ ကလေးဝ ဆရာတော် ဘီစန်းဆရာတော်
ဦးကုဏာဆရာတော် ဆိပ်ကလေးရွာ ကျောက်ဖြစ်ဦးစန္ဒိမာ ရေးမြို့တောရကျောင်းဆရာတော် ကျောက်စံကျေးရွာ ဆရာတော်ကြီး
တောင်တန်းသာသနာပြုရဟန်းထူး ဦးအောင်ပရမသိဒ္ဓိ ထုံးတောင်တောရဆရာတော် ပြည်ရွှေဥမင်ဆရာတော် မဟာမြိုင် ဦးမေဓာ
ဘိုးဒေဝိန္ဒ တေဇစက္ကီဆရာတော်ကြီး မြောက်ဂူကျောင်းဆရာတော်ကြီး ဖားအောက်တောရ သစ်သီးဆရာတော် ဟန်လင်းကျောက်
ဖြစ်ဆရာတော် ရွှေအုံသာ တောရကျောင်းမှ သဲတော ဦးနန္ဒဝံသ တနင်္သာရီတိုင်း လောင်းလုံမြို့နယ် ရန်ကင်းတောင် ဦးပညာဇောတ
စလေဦးကောသလ္လ ညောင်ပိုင်းဆရာတော် ခါတ်တော်ဆရာတော် ဦးဝါသဝ ငွေးတောက်ကုန်းဆရာတော်ကြီး တိန်ဘား ဦးနာဂိန္ဒ
အနောက် ပရက္ကမ ဆရာတော်ကြီး စစ်တောင်း တောင်ဖီလာဆရာတော်ဦးပဏ္ဍဝ ဒဂုံမြို့သစ်မြောက်ပိုင်း နန်းအောင်မြေ အောင်ဓမ္မရိပ်
သာကျောင်းဆရာတော် ရွှေမြဲယာဆရာတော်ကြီး အရှေ့ပရက္ကမ ဆရာတော်ကြီး ရွှေဖျိုင်းနားဆရာတော် မင်းကွန်းဇေတဝန်ကျောင်း
ဒုတိယမင်းကွန်းဆရာတော် သစ်သီးစားကျောင်းဆရာတော် ဦးပဏ္ဍဝ လယ်ပြင်ကျောင်းတိုက် ဘဒ္ဒန္တဉာဏဝံသ တိပိဋကဆရာတော်
ဘဒ္ဒန္တ ဝိစိတ္တသာရာဘိဝံသ ကြံခင်းကံကလေးတောရ အရှင်အဂ္ဂဝံသ ထူ-တောရကျောင်းဆရာတော် မြိုင်မြို့ ဇီးတော ဆရာတော်
ရွှေပေါက်ကျွန်းဆရာတော် ဦးသောဘိတ ဂုံညင်းတန်းဆရာတော် ဦးပညိန္န ကြာအင်းရွာဆရာတော် ဦးသီဟ ဒုတိယ ဝေဘူရွှေစေလှ
ဆရာတော် ရန်ကုန်တိုင်း ရွှေဥမင်ဆရာတော် အုတ်ဖိုတောင်ငှက်ပစ်တောင်ကျောင်းသစ် ဦးဝါယမဗောဓိ ဒလမြို့နယ်၊ ရွှေလှေချောင်ရွာ၊
အောင်ဇမ္ဗူမင်္ဂလာရွှေကျောင်းဆရာတော် ထပ်တင်ကာတောရဆရာတော် ကျော်ရွာတောကျောင်းဆရာတော် မဟာသတိပဋ္ဌာန်
ဆရာတော် ဆေးဝက်ဘာဆရာတော် လွှတ်တိုက်ကျေးရွာဆရာတော်ကြီး အဉာတောဆရာတော် ပဲခူးတိုင်း နတ်တလင်းမြို့နယ်၊
မဟာစည်ရိပ်သာ ဘဒ္ဒန္တကေသရ မောင်းထောင် မြေဖင်းဆရာတော် နဘူးကျင်းတောရဆရာတော် ရွှေပေါက်ကျွန်းဆရာတော် အရှင်
ဇေယျသိဒ္ဓိဓမ္မဉာဏိက ဆင်ဖြူကျွန်းမြို့မိုးကုတ်ဓမ္မရိပ်သာဦးဓမ္မသာရ ဟိုပင်မြို့မှ ထူးခြားသည့် ဆရာတော်ဘဒ္ဒန္တဇိန မဟာထေရ် ဆား
လင်းကြီးမြို့နယ်၊ တုံရွာ ဗိမာန်သာကျောင်းတိုက် ဆရာတော်ကြီး ရွာမွန်သုသာန်ကိုရင်ကြီး သာပေါင်းမြို့နယ်၊ မကျီးဇင်ကျေးရွာ၊ သီရိ
မင်္ဂလာတိုက်ကျောင်းဆရာတော် ကရင်ပြည်နယ် မြဝတီမြို့ မြို့သစ် ဘဒ္ဒန္တစန္ဒာသီရိ ချဲ့တန်ကျောင်းတိုက်ကြီး ချဲ့တန်ဆရာတော် ပြင်ဦး
လွင်မြို့ ဘဒ္ဒန္တစန္ဒောဘာသ ဆားတောင်ဦးပညာဏိက စလူမြောင်တောရဆရာတော် စစ်တွေမြို့အာဂျက်တော်ကုန်းမှ အသျှင်ဓမ္မပါလ
အင်းလေးဝက်သကင်ဆရာတော် မဟာသုဒဿနံ သံဃရာဇာနန်းဦး ဆရာတော် မဟာဗောဓိတစ်ထောင်ဆရာတော် ညောင်ပင်သာ
ဆရာတော် ဘဒ္ဒန္တနာဂိန္ဒ ကင်းကျောင်းဆရာတော် ကနောင်မြို့ ကွမ်းခြံကုန်းကျေးရွာ ဘဒ္ဒန္တဝရသိဟ ပုသိမ်ကြီးမြို့နယ်မ်းကြဲကျေးရွာအုပ်စု
စမ်းကြီးကျောင်းဆရာတော်

# မြန်မာနိုင်ငံ ရဟန္တာနှင့် ရဟန်းထူးများ

## (ဒုတိယတွဲ)

Design : Zarni (Glory)

http://www.dhammadownload.com

မြန်မာနိုင်ငံ ပဋိပတ္တိ သာသနာဝင် ရဟန္တာနှင့် ရဟန်းထူးများ (ပထမတွဲ) တွင်

(၈၉) ပါး ဖော်ပြခဲ့ပြီးဖြစ်သဖြင့်

ယခုဆက်လက်၍ နောက်ထပ် ရှာဖွေတွေ့ရှိ သုတေသနပြုထားသော

(၁၀၁) ပါးကို ထပ်မံဖော်ပြသည့်

# မြန်မာနိုင်ငံ ရဟန္တာနှင့်ရဟန်းထူးများ

## [ဒုတိယတွဲ]

မောင်ပန်းမွှေး ပြုစုသည်

http://www.dhammadownload.com

# ပုံနှိပ်မှတ်တမ်း


| | | |
|---|---|---|
| စာမူခွင့်ပြုချက်အမှတ် | - | ၆၀၀၃၃၁၀၇၁၀ |
| မျက်နှာဖုံးခွင့်ပြုချက်အမှတ် | - | ၆၀၀၃၉၄၀၇၁၀ |
| မျက်နှာဖုံးဒီဇိုင်း | - | ဇာနည်(Glory) |
| ထုတ်ဝေသူ | - | ဦးလှိုင်ဝင်းမိုး (မြဲ - ၀၃၉၀၀) |
| | | အမှတ် ၁၀၁၊ ၃၈လမ်း၊ကျောက်တံတားမြို့နယ်။ |
| မျက်နှာဖုံးနှင့် | - | ဦးဝင်းကျော်ထွန်း (မုံရွေးပုံနှိပ်တိုက်) |
| အတွင်းပုံနှိပ်သူ | | အမှတ်(၁၄၀)၊ (၄၅) လမ်း၊ |
| | | ဗိုလ်တထောင်မြို့နယ်။ |
| အတွင်းဖလင် | - | ကိုဦးနှင့်ညီများ |
| စာအုပ်ချုပ် | - | ဝင်းပပ |
| ထုတ်ဝေခြင်း | - | ပထမအကြိမ်၊ ၂၀၁၀ ခုနှစ်၊ စက်တင်ဘာလ |
| အုပ်ရေ | - | ၅၀၀ |
| တန်ဖိုး | - | ၁၂၀၀၀ ကျပ် |

၂၉၄.၃

မောင်ပန်းမွေး

မြန်မာနိုင်ငံ ရဟန္တာနှင့်ရဟန်းထူးများ/ မောင်ပန်းမွေး - ရန်ကုန်၊ ၂၀၁၀။

တော်ဝင်မြို့မစာပေ၊ ၂၀၁၀။

၁၆၀၉ - စာ၊ ၄၂.၆ စင်တီမီတာ × ၂၇.၉ စင်တီမီတာ

(၁) မြန်မာနိုင်ငံ ရဟန္တာနှင့် ရဟန်းထူးများ

http://www.dhammadownload.com

# မာတိကာ

ရဟန္တာနှင့်ရဟန်းထူးများ ပထမတွဲတွင် အပါးပေါင်း (၈၉) ပါးကို ဖော်ပြခဲ့ပြီးဖြစ်သဖြင့် ယခု ဒုတိယတွဲတွင် နောက်ထပ် ရှာဖွေတွေ့ရှိသော ရဟန္တာနှင့်ရဟန်းထူးများကို ဆက်လက်၍ တင်ပြထားပါသည်။ ထို့ကြောင့် မာတိကာကို (၉၀) မှ စပါသည်။

| စဉ် | အကြောင်းအရာ | | စာမျက်နှာ |
|---|---|---|---|

http://www.dhammadownload.com

http://www.dhammadownload.com

http://www.dhammadownload.com

http://www.dhammadownload.com

http://www.dhammadownload.com

http://www.dhammadownload.com

http://www.dhammadownload.com

http://www.dhammadownload.com

http://www.dhammadownload.com

http://www.dhammadownload.com



ရှေးအခါက ဆရာတော်ကြီး ယိုးဒယားဆရာတော်ဟု အမည်ရှိသော်လည်း နောင်သောအခါ ရာကျော်ဆရာတော်ဘုရားကြီး ဟူ၍သာ ကျော်ကြားတော်မူသော ရဟန်းထူး

# ရာကျော်ဆရာတော်ဘုရားကြီး ဦးဒေဝသဒ္ဒမ္မကိတ္တိ

(၁၆၇၆ – ၁၉၅၄)



http://www.dhammadownload.com



ရာကျော်ဆရာတော်ဘုရားကြီးသည် ၁၉၅၄ ခုနှစ်တွင် ခန္တာဝန်ချတော်မူသဖြင့် ကျွန်ုပ်တို့၏ မျက်မှောက်လက်ထက်ပင် ဖြစ်ပေရာ ကိုယ်တိုင်တွေ့ကြုံရသူများ များစွာရှိပေသည်။

သာသနာပြုအကျော် ရာကျော်ဆရာတော်ဘုရားကြီး၏ သူ့သာသနာ သူ့ဘဝ သူ့ဓမ္မများအကြောင်းကို အတွင်းသိတပည့်ကြီးများက ရေးသားသဖြင့် မျက်မြင် ကိုယ်တွေ့ ခေတ်ပြိုင် မှတ်တမ်းများကို ဖတ်ရ မှတ်ရပါသည်။

> ကျမ်းကိုး။ ဟံသာဝတီ ဦးအုန်းကြိုင်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၂၀၀၂ ခု၊ ဇန်နဝါရီ၊ အမှတ် ၁၇၅၊ စာ ၆၅ကို ကြည့်ပါ။

ရာကျော်ဆရာတော်ဘုရားကြီးလက်ထက်က ဓာတ်ပန္တက်စိုက်ထူခဲ့ရာ နေရာများနှင့်တကွ ရာကျော်ဆရာတော်ဘုရားကြီး လက်စွဲ အောင်ထူးဆန်း ဂါထာတော်မြတ် ကြီးအကြောင်းကိုလည်း တပည့်ကြီးများက အသေအချာ ဖော်ထုတ်သဖြင့် ကျင့်စဉ်လက်စွဲများလည်း မှတ်သားရပါသည်။

> ကျမ်းကိုး။ ဟံသာဝတီ ဦးအုန်းကြိုင်၊ မင်းဓမ္မတောင်တော်မြတ်မဟာနှင့် အောင်ထူးဆန်း ဂါထာတော်ကြီး နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် ၁၇၄၊ ၂၀၀၁ ခု၊ ဇန်နဝါရီလ၊ စာ ၁၇ ကို ကြည့်ပါ။

အဘရာကျော်ဆရာတော်ဘုရားကြီး၏ ဖောင်တော်ဦး မတ်ရပ်တော် မြတ်စွာဘုရားကြီး ဆိုသည်မှာလည်း ရာကျော်ဆရာတော်ဘုရားကြီး ဓာတ်ပန္တက်တည်ရာ ဖြစ်ကြောင်း လေ့လာတွေ့ရှိရပါသည်။

> ကျမ်းကိုး။ အောင်သာကျော်၊ အဘရာကျော် ဓာတ်ပန္တက်တည်ရာ ဖောင်တော်ဦး မတ်ရပ်တော် မြတ်စွာဘုရား၏၊ သူရဿမဂ္ဂဇင်း၊ ၂၀၀၂ ခုနှစ်၊ စက်တင်ဘာ၊ စာ ၂၀။

ရာကျော်ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော် ဗိမာန်တော်မှာ ယခုတိုင် တည်ရှိသေးသဖြင့် ရန်ကုန်တိုင်း၊ မင်္ဂလာဒုံမြို့နယ်အတွင်း စိတ္တသုခ တပ်ဦးကျောင်းတွင် သွားရောက်ဖူးမြော်နိုင်ပါသည်။ ထိုနေရာသည် ရာကျော်ဆရာတော်ဘုရားကြီး၏ အချက်အချာ အောင်မြေဖြစ်ပါသည်။

> ကျမ်းကိုး။ အောင်ဇ LLB ရာကျော်ဆရာတော်၏ စိတ္တသုခသို့ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၂၀၀၃ ခု၊ ဧပြီလ၊ အမှတ် ၂၀၁၊ စာ ၂၆၈ ကို ကြည့်ပါ။

ရာကျော်ဆရာတော်ဘုရားကြီး ကိုယ်တိုင် သီတင်းသုံး တရားအားထုတ် အောင်မြင်ခဲ့သည့် ဝေဿန္တရာဂူကြီးသည် မိုးကုတ်မြို့ ရွှေဂူကြီးဘုရားအနီး ငွေးပင်ရွာတွင် တည်ရှိကြောင်း သိရှိရပါသည်။ ထိုနေရာတွင် ဆရာတော်ကြီးသည် သမထနှင့် ဝိပဿနာ ယှဉ်တွဲအားထုတ် သွားကြောင်း သိရှိရပါသည်။

> ကျမ်းကိုး။ အောင်ဇ LLB ရာကျော်ဆရာတော်၏ မူလ ပထမ ကျောင်းတော်ရာ ၂၀၀၀ပြည့်နှစ်၊ နိုဝင်ဘာလ ၊ အမှတ် ၁၇၂၊ စာ ၄၅ ကို ကြည့်ပါ။

မဖေ့ကောင်းနိုင်စရာအကြောင်းအဖြစ် ရာကျော်ဆရာတော်ဘုရားကြီး၏ ဣစ္ဆာသယ လွယ်အိတ်အကြောင်းကို လည်းကောင်း၊ ဆရာတော်၏ သပိတ်ကျင်း အောင်မြေ အကြောင်းကိုလည်းကောင်း လေ့လာတွေ့ရှိချက်များကို မှတ်သားရပါသည်။

http://www.dhammadownload.com



ကျမ်းကိုး။ ဒီလှိုင်း သဝိတ်ကျင်း၊ ဣဿာသယလွယ်အိတ်နှင့် ရာကျော် ဆရာတော်၏အောင်မြေ၊ နကွတ္တရောင်ခြည်မဂ္ဂဇင်း၊ ၂၀၀၃ ခု၊ စက်တင်ဘာလ၊ စာ-၁၅၃ ကို ကြည့်ပါ။

ရာကျော်ဆရာတော်ဘုရားသည် မြန်မာယိုးဒယား နယ်စပ်တွင် သီတင်းသုံးစဉ်က ဥရုဝေလ ကဿပ၊ ဒိဋ္ဌိညီနောင် ရှင်တစ်ထောင်ဂူကြီးအတွင်း သီတင်းသုံးတော်မူခဲ့ကြောင်းကိုလည်း ဆရာတော်ဘုရားကြီး၏ ထွက်ရပ်လမ်းကို နဝဓာတုဝိနိစ္ဆယ ဋီကာကျမ်းတွင် ဖတ်ရှုလေ့လာနိုင်ပါသည်။

ကျမ်းကိုး။ တပည့်ရင်း ဥရုဝေလ ဂူကြီးကျောင်းဒါယကာ မိုးကောင်းဆရာစိန်၊ ၁၉၆၄- ခု၊ ဇူလိုင်လထုတ်၊ နဝဓာတုဝိနိစ္ဆယဋီကာကျမ်းကိုကြည့်။

ပန်းကန်လုံးကျွန်းဟု ပြောမှသာလျှင် လူတော်တော်များများ သိမည်ထင်သဖြင့် ပန်းကန်လုံး ကျွန်းဟု ခေါ် ဆိုလိုက်ရခြင်း ဖြစ်ပါသည်။ ရန်ကုန်ရောက်လျှင် ကန်တော်ကြီးသည် အရှေ့ပါသောနေရာ တစ်နေရာ ဖြစ်လေသည်။

"ဒီလို မောင်ပန်းမွှေးရဲ့ ဟိုတုန်းက ဒီနေရာက ဆုထူးပန် ဦးအောင်ချမ်းသာ (ခေါ်) ဦးထူလံကြီး ရဲ့ နေရာကွဲ့၊ ပြီးတော့လည်း ရာကျော်ဆရာတော်ဘုရားကြီးရဲ့ ဓာတ်ပန္နက်လည်းရှိတယ်" ဟု ကျိုက်ထီးဆောင်း ဆရာတော်ဘုရားကြီး အဘိဓဇအဂ္ဂမဟာသဒ္ဓမ္မဇောတိက ဘဒ္ဒန္တ ပညာဒီပက မှမိန့်ဆိုတော်မူပါသည်။

ရှေးသရောအခါကတည်းက ဆရာကြီး အဘဖြူကလည်း ဂျပန်ခေတ် တစ်ခေတ်လုံး ထို ခေမာဒီပကျွန်းကလေးမှာပင် နေထိုင်တော်မူခဲ့သဖြင့် အဘဖြူနေသောနေရာများကို လိုက်လံကြည့်ရှုပြီးလျှင် ခေမာဒီပကျွန်းတွင် သစ်ပင်များကို လိုက်လံရေတွက်ရာ ၅၅ ပင်မျှရှိကြောင်း တွေ့ရှိရ ပါသည်။

အေဒီ ၁၉၅၀

လွတ်လပ်ရေးရပြီးစကာလ ၂ နှစ် ၃ နှစ်လောက်က ဖြစ်ပါလိမ့်မည်ထင်သည်။ သောင်းကျန်းသူ အချို့သည် အင်းစိန်အထိ ရောက်ရှိနေသောအချိန် ဖြစ်ပါသည်။ ထိုအချိန်က ရာကျော် ဆရာတော်ဘုရားကြီးဟု လူသိများသော ဆရာတော်ကြီး တစ်ပါးရှိပါသည်။ ထိုဆရာတော်ကြီးသည် ဒေဝသဒ္ဓမ္မဦးကိတ္တိ ဟူ၍လည်း နေလိုလလို ထင်ရှားပါသည်။ ထိုအချိန်က ရာကျော်ဆရာတော်ဘုရားကြီးသည် အင်းစိန်ကြို့ကုန်းရှိ ကျောင်းတိုက်တွင် သီတင်းသုံးနေထိုင်လျက် ရှိကြောင်း သိမီသူတို့က ပြောကြပါသည်။

လွတ်လပ်ရေးရပြီးစ ထိုအချိန်က ဆရာတော်ဘုရားကြီးက ရင်ကပ်သား ၉ ချောင်း ရှာခိုင်းကြောင်း၊ ၉ ချောင်းရသောအခါ ထိုရင်ကပ်သား ၉ ချောင်းကို ချွန်ခိုင်းကြောင်း၊ ဓာတ်ဘုရား တည်မည်ဟုဆိုကြောင်း သိမီသူတို့က ပြောဆိုကြပါသည်။ ၄င်းနောက် ရာကျော်ဆရာတော်ဘုရားကြီးသည် ဉာဏ်တော် ၉ တောင်၊ ၉ ထွာ၊ ၉ လက်မ ရှိသော ဓာတ်ဘုရားကို တည်တော်မူကြောင်း၊ နံနက် ၉ နာရီ ၉ မိနစ် ၉ စက္ကန့် ပန္နက်ရိုက်ရန်မှာကြောင်း သိရှိရပါသည်။

ထိုအခါ ရာကျော်ဆရာတော်ဘုရားကြီးကိုယ်တိုင် ဦးစီးခဲ့ကြောင်း၊ ဘုန်းတော်ကြီးဦးသာသနာနှင့် တကွ မိုးထိဆရာတော် အပါအဝင် ဦးသိန်းအောင်ဆိုသူလည်း ပါဝင်ကြောင်း သိရပါသည်။ ထိုဆရာကြီး ဦးသိန်းအောင်သည် ယခုလက်ရှိ ကျောက်မြောင်း၌ နေထိုင်လျက်ရှိသေးကြောင်း သိရှိသူတို့ထံမှထပ်မံသိရှိရပါသည်။

http://www.dhammadownload.com



ထိုအခါ ရာကျော်ဆရာတော်ဘုရားကြီး၏အစီအမံအတိုင်း အုတ်သားဘိလပ်မြေတို့ဖြင့် ဉာဏ်တော် ၉ တောင်၊ ၉ ထွာ၊ ၉ လက်မရှိသော စေတီတော်ကိုတည်ကြကြောင်း၊ ထီးတော်တင်ခဲ့ကြကြောင်း သိရပါသည်။

> ကျမ်းကိုး၊ ဆရာကြီး ဦးသိန်းအောင် မိန့်ဆိုချက်၊ ဘုရား၏ဘွဲ့တော်မှာလည်း ဆေးပေါင်းခ စေတီတော်ဟု ခေါ်ဝေါ်ကြောင်း သိရပါသည်။ ထိုအခါ မှတ်သားလောက်သော အချက်မှာ ရာကျော်ဆရာတော်ဘုရားကြီး၏ ရွှေနှုတ်တော်ထွက် စကားများပင်ဖြစ်ပါသည်။

ကန်တော်ကြီးမှာ ဘုရားတည်၍ ရန်ကုန်မြို့ကြီးလည်းအေး၊ မြန်မာပြည်ကြီးလည်းအေးလိမ့်မည်ဖြစ်ကြောင်း တစ်နိုင်ငံလုံး တစ်ပြည်လုံး တစ်ကမ္ဘာလုံးမှာရှိသော ဆေးဝိဇ္ဇာအပေါင်းတို့၏ ဆေးပေါင်းစုံကလည်း ဒီကျွန်းမှာရှိတဲ့ ဒီဆေးပေါင်းခ စေတီတော်ကြီးမှာ ခလိမ့်မည်ဖြစ်ကြောင်း အစိဋ္ဌာန် ဆုတောင်းများလည်း ပြည့်လိမ့်မည်ဖြစ်ကြောင်း အင်းစိန်ဘက်က သောင်းကျန်းသူများရန်လည်း အေးလိမ့်မည်ဖြစ်ကြောင်း ရာကျော်ဆရာတော်ဘုရားကြီး ကိုယ်တိုင်မိန့်တော်မူခဲ့ကြောင်း သိရှိရပါသည်။

> ကျမ်းကိုး၊ ဆရာကြီး ဦးသိန်းအောင်မိန့်ဆိုချက်။ ရန်ကုန်မြို့ကြီး ထိုစဉ်က မငြိမ်းချမ်းသောကြောင့် ရင်ကပ်သားဖြင့် ပန္နက်ရိုက်ခဲ့ကြောင်း၊ ရန်ကုန်နှင့် ရင်ကပ်တို့သည် ဓာတ်တူနံတူဖြစ်ကြောင်း၊ ရင်ကပ်နှင့် ကရင်သည်လည်း ကက်ကင်းဓာတ်ဖြစ်ကြောင်း နားလည်သူတို့က ပြောဆိုကြပါသည်။ တစ်ပြိုင်တည်းမှာပင် အင်းစိန်က သောင်းကျန်းသူများသည် ရန်ကုန်ကို မသိမ်းပိုက်နိုင်တော့ကြောင်း သိနားလည်သူတို့ ပြောကြပါသည်။

ဆရာတော်ဘုရားကြီး၏ နည်းနာနိဿယကို သိလိုကြလိုပေလိမ့်မည်။ မှတ်မိသမျှမှာ ဤသို့ဖြစ်ပါသည်။ ငယ်စဉ် ရှင်ရဟန်းဘဝပင် အနောက်မဇ္ဈိမ ဝယာသီသတွင် တရားဓမ္မများကျင့်ကြံ ကြိုးကုတ်အားထုတ်ခဲ့ပြီး အရိယာ ဝိဇ္ဇာ ဓမ္မရာဇ ဓမ္မစေတီလမ်းစဉ်ကို ကျင့်ဆောင်ဖြည့်ဆည်းတော်မူခဲ့သည်။

> ကျမ်းကိုး။ ရာကျော်ဆရာတော်ကြီး၏ သူ့သာသနာ၊ သူ့ဘဝ၊ သူ့ဓမ္မများ၊ ဟံသာဝတီဦးအုန်းကြိုင်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၂၀၀၁ ခု၊ ဖေဖော်ဝါရီလ ၉ ရက်၊ စာမျက်နှာ -၆၅။

ကုန်းဘောင်ခေတ်ဦးပိုင်းက လောကီပညာများ ထွန်းကားတွင်ကျယ်ခဲ့ရာတွင် ကုန်းဘောင်ခေတ်ဖွား ရာကျော်ဆရာတော်ကြီးသည် ထိုလောကီပညာဘက်၌ တစ်ဖက်ကမ်းခတ် နှံ့စပ်ခဲ့သည်။ ဆရာတော်ကြီးကို ခေတ်ပေါ်ပညာရှင်တို့က ဤသို့ မှတ်တမ်းတင်ကြပါသည်။

သာသနာပြု ပုဂ္ဂိုလ်ကျော်၊ ပုဂ္ဂိုလ်ထူးကြီး တစ်ပါးဖြစ်တော်မူသော ဗောဓိပက္ခိယ မဟာပထမံ ဓမ္မစေတီ ဣစ္ဆာသယ သိဒ္ဓိရှင် မဟိဒ္ဓိရှင် ဒေဝဦးသဒ္ဓမ္မကိတ္တိ ရာကျော်ဆရာတော်ဘုရားကြီး၏ ဘဝဖြစ်စဉ်များနှင့် သာသနာပြု လုပ်ဆောင်ချက်များ မဟာပထမံ ကျင့်စဉ်များ ထူးခြားဆန်းကြယ်သော ဖြစ်ရပ်ဆန်းများ ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၅

စန္ဒာသူရိယဘုရင်ကြီး နန်းဦးတွင် ကိုးကွယ်ခဲ့သော လွန်စွာထူးခြားသည့် ဓာတ်တိုင်ဘုရားတစ်ဆူမှာ ယခုတိုင်ပင် ဆရာတော်ကြီး၏ အန္တေဝါသိက တပည့် ဆရာဦးသိန်းအောင်ထံတွင် ပူဇော်ကိုးကွယ်လျက်ရှိပေသည်ဟု သိရပါသည်။

ဆရာတော်ကြီးရှိစဉ်က တပည့်ပရိသတ်များမှာလည်း တစ်နေ့ထက်တစ်နေ့ များပြားလာကြ

http://www.dhammadownload.com



သည့်အလျောက် အင်းစိန် ကြို့ကုန်းလမ်းဆုံ ဘုရားလေးများ ဝန်းပတ်တည်ထားသော ရာကျော် ဆရာတော်ကြီးကျောင်းတိုက်နှင့် မဆံ့နိုင်လောက်အောင်ဖြစ်လာပေသည်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၀

ဤသို့သော အခြေအနေများကြောင့် ဆရာတော်ကြီး၏ တပည့်ကြီးများထဲမှ မင်္ဂလာဒုံတပ်မြို့ မြောက်ဘက်အစွန် ငွေယားတောင်အနီး ပြည်လမ်းမကြီး၏ အနောက်ဘက်ခြမ်းတွင် ခြံဝင်း အကျယ်ကြီးနှင့် စိတ္တသုခ တပ်ဦးကျောင်းတိုက်ကြီးကို စီမံတည်ဆောက်ကြလျက် (၁၉၅၂) ခုနှစ်တွင် ဆရာတော်ကြီးအား ပင့်ဆောင်ကာ ဆက်ကပ်လှူဒါန်းကြလေသည်။

၎င်းမင်္ဂလာဒုံ စိတ္တသုခတပ်ဦးကျောင်းတိုက်ကြီးမှာ ရာကျော်ဆရာတော်ကြီး နောက်ဆုံး သာသနာ ပြုတော်မူရာ စခန်းကြီးလည်း ဖြစ်သည်။ ထိုတပ်ဦး ကျောင်းတိုက် ဗဟိုရှိ စံကျောင်းတော်ကြီးတွင် သီတင်းသုံးတော်မူလျက် နယ်များသို့ ခရီးလုံးဝ ထွက်တော်မမူတော့ဘဲ နောက်ဆုံးသီတင်း သုံးတော်မူလေသည်ဟု မှတ်တမ်းရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၀

ရာကျော်ဆရာတော်ဘုရားကြီးကို သိမီသော ရဟန်းပုဂ္ဂိုလ်များလည်း ရှိ၏။ လူပုဂ္ဂိုလ်များလည်း ရှိ၏။ ဆရာတော်ကြီးကို သိမီသော ခေတ်ပြိုင် ပုဂ္ဂိုလ်များဟု ဆိုနိုင်သော စာရင်းကို ဤရှာဖွေ တွေ့ရှိရပါသည်။

ရာကျော်ဆရာတော်ကြီး ပျံလွန်တော်မူချိန်တွင် ဆရာတော်ကြီးထံတွင် သာသနာပြု တပည့်ရင်း ဆရာတော်ကြီးများ ဖြစ်တော်မူကြသည့် (၁) မာန်အောင်ဆရာတော်ကြီး၊ (၂)ပထမ ကလေးဝ ဆရာတော်ကြီး၊ (၃)ဝေဘူဆရာတော်ကြီး၊ (၄)အီတလီ ဘုန်းတော်ကြီး ဦးလောကနာထ၊ (၅)သန်လျင်နတ်စင်ကုန်း နတ်ဘုန်းရှိန်ဆရာတော်၊ (၆) တွံတေး ဗောင်းတော်ချုပ် ဆရာတော်၊ (၇) မဟာဆေးဝက်ဘာ ဆရာတော် ဦးသူရိယ၊ (၈) ထောက်ကြန့် ဆရာတော် ဦးကုမာရ၊ (၉)ပုပ္ပားဆရာတော် ဦးပရမဝဏ္ဏသိဒ္ဓိ၊ (၁၀) ဦးအောင်ချမ်းသာ၊ (၁၁) ကြို့ကုန်းရာကျော်ဆရာ တော်ကြီးကျောင်းဘုန်းကြီး ဦးသာသနာ၊ (၁၂) တွံတေး ဘုန်းကြီး ဦးကေလာသ၊ (၁၃) ကြို့ကုန်း ယိုဒယား (ထိုင်း) ကျောင်းဘုန်းကြီး ဦးဇာဂရ၊ (၁၄) မင်္ဂလာဒုံ စိတ္တသုခ တပ်ဦးကျောင်း ဘုန်းကြီး ဦးဣန္ဒြိယ၊ (၁၅) ဦးအရိယဝံသ၊ (၁၆) မိုးကုတ် သပိတ်ကျင်းဘုန်းကြီး ဦးသောဘိတ စသည့် ဆရာတော်များနှင့်တကွ ထိုစဉ်က ရဟန်းဝတ်ဖြင့် ဆရာတော်ကြီး အပါးဝယ် ဝတ်ကြီး ဝတ်ငယ် အမြဲပြုစုနေသော တပည့်ရင်း ဦးသီဟ (ဆရာ ဦးသိန်းအောင်) တို့ ရှိနေကြသည်။

ကျမ်းကိုး။ ရာကျော်ဆရာတော်ကြီး၏ သုဿာသနာ၊ သုဿာဝ၊ သုဓမ္မများ၊ ဟံသာဝတီဦးအုန်းကြိုင်၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ ၂၀၀၁ ခု၊ ဖေဖော်ဝါရီလ ၉ ရက်၊ စာမျက်နှာ ၆၅။

ဆရာတော်ကြီး ပျံလွန်တော်မူသောအခါ ထူးဆန်းသော ကောလာဟလများ ဖြစ်ထွန်းပါသည်။ ထိုအချက်များ ဟုတ် မဟုတ်ကိုရှာဖွေရာ ဤသို့ မှတ်တမ်းတွေ့ရပါသည်။

ဆရာတော်ကြီး ပျံလွန်တော်မူချိန်က ထူးဆန်းသော ဖြစ်ရပ်များကို တင်ပြပါဦးမည်။ ပျံလွန် တော်မူခါနီးတွင် ဆရာတော်ကြီး သီတင်းသုံးရာ စံကျောင်းတိုက်၏ တံခါးမကြီးများကို ဦးအရိယ ဝံသက ပိတ်နေသဖြင့် ဆရာတော်ကြီးက "တံခါးပိတ်ထားတာ မကြိုက်ဘူး ဖွင့်ထားပါ" ဟု ဖွင့်ခိုင်းသည်။

http://www.dhammadownload.com



ကျမ်းကိုး။ ရာကျော်ဆရာတော်ကြီး၏ သူ့သာသနာ၊ သူ့ဘဝ၊ သူ့အမွေများ။ ဟံသာဝတီဦးအုန်းကြိုင်၊ နကွတ္တရောင်ခြည်မဂ္ဂဇင်း၊ ၂၀၀၁ ခု၊ ဖေဖော်ဝါရီလ ၉ ရက်၊ စာမျက်နှာ ၆၅။

ဆရာတော်ကြီးသည် သတိအလွန်ကြီးမားပါသည်။ သေအံ့မူးမူးကာလမှာပင် ဤသို့ မိန့်ဆိုတော်မူပါသည်။

စံကျောင်းအရှေ့တွင် တည်ဆောက်ဆဲ စိတ္တသုခစေတီတော် ပရိဝုဏ်ရင်ပြင် ခင်းကျင်းနေသည့် လုပ်ငန်းကိုမရပ်စေဘဲ ဆက်လက်ခင်းကျင်းရန် ဆရာတော်ကြီးက အမိန့်ရှိသဖြင့် လုပ်ငန်း ဆက်လုပ်ကိုင်နေကြသည်။ ကျောင်းတိုက်အတွင်းရှိ ရဟန်းပရိသတ်နှင့် လူပရိသတ်တို့မှာ စံကျောင်းတိုက်တံခါးများ ဖွင့်လိုက်သည်နှင့် ဝင်ရောက်လာကြပြီး အချို့က ငိုကြွေးကြလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၀

မျက်မြင်သက်သေများ၏ထွက်ဆိုချက်သည် ပုံပြင်မဟုတ်ကြောင်း ဤသို့တွေ့ရှိရပါသည်။ အလွန်ထူး၏။

စေတီရင်ပြင် ခင်းကျင်းနေသော လုပ်ငန်း၌ အုတ်ကျိုးများ သယ်ပေးနေသော ပန်းရန်အလုပ်သမား အပ္ပနားနှင့် ဦးသီဟ (ဆရာ ဦးသိန်းအောင်) တို့မှာ စံကျောင်းအပြင်ဘက်၌ ရပ်နေကြစဉ်၊ ရာကျော်ဆရာတော်ကြီးနှင့် ရဟန်းတော်ကြီး နှစ်ပါး ပေါင်းသုံးပါးတို့ စံကျောင်းတိုက်ထဲမှ ထွက်ကြွသွားသည်ကို ဖူးတွေ့လိုက်ကြရသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၀

ရှာပန အခမ်းအနားပြုကြရာတွင် ဆရာတော်ကြီး တင်ကြို မိန့်ကြားချက်အတိုင်း ဆောင်ရွက်ကြသည်။ ထိုအချက်အလက်များမှာ ဆရာတော်ကြီး၏ အမှာစကားအတိုင်းဖြစ်သည်ဟု မှတ်သားစဖွယ် တွေ့ရှိရပါသည်။ နောင်လာ နောက်သားတို့အတွက် ဗဟုသုတဖြစ်၏။ အလိုရှိလျှင် ယူပါ။ မလိုလျှင် ပယ်ပါ။ မှတ်တမ်းကား ဤသို့ ဖြစ်၏။

၅ ပိဿာဝင် စဉ့်အိုးကြီးတစ်လုံးထဲ၌ ပျားရည် ၅ ပိဿာ ထည့်ပြီးသည့်နောက် ဒေါင်းတောင် (ဒေါင်းမြီး) ၉ ချောင်းစိုက်ကာ နေနှင့်လ ဓာတ်နှစ်ပါးဆောင်သည့် မှန်ဘီလူး အကြီးစား တစ်လုံး ကို ထိုအိုးကြီးထဲတွင် ထည့်ထားသည်။ ထိုပျားရည်အိုးကြီးကို ဆရာတော်ကြီး၏ ရုပ်ကလာပ်တော် ပြင်ထားသည့် ခေါင်းရင်းတွင် ချထားသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၁

ဆရာတော်ကြီးသည် တနင်္လာသားဖြစ်၍ စိတ္တသုခ ကျောင်းတိုက်ဝင်းအတွင်း ဘုမ္မိအရပ် စနေထောင့်တွင် သင်္ချာ (၂) ဂဏန်းသင်္ကေတ ပလ္လင်ပေါ်ဝယ် ဗောဓိပက္ခိယ စေတီယ် ၁၅ ဆူတည်ပြီး အုတ်ဂူပြုလုပ်၍ ဂူသွင်းသင်္ဂြိုဟ်ကြသည်ဟု ဆိုသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၁

အလွန်နာမည်ကျော်သော ဆေးဝက်ဘာဆရာတော်ကို ထိုကတည်းက မှတ်သားမိပါသည်။ မြင်ဖူးသူတို့က အလွန် ကြည်ညိုကြသော ဆရာတော်ကြီးဖြစ်၏။ ဆေးဝက်ဘာဆရာတော်၏ ရုပ်ကလာပ်သည်လည်း ယခုတိုင်ရှိ၏။ ထိုစဉ်က ဆေးဝက်ဘာဆရာတော်သည် ရာကျော်ဆရာတော်ဘုရားကြီး ရှာပနတွင် တရားချီးမြှင့်၏။ နာကြားဖူးသူတို့ ယခုတိုင် ရှိ၏။

http://www.dhammadownload.com



ဈာပနအခမ်းအနားကျင်းပနေစဉ် တစ်ရက်၊ ထိုနှစ် ဝါဆိုလပြည့်နေ့ ရေစက်ချပွဲတွင် ဆေးဝက်ဘာ ဆရာတော် ဦးသူရိယက တရားချီးမြှင့်သည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၁

ဆရာတော်ကြီးအား ဂူသွင်းသင်္ဂြိုဟ်ရာတွင် အထူးစီမံပြုလုပ်ထားသော သံသေတ္တာ ခေါင်းကြီးထဲ၌ ရုပ်ကလာပ်နှင့်အတူ အခြားအဖိုးတန် ဓာတ်ပစ္စည်းများလည်း ထည့်ထားပုံ စသည့် အစီအရင်များအကြောင်းတို့ကိုပါ ဆေးဝက်ဘာ ဆရာတော်က ထည့်သွင်းဟောကြားသွားသည်မှာ အလွန်မှတ်သားဖွယ် ဖြစ်၏။ ထိုသို့ အထူးအဆန်းဟောကြားသောကြောင့် စိတ်ဝင်စားသူများ အလွန်စိတ်ဝင်စား၍ အလောင်းတော်ကိုခိုးယူသည်အထိ အမှုဖြစ်လေသည်။ ကောင်းသူစံ၏။ မကောင်းသူခံရ၏။ လုပ်ရဲသူများရှိ၏။ မှတ်တမ်းရှိ၏။

ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်ကို ဂူသွင်းသင်္ဂြိုဟ်ပြီး၍ ၂၇ ရက်ပြည့်သော ညဘက်တွင် ၎င်းဂူကို ဖောက်ထွင်းပြီး အလောင်းထည့်ထားသည့် သေတ္တာကြီး အခိုးခံရသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၁

နောက်နေ့ နံနက်တွင် လိုက်လံရှာဖွေကြသောအခါ သေတ္တာကြီးမှာ ကျောင်းအနောက်ဘက်ရှိ လျှိုကြီးတစ်ခုထဲ၌ ပြန်တွေ့ကြရသည်ဟု မှတ်တမ်းရှိ၏။ အောက်တွင် ကြည့်ပါ။

သေတ္တာကြီးမှာ နှစ်လက်မ ထုရှိသော ပျဉ်းကတိုးသားဖြင့်ပြုလုပ်၍ အတွင်းမှ သေတ္တာမှာ သံမဏိ သေတ္တာဖြစ်သည့်အပြင် အာမခံသော့လေးလုံး ခတ်ထားသည်ဖြစ်၍ ခိုးယူသွားသော မသမာသူတို့ဖွင့်မရဘဲ သေတ္တာကြီးကို လျှိုထဲတွင်ပစ်ထားကာ ထွက်ပြေးသွားကြခြင်းဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၁

(၉) ရက်မြောက်သောနေ့တွင် သေတ္တာကြီးကို ပင့်ဆောင်ပြီး မှန်သေတ္တာဖြင့် ပြောင်းထည့်၍ ဂူအတွင်း ပြန်လည် အပူဇော်ခံထားရာ ယခုတိုင် ဖြစ်လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၁

ဆရာတော်ကြီး ကိုးကွယ်ခဲ့သော ဆင်းတုတော် တစ်ဆူရှိခဲ့ဖူးသည်။ ထိုဆင်းတုမှာ ရန်မျိုးအောင်ပြည်တော်ဝင်ဘုရား ရုပ်ပွားတော်မြတ်ဖြစ်၏။ လွန်ခဲ့သော နှစ်ပေါင်း (၁၀၀) ကျော်က ဆရာတော်ဘုရားကြီး ဒေဝသဒ္ဓမ္မဦးကိတ္တိ ကိုယ်တော်တိုင် ကိုးကွယ်ပူဇော်ခဲ့သော ဘုရားရုပ်ပွားတော်မြတ်ဖြစ်ပါသည်။

အေဒီ ၁၉၇၅ — ရန်မျိုးအောင် ပြည်တော်ဝင် ဘုရားရုပ်ပွားတော်မြတ်ကို မြန်မာသက္ကရာဇ် ၁၃၃၇ ခုနှစ်ဦး တန်ခူးလဆုတ် (၂) ရက်၊ ခရစ်နှစ် (၁၉၇၅) ခုနှစ်၊ ဧပြီလ (၂၇) ရက်၊ တနင်္ဂနွေနေ့၌ ရှမ်းပြည် နယ်တောင်ပိုင်း၊ ပွေးလှမြို့ မြောက်ဘက်ရှိ မြောက်ပန်းတောင် တောင်ကုန်းပေါ်တွင် လွန်ခဲ့သော နှစ်ပေါင်း (၁၀၀) ကျော်က ဆရာတော်ဘုရားကြီး ဒေဝသဒ္ဓမ္မဦးကိတ္တိ ကိုယ်တော်တိုင် သစ္စာအဓိဋ္ဌာန်ပြု၍ တည်ထားခဲ့သော စေတီတော် ဖြစ်၏။

အေဒီ၁၉၇၅ — စကားချပ်။ ရန်အောင်မြင် စေတီတော်မြတ်ကို ရန်ကုန်မြို့ ဗဟန်း -၃ လမ်းရှိ အောင်ပန်းကျောင်းတိုက်မှ သာသနာပြု ဆရာတော် အရှင်သာသနက ဦးဆောင်၍ ထီးတော်အသစ်လဲခြင်း၊ ပြုပြင်မွမ်းမံခြင်းပြုခဲ့ရာမှ ထီးတော်ဟောင်းကိုချခဲ့ရာတွင် ရာကျော်ဆရာတော် ဘုရားကြီး ဒေဝဦးသဒ္ဓမ္မကိတ္တိ ကိုယ်တော်တိုင် ကြွရောက်လာခဲ့ပြီး ထီးတော်ဟောင်းကို ချပေးခဲ့ရာ၌

http://www.dhammadownload.com



ထီးတော်ဟောင်း ပိန္နက်တိုင်နှင့် ငှက်ပျောဖူးတွင် ကိန်းဝပ်စံပါယ် လျက်ရှိသော ဤရန်မျိုးအောင် ပြည်တော်ဝင် ရုပ်ပွားတော်မြတ်ကို ရာကျော်ဆရာတော် ဘုရားကြီး ဦးသဒ္ဓမ္မ ဒေဝကိတ္တိ ကိုယ်တော်တိုင် ပင့်ဆောင်၍ အောင်ပန်းကျောင်းတိုက် သာသနာပြုဆရာတော် အရှင်သာသန ကို ကိုယ်ထိလက်ရောက် ကိုးကွယ်ပူဇော်ရန်နှင့် လူမျိုး (၁၀၁)ပါး၊ ၇ ရက်သမီးများပါမကျန် ကိုးကွယ် ပူဇော်နိုင်ရန်အတွက် ချီးမြှင့်ပေးအပ်ခဲ့ခြင်း ဖြစ်ပါသည်။

ဘုရားရုပ်ပွားတော်မြတ်ကို နဖူးသင်းကျစ်ပေါ်တွင် ကိုးဆူသော ဘုရားရုပ်ပွားတော်တို့မှ ကိုးနဝင်း ဘုရားရုပ်ပွားတော်များဖြစ်ပါ၍ လူမျိုး (၁၀၁) ပါး၊ (၇) ရက် သားသမီးများ ကိုးနဝင်းကြေစေရန်အတွက် ရည်စူး၍ ပူဇော်ထားခြင်း ဖြစ်ပါသည်။ ဦးခေါင်းတော်၊ လက် မောင်းတော်၊ ပေါင်တော်နှင့် ပလ္လင်တော် နောက်ကျောဘက်တို့တွင် "စဓဗဝ"အစရှိ သော စမအင်းများ ပူဇော်ထား၍ ဇမ္ဗူဒီပါကျွန်းလုံးရှိ လူမျိုး (၁၀၁) ပါး၊ (၇) ရက်သားသမီးတို့သည် သြဘာနိမိတ်သစ် မင်္ဂလာများ အောင်မြင်စေရန်အတွက်လည်းကောင်း၊ 'စ' အက္ခရာသည် ယခုပွင့်တော်မူသည့် အရိမေတ္တယျ မြတ်စွာ ဘုရားလောင်း စကြာမင်းကို ရည်စူး၍ လည်း ကောင်း၊ 'ဓ' အက္ခရာသည် ဂေါတမဘုရား မိဂဒါဝုန်တောဌ် ပဥ္စဝဂ္ဂီငါးဦး တို့အား ဓမ္မစကြာ တရားဦးဟောတော်မူရာတွင် လူမျိုး (၁၀၁)ပါး၊ (၇) ရက် သားသမီးများကိုပါ ထပ်ထူထပ်မျှ တရားများ ပွားများစေရန် ရည်ရွယ်၍ လည်းကောင်း၊ 'ဗ' အက္ခရာသည် ဂေါတမမြတ်စွာ ဘုရားအား ဗြဟ္မာမင်းသည် ပဒုမ္မာကြာသက်န်းကို ကပ်လှူခြင်းဖြင့် လူမျိုး (၁၀၁) ပါး၊ (၇) ရက်သားသမီးများပါ အလှူဒါန အကျိုးပြီးမြောက်ရရှိကြစေရန် ရည်စူး၍လည်းကောင်း၊ 'ဝ' အက္ခရာသည် ဝိဇ္ဇာရှစ်သောင်း ဆရာအပေါင်း ရသေ့ရှစ်သောင်း ဆရာအပေါင်းတို့မှ စောင်မ ကြည့်ရှု စောင့်ရှောက်ခြင်းကိုလည်းကောင်း ရည်စူး၍ ပူဇော်ထားခြင်း ဖြစ်ပါသည်။

သက်န်းတောင်ပေါ်ရှိ (၃၁) ဆူသော ရုပ်ပွားတော်များမှ ဂင်္ဂါဝါဠူ သဲစုအမျှ ပွင့်လေပြီးသော ဘုရားရှင်များ အား ရည်စူး၍ ပူဇော်ကန်တော့နိုင်စေရန်အတွက် ပူဇော်ထားခြင်း ဖြစ်ပါသည်။ လက်ဝဲ လက်ယာ ဒူးတော်အတွင်းရှိ ရှစ်ဆူသော ရုပ်ပွားတော်များမှာ တနင်္ဂနွေ၊ တနင်္လာ၊ အင်္ဂါ၊ ဗုဒ္ဓဟူး၊ ကြာသပတေး၊ သောကြာ၊ စနေ၊ ရာဟု အစရှိသော (၇) ရက် သားသမီးတို့ အတွက် ဂြိုဟ်စင် ဘုရားရုပ်ပွားတော်များအဖြစ် ပူဇော်ကန်တော့နိုင်စေရန် ရည်စူး၍ ပူဇော် ထားခြင်း ဖြစ်ပါသည်။

ရုပ်ပွားတော်မြတ်အတွင်းရှိ မှို (၉) ချက် ပါဝင်၍ လူမျိုး (၁၀၁) ပါး၊ (၇) ရက်သားသမီးများ တြင်းကြေခြင်း၊ နဝင်းကြေ ခြင်း၊ စန်းပြတ်၊ လွန်းပြတ်၊ ဂြိုဟ်အိပ်သက်ရောက်၊ ဂြိုဟ်စား အစရှိသော ဘေးအပေါင်းတို့မှ ကင်းလွတ်စေရန် ရည်စူး၍ ပူဇော်ထားခြင်းဖြစ်ပါသည်။ ပလ္လင်တော်ရှိ ကြာပွင့် (၉)ပွင့်တို့မှာ ပုဂ္ဂိုလ်အပေါင်းတို့အား ရည်စူး၍ ကြာပွင့်၊ ကြာဖတ်များ အဖြစ် ရည်စူးပူဇော်ထားခြင်း ဖြစ်ပါသည်။ ပလ္လင်တော် အောက်ခြေရှိ ငါး (၂) ကောင်ရုပ်တုမှာ ငါးကြီး အာနန္ဒာ အဖို အမ နှစ်ကောင်ဖြစ်၍ ပထဝီ၊ တေဇော၊ အာပေါ၊ ဝါယော အစရှိသည့် ဓာတ်ကြီး (၄) ပါးတို့ကြောင့် လူမျိုး (၁၀၁) ပါး၊ (၇) ရက်သားသမီးတို့သည် အနာမျိုး (၉၆)ပါး တို့မှ ကင်းဝေးကြစေရန်အတွက် ရည်စူး၍ ပူဇော်ထားခြင်း ဖြစ်ပါသည်။ ပလ္လင်တော် အောက် တည့်တည့်တွင် ဘုရားရုပ်ပွားတော် ၄ ဆူနှင့် က (ကြီး )၊ ယ (ကြီး)၊ ဠ (ကြီး)၊ ဏ (ကြီး) အစရှိသော ဘုရားရုပ်ပွားတော်တို့မှာ ဘဒ္ဒကမ္ဘာအတွင်း၌ ပွင့်တော်မူလေပြီးသော ကောဏ္ဍသံ ဂုဏ်၊ ကောဏဂုဏ်၊ ကဿဖဂုဏ်၊ ဂေါတမဂုဏ်စသည့် ဘုရားရှင်များကို ရည်စူး၍ ပူဇော်

http://www.dhammadownload.com



ကန်တော့နိုင်စေရန်အတွက် လည်းကောင်း၊ က-ယ-ဠ-ဏ (ကြီး) အစရှိသော ကြီးလေးကြီး 'စမ' အင်းတို့မှာ ရန်သူမျိုးငါးပါး ကင်းဝေးကြစေရန် ရည်စူး၍ လည်းကောင်း ပူဇော်ခြင်း ဖြစ်ပါသည်။

ဘုရားရုပ်ပွားတော်မြတ်၏ လက်ယာဘက် မျက်လုံးတော်၌ သံသေဓာတ်လုံးကို ဌာပနာထား၍ လက်ဝဲဘက် မျက်လုံးတော်တွင် ပြဒါးရှင်ဓာတ်လုံးကို ဌာပနာထားသည့်အပြင် ဦးခေါင်းတော် အတွင်း၌ ဓာတ်တော် (၃၆) ဆူ၊ ဓာတ်လုံး (၃၆) လုံးတို့ကို လည်းကောင်း၊ ရင်ဘတ်တော် အတွင်း၌ ဓာတ်တော် (၃၆) ဆူ၊ ဓာတ်လုံး (၃၆) လုံးတို့ကို လည်းကောင်း၊ ပလ္လင်တော်အတွင်း၌ ဓာတ်တော် (၃၆) ဆူ၊ ဓာတ်လုံး (၃၆) လုံးတို့ကို လည်းကောင်း၊ စုစုပေါင်း ဓာတ်တော် (၁၀၈) ဆူ၊ ဓာတ်လုံး (၁၀၈) လုံးတို့ကို ပူဇော်ဌာပနာထားပြီးလျှင် ရန်မျိုးအောင် ပြည်တော်ဝင်ဘုရား ရုပ်ပွားတော်မြတ်ကို ဓာတ်သားများဖြင့် စီမံ၍ ကိုးကွယ်ပူဇော်တည်ထားခဲ့ခြင်း ဖြစ်သည်ဟု သိရပါသည်။)

ကျမ်းကိုး၊ အောင်ဇ (L.L.B) နက္ခတ္တရောင်ခြည်မဂ္ဂဇင်း ၂၀၀၃ ခု၊ ဧပြီလ၊ စာ ၂၆၈

ခရစ် ၁၉၉၁ ရာကျော်ဆရာတော်နောက်ဆုံးအချိန်အထိ သီတင်းသုံးတော်မူခဲ့သော မင်္ဂလာဒုံမြို့ စိတ္တသုခ ကျောင်းရှိ တောင်းဆုပြည့်စိတ္တသုခစေတီတော်၏ မြောက်ဘက်မနီးမဝေးမှာ မြေပေါက်စေတီ တော်ကြီးတစ်ဆူကို ဖူးမြင်ရသည်။ ထိုစိတ္တသုခအောင်စေတီတော်ရှိ ပုလဲဆရာတော် ဦးအရိယ ဦးစီးပြီး ပဲခူးမြို့မ ဆရာတော်ကြီး ဘဒ္ဒန္တကုက္ကန္ဒာစာရမှ ၂၂-၉-၁၉၉၁ တွင် အုတ်မြစ်ချတော်မူ ခဲ့ကြောင်း ကမ္ပည်းရေးထိုးသည်။

ကျမ်းကိုး။ ယင်းစာ ၂၆၉ကို ကြည့်။ သုခုမရုပ်ရှင်မှ အမေဒေါ်နန်းကောင်းမှု ဟူသောစာတန်း လည်း ရေးထိုးထားသည်။

ကြွေပြားခင်းထားသော ရင်ပြင်တော်ပတ်လည်ကို လက်ယာရစ်(၃) ပတ်လှည့်ရင်း ပဋ္ဌာန်းပစ္စယ နိဒ္ဒေသ ရွတ်ဖတ်ပူဇော်ခဲ့ပါသည်။ ပရိဝုဏ်၏တောင်ဘက်ရှိ အောင်သိဒ္ဓိ ဝိဇ္ဇာတန်ဆောင်း အနီး၌ "ဂျာနယ်ကျော်မမလေး ကောင်းမှု"ဟု ကမ္ပည်းထိုးထားသော ကိုးတောင်ပြည့် စေတီ တော်တစ်ဆူကို ဖူးတွေ့ရသည်။

ကမ္ဘာ့ရွှေရင်အေးဘုရားကြီး၏ တောင်ဘက်တွင် စိတ္တသုခရှင်ဥပဂုတ္တကန်တော်ရှိသည်။ရှင်ဥပ ဂုတ္တကန်ကျောင်းမှ အနောက်ဘက်သို့သွားသောအခါ စိတ္တသုခတပ်ဦးကျောင်း၏ တောင်ဘက် ကပ်လျက်တွင် ရာကျော်ဆရာတော်၏ရုပ်ကလာပ်ဂူဗိမာန်ကို တွေ့ရသည်။

ကျမ်းကိုး၊ ယင်းစာ ၂၇၀

ရာကျော်ဆရာတော်ဟု ခေါ်ဆိုကြသော်လည်း ဘယ်နှရာကျော်မှန်း မည်သူမှ မသိချေ။ ရာကျော်ဟုကျော်၍ အသေအချာ မေးမြန်းစစ်ဆေး မှတ်သားသူတို့ ကောင်းမှုကြောင့် ရာကျော် ဆရာတော်ဘုရားကြီး၏ မွေးသက္ကရာဇ်ကို အထောက်အထားတို့ဖြင့် မှတ်သားရပါသည်။ ရာကျော်ဆရာတော်ဘုရားကြီးကိုယ်တိုင် မိန့်တော်မူချက် ဖြစ်၏။

အေဒီ ၁၉၄၆ ၁၉၄၆ ခုနှစ်က ကြို့ကုန်းလမ်းဆုံအနောက်ဘက်ခြမ်းရှိ ဘုရား(စေတီငယ်)ကလေးများဖြင့် ဝန်းပတ်တည်ထားသော ရာကျော်ဆရာတော်ကြီးကျောင်းတွင် တစ်နေ့သောနံနက်၌ ဆရာတော် ကြီးအခေါ် မောင်အောင်မင်းခေါင်ကြီးတို့နှင့် ဆရာတော်ကြီးတွေ့ဆုံကြရာတွင် မိန့်ကြားတော်မူ သော စကားတော်အရ အင်းဝခေတ်က မောင်အောင်၊ မောင်ဝိုင်း(ဘိုးတော်ဦးဝိုင်း)တို့နှင့်

http://www.dhammadownload.com



ငယ်သူငယ်ချင်းသုံးယောက်ရှိခဲ့ကြကြောင်း၊ တစ်ဦးက ရဟန်းဘ၀နှင့်ဖြစ်ကြောင်း၊ ထိုရဟန်းမှာ မိမိ (ဆရာတော်ကြီး)ဖြစ်ကြောင်းဖြင့် ရှင်းလင်းမိန့်ကြားတော်မူခဲ့သည်ဟု မှတ်တမ်းရှိပါသည်။

> ကျမ်းကိုး။ ဟံသာဝတီဦးအုန်းကြိုင်၊ မင်းဓမ္မတောင်တော် သာသနာပြုပုဂ္ဂိုလ်ကျော် ရာကျော် ဆရာတော်ဘုရားကြီး၏ သူ့သာသနာ၊ သူ့ဘဝ၊ သူ့ဓမ္မများ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၂၀၀၂ ခု၊ ဇန်နဝါရီလ၊ အမှတ်(၁၇၅)၊ စာ ၆၅ ။

ဘိုးတော်ဦးဝိုင်းမှာ အလောင်းမင်းတရားကြီး၏ စတုတ္ထမြောက်သားတော်ဖြစ်၍ အင်း၀၊ အမရပူရထီးနန်း၌ စိုးစံခဲ့သည်။ ငယ်အမည် မောင်ဝိုင်း၊ ပဒုံမြို့စား မင်းသားဖြစ်ပြီး နန်းစံချိန်တွင် ဘိုးတော်ဘုရားဟုတွင်လေသည်။ ထိုအချက်ကို မှတ်မိသူတို့ အများအပြား ရှိပါသည်။

ဆရာတော်ကြီး မိန့်ကြားတော်မူသည့်အတိုင်း ဆိုရချေသော် ပဒုံမြို့စားမင်းသားမောင်ဝိုင်း၊ မောင်အောင်နှင့် ရှမ်း(မောရှမ်း)ရှင်သဒ္ဓမ္မကိတ္တိဟူသည့် ငယ်သူငယ်ချင်းသုံးယောက်ရှိခဲ့ကြရာတွင် ဖွားသက္ကရာဇ်များမှာ တစ်ယောက်နှင့် တစ်ယောက်များစွာကွာခြားလှကြပုံမရပေ။

ကျမ်းကိုး၊ ယင်းစာ-၆၆

အေဒီ ၁၇၄၀

သို့သော်ရှင်ကိတ္တိက သုံးယောက်တို့အနက်တွင် အသက်အကြီးဆုံးဖြစ်သည်ဟုဆိုရပေသည်။ ယင်းသို့ဆိုသော် အေဒီ(၁၇၄၀) ဝန်းကျင်လောက်ပင်ရှိကြမည်ဟု ဆိုနိုင်လောက်သည်။

(ကျမ်းကိုး၊ ယင်းစာ-၆၆)

အေဒီ ၁၉၄၅နှစ် တွင် ဆရာကြီး ဦးအုန်းကြိုင်သည် ထိုအချက်ကို ရာကျော်ဆရာတော်ကြီးတို့ မင်းဓမ္မတောင် ဘိုးရာဇာကုန်းရှိ ကျောင်းကလေးတွင် အတူရှိကြစဉ် (၁၉၄၅-၄၆ ခုနှစ်) က ဆရာတော်ကြီး၏ သက်တော်နှင့် စပ်လျဉ်းပြီး မေးမြန်းလျှောက်ထားခဲ့ဖူးကြောင်း အတိအကျသိရပါသည်။

အေဒီ ၁၉၄၅

ဆရာတော်ကြီး၏ သက်တော်ကို မဟာပထမံသင်္ချာရေတွက်သောနည်းဖြင့် နဝင်းနက္ခတ်နှစ်ပတ် ခွဲခန့်ရှိပြီဟု ကိုယ်တော်တိုင်မိန့်ကြားတော်မူဖူးသည်။

ကျမ်းကိုး၊ ယင်းစာ-၆၆

ထိုအချက်ကို ဆရာကြီး ဦးအုန်းကြိုင်က ရှေ့မီနောက်မီဖြစ်သဖြင့် ဤသို့ ရှင်းပြပါသည်။ နောင်လာနောက်သားတို့အတွက် အမှတ်အသားဖြစ်၏။

ယင်းသို့ဆိုသော် ရှေးကျမ်းများအလိုအရ "သတ္တဗီသ၊ လှည့်ထနက်သတ်၊ မြင်းမိုရ်ပတ်သား" ဟူ၍ အဿဝနီ၊ ဘရဏီ၊ ကြတ္တိကာ၊ ရောဟနီ၊ ရေဝတီအဆုံးနက်သတ်နက္ခတ်(၂၇)လုံးတို့သည် မြင်းမိုရ်တောင်ကို ဝန်းပတ်၍ လှည့်လည်သောသတ္တဗီသ(၂၇)၊ နက်သတ်-နက္ခတ်ဟုထွက်လေသည်။ ထို(၂၇)သတ္တဗီသသည် တြင်းနဝင်းကျေ နက္ခတ် ဖြစ်သည်။ ထို့ကြောင့် မူလသတ္တဗီသ နက္ခတ်(၂၇)လုံးကိုတည်၍ တွင်းပြင်နှစ်ရပ်ထပ်သော်(၅၄)နဝင်း နက္ခတ် ရရှိ၏။ ထိုနဝင်း(၅၄)ကို တစ်ဖန်ဝဲယာခွဲသော်(၁၀၈)နဝင်း ရရှိလေသည်။ ဤနက္ခတ် (၁၀၈)နဝင်းသည် တစ်ပတ်ပြည့်ဖြစ်လေရာ နဝင်းနက္ခတ်နှစ်ပတ်ခွဲဟု ဆိုသဖြင့် (၁၀၈)နဝင်းနှစ်ပြန် နှင့် တစ်ခွဲ(၅၄)တို့ကို ပေါင်းသော် ထိုအချိန် (၁၉၄၆) ခုနှစ်က ဆရာတော်ကြီး၏ သက်တော်(၂၇၀) ထွက်လေသည်။

ကျမ်းကိုး၊ ယင်းစာ-၆၆

အေဒီ ၁၆၇၆

ယင်းသို့ဆိုသော် ဆရာတော်ကြီး၏ ဖွားသက္ကရာဇ်သည် ခရစ်နှစ် (၁၆၇၆) ခုနှစ်ဖြစ်ရာသည်။

http://www.dhammadownload.com



ဇာတိမှာ ရှမ်းပြည်နယ်တောင်ပိုင်း၊ ပင်းတယနယ်ဟူ၍ ဆိုလေသည်။ မျိုးရိုးမှာ ရှမ်း (မောရှမ်း/မွိုင်ထိုင်း) ဟု ဆိုသည်။

ကျမ်းကိုး၊ ယင်းစာ-၆၆

ပဝတ္တိမှာ အင်း၀၊ အမရပူရဖြစ်သည်ဟုဆိုသည်။ ငယ်မည် ကိတ္တိ၊ ရှင်မည်ကိတ္တိ၊ ရဟန်းတော်ဘွဲ့ဦးသဒ္ဓမ္မ ကိတ္တိနောင်တွင် မဟာပထမံ ဓမ္မစေတီဆိုက်တော်မူသည်တွင် ဦးသဒ္ဓမ္မဒေ၀ကိတ္တိဟု ဘွဲ့မည်ချီတော်မူသည်။ နေ့နံ တနင်္လာသားဖြစ်ပေသည်။

ကျမ်းကိုး၊ ယင်းစာ-၆၆

ငယ်စဉ်ဘ၀ကပင် ရှင်ရဟန်းဘ၀သို့ ရောက်ရှိတော်မူပြီး၊ အနောက်မဇ္ဈိမဂယာသီသတွင် တရားဓမ္မ ကျင့်ကြံကြိုးကုတ်အားထုတ်တော်မူခဲ့သည်။ ထို့ပြင်ရဟန်းငယ်ဘ၀မှစတင်၍ အရိယာဝိဇ္ဇာ ဓမ္မရာဇာဓမ္မစေတီလမ်းစဉ်အတိုင်း ကျင့်ဆောင်ဖြည့်ဆည်းတော်မူခဲ့၏။

ကျမ်းကိုး၊ ယင်းစာ-၆၆

ဆရာတော်ကြီး၏ ငယ်စဉ်ဘ၀တွင် အင်း၀ခေတ်စသည် ကုန်းဘောင်ခေတ်ဦးကာလ၀ယ် ခေတ် အလျောက် လောကီပညာရပ်များ တွင်ကျယ်ထွန်းကားခဲ့လေရာ ဆရာတော်ကြီးသည် ထို လောကီပညာရပ်များဘက်၌လည်း တစ်ဖက်ကမ်းခပ်နှံ့စပ်ခဲ့လေသည်။

ကျမ်းကိုး၊ ယင်းစာ-၆၆

ဆရာတော်ကြီး၏ လမ်းစဉ်ကား အဘယ်သို့ ဖြစ်သနည်းဖြစ်သည်ဟု မေးလျှင် မှတ်တမ်းများ အရ အောက်ပါအတိုင်း ရှာဖွေတွေ့ရှိရပါသည်ဟု ကျွန်ုပ်က ပြောဆိုပါမည်။

ရာကျော်ဆရာတော်ကြီး၏ လမ်းကား ပါရမီလမ်းသာလျှင် ဖြစ်ပေသည်။ ကြောင်းကျိုးဆက် ပြည့်စုံကြသည့်သူတို့အား ကယ်တင်ကူညီစောင့်ရှောက်လျက် သတ္တ၀ါ၀ေနေယျတို့ အကျိုး အလို့ငှာ ရှေးဟောင်းဘုရားပုထိုးစေတီတော်(ဟောင်း)ကြီးများ ပြုပြင်တည်ဆောက်ခြင်း၊ နောင် တွင် ဖြစ်ထွန်းပေါ်ပေါက်လာမည့် သာသနာတော်ဆိုင်ရာ လုပ်ငန်းကြီးများကို အစပျိုးကာ ဓာတ်ပန္နက်၊ ဓာတ်ပစ္စည်းဆက်များစိုက်၍ ထူထောင်ခြင်းစသော သာသနာပြုလုပ်ငန်းများဖြင့် လောက သတ္တ၀ါ၀ေနေယျတို့အကျိုးငှာ တစ်ဖက်မှ ရွက်ဆောင်ပေးခြင်းများနှင့်အတူ အခြား တစ်ဖက်မှလည်း မိမိအကျိုးအတွက် ထူထောင်ဖြည့်ဆည်းနေရသော ပါရမီလမ်းကို မပြတ် မလပ် ဖြည့်ကျင့် ဆည်းပူးကြရလေသည်။

ကျမ်းကိုး၊ ယင်းစာ-၆၇

"ရာကျော်ဆရာတော်ကိုယ်တိုင် သီတင်းသုံး တရားအားထုတ် အောင်မြင်ခဲ့တဲ့ဝေဿန္တရာဂူကြီး ဟာ ငွေးပင်ရွာမှာ ရှိတယ်။ ဆရာတော်ကြီးဟာ သမထနဲ့ဝိပဿနာကိုတွဲပြီး အားထုတ်သွား တယ်။ ရာကျော်ဆရာတော်ကြီးရဲ့ ပထမအစ သီတင်းသုံးခဲ့တဲ့မူလကျောင်းတော်ရာနဲ့ ဘုရား တွေ၊ သိမ်တွေဟာ၊ အဲဒီဂူနဲ့ (၂)မိုင်လောက်ဝေးတဲ့ ရွှေတိုင်ကုန်း (နန်းရုပ်တောင်)မှာ ရှိနေတယ်" မိုးကုတ်မြို့နယ်၊ ကျောက်ပုပ်ရွာနှင့် မြေမဲရွာအနီးရှိ အောင်ချမ်းသာတောင်ပေါ်မှ ဆရာတော် ဦးဓမ္မရက္ခိတအား သွားရောက်ဖူးမြော်စဉ် ထိုသို့လမ်းညွှန်ခဲ့ခြင်း ဖြစ်ပါသည်ဟု ဆို၏။

ကျမ်းကိုး။ အောင်ဇ(L.L.B)၊ ရာကျော်ဆရာတော် ဦးသဒ္ဓမ္မဒေ၀ကိတ္တိ၏ မူလပထမကျောင်းတော်ရာ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ နို၀င်ဘာလ ၂၀၀၀၊ အမှတ်(၁၇၂)၊ စာ-၄၅။

http://www.dhammadownload.com



လောကီပညာနဲ့ သမထကျင့်စဉ်တွေကိုတော့ မန္တလေးတိုင်း၊ သပိတ်ကျင်းမြို့ မြောက်ဘက် တကောင်းကျေးရွာက ဆရာတော်ဦးကောဆီမှာ တပည့်ခံသင်ယူခဲ့တယ်ဟု မှတ်တမ်း ရှိ၏။

ကျမ်းကိုး။ ယင်းစာ-၄၆

အဲဒီကမှတစ်ဆင့် မိုးကုတ်မြို့နယ်၊ နန်းရုပ်ဒေသမှာ လာရောက်သီတင်းသုံးခဲ့တာပဲ။ ရှေးတုန်းက မိုးကုတ်ဆိုတာ မရှိသေးဘူး။ နန်းရုပ်မှာ စည်ကားတဲ့ရွာကြီးတစ်ရွာရှိတယ်။ ဒီတောင်မှာ ရှင်ဘုရင်တွေ၊ စော်ဘွားတွေလာပြီး တရားကျင့်ကြံ ဥပုသ်ဝင်ကြတဲ့နေရာလဲရှိတယ်။ အဲဒီနေရာဟာ မြင့်မြတ်တဲ့အောင်မြေအရပ်ဖြစ်လို့ ရာကျော်ဆရာတော်က ရွှေတိုင်တစ်တိုင်စိုက်ထူပြီး တခြားသူတွေ ရွာမတည်ရအောင်၊ တောင်ယာမလုပ်ကြရအောင် ကန့်သတ်တားမြစ်တော်မူခဲ့လို့ "ရွှေတိုင်ကုန်း" လို့ခေါ်ကြတယ်ဟု မှတ်တမ်းရှိ၏။

> ကျမ်းကိုး။ ယင်းစာ-၄၅။ ရာကျော်ဆရာတော်ထံ တပည့်ခံသင်ကြားရင်း သွားလေရာအတူ လိုက်ပါခဲ့ဖူးသည့် အသက် (၇၉) နှစ်အရွယ်ရှိ ကျတ်ပြင်မှ ဆရာကြီးဦးအောင်သန်းနှင့် ရာကျော်ဆရာတော်ကြီးငွေးပင်ရွာ၌ ကျင့်စဉ်များဝင်ရောက်ခဲ့စဉ် အနီးကပ် ဝေယျာဝစ္စ လုပ်ကိုင်ပေးရသော ဘိုးသာဆိုင် (၈၄)နှစ်တို့မှ ပြောပြသောစကားသံ။

ရာကျော်ဆရာတော်ကြီး ကျောင်းထိုင်၍ သီတင်းသုံးခဲ့စဉ်က မင်း၊ မိဖုရား၊ စစ်သူကြီး၊ သူဌေး၊ သူကြွယ်များ တည်ထားကိုးကွယ်ကြသည့် စေတီတော်ကြီးများမှာ ယခုအခါ ပြိုကျပျက်စီးနေကြပြီး စေတီငုတ်တိုကြီး(၇)ဆူကို ချုံနွယ်သစ်ပင်များအုပ်ဆိုင်းလျက်ရှိသည်ဟု ကိုယ်တွေ့ သွားရောက်လေ့လာသူတို့က မှတ်တမ်းတင်ပါ၏။ ထိုအချက်ကို အောက်တွင်ကြည့်ပါ။

ထိုစဉ်က ရာကျော်ဆရာတော်ကြီးဟာ ကြည်ညိုသူပရိသတ်တွေ အမြဲမပြတ်လာရောက်နေကြတော့ အကျင့်စရဏ ပျက်တယ်ဆိုပြီး ငွေးပင်ဂူရှိရာတောင်ကို ပြောင်းရွှေ့သွားသည်ဟု သိရသည်။ ယခုထက်တိုင် မင်း၊ မိဖုရား၊ စော်ဘွားတွေ ယာယီနန်းကို ရုပ်သိမ်းသွားကြလို့ ဒီနေရာကို "နန်းရုပ်"လို့ ခေါ်ခဲ့ကြပြန်တယ်ဟု ဆို၏။

ကျမ်းကိုး။ ယင်းစာ-၄၆

အေဒီ ၁၉၃၆

ရာကျော်ဆရာတော်ကြီးရဲ့ ကျောင်းဒါယကာကြီးတွေဖြစ်တဲ့ ဦးကျောက်လုံး၊ ဒေါ်ဖုံးဆိုတာဟာ ငွေးပင်ရွာမှာ ပထမဆုံးနိလာကျောက်ကောင်းတစ်လုံးရရှိခဲ့ကြတယ်။ (၁၆)ကာရက်ရှိကြောင်း သိရတယ်။ ရာကျော်ဆရာတော်ကြီးရဲ့ မူလကျောင်းတော်ရာက အဓိကစေတီတော်ဖြစ်တဲ့ "ဆင်ဖူးဘုရား"ကို ပြန်လည်ပြုပြင်ခဲ့ကြတယ်။ မြန်မာသက္ကရာဇ်(၁၃၀၀)ပြည့်မှာပါဟု မှတ်တမ်းရှိ၏။

ကျမ်းကိုး။ ယင်းစာ-၄၆

ဒီဘုရားအကြောင်းပြောရင် ဒဏ္ဍာရီဆန်လှပါတယ်။ ရာကျော်ဆရာတော်ကြီးရဲ့ မူလကျောင်း ဒါယကာကြီးဟာ ကျောင်းဆောက်လုပ် မပြီးမီ ကွယ်လွန်သွားခဲ့တယ်။ သူဟာဆင်မတစ်ကောင်ရဲ့ ဝမ်းထဲဝင်စားပြီး ဆင်ထီးကလေးဖြစ်လာတယ်လို့ ဆိုပါတယ်။ ဒီဆင်ဟာ ကျောင်းတိုင်တွေကို နှာမောင်းနဲ့ဆွဲယူလုပ်အားပေးပြီးကူညီခဲ့ပြန်တယ်။ စေတီတော်ကြီးနဲ့ ကျောင်းတော်ကြီး ပြီးစီးတော့မှပဲ တောထဲဝင်ရောက်သွားတယ်။ နောက်နှစ်ပေါင်း အတော်ကြာတော့ ဆင်ကြီး တစ်ခေါက်ရောက်လာတယ်။ ဆရာတော်လည်းမတွေ့ရ၊ ကျောင်းကြီးလည်းပြိုကျနေတာ မြင်ရပြီး စိတ်ထိခိုက်စွာနဲ့ မြေကို ခြေနဲ့အရှုပ်မှာ ခြေဖဝါးပြောင့်စူးသွားတယ်။ ဒီဘုရားအနီးမှာ

http://www.dhammadownload.com



ရောက်လာတဲ့ လူတိုင်းကို ဆင်ကြီးက လိုက်တော့မသွားရဲ၊ မလာရဲနဲ့ ကြောက်ရွံ့နေကြတယ်။ တစ်နေ့မှာ လောင်းစင်ရွာက ရွာသားတစ်ဦးဟာ ပြေးမလွတ်တော့သေပစေဆိုပြီး မြေမှာမှောက် အိပ်ချလိုက်တယ်။ ဆင်ကြီးဟာနှာမောင်းနဲ့ ဆွဲလှန်ပြီး သူ့မျက်နှာရှေ့ကို ခြေဖဝါးထောင်ပြ တော့မှ ပြောင့်ကြီးစူးနေတာမြင်ရတယ်။ ရွာသားလည်း သဘောပေါက်သွားပြီး ပြောင့်ကို ဓားမြှောင်နဲ့ ထွင်းထုတ်ပေးခဲ့တယ်။ ဆင်ကြီးဟာ ဘုရားကို လက်ယာရစ်သုံးပတ်လှည့်ဖူးမြော် ဦးတိုက်ပြီးမှ တောထဲဝေးရာ ထွက်ခွာသွားတော့တယ်။ ဒါကြောင့် ဆင်ဖူးဘုရားလို့ခေါ်တာပါဟု မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ယင်းစာ-၄၇

အထက်ပါ အဖြစ်အပျက်ကိုကြည့်လျှင် ဆရာတော်ဘုရားကြီး၏ ကျင့်စဉ်တကွ ဘဝဖြစ်စဉ် ကိုပါ ရိပ်စားမိနိုင်စရာ အကြောင်းရှိပါသည်။ နောင်သောအခါ ပုံပြင်ဖြစ်မှာစိုး၍ ကျွန်ုပ်က ရှာဖွေ မှတ်တမ်းတင် ကျေးဇူးဆပ်ခြင်းဖြစ်ပါသည်။

ငွေးပင်ရွာနှင့် (၂)မိုင်ခန့်သာ ဝေးပြီး အနောက်မြောက်(၂)မိုင်ခန့်၌ လီဆူးများနေထိုင်သည့် နန့်ကတ်ရွာနှင့်လည်းအဆက်အသွယ်ရှိပါတယ်။ မိုးကုတ်-သပိတ်ကျင်း-မန္တလေး လမ်းဘေး ၌ မနီးမဝေးရှိတယ်။ ရာကျော်ဆရာတော်ကြီးဟာ ငွေးပင်ဂူကို မကြာမကြာ ရောက်လာတယ်။ ရွာကိုရောက်တိုင်းလဲ နန်းရုပ်ဒေသ မူလကျောင်းတော်ရာကိုသွားတယ်။ လမ်းမှာတွေ့သမျှ မုန့်သည်တွေကို အကုန်ဝယ်ပြီးကြုံတဲ့လူ အကုန်စားဖို့ လှူဒါန်းလေ့ရှိတယ်။ ထူးဆန်းတာက တော့ . . . လွယ်အိတ်အလွတ်ကလေးတစ်လုံးထဲက နှိုက်ထုတ်ပြီး လှူဒါန်းနေတာပဲ။ အဲဒါ ကျုပ်အမြင်ပဲလေ၊ ဣဋ္ဌာသယ လွယ်အိတ်လို့ ခေါ်ရမလားမသိဘူးဟု ဆိုကြ၏။

ကျမ်းကိုး၊ ယင်းစာ-၄၈

ဂူထဲမှာ တရားထိုင်ချိန်ရောက်မှ ကျုပ်ကို ဖိုဆွဲခိုင်းလေ့ရှိတယ်။ ဆရာတော်ဟာ သမထ အားထုတ်ပြီး အင်္ဂါရတ်ဓာတ်လုံးအောင်တော့မှ ဝိပဿနာကို ဆက်အားထုတ်သွားတာ ကျုပ် သိမိလိုက်ပါတယ်။ ရာကျော်ဆရာတော်ကြီးအား သိမိလိုက်သူတို့က ဘိုးကိတ္တိဟုသာ ခေါ်ကြသည်။

ကျမ်းကိုး၊ ယင်းစာ-၄၈

သဒ္ဓမ္မဒေဝ ဟူသောဘွဲ့ကား အဘယ်က ရသနည်းဟု မေးလိုသူများအတွက် အဖြေရှိပါသည်။ အောက်တွင် ကြည့်ပါ။

သဒ္ဓမ္မဒေဝဆိုသော ဘွဲ့တော်မှာ အထက်ပုဂ္ဂိုလ်တို့ ပေးအပ်ခြင်း ဖြစ်ကြောင်းလည်း သိရပါ သည်။ သဒ္ဓမ္မဒေဝဆိုသည်မှာ နတ်ကဲ့သို့ သူတော်ကောင်းတရားများကို ထင်ရှားသိမြင်တော် မူသောဟု အဓိပ္ပါယ်ရှိကြောင်း သိရသည်။

ကျမ်းကိုး၊ ယင်းစာ-၄၈

ရာကျော်ဆရာတော်ဘုရားကြီးတွင် ထူးဆန်းသော လွယ်အိတ်တစ်လုံးရှိကြောင်းကို အံ့သြစဖွယ် လေ့လာ တွေ့ရှိရပါသည်။ ထိုအိတ်ကို လိုတရလွယ်အိတ်ဟု ခေါ်ဆိုကြပါသည်။ ပုံပြင် မဟုတ် နိုင်ပါ။ အောက်ပါ စာကို ဖတ်ကြည့်ပါ။

သပိတ်ကျင်းမြို့တွင် "အောင်စကြာတောင်ပေါ်ဘုရား"၊ "အောင်သိဒ္ဓိ ဓာတ်ခန်း"၊ "အညာ

http://www.dhammadownload.com



သီဟ တောဘုရား"၊ "နေလစေတီ"၊ တည်ရာစသည်တို့တွင် ကိုယ်တွေ့ကြုံ တပည့်ခံသူ စသည်ဖြင့် သက်ရှိထင်ရှားပုဂ္ဂိုလ်များထံတွင် စာတွေ့၊ လက်တွေ့လေ့လာပြီး အများက ဘိုးကိတ္တိရာကျော် ဆရာတော်သဒ္ဓမ္မဒေဝကိတ္တိသည် သပိတ်ကျင်းမြို့တွင် ဣစ္ဆာသယ လိုတရ လွယ်အိတ်ဖြင့် သာသနာပြုခဲ့သည်မှာ အမှန်တကယ်ဖြစ်ပါသည်။

> ကျမ်းကိုး၊ ဒီလှိုင်း(သပိတ်ကျင်း)၊ ဣစ္ဆာသယလွယ်အိတ်နှင့် ရာကျော်ဆရာတော်၏ သပိတ်ကျင်း အောင်မြေနှင့် ကိုယ်တွေ့ဖြစ်ရပ်ဆန်း၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၂၀၀၃ ခု၊ စက်တင်ဘာလ၊ စာ-၁၅၃။

ပို၍ ထင်ရှားထူးခြားသည်မှာ ဗလာ နတ္ထိဘာမျှမရှိသော သက်နှင်းလွယ်အိတ်အဟောင်းထဲမှာ ငွေတစ်ဆယ်တန်များနှိုက်၍ နယ်တကာ အနှံ့သာသနာပြုခဲ့ပါသည်ဟု မှတ်တမ်း ရှိ၏။

ကျမ်းကိုး၊ ယင်းစာ-၁၅၃

ဣစ္ဆာသယလွယ်အိတ်နှင့် ပတ်သက်၍ ဖြစ်ရပ်တစ်ခုကို ဖော်ပြရလျှင် လက်ရှိ သပိတ်ကျင်း မြို့နယ်၊ သံဃနာယကအဖွဲ့အတွင်းရေးမှူးဆရာတော်၊ ကန်တဲ့ရပ်ကွက် မဟာသိမ်တော် ကျောင်း ဒုတိယဆရာတော်ဘဒ္ဒန္တစန္ဒောဘာသအလောင်းအလျာသည် ရွာမရပ်ကွက် ရောဝတီ မြစ်ကမ်း နံဘေး၌ သစ်တုံးများဆယ်ယူနေစဉ် အဘရာကျော်ဆရာတော်သည် ရုတ်တရက် ရောက်ရှိလာပြီး 'ဟဲ့ကောင် မင်းသစ်တုံး ငါ့ကို ရောင်းမလား'လို့ ပြောတဲ့အခါ 'မရောင်းပါဘူး ဘုန်းကြီး' လို့ ပြန်ပြောလျှင် 'ရောင်းပါကွ၊ မင်းကို ငါမုန့်ဖိုးပေးမှာပါ' ဟုပြောဆိုကြရာ 'သစ်တုံး တွေ၊ ဒီနားထားရင်ပျောက်မှာဗျ၊ ခိုးတဲ့လူတွေရှိတယ်' 'ပျောက်တာ မပျောက်တာ မင်းနဲ့မဆိုင် ဘူး၊ ရော့ပိုက်ဆံ' လို့ ပြောဆိုကာ အဘရာကျော်ဆရာတော်မှ လွယ်အိတ်ကို နှိုက်၍ခါပြီး ဣစ္ဆာသယလွယ်အိတ်အတွင်းကနေ ငွေတစ်ဆယ်တန်များကို တစ်ရွက်ချင်း ငါးရွက်တိတိ ထုတ် ပေးပါတော့သည်။ ဤကဲ့သို့ ဣစ္ဆာသယလွယ်အိတ်မှနေ၍ ငွေများပေးပြီး ပဋ္ဌာန်းဆက် ပေးခဲ့ပါလားဟု ဆိုသည်ကို သပိတ်ကျင်းမြို့ပေါ်တွင် စေတီပုထိုး၊ ကျောင်း၊ ရေတွင်း၊ ရေကန်၊ သိမ်၊ ဓမ္မာရုံများ စသည့် သာသနိကအဆောက်အအုံများ ဆောက်လုပ် သာသနာပြုနေရင်းမှ ဆရာတော် ဘဒ္ဒန္တစန္ဒောဘာသမှ တဖြည်းဖြည်း သိရှိလာပါသည်ဟု သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၁၅၃

ဆရာတော်ကြီးသည် သပိတ်ကျင်းမြို့သို့ရောက်ရှိခဲ့လျှင် ယခုမြို့နယ် စည်ပင်ဦးစီးဌာနရုံး အနောက်ဘက် ယခင် ဘိုတဲနေရာ၌ ဝါးကျောင်းငယ်လေးဖြင့် သီတင်းသုံးပြီး ဦးခင်မောင် မိသားစုမှ ဝေယျာဝစ္စများ ပါရမီ ဖြည့်ဆည်းကြပါသည်။ ထိုနေရာမှ တစ်ဖန် ယခုဆိပ်ကမ်း ရပ်ကွက် စည်ပင်သာယာဈေးအနီး၌ တည်ရှိသော ကိုးတောင်ပြည့်နေလ စေတီကို ပြောင်းရွှေ့ ၍ တည်ပါတော့သည်။

မြန်မာအစ တကောင်းက ဟူသော စကားလုံးကို ရာကျော်ဆရာတော်ဘုရားကြီး ရှိစဉ်ကတည်း က ဟောကြားတော်မူခဲ့ပါသည်။ နောင်သောအခါ တကောင်းမြို့ဟောင်းကြီးကို ရှေးဟောင်း သုတေသနကောင်းမှုကြောင့် ပြန်လည် တူးဖော်နိုင်သောအခါ ရာကျော်ဆရာတော်ဘုရား၏ ရှေးစကားကို ပြန်လည်စဉ်းစားမိပါသည်။ ဆရာတော် ဘုရားကြီးသည် ဤသို့ မိန့်တော်မူပြီး ကြောင်း ဖတ်ရှုဖူးပါသည်။

နေလစေတီတည်ရာတွင် အဘရာကျော်ဆရာတော်ကြီးက "တကောင်းက ဒေါင်းစကာမှာ

http://www.dhammadownload.com



အောင်းနေပြီ၊ ယောက်မခွေးချီ၊ တကောင်းကအေးပြီ၊ ဒါ့ကြောင့် သမိုင်းဝင်တကောင်းမြို့ကြီး ပြန်လည် သက်ဝင်လှုပ်ရှားဖို့ မင်းတို့မြို့မှာ စိန်ပန်းဓာတ်ဆင်ပြီး မြို့နယ်တစ်ခုလုံးစည်ပင် အေးချမ်း ဖွံ့ဖြိုးအောင် ငါဘုရားတည်မည်"ဟု ပြောဆိုရာ မိုးကုတ်မြို့ အမေသိန်းတို့ ညီအစ်မနှစ်ဦးက ဒကာခံပြီး နေထွက်မှာ ပန္နက်ချ၊ နေဝင်လအထွက်မှာ ကိုးနဝင်း မိုးလင်းမှ သိမယ်၊ ဘုရားလေးငယ်ငယ် ကိုးတောင်ပြည့်တည်၊ ငယ်သာငယ်ကယ်ဆယ်မယ့်ဘုရား အစ ရှိသောယနေ့ လူတိုင်းနှုတ်ဝယ်၌ သိကြသည့်၊ ရကြသည့် တဘောင်ကို ရွတ်ဆိုကာနေ့,လ နှစ်ပါးကိုးတောင်ပြည့်စေတီကို တည်ပါတော့သည်ဟု တကောင်းခေတ်ကို ဖော်ခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းစာ-၁၅၃

ဆရာတော်ဘုရားကြီး နှုတ်တိုက်ချပေးသော ဂါထာတော်တစ်ပုဒ်ရှိသည်ဟု သိမီသူတို့က ပြောကြပါသည်။ ထိုဂါထာမှာ အောက်ပါအတိုင်း မှတ်သားရ၏။

အောင်ထူးဆန်း၊ မန်းသိုက်ဝင်၊ ထင်ကျော်သောင်း၊ ဆောင်းထီးဖြူ၊ လူထိပ်မိုး၊ ဟိုးဟိုးကျော်၊ ကျော်ဝှမ်းထက်၊ ဘက်မရှောင်၊ ခေါင်ဘုန်းကြီး၊ ထီးရွှေနန်း၊ မန်းဣန္ဒရာဇာ၊ ငါသို့မှန်းလစ်၊ တစ်ရာ့တစ်ပါး၊ လူမျိုးသားတို့၊ ကျော်လွှားနှိမ်နင်း၊ စောရန်ခွင်း၊ မငြင်းမဆန်၊ လွန်ကြောက်ရွံ့သည်၊ တစ်ပြည်လုံး၊ လက်ရုံးတန်းကာ၊ အောင်ပါစေသော်၊ အောင်စေသော်၊ အောင်ကြပါစေသော် ဟူသော ဂါထာတော်မြတ်ကြီးကား ဆရာတော်ကြီးကိုယ်တိုင် ရွတ်ဆိုသည်သာမက နှုတ်တိုက် ချပေးခဲ့ကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၁၉

အေဒီ ၁၉၄၅

ရာကျော်ဆရာတော်ကြီး သာသနာ့ဓာတ်ပန္နက်ရိုက်စဉ်၊ ၁၃၀၇ ခု၊ ကဆုန်လပြည့်နေ့ နံနက်(၆) နာရီခန့်တွင် မင်းဓမ္မတောင်တော်ပေါ် ဝယ် လူသူ အရောက်အပေါက်နည်းသည်နှင့်အမျှ သစ်ပင်၊ ချုံနွယ်ပိတ်ပေါင်းတို့ ဖုံးလွှမ်းနေသဖြင့် တောကြီးအသွင်သို့သာ ဆောင်နေပေသည်။ ဆရာတော်ကြီး သီတင်းသုံးတော်မူရာ ဝါးတဲကျောင်းကလေး တည်နေရာမှာ တောင်၏ အရှေ့ မြောက်ဘက် ထောင့်တောင်ခြေတွင် တည်ရှိသော ဘိုးရာဇာကုန်းတွင် ဖြစ်သည်။ တောင်ပေါ်သို့ ကားတက်ရန်မှာ မလွယ်ကူပေ။ ချုံနွယ်ပိတ်ပေါင်း ထူထပ်သည့်အပြင် မြွေဆိုး၊ မြွေ ဟောက်ကြီးများ၊ ငန်းမြွေကြီးများကလည်း မင်းမူလျက်ရှိကြသည်ဟု ဆို၏။

ကျမ်းကိုး၊ ယင်းစာ-၂၀

ထိုစဉ်က ဓာတ်ပန္နက်တိုင်များစိုက်ထူပြီးသည်နှင့် အောက်ပါနိမိတ်ကြား အောင်ဩဘာ စကား တော်များကို ဆရာတော်ကြီးမိန့်ကြားတော်မူသည်။

အေဒီ ၁၉၄၅

ငါ၏သား တပည့်များတို့၊ လွန်စွာအရေးကြီးတဲ့ သာသနာ့နိမိတ်ဩဘာစကား ငါမိန့်ကြားမည်။ အားလုံးသေချာစွာ နာခံမှတ်သားထားကြလော့။ ဒီနေရာ ဒီဒေသ ဒီမင်းဓမ္မတောင်ကို ဗဟိုပြု လျက် နိုင်ငံတော်အဝန်းမှာ လမ်းကြီးလမ်းငယ် အသွယ်သွယ်၊ တံတားကြီး၊ တံတားငယ် အထပ်ထပ်၊ တိုက်တာကြီးတွေတရစပ်၊ အလစ်အဟာမရှိရအောင် နောင်မှာ သံခမောက် ဆောင်းတွေ တည်ကြ လုပ်ကြလိမ့်မယ်။ ဆင်မဝမ်းခေါင်း ဗိုလ်ခြေအောင်းလိမ့်ဆိုတဲ့ ကိန်း တစ်ပြန်ဆိုက်လိမ့်မည်။ အလောင်းမင်းတရားကြီး သိမ်းပိုက်စဉ်က ရန်တကာကုန်လို့ ရန်ကုန် လို့ သမုတ်တော်မူပြီး မြို့ကြီးအစ တည်ခဲ့တယ်။ နောင်တစ်ကြိမ်မှာလဲ ရန်တကာတွေကုန်လို့

http://www.dhammadownload.com



ရန်ကုန်မှာ ဗိုလ်ခြေ အောင်းပြီး မြို့ကြီးပြကြီး တည်လိမ့်မယ်။

ရန်ကုန်မှာဗိုလ်ခြေအောင်းပြီး ရွှေတိဂုံဟံသာကျေး အနံ့နဲ့ မြန်မာပြည် ရန်တကာကြေတဲ့အောင် ဘုရားတွေတည်၊ ကျောင်းတွေဆောက်၊ လမ်းတွေဖောက်ပြီးတဲ့နောက်၊ ဒီမင်းဓမ္မတောင်ပေါ်မှာ အောင်ထူးဆန်းဘုရားကြီး တည်လိမ့်မယ်။ ဘုရားကြီးတွေ၊ ကျောင်းကြီးတွေ၊ လမ်းကြီးတွေ၊ တံတားကြီးတွေ၊ တိုက်ကြီးတွေ၊ တာကြီးတွေ၊ အောင်ထူးဆန်း တည်ကြလိမ့်မယ်။ ဒီမင်းဓမ္မ တောင်ဟာ ရှေးသမိုင်းဝင် သာသနာဝင် အောင်ထူးဆန်း တောင်ထူးတောင်မြတ်၊ တောင် ကလပ်၊ ဒုတိယသိင်္ဂုတ္တရတောင် ဖြစ်တယ်။ တော(၉)တော၊ ကုန်း(၉) ကုန်း၊ အင်း (၉) အင်းအစုံအညီနဲ့ ထူးခြားတဲ့ အောင်ထူးဆန်းနေရာထူး၊ နေရာမြတ်ဖြစ်လို့အနာဂတ် သာသနာ အတွက် သာသနာ့ ဓာတ်ပန္နက် အခုလို စိုက်ထူရတာ ဖြစ်တယ်ဟု မိန့်တော်မူ၏။

> ကျမ်းကိုး၊ ဟံသာဝတီ-ဦးအုန်းကြိုင်၊ ရာကျော်ဆရာတော်ကြီး အောင်ထူးဆန်း သာသနာ့ ဓာတ်ပန္နက်စိုက်ထူခဲ့ရာ မင်းဓမ္မတောင်တော်မြတ်နှင့် အောင်ထူးဆန်း ဂါထာတော်ကြီး နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ်(၁၇၄)၊ ၂၀၀၁ ခု၊ ဇန်နဝါရီလ၊ ယင်းစာ-၂၁။

အေဒီ ၁၈၃၀ မြန်မာသက္ကရာဇ် ၁၁၉၂ ခုနှစ်၊ ကဆုန်လဆန်း ၅ - ရက် တနင်္လာနေ့တွင် သွက်သွက်ခါ အောင် တအားလှုပ်ချလိုက်သော ပဲခူးမြေငလျင်ကြီးကြောင့် သာလွန်မင်းတရားကြီး တင်လှူ ခဲ့သော မဟာစေတီ၏ ထီးတော်ကြီးသည် ရင်ပြင်ပေါ်သို့ ပြုတ်ကျခဲ့လေသည်။

အေဒီ ၁၈၈၈ ထို့နောက် တစ်ဖန် မြန်မာသက္ကရာဇ် ၁၂၅၀-ခုသီတင်းကျွတ်လဆန်း (၄) ရက်၊ ဗုဒ္ဓဟူးနေ့ အဝင် နံနက်စက်နာရီ ၂ ချက်တီးခန့် လှုပ်ပြန်သော မြေငလျင်ကြောင့် (နားကင်း၏ နောက်မြင်းပါ ပျောက်) ဆိုသကဲ့သို့ မြင်ရသည့်အတိုင်း ထူပါလုံးကြီးပါ ပြုတ်ကျသွားခဲ့ရပြန် သောပုံ ဖြစ်သည်။

> ကျမ်းကိုး၊ အရှင်ဇောတိပါလပြုစုရေးသားပူဇော်အပ်သောဆင်ဖြူများရှင် ဘုရင့်နောင်မင်း တရားကြီး တည်ခဲ့သောဗုဒ္ဓစွယ်တော်စစ်မြတ် ကိန်းဝပ်တော်မူရာပဲခူးမြို့ကောင်းမှုတော် မဟာ စေတီတော်သမိုင်းသစ်၁၃၃၉ ခုနှစ်၊ တပေါင်းလပြည့်နေ့ပထမအကြိမ် ၃၀၀၀ ၁၃၊ ဇူလိုင်၊ ၁၉၇၈၊ စာ-၅၃

အေဒီ ၁၉၃၉ (၂၁) နှစ်ကျော် လုံးဝရပ်စဲထားရပြီး မြန်မာသက္ကရာဇ် (၁၃၀၁) ခုနှစ်၊ နယုန်လဆုတ် (၅) ရက်နေ့ မှစ၍ အင်းစိန်မြို့ ကြို့ကုန်းရာကျော်ဆရာတော်ကြီး (အရှင်သဒ္ဓမ္မဒေဝကိတ္တိ)နှင့် တပည့် ကမ္ဘောဇဆရာတော် (အရှင်သာသန)တို့ ကြွလာခွင့်တောင်းစီစဉ်ကြသည်။ မြန်မာ သက္ကရာဇ် (၁၃၀၁) ခုနှစ်၊ ပြာသိုလဆုတ် (၁) ရက်နေ့မှစ၍ စေတီငုတ်တိုခေါင်းလောင်းပုံထိပ် တွင် (၁၂)တောင်မြင့် စေတီကို တည်ပြီး ဂျပန်ခေတ်စစ်အတွင်းရပ်နားကာ ဂျပန်မပြေးမီ (၁၃၀၆) ခုနှစ်ဦးတွင်မှ မူလစေတီ (၁၂) တောင်ကို (၁၈) တောင်အထိ မြှင့်တင်လျက် အရံစေတီ (၃၇) ဆူကို ဆက်လက် တည်တော်မူခဲ့သည်။

အေဒီ ၁၉၅၄ တပ်ဦးကျောင်းတိုက်စံကျောင်းတော်တွင် သီတင်းသုံးတော်မူစဉ် (၁၃၁၆) ခုနှစ် (ခရစ်နှစ် ၁၉၅၄ ခုနှစ်) တပို့တွဲလပြည့်ကျော် (၉) ရက်၊ ဗုဒ္ဓဟူးနေ့၊ ညနေ (၄) နာရီ (၁၈) မိနစ် အချိန်တွင် ရာကျော်ဆရာတော်ကြီး ဦးသဒ္ဓမ္မဒေဝကိတ္တိသည် ပျံလွန်တော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၇၀

http://www.dhammadownload.com



ရန်ကုန် ရွှေတိဂုံသို့ ကျားတက်သော ခရစ်နှစ် (၁၉၁၆) ခုနှစ်ရောက်သောအခါ
ထိုကျားခိုအောင်းသော တောကြီးမျက်မည်းတွင်
အရညဝါသီ နှစ် (၄၀) ကာလ ကျင့်သုံးပေါက်မြောက် အောင်မြင်တော်မူခဲ့သော

# ငါးထပ်ကြီး ဆရာတော်ကြီး ဦးအာသဘ

(၁၈၃၂ – ၁၉၂၀)



http://www.dhammadownload.com



အေဒီ ၁၉၀၀ ရန်ကုန်မြို့ ငါးထပ်ကြီးဘုရား ရုပ်ပွားဆင်းတုတော်ကြီးသည် ရန်ကုန်မြို့ကြီး၏ တံခွန်သဖွယ်ဖြစ်သော ရွှေတိဂုံစေတီတော်ကြီး၏ အရှေ့ဘက် (ငါးရာတွင်း - တစ်မိုင်ခန့်ကွာဝေးသော) တောအုပ်ကြီးအတွင်း ဆရာတော်ကြီး ဦးအာသဘ၏ ပရိဝုဏ်အတွင်း၌ မြန်မာသက္ကရာဇ် (၁၂၆၂)ခုနှစ်တွင် ဦးဘေကြီး၊ ဒေါ်အုန်းခိုင်တို့၏သား ဦးဘိုးအောင်-ဒေါ်စိမ်းရင် မိသားစုတို့က ပန်းရံဆရာကြီးဆရာညာဏ်ကို အပ်နှံလျက် ကြည်ညိုဖွယ်ရာ တင့်တယ်ဆန်းပြား အံ့၍မခန်း ပူဇော်လှူဒါန်းကြလေသည်။

> ကျမ်းကိုး၊ ငါးထပ်ကြီးဘုရားသမိုင်း၊ ရန်ကုန်မြို့ ငါးထပ်ကြီးဘုရား စောင့်ရှောက်ကြသော သံဃာတော်များရှာဖွေတင်ပြ၍ ငါးထပ်ကြီးဆရာတော် ဦးဇာဂရ အတည်ပြုသည့်စာ၊ ဟံသာဝတီပုံနှိပ်တိုက်၊ ပထမအကြိမ်၊ ၁၉၇၇ခုနှစ်၊ ဒီဇင်ဘာလ၊ စာ-၂။

အေဒီ ၁၈၈၇ ဦးဘိုးအောင်၏ မိဘနှစ်ပါးဖြစ်ကြသော ဦးဘေကြီးနှင့် ဒေါ်အုန်းခိုင်တို့သည်ဆရာတော်ကြီး ဦးအာသဘအား ကျောင်းဒါယကာ-ဒါယိကာမတို့တွင် ဘုံငါးဆင့်ရှိသော အတုလရတနာမဟာမင်္ဂလာဘုံကျော် ကျောင်းတော်ကြီးကို မြန်မာသက္ကရာဇ် (၁၂၄၉) ခုနှစ်က တည်ဆောက်လှူဒါန်းခဲ့သူများ ဖြစ်လေသည်။

ထိုဘုရားဒကာကြီးဦးဘိုးအောင်၏ဆရာကား မိဘနှစ်ပါးတို့ကိုးကွယ် သော ဆရာတော်ကြီး ဦးအာသဘပင် ဖြစ်လေသည်။

ကျမ်းကိုး၊ ယင်းစာ-၄

အေဒီ ၁၈၃၂ ဆရာတော်ကြီး ဦးအာသဘသည် စစ်ကိုင်းတိုင်း ဖန်းခါးဇင်ရွာ၌ စစ်သူကြီး မဟာဗန္ဓုလ၏ ညီတော် စစ်ကဲတော်ကြီးငါးရာဗိုလ်ရန်အောင်ဇေယျ၏မြေး အဘ ပယ်တရာစားသူကြီးမင်းမြင်းစီးကြီးမင်း တုရင်ဒိဗ္ဗဘွဲ့ခံ ဘုရားဒါယကာကြီး ဦးမှုံ၊ အမိ ပယ်တရာစားသူကြီးကတော် ဘုရားအမကြီးဒေါ်နော်တို့မှ သာသနာတော်သက္ကရာဇ် (၁၃၇၆)ခုနှစ်၊ ကောဇာသက္ကရာဇ် (၁၁၉၄) ခုနှစ်၊ နယုန်လဆန်း (၁၂) ရက်၊ တနင်္ဂနွေနေ့တွင် မီးရှူးသန့်စင်ဖွားမြင်တော်မူလေသည်။

အေဒီ ၁၈၅၉ ဆရာတော်ကြီး ဦးအာသဘသည် ဆရာတော်ကြီး ဦးကေသရသီတင်းသုံးရာ ထိုအရှေ့တောရတောအုပ်ကြီးသို့ မြန်မာသက္ကရာဇ် (၁၂၂၁) ခုနှစ်ကရောက်ရှိပြီး ဆရာတော်ကြီး ဦးကေသရ၏ ခြေတော်ရင်း၌ ရေပူရေချမ်းကမ်းလှမ်းလျက် ဝတ်ကြီးဝတ်ငယ်အသွယ်သွယ်တို့ကိုပြုစုကာ မှုရနှစ်ပါးကို ကျင့်ကြံအားထုတ်တော်မူလေသည်။

ကျမ်းကိုး၊ ယင်းစာ-၄

အေဒီ ၁၈၅၇ ဆရာတော်ကြီးဦးကေသအမည်ရှိသော မထေရ်မြတ်ကြီးတစ်ပါးသည် မြန်မာသက္ကရာဇ် (၁၂၁၉) ခုနှစ်က ရန်ကုန်မြို့ အရှေ့တောရကြီး (ခေါ်) စိမ့်စမ်းလျှိုမြောင် ထူထပ်လှ၍ သားရဲတိရစ္ဆာန်တို့ ပျော်မြူးကျက်စားရာ ထိုတောအုပ်ကြီးအတွင်း၌ ဝါဆိုခေတ် သတ်မှတ်၍ သီတင်းသုံးလျက်ရှိနေပြီ ဖြစ်သည်။

ကျမ်းကိုး၊ ယင်းစာ-၅

အေဒီ ၁၉၀၂ ထိုတောအုပ်ကြီးအတွင်း၌ ဆရာတော်ကြီးဦးအာသဘ သီတင်းသုံးနေသည်မှာ နှစ်ပေါင်း ၄၄ နှစ်ကြာမြင့်သည့်အချိန် မြန်မာသက္ကရာဇ် (၁၂၆၄) ခုနှစ်တွင် ရွှေတိဂုံရင်ပြင်ပေါ်သို့ ကျားတက်ခဲ့လေသည်။ ထိုအရှေ့တောရတောအုပ်ကြီးမှာ သားရဲတိရစ္ဆာန်တို့ ခိုအောင်းကျက်စားရာ အသည်းထိတ်ဖွယ်တောအုပ်ကြီးဖြစ်၍ ထိုဆရာတော်ကြီးတို့၏ သီလဂုဏ်၊ သမာဓိဂုဏ်တို့သည် ကြည်ညိုဖွယ်ရာ ဖြစ်ပေတော့သည်တကား။

ကျမ်းကိုး၊ ယင်းစာ-၅

http://www.dhammadownload.com



ဆရာတော်ကြီးဦးအာသဘ၏ ဆရာများမှာ သာမဏေဥပဇ္ဈာယ်ဆရာ ဖန်ခါးဇင်ရွာ လွန်လှ တောရဆရာတော်၊ ရဟန်းဥပဇ္ဈာယ်ဆရာတော်မှာ တံဆိပ်တော်ရ မတ္တရာဆရာတော်ဖြစ်ပြီး ကမ္မဝါဆရာတော်မှာ သင်္ဂဇာဆရာတော်ဖြစ်လေသည်။ ဓမ္မာစရိယဆရာတော်များမှာ အမရပူရမြို့ မအိုတိုက်တံဆိပ်တော်ရ ထီးလင်းဆရာတော်၊ သင်္ဂဇာဆရာတော်ဘုရားကြီး ရန်ကုန်မြို့ အရှေ့တောရကြီး ဆရာတော် ဦးကေသရအရှင်မြတ်တို့ ဖြစ်လေသည်။

ကျမ်းကိုး၊ ယင်းစာ-၅

အေဒီ ၁၈၉၃ သီပေါမင်း၏ဆရာ "မာလာလင်္ကာရဓဇ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇာဂုရု" တံဆိပ်တော်ရ မဟာသံဃရာဇာ သာသနာပိုင် တောင်တော်ဆရာတော်ထံမှ ရန်ကုန်မြို့ကြီးနှင့်တကွ ဟံသာဝတီနယ်လေးရပ် နယ်ရှစ်ရပ် သတ်မှတ်သည့်အတွင်း ရဟန်းသံဃာတော်တို့၏အပေါ်တွင် သာသနာမှုနှင့် ပတ်သက်သမျှကိစ္စအဝဝ စီရင်ဆုံးဖြတ်ရန် ဂိုဏ်းအုပ်ကြီးအဖြစ် ဆရာတော်ကြီး ဦးအာသဘအား မြန်မာသက္ကရာဇ် ၁၂၅၅ ခုနှစ်တွင် ခန့်အပ်ခြင်းခံခဲ့ရလေသည်။

ကျမ်းကိုး၊ ယင်းစာ-၆

ဆရာတော်ကြီး ဦးအာသဘအား ဂိုဏ်းအုပ်ခန့်အပ်တော်မူသော စာချွန်တော် တစ်စောင်ကိုလည်း မမေ့မပျောက်ရလေအောင် အောက်ပါအတိုင်း မှတ်တမ်းတင်ထားပါသည်။

အေဒီ ၁၈၉၃ မာလာလင်္ကာရဓဇဓမ္မသေနာပတိ အတုလဓိပတိသိရိပဝရ မဟာဓမ္မရာဇာဓိ ရာဇာဂုရု ဘုန်းတော်ကြီး မြတ်တော်မူသော သဗ္ဗညုမြတ်စွာဘုရား၏ အံ့ဖွယ်ရှစ်ပါးနှင့်ပြည့်စုံသော သာသနာတော်မြတ်ကို နစ်နာဆုတ်ယုတ်ခြင်း မရှိစေခြင်းငှာ သင်္ဂါယနာသုံးတန်တင်ရာ သံဃနာယကဖြစ်သော အရှင်မဟာကဿပ၊ အရှင်မဟာယသ၊ အရှင်မဟာ မောဂ္ဂလိပုတ္တတိဿမထေရ်တို့မှ ဝံသဆင်းသက်သော မြန်မာမင်းအဆက်ဆက် လက်ထက်တော်တို့၌ သာသနသောဓကဖြစ်ခဲ့ကြသော သာသနာတော်ဝန်ကို အဓွန့်ရှည်စွာ တည်ထွန်းတိုးတက်အောင်ဆောင်ရွက် အားထုတ်ပြုလုပ် သုတ်သင်တော်မူသော မဟာသံဃရာဇာ သာသနာပိုင်ဆရာတော်အမိန့် ရှိသည်။ ဂဏာစရိယ - ဂဏ ပါမောက္ခ - ကမ္မာကမ္မဝိနိစ္ဆယအဖြစ်ဖြင့် မြန်မာသက္ကရာဇ် (၁၂၅၅)ခု၊ နယုန်လပြည့်ကျော် (၁၄)ရက်နေ့ ရန်ကုန်မြို့ ကြည့်မြင်တိုင်၊ ပုဇွန်တောင်၊ ဗိုလ်တထောင်နယ်တွင်းရှိ ဂိုဏ်းထောက်၊ ဂိုဏ်းသံဃာ ဟံသာဝတီနယ် လေးရပ် ရှစ်ရပ်သမုတ်သည့်အတွင်း အထက်ခန့်ထားပြီး ဂိုဏ်းအုပ်ဂိုဏ်းထောက်တို့ အုပ်စု ထောက်စုများသို့ မပါမဝင် ကြွင်းကျန်နေထိုင်ရှိသည့် သံဃာတို့အပေါ်တွင် ဆင့်ဆိုဆုံးဖြတ်စီရင်ရန်ရှိသမျှ သာသနာရေး၊ သာသနာမှုနှင့်စပ်သည်များကို ဝိနည်းဓမ္မကံနှင့်အညီ ဆင့်ဆိုဆုံးဖြတ်စီရင်စေ။ ရန်ကုန်မြို့၊ ကြည့်မြင်တိုင်၊ ပုဇွန်တောင်၊ ဗိုလ်တထောင်နယ်တွင်းရှိ ဂိုဏ်းထောက်ဂိုဏ်းသံဃာ၊ ဟံသာဝတီနယ်လေးရပ် ရှစ်ရပ် သတ်မှတ်သည့်အတွင်း အထက်ခန့်စာရှိသည့် ဂိုဏ်းအုပ်ဂိုဏ်းထောက်တို့ အုပ်စု၊ ထောက်စုများသို့ မပါမဝင် ကြွင်းကျန်နေထိုင်ရှိကြသည့် သံဃာတို့လည်းဂိုဏ်းအုပ်ရှင် အာသဘ ဝိနည်းကံနှင့်အညီ ဆင့်ဆိုဆုံးမ စီရင်ရာနာခံကြ၍ ဓုရတရားနှစ်ပါးကို ပွားများအားထုတ်ကျင့်ဆောင်နေထိုင်ကြစေ။

ကျမ်းကိုး၊ ယင်းစာ-၇

http://www.dhammadownload.com



အေဒီ ၁၉၀၃ ဆရာတော် ဦးအာသဘသည် မြန်မာသက္ကရာဇ် (၁၂၆၅) ခုနှစ်တွင် ရွှေတိဂုံစေတီ ငှက်ပျောဖူး ရွှေဦးစွာ ရွှေပြားကပ်ပွဲ၌ ဦးစီးဦးကိုင်ပြုလုပ်၍ ဖွင့်လှစ်ပေးတော်မူရလေသည်။

ကျမ်းကိုး၊ ယင်းစာ-၇

အေဒီ ၁၉၀၄ ထိုဟံသာဝတီဂိုဏ်းအုပ် ဆရာတော်ကြီး ဦးအာသဘသည် တပည့်ကြီးဖြစ်သူ ငါးထပ်ကြီး ဘုရားဒါယကာ ဦးဘိုးအောင် ဘုရားအမ ဒေါ်စိမ်းရင် မိသားစုနှင့်တကွ တိုင်းသူပြည်သား တို့က ထည့်ဝင်လှူဒါန်းထားသော ရွှေ၊ ငွေ၊ ကြေးနီ၊ ကြေးဝါတို့ဖြင့် ပေါင်းစပ်၍ အမြင့် ရှစ်တောင်၊ လုံးပတ်ဆယ်တောင်တစ်မိုက်၊ အချင်းလေးတောင် လေးသစ်၊ ကြေးချိန် ငါး ထောင်ရှိသော ခေါင်းလောင်းကြီးကို ဆရာတော်စဉ်ဆက် သီတင်းသုံးရာ ကုန်ဈေးတန်း ဦးစစ်ပန်း- ဒေါ်စိုးမိသားစုတို့၏ လှူဒါန်းထားသော တိုက်ကျောင်းနှင့် တိုင်တစ်ရာကျောင်း ကြီးအကြား သွန်းလောင်းခဲ့ရာ မြန်မာသက္ကရာဇ် ၁၂၆၆ ခုနှစ် နှောင်းတန်ခူးလဆန်း ၉ ရက်နေ့တွင် ဟံသာဝတီ ဂိုဏ်းအုပ်ဆရာတော်ကြီး ဦးအာသဘအမှူးထား၍ မြန်မာ ပြည် ဘုရင်ခံမင်းနှင့် မှူးကြီးမတ်ရာ တိုင်းသူပြည်သားတို့က တူရိယာမျိုးစုံတို့ဖြင့် တီးမှုတ် ကခုန်လျက် ဘုရားကုန်းတော်ပေါ်သို့ ပို့ဆောင်သယ်ယူကြလေသည်။

ကျမ်းကိုး၊ ယင်းစာ-၇

အေဒီ ၁၉၀၅ ဆရာတော်ကြီး ဦးအာသဘသည် မြန်မာသက္ကရာဇ် (၁၂၆၇) ခုနှစ် ပဉ္စမမြောက် ဂျော့ဘုရင်နှင့် မေရီ မိဖုရားခေါင်တို့ မြန်မာပြည်သို့ အိမ်ရှေ့မင်းအဖြစ် ကြွရောက်ခဲ့စဉ် ကလည်း ရဟန်းသံဃာတော်တို့၏ ဦးစီးဦးကိုင် အကြီးအကဲကိုယ်စားပြု အဖူးအမြော်ခံ သြဝါဒကထာစကား မိန့်ကြားခြင်းကိုလည်း ပြုရလေသည်။

ကျမ်းကိုး၊ ယင်းစာ-၇

ဆရာတော်ကြီး ဦးအာသဘအား ဗောဓိသင်္ဂြာရအသင်းသားများက ငွေထက်အက္ခရာဖြင့် ဆက်ကပ်သော ကမ္ပည်းငွေစာကိုလည်း အောက်ပါအတိုင်း တွေ့ရှိရပါသည်။

အေဒီ ၁၉၁၂ မြန်မာသက္ကရာဇ် (၁၂၇၄) ခု၊ ကဆုန်လဆန်း (၁၂)ရက်နေ့၊ မဟာတိဂုမ္ဘစေတီတော်ကြီး တွင် လျှပ်စစ်ဓာတ်မီးများကို ဂိုဏ်းအုပ်ဆရာတော်ဘုရား ဦးအာသဘကိုယ်တော်တိုင် ဖွင့်လှစ်သည့်အတွက် ဗောဓိသင်္ဂြာရ အသင်းသားများက ဆက်ကပ်လှူဒါန်းပါသည်။

ကျမ်းကိုး၊ ယင်းစာ-၉

ပါဠိ-အဋ္ဌကထာ-ဋီကာ ကျမ်းအစောင်စောင် ပြုစုရေးသားတော်မူကြသော အဂ္ဂမဟာ ပဏ္ဍိတ မိုးညှင်းမြို့၊ ဝေဇယန္တာကျောင်းဆရာတော်ကြီး ဦးနာဂိန္ဒ၊ အဂ္ဂမဟာပဏ္ဍိတ ရန်ကုန် မြို့ မဟာအောင်မြေဘုံစံကျောင်း ဆရာတော်ကြီး ဦးစန္ဒိမာ၊ အဂ္ဂမဟာပဏ္ဍိတ ရန်ကုန်မြို့ ဒုတိယ ငါးထပ်ကြီးဆရာတော်ကြီး ဦးဇဋိလစသော တံဆိပ်တော်ရ ဆရာတော်ကြီးများနှင့် ရွှေတိဂုံစေတီတော် ဘဏ္ဍာတော်ထိန်းအဖွဲ့ ပွဲစားကြီးဆာဖိုးသာ၊ ရွှေတိဂုံစေတီတော် ဘဏ္ဍာ တော်ထိန်း သမာဓိမြို့ဝန်မင်းဦးနေဒွန်း၊ ရွှေတိဂုံစေတီတော် ဘဏ္ဍာတော်ထိန်း သမာဓိ မြို့ဝန်မင်း ဦးဘိုးအောင်၊ ဇာတ်ဆရာကြီး ဦးဘိုးစိန်၏ဆရာ ဦးဘိုးထွန်း၊ ရဲဝန်ကြီး ဦးဘိုနီ စသော ပုဂ္ဂိုလ်ကြီးများမှာ ဆရာတော်ကြီးဦးအာသဘ၏ တပည့်ကြီးများ ဖြစ်ကြလေသည်။

ကျမ်းကိုး၊ ယင်းစာ-၁၀

http://www.dhammadownload.com



အေဒီ ၁၉၀၀ ရာဇမဏိစူဠာကောင်းမှုတော်စေတီတော်ကြီး ဒါယကာ သာလွန်မင်းတရားကြီး၏ သားတော်ဖြစ်သော မင်းရဲရန္တမိတ် တည်ထားကိုးကွယ်ခဲ့သော စစ်ကိုင်းမြို့ ငါးထပ်ကြီး ဘုရားရုပ်ပွားတော်ကြီး၏ပုံတော်ကို မှိုင်ငြိမ်းပြု၍ ဘုရားဒါယကာကြီးဦးဘိုးအောင်သည် ပန်းရံဆရာကြီး ဆရာညက်ကိုခေါ်ဆောင်လျက် စစ်ကိုင်းမြို့သို့သွားရောက်ကာ ကြည့်ရှုလေ့လာပြီး ရန်ကုန်မြို့ မိမိ၏ဆရာ ဆရာတော်ကြီး ဦးအာသဘ၏ အရာမ်အရှေ့တောရ တောအုပ်ကြီးအတွင်း၌ မြန်မာသက္ကရာဇ် (၁၂၆၂) ခုနှစ်ကစ၍ တည်ထားကိုးကွယ်ပါသည်။ ထိုစစ်ကိုင်း ငါးထပ်ကြီးဘုရား၏ ရုပ်ပွားတော်ကြီး၏ပုံတော်ကို မှိုင်ငြိမ်းပြု တည်ထားသည့်အတွက်ကြောင့် ငါးထပ်ကြီးဘုရားဟုပင် ခေါ်ကြလေသည်။ ငါးထပ်ကြီးဘုရား၏သိတင်းသုံးရာ မူလပထမ ဂန္ဓကုဋီ ကျောင်းတော်ကြီးမှာ ဘုံငါးဆင့်ရှိပါသည်။ ထိုစဉ်အခါက မြန်မာပြည်တွင် စစ်ကိုင်း ငါးထပ်ကြီးဘုရားမှလွဲ၍ အင်္ဂတေဖြင့်ပြုလုပ်သော ဆင်းတုဘုရားများတွင် ရန်ကုန်မြို့ ငါးထပ်ကြီး ဘုရားဆင်းတုတော်သည် အကြီးဆုံးဖြစ်လေသည်။

ကျမ်းကိုး၊ ယင်းစာ-၁၁

မြင်ကွန်းမင်းသားကြီးသည် အဆွေခင်ပွန်း သူငယ်ချင်းဖြစ်သူ ဆရာတော်ကြီး ဦးအာသဘ ထံကန်တော့ပြီး ဤနေရာတောအုပ်မှ အင်ဒိုချိုင်းနားသို့ သွားရောက်ကြောင်းနှင့် ထိုမြင်ကွန်းမင်းသားကြီး၏ အနွယ်များက ဤနေရာတွင် လွမ်းစေတီကို တည်ထားကြောင်း ဆရာစဉ်ဆက် တစ်ဆင့်စကား ကြားခဲ့ရဖူးသည်။

ကျမ်းကိုး၊ ယင်းစာ-၁၈

အေဒီ ၁၉၂၀ ထိုဆရာတော်ဘုရားကြီး အိုမင်းရင့်ရော် ဖြစ်တော်မူသောအခါ မြေးတပည့်ရင်းဖြစ်သူ "အဂ္ဂမဟာပဏ္ဍိတ" ဒုတိယငါးထပ်ကြီး ဆရာတော် ဦးဇဋိလအား မိမိထမ်းဆောင်ခဲ့သော သာသနာ့ဝန်များကို ပျံလွန်တော်မမူမီ ဆယ်နှစ်တာမျှ တွဲဖက်ထမ်းဆောင်စေလျက် မြန်မာသက္ကရာဇ် (၁၂၈၂) ခုနှစ်မှစ၍ အဘိုးဖြစ်သူ ပထမအဂ္ဂမဟာပဏ္ဍိတဘွဲ့ တံဆိပ်တော်ရ ဟံသာဝတီ ဂိုဏ်းအုပ်ဆရာတော်ကြီး၏တာဝန်အဝဝကို စောင့်ရှောက် ထိန်းသိမ်း ထမ်းဆောင်တော်မူလေသည်။

ကျမ်းကိုး၊ ငါးထပ်ကြီးဘုရားသမိုင်း၊ ရန်ကုန်မြို့ ငါးထပ်ကြီးဘုရားစောင့်ရှောက်ကြသော သံဃာတော်များရှာဖွေတင်ပြ၍ ငါးထပ်ကြီးဆရာတော် ဦးဇာဂရ အတည်ပြုသည့်စာ၊ ဟံသာဝတီပုံနှိပ်တိုက်၊ ပထမအကြိမ်၊ ၁၉၇၇ ခုနှစ်၊ ဒီဇင်ဘာလ ။

http://www.dhammadownload.com



နှတ်များကိုယ်တိုင် အသက်ရှည် နှတ်ဆေးဆက်သတော်မူခြင်းခံရသော

# ရေစကြိုဆရာတော် ဘဒ္ဒန္တဂန္ဓသာရ

## (၁၈၃၃ – ၁၉၁၄)

သက်တော်ရှည် ဆရာတော်များကို လေ့လာ မှတ်တမ်းတင်ရာတွင် သက်တော်ရှည်ရုံသာမက ဖြစ်ရပ်ဆန်းများရှိသော ပုဂ္ဂိုလ်ထူးများကိုလည်း ဗုဒ္ဓဘာသာ မြန်မာလူမျိုးတို့ အထူးစိတ်ဝင်စားကြောင်း လေ့လာတွေ့ရှိရပါသည်။ ထိုစာရင်းတွင် သာမန်အားဖြင့် ရေစကြိုဆရာတော်ဟု ခေါ်ကြသော ရဟန်းထူးကို တွေ့ရှိရရာ အဘယ်သို့သော ပုဂ္ဂိုလ်နည်းဟု လေ့လာမှတ်တမ်းတင်ခဲ့ရပါသည်။

မဟာဝိသုတာရာမတိုက်တော်ကြီးကို တည်ထောင်သူ ဆရာတော် ဘဒ္ဒန္တဂန္ဓသာရမထေရ်ကြီး၏ သီလဂုဏ်သတင်းသည် ဗုဒ္ဓသာသနာ တည်တံ့သည်အထိ ပျံ့မွှေးထုံနေမည်သာ ဖြစ်ပါသည်။ ဆရာတော် ဘဒ္ဒန္တဂန္ဓသာရသည် ရေစကြိုဆရာတော်ဘုရားကြီးဟုလည်း ထင်ရှားကျော်စောတော်မူပါသည်။

ကျမ်းကိုး။ နန္ဒာမင်းဇံ-ပခုက္ကူ ရောင်ပြန် စာ-၄၅

ဆရာတော်ဘုရားကြီးအား မင်းတုန်းမင်းကြီးနှင့် မိဖုရားခေါင်ကြီးတို့က ဘွဲ့တံဆိပ် ဆက်ကပ်လှူဒါန်းပါသော်လည်း ဆရာတော်ကြီးသည် ဘွဲ့တံဆိပ်တော် ဆက်ကပ်ခြင်းကို လက်ခံတော်မမူဘဲ ဆွမ်းကွမ်းဝတ်ကိုသာ ခွင့်ပြုတော်မူခဲ့သော ဆရာတော်ကြီး ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းစာ-၄၅

အေဒီ ၁၈၆၀ — ရေစကြိုဆရာတော်ဘုရားကြီးသည် မြန်မာသက္ကရာဇ် (၁၂၂၂) ခုနှစ်မှ စ၍ (၁၆) နှစ်လုံးလုံး အရှေ့ပြင်တိုက် တော်၌ စာပေပို့ချလျက် မြန်မာသက္ကရာဇ် (၁၂၃၈) ခုနှစ် ရောက်တော်မူစဉ် မိဖုရားခေါင်ကြီး အနိစ္စရောက်ခြင်း၊ ရတနာပုံနေပြည်တော်၌ နေလိုစိတ်ကုန်တော်မူခြင်းတို့ကြောင့် ဇာတိရပ်ရွာ ရေစကြိုမြို့သို့ ပြန်ကြွတော်မူပါသည်။

ကျမ်းကိုး၊ ယင်းစာ-၄၆

အေဒီ ၁၈၉၆ — ဆရာတော်ကြီးသည် မြန်မာသက္ကရာဇ် (၁၂၅၈) ခုနှစ်တွင် ရေစကြိုမှ ပခုက္ကူမြို့သို့ ကြွရောက်တော်မူပြီး ပခုက္ကူစာချနည်းဟု ဥဒါန်းတွင်လောက်အောင် သာသနာပြုတော်မူပါသည်။

ကျမ်းကိုး၊ ယင်းစာ-၄၆

အေဒီ ၁၉၀၄ — ပခုက္ကူမြို့ ပန်းစွာတိုက်၌ စတင်သီတင်းသုံးပြီး မြန်မာသက္ကရာဇ် (၁၂၆၆) ခုနှစ်၊ ဒုတိယဝါဆိုလဆန်း (၈) ရက်နေ့တွင် ရဟန်းသံဃာတော် တပည့်များနှင့် ယခုလက်ရှိ အလယ်တိုက်တော်ကြီးသို့ ကြွရောက် သီတင်းသုံးလျက် စာပေများ ပို့ချတော်မူပါသည်။

ကျမ်းကိုး၊ ယင်းစာ-၄၆

http://www.dhammadownload.com



အေဒီ ၁၉၁၄ ရေစကြို ဆရာတော်ဘုရားကြီးသည် သက္ကရာဇ် (၁၂၇၆) ခုနှစ်၊ သီတင်းကျွတ်လပြည့်ကျော် (၂) ရက်နေ့ တွင် ဘဝနတ်ထံ ပျံလွန်တော်မူသည်။

အေဒီ ၁၉၁၄ ဆရာတော်ကြီးသည် သက်တော် (၈၂) နှစ်အရွယ်တွင် ပျံလွန်တော်မူ၍ ဆရာတော်ကြီးအား လာရောက် ဝတ်ပြုပူဇော်သော ဝိဇ္ဇာမိုရ်ကြီး ဆက်ကပ်သော ဆားသတ္တု ဝိဇ္ဇာမယပြာဆေးကို အသုံးပြုတော် မမူခဲ့ပါ။ ဆရာတော်ကြီးသည် ဘဝနိယာမအတိုင်း သာသနာအကျိုးကို စွမ်းစွမ်းတမံ ဆောင်ရွက်ပျိုးထောင်ခဲ့ပြီး နတ်ပြည် နတ်ရွာသို့ ကြွမြန်းတော်မူခဲ့ပါသည်ဟု သိရှိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၄၈

သို့သော်လည်း ဆရာတော်ကြီး သုံးဆောင်တော်မမူခဲ့စေကာမူ ဝိဇ္ဇာမိုရ်ဆက်ကပ်သောဆေးကို ကူးယူရရှိသဖြင့် ပုဂ္ဂိုလ်ထူးနှင့်အတူ ဆေးထူး၊ ဆေးမြတ်ကိုလည်း မှတ်တမ်းတင်သင့်သည်ဟု ယူဆ၍ မှတ်တမ်းတင်ရပါသည်။

ဝိဇ္ဇာမိုရ်က ယင်းဆေးကို 'ဆားသတ္တု ဝိဇ္ဇာမယပြာလမ်းဆေး' ဟု ခေါ်တွင်ကြောင်း၊ အင်းကိုမူ 'ဂုဏ်တော်ကိုးပါးအင်း' (သို့) 'ဘုရားကိုးဆူအင်း' 'သမ္ဗုဒ္ဓေအင်း' ဟုခေါ်တွင်ပါကြောင်း၊ ရိုသေစွာ လျှောက်ထားလျက် ဆရာတော် ဘုရားကြီး၏ ရှေ့တော်မှောက်မှ ပျောက်ကွယ်သွားပါသည်ဟု တွေ့ရှိရပါသည်။

ထူးဆန်းသော ကိစ္စမှာ စဉ်းစားနိုင်သူတို့ စဉ်းစားရန် မှတ်သားထားခဲ့ပါသည်။ ထို့အချက်ကား အခြားမဟုတ်ပါ။ဝိဇ္ဇာမိုရ်ကြီးသည် နောက်ထပ်ဖော်စပ်စီရင်နိုင်စေရန် ဆေးဖော်စပ်နည်း၊ အင်းစီရင်နည်းများ၊ ကျောင်းအနီးရှိ ငှက်ပျောပင်မှ ငှက်ပျောရွက်ပေါ်တွင် သွတနခိုးက္ကဒ္ဒိပါဒ်ဖြင့် အက္ခရာတင်ထားခဲ့ပါသည်ဟု သိရှိရခြင်းဖြစ်ပါသည်။ သိသူဖော်စား မသိသူကျော်သွားဟု ယူဆ၍ ထိုနည်းမှာ အောက်ပါအတိုင်းဖြစ်၏ဟု ဖော်ပြအပ်ပါသည်။

**(၁) ပထမဆားသတ္တု**

ဆားလင်းဆား (၁၀) ကျပ်သား၊ ဇာတိဖိုလ်သီး (၁၀) ကျပ်သား၊ ငှင်းနှစ်ပါးကို သံပုရာရည် (၃၀) ကျပ်သားနှင့် ရောကြိတ်ပြီး နေသွေ့အောင်လှန်း၊ လုံသွင်းဖော်သုံးထပ်မံ ဖွဲငါးတင်းနှင့်ချ၍ ဖုတ် အလိုချမ်းစေ အေးမှခွဲယူ ပထမပြာဖြစ်သော်။

**(၂) ဒုတိယဆားသတ္တု**

ပထမပြာတွင် ကနခို (၁၀) ကျပ်သား၊ ရေနံချေး (၁၀) ကျပ်သား ငှင်းနှစ်ပါးပေါင်း ရောကြိတ် နေသွေ့အောင်လှန်း လုံသွင်းဖော်သုံးထပ်မံ ဖွဲငါးတင်းနှင့် ကျင်းချ၍ ဖုတ်၊ အလိုချမ်းစေ အေးမှခွဲယူ ဒုတိယပြာဖြစ်သော်။

**(၃) တတိယဆားသတ္တု (နောက်ဆုံးဆားသတ္တု)**

ဒုတိယသတ္တုပြာတွင် မဟာကာကြံဆစ် (၁၀) ကျပ်သား၊ ရေနံချေး (၁၀) ကျပ်သားနှင့် ရောကြိတ် နေသွေ့အောင်လှန်း၊ လုံသွင်းဖော်သုံးထပ်မံ ဖွဲငါးတင်းနှင့် ကျင်းချ၍ ဖုတ်၊ အလိုချမ်းစေ၊ အေးမှ ခွဲယူ နောက်ဆုံးပြာ ဖြစ်သော်။

ငှက်ပျောရွက်ပေါ်တွင် ရေးခဲ့သော ထူးဆန်းသော စာအရ သောက်သုံးနည်းနှင့် အကျိုးဆက်မှာ အောက်ပါအတိုင်း ဖြစ်၏ဟု သိရှိရပါသည်။

http://www.dhammadownload.com



နောက်ဆုံးရရှိသော ပြာ (၅) မတ်သားကို သံပုရာရည် (၁) ပိသာတွင် ထည့်၍ နံနက်တစ်ဇွန်း၊ ညတစ်ဇွန်းသောက်၊ ၎င်းဆေးကုန်လျှင် (၉၆) ပါးရောဂါ ကင်း၏။ ကင်းရုံမက အသက်ရာထောင်ရှည်ပြီး အမြဲအစဉ် (၁၆) နှစ်သားကဲ့သို့ အရွယ်တင် နုပျိုလိမ့်မည်ဟု ဆိုပါသည်။ ရေစကြိုဆရာတော်ကြီးနှင့် ဝိဇ္ဇာဓိုရ်တွေ့ဆုံပုံ၊ ဆေးတော်ဆက်ကပ်ပုံ၊ အင်းတော်ဆက်ကပ်ပုံတို့ကိုလည်း ဆရာတော် ဦးဂန္ဓမာကပင် မှတ်တမ်းတင်ခဲ့၍ နောက်လူတို့ မှတ်သားသိရှိရခြင်းဖြစ်ပါသည်။ ကျမ်းကိုး။ ကျေးဇူးရှင်ရေစကြိုဆရာတော်ဘုရားကြီး ဘဒ္ဒန္တဂန္ဓသာရ မထေရ်၏ ဖြစ်တော်စဉ် အကျဉ်းချုပ်ကျောက်စာ၊ ပစ္စက္ခူစာချနည်း မီးရှူးတန်ဆောင် သယ်ကြအောင် ဘဒ္ဒန္တပဏ္ဍိတာဘိဝံသ၊ အရှင်ဂန္ဓမာ မထေရ်၏ မဟာထေရပဋ္ဋိကြိဋ္ဌိတ၊ အရှင် ကေလာသ၊ ဝိဇ္ဇာဓိုရ်ပူဇော်မှုကိုခံယူတော်မူရသော ရေစကြိုဆရာတော်ကြီး ပင်လုံခွန်-ပစ္စက္ခူနိကာယ စာစောင်။ ရဟန်းခံသိမ်သမုတ်မှုလွဲ၍ သာမူနာမူ ဆွမ်းစားမလိုက်ဘဲ ပရိယတ္တိစာပေကိုသာ အစဉ်မပြတ်ပို့ချခဲ့သည်။ အထူးသဖြင့် ပစ္စက္ခူစာချနည်းကို စတင်သူအဖြစ် ထင်ရှားသည်။ ရဟန်းလောကတွင် ပစ္စက္ခူမရောက်သေးလျှင် စာမတတ်သေးဟု ဆိုရိုးပြုကြသည်။ ကျမ်းကိုး။ ပစ္စက္ခူနိကာယနှင့် ပစ္စက္ခူစာချနည်းစတင်သူ၊ ရေစကြိုဆရာတော်ရှင်ဂန္ဓသာရ၊ မောင်ဇေယျာ၊ သူရဿမဂ္ဂဇင်း၊ အတွဲ(၄)၊ အမှတ်(၇)၊ ၂၀၀၄ ခုနှစ်၊ ဇူလိုင်လ၊ စာ-၂၉။

အေဒီ ၁၈၃၃ ခရစ်နှစ် (၁၈၃၃) မတ် (၁၈) တနင်္လာနေ့တွင် ပခုက္ကူခရိုင်၊ မြိုင်မြို့နယ်၊ ညောင်ပင်သာရွာ၌ ဖွားသည်။ အဖဦးလူပု၊ အမိ ဒေါ်မင်းခဲ ဖြစ်သည်။ မွေးချင်း (၇)ယောက်တွင် အငယ်ဆုံးဖြစ်၍ ဇာတာအမည် မောင်ကြည်လင်၊ အမည်ရင်း မောင်ဖိုးထပ် ဖြစ်သည်။ ဖခင်ဘက်မှ အဘိုးမှာ ယောမြို့ဝန် ဦးနိုး ဖြစ်သည်။

ကျမ်းကိုး။ ယင်းစာ-၂၉

အေဒီ ၁၈၄၄ ခရစ်နှစ် (၁၈၄၄) မှ (၁၈၄၈) တိုင်၊ အလယ်ကန်ရွာ၊ မင်္ဂလာကျောင်းဆရာတော် ခင်ကြီးသိုင်းထံ ပညာသင်သည်။
ခရစ်နှစ် (၁၈၄၈) တွင် မင်္ဂလာကျောင်း ဆရာတော်ထံ၌ ရှင်သာမဏေ ပြုသည်။ ရှင်ဘွဲ့ ဂန္ဓသာရ ဖြစ်သည်။

အေဒီ ၁၈၄၉ ခရစ်နှစ် (၁၈၄၉) တွင် ရှင်သာမဏေဝတ်ဖြင့် ဖျာသီးရွာ၊ ဇေယျာဘုံသာကျောင်းဆရာတော် အရှင်အာစာရထံ ပိဋကတ်စာပေများ သင်သည်။

အေဒီ ၁၈၅၃ ခရစ်နှစ် (၁၈၅၃) ခုနှစ်တွင် ဗန်ကျီးတိုက်နယ်တရားမြို့၊ စမွာယ်ရုံကျောင်း၊ ခဏ္ဍာသိမ်၌ ရဟန်း ပြုသည်။

ကျမ်းကိုး။ ယင်းစာ-၂၉

အေဒီ ၁၈၅၈ ခရစ်နှစ် (၁၈၅၈) တွင် ရေစကြိုမြို့၊ အောင်မြေသာယာကျောင်းတိုက် ရှင်ဝရသမ္ဘောဓိထံ ပိဋကတ် ပါဠိ အဋ္ဌကထာ ဋီကာများ သင်ယူသည်။ မန္တလေးအရှေ့ပြင် မဟာဝိသုတာရာမတိုက် သာသနာပိုင် ဆရာတော်အရှင်ညေးယျထံ ထိုဝါဖြင့် စာပေသင်ယူခွင့်ရရာ သာသနာပိုင် ဆရာတော်က "ဂန္ဓသာရမည်သော ငါ၏တပည့်သားသည် ပစ္စည်းလေးပါးကို မငဲ့ညှာမူ၍ ပရိတ်ရွတ် ဆွမ်းစဉ် အလှူခံမလိုက်ဘဲ နိကာယ်ငါးဖြာ စာဝါပို့ချ၍ ဗုဒ္ဓမြတ်စွာ သာသနာတော်ကို စောင့်ရှောက်လိမ့်မည်" ဟု အားရဝမ်းသာ ချီးမွမ်းခြင်း ခံရသည်။

ကျမ်းကိုး။ ယင်းစာ- ၉

http://www.dhammadownload.com



အေဒီ ၁၈၆၆ — ခရစ်နှစ် (၁၈၆၆) ဇန်နဝါရီ (၂၇) တွင် နတ်ရဲတောင် သာသနာပိုင် ဆရာတော်ဟုလည်း ထင်ရှားသော ဒုတိယမောင်းထောင်ဆရာတော် ရှင်ဉေးယျ ပျံလွန်တော်မူသည်။ သာသနာပိုင်ဆရာတော် ရှင်ဉေးယျ ပျံလွန်တော်မူပြီးနောက် သာသနာပိုင် သီတင်းသုံးရာ တိုက်တော်ကို ပရက္ကမဆရာတော်ကို လွှဲပြောင်းပေးခြင်းနှင့် ပတ်သက်၍ ရှင်ဂန္ထသာရသည် -

"ကေသရာဇာ ခြင်္သေ့မင်း အောင်းသော ရွှေဂူ၌ သိင်္ဂါလ မြေခွေးဝင်၍ အောင်းလေဘိ" ဟု မိန့်ဆိုရှုတ်ချခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ-၃၀

အေဒီ ၁၈၇၈ — ထို့နောက် မန္တလေးမြို့၊ မြောက်ပြင် သစ်ဆိမ့်ကျောင်းတိုက် ရာဇဂုရု ဘွဲ့တံဆိပ်တော် နှစ်တန်ရ သစ်ဆိမ့်ဆရာတော် ရှင်ပညာသီဟထံ ပြောင်းရွှေ့စာချသည်။ မင်းတုန်းမင်းနှင့် မိဖုရားခေါင်ကြီးတို့က ကျောင်းဆောက်လှူဒါန်းသည်။ ခရစ်နှစ် (၁၈၇၈) အောက်တိုဘာလ (၁) တွင် မင်းတုန်းမင်း နတ်ရွာစံ၍ သားတော် သီပေါမင်းနန်းတက်ရာ တိုင်းရေးပြည်ရာ ရှုပ်ထွေးလာသည်။

ကျမ်းကိုး၊ ယင်းစာ-၃၀

အေဒီ ၁၈၇၉ — ထို့ကြောင့် နောက်တစ်နှစ် ခရစ်နှစ် (၁၈၇၉)တွင် နောက်ပါရဟန်းသံဃာတော်များနှင့် အတူ မန္တလေး ရေစကြိုမြို့သို့ ကြွရောက်သည်။ ရေစကြိုမြို့ဝန်က ရေစကြိုဆရာတော် ရှင်ဝရသမ္ဘောဓိ သီတင်းသုံးခဲ့ရာ အောင်မြေသာယာကျောင်းတိုက်တွင် ကျောင်းသစ် ဆောက်လုပ် ကိုးကွယ်သည်။

ကျမ်းကိုး၊ ယင်းစာ-၃၀

အေဒီ ၁၈၉၆ — ခရစ်နှစ် (၁၈၇၉) မှ (၁၈၉၆) ခုနှစ်ထိ (၁၇)နှစ်တိုင်တိုင် အောင်မြေသာယာကျောင်း တိုက်၌ တစ်နေ့လျှင် နေ့စာဝါ (၆) ကြိမ် ညစာဝါ (၂) ကြိမ်ပို့ချသည်။ ရဟန်းခံ သိမ်သမုတ်မှုလွဲ၍ သာမှု၊ နာမှု ဆွမ်းစားမလိုက်ဘဲ ပရိယတ္တိစာပေကိုသာ အစဉ်မပြတ် ပို့ချခဲ့ရာ တပည့် ရဟန်းသံဃာ (၄၀၀) ခန့်အထိ တိုးပွားလာသည်။

အေဒီ ၁၉၁၂ — အရှင်ဂန္ထသာရ၏ ပရိယတ္တိစာပေဂုဏ်ရည်ကြောင့် ခရစ်နှစ် (၁၉၁၂) တွင် တောင်ခွင် သာသနာပိုင် ဆရာတော်မှတစ်ဆင့် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော် ဆက်ကပ်ရန် လျှောက်ထားမှုကို ငြင်းပယ်ခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ-၃၀

အေဒီ ၁၉၁၄ — ခရစ်နှစ် (၁၉၁၄)၊ အောက်တိုဘာ (၄)၊ တနင်္ဂနွေနေ့နေ့လယ် (၂)နာရီတွင် ရေစကြို ဆရာတော် ရှင်ဂန္ထသာရသည် ပခုက္ကူ မဟာဝိသုတာရာမတိုက်၌ တစ်ဘဝတစ်ခန္ဓာ ချုပ်ငြိမ်းခဲ့ပါသည်။

ထူးခြားသောအချက်မှာ အရပ်စကားနှင့်ပြောရလျှင် သေမည့်နေ့မှာပင်လျှင် မသေခင်အချိန် အထိ စာပို့ချသွားသည်ဟူသော အချက်ဖြစ်ပါသည်။ ထိုအချက်သည် အလွန်ထူးပါ၏။

အေဒီ ၁၉၁၄ — မပျံလွန်မီ နေ့လယ် (၁၂) နာရီတွင် ဝိနည်းမဟာဝါ ပါဠိတော်ကို အဋ္ဌကထာနှင့်တွဲ၍ပို့ချ ခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းစာ-၃၀

http://www.dhammadownload.com



ကျမ်းကိုး၊ ပခုက္ကူနိကာယနှင့် ပခုက္ကူစာချနည်း စတင်သူ၊ ရေစကြိုဆရာတော် ရှင်ဂန္ဓသာရ၊ မောင်ဇေယျာ၊ သူရဋ္ဌမဂ္ဂဇင်း အတွဲ(၄) အမှတ်(၇) ၂၀၀၄ ခုနှစ်၊ ဇူလိုင်လ၊ စာ ၂၉။

ကျမ်းကိုး။ ရေစကြို ဆရာတော်ကြီးနှင့် ဝိဇ္ဇာဓိုရ်တွေ့ဆုံပုံ၊ ဆေးတော်ဆက်ကပ်ပုံ၊ အင်းတော်ဆက်ကပ်ပုံတို့ကိုလည်း ဆရာတော်ဦးဂန္ဓမာကပင် မှတ်တမ်းတင်ခဲ့၍ နောက်လူတို့ မှတ်သားသိရှိရခြင်း ဖြစ်ပါသည်။

ကျမ်းကိုး။ ကျေးဇူးရှင်ရေစကြိုဆရာတော်ဘုရားကြီး ဘဒ္ဒန္တဂန္ဓသာရမထေရ်၏ ဖြစ်တော်စဉ်အကျဉ်းချုပ်ကျောက်စာ၊ ပခုက္ကူစာချနည်း မီးရှူးတန်ဆောင်သယ်ကြအောင် ဘဒ္ဒန္တပဏ္ဍိတာဘိဝံသ၊ အရှင်ဂန္ဓမာမထေရ်၏ မဟာထေရဝိတ္ထိဋ္ဌိတ၊ အရှင်ကေလာသ၊ ဝိဇ္ဇာဓိုရ် ပူဇော်မှုကို ခံယူတော်မူရသော ရေစကြိုဆရာတော်ကြီး ပင်လုံခွန် ပခုက္ကူနိကာယ စာစောင်။

http://www.dhammadownload.com



အရိုးတော် ဓာတ်တော်ကျတော်မူသော

# ရွှေကျင်နိကာယ ဒုတိယသာသနာပိုင် မဟာဝိသုဒ္ဓါရာမ ဆရာတော်ဘုရားကြီး

(၁၈၃၈ – ၁၉၁၆)



http://www.dhammadownload.com



ရဟန္တာနှင့် ရဟန်းထူးများအကြောင်း လေ့လာရာတွင် ဤကျမ်းကို ပြုစုသူ ဘဝင်မကျသော အချက်တစ်ချက်မှာ အလွန့်အလွန် ကြည်ညိုဖွယ်ရာဖြစ်သော မဟာဝိသုဒ္ဓါရာမ ဆရာတော်ဘုရားကြီးအကြောင်းကို ထေရုပ္ပတ္တိအနေဖြင့် အကျော်တစောရှိသော်လည်း ရဟန္တာနှင့် ရဟန်းထူးများအကြောင်း လေ့လာကြသူများသည် ထိုဆရာတော်ကြီးကို ကျော်လွှားသွားကြသည်။ ချွင်းချန်သယောင်ယောင် ရှိကြသည်။ ဤအချက်သည် ဤကျမ်းပြုသူ ဘဝင်မကျသောအချက်ဖြစ်သည်။ ထို့ကြောင့် မှန်ဘီလူးတပ်၍ အသေးစိတ်ဖတ်ရှုရာတွင် တစ်ခုသော နေရာ၌ အရိုးတော်ဓာတ်ဟူသော စကားထူးတစ်လုံးကိုတွေ့ရှိရသဖြင့် ထခုန်မတတ် ဝမ်းသာပြီးလျှင် ရှေးသရောအခါက ရဟန်းပုဂ္ဂိုလ်များသည် အကျော်တစောဖြစ်မှုကို လိုလားတော်မမူဘဲ တတ်နိုင်သမျှ သိုဝှက်တတ်သော ဂုဏ်ထူးတစ်ရပ်ကို ကြည်ညိုဖွယ်ရာ သတိထားမိခဲ့ပါသည်။

အေဒီ ၁၉၁၆ မြန်မာသက္ကရာဇ် (၁၂၇၈) ခုနှစ်၊ ဝါဆိုလဆန်း (၈) ရက်နေ့ နံနက် (၇) နာရီ (၁၀) မိနစ်အချိန်တွင် ကမ္ဘဇရုပ်ချုပ်ငြိမ်း ဘဝဟောင်းကို ရုပ်သိမ်းတော်မူလေတော့သည်။ မြန်မာသက္ကရာဇ် (၁၂၇၈) ခုနှစ် တပေါင်းလဆန်း (၁၂) ရက်မှ စ၍လပြည့်နေ့အပြီး သဂြိုဟ်လိုက်ကြသည်။

ကျမ်းကိုး၊ ယင်းစာ-၂၀၂

သဂြိုဟ်တော်မူရာတွင် အရိုးတော်ဓာတ် ဟူသော စကားလေးတစ်ခွန်းကို အသေအချာတွေ့ရှိရပါသည်။ လျှို့ဝှက် သိပ်သည်းတော်မူတတ်သော ရှေးဆရာ့ ဆရာများ၏ အစဉ်အလာအတိုင်း ပင်လျှင် ဆရာတော်ကြီးသည်လည်း မိမိဘယ်အဆင့်ရောက်သည်ကို ဖွင့်ဟပြောဆိုဖို့ ဝေးစွ။ အရိပ်အယောင်မျှပင် ပြောဆိုမှုမရှိခဲ့ချေ။ ဤကျမ်းပြုစုသူသည် မှန်ဘီလူးဖြင့် ရှာသောကြောင့် အရိုးတော်ဓာတ်ကို ရှာဖွေတွေ့ရှိရခြင်း ဖြစ်သဖြင့် အများမသိသေးသော (ဝါ) အများမရိပ်မိသေးသော အချက်တစ်ချက်ကို ဖော်ထုတ်ခြင်းသည် အရိုးတော်ဓာတ်ကို ပူဇော်ရာရောက်သဖြင့် ကောင်းစွာ ကျေနပ်မိပါသည်။ အောက်ပါစာကို ဖတ်ကြည့်ပါ။ အထင်အရှား တွေ့ရပါလိမ့်မည်။

မဟာဝိသုဒ္ဓါရာမ ဆရာတော်ဘုရားကြီး၏ ဥတုဇရုပ်ကလာပ်တော်ကို ခေတ်အားလျော်စွာ ဓာတ်ခဲဖြင့် မီးသဂြိုဟ်ပြီးနောက် အရိုးတော်ဓာတ်ကို ကောင်းမွန်စွာကောက်ယူကြပြီးလျှင် အရှေ့ပြင် မဟာဝိသုဒ္ဓါရာမတိုက်၏ အရှေ့ဘက်၌ စေတီအိမ်ပြုလုပ်တည်ထား၍ ပူဇော်ကြသည်။

ကျမ်းကိုး၊ ရွှေကျင်နိကာယ သာသနာဝင်၊ စာ-၁၆၄

မဟာဝိသုဒ္ဓါရာမ ဆရာတော်ဘုရားကြီးဆိုလျှင် မြန်မာနိုင်ငံတော်သာသနာဝင်၌ ရွှေကျင်ဆရာတော်ဘုရားကြီးမှတစ်ပါး ရွှေကျင်နိကာယသာသနာပိုင် ဆရာတော်ဘုရားကြီးဖြစ်သည့်ပြင် ပရိယတ်ပဋိပတ်ပါဠိသက္ကတ စွယ်စုံပညာရှိ ဆရာတော်ဘုရားကြီး ဖြစ်သည့်ဖြစ်တော်မူသောကြောင့် သကပရနိကာယ သံဃာတို့မကြားဖူး၊ မသိဖူးသူမရှိ၊ သီဟိုဠ်၊ ယိုးဒယားစသော တိုင်းတစ်ပါးသို့တိုင် ထင်ရှားကျော်စောတော်မူသော ဆရာတော်ဘုရားကြီး ဖြစ်တော်မူသည်။

ကျမ်းကိုး၊ ရွှေကျင်နိကာယ သာသနာဝင်၊ စာ-၁၆၄

မဟာဝိသုဒ္ဓါရာမ ဆရာတော်ဘုရားကြီးမှာမူကား အဘက်ဘက်ကပင် နိုင်နင်းသိမြင်သော ကံထူး၊ ဉာဏ်ထူးရှိတော်မူသော ဆရာတော်ဘုရားကြီး ဖြစ်တော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၁၆၄

http://www.dhammadownload.com



အေဒီ ၁၈၃၈ မြန်မာသက္ကရာဇ် (၁၂၀၀) ပြည့်နှစ် ဝါဆိုလဆန်း (၁၃) ရက် ညဥ့် (၃) ချက်တီးကျော် ဗုဒ္ဓဟူးနေ့သို့အဝင် အချိန်ကောင်း၌ ရွှေဘိုမြို့ တောင်ဘက်ခရီး ခုနစ်မိုင်ကွာ ဝက်လက်အရှေ့ စမွန်းရွာတွင် ဖွားမြင်တော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၁၆၆

မဟာဝိသုဒ္ဓါရာမ ဆရာတော်ဘုရားကြီး၏ အမိအဘတို့သည် ထိုအရပ်ဒေသ၌ လယ်ယာမိုးမြေ ရွှေငွေရတနာ တို့ဖြင့် ပြည့်စုံသည်ဖြစ်၍ မဟာကုလ သူဌေးသူကြွယ်မျိုး ဖြစ်ကုန်၏။ အမိအဘ တို့၌ ငွေသားချိန် တစ်သောင်းရှစ်ထောင်အပြင် ပုတီးနားဋောင်း လက်ကောက်လက်စွပ် လည်ရွဲ တန်ဆာ အစရှိသော အလင်္ကာရ (ခေါ်) အတွင်းပစ္စည်းတို့လည်း အမြောက်အမြား ရှိကြ၏။ ရွာနှစ်ရွာ သုံးရွာသားတို့ကို အငှားချထားနိုင်အောင် လယ်ယာမြေလည်း ပြည့်စုံပေါ်များကြ၏။ ကျွဲ နွား မြင်းတို့ဖြင့်လည်း ပြည့်စုံကြ၏။ မိဘဘိုးဘွားတို့လက်ထက်မှ ဆင်းသက်လာသော အိမ်ထောင်စုကျေးကျွန် (၂၅) အိမ်ထောင်ရှိ၍ လူဦးရေတစ်ရာကျော်ရှိလေသည်။ ဆရာတော် ဘုရားကြီးသည် ဤကဲ့သို့သော မိဘတို့အထံ၌ သက်ရောက်ထွန်းပေါ်တော်မူခဲ့ပေသည်။

ကျမ်းကိုး၊ ယင်းစာ-၁၆၆

ဆရာတော်ဘုရားကြီး၌ အစ်ကိုကြီးတစ်ယောက်သာ ရှိသည်။ မယ်တော်မှာ ဆရာတော်ကြီး ရဟန်းသိက္ခာ (၁၂) ဝါရတော်မူမှ ကွယ်လွန်သည်။ သတို့သား အသက်ရှစ်နှစ်ရှိသောအခါ စမွန်းရွာ မဟာရုံကျောင်းတိုက် အရှင်ဣန္ဒမဟာထေရ်ထံ၌ အဘဒါယကာကြီးက ကျောင်းအပ် မင်္ဂလာပြု၍ ပညာစတင်သင်ကြားရလေသည်။

ထိုအချိန်ကား မြန်မာနိုင်ငံတော်၌ ပဉ္စမသင်္ဂါယနာ မဟာသမိတိဒါယကာ မင်းတုန်းမင်းတရားကြီး၏ နောင်တော် "သီရိသုဓမ္မ တိလောက မဟာရာဇာဓိရာဇာ" ဘွဲ့တံဆိပ်တော်ရှိသော ပုဂံမင်း စိုးစံတော်မူခိုက်ဖြစ်သည်။

ကျမ်းကိုး၊ ယင်းစာ-၁၆၇

အေဒီ ၁၈၅၁ သတို့သားငယ်အသက် (၁၃) နှစ်ရှိသောအခါ ဘုရားရှင်၏ သားတော် ရှင်သာမဏေ အဖြစ်သို့ ချီးမြှောက် ပို့ဆောင်ကြသည်။

ကျမ်းကိုး၊ ယင်းစာ-၁၆၇

အေဒီ ၁၈၅၆ အရှင်ဣန္ဒမထေရ်ထံ၌ ကျောင်းသားအဖြစ်ဖြင့် (၅) နှစ် ရှင်သာမဏေအဖြစ်ဖြင့် (၄) နှစ်နေကာ စာပေပညာကို ထက်သန်တက်ကြွစွာ အားထုတ်သင်ယူခဲ့ပြီးနောက် အသက် (၁၇) နှစ်အရွယ် ရှင်သာမဏေအဖြစ်နှင့်ပင် ရွှေကျင်ဆရာတော်ဘုရားကြီးထံသို့ ရောက်လေသည်။

ကျမ်းကိုး၊ ယင်းစာ-၁၆၈

အေဒီ ၁၈၅၇ ရွှေကျင်ဆရာတော်ဘုရားကြီး ခြေရင်းတော်၌ပင် ဓူရနှစ်ပါးကို ဆောင်၍လာခဲ့ရာ မြန်မာ သက္ကရာဇ် (၁၂၁၉) ခုနှစ် သီတင်းကျွတ်လပြည့်နေ့တွင် စမွန်းရွာအရှေ့အနီး သရိုင်ရွာ ခဏ္ဍသိမ်တော်၌ ရွှေကျင်ဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် ဥပဇ္ဈာယ်ဆရာတော်အဖြစ် ချီးမြှောက်တော်မူ၍ ဥပသမ္ပဒကံဆောင်ခြင်းဖြင့် ရှင်ဝိသုဒ္ဓါစာရသည် ဦးဝိသုဒ္ဓါစာရဟူသော ရဟန်းမြတ်အဖြစ်သို့ ရောက်တော်မူလေသည်။

ကျမ်းကိုး၊ ယင်းစာ-၁၆၈

ရဟန်းအဖြစ်သို့ ရောက်သည်မှစ၍ ဝိနည်းပိဋကဆိုင်ရာ ပါဠိအဋ္ဌကထာတို့ကို ဂန္ထဓုရနှင့်တကွ လေ့လာသင်ကြားတော်မူရာ ရဟန်းတစ်ဝါရလျှင်ပင် တိပိဋကဝိဒူ ဖြစ်တော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၁၆၈

http://www.dhammadownload.com



အခါခပ်သိမ်း နံနက် အရုဏ်မတက်မီ အိပ်ရာမှ ထတော်မူပြီးသကာလ နိသဇ္ဇိစုတင်၊ ရံခါ ရုက္ခမူစုတင်၊ ရံခါ အဗ္ဘောကာသိကစုတင်တို့ကို ဆောက်တည်လေ့ရှိသည်။

ကျမ်းကိုး၊ ယင်းစာ-၁၆၈

နေလွဲကွမ်းစား ဆေးဝါးဆေးသောက်မှုအလျင်းမရှိ၊ အချင်းခပ်သိမ်း ရှောင်ကြဉ်တော်မူသည်၊ စတုမဓုစသော ဆေးပစ္စည်းများကိုပင် အကြောင်းမရှိဘဲ သုံးဆောင်တော်မမူချေ။

ကျမ်းကိုး၊ ယင်းစာ-၁၆၉

မြို့ရွာအတွင်း လှုပ်ရှားသွားသော မီးရထား၊ မီးသင်္ဘောတို့ဖြင့် ရံခါခရီးကြွတော်မူသည့်အခါ သဟ သေယျသိက္ခာပုဒ်တော်ကို စောင့်ထိန်းတော်မူသောအားဖြင့်လည်း လျောင်း၍ ကျိန်းစက်တော်မ မူဘဲ နိသဇ္ဇိစုတင်ဖြင့်သာ သီတင်းသုံးလေ့ရှိတော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၁၆၉

အရှင်ဝိသုဒ္ဓါစာရသည် ဒုတိယမြောက်ဝါတွင် ရွှေဘိုနယ် ဆီသည်ရွာဆရာတော် အရှင် ဥေယျထံ၌ ဝါကပ်တော်မူသည်။ အရှင်ဥေယျဟူသည် သီးလုံးဆရာတော်ဘုရားကြီး၏ တပည့် ရင်းတစ်ပါး ဖြစ်သည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၀

အရှင်ဝိသုဒ္ဓါစာရသည် တတိယမြောက်ဝါတွင် မန္တလေးမြို့ မဟာဓမ္မိကာရာမ ရွှေကျင်တိုက် ရွှေကျင် ဆရာတော်ဘုရားကြီးထံပါး၌ ဝါကပ်သီတင်းသုံးတော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၀

ဝိဇ္ဇာဓိုရ်မည်သော ဓာတုကထာချီးလင်္ကာကျမ်းကို ရဟန်းငယ်အဖြစ်ဖြင့် ရေးသားတော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၀

အေဒီ ၁၈၈၃ — အရှင်ဝိသုဒ္ဓါစာရသည် ပဥ္စမဝါတွင် အင်းဝမြို့သက်ယယ်ကျင်းတိုက် ဂိုဏ်းထောက်ဆရာတော် ထံပါး၌ ဝါကပ်၍ "ဝိနယဓမ္မဝိနိစ္ဆယ" များကိုလည်း ရေးသားဆုံးဖြတ်မှုကို ပြုတော်မူသည်။ ရဟန်းသိက္ခာ (၇) ဝါအရတွင် ပုဂ္ဂိုလ်များ လက်သုံးတစ်ဆူအနေဖြင့် ဂရုပြုကာ သုံးစွဲလျက်ရှိ သည်ဖြစ်၍ ကျော်ကြားသောကျမ်းစာကြီးဖြစ်သည်။ ထိုကျမ်းစာကို မြန်မာသက္ကရာဇ် (၁၂၄၅) ခုနှစ်၌ ပြီးစီးအောင် ရေးသားတော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၁

အေဒီ ၁၈၉၉ — မြန်မာသက္ကရာဇ် (၁၂၆၁) ခုနှစ်၌ သီဟိုဠ်ကျွန်း ကိုလံဘိုမြို့ မဟာဝိသုဒ္ဓါရာမကျောင်းတိုက် ဆရာတော် သီဟိုဠ်ဇာတိ အရှင်သီရိဓမ္မထေရ်သည် ပရမတ္ထသရူပဘေဒနီကျမ်းကြီးကို ပထမ၊ ဒုတိယ၊ တတိယ တွဲဟု (၃) တွဲ ပိုင်းခြားကာ သီဟိုဠ်ဘာသာသို့ ပြန်ဆို၍ သီဟိုဠ်ကျွန်းသို့ ပို့ဆောင်လိုက်သည်။ ဤကျမ်းကို အခြေပြု၍ သီဟိုဠ်သံဃာများ အဘိဓမ္မာပိဋကတ်ကို လေ့လာကြရပေသည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၂

သို့ဖြစ်၍ ပရမတ္ထသရူပဘေဒနီကျမ်းသည် မြန်မာနိုင်ငံတော်တွင်သာမက သီဟိုဠ်နိုင်ငံတော် တိုင်အောင် ထင်ရှားကျော်ကြားသော ကျမ်းစာကြီး ဖြစ်သည်။ ပရမတ္ထသရူပဘေဒနီကျမ်းကပင် အရှင်ဝိသုဒ္ဓါစာရသည် အဘိဓမ္မာပိဋကတ်ဘက်၌ ကျမ်းကျင်လိမ္မာတော်မူသော ပါရဂူကြီးဖြစ် တော်မူသည်ကို သာဓကအဖြစ် သက်သေခံပြလျက်ရှိပေသည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၂

ထိုပရမတ္ထရူပဘေဒနီကျမ်းကို တောက်လျှောက် တစ်ဆက်တည်းရေးသည်မဟုတ်၍ စာချရင်း

http://www.dhammadownload.com



အားလပ်သော အချိန်တို့၌ ဖြည်းဖြည်းသာရေးတော်မူသည်။ ရံခါလည်း နှစ်ကာလများစွာ ပင်ပြတ်လျက်ရှိသည်။ သို့ကြောင့် အရှင်ဝိသုဒ္ဓါ စာရ ရဟန်းသိက္ခာ (၇) ဝါရပြီးသောအခါက စ၍ ရေးခဲ့ရာ (၂၆) ဝါရရှိမှ အစအဆုံး ပြီးဆုံးသည်။ (၁၈) နှစ်လုံးလုံးကြာသည်ဟုသိရသည်။ သို့ကြောင့်လည်း ပရမတ္ထအရာ၌ မြန်မာနိုင်ငံတော်တွင် အပြည့်စုံဆုံး၊ အသုံးအဝင်ဆုံး၊ ခရီး အရောက်ဆုံး ကျမ်းကြီးတစ်ကျမ်းအဖြစ်ဖြင့် ထင်ရှားကျော်ကြားလေသည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၂

ဤစာရေးသောဘုန်းကြီး ရဟန်းငယ်စဉ်အခါက ပါဠိဆရာဦးဖြေ(အဂ္ဂမဟာပဏ္ဍိတ) ပြောသည် ကိုကြားသိလိုက်ရဖူးသည်မှာ ရဟန်းတော်များ ရေးသားသောကျမ်းစာသည် ဝတ်ကြောင် ဒကာများရေးသားသော ကျမ်းစာထက် ကောင်းမွန်တတ်သည်။ အကြောင်းမူကား ရဟန်းတော် များသည် လူဝတ်ကြောင်များထက် ပိုမို၍ အချိန်ယူကာ ပြည့်ပြည့်စုံစုံ ရေးနိုင်ကြသောကြောင့် ဟု ဆိုလေသည်။ ပရမတ္ထသရူပဘေဒနီနှင့် မယဒေဝလင်္ကာတို့ကို ရတနာပုံ စာပုံနှိပ်တိုက်၌ ပထမ အကြိမ်စာအုပ်အဖြစ် ရိုက်နှိပ်သည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၃

အရှင်ဝိသုဒ္ဓါစာရသည် သတ္တမဝါမှစ၍ ဒွါဒသမမြောက်ဝါတိုင်အောင် မဟာဓမ္မိကာရာမ ရွှေကျောင်တိုက်၌ သီတင်းသုံးကာ စာပေပို့ချရင်း ကျမ်းစာလည်း ရေးတော်မူသည်။ ပရမတ္ထသရူ ဘေဒနီကျမ်းနောက်၌ "နိက္ခမ္မဇ္ဈာသယ"ကျမ်းကို ရေးတော်မူသည်။ မိမိကိုယ်တိုင် တောထွက် လိုသောကြောင့် နိက္ခမ္မဇ္ဈာသယရှိတော်မူသည်ဖြစ်၍ အခြားသူတို့ကိုလည်း တောထွက်ရန် သင့်တော်ကြောင်းဖြင့် တိုက်တွန်းသောကျမ်း ဖြစ်သည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၃

ထို့နောက် "မုစ္စနက်ပကာသနီ"ကျမ်းကို ရေးတော်မူသည်။ ရဟန်းငယ်များအကျိုးငှာ နိဿရည်း ကင်းလွတ်ခြင်း အကြောင်းအင်္ဂါတို့ကို ပြဆိုသောကျမ်း ဖြစ်သည်။ ထို့နောက် သင်္ကန်း အဓိဋ္ဌာန် တင်ခြင်း အဓိဋ္ဌာန်ချခြင်း စသည်တို့၌ ရဟန်းငယ်များ တတ်သိလိမ္မာစွာ ကျင့်သုံးနိုင်စေရန် "ဝိနယ ကောသလ္လ" မည်သော ကျမ်းကိုရေးတော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၃

ဝိနည်းပါဠိ၊ အဋ္ဌကထာကြီးများကို မလေ့လာမီ ဝိနယကောသလ္လကို ကြည့်ရှုလေ့လာရသဖြင့် အဋ္ဌကထာကြီးများ၌ အဓိပ္ပါယ်လွယ်လင့်တကူ သိမြင်နိုင်ကြောင်းဖြစ်၍ ရဟန်းငယ်တို့ အဖို့ ကျေးဇူးများသောကျမ်းဖြစ်သည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၃

သဒ္ဒါဘက်သို့ လှည့်၍ ဘေဒစိန္တာကျမ်း၌ ပါရှိသော ခက်ရာခက်ဆစ်တို့ကို သုတ်သင်ရှင်းလင်း ပြဆိုရာဖြစ်သော "သဒ္ဒတ္ထဘေဒစိန္တာဂဏ္ဌိ" ကျမ်းကို ရေးတော်မူသည်။ ထို့နောက် "ဉာဏော ဒယ" မည်သော စာစပ်ကျမ်းကို ရေးတော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၃

အရှင်ဝိသုဒ္ဓါစာရထေရ်သည် သက္ကတဘာသာ ဆန္ဒောမဉ္ဇူရီကျမ်းကို မာဂဓဘာသာသို့ ပြန်၍ "ဆန္ဒောမဉ္ဇူရီ" ကျမ်းကိုရေးတော်မူသည်။ ဆန္ဒောမဉ္ဇူရီကျမ်းသည် ဝုတ္တောဒယဆန်းကျမ်း ထက် သိလွယ်မြင်လွယ်သော အစီအစဉ် ရှိပေသည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၃

ဆန္ဒောမဉ္ဇူရီကျမ်း၏ မြန်မာနိဿယကိုလည်း အရှင်ဝိသုဒ္ဓါစာရထေရ်ကိုယ်တော်တိုင်ပင် ရေး

http://www.dhammadownload.com



သားတော်မူသည်။ မြန်မာနိဿယမျှသာ မဟုတ်သေး၊ အလွယ်တကူကျက်ဆောင်နိုင်စေခြင်းငှာ "ဆန္ဒောမဉ္ဇူရီ လင်္ကာ" ဆန်းကဗျာကိုလည်း ရေးတော်မူသေးသည်။ ဆန္ဒောမဉ္ဇူရီဆန်းကျမ်းကို မာဂဓ ပြန်ဆိုရုံမျှ မဟုတ်၊ မြန်မာနိဿယနှင့် လင်္ကာကဗျာတိုင်အောင် ပြန်ဆိုတော် မူနိုင်သော မဟာဝိသုဒ္ဓါရာမဆရာတော် အရှင်ဝိသုဒ္ဓါစာရ၏ သက္ကတဘာသာ၌ တတ်သိလိမ္မာ တော်မူသော အရည်အချင်းကို ပညာရှိသူတို့ ချိန်ဆနိုင်ပေလိမ့်မည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၄

ဆန္ဒောမဉ္ဇူရီကျမ်း၏ အဖွင့်ဋီကာကျမ်းကို အရှင်ဝိသုဒ္ဓါစာရ၏ တပည့် ပဲခူးမြို့ ရွှေအောင်ရွှေဆရာတော် အရှင်ဉာဏိန္ဒ ရေးသားတော်မူသည်။ အရှင်ဝိသုဒ္ဓါစာရ ကိုယ်တိုင်သာ မာဂဓ၊ သက္ကတဘာသာတို့ကို ကျွမ်းကျင်နိုင်နင်းသည် မဟုတ်။ တပည့်တို့သည်လည်း တတ်မြောက်လိမ္မာကြသည်မှာ အရှင်ဉာဏိန္ဒထေရ်ဖြင့် ထင်ရှားပေသည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၅

အေဒီ ၁၈၈၈ မြန်မာသက္ကရာဇ် (၁၂၅၀) ပြည့်နှစ်၌ "ဓာတွတ္ထသင်္ဂဟ" (ခေါ်) ဓာတ်ကျမ်းကိုစီရင်ရေးသားတော်မူသည်။ မြန်မာနိုင်ငံတော်တွင် ယခင်ကရှိနှင့်သော သဒ္ဒနီတိ ဓာတုမာလာကျမ်း၊ ပြည်ဆရာတော်၏ ဓာတုမာလာကျမ်း၊ သင်္ဂဇာဆရာတော်၏ ဓာတွတ္ထဒီပက၊ မြတောင်ဆရာတော်၏ဓာတ်ကျမ်း စသည်ဖြင့်ရှိသည်တို့တွင် သဒ္ဒနီတိဓာတုမာလာသည် အထူးကောင်းသည်ဟု ပညာရှိကြီးများ ချီးမွမ်းကြသည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၅

ဓာတွတ္ထသင်္ဂဟကျမ်းကို ဆောင်လွယ်စေရန်ချောမောပြေပြစ်သော ဂါထာတို့ဖြင့် စီကုံးရေးသားခြင်း၊ မြန်မာဋီကာဖြစ်သော အနက်အဓိပ္ပါယ်ကိုလည်း နိဿယနှင့်တကွ ရေးသားတော်မူခြင်း စသောဂုဏ်တို့ကြောင့် သဒ္ဒါဝါဒ ပညာရှိအများ နှစ်သက်ချီးမွမ်းအပ်သောဓာတ်ကျမ်းဖြစ်သည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၅

အေဒီ ၁၈၈၅ မြန်မာသက္ကရာဇ် ၁၂၄၇ ခုနှစ်၌ "နေတ္တိဟာရတ္ထဒီပနီသစ်"ကျမ်းကို ရေးသားတော်မူသည်။ ရှေးဆရာကြီးများ ရေးသားအပ်သော နေတ္တိအကောက်ကျမ်းများရှိလင့်စေကာမူ ထိုကျမ်းတို့သည် ကျယ်ဝန်း၍ အကောက်အယူမလွယ်ကူကြကုန်။ နေတ္တိဟာရတ္ထဒီပနီသစ်မှာကား ကျဉ်းကျဉ်းရှင်းရှင်းနှင့် ဆောင်လွယ်သိလွယ်သောကျမ်းဖြစ်ပေသည်။ မြန်မာသက္ကရာဇ် (၁၂၆၄) ခုနှစ် "ဆိဒ္ဓပိဓာနနီ" ကျမ်းကြီး ကို ရေးသားတော်မူသည်။ ထိုကျမ်းကြီးသည် ဆိုဒ်ကြီးနှင့် စာမျက်နှာ (၄၄၀) ရှိသည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၆

အေဒီ ၁၉၀၄ မြန်မာသက္ကရာဇ် (၁၂၆၆) ခုနှစ်၌ "ဝိသုဒ္ဓါရုံသုတ်နက်"ဟူ၍ အများသိ၍ ထင်ရှားသော ကစ္စည်း သဒ္ဒါကျမ်းသုတ်နက်ကို အဓိပ္ပါယ်အဆုံးအဖြတ်နှင့်တကွ စာချစာသင်ပုဂ္ဂိုလ်များအတွက် ရေးသားတော်မူသည်။ ထိုသုတ်နတ်ကျမ်းသည် မြန်မာနိုင်ငံတော်၌ ယနေ့တိုင်ထင်ရှား၍ အသုံးများ အရာရောက်သော သဒ္ဒါကျမ်းတစ်စောင်ဖြစ်သည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၆

အေဒီ ၁၈၉၂ မြန်မာသက္ကရာဇ် (၁၂၅၄) ခုနှစ်၌ ပုသိမ်မြို့သို့ သိမသမ္မုတိကံဆောင်ရန်ကြွတော်မူရာစက်တော်ရာသို့ ဝင်ရောက်ဖူးမြော်ခိုက် "ပါဒစက္ကစေတိယဝဏ္ဏနာကျမ်း၊ ဆဗ္ဗဏ္ဏရံသိဝဏ္ဏကျမ်း"တို့ကို ရေးသားတော် မူ၍ "သံဝဏ္ဏနာဆက္ကကျမ်း၊ ပရိဝါသဝိနိစ္ဆယကျမ်း၊ သံဝါသဒီပနီကျမ်း" တို့ကိုလည်း ရေးသားတော်မူပြန်သည်။ ကိုယ်ရည်သွေးပြ ကျမ်းစာတွေ မဟုတ်သော်

http://www.dhammadownload.com



လည်း အရှင် ဝိသုဒ္ဓါစာရထေရ် ၏ ဂုဏ်ပုဒ်တို့သည် အလိုအလျောက် ပွင့်ထွန်းလျက်ရှိကြကုန်၏။

ကျမ်းကိုး၊ ယင်းစာ-၁၇၇

အေဒီ ၁၈၇၀ အရှင်ဝိသုဒ္ဓါစာရ သက်တော် (၃၂) နှစ်၊ ရဟန်းသိက္ခာဝါတော် (၁၂) ဝါရောက်လျှင် ခမည်းတော် ဒကာကြီး ကွယ်လွန်လေသည်။ မယ်တော်ကားအရှင်ဝိသုဒ္ဓါစာရ (၃) နှစ်သားကပင် ကွယ်လွန်ရှာသည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၈

ခမည်းတော်ကြီးကွယ်လွန်သောအခါ အရပ်ရပ်ကြွင်းကျန်ရစ်သော ရွှေငွေလယ်ယာခြံမြေ ကျွန်ဗွားမှစ၍ ပစ္စည်းပရိဘောဂအများအပြားတို့၌ တစ်စုံတစ်ရာ တွယ်တာကပ်ငြိတပ်မက်လိုချင်မှု မရှိဘဲ နောင်တော်ကြီး၏သားသမီးတို့ကိုသာလျှင် ရှိမဲ့ချက်ကုန် အလုံးစုံသော ထာဝရ ဇင်္ဂမနှစ်ဝသော တွင်းပြင်ပစ္စည်းတို့ကို အငဲ့အကွက်မရှိ ရက်ရက်ရောရော ပေးစွန့်တော်မူ လိုက်လေသည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၈

မိမိသည်မူကား ခမည်းတော်မယ်တော်များလက်ထက်က ကြွေးမြီအတွက်နှင့် ကိုယ်ကိုပေါင်နှံ၍ ကျေးကျွန်ဖြစ်ရာကြသောလူတို့ကို မိမိ၏အမွေအဖြစ်ထား၍ ၎င်းတို့ကို ကျေးကျွန်အဖြစ်မှ လွှတ်တော်မူသည်။ မိမိတို့ကိုယ်ကို မိမိတို့အလိုအတိုင်း လုပ်ကိုင်စားသောက် အသက်မွေးမြူနိုင်ကြအောင် ချမ်းသာခွင့်ပေးတော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၈

ထို့ပြင်လည်း ခမည်းတော်လက်ထက်က အရပ်ရပ်ရှိလူတို့အား ပေးကမ်းချေးငှားထားအပ်သော ကြွေးစာရင်းတို့ကိုလည်း အားလုံးဖျက်သိမ်းတော်မူ၍ ကြွေးယူသုံးစားသူတို့အား ကြွေးမြီမှ လွတ်ကင်းချမ်းသာစေတော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၈

အရှင်ဝိသုဒ္ဓါစာရထေရ်သည် မဟာဗိုလ်ဆရာတော်ဘုရားကြီးထံသို့လည်း ရံခါရံခါသွားရောက် ဆည်းကပ်တော်မူလေ့ရှိသည်။ ဝါဆိုနေသည်ဟူ၍ကားမရှိပေ။ မဟာဗိုလ်ဆရာတော်ဘုရားကြီးသည်လည်း သီးလုံးဆရာတော်ဘုရားကြီး၏ တပည့်ပင်ဖြစ်သည်။ သိက္ခာကာမအရာ၌ အလွန်ထင်ရှားသော ဆရာတော်ကြီးဖြစ်သည်။ ရွှေဘိုနယ် မဟာဗိုလ်မည်သော တောအုပ်၌ သီတင်းသုံးတော်မူသည်။ မဟာဗိုလ်တောအုပ်သည် ဝက်လက်မြို့အနောက်ဘက်၌ ရှိသည်ဟု ယူဆရာသည်။ အကြောင်းကား ဝက်လက်အနောက်နယ်၌ ယခုတိုင် မဟာဗိုလ်ဂိုဏ်းအမည်ဖြင့် သံဃဂိုဏ်းတစ်ဂိုဏ်းရှိသောကြောင့် ဖြစ်၏။

ကျမ်းကိုး၊ ယင်းစာ-၁၇၉

ပဉ္စမသင်္ဂါယနာတင် မင်းတရားကြီးသည် မဟာဗိုလ်ဆရာတော်ဘုရားကြီး၏ ဂုဏ်သတင်းကို ကြားသိကြည်ညို၍ ရွှေမြို့တော်သို့ပင့်ကာ ကိုးကွယ်တော်မူသည်။ "ပဒုမာဘိဇေသဒ္ဓမ္မဝံသ အတုလဓိပတိမဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်တော်လျှ၍ မြို့တော်အရှေ့ပြင် ဆင်ဖြူမရှင်၏ ကုသိုလ်တော်မဟာဝိသုဒ္ဓါရာမတိုက်ကြီးကို လှူတော်မူသည်။ မြောက်ပြင်ယောမင်း အုတ်ကျောင်းကြီးကိုလည်း လှူတော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၉

တော၌သာလျှင်မွေ့လျော်တော်မူသော မဟာဗိုလ်ဆရာတော်ဘုရားကြီးသည် မြို့တော်၌

http://www.dhammadownload.com



ကြာရှည် သီတင်းသုံးတော်မမူဘဲ မဟာဗိုလ်တောရသို့သာ ပြန်ကြွတော်မူသည်။ မဟာဗိုလ်ဆရာတော်ကြီးနှင့် ရွှေကျင်ဆရာတော်ဘုရားကြီးသည် ဆရာတူတပည့် သပြဟွစာရီ အယူဝါဒ ညီသော ဆရာတော်ကြီးများ ဖြစ်တော်မူကြသည်။

အေဒီ ၁၈၇၀ — အရှင်ဝိသုဒ္ဓါစာရထေရ်သည် (၁၂) ဝါ ရသည်တိုင်အောင် ရွှေကျင်တိုက်မ၌ နေတော်မူ၍ ရေဝတီမြစ်ညာ ရေလင်မော်ရွာနှင့် ငါးပတ်ချောင်းရွာနှစ်ခုတို့၏အကြား သစ္စာရစေတီတော်ကြီးအနီး ဒေါင်းလည်ချောင်တောရသို့ ထွက်တော်မူ၍ တေရသမပြောက် ဝါကပ်တော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၉

အေဒီ ၁၈၇၈ — ဒေါင်းလည်ချောင်တောရသို့မကြွမီ "ဒေါင်းမေတ္တာစာ"ကိုရေးတော်မူ၍ ယင်းတောရ၌သီတင်းသုံးစဉ် ဒေါင်း မေတ္တာစာ၏အဖွင့် "ဒေါင်းဋီကာ"ကိုလည်း ရေးတော်မူသည်။ သက္ကရာဇ်အားဖြင့် (၁၂၃၂) ခုနှစ် ဖြစ်သည်။ ထိုဒေါင်းဋီကာကို မင်းတုန်းမင်းထံသို့ ဆက်သွင်းစေသည်။

ကျမ်းကိုး၊ ယင်းစာ-၁၇၉

ဒေါင်းမေတ္တာစာကို ရေးသား ဆက်သွင်းစေခြင်းအကြောင်းမှာ ထိုအချိန်က နေပြည်တော်စက်ရုံမှ ဒေါင်းတံဆိပ် ခပ်နှိပ်သော ငွေဒင်္ဂါးများကို သွန်းလုပ်စေ၍ နိုင်ငံတော်အဝန်း သုံးစွဲကြကုန်၏။ မင်းတရားကြီးသည် မြို့တော်ရှိ ဆရာတော်သံဃာတော်တို့အား ဆွမ်းဆန်ဟင်းလျာသက်နိုး စသောပစ္စည်းများကို ထောက်ပံ့လှူဒါန်းတော်မူလျက်ရှိ၏။ မင်းမှုထမ်းတို့သည် ဆွမ်းဆန်တော်၊ ဆီစသည်တို့ကို ဝယ်ယူပို့ဆောင်လှူဒါန်းရသည်ကို ဝန်လေးကြသဖြင့် ပေါ့ပါးလွယ်ကူစေရန် ဆွမ်းဆန်စသည်အတွက် အကပ္ပိယဖြစ်သော ဒေါင်းဒင်္ဂါးများကို တန်ဖိုးညှိ၍ လွှဲအပ်လှူဒါန်းကြကုန်၏။

ကျမ်းကိုး၊ ယင်းစာ-၁၈၀

ဒေါင်းဒင်္ဂါးတို့ကိုလှူဒါန်းခြင်းကြောင့် သံဃာတော်များ၌ သီလတော်ညစ်ထေး၍ သာသနာတော်ရောင်မှေးမှိန် ဆုတ်ယုတ်အံ့သော အရေးကို လျစ်လျူရှုနေခြင်းငှာ မသင့်၊ မင်းတရားကို သတိပေးဆုံးမထိုက်သည်ဟု ယူဆသဖြင့် ဒေါင်းမေတ္တာစာကို ရေးသားဆက်သွင်းခြင်း ဖြစ်၏။ အဓိပ္ပါယ် ပိုမိုရှင်းလင်းစေရန် ဒေါင်းဋီကာကိုလည်း[၁] ဆက်လက်၍ ရေးသားဆက်သွင်းတော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၁၈၀

၁ - ဤဒေါင်းဋီကာရှိနှင့်ပြီးဖြစ်၍ သခင်ကိုယ်တော်မှိုင်း(ဆရာကြီးဦးလွန်း)၏ ဒေါင်းဋီကာသည် ဒေါင်းဋီကာသစ်ဟု အမည်တွင်သည် အကြောင်းခံပုံခြင်းကား တစ်မျိုးစီဖြစ်သည်။

ကျမ်းကိုး၊ ယင်းစာ-၁၈၀

အေဒီ ၁၈၇၂ — အရှင်ဝိသုဒ္ဓါစာရထေရ်သည် ဒေါင်းမေတ္တာစာ၊ ဒေါင်းဋီကာတို့ကို ရေးတော်မူပြီးနောက် (၁၄) ခု မြောက်ဝါတွင် ကျောက်မြောင်းမြို့အပိုင် ရွှေခွန်တောရ၌ ဝါကပ်တော်မူသည်။ ထိုနှစ်ဝါပတ်လုံး ကေစာရီသီတင်းသုံးတော်မူ၍ အာရညိကစုတင် စသည်ကိုလည်း ဆောင်တော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၁၈၀

အေဒီ ၁၈၇၆ — အလယ်နန်းမိဖုရားသည် သတ္တမမြောက်ကုန်းဘောင်မင်းဆက်ရတနာပူရ စတုတ္ထမြို့နန်းတည်ဘကြီးတော်မင်းတရား၏ မိဖုရားခေါင်ကြီးတွင် မြင်သောသမီးတော်တည်း၊ မင်းတုန်းမင်းတရားကြီး၏ မိဖုရားခေါင် တောင်နန်းမတော်ကြီး မြန်မာသက္ကရာဇ် (၁၂၃၈) ခုနှစ်တန်ဆောင်မုန်းလ၌ စုတိပြီးနောက် ဤအလယ်နန်းမိဖုရားသည်ပင် အဂ္ဂမဟေသီမိဖုရားခေါင်ကြီးအဖြစ်သို့ရောက်လေသည်။ သီပေါမင်း၏ မိဖုရားခေါင်ကြီး "သီရိပဝရ မဟာရာဇိန္ဒာဘိ

http://www.dhammadownload.com



သုဓမ္မရတနာစန္ဒီဒေဝီ" ၏ မယ်တော်ဖြစ်သတည်း။ ထိုမိဖုရားကြီးကို ဆင်ဖြူမရှင်ဟု ခေါ်ဝေါ် ပြောဆိုကြသည်။ ထားဝယ် မြို့ကဆက်သသော "သီရိမဟာသုဘဒ္ဒါရတနာ"အမည်ရှိသော ဆင်ဖြူတော်မကို မင်းတုန်းမင်း တရားကြီးက ချီးမြှောက်သနားတော်မူ၍ "ဆင်ဖြူမရှင်"ဟုတွင်သည်။

ကျမ်းကိုး၊ ယင်းစာ-၁၈၁

ဆင်ဖြူမရှင်မိဖုရားကြီးသည် ဆောက်လုပ်အပ်သော အလယ်ကျောင်းတော်ကြီးအတွက် ရွှေငွေ ရတနာများစွာတို့ကို အကုန်ကျခံကာ မည်သည့်ကျောင်းတိုက်၌မှ မရှိသေးသော ပတ်ဝန်းကျင် ရေကျုံး၊ ထောင့်တို့၌ရေကန်၊ အမြင့် ငါးတောင်ရှိသော အုတ်တံတိုင်းတို့ဖြင့် အလွန်တင့်တယ် ခမ်းနားကြီးကျယ်လှသော မဟာဝိသုဒ္ဓါရာမကျောင်းတိုက်ကြီးကို တည်ဆောက်တော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၁၈၁

အေဒီ ၁၈၇၂ မဟာဝိသုဒ္ဓါရာမတိုက်ကြီး ပြီးစီးသောအခါ မဟာဗိုလ်ဆရာတော်ဘုရားကြီးမှာလည်း တောရ ကျောင်းသို့သာ ပြန်ကြွတော်မူလိုသည်ဖြစ်၍ မင်း,မိဖုရားနှစ်ပါးတို့သည် ရွှေခွန်တောရ၌ သီတင်းသုံးနေသော အရှင်ဝိသုဒ္ဓါစာရကို ပင့်၍ မင်းတရားကြီးကိုယ်တိုင် ထွက်တော်မူကြီး ထွက်မူ၍ မိဖုရားကြီးနှင့်တကွ မြန်မာသက္ကရာဇ် (၁၂၃၄) ခုနှစ်၊ ကဆုန်လ၌ ရေစက်သွန်းချ ကာ တင်လှူတော်မူသည်။ ထိုကျောင်းလွှတ်ပူဇော်ပွဲ၌ ရွှေကျင်ဆရာတော်ဘုရားကြီး မဟာဗိုလ် ဆရာတော်ဘုရားကြီးတို့သည် အကြီးအမှူးဖြစ်တော်မူကြသည်။

ကျမ်းကိုး၊ ယင်းစာ-၁၈၁

အေဒီ ၁၉၀၁ အရှင်ဝိသုဒ္ဓါစာရထေရ်သည် မဟာဝိသုဒ္ဓါရာမတိုက်တော်ကြီးကို အလှူခံယူပြီးလျှင် မြန်မာ သက္ကရာဇ် (၁၂၃၄) ခုနှစ်မှ စ၍ မြန်မာသက္ကရာဇ် (၁၂၆၃) ခုနှစ်တိုင်အောင် (၂၉) ဝါပတ်လုံး အမြဲသီတင်းသုံးတော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၁၈၂

အေဒီ ၁၈၇၃ သိက္ခာဝါတော် (၁၆) ဝါအရ မြန်မာသက္ကရာဇ် (၁၂၃၅) ခုနှစ်၌ ဆရာတော်၏ အရည်အချင်း အားလျော်စွာ "ဝိသုဒ္ဓါစာရ ကဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ကို ဆက်ကပ် တော်မူသည်၊ ထိုအချိန်ကာလမှစ၍ ဘွဲ့တံဆိပ်တော်ရ "ရာဇာ ဂုရုမဟာဝိသုဒ္ဓါရာမိကဆရာ တော်"အဖြစ် သို့ ရောက်တော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၁၈၂

ထေရုပ္ပတ္တိနိဿယဆရာ လယ်တီပဏ္ဍိတသည်လည်း မဟာဝိသုဒ္ဓါရာမဆရာတော်ဘုရားကြီး၏ အန္တေဝါသိက တပည့်ကြီးတစ်ဦးဖြစ်ပေသည်။ မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးကို အမှီပြု ရ၍ သက္ကတဘာသာ၌ တတ်မြောက်ရသည်ဟု ထေရုပ္ပတ္တိနိဿယ၌ လယ်တီပဏ္ဍိတ ကိုယ်တိုင် ရေးသားဖော်ပြခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ-၁၈၃

မဟာဝိသုဒ္ဓါရာမတိုက်ရှိ သံဃာတော်များသည် ဆွမ်းမခံရ၊ ဆွမ်းကိစ္စအတွက် ပင်ပန်းဆင်းရဲမှု မရှိကြရဘဲ ဓူရနှစ်ပါးကိုသာ အချိန်ရရ အားထုတ်တော်မူကြရသည်။

ကျမ်းကိုး၊ ယင်းစာ-၁၈၃

အေဒီ ၁၈၈၄ မဟာဝိသုဒ္ဓါရာမဆရာတော်ဘုရားသည် သီပေါမင်းတရားလက်ထက် သက္ကရာဇ် (၁၂၄၆) ခုနှစ် တော်သလင်းလ၊ သိက္ခာဝါတော် (၂၇) ဝါမြောက်၌ သီပေါမင်းကပ်လှူသော "ဝိသုဒ္ဓါစာရာ

http://www.dhammadownload.com



ဘိဓဇပတိပဝရမဟာဓမ္မရာဇာဓိရာဇဂုရု" ဟူသော တံဆိပ်တော်ကိုလည်း ဒုတိယအကြိမ်အလှူ ခံယူတော်မူရသည်။

ကျမ်းကိုး၊ ယင်းစာ-၁၈၄

"ဝိမုတ္တိရသကျမ်း" ကာယာနုပဿနာကျမ်း၊ ဥတုဘောဇနသင်္ဂဟကျမ်း၊ မဟာသုဇာတက ဗေဒင်ကျမ်း၊ သုဇောဓလင်္ကာရအလင်္ကာကျမ်း၏ မြန်မာနိဿယကျမ်း၊ သဒ္ဒသင်္ဂဟဇ္ဈာ ကရုဏ်းကျမ်း" တို့ကို ရေးသားစီရင်ခဲ့သည့် ယောမင်းကြီးဆောက်လုပ်သော အုတ်ကျောင်းတော် ကြီးကို အလှူခံရပြန်သည်။

ကျမ်းကိုး၊ ယင်းစာ-၁၈၆

ယောမင်းကြီးသည် မန္တလေးမြို့တော် မြောက်ပြင်၌ အုတ်ကျောင်းတော်ကြီးကို ဆောက်လုပ်ပြီး လျှင် မင်းတရားကြီး ညွှန်ကြားတော်မူ၍ မဟာဗိုလ်ဆရာတော်ဘုရားကြီးအား တင်လှူသည်။ မဟာဗိုလ်ဆရာတော်ဘုရားကြီး ညွှန်ကြားတော်မူ၍ မဟာဝိသုဒ္ဓါရာမ ဆရာတော်အား တစ်ဖန် တင်လှူခြင်း ဖြစ်သည်။

ကျမ်းကိုး၊ ယင်းစာ-၁၈၆

ရန်ကုန်မြို့၊ ကျိုက္ကဆံစေတီတော်ကြီးအနီး အနောက်ဘက်မျက်နှာ၌ ပုဇွန်တောင်ကျောင်း ဒါယကာ ဦးရွှေဘ၊ ကိုစိုးမောင်၊ ဦးရွှေကို၊ ပွဲစားကြီးဦးထွန်းမြတ်၊ ကိုရွှေဆင် စသောဒါယကာ တို့သည် ကျိုက္ကဆံကျောင်းတိုက်ကြီးကို တည်ဆောက်ကြပြီးလျှင် သီလ၊ ဓုတင်စသော ဂုဏ် သတင်းတို့ဖြင့် ထင်လင်းကျော်ကြားတော်မူသော အရှင်ဦးသီလဆရာတော်အား လှူဒါန်းကြ ကုန်၏။

ကျမ်းကိုး၊ ယင်းစာ-၁၈၈

အေဒီ ၁၉၀၁ ထို့နောက် အရှင်ဦးသီလဆရာတော်၏ နောက်ပါသံဃာများနှင့်တကွ သက္ကရာဇ် (၁၂၆၃) ခုနှစ်၊ ဒုတိယဝါဆိုလ၌ ပင့်လှူသဖြင့် အလှူခံတော်မူ၍ ၎င်းဝါကျိုက္ကစံတိုက်၌ ဝါကပ်တော်မူ သည်။ သံဃာ (၈၀) ခန့်ရှိ၍ ခုရနှစ်ပါးကို အားထုတ်တော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၁၈၈

အေဒီ ၁၉၀၁ မော်လမြိုင်ဘီးလင်းကျွန်းဆရာတော်၊ ပဲခူးကျိုက်ပဒိုင်ဆရာတော်၊ တွံတေးဆရာတော်တို့သည် ဆရာတော် ဘုရားကြီး၏ ကိုယ်စားပြု၍ စာပေပို့ချတော်မူကြသည်။ မုံရွာမြို့ လယ်တီဆရာ တော်ဘုရားကြီး၏ ညွှန်ကြားသော အမိန့်တော်ဖြင့် လယ်တီပဏ္ဍိတ (နောက်ဆရာ ဦးမောင်ကြီး ဖြစ်သည်) သည် သက္ကရာဇ် (၁၂၆၃) ခုနှစ်၊ နတ်တော်လဆန်း (၇) ရက်နေ့ မဟာဝိသုဒ္ဓါရုံ ဆရာတော်ဘုရားကြီးခြေတော်ရင်းသို့ ဝင်ရောက်ခိုလှုံရ၍ သက္ကတစာပေကို လေ့လာ တတ်မြောက်ရသည် ဟူ၏။

ကျမ်းကိုး၊ ယင်းစာ-၁၈၈

သီဟိုဠ်ကျွန်း၌ ပဋ္ဌာန်းကျမ်း (၂၄) ကဏ္ဍာရှိသည့်အနက် နောက်ဆုံးခြောက်ကဏ္ဍာမှာ ကွယ် ပျောက်နေသဖြင့် သီဟိုဠ်ကျွန်းဆရာတော် "သုဝဏ္ဏဇောတျာသဘာသိရိပဝရဓမ္မကိတ္တိ" အရှင် သည် မဟာဝိသုဒ္ဓါရာမ ဆရာတော်ဘုရားကြီးထံ သန္ဒေသကထာနှင့်တကွ သီဟိုဠ်ရဟန်းတော် များကို စေလွှတ်၍ လျှောက်ထားစေသဖြင့် ဆရာတော်ဘုရားကြီးသည် လက်ခံတော်မူကာ သာသနာတော်အကျိုးကို မြော်ကိုးတော်မူ၍ အလိုရှိသော ပဋ္ဌာန်းပါဠိတော်တို့ကို ပေးပို့အပ်နှင်း တော်မူသည်။ ဤအရာ၌ သီဟိုဠ်ကျွန်း၌ ပိဋကတ်တော်အချို့ ပျောက်ပျက်ရပုံမှာ သာသနာ တော်ကို ကြည်ညိုလေးစားသူတို့အနေဖြင့် ဝမ်းနည်းရင်တုန်ဖွယ်ရာပင်ဖြစ်ပေသည်။

ကျမ်းကိုး၊ ယင်းစာ-၁၈၉

http://www.dhammadownload.com



သီဟိုဠ်ကျွန်း၌ သာသနာတော် အားနည်းမှေးမှိန်၍ ပိဋကတ်တော်အချို့လည်း ကွယ်ပျောက်ခဲ့လေသည်။ ပဌာန်းပါဠိတော်နောက်ပိုင်း (၆) ကဏ္ဍမှာ လုံးလုံးပျောက်ဆုံးခြင်းသို့ ရောက်ခြင်းဖြစ်သည်။ မဟာဝိသုဒ္ဓါရာမဆရာတော် ဘုရားကြီးပို့စေတော်မူမှ ပိဋကတ်တော်များ ပြန်လည်ပြည့်စုံလေတော့သည်။

ကျမ်းကိုး၊ ယင်းစာ-၁၉၀

အေဒီ ၁၉၀၂ မြန်မာသက္ကရာဇ် (၁၂၆၄) ခုနှစ်၊ နယုန်လဆန်း၊ (၈) ရက်နေ့ ရန်ကုန်မြို့ ကျိုက္ကစံကျောင်းတိုက်မှ ထွက်ခွာတော်မူပြီးလျှင် မန္တလေးမြို့ အရှေ့ပြင်မဟာဝိသုဒ္ဓါရာမကျောင်းတိုက်၌ ပြန်လည်သီတင်းသုံးတော်မူ၍ (၄၅) ဝါမြောက် ဝါကပ်တော်မူသည်။ ကျိုက္ကစံတိုက်ကြီးကိုကား ပဲခူးကျိုက်ပဒိုင် သိမ်ကုန်းတိုက်ဆရာတော် အရှင်ဥတ္တမအား လွှဲအပ်တော်မူခဲ့သည်။ ထိုအရှင်ဥတ္တမသည် ကျိုက္ကစံဆရာတော်ဟူသောအမည်တော်ဖြင့် ထင်ရှားကျော်ကြားသော ဆရာတော်အဖြစ်သို့ ရောက်လေသည်။

ကျမ်းကိုး၊ ယင်းစာ-၁၉၀

အေဒီ ၁၉၀၃ ရခိုင်တိုင်း၊ ပန်းဝါမြို့သားဇာတိ အိန္ဒိယနိုင်ငံ၊ ကာလကတ္တားမြို့ ချန်ပါတိုလာလမ်း သူဌေးပွဲစားကြီး ချစ်စရှည် အမည်ရှိ ဥပါသကာသည် ဆရာတော်ဘုရားကြီးအား ဖူးမြင်လိုခြင်း၊ တရားဒေသနာတော် ကြားနာလိုခြင်း၊ ပစ္စယဒါယကာပြု၍ သာမဏေတစ်ပါးကို ရဟန်းဘောင်သို့ တင်မြှောက်လိုခြင်းတို့ကြောင့် ဆရာတော်ဘုရားကြီးအား နောက်ပါသံဃာတော်များနှင့်တကွ ပင့်လျှောက်သဖြင့် သက္ကရာဇ် (၁၂၆၅) ခုနှစ်၊ ပြာသိုလဆုတ် (၂) ရက်နေ့ မန္တလေးမြို့မှ ကြွတော်မူသည်။ ပန်းဝါမြို့သို့ရောက်လျှင် စစ်တွေမြို့ဇာတိဖြစ်သော သိရီစန္ဒြမုနိမည်သော သာမဏေကို ရဟန်းပဉ္စင်းအဖြစ်သို့ရောက်စေရန် ဥပသမ္ပဒကံ ဆောင်တော်မူသည်။ ထိုသာမဏေ သီရိစန္ဒြမုနိသည် ဟိန္ဒီဘာသာ၊ သက္ကတဘာသာတို့၌ ပါရဂူရောက်တတ်မြောက်လေသည်။ သိရီစန္ဒြမုနိသည် သက်တော် (၈၀) ကျော် (၉၀) ခန့်ဖြင့် ကျွန်းမာစွာပင် အိန္ဒိယတိုင်း မြတ်စွာဘုရား ပရိနိဗ္ဗာန်ပြုတော်မူရာ ကုသိနာရုံ၌ သီတင်းသုံးတော်မူလျက်ရှိသည်။

ကျမ်းကိုး၊ ယင်းစာ-၁၉၂

အေဒီ ၁၉၁၂ ဆရာတော်ဘုရားကြီးသည် သက်တော် (၇၄) နှစ်ရှိတော်မူပြီဖြစ်သော်လည်း သက္ကရာဇ် (၁၂၇၄) ခုနှစ်၌ ဥဇုမဂ္ဂဒေသနာကျမ်းကို ရေးသားတော်မူရပြန်သည်။ ရေးသားရခြင်းအကြောင်းမှာ ထိုအချိန်က သတင်းစာတစ်စောင်၌ အယူအမြင်မှားယွင်းနေသော လူအချို့က ကောင်းမှုဒါနကို ပြုသော်လည်း ကောင်းကျိုးကျေးဇူး မရှိစသည်ဖြင့် ရေးသားသည်ကို သိရှိတော်မူ၍ ဖြောင့်မှန်သောလမ်းဖြင့် အယူအမြင်မှန်၍ အပါယ်ကျခြင်းစသောဘေးမှ လွတ်မြောက်ကြစေလိုသော ကရုဏာတော်ဖြင့် ရေးသားတော်မူရပေသည်။

ကျမ်းကိုး၊ ယင်းစာ-၁၉၇

ထို့နောက် အင်္ဂလန်ပြည် လန်ဒန်မြို့ရှိ ပါဠိအသင်းကြီးမှ "ပါဠိဒေဝီ"ဘွဲ့ခံ ရိ(စ်)ဒေဗစ် အမည်ရှိသော အင်္ဂလန်သူတစ်ယောက်က မေးလျှောက်သော "ယမက ပုစ္ဆာ" များကိုလည်း ဆရာတော်ဘုရားကြီးကိုယ်တော်တိုင် ပါဠိဘာသာဖြင့် "ယမက ဝိသဇ္ဇနာ" ကျမ်းကို ရေးသားဖြေရှင်းပေးပို့တော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၁၉၇

အေဒီ ၁၉၁၅ သက္ကရာဇ် (၁၂၇၇) ခုနှစ်၊ သက်တော် (၇၇) နှစ်၌ တစ်ဖန် အင်္ဂလန်နိုင်ငံဂျော့ဘုရင်၏ အမိန့်တော်ဖြင့် ဂျော့ဘုရင်၏ကိုယ်စား အိန္ဒိယနိုင်ငံဘုရင်ခံချုပ် လော့ဒ်ဟာဒင်က မဟာဝိသုဒ္ဓါ

http://www.dhammadownload.com



ရာမဆရာတော်ဘုရားကြီးအား အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ကို ကပ်လှူသဖြင့် အလှူခံတော်မူရပြန်သည်။

ကျမ်းကိုး၊ ယင်းစာ-၂၀၂

အေဒီ ၁၉၁၆ သက္ကရာဇ် (၁၂၇၈) ခုနှစ်၊ ဝါဆိုလဆန်း (၈) ရက်နေ့ နံနက် (၇) နာရီ (၁၀) မိနစ်အချိန်တွင် ကမ္ဘဇရှပ်ချုပ်ငြိမ်း ဘဝဟောင်းကို ရုပ်သိမ်းတော်မူလေတော့သည်။

အေဒီ ၁၉၁၇ သက္ကရာဇ် (၁၂၇၈) ခုနှစ်၊ တပေါင်းလဆန်း (၁၂) ရက်မှစ၍ လပြည့်နေ့အပြီး သင်္ဂြိုဟ်လိုက်ကြသည်။

ကျမ်းကိုး၊ ယင်းစာ-၂၀၂

သင်္ဂြိုဟ်တော်မူရာတွင် အရိုးတော်ဓာတ်ဟူသော စကားလေးတစ်ခွန်းကို အသေအချာတွေ့ရှိရပါသည်။ လျှို့ဝှက် သိပ်သည်းတော်မူတတ်သော ရှေးဆရာ့ ဆရာများ၏ အစဉ်အလာအတိုင်း ပင်လျှင် ဆရာတော်ကြီးသည်လည်း မိမိဘယ်အဆင့်ရောက်သည်ကို ဖွင့်ဟပြောဆိုဖို့ ဝေးစွ။ အရိပ်အယောင်မျှပင် ပြောဆိုမှု မရှိခဲ့ချေ။ ဤကျမ်းပြုစုသူသည် မှန်ဘီလူးဖြင့် ရှာသောကြောင့် အရိုးတော်ဓာတ်ကို ရှာဖွေတွေ့ရှိရခြင်းဖြစ်သဖြင့် အများမသိသေးသော (ဝါ) အများမရိပ်မိသေးသော အချက်တစ်ချက်ကို ဖော်ထုတ်ခြင်းသည် အရိုးတော်ဓာတ်ကို ပူဇော်ရာရောက်သဖြင့် ကောင်းစွာ ကျေနပ်မိပါသည်။ အောက်ပါစာကို ဖတ်ကြည့်ပါ။ အထင်အရှား တွေ့ရပါလိမ့်မည်။

မဟာဝိသုဒ္ဓါရာမ ဆရာတော်ဘုရားကြီး၏ ဥတုဇရုပ်ကလာပ်တော်ကို ခေတ်အားလျော်စွာ ဓာတ်ခဲဖြင့် မီးသင်္ဂြိုဟ်ပြီးနောက် အရိုးတော်ဓာတ်ကို ကောင်းမွန်စွာကောက်ယူကြပြီးလျှင် အရှေ့ပြင် မဟာဝိသုဒ္ဓါရာမ တိုက်၏အရှေ့ဘက်၌ စေတီအိမ်ပြုလုပ်တည်ထား၍ ပူဇော်ကြသည်။

ကျမ်းကိုး၊ ရွှေကျင်နိကာယ သာသနာဝင်၊ စာ-၁၆၄

http://www.dhammadownload.com



ရဟန်းထူး ရဟန်းမြတ်

# ရက်ကန်းစင်တောင် ဆရာတော် ဦးသြဘာသ

(၁၈၄၀ – ၁၉၃၀)



http://www.dhammadownload.com



ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီး အကြောင်းမှာ မြန်မာပြည်တစ်ဝန်း မသိသူ မရှိ လောက်အောင်ပင် အကျော်တစောရှိလေသည်။ ထိုဆရာတော်ဘုရားကြီး အကြောင်းကို စာတစ်စောင်တစ်ဖွဲ့ ပြုစုသူများလည်း ရှိ၏။ ကြုံတိုင်း ကြုံတိုင်း ရေးသူများလည်း ရှိ၏။ မျက်မြင်ကိုယ်တွေ့များလည်း သက်ရှိထင်ရှားနေသေး၏။ ထို့ကြောင့် ခေတ်ပြိုင်မှတ်တမ်းများ ပြုစုထားသင့်သည်ဟု သဘောရပါသည်။

မတ္တရာ ရက်ကန်းစင်တောင်တော်သို့ ကိုယ်တိုင် ကိုယ်ကျ သွားရောက်လေ့လာသူများတို့သည် မျက်မြင်ကိုယ်တွေ့ မှတ်တမ်းများရေးခဲ့သဖြင့် မတ္တရာ ရက်ကန်းစင်တောင်အကြောင်း စုံလင်စွာ သိရှိရပါသည်။

> ကျမ်းကိုး၊ ဦးသန်းဖေမြင့်၊ သိဒ္ဓိထွဋ်ခေါင် မတ္တရာ ရက်ကန်းစင်တောင်တော်သို့ တစ်ခေါက် နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၁၉၉၅ ခု၊ စက်တင်ဘာလ ၊ စာ ၉ကို ကြည့်ပါ။

ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီး အဓိဋ္ဌာန်ဆောက်တည်ခဲ့သည့် ရွှေဟောင်းရေသိမ် တော်အကြောင်းကို အသေးစိပ် လေ့လာသူများရှိပါသည်။ ရေသိမ်တော်နှင့် မုဒ့ံ ကန်တော် မင်္ဂလာကန်ကြီးအကြောင်း လေ့လာချက်များ ရှိပါသည်။ ရေသိမ်အတွင်းက တိုင်တွင် သက္ကရာဇ် (၁၂၁၇) ခုနှစ်၊ ကဆုန်လဆန်း (၈) ခု ကမ္ပည်းထိုးထားသော စာတမ်းများလည်း ခေတ်ပြိုင် မှတ်တမ်းအဖြစ် မှတ်တမ်းတင်ထားကြောင်း လေ့လာတွေ့ရှိရပါသည်။

> ကျမ်းကိုး။ ဗအုပ်ခိုင် ရွှေဟောင်းရေသိမ်တော်၊ ဝိဇ္ဇာမဂ္ဂဇင်း၊ ၂၀၀၇ ခုနှစ်၊ ဇူလိုင်လ၊ အတွဲ ၁ ၊ အမှတ် ၁၀၊ စာ ၉၇ ကို ကြည့်ပါ။

ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီး၏ သာသနာပြု ခရီးစဉ်မှာ မြန်မာပြည် တနံတလျား ဖြစ်ပေရာ မိုးတားသို့လည်း ရောက်ရှိခဲ့လေ၏။ ထိုအခါက မျက်မြင်ကိုယ်တွေ့ ခေတ်ပြိုင် မှတ်တမ်းကိုလည်း မိုးတားနေဆရာတို့က မှတ်တမ်းတင်ထားကြောင်း လေ့လာဖတ်ရှုရပါသည်။

> ကျမ်းကိုး။ မိုးတား ဦးထွန်းရှိန်၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ အမှတ် ၁၅၃၊ ၁၉၉၉ ခု၊ မတ်လ၊ မိုးတားရောက် ရက်ကန်းစင်တောင်ဆရာတော် ဦးဩဘာသ၊ စာ ၆၅ ကို ကြည့်ပါ။

ရက်ကန်းစင်တောင် ဆရာတော်ဟူ၍ အကျော်တစောရှိသော်လည်း ဆရာတော်ကြီး တပည့် တပန်းများကို ကိုယ်တော်တိုင် စောင့်ရှောက်ခဲ့ကြောင်း ကိုယ်တွေ့ အတွေ့အကြုံ သာသနာပြု ဆရာတို့က ပြန်လည်မှတ်တမ်းတင် ဖော်ပြသည်ကိုလည်း မမေ့မလျော့ မှတ်သားရပါသည်။ ပုံပြင်မဟုတ်ကြောင်း အသိသက်သေများ ဖြစ်ပါသည်။ ခေတ်ပြိုင် မှတ်တမ်းဖြစ်၏။

> ကျမ်းကိုး။ သာသနာပြု ဆရာကြီး ဦးအောင်ဟန်၊ ရက်ကန်းစင်တောင် ဆရာ တော်ဘုရားကြီးနှင့် ပန်းထိမ်ဆရာတစ်ဦး ဝတ္ထု၊ ပထမံ တရားမဂ္ဂဇင်း၊ စာ ၁၃ ကို ကြည့်ပါ။

ရက်ကန်းစင်တောင် ဆရာတော်ဘုရား၏ တန်ဆောင်မုန်းလပြည့်ညအခါတွင် ဆေးပေါင်းခ အောင် နက္ခတ်ဖမ်း စီရင်ပုံတို့မှာလည်း လောကီ ဗဟုသုတရှာဖွေသူတို့အတွက် အလွန်တန်ဖိုး ရှိပါသည်။ နောင်လာနောက်သားတို့အတွက် ခေတ်ပြိုင်မှတ်တမ်းအဖြစ် မှတ်တမ်းတင်သင့် ပါသည်။

> ကျမ်းကိုး။ မောင်ရှင်သန်၊ လောကပါလ ဂမ္ဘီရသုတ စာစုံ မဂ္ဂဇင်း၊ ၂၀၀၇ နှစ်၊ ဒီဇင်ဘာလ အမှတ် ၁၁၊ စာ ၄၃၊ ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီး၏ တန်ဆောင်မုန်းလပြည့်ည ဆေးပေါင်းခအောင် နက္ခတ်ဖမ်း စီရင်ပုံ ဆောင်းပါး။

http://www.dhammadownload.com



ရက်ကန်းစင်တောင်ဟူ၍ အမျိုးမျိုးရှိရာ မတ္တရာ ရက်ကန်းစင်တောင်ဟူ၍လည်းရှိ၏။ စမ ရက်ကန်းစင်ဟူ၍လည်းရှိ၏။ ပုပ္ပါးရက်ကန်းစင်ဟူ၍လည်း ရှိ၏။ ဘိုကလေး ရက်ကန်းစင် ဟူ၍လည်း ရှိ၏။ ထိုသို့သော ရက်ကန်းစင် လေးစင်ကို ပညာရှင်တို့က သွားရောက်လေ့လာ မှတ်တမ်းတင်ထားသည့် ဆောင်းပါးများ ပေါ်ထွက်ခဲ့ဖူးကြောင်း မှတ်တမ်းတင်သင့်ပါသည်။

> ကျမ်းကိုး။ ခေတ္တရာ ဆရာကျော်၊ လယ်ဝေး ရက်ကန်းစင်တောင်၊
> နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ ၂၀၀၃ ခုနှစ်၊ မတ်လ၊ စာ ၃၃ ကို ကြည့်ပါ။

ရက်ကန်းစင်တောင် ဆရာတော်၏ သာသနာပြုခရီးစဉ်မှာ ကျယ်ဝန်းလှသဖြင့် အလုံးစုံ သိအောင် လေ့လာရန် မလွယ်လှပါ။ ဥပမာအားဖြင့် ကျွန်းဖိုတောင်ရှိ ကျွန်းဖိုတောင်စေတီတွင် တစ်ညတာ အလုပ်စခန်း ပြုလုပ်သွားသည်လည်း ရှ၏။ သို့သော်လည်း သက်ဆိုင်ရာ နယ်မြေခံ ပုဂ္ဂိုလ်တို့က အသေအချာ လေ့လာဖော်ထုတ်သော ကြောင့်သာ သိခွင့်ရခြင်း ဖြစ်၏။ အလွန် ကျေးဇူးတင်စရာကောင်း၏။ သို့မဟုတ်က သိခွင့်မရှိနိုင်ချေ။ ဤအချက်ကိုလည်း မှတ်တမ်း တင်ရမည် ဖြစ်ပါသည်။

> ကျမ်းကိုး။ နန္ဒာမင်းဖဲ ပခုက္ကူ၊ ကျွန်းဖိုတောင် စေတီနှင့် ရက်ကန်းစင်တောင်
> ဆရာတော်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ စာ ၇၁၊ ၇၂ တို့ကို ကြည့်ပါ။

ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီးနှင့် ရသေ့ကြီး ဘိုးသုစန္ဒီတို့ ပတ်သက်ပုံမှာလည်း ဖော်ထုတ်သူရှိ၍သာ သိခွင့်ရခြင်း ဖြစ်သည်။ သို့မဟုတ်လျှင် မည်သို့မှ သိနိုင်စရာ အကြောင်း မရှိပါ။ ဆရာတော်ကြီးအကြောင်း လောင်းလေ့အကြောင်း ကျောင်းမြေအကြောင်းတို့ကို အသေး စိတ်လေ့လာထားသော သုတေသီတို့ ကျေးဇူးကြောင့် များစွာ သိခွင့်ရပါသည်။ မှတ်တမ်းတင် ရမည် ဖြစ်ပါသည်။

> ကျမ်းကိုး။ စံထွန်းသာ၊ ရက်ကန်းစင်တောင် ဆရာတော်၏ လောင်းလေ့နှင့်
> ကျောင်းမြေ (၁)၊ (၂) နက္ခတ္တရောင် ခြည် မဂ္ဂဇင်း၊ အမှတ် ၂၅၄ ၊ ၂၀၀၇
> ခုနှစ်၊ စက်တင်ဘာလ၊ စာ ၉၇ လည်း ကြည့်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ်
> ၂၅၅၊ အောက်တိုဘာလ၊ စာ ၁၁၃ လည်း ကြည့်။

ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီး၏ တပည့်ထူး တစ်ဦးရှိရာ ထိုပုဂ္ဂိုလ်မှာ သက်တော် ရှည် သာသနာပြု ဆရာတော်ဘုရားကြီး ဦးဂန္ဓမာ ဖြစ်ကြောင်းကို သုတေသီတို့ ဖော်ထုတ်သဖြင့် သိခွင့်ရပါသည်။

> ကျမ်းကိုး။ မောင်သွေးချွန်၊ ဝိဇ္ဇာမဂ္ဂဇင်း၊ ၂၀၀၉ ခုနှစ်၊ ဇန်နဝါရီလ၊ စာ ၆၄၊
> သက်တော်ရှည် သာသနာပြု ဆရာတော်ကြီး ဦးဂန္ဓမာ၊ ဆောင်းပါးကို ကြည့်ပါ။

ရက်ကန်းစင်တောင် ဆရာတော်ဘုရား၏ တပည့်ရင်းများသည် ရက်ကန်းစင်တောင်ဆရာတော် ဘုရားကြီး၏ သာသနာပြုခရီးစဉ်ကို အကျယ်တဝင့် ဖော်ထုတ်လေ့လာ တင်ပြခဲ့ကြောင်း တွေ့ရှိရပါသည်။ ဆရာတော်ကြီး၏ ပါရမီလမ်းအကြောင်း တပည့်များဖြစ်သော ဆရာချန် အကြောင်း၊ ဗောဓိမဏ္ဍိုင် ဆရာဆိုင်အကြောင်း၊ ဆရာလှိုင်အကြောင်း၊ ဆရာ ဦးရဲသူ အကြောင်းတို့ကို သိခွင့်ရသဖြင့် ဤတွင် မှတ်တမ်းတင်လိုက်ရပါသည်။

> ကျမ်းကိုး။ မောင်သွေးချွန်၊ ဝိဇ္ဇာမဂ္ဂဇင်း ၂၀၀၈ ခု၊ စက်တင်ဘာလ၊ စာ ၄၃၊
> ကျေးဇူးရှင် ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီး မဟာဂန္ဓာရီ လမ်းမြွတ်ဆီ
> သို့ကို ကြည့်ပါ။

ရက်ကန်းစင်တောင် ဆရာတော်ဘုရား၏ ပညာပေး လေ့ကျင့်ပုံအကြောင်းတို့ကိုလည်းကောင်း၊ ဆရာတော်ဘုရားကြီး၏ သာသနာခရီးစဉ် တောင်ကြီးခရီးစဉ်တို့ကို အထူးပြု လေ့လာ

http://www.dhammadownload.com



တင်ပြသော ပညာရှင်တို့လည်း ရှိပါသေးသည်။ ခေတ်ပြိုင်မှတ်တမ်းဟု ဆိုရမည် ဖြစ်ပါသည်။

ကျမ်းကိုး။ မောင်သွေးချွန်၊ ပါရမီ ကြီးကိုင် ရက်ကန်းစင်တောင်ဆရာတော်၊ ဝိဇ္ဇာမဂ္ဂဇင်း၊ ၂၀၀၇ ခုနှစ်၊ အောက်တို ဘာလ၊ စာ ၆၉။

ရက်ကန်းစင်တောင် ဆရာတော်ဘုရား၏ ခရစ်နှစ် (၁၉၆၇) ခု သာသနာပြုခရီးကိုလည်း ကောင်း၊ (၁၉၆၉) ခုနှစ် ဘဝခရီးစဉ် ကိုလည်းကောင်း၊ (၁၉၇၀) ခုနှစ် ဘဝရုပ်ပုံလွှာကို လည်းကောင်း၊ (၁၉၆၄) ခုနှစ်က ဆရာတော်ဘုရားကြီး၏ ဘဝတစေ့တစောင်းကိုလည်းကောင်း စေ့စေ့စပ်စပ် ပြည့်ပြည့်စုံစုံ ဖော်ပြထားသော ဆောင်းပါးစာများကိုလည်း လေ့လာဖတ်ရှု မှတ်တမ်းတင်ရပါသည်။

ကျမ်းကိုး။ မောင်သွေးချွန်၊ ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီး၏ အခါမီ လှမ်းရမည့် ပါရမီလမ်း၊ ဝိဇ္ဇာမဂ္ဂဇင်း ၂၀၀၇ ခုနှစ်၊ နိုဝင်ဘာလ၊ စာ ၅၆။

မဟာဗောဓိမြိုင်ဆရာတော်ဘုရားကြီးနှင့် ရက်ကန်းစင်တောင်ဆရာတော်ဘုရားတို့ ရက်ကန်း စက်ကိုလည်းကောင်း၊ တောင်ငူမှာ ထွက်တော်မူပုံတို့ကိုလည်းကောင်း၊ ရက်ကန်းစင်တောင် ဆရာတော်၏ သံယာတော်အရှင်မြတ်တို့အား ပန်ကြားလွှာကိုလည်းကောင်း၊ မြန်မာဆိုတာ ဘုန်းရှိတဲ့ လူမျိုးအကြောင်းကိုလည်းကောင်း၊ ဆရာတော်ဘုရားကြီး၏ ဂုဏ်တော်ကိုးပါး ကိုးဌာနကျင့်စဉ်ကို လည်းကောင်း၊ ဖတ်ရမှတ်ရသဖြင့် ကျေးဇူးများလှပါသည်။ ခေတ်ပေါ် ပညာ ရှင်တို့၏ ခေတ်ပြိုင်မှတ်တမ်းဖြစ်သဖြင့် မပျောက်ပျက်သင့်ပါ။ မှတ်တမ်းတင်ရမည် ဖြစ်ပါ သည်။

ကျမ်းကိုး။ မောင်သွေးချွန်၊ ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီး ကောင်းကင်မက ဂုဏ်ကျေးဇူးများ၊ ဝိဇ္ဇာမဂ္ဂဇင်း ၂၀၀၉ ခုနှစ်၊ ဇန်နဝါရီလ၊ စာ ၃၀။

ရက်ကန်းစင်တောင် ဆရာတော်၏ သာသနာပြု ခရီးစဉ်တွင် ကျောက်မဲမြို့လည်း အပါအဝင် ဖြစ်လေသည်။ ထိုနေရာတွင် ရွှေဘိုမြို့မှာ ဆရာတော်ဟူ၍ လည်းကောင်း၊ ဒုတိယ ရက်ကန်းစင် တောင် ဆရာတော်ဟူ၍လည်းကောင်း၊ ရေမွှေးဆရာတော်ဟူ၍လည်းကောင်း သုံးမည်ရ ဆရာတော် ဦးအာစာရအကြောင်းကိုလည်း ရက်ကန်းစင်တောင် ဆရာတော်နှင့် ဆက်နွယ်နေ ကြောင်း လေ့လာတွေ့ရှိရပါသည်။ ပညာရှင်တို့၏ မှတ်တမ်း အခိုင်အမာရှိပါသည်။

ကျမ်းကိုး။ အောင်ထွဋ်၊ ဂန္ဓာရီ ကျောက်မဲမြို့မှ နေရာထူး၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ ၁၉၉၆ ခု၊ အမှတ် ၁၂၄၊ စာ ၆၅ ကို ကြည့်ပါ။

ရှမ်းပြည်နယ် မြောက်ပိုင်း လားရှိုးမြို့မှ ရန်အောင်မြင် စေတီတော်၏ (၂) ဖာလုံခန့်အကွာတွင် တည်ရှိသော ရှေးဟောင်းဌာပနာတိုက်အတွင်းမှ ပေါ်လာသည့် ရက်ကန်းစင်တောင် ဆရာ တော် ရုပ်တုတော်အကြောင်း တစေ့စောင်း ရေးသားထားသည်ကို ဖတ်ရှုရခြင်းအားဖြင့် ခေတ်ပြိုင်မှတ်တမ်းတို့သည် ပိုမို ပြည့်ပြည့်စုံစုံရှိကြောင်း တွေ့ရ၏။ နောင်လာ နောက်သားတို့ အတွက် မှတ်တမ်းဖြစ်၏။

ကျမ်းကိုး။ စိုင်းဖွေခမ်း၊ ရှေးဟောင်းဌာပနာတိုက်အတွင်းမှ ပေါ်ထွက်လာသော ရက်ကန်းစင်တောင် ဆရာတော်၏ ရုပ်တုတော်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း ၁၉၉၆ခု၊ စက်တင်ဘာလ အမှတ် ၁၂၂ စာ ၃၈။

ပုရပိုက်ပေမူမှရရှိသည့် ပထဝီကသိုဏ်းရှုပွားရန် ကျင့်စဉ်တော်ကိုလည်း အသေအချာ မှတ်တမ်း တင်ထားသော ဆောင်းပါးများကို ဖတ်ရှုရသဖြင့် အလွန်ကျေးဇူးကြီးပါသည်။ ခေတ်ပြိုင်

http://www.dhammadownload.com



လို့ဥက်ကျင့်စဉ်များဖြစ်သဖြင့် အနာဂတ်အတွက် ကောင်းကျိုးချမ်းသာဖြစ်စေမည်မှာ အမှန်ပင် ဖြစ်၏။

ကျမ်းကိုး။ ဦးသိန်းထွန်းကြည်၊ အင်း၀၊ ရက်ကန်းစင်တောင် ဆရာတော်ကြီး၏ ပုရပိုက်ပေမူမှရရှိသည့် ပထဝီ ကသိုဏ်း ရှုပွားရန် ကျင့်စဉ် နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ ၂၀၀၃ ခုနှစ်၊ ဇန်နဝါရီလ၊ စာ ၂၇၃ ကို ကြည့်ပါ။

ဤသို့အားဖြင့် ခေတ်ပြိုင် မှတ်တမ်းများကို ဂျာနယ် မဂ္ဂဇင်း အစောင်စောင်တို့တွင် တွေ့ရှိရပေသည်။ အထက်ဖော်ပြပါ ကျမ်းညွှန်းတို့ကို အကြောင်းပြု၍ ဤစာပြုသူသည် ရက်ကန်းစင်တောင် ဆရာတော်၏ သာသနာပြုခရီးစဉ်ကို ပြုစုခြင်း ဖြစ်ပါသည်။

အေဒီ ၁၉၆၇

မန္တလေးကနေမတ္တရာကို မိုင် (၂၀) ကျော်၊ မတ္တရာကနေ ရက်ကန်းစင်တောင် တောင်ခြေကို မိုင်၂၀ လောက် ရှိပါတယ်။ တောင်နဲ့တောင်ခြေရွာက သုံးဖာလုံလောက် ဝေးပါတယ်။ ရွာကလေးဟာ အိမ်ခြေငါးဆယ်လောက်ပဲ ရှိပါတယ်။ သက္ကရာဇ် (၁၃၂၉) ခု လက်ရှိ ဆရာတော်ဦးသာသန ရက်ကန်းစင်တောင်ကို ရောက်တဲ့အချိန်တုန်းက တောင်တော်ဟာ တောကြီးဖြစ်ပြီး တောင်ခြေရွာနေရာမှာ အိမ်ကလေးတစ်လုံးပဲ ရှိတယ်လို့သိရပါတယ်ဟု မျက်မြင် ကိုယ်တွေ့ ပြောကြပါသည်။

ကျမ်းကိုး၊ ဦးသန်းဖေမြင့်၊ သိဒ္ဓိစာတ်ထွဋ်ခေါင် မတ္တရာရက်ကန်းစင်တောင်တော်သို့ တစ်ခေါက်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ်(၁၁၀)၊ ၁၉၉၅ ခု၊ စက်တင်ဘာလ စာ-၉ ကို ကြည့်ပါ။

ဒီတောင်ကိုအရင်က သပျောတောင်လို့လဲခေါ်ကြတယ်။ သပျောတောင်ဆိုတာက သံပျော့ရှိတဲ့ တောင်လို့ ဆိုလိုတာပါ။ သံပျော့ရှိတဲ့တောင်လို့ခေါ်ရာက ခပ်မြန်မြန်ခေါ်ကြရင်း သပျောတောင်ဟု ခေါ်ဆိုကြောင်း သိရပါသည်။

ကျမ်းကိုး။ ယင်းစာ-၁၀

ဝန်းကျင်တစ်ဝိုက်က တောင်များကို သေသေချာချာလေ့လာကြည့်လိုက်တဲ့အခါ. . .
(၁) အရှေ့မှာ တောင်ကန့်လန့်တောင် (၂) အနောက်ဘက်မှာ သပျောအင်း (၃) တောင်ဘက်မှာ ဘိုးတော်တောင်(မတ္တရာနယ်) .(၄) မြောက်ဘက်မှာ ရွှေမြင်တင်တောင်(စဉ့်ကူးနယ်) (၅) မြောက်ဘက်မှာပဲ ကျောက်ငွေးတောင် စသဖြင့် အသီးသီးရှိနေကြပါတယ်ဟု ပြောပြပါသည်။

ကျမ်းကိုး၊ ယင်းစာ-၁၀

## ဆရာတော်ကြီး၏ထူးခြားချက်အချို့

ရက်ကန်းစင်တောင်ဆရာတော်ကြီးဟာ ပထမံဘိုးဘိုးအောင်နှင့် ဆံရှည်ဆရာတော်လို့ သိနေကြတဲ့ ဦးကောဏ္ဍညတို့နဲ့ ပညာချင်းဖလှယ်ခဲ့ဖူးကြောင်း တောင်ပေါ်မှ ကျောက်စာမှာ အကျယ်တဝင့် ရေးထိုးထားပါတယ်။

ကျမ်းကိုး၊ ယင်းစာ-၁၁

အေဒီ ၁၈၄၀

## ဆရာတော်ဘုရားကြီး၏ ဖြစ်စဉ်တော်

ရက်ကန်းစင်တောင်ဆရာတော်ကြီး ဦးဩဘာသကို မြန်မာသက္ကရာဇ် ၁၂၀၂ ခု၊ တပေါင်းလဆန်း ၉ ရက်နေ့မှာ ဖွားမြင်ခဲ့ပါတယ်။ ခမည်းတော်၊ မယ်တော်များကတော့ ဘိုးရာကျော်-ဒေါ်ငွေနှင်းတို့ဖြစ်ပါ တယ်။ ဆရာတော်ကြီးတို့ မွေးချင်းနှစ်ယောက်ပဲ ရှိပါတယ်။ ဆရာတော်ကြီးက ဆရာကွန်းပါ။ ဆရာတော်ကြီးအောက်က နှမငယ် မလှဝင်းရှိပါတယ်ဟု ဆိုကြပါတယ်။ မတ္တရာမြို့နယ်၊ မြေပုံကန်မြောက်ရွာဟာ ဆရာတော်ကြီးရဲ့ဇာတိလို့ ကျောက်စာအရ သိရပါတယ်။

http://www.dhammadownload.com



အေဒီ ၁၈၉၆ အဲဒါကတော့ ဆရာတော်ကြီးဟာ သက္ကရာဇ် (၁၂၅၈) ခုမှာ ရက်ကန်းစင်တောင်မှာပဲ ကျင့်စဉ်စရဏ ကိစ္စကိုပြီးမြောက်ခဲ့တယ်ဆိုတဲ့ အချက်ပါပဲ။ ဒါထက်တိတိကျကျပြောရရင် အဲဒီနှစ် တပေါင်းလဆန်း (၈) ရက်၊ ညနေ (၅) နာရီမှာ ကျင့်စဉ်အောင်မြင်ခဲ့ကြောင်း ကျောက်စာအရ သိခွင့်ရရှိခဲ့ပါတယ်။

ကျမ်းကိုး၊ ယင်းစာ-၁၁

မွေပုံကန်တောင်၊ မြောက်ရွာနှစ်ရွာ မွေပုံကန်ဟာ ဧရာဝတီမြစ်ကမ်းဘေးက ရွာတန်းရှည်ကြီးပါပဲ၊ တောင်မြောက်အိမ်ခြေ (၇၀၀) လောက်ရှိကြောင်း သိရပါတယ်။
ဦးဩဘာသတည်သွားခဲ့တဲ့ ရွာတောင်ပိုင်းက ရန်အောင်မြင်ဘုရားကို သွားဖူးပါတယ်။ ဒီ ကိုးတောင်ပြည့်စေတီကို သက်တော်ရှည်စေတီလို့လည်း ခေါ်တယ်လို့သိရပါတယ်။

ကျမ်းကိုး၊ ယင်းစာ-၁၃

အေဒီ ၁၉၅၁ ထူးထူးခြားခြားရှိသော ဖြစ်ရပ်ဆန်းတစ်ခုမှာ တင်ပြခဲ့တဲ့ ရန်အောင်မြင်စေတီကို သက္ကရာဇ် (၁၃၁၃) ခုနှစ်က ထီးတော်တင်လှူကြပါတယ်။ ဒီစေတီငယ်ရဲ့ မုခ်ပေါက်မှာ (၁၂) လက်မခန့် ရှိတဲ့ ရုပ်ပွားတော်ကလေးတစ်ဆူ ရှိပါတယ်။ ဒီရုပ်ပွားတော်ကလေးဟာ ပထမ ရက်ကန်းစင် တောင် ဆရာတော်ကြီး လှူဒါန်းခဲ့တဲ့ ကျောက်ဆင်းတုတော် ဖြစ်ပါတယ်ဟု ဆိုပါတယ်။

ကျမ်းကိုး၊ ယင်းစာ-၁၃

အဲဒီတုန်းက စေတီတော်ရဲ့ ထီးတော်ကို ရွှေချပူဇော်ထားတယ်။ ကိုးရက်မြောက်တဲ့နေ့ ထီးတော် တင်လှူဖို့ စီစဉ်ထားတယ်။ အဲဒီနေ့က ရှစ်ရက်မြောက်နေ့ပါ။ အဲဒီညမှာ ဆရာတော်ကြီး ဦးဩဘာသ လှူသွားခဲ့တဲ့ ဉာဏ်တော် (၁၂) လက်မရှိတဲ့ ဆင်းတုတော်ကလေးကို ဘယ်အချိန် က မည်သူရွှေချသွားမှန်း မသိဘူးလို့ ဆိုပါတယ်။ မြင်ရတဲ့အတိုင်း ကျောက်ဆင်းတုတော် ကလေးကနေ ရွှေဆင်းတုကလေး ဖြစ်သွားတာပဲ။ ဒီအဖြစ်ကို မနက်မိုးလင်းလို့ ကိုးရက်မြောက် ထီးတော်တင်လှူမယ့်နေ့မှာပဲ သိကြရတယ်လို့ ပြောပြခဲ့ပါတယ်။

ကျမ်းကိုး၊ ယင်းစာ-၁၄

ရက်ကန်းစင်တောင် ဆရာတော်ကြီး ဦးဩဘာသဟာ ကိုရင်ကြီးဘဝနဲ့ မွေပုံကန်ရွာမှာ အတော် ကြာကြာနေသွားတယ်လို့ ဆိုပါတယ်။ စိတ္တသုခ ကျောင်းသစ်ကျောင်းနေရာဟာ အရင်က ကျောင်းရယ်လို့ မရှိဘူး။ ဇရပ်ပဲ ရှိတယ်။ အဲဒီဇရပ်မှာ ဆရာတော်ကြီး နေသွားတယ်။ အဲဒီတုန်း ကတော့ ကျုပ်တို့သိတာက ကိုရင်ကြီးပဲဟု ရွာခံများက ဆိုကြပါတယ်။

ကျမ်းကိုး၊ ယင်းစာ-၁၄

ဆရာတော်ကြီး၊ ကိုရင်ကြီးအဖြစ်နဲ့ ရှိစဉ်က သုံးစွဲခဲ့တဲ့ ဟင်္သာရုပ် တစ်ပိဿာ အလေးတစ်လုံးနဲ့ ယွန်းဗျပ် လင်ပန်းတစ်ချပ်ကို ယခုထက်တိုင် တွေ့နိုင်ပါသေးတယ်။

ကျမ်းကိုး၊ ယင်းစာ-၁၄

ရွာလယ်ကျောင်းဆိုတာ မွေပုံကန်ရွာ မြောက်ပိုင်းက ဘုန်းတော်ကြီး ကျောင်းပါ။ ဒီကျောင်းရဲ့ တောင်ဘက် အရှေ့မျက်နှာစာမှာ ရက်ကန်းစင်တောင် ဆရာတော်ကြီး ဦးဩဘာသ စိုက်ထူ ခဲ့တဲ့ ဓာတ်တိုင်ရှိပါတယ်။ စိုက်ထူသွားတုန်းကတော့ သစ်သားတိုင်ကြီးပေါ်မှာ ကြက်ခြေခတ် သစ်သားပြားတွေပါ၊ ဒီသစ်သားပြားပေါ်မှာမှ စေတီငယ်ကို တည်ထားပါတယ်။

ကျမ်းကိုး၊ ယင်းစာ-၁၅

အေဒီ ၁၉၅၉ အခုဓာတ်တိုင်ဟာ အရင်လိုသစ်သားတိုင် မဟုတ်တော့ သက္ကရာဇ် (၁၃၂၁) ခု၊ တပို့တွဲလပြည့် ကျော် (၁၀) ရက်၊ ကြာသပတေးနေ့မှာပြန်ပြီး တည်ဆောက်လို့ ပြီးခဲ့တယ်လို့ သိရပါတယ်။

http://www.dhammadownload.com



ဓာတ်တိုင် ပေါ်ကစေတီကို ချမ်းသာရ ဆုတောင်းပြည့် အောင်သိဒ္ဓိကိုးနဝင်းစေတီလို့ ဘွဲ့အမည် ပေးထား ပါတယ်။

**ဆရာတော်ကြီး၏ တပည့်လေးဦး**

ဆရာတော်ကြီးဟာ လောကီပညာရပ်အရာမှာ အထူးတတ်မြောက် ပေါက်ရောက်ကြောင်း သိကြပြီးဖြစ်ပါတယ်။ ဆရာတော်ကြီးမှာ တပည့်လေးဦး ရှိခဲ့တယ်လို့ သိရပါတယ်။ ဒီတပည့်လေးဦးကတော့ (၁) ဆရာချန် (၂) ဆရာဆိုင် (၃) ဆရာရဲသူ (၄) ဆရာလှိုင်တို့ပါပဲ။

ကျမ်းကိုး၊ ယင်းစာ-၁၅

အေဒီ ၁၉၃၇ ဒုတိယဆရာတော်ရဲ့ဇာတိက ရွှေဂုံတိုင်ရွာပါ။ ရက်ကန်းစင်တောင် တောင်ခြေရွာကနေ လှေနဲ့ကူးရင် ၁၅ မိနစ်လောက်ပဲ ကြာပါတယ်။ ဆရာတော်ဟာ ရွှေဂုံတိုင်ကျောင်းမှာပဲ ပထမဆုံး သီတင်းသုံးတော်မူခဲ့ပါတယ်။ ဆရာတော်ကြီး ဦးဩဘာသက အမိန့်ချတဲ့အတွက် သက္ကရာဇ် (၁၂၉၉) ခုနှစ်မှာ ရက်ကန်းစင်တောင်ပေါ်မှာ စတင်သီတင်းသုံးတော်မူပါတယ်။

အေဒီ ၁၉၃၇ အဲဒီနှစ်မှာပဲ တောင်ခြေကျောင်းတော်အနီးမှာ အောင်ကပ်ကျော်စေတီတော်ကို တည်ထားခဲ့ပါတယ်။ ဉာဏ်တော် (၁၇) တောင်ရှိတဲ့ စေတီပါပဲ။

ကျမ်းကိုး၊ ယင်းစာ-၁၅

အေဒီ ၁၉၆၇ ဒုတိယဆရာတော်ဟာ စည်းစနစ်ကြီးကြောင်း သိရပါတယ်။ ဘယ်နေရာမှာမဆို ရိုးရိုးသားသား မှန်မှန်ကန်ကန်တိတိကျကျ ပြောဆိုလုပ်ကိုင်တော်မူလေ့ ရှိပါတယ်။ တစ်ခါတရံ ကျောင်းသားများကို ပစ္စည်းတစ်ခုခုကို တစ်နေရာရာမှာ စိတ်နဲ့ ဝှက်ခိုင်းပါတယ်၊ ဆရာတော်က ကျောင်းသားကလေးများ စိတ်နဲ့ဝှက်တဲ့ ပစ္စည်းကို ပစ္စည်းနာမည်နဲ့တကွ ဝှက်ထားတဲ့နေရာကိုပါ မှန်အောင် မိန့်နိုင်တယ်လို့ သိရပါတယ်။ ဆရာတော်ဟာ သမထ ဝိပဿနာအလုပ်များကို အားထုတ်တော်မူပါတယ်။ ရက်ကန်းစင်တောင်ရဲ့ ဒုတိယမြောက်ဆရာတော်ကြီး ဦးကလျာဏဟာ သက္ကရာဇ် (၁၃၂၉) ခု၊ သက်တော် (၇၅) နှစ်မှာ ပျံလွန်တော်မူခဲ့ပါတယ်။

ကျမ်းကိုး၊ ယင်းစာ-၁၅

**ပျံလွန်တော်မူကာနီးတွေ့ကြုံရသည့်အမြစ်ထူး**

ရက်ကန်းစင်တောင် ဒုတိယမြောက် ဆရာတော်ကြီး ဦးကလျာဏနဲ့ ပတ်သက်ပြီးထူးခြားမှုများကို မေးလျှောက်တဲ့အခါ လက်ရှိဆရာတော်ကြီး ဦးသာသနက အထူးခြားဆုံးကတော့ ပျံလွန်တော်မူကာနီးမှာ လက်ခုပ်သုံးကြိမ်တီးပြီး ကောင်းကင်ကို လက်ညှိုးထိုးပြသွားတယ်လို့ မိန့်ကြားရှင်းပြတော်မူပါတယ်။

ကျမ်းကိုး၊ ယင်းစာ-၁၅

အေဒီ ၁၉၄၃ မြန်မာသက္ကရာဇ် (၁၃၁၅) ခု၊ မတ္တရာမြို့နယ်၊ ကောက်ရိုးပုံ ကျေးရွာမှာ ရဟန်းဖြစ်တော်မူခဲ့ပါတယ်။ အဲဒီကျောင်းမှာ သိပ်မကြာလိုက်ဘဲ ရက်ကန်းစင်တောင်တော်ဆီကို ရောက်ရှိခဲ့ပါတယ်။ ဆရာတော်ကြီး ဦးကလျာဏဟာ ပျံလွန်တော်မမူခင်ကတည်းက ဆရာတော်ကြီး ဦးသာသနကို ရက်ကန်းစင်တောင် တော်ကို လွှဲအပ်တော်မူခဲ့ပါတယ်။

အေဒီ ၁၉၆၇ ဆရာတော်ကြီးဦးသာသနဟာ သက္ကရာဇ် (၁၃၂၉) ခု၊ တန်ဆောင်မုန်းလကစပြီး ရက်ကန်းစင်တောင်တော်ရဲ့ တတိယမြောက်ဆရာတော် အဖြစ်ခံယူတော်မူခဲ့ပါတယ်။

ကျမ်းကိုး၊ ယင်းစာ-၁၆

အေဒီ ၁၈၄၀ တတိယရက်ကန်းစင်တောင်ဆရာတော် ဦးသာသနကို စကျင်တောင်အနီးမြေပုံကန်ရွာတွင် ဖွားမြင်ခဲ့သည်။ အဘ ဦးရာကျော်၊ အမိဒေါ်ငွေနှင်း (ခေါ်) ဒေါ်မယ်ပွင့်တို့မှ သက္ကရာဇ်

http://www.dhammadownload.com



(၁၂၀၂) ခုနှစ်၊ တပေါင်းလဆန်း(၉)ရက် တနင်္ဂနွေနေ့ နံနက်ခုနစ်နာရီ အချိန်တွင် မွေးဖွားခဲ့သည်။

ကျမ်းကိုး။ ခေတ္တရာဆရာကျော်၊ အဓိဌာန်အောင်ရာ မတ္တရာရက်ကန်းစင်တောင်သို့ နက္ခတ္တ ရောင်ခြည်မဂ္ဂဇင်း၊ အမှတ်(၁၉၉) ၂၀၀၇ ခု၊ ဖေဖော်ဝါရီလ စာ-၃၄

ပထမရက်ကန်းစင်တောင်ဆရာတော်၏ ငယ်အမည်မှာ မောင်ကွန်းဟုတွင်၍ သားကြီးဩရသ ဖြစ်လေသည်။ အသက် (၁၄) နှစ်တွင် ရှင်သာမဏေ ဖြစ်ခဲ့၍ ရှမ်းမြောင်ရိုး ဆရာတော်ထံတွင် လောကီ၊ လောကုတ္တရာပညာများ သင်ယူခဲ့သည်။ လောကီပညာရပ်ဆိုင်ရာ အကျင့်စခန်းများ တွင် ပေါက်မြောက် ထူးချွန်ခဲ့လေသည်။

ကျမ်းကိုး၊ ယင်းစာ-၃၄

အေဒီ ၁၈၉၄ — သက္ကရာဇ် (၁၂၅၆) ခုနှစ်တွင် ဘုတလင်မြို့၊ တောင်ကလပ် ဆရာတော် ဦးရာဇိန္ဒ၏ ဥပဇ္ဈယ် ဖြင့် မြင့်မြတ်သောရဟန်း ဖြစ်ခဲ့သည်။ ဘွဲ့မှာ ဦးဩဘာသ ဖြစ်သည်။

အေဒီ ၁၈၉၆ — ရဟန်းဖြစ်ပြီး (၂)နှစ်အကြာ သက္ကရာဇ် (၁၂၅၈) ခုနှစ်၊ တပေါင်းလဆန်း(၈)ရက် ညနေ (၅)နာရီအချိန်၌ အလောင်းစည်သူမင်းကြီး တည်ထားခဲ့သော ဆုတောင်းပြည့်စေတီတော်၏ အရှေ့တောင်ဘက် မနီးမဝေးရှိ မဟာသီလာ မြကျောက်ဖျာကြီးပေါ်တွင် ပေါက်မြောက် အောင်မြင်ခဲ့ပေသည်။

ကျမ်းကိုး၊ ယင်းစာ-၃၄

အေဒီ ၁၉၆၇ — သက္ကရာဇ် (၁၃၂၉) ခုနှစ်၊ ဒုတိယရက်ကန်းစင်တောင် ဆရာတော်ကြီး ဦးကလျာဏ ပျံလွန် တော်မူပြီးနောက် (၁၃၃၀) ပြည့်နှစ်ထဲတွင် ဤတောင်သို့စတင်ရောက်ရှိကာ သီတင်းသုံးတော်မူ ခဲ့သည်။ ဒုတိယရက်ကန်းစင်တောင်ဆရာတော်ကြီးမှာ ပျံလွန်တော်မူချိန်၌ သက်တော်(၇၄)နှစ်၊ သိက္ခာတော် (၅၄)ဝါ ရှိကြောင်း လက်ရှိ ဆရာတော်မိန့်သဖြင့် သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၃၇

**ကျောက်စာတိုင်**

ရက်ကန်းစင်တောင်၏ အဓိကရ (၃)ဌာန ဖြစ်သော ဆုတောင်းပြည့် စေတီတော်၊ သိဒ္ဓိပေါက် ဓာတ်ကျောင်းနှင့် အောင်မြေကျောက်ဖျာတို့၏အနီး တစ်နေရာတွင် ရက်ကန်းစင်တောင် ဆရာတော်ကြီး၏ ထေရုပ္ပတ္တိ ကျောက်စာတိုင် စိုက်ထူထားလေသည်။

ကျမ်းကိုး၊ ယင်းစာ-၃၈

ရက်ကန်းစင်တောင် ဆရာတော်ကြီး၏ လိုက်နာ မှတ်သားဖွယ်ရာဩဝါဒ တချို့ကိုလည်း ထို ကျောက်စာ၌ မှတ်တမ်းပြုထားသည်ကို ကောက်နုတ် တင်ပြပါမည်။

အို သူတော်ကောင်းတို့ မဟာဂန္ဓာရီလမ်းမှန်ဆီသို့ ဆင့်ဆင့်တက်ရေး စည်းကမ်းပေးမည်။ လေးနက်စွာသာလိုက်နာကြပါလော့။

(၁) ယုတ်မာညစ်ဆိုး မကောင်းမှုမျိုးကို တစ်ရံတစ်ဆစ်မျှ မပြုလုပ်ကြပါနှင့်။
(၂) ဓမ္မိယလဒ္ဓ စင်စစ်စွာရသည့်ပစ္စည်းကိုပင် မလိုချင်ဘဲရှောင်လွှဲကြဉ်ရန်။
(၃) အဖော်မညှိ တစ်ကိုယ်တည်းသာ ဘာဝနာ ကမ္မဋ္ဌာန်းစီးဖြန်းနေရန်။
(၄) ဆရာမိဘ အလိုကျဖြင့် မိတ္တကလျာ စည်းရုံးရာသည်။
(၅) ကမ္မဋ္ဌာန်းအာရုံတကယ်ထုံအောင် နေ့စဉ်ပွားများအားထုတ်ပါ။
(၆) ရပြီးကမ္မဋ္ဌာန်း ထို့ထက်ဆန်းအောင် ထပ်ထပ်ခါခါ ရှုမှတ်ပါလော့။
(၇) ဖြူစင်သီလမြတ်ဓမ္မကို နေ့ညမကွာစောင့်စည်းပါလေ။
(၈) ပညာရှိကို ချစ်ခင်မြတ်နိုးရိုကျိုးပါ။

http://www.dhammadownload.com



(၉) နိဗ္ဗာန်သည်သာ အားထားရာဟု ဘာဝနာလမ်းမြတ် ကမ္မဋ္ဌာန်းကို ကြိုးစားကာဖြင့် နေပါ။

(၁၀) ဆရာ့ဆရာ သူတော်စွာတို့ ပြုပြုသမျှ ပတ္တိဒါနကုသလကို ခံစားလိုမှုတောင်းဆုယူပါ။ ဤသို့သာလျှင် စည်းမျဉ်း(၁၀) ချက် မပျက်စေအောင် ကျင့်ကြံဆောင်က ဝိဇ္ဇာမိုရ်ခေါ်ကြား သင်သူတော်ကောင်းတို့ မဟာဂန္ဓာရီလမ်းမြတ်ဆီသို့ ရောက်မည်မလွဲ ကေန်ပဲဟု လေးနက်သာလှ မြတ်ဩဝါဒကို အရေးတယူပေးတော်မူကာဟူ၍ ဖတ်ရှုရလေသည်။

ကျမ်းကိုး၊ ယင်းစာ-၃၈

**ကျင့်စဉ် ပုရပိုက်ပေးရာနေရာထူး**

လိုဏ်ဂူနေရာမှ ဆက်လျှောက်သွားရာ (၂)ဖာလုံနီးပါး အရောက်တွင် ထူးခြားသော နေရာတစ်ခုသို့ ရောက်ခဲ့သည်။ ကျောက်တုံးငယ်များ မို့မို့မောက်မောက်ဖြင့် စုပုံနေလေသည်။ သုဓမ္မာစာရီမထေရ်မှ ရက်ကန်းစင်တောင် ဆရာတော်ကြီးအား ကျင့်စဉ် ပုရပိုက်ပေးသောနေရာဟု ဘိုးရသေ့ကြီး မိန့်သဖြင့် သိရသည်။

ကျမ်းကိုး၊ ယင်းစာ-၄၀

ကြံဖိုစုဆရာတော်ကြီးကလည်း ရှင်မထီးဆရာတော်က ကျင့်စဉ်စခန်းအောင်မြင်နည်းကို ထိုနေရာ၌ ပေးအပ်ခဲ့ကြောင်း မိန့်ဖူးသည်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၄၀

အေဒီ ၁၉၂၂ ရက်ကန်းစင်တောင်ဆရာတော်ကို မိုးတားမြို့သူမြို့သားတို့က ဘိုးဩဘာလို့သိကြတယ်။ ဘိုးဩဘာဟာ (၁၂၈၄-၈၅) မှာ မိုးတားမြို့ကို ရောက်လာတယ်လို့ အမေက ပြောပါတယ်ဟု ပြန်ပြောပါသည်။

ကျမ်းကိုး၊ မိုးတားဆရာဦးထွန်းရှိန်၊ မိုးတားရောက် ရက်ကန်းစင်တောင်ဆရာတော် ဦးဩဘာသ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ်(၁၅၃) ၊၁၉၉၉ ခု၊ မတ်လ စာ-၆၅

အေဒီ ၁၉၂၂ မိုးတားမြို့ရဲ့အနောက်၊ မြေနုရွာဘုန်းကြီးကျောင်းဝင်းအတွင်း၊ ဧရာဝတီမြစ်ကမ်းပါးထိပ်၊ ကုန်းမြင့်ပေါ်က သဃတဲကလေးမှာနေပြီး ဓာတ်စခန်းဖွင့်တာ(၃)နှစ်ခန့်ကြာသွားပါတယ်။ လူဝတ်ဖြင့် နေသွားပါတယ်။ ရဟန်းဝတ်နဲ့မဟုတ်ပါ။ အန္တေဝါသိက တပည့်အဖြစ် မြေနုရွာသား ဦးသက်ရှည်ကို လဲလျောင်းစေပြီးမှ သူ့ဆေးကြိမ်လုံးနဲ့တအား ဖိရိုက်တော့တာပဲတဲ့။ ဦးသက်ရှည်ခမျာ နာလွန်းလို့ အော်ပါတယ်။ ဘယ်လိုပဲ အော်အော် ရိုက်မြဲတိုင်း ဆက်ရိုက်တာ အမယ်လေးအလိုလေးနဲ့ ပက်လက်မှောက်ခုံလှိမ့်ခံရတယ်။ တစ်ကိုယ်လုံးမှာလဲ ကြိမ်ရာအရှိုးထင်ကုန်တာပေါ့။ ဒါပေမယ့် ဘိုးဩဘာကို ဘယ်သူမှမတားဝံ့ဘူး။ ကြိမ်ကိုမရိုက်ဘဲ ရပ်လိုက်တာနဲ့ တစ်ပြိုင်နက် ဦးသက်ရှည်မှာ လုံးဝမနာတော့ဘဲ အရှိုးတွေလဲ ပျောက်သွားတယ်။

ကျမ်းကိုး၊ ယင်းစာ-၆၅

အေဒီ ၁၉၂၂ ဦးသက်ရှည်ရဲ့သားကြီး မြေနုကျောင်းဆရာတော် ဦးသုတ၊ သားလတ် ဆေးဆရာ ဦးထွန်းမြတ်၊ သားငယ် ကျောင်းဆရာ ဦးသူတော်တို့ထံ ပညာဆင်းသက်ပါတယ်။ ကျွန်တော့်မိဘများဟာ ရှေ့တန်းက ပါပါတယ်။ အဘသစ်ကုန်သည် ဦးမြို့နဲ့အမိ ဒေါ်ရွှေဥ မိသားစုအတွက် ကြေးမောင်းကြီး တစ်လုံးမှာ စမတွေ စီရင်ပြီး ချိုးမြှင့်ထားပါတယ်။ ပြည်ဝင်-ပြည်ထွက်စီးပွားတက်နဲ့မိတ်တက်ရန်ပြေးဆိုတဲ့ သိဒ္ဓိ(၂)မျိုးပါ။ ကျွန်တော့်ဖခင်ဟာ သူ့အလုပ်စခန်းကို အိမ်က အထွက်မှာ ပြည်ထွက် မောင်း(၃)ချက်၊ သူ့အလုပ်စခန်းကအိမ်ကိုပြန်အဝင်မှာ ပြည်ဝင်-မောင်း(၃)ချက်ထုလေ့ရှိပါတယ်။ ဒီမောင်းသံကြောင့် မိတ်ဆွေတွေ တက်လာစေတယ်။ ရန်သူ

http://www.dhammadownload.com



တွေ ပြေးစေပါတယ်။ ကျွန်တော့် မိဘများဟာ ဒီမောင်းအစီအရင်ရဲ့ အစွမ်းကြောင့် ကြီးပွား ချမ်းသာပြီး သာသနာပြုရတယ်လို့ ယုံကြည်ကြတယ်။

ကျမ်းကိုး၊ ယင်းစာ-၆၅

အေဒီ ၁၉၂၂ — အဲဒါကတော့ ကျွန်တော်တို့ အိမ်ကြီးက မီးဖိုကြီးရဲ့ ထောင့်(၁)ထောင့်မှာ စီရင်တဲ့အစီအရင် တစ်ခုစီ၊ ထောင့်(၄) ထောင့်မှာ (၄)ချပ်မြေမြှုပ်ထားပါတယ်။ အမိန့်တော်ပြန်ထားခဲ့တာက ဒီမီးဖိုမှာ ချက်ပြုတ်တဲ့မီးဟာ နေ့နေ့ညည ဘယ်တော့မှ မပြတ်စေရဘူး။ ဘုရားအမှူးရှိတဲ့ သံဃာတော်များကို နံနက်တိုင်းဆွမ်းနှင့် ဟင်းကောင်းများလှူဒါန်းနိုင်စေ။ တစ်ကျိပ်မကတဲ့ အိမ်သူ အိမ်သားတွေနဲ့ လာသမျှ ဧည့်သည်တို့ကိုပါ ထမင်းဟင်းများ အလျှံပယ်ချက်ပြုတ်ပြီး ကျွေးနိုင်စေ။ ဒါနပါရမီ ဖြည့်နိုင်စေ။

ကျမ်းကိုး၊ ယင်းစာ-၆၆

အေဒီ ၁၉၄၄ — (၁၈-၈-၁၉၄၄) နေ့ မိုးတားမြို့ပေါ် ဗုံးကြဲစဉ်က ဗုံးတစ်လုံးဟာ အိမ်ကြီးကမီးဖိုကြီးရဲ့ အနောက် ဘက် (၁၅) ကိုက်ခန့်အကွာမှာ ကျပါတယ်။ ကပ်လျက်ရှိတဲ့ အိမ်ပေါ်တည့်တည့်ကျလို့ အိမ်ပါ လွင့်ထွက်ပြီး ပတ်ပတ်လည်ရှိအိမ်တွေ မီးစွဲလောင်ကာ ပြာကျစေပါတယ်။ ထူးတာက ဒီ အိမ်ကြီးဟာ ရေနံသုတ်ထားတဲ့ ပျဉ်ထောင်အိမ် ဖြစ်ပေမယ့် မီးမကူးပါ။ အံ့ဩစရာ၊ ဘိုးဩဘာ ရဲ့ စေအာဏာဟာ တည်နေဆဲပါတကားလို့ အံ့ဩမိပါတယ်။

ကျမ်းကိုး၊ ယင်းစာ-၆၆

အေဒီ ၁၉၀၃ — (၁-၁-၉၉) မှာ (၁၇-၆-၁၉၀၃) မွေး၊ ဒေါ်ရွှေဥရဲ့အသက်ဟာ (၉၅)နှစ်၊ (၆)လ၊ (၁၄)ရက် ရှိပါပြီ။

အေဒီ ၁၉၉၉ — လွန်ခဲ့တဲ့ (ရွှေသီ)ဘဝက လှူခဲ့တဲ့ ရေရဲ့အကျိုး(ရွှေသီနှင့်ရေအလှူ)ကြောင့် ကျန်းမာ ပကတိ ချမ်းသာစွာရှိပြီး ဒီအိမ်ကြီး၊ ဒီမောင်းကြီးလဲရှိဆဲပါ။ သား(၃)ယောက်၊ သမီး(၄)ယောက် တို့မှ ဆင်းသက်တဲ့၊ မြေး(၄၆)၊ မြစ်(၇၃)၊ တီ(၃)ယောက် ပေါင်း(၁၂၂)ယောက်ပေါက်ဖွား လျက်ရှိပါ တယ်ဟု မှတ်တမ်းတွေ့ရပါသည်။ ထူးခြားမှုကိုလည်း စဉ်းစား၍ သိနိုင်ပါသည်။

ကျမ်းကိုး၊ ယင်းစာ-၆၆

ဒီသိဒ္ဓိမီးဖိုကြီးမှာ တစ်ကျိပ်ထက် မနည်းနေကြတဲ့ အိမ်သားတို့ဟာ နေ့မီး၊ ညမီးမပြတ် ချက်ပြုတ် စားသောက်ကြ၊ နေ့စဉ်ဆွမ်းလောင်းကြနဲ့ စည်ကားလျက်ရှိနေပါသေးတယ်။ ဦးထွန်းဖေ-ဘိုးဩဘာက သူ့တပည့်တစ်ယောက်ကို ထမင်းစားပညာ ပေးရစ်ခဲ့တဲ့အကြောင်း ကျွန်တော် ကြား သိထားတာပြောပြပါ့မယ်။

မြေနုရွာသား ဖိုးခွေးဟာ ဘိုးဩဘာရဲ့ ဝေယျာဝစ္စတွေကို အနီးကပ်လာလုပ်ပေးလေ့ရှိတဲ့ ဆင်းရဲသားတပည့် တစ်ယောက်ပါ။ ဘိုးဩဘာဟာ မြေနုရွာမှာ သူ ကျင့်ကြံအားထုတ်တဲ့ အဓိဋ္ဌာန် (၃)နှစ်ပြည့်လို့ ဓာတ်စခန်းသိမ်းပြီး၊ မိုးတားက ထွက်တော့မယ့် အချိန်မှာ ဖိုးခွေးကို အခေါ်လွှတ်တယ်။

ဖိုးခွေးရောက်လာတော့ ဘိုးဩဘာကငါ့တပည့်နဲ့ တန်တဲ့ ထမင်းစားပညာပေးခဲ့မယ်။ မင်း လက်ဖဝါးမှာ ဆားသွားထည့်ခဲ့လို့ ခိုင်းပါတယ်။ ဖိုးခွေးဟာ ခိုင်းတဲ့အတိုင်း သူ့လက်ဖဝါးထဲမှာ ဆားပုံပြီး လာပြပါတယ်။ ဘိုးဩဘာကဖိုးခွေးကို ဒူးတုပ်ထိုင်ခိုင်းတယ်။ ပြီးတော့ဖိုးခွေးရဲ့ လက်ကို သူ့လက်နဲ့အုပ်ပြီး ငါဆရာအမိန့်အာဏာထားပြီး အပ်ခဲ့သည်။

ဖိုးခွေးဟာ ဆားပုံတဲ့လက်နဲ့ ဘယ်ကျွဲရိုင်းကို ပြပြ၊ ကျွဲရိုင်းဟာ ချက်ချင်းယဉ်သွားရမယ်။ ဖိုးခွေးဆီလာပြီး လက်ထဲက ဆားကို လာစားစေ။ ဒီအခါမှာ ဖိုးခွေးဟာ နဖားကြိုး ထိုးပြီးဖမ်းခေါ်

http://www.dhammadownload.com



တာကို လိုက်သွားစေလို့ အမိန့်တော်ပြန်တယ်။ ဘိုးဩဘာက ဖိုးခွေး ဒီနည်းနဲ့ ရိုင်းလို့ဖမ်းမရတဲ့ ကျွဲရိုင်းတွေကိုဖမ်း၊ သူ့သခင်ဆီသွားအပ်ပေး၊ ကျွဲရှင်ကပေးတဲ့ သဒ္ဓါကြေးကိုယူ။ ထမင်းတော့ ဝမှာပေါ့ ငါ့တပည့်ရာလို့ မှာကြားသွားပါတယ်။

မှာတဲ့အတိုင်း ဖိုးခွေးဟာ လိုက်နာပါတယ်။ ထမင်းစား ပညာက သူ့တစ်သက်ထမင်းကျွေးပါတယ် ဟု မျက်မြင်ကိုယ်တွေ့ ပြောဆိုကြပါသည်။

ကျမ်းကိုး၊ ယင်းစာ-၆၆

ဆရာကြီးတို့၏ အစောင်အမကို ခံယူလိုကြသော ပုဂ္ဂိုလ်များအတွက် အချက်ကျဝေဖန်နိုင်ကြ ရန် သိလိုသောစေတနာဖြင့် ဖော်ပြရပေသတည်းဟူသော ဝတ္ထုဆန်ဆန် မှတ်တမ်းတစ်ခု တွေ့ရှိရရာ အောက်ပါအတိုင်း ဖြစ်ပါသည်။

ကျမ်းကိုး၊ သာသနာပြုဆရာကြီး ဦးအောင်ဟန်၊ ရက်ကန်းစင်တောင်ဆရာတော်ဘုရားကြီး နှင့် ပန်းထိမ်ဆရာ တစ်ဦးဝတ္ထု၊ ပထမံတရားမဂ္ဂဇင်း၊ စာ-၁၃

ပြည်မြို့တွင် ၃-နှစ်ပတ်လုံး ပြည်ဆံတော်ဘုရားအနီး ရင်ခွဲဇရပ်ကြီး၌ ပါရမီရှင်များအတွက် အရူးယောင် ဟန်ဆောင်၍ သီတင်းသုံးနေထိုင်တော်မူလေသည်။

ဆရာတော်ဘုရားကြီး၏ လုပ်ငန်းစဉ်မှာ နေ့စဉ်မပြတ် နိစ္စပါတ်ထား၍ ပြည်ဆံတော်စေတီ တော်ကြီး၏ မြောက်ဘက် စောင်းတန်းဦးရှိ ခြသေ့ကြီးအောက်တွင် သီတင်းသုံးနေထိုင်၍ နှုတ်တော်က ပြောချင်ရာရာ မြည်တွန်တောက်တီး ပြောဆို၍ နေလေသည်။ ဘုရားဖူး ကြွလာ ကြသော ပုဂ္ဂိုလ်တို့တွင် အချို့ကလည်း အရူးကြီး ထင်မှတ်၍ အရေးမယူကြဘဲ သွားကြသည်။ အချို့ကလည်း ဆရာတော်ဘုရားကြီးထံချဉ်းကပ်၍ ရှိခိုးသွားကြသည်။

ဆွမ်းစားသောအခါ ရင်ခွဲဇရပ်ကြီးမှာပင် ဆရာတော်ကလေးတစ်ပါးက ဆွမ်းခံ၍ အမြဲဆွမ်းကပ် လေသည်။ ၎င်းဆရာတော်ကလေးကား၊ ယခုအခါတွင် ထွက်ရပ်လမ်းသို့ ဆရာတော်ဘုရားကြီး၏ စောင်မချက်ကြောင့် ထွက်မြောက်နိုင်လေပြီ။

၎င်းပြင်ပြည်မြို့မှလည်း ပန်းထိမ်ဆရာတစ်ဦးသည် ဆရာတော်ကလေး၏ အမိန့်ရှိချက်ကြောင့် ညနေခင်းတွင် ဆရာတော်ဘုရားကြီးထံအမြဲ လာရောက်၍ ပန်း-ရေချမ်း၊ ဖယောင်းတိုင်တို့ကို လှူဒါန်းပြီးလျှင် အဆုံးအမကို ခံယူလေသည်။ သို့ရာတွင် ပန်းထိမ်ဆရာ၏ ရည်ရွယ်ချက်မှာ ကား၊ ချမ်းသာလိုသော စေတနာရှေ့ရှု၍ အစောင်အမကို ခံလိုသောကြောင့် ဆရာတော်ဘုရား ကြီးထံ နေ့စဉ် နေ့တိုင်းလာ၍ ရှိခိုးပူဇော်ခြင်း ပြုလေသည်။

တစ်ခါတစ်ရံပန်းထိမ်ဆရာက ဆရာတော်ဘုရားကြီးအား လျှောက်ကြားသည်မှာ တပည့်တော် ချမ်းသာချင်ပါသည် ဘုရား။ သားကလေးကိုလည်း အကြီးအကျယ် ရှင်ပြုချင်ပါသည် ဘုရား၊ စောင်မတော်မူပါဟု လျှောက်ကြားလေသည်။

ထိုအခါ ဆရာတော်ဘုရားကြီးကမူ မကြားချင်ယောင်ဆောင်၍ နှုတ်တော်က ဗုဒ္ဓေါ ဗုဒ္ဓေါဟု ဆိုနေလေသည်။ ပန်းထိမ်ဆရာလည်း ဆရာတော်ကလေး၏ ညွှန်ကြားချက်ကို ယုံကြည်ပြီးလျှင် နေ့စဉ်နေ့တိုင်း စိတ်မပျက်ဘဲ ဆရာတော်ကြီးထံ အမြဲလာရောက်ဆည်းကပ်နေသည်မှာ ၃- နှစ်နီးပါးခန့် ကြာလေ၏။

တစ်နေ့သောအခါ ဆရာတော်ကြီးသည် အမိဋ္ဌာန်နှစ်စေ့မြောက်သဖြင့် ပြည်မြို့မှတစ်ဖန် သထုံမြို့သို့ကြွရန် ခာတ်စခန်း ခာတ်လမ်းတို့ကို စီစဉ်ပြန်လေသည်။ ဝိဇ္ဇာခိုရ်ဆရာများ၏ ထုံးတမ်းစဉ်လာဓမ္မတာသည် ဝတ်နိပါတ်နှင့် ပြည့်စုံသောတပည့်တို့အား ကြံဆောင်၍ ချီးမြှောက်မြဲ ဖြစ်သည့် အားလျော်စွာ ပန်းထိမ်ဆရာသည်လည်း ဆရာတော်ဘုရားကြီးအား

http://www.dhammadownload.com



၃-နှစ်တိုင်တိုင် ကြည်ညိုဆည်းကပ်ဝပ်တွား ခိုလှုံအထူးယုံကြည်အားကိုးချက်ရှိသောကြောင့် စောင်မ စောင့်ရှောက်ရန် တာဝန်ရှိသဖြင့် ဆရာတော်ဘုရားကြီးသည် ဓနသိဒ္ဓိ ခေါ် ရွှေငွေ ရတနာတို့ကို စီမံပြုလုပ်ပေးချင်သော်လည်း သာသနာတော်၏ အကျိုးစီးပွားနှင့် မယှဉ်သော ကြောင့်လည်းကောင်း၊ ပြုလုပ်ပေးရန် အချိန်ကာလမဟုတ်သောကြောင့် လည်းကောင်း၊ ဓနသိဒ္ဓိလမ်းကို အထူးဆောင်ရွက်မပေးတော့ဘဲ ပန်းထိမ်ဆရာ၏ အရောင်းအဝယ် ဖွံ့ဖြိုးရေးကို သာ ရှေးရှု၍ စောင်မပေးရန် အာရုံပြုပြီးလျှင် ဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် မိမိ၏ ခြေထောက်ကို ချိုဆွဲပြီးသော် ပြည်ဆံတော်စေတီတော်ကြီး၏ မြောက်ဘက် စောင်းတန်း ခြသေ့် ဦးတွင် သက်နီး ဝတ်ရုံတော်ကို ခင်းကျင်း၍ အရှုယောင်ဆောင်ပြီးလျှင် အပင်ပန်းခံတော်မူ၍ က,ပြယောင် ပြုလေသည်။

ထိုအခါ ကြည့်ရှုကြသော ပုဂ္ဂိုလ်တို့က ဘုန်းကြီးအရူးကြီး က,ပြ၍ ပိုက်ဆံတောင်းကြောင်း သိကြသဖြင့် ဝိုင်းဝန်း၍ တစ်ပြားနှစ်ပြား စသည်ဖြင့် ခင်းကျင်းထားသော သက်နီးပေါ်တွင် ပစ်ကြလေသည်။

တစ်နာရီကျော်ကျော် ရှိသောအခါ မိမိသက်နီးပေါ်သို့ ပစ်လှူကြသော ပိုက်ဆံတို့ကို ကောက်ယူ ၍ သီတင်းသုံးရာ ရင်ခွဲဇရပ်သို့ ပြန်လေသည်။ ပန်းထိမ်ဆရာလည်း ရင်ခွဲဇရပ်သို့ ရောက်နှင့်ပြီး ဖြစ်သောကြောင့် ဆရာတော်ကြီးနှင့်တွေ့လေရာ ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီးက 'ရော့ ငါ့တပည့် ငါဖြင့်မောလိုက်တာ ဟောဒီငွေကို တပည့်ယူတော့ မင်းချမ်းသာပါလိမ့်မည်' ဟုအမိန့်ရှိလေ၏။

ထိုအခါ ပန်းထိမ်ဆရာသည် ဆရာတော်ဘုရားကြီး ချီးမြှောက်သောငွေကို ကောက်ယူ၍ ရေတွက်ကြည့်ရာ (၇) ကျပ် (၈) ပဲရှိလေ၏။ အိမ်သို့ရောက်သောအခါ ဆွမ်းခံကြွရာသော ဆရာတော်ကလေးနှင့်တွေ့၍ ဆရာတော်ဘုရားကြီးထံက ငွေ (၇) ကျပ် (၈) ပဲရခဲ့ကြောင်း လျှောက်ထားရာ ဆွမ်းခံဆရာတော်ကလေးက ဒါယကာကြီး ချမ်းသာပြီ၊ ၎င်းငွေကို ဣစ္ဆာသယ ငွေခေါ် နိုင်သည်။ ဒါယကာကြီး ကောင်းမွန်စွာ သိမ်းဆည်းထား။ မသုံးနှင့်ဟု အမိန့်ရှိသော ကြောင့် ထိုငွေကို ရွှေထည့်သော သေတ္တာတွင် ထားလေ၏။

ကျမ်းကိုး၊ ယင်းစာ-၁၅

ဆရာတော်ဘုရားကြီးလည်း နောက်များမကြာမီ ခြင်္သေ့ဦးတွင် ပျံလွန်တော်မူလေသည်။ ထိုအခါ ပန်းထိမ်ဆရာမှာ အရောက်နောက်ကျနေသောကြောင့် မမီလိုက်ရဘဲ ဘုရားလူကြီးများက လူငှား၍ သုသာန်သို့ မြှုပ်နှံလိုက်ရကြောင်းကို အများပြောပြသဖြင့် သိရှိရလေသည်။

ကျမ်းကိုး၊ ယင်းစာ-၁၅

ပန်းထိမ်ဆရာလည်း ဆရာတော်ဘုရားကြီးကို မတွေ့ရသဖြင့် ဝမ်းနည်းကြေကွဲနေရာ တစ်နေ့ သောအခါ ည (၁၀) နာရီလောက်တွင် နေအိမ်သို့ကြွလာ၍ ဟေ့ကောင်၊ ငါ့ကို မင်း သိ သလားဟု မေးလိုက်ရာ ပန်းထိမ်ဆရာသည် ဆရာတော်ဘုရားကြီးမှန်းသိသဖြင့် ခြေထောက်ကို ဖက်၍ ငိုကြွေးရာ ငါသထုံသွားဦးမည် ဆို၍ ကြွသွားလေသည်။ ပန်းထိမ်ဆရာလည်း မိမိနှင့်ထိုက်တန်၍ ရလိုက်သောငွေ (၇) ကျပ် (၈) ပဲကိုမသုံးစွဲဘဲ ကောင်းမွန်စွာသိမ်းဆည်း ထားလေသည်။ ၎င်း ငွေ (၇) ကျပ် (၈) ပဲကို အကြောင်းခံ၍ ရောင်းရေးဝယ်ရေးပွင့်လင်းပြီးလျှင် မကြာမီရွှေဆိုင်ကြီး ဖြစ်လာပြီးလျှင် ဘာဘူလူမျိုးများနှင့် အရောင်းအဝယ် အဆက်အသွယ်ဖြစ်ပြီး လျှင် ကြီးပွားချမ်းသာ လေသည်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၁၆

http://www.dhammadownload.com



ပြည်မြို့မှာပင် ၎င်းပန်းထိမ်ဆရာသည် တိုက်အိမ်နှင့်နေထိုင်၍ သားသမီးများလည်း ရွှေရောင်းရွှေဝယ်နှင့်ပင် သက်မွေးဝမ်းကျောင်း ပြုကြသည်မှာ အလွန်ထင်ရှားပါကြောင်း၊ အင်္ဂလိပ်ခေတ်မပျက်မီတွင် ပြည်မြို့တောရတစ်ခုမှာ ဆွမ်းခံသော ဆရာတော်ကလေးက ဘုရားတစ်ဆူတည်လေသည်။ ထိုဘုရားတွင် ၎င်း ငွေ (၇) ကျပ် (၈) ပဲကို ဌာပနာ ပြန်လေသည်ဟု တွေ့ရှိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၁၆

စမတောင်တော် ကမ္ဘာ့ကပ်ကျော် စေတီတော်သမိုင်းတွင် စမတောင် အနောက် (၇)မိုင်ခန့်အကွာတွင် ရက်ကန်းစင်ကြောဟု နယ်တစ်ဝန်းလုံးသိသော တောင်ရိုးခင်းကြောတစ်ခု ရှိပါသည်။ အောင်သာရွာ၏ အရှေ့တောင်ယွန်းယွန်း(၂)မိုင်ခန့်အကွာ ရက်ကန်းစင်ကြောပေါ်၌ အုတ်ကြီးတင်လျက် စေတီငယ်နှစ်ဆူ ရှိခဲ့၏။ နောင်သောအခါ စမတောင်တော်သို့ မန္တလေးမှ ကြွရောက်၍ တရားအားထုတ်နေသော ဦးကုသလနှင့် ဦးဝေပုလ္လ သံဃာတော်နှစ်ပါးသည် စမတောင်မှကြွ၍ အနီးဝန်းကျင်ရှိ ဒါယကာများကို စုပေါင်းဦးဆောင်ပြီးလျှင် ထီးတော်အသစ်များ တင်လှူပြီးနောက် မကြာမကြာ ကြွရောက်ခြင်းဖြင့် “ရက်ကန်းစင်တောင်ဘုရား”ဟူ၍ လူသိများလာလျက် အရောက်အပေါက်လည်း အတော်အတန် များလာလေသည်။ ရက်ကန်းစင်တောင်ဆရာတော်ကြီး အားထုတ်ခဲ့သော နေရာဟူ၍ ယုံကြည်ကြကြောင်းဟူ၍ ဖော်ပြထားပါသည်။

ကျမ်းကိုး၊ ခေတ္တရာဆရာကျော်၊ လယ်ဝေးရက်ကန်းစင်တောင်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၂၀၀၃ ခု၊ မတ်လ စာ-၃၅

ရက်ကန်းစင်တောင်ကို အစွဲပြု၍ တွင်နေသောရွာငယ် တစ်ရွာ ဖြစ်ပါသည်။ အိမ်ခြေ(၆၀) ခန့်ပင်ရှိသည်။ ရက်ကန်းစင်တောင်နှင့် မနီးမဝေး(၂) မိုင်ကျော်ကျော်လောက်တွင် ရှိနေပေသည်။

သက်တော်ရှည်ရသေ့ကြီး တောင်ခြေသို့ ရောက်သည့်အခါ အရိပ်အာဝါသကောင်းသည့် သစ်ပင်များစွာကြောင့် ပူလာသမျှ အေးမြသွားရသည်။ သစ်ပင်များအောက် တောင်ခြေတစ်နေရာတွင် ကျောင်းသခ်မ်း ရှိသည်။ သက်တော် (၁၀၈)နှစ်ရှိ ရသေ့ကြီး ဦးဣန္ဒာစက္က၏ သခ်မ်းကျောင်းဖြစ်လေသည်။ ကျွန်ုပ်တို့လည်း ရသေ့ကြီးအား ဝင်ရောက်ဖူးမြော်ရင်း သိလိုသမျှ မေးလျှောက်ခဲ့သည်။ ကျောင်းပေါ်တွင် ရက်ကန်းစင်တောင်ဆရာတော် ဦးသြဘာသ ရုပ်တုနှင့် ဘိုးရသေ့ကြီး ဦးဣန္ဒာစက္က၏ ရုပ်တုများကို တွေ့ရသည်။

ကျမ်းကိုး၊ ယင်းစာ-၃၆

ကိုယ်တွေ့ဖြစ်ရပ်ဆန်း တစ်ခုကို ဘိုးရသေ့က ပြန်ပြောသဖြင့် သိရှိရသည်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

ဘိုးရသေ့က ရခိုင်ပြည်နယ်၊ မာန်အောင်ဇာတိပါကွယ်။ အသက်(၄၀)ကတည်းက ရခိုင်ကနေထွက်ပြီး ဆေးဆရာဘဝနဲ့ အသက်မွေးခဲ့တယ်။ အသက်(၆၀)အရောက်မှာ သာသနာစပြုတယ်။ ဘုရားတည်တယ်။ လယ်ဝေးက မီးလောင်ကုန်းကျောင်းမှာ ရသေ့စဝတ်ခဲ့တယ်။ ဒီတောင်ကိုရောက်တာ (၄၅)နှစ်ပြည့်ပြီ။ ဘယ်သူ့ဆီကမှ အလှူမခံခဲ့ဘဲ တတ်တဲ့ပညာနဲ့ တောင်၊ ပလုံးရက်ပြီးရောင်းချစားခဲ့တယ်၊ နေ့လယ်မှာ လောကီအလုပ်၊ ညပိုင်းမှာ လောကုတ္တရာအလုပ်လုပ်တယ်။ မေတ္တာကမ္မဋ္ဌာန်းကို အဓိက ကျင့်ပွားပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၃၆

ကာလအချိန်ကား စစ်မဖြစ်ခင် (ဂျပန်မတက်မီ) က ဟုဆိုပါသည်။ နေဝင်ရိုးရီအချိန်တွင်

http://www.dhammadownload.com



ကျွန်းဖိုတောင်သို့ သင်္ကန်း ခပ်နွမ်းနွမ်းပုတီးကြီး လည်ပင်းဆွဲလျက် ဘုန်းတော်ကြီးတစ်ပါးနှင့် အသက်(၄၀)ခန့်အရွယ်ရှိ ကပ္ပိယတစ်ဦးတို့ ရောက်လာကြသည်။ ကြွရောက်လာသော ဘုန်းတော်ကြီးက ထိုအချိန်က ကျောင်းထိုင်ဆရာတော် ဖြစ်နေသော ဦးဉာဏအား လျှောက်ထား၍ တစ်ညတာ အဓိဋ္ဌာန်ဝင်ခွင့် ပြုပါရန် ပန်ကြားလျှောက်ထားပါသည်။ အာဂန္တုဝတ်များကိုလည်း မပြုလုပ်ဖို့ ထပ်ဆင့်လျှောက်ထားခဲ့သည်။ သို့သော်ကျောင်းထိုင်ဆရာတော်က တစ်ညတာ အလုပ်လုပ်ခွင့် ပြုသည့်အပြင် အာဂန္တုဝတ်များကို လိုလေသေးမရှိအောင် ၎င်းဘုန်းတော်ကြီးနှင့် ကပ္ပိယအား ဧည့်ဝတ်ကျေပွန်ခဲ့ပါသည်။

ကျမ်းကိုး၊ နန္ဒာမင်းဇံ (ပခုက္ကူ)၊ ကျွန်းဖိုတောင်စေတီနှင့် ရက်ကန်းစင်တောင်ဆရာတော်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ စာ-၇၂

ဤနေရာသည် အဋ္ဌမအကြိမ်မြောက် အဓိဋ္ဌာန်ဝင်ခြင်း ဖြစ်ကြောင်း။ ဤနေရာမှနေ၍ နဝမနေရာဖြစ်သော ရခိုင်ပြည်နယ် ဘူးသီးတောင်သို့ ကြွရောက်ရန်ရှိပါကြောင်း သူ၏ အဓိဋ္ဌာန်အလုပ်အကြောင်း ပြောပြလေသည်။

ကျမ်းကိုး၊ ယင်းစာ-၇၂

ကျွန်းဖိုတောင် ဆရာတော်နှင့် ရက်ကန်းစင်တောင် ဆရာတော်တို့ တရားစခန်းအလုပ်စခန်းများ ပြောဆိုရင်းမှ ရက်ကန်းစင်တောင်ဆရာတော်က “ဆရာတော် လောကကြီးမှာ အဆန်းတွေရှိတယ်၊ ဆရာတော်ကြည့်မလား” ဟု မေးသောအခါ ဆရာတော်ကလည်း ‘ကြည့်မည်’ ဟု ပြန်လည်ဖြေကြားသောအခါ ရက်ကန်းစင်တောင်ဆရာတော်က ‘တပည့်တော် နေကို ဆွဲပြမယ်၊ ဆရာတော်တို့နှင့် ဒီကဒကာတွေ ငြိမ်ငြိမ်ကြည့်နေပါ’ ဟု ဆိုပြီး သူ့မှာပါသော အိတ်ကြီးထဲမှ သံလိုက်အိမ်မြှောင်လို အရာဝတ္ထုချကာ ရှေ့နောက်တောင်မြောက် သိအောင်ဦးစွာ ပြုလုပ်သည် ဟု ဆိုပါသည်။

ပြီးမှ ရုပ်ပွားတော်ငယ်ငယ်လေးဆူကို ရှေ့နောက်တောင်မြောက် ဝဲယာချ၍ ရေဇလုံကြီးကြီး တောင်းယူကာ အလယ်ဗဟိုချပြီး နှုတ်မှလည်း တဖွဖွ ရွတ်ဆိုလေသည်။ ဘေးအနီးအနားတွင်ရှိသော ဆရာတော်နှင့်ဒကာများအဖို့ တုတ်တုတ်မျှ မလှုပ်ကြ၊ စိတ်ပါဝင်စားစွာ ကြည့်ရှုမိကြသည်။

ရက်ကန်းစင်တောင်ဆရာတော်သည် ဇလုံကြီးထဲ နေလုံးကြီးပေါ်လာသောအခါ မလှုပ်ကြရန် ထပ်မံ၍ သတိပေးပြန်သည်။ ပြီးမှတစ်ယောက်ချင်း ကြည့်ရှုခိုင်းလေသည်။ အချိန်အတန်ကြာသည်အထိ ဆွဲထားနိုင်စွမ်းရှိသည်ကို ဆရာတော်နှင့် ဒကာများ ပြောမယုံကြုံဖူးမှသိ ဆိုသလို ရက်ကန်းစင်တောင်ဆရာတော်၏ အစွမ်းကိုလက်တွေ့ မျက်မြင်ယုံကြည်လိုက်ကြရသည်။

အတော်ကလေးကြာမှ ရက်ကန်းစင်တောင်ဆရာတော်က ‘ကဲ-ကဲ တော်လောက်ပြီ၊ သူလည်း သူ့ခရီးဆက်မသွားရလို့ ပင်ပန်းနေပြီ၊ ကျုပ်လဲဆွမ်းစားပင့်ထားတာအချိန်ကျပြီ၊ ဆွမ်းစားပြီး ခရီးဆက်ရဦးမှာမို့ သည်လောက်နဲ့ပဲ တော်လောက်ပါပြီ’ ဟုဆိုကာ သူတို့တွင် ပါလာသော ပစ္စည်းများကို သိမ်းဆည်းပြီး ဆရာတော် ဦးဉာဏနှင့် ဒကာများအား နှုတ်ဆက်ခွင့်ပန်၍ တောင်ပေါ်မှ ဆင်းသွားရာတောင်နှင့် မနီးမဝေးနေရာအရောက်တွင် ပျောက်ကွယ်သွားသည်ကို ဆရာတော်နှင့်ဒကာများ တွေ့မြင်လိုက်ကြရသည်ဟု သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၃

ရက်ကန်းစင်တောင်ဆရာတော် ဦးသြဘာသ ပခုက္ကူမြို့ရှိ ကျွန်းဖိုတောင်စေတီသို့ ကြွရောက်အလုပ်လုပ်သွားကြောင်းကို မှတ်တမ်းအရ ရှာဖွေတွေ့ရှိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၃

http://www.dhammadownload.com



မွန်ပြည်နယ်၊ ကျိုက်မရောမြို့နယ် ပိန္နဲကုန်းရွာအနီး တောစပ်ကလေးက ရွာတစ်ရွာတွင်လည်း ထူးဆန်းသော ဖြစ်ရပ်ဆန်းများ တွေ့ရှိရပါသည်။

ပဲခူးတိုင်း၊ ရွှေကျင်မြို့သို့ လေ့လာရန်သွားရောက်ခဲ့သည်။ ထိုအခါ လမ်းမတန်းမှ ဒေါ်တင်တင်အေးဟူသော အမျိုးသမီးက စကားစပ်မိရာမှ သူမ၏ (ယောက္ခမများ၏)နေအိမ်ဘုရားခန်းမှာ ရက်ကန်းစင်တောင်ဆရာတော် ထင်ရှားရှိစဉ်ကာလကြာမြင့်စွာ သီတင်းသုံးခဲ့သောနေရာဖြစ်သည်ဟု သိရသည်။

ကျမ်းကိုး၊ စံထွန်းသာ၊ ရက်ကန်းစင်တောင်ဆရာတော်၏ လောင်းလှေနှင့် ကျောင်းမြေ၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ အမှတ်(၂၅၄)၊ ၂၀၀၇ ခု၊ စက်တင်ဘာလ၊ စာ-၉၇။

ယနေ့တိုင်ပင်လျှင် လပြည့် လကွယ်နေ့တိုင်း ပြတင်းပေါက်များကို (၂၄)နာရီဖွင့်လှစ်ပေးထားရသည်။ ဆရာတော်ကြီး မိန့်မှာခဲ့ခြင်း ဖြစ်သည်။

ကျမ်းကိုး၊ ယင်းစာ-၉၉

နန္ဒဝန်ကွက်သစ်က အလင်းရောင်ကျောင်းမှာ ရက်ကန်းစင်တောင် ဆရာတော်တို့ စီးခဲ့တဲ့ လောင်းလှေရှိတယ်ဟုဆိုသဖြင့် သွားရောက်ရှာဖွေရာ တွေ့ရှိရသည်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၁၀၀

လောင်းလှေရှိရာ ကျောင်းတွင်းဝင်ရောက်ရာ လမ်းမြောက်ဘက်တွင် ရွှေဘုန်းပွင့်စေတီ၊ တောင်ဘက်တွင် ရွှေဘုန်းရှိန် စေတီတော်တို့ ကိန်းဝပ်တော်မူကြသည်။ ရွှေဘုန်းပွင့်မှာ ရသေ့ကြီး ဘိုးသုစန္ဒီတည်၍ ရွှေဘုန်းရှိန်မှာ ရက်ကန်းစင်တောင် ဆရာတော် ကြီးကြပ်တော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၁၀၀

ဘုရားခန်းတွင် တင်ပျဉ်ခွေ ကြေးသွန်းရုပ်ပွားတော် စံပယ်တော်မူသည်။ အောက်ခြေတွင် အလှူခံပုံးတစ်ခုရှိကာ ရက်ကန်းစင်တောင်ဆရာတော် ဦးဩဘာသနှင့် ဘိုးသုစန္ဒီအတွက်ဟု ကမ္ပည်းထိုးထားသည်။

ကျမ်းကိုး၊ ယင်းစာ-၁၀၀

ဘုရားစင်အနီး မှန်ဗီရိုတွင်း ယာဘက်၌ ရက်ကန်းစင်တောင်ဆရာတော်ရုပ်တုနှင့် လက်ဝဲဘက်တွင် ရသေ့ကြီး ဘိုးသုစန္ဒီရုပ်တုတို့ကို ရွှေချပူဇော်ထားသည်။ ထိုဗီရိုရှေ့တွင် ဆရာတော်၏ တောင်ဝှေးကို ထောင်ထားသည်။

ကျမ်းကိုး၊ ယင်းစာ-၁၀၀

တောင်ဝှေး၏ လက်ကိုင်ရိုးမှာ ကိန္နရာပုံ ဖြစ်သည်။ လက်နှစ်ဖက်ကို မြှောက်၍ တောင်ပံခတ်နေပုံ ထုလုပ်ထားသည်။

ကျမ်းကိုး၊ ယင်းစာ-၁၀၀

အေဒီ ၁၉၅၉ — ဘိုးသုစန္ဒီ၏ ဓာတ်ပုံတစ်ပုံတွင် ၁၃၂၁ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း(၂)ရက်နေ့ ခန္ဓာဝန်ချကြောင်း မှတ်တမ်းတွေ့ရသည်။

ကျမ်းကိုး၊ ယင်းစာ-၁၀၁

လောင်းလှေမှာ အရှည်ကိုးတောင်တစ်မိုက်၊ ဖြက် တစ်တောင်ရှိသည်။ ဧရာဝတီမြစ်ပြင်တွင် လှူးလာတဲ့ခေါက်ဖြတ်သန်းလှော်ခတ်ခဲ့သော လှေဖြစ်သည်ဟု သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၁၀၁

ကုန်းမှာခန္တီ၊ ရေမှာစန္ဒီလို့ ဆိုစမှတ်ရှိခဲ့တယ်။ ဦးခန္တီ ရသေ့ကြီးဟာ မြန်မာပြည့်အနှံ့စေတီပုထိုး

http://www.dhammadownload.com



သာသနိက အဆောက်အအုံတွေ ပြုပြင်တည်ဆောက်ပြီး သာသနာပြုရာမှာ နာမည်ကျော်ကြား သလို ရသေ့ကြီး ဘိုးသုစန္ဒီကလဲ ရေနဲ့ ဆက်စပ်နေတဲ့ မြစ်ကူးချောင်းခြား အင်းအိုင်ကမ်းနား အနှံ့ သာသနာပြုခဲ့တာ ကျော်ကြားခဲ့တယ်ဟု ဆိုကြပါသည်။

ကျမ်းကိုး၊ ယင်းစာ-၁၁။

ရက်ကန်းစင်တောင် ဆရာတော်ဖြစ်လာမည့် မောင်ကွန်းဟာ ရှမ်းမြောင်ရိုးဆရာတော်ကို ဥပဇ္ဈယ်ပြုပြီး ရှင်သာမဏေ ပြုခဲ့ပါတယ်။ ငယ်စဉ်ကျောင်းသားဘဝက ကျောက်တံကလေး ရခဲ့တဲ့ မန္တလေး မိုးဒါးကျောင်းမှာလည်း ပညာဆည်းပူးခဲ့ပါတယ်။ ဦးဩဘာသဟာ ပညာဉာဏ် ထက်မြက်ပြီး ပရိယတ္တိစာပေဘက်မှာ ထူးချွန်လှတဲ့အတွက် မိုးဒါးကျောင်းကြီးကို လွှဲအပ်ခံရတဲ့ အထိ ချီးမြှောက်ခံခဲ့ရပါတယ်။ သို့သော် ဦးဩဘာသဟာ ပါရမီလမ်းစဉ်အခိုင်အမာရှိနေတဲ့ အတွက် မိုးဒါးကျောင်းကြီးကို မျက်နှာလွှဲခဲ့ရပါတယ်။ ဇာတိနယ်ဘက် ပြန်ကြွလာပြီး ဟသ်ာမ ရွာမှာ သီတင်းသုံး သာသနာပြုတော်မူပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ မောင်သွေးချွန်၊ ကျေးဇူးရှင်ရက်ကန်းစင်တောင်ဆရာတော်ဘုရားကြီး၏ မဟာဂန္ဓာရီ လမ်းမြတ်ဆီသို့ ဝိဇ္ဇာရသစုံမဂ္ဂဇင်း၊ ၂၀၀၈ ခု၊ စက်တင်ဘာလ၊ စာ-၄၆

ရက်ကန်းစင်တောင်ဆရာတော်၏ တပည့်သာဝကတွေရဲ့ ပါရမီအနုအရင့်ကိုလိုက်ပြီး ထိုက် သင့်ရာပညာများ သင်ကြားချီးမြှင့် ပေးခဲ့ရာမှာ ဆရာချန်၊ ဆရာဆိုင်၊ ဆရာဦးရဲသူ၊ ဆရာလှိုင်တို့ ဟာ သမထဝိဇ္ဇာလောကမှာ အောင်မြင်ပေါက်မြောက်အထူးပင် ခရီးရောက်ခဲ့သူများဖြစ်ကြပါ တယ်ဟု ဆိုပါသည်။ ၎င်းတို့မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းစာ-၄၇

၁။ ဆရာချန်ဆိုသူသည် ဇီဝက ကြိုးကိုင်ဆေးဝိဇ္ဇာအဖြစ် တာဝန်အပ်နှင်းခံရသူ ဖြစ်ပါ တယ်။ဘိုးဆင်တန်၊ ဦးဘဂျမ်းနှင့် ဒေါ်ရွှေချည်တို့ဟာ ဆရာချန်ရဲ့သားသမီးများ ဖြစ်ကြပြီး ဝက်ပေါင်ရွာမှာ နေထိုင်လျက် ရှိပါတယ်။ တစ်နေ့မှာ ဆရာကြီးဦးကွန်းဟာ တောင်ရှည် ပုဆိုးတစ်ထည်ယူလာပြီး ငါ့ဝတ်ဖို့ မင်းလက်နဲ့ ချုပ်ပေးပါလို့ ခိုင်းပါတယ်။

ကျမ်းကိုး၊ ယင်းစာ-၄၇

ဆရာချန်လည်း မညည်းမညူ ချုပ်ပေးပါတယ်။ လက်နဲ့ချုပ်ပြီးလို့ ဆရာကြီးဦးကွန်းကို တောင်ရှည် ပုဆိုးပြန်လည် ပေးဆက်လိုက်တာနဲ့ ငါ့တပည့်တွေထဲမှာ မင်းဟာလက်မှာအချုပ်ပဲ လို့ ဆရာကြီး ဦးကွန်းက အမိန့်ရှိပါတယ်။

ကျမ်းကိုး၊ ယင်းစာ-၄၇

၂။ ဆရာဆိုင်(ဝါ) ဇောဓိမဏ္ဍိုင်ဆရာဆိုင် ဆိုသူသည် ရက်ကန်းစင်တောင်ဆရာတော် ကြီး ရဲ့ ဩဝါဒအတိုင်း မန္တလေးမှာ သီဟိုဠ်ကပင့်ဆောင်လာတဲ့ ဗောဓိပင်ပေါက်ကလေးကို ရှင်သန်အောင်ပြုစုပျိုးထောင်ခဲ့ပါတယ်။ ဗောဓိညောင်ပင်ကို နေ့စဉ်ရေလောင်းပြီး ဗောဓိပင် အနီးဝန်းကျင်မှာ တရားကျင့်ခဲ့ပါတယ်။ တဖြည်းဖြည်း ဗောဓိပင်ကလေးကြီး လာတော့ ဗောဓိပင် အနီးမှာ တဲထိုးပြီး တရားဆက်ကျင့်ပါတယ်။ လူတွေကို တရားဓမ္မဟောပြ သွန်သင်ပါတယ်။ ဗောဓိမဏ္ဍိုင် ဆရာဆိုင်ကို ရက်ကန်းစင်တောင်ဆရာတော်ကြီးက တိုင်းပြုပြည်ပြု တာဝန် ပေးအပ်ပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၄၇

၃။ ဆရာဦးရဲသူ ဆိုသူသည် ရက်ကန်းစင်တောင်ဆရာတော်ဘုရားကြီးရဲ့ တပည့်တွေထဲမှာ ရှားရှားပါးပါး ချင်းတိုင်းရင်းသား ဖြစ်ပါတယ်။ လူပုံက ခံ့ခံ့ညားညားရှိပြီး စကားပြောရာမှာ

http://www.dhammadownload.com



ပြတ်သားပါတယ်။ စစ်ကြိုခေတ်က ပျဉ်းမနားသွားပြီး ပထမံသာသနာပြုလုပ်ငန်းစဉ် ချမှတ်ပေးခဲ့သူဖြစ်ပါတယ်။ ပျဉ်းမနားမှာ ဦးမာလာ၊ ဦးထွန်း၀၊ ဦးထွန်းလှ၊ ဦးလှသီတို့ဟာ ဦးရဲသူရဲ့ ထင်ရှားတဲ့တပည့်သာဝကများ ဖြစ်ပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၄၇

ဆရာဦးရဲသူဟာ ထွက်ရပ်လမ်းမဝင်မီ ရန်ကုန်-မန္တလေး မီးရထားလမ်းအတိုင်း ဆယ်နှစ်လုံးလုံး ခြေလျင်လျှောက်၍ ကြေးစည်ထုပြီး မေတ္တာပို့ခဲ့သူပါ။ အလွန်ထူးခြား အံ့ဩဖွယ်ရာဖြစ်ပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၄၇

သရဏဂုံတည်၍ သီလမြဲကြပါဗျို့လို့ ဗျိုးဟစ်ပြီး ကြေးစည်တီးကာ ရန်ကုန်-မန္တလေးရထားလမ်းဆုံးအောင် ခေါက်တုံ့ခေါက်ပြန် လျှောက်ပြီး သတိပေးခဲ့ရပါတယ်။အင်္ဂလိပ်ဂျပန်နယ်ချဲ့ အစိုးရများက အရူးဟန် ဆောင်ထားတဲ့ သူလျှိုထင်ပြီး ချုပ်နှောင်နှိပ်စက်တာ ခံရဖူးပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၄၇

သတ္တဝါတွေကိုကယ်ဖို့ လူဝတ်၊ ရသေ့ဝတ်၊ ရဟန်းဝတ် အဝတ်အမျိုးမျိုးပြောင်းပြီး ဂန္ဓာရီထွက်ခဲ့သူဖြစ်ပါတယ်။ ကျေးဇူးရှင် ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီးက ဆရာဦးရဲသူကို သာသနာကိုစောင့်ရှောက်ဖို့ သာသနာ့ကြိုးကိုင် တာဝန်အပ်နှင်းတော်မူခဲ့ပါတယ်။

၄။ ဆရာလှိုင် - မန္တလေးဂေါဝိန်ဆိပ် စိန်ပန်းရပ် ဂွမ်းပုံဈေးနားက ဝါဆိုကျောင်းတိုက်အနီးမှာ နေထိုင်ခဲ့ပါတယ်။ နာမည်အပြည့်အစုံကဦးချမ်းလှိုင်ဖြစ်ပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၄၈

ဦးဝိန်နဲ့ ဦးပိန်ဆိုတဲ့ သားနှစ်ယောက် ရှိပါတယ်။ ၄ှက်ပြာကားဂိတ်မဆုံးမီ အနီးဝန်းကျင်မှာ ဦးချမ်းလှိုင်တည်ခဲ့တဲ့ ဘုရားတစ်ဆူရှိပါတယ်။ မနီးမဝေးမှာ ရက်ကန်းစင်တောင် ဆရာတော်ကြီး တည်ထားခဲ့တဲ့ ဘုရားတစ်ဆူလည်း ရှိပါတယ်။ ဆရာလှိုင်ဟာ ဆုကြီးပန်ပါရမီရှင်တစ်ဦး ဖြစ်ပြီး ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီးက မနောမယ ကြိုးကိုင်တာဝန် အပ်နှင်းတော်မူခဲ့ပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၄၈

စမတောင်သာသနာကို ဖွင့်န္တီးခဲ့ပြီး ဆကေသဓာတုဓာတ်ဘုရားခြောက်ဆူတည်ထားရာမှာ ဦးဆောင်ခဲ့တဲ့ အဖေရှင်ဟာ ဆရာဦးချမ်းလှိုင်ရဲ့ တပည့်တစ်ဦး ဖြစ်ပါတယ်။ အဖေရှင်ဟာလည်း ဆုကြီးပန်ပါရမီရှင်တစ်ဦးဖြစ်ကြောင်း သိရပါတယ်။

ကျမ်းကိုး၊ ယင်းစာ-၄၈

အမှန်တော့ ဆရာကြီးဦးကွန်း (ရက်ကန်းစင်တောင်ဆရာတော်)ဟာ ရောဂါဝေဒနာရှင် လူနာများကို အင်းလည်း မတိုက်၊ ဆေးလည်းမကျွေး၊ မိမိရဲ့သစ္စာမေတ္တာ အဓိဋ္ဌာန်အားဖြင့် သာလျှင် ပျောက်ကင်းချမ်းသာစေခဲ့ခြင်း ဖြစ်ပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၄၉

စင်ကြယ်စွာရတဲ့ ဓမ္မိယလဒ္ဓဝတ္ထုငွေကြေးမျိုးပင် မခင်တွယ်ရ၊ အချိန်မရွေးပေးစွန့်နိုင်ရမည်လို့ ဆရာကြီး ဦးကွန်းက ဆုံးမလေ့ရှိခဲ့ပါကြောင်း နှောင်းလူတို့သိသာအောင် မတ္တရာရက်ကန်းစင်တောင်မှာ ကျောက်စာရေးထိုးထားတာ ယနေ့တိုင်တွေ့မြင်နိုင်ပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၄၉

http://www.dhammadownload.com



လက်မှာအချုပ်လို့ မော်ကွန်းတွင်စေခဲ့တဲ့ ဆရာချန်ရဲ့ဇနီးအမည်က မိဆိုးလို့ ခေါ်ပါတယ်။ ပညတ်သွားရာ ဓာတ်သက်ပါမှာစိုးလို့ ဆရာကြီးဦးကွန်းက မိလှဝိုင်းလို့ အမည်ပြောင်းပေးလိုက်ပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၄၉

အေဒီ ၁၉၆၂ ဘုရားပွဲပြီးမှသာ ဆန်ကိုးပြည်ကုန်သွားတယ်လို့ ဒေါ်လှဝိုင်းကိုယ်တိုင်က သက္ကရာဇ် ၁၃၂၄ ခုနှစ်မှာ ပြန်ပြောခဲ့ပါတယ်။ မန္တလေးမျက်ပါးရပ်မှာ ကောက်ညှင်းဆန်ဝယ်ပြီး နှမ်းမနဲ(ထမနဲ) ထိုးကာ ခွေးများကို ဒါနပြုကျွေးမွေးခဲ့ခြင်း ဖြစ်ပါတယ်။ ညဦးကတည်းက ခွေးတွေကို စိတ်မနော အားဖြင့် ဖိတ်ကြားထားခဲ့ပါတယ်။ ဆရာကြီးဦးကွန်းရဲ့ အပိုင်းအခြားအကန့်အသတ်မရှိတဲ့ မေတ္တာဓာတ်ဟာ အဟိတ်တိရစ္ဆာန်ဖြစ်တဲ့ ခွေးများကိုပင် ယဉ်ကျေးသိမ်မွေ့သွားစေခဲ့ပါတယ်။ ခွေးအပေါင်းတို့ဟာ ဟိုကဒီက ညီညာဖျဖျရောက်လာကြပြီး လမ်းဘေးမှာ ဖျာတွေနဲ့ခင်းပြီး ကျွေးတဲ့ နှမ်းမနဲများကို ငြိမ်သက်စွာ၊ စည်းကမ်းရှိစွာ စားကြတာတွေ့ရပါတယ်။ ခွေးတွေဟာ တစ်ကောင်နဲ့တစ်ကောင် ရန်မစောင် မာန်မဖီဘဲ ချစ်ကြည်စွာစားခဲ့ကြပြီး လာရာလမ်းကို ပြန်သွားရာမှာလည်း စနစ်တကျတန်းစီပြီး ပြန်သွားတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၅၀

အေဒီ ၁၉၆၂ ဒေါ်လှဝိုင်းက သက္ကရာဇ် ၁၃၂၄ ခုနှစ်၊ နယုန်လဆန်း ၁၀ ရက်နေ့မှာ ပြန်ပြောပြခဲ့ပါတယ်။ ဇိဝကကြီးကိုင်ဆရာကြီး ဆရာချန်ရဲ့သားတစ်ယောက်ဖြစ်တဲ့ ဆရာကွြားဟာလည်း သိဒ္ဓိပေါက် ဆရာတစ်ဦး ဖြစ်ခဲ့ပါတယ်။ ဆရာကွြားဟာ မိမိရဲ့အဆင့်ပညာကို ရွာသစ်ကြီးရွာမှာ တစ်နယ်လုံးက တစ်သက် လုံးပြောမဆုံးအောင် ပြသခဲ့ပါတယ်။ ဆရာကွြားဟာ ဟိုရွာဒီရွာက ဆွေမျိုးမိတ်သင်္ဂဟတွေကို ဖိတ်ကြားပြီး အလှူကြီးပေး ကျွေးမွေးခဲ့ပါတယ်။ ဒီလိုအလှူပေးရာမှာ ကျေးရွာအလိုက် မဏ္ဍပ်ကန့်သားတိုးပြီး မဏ္ဍပ်ကြီးတွေထဲမှာ ဘာမှမပါရှိတဲ့ ပုတ်ကြီးများကို တန်းစီထားရှိခဲ့ပါတယ်ဟုဆိုပါသည်။။

ကျမ်းကိုး၊ ယင်းစာ-၅၀

အေဒီ ၁၉၆၂ "ဟဲ့မောင်ကွြား မင်းဟာနာမည်နဲ့ လိုက်အောင် ကွြားတတ်ပါပေတယ်။ မင်းကွြားတာ ကိစ္စမရှိဘူး။ ငါတို့ရွာ အရှက်ကွဲမယ်၊ မင်းလုပ်ပုံ ပြန်ကြည့်ဦးကွာ၊ ရွာတကာကလူတွေ ဖိတ်ထားတယ်။ ခုထိ မချက်မပြုတ်ရသေးဘူး။ ချက်စရာ ဆန်တစ်စေ့ မရှိသေးဘူး။ မဏ္ဍပ်ကြီးတွေ ထိုးထားလိုက်တာကဖြင့် ခပ်ကွြားကွြား" စသည်ဖြင့် ရွာသစ်ကြီးရွာလူကြီးများက အပြစ်တင်ပြောဆိုကြပါတယ်။ ဆရာကွြားကား မျက်နှာမပျက်၊ စိတ်မဆိုး၊ တုတ်တစ်ချောင်းကိုင်လျက် မဏ္ဍပ်ကြီးများ ရှိရာထွက်သွားပါတယ်။ ပုတ်ကြီးတွေအနားရောက်တော့မှ "ဟေ့ဟုတ်လို့ကျော်၊ ပုတ်လို့ပေါ်တဲ့ ကွ" ဟု ဟိန်းသံပေးပြီး ပုတ်ကြီးတွေကို တုတ်နဲ့ ရိုက်ပါတော့တယ်။

မကြာခင်မှာပဲ ဆန်အိတ်နဲ့ ကျောက်ဖရုံသီးတွေ အပြည့်တင်ဆောင်လာတဲ့ လှည်းကြီးတွေ ရောက်လာပြီး မဏ္ဍပ်ကြီးများရှေ့လာရပ်ပါတယ်။ ဆန်အိတ်တွေ ကျောက်ဖရုံသီးတွေချပြီး ချက်ခြင်းပဲ ချက်ပြုတ်ကြပါတော့တယ်။ သို့သော် ရွာသစ်ကြီးသားတွေက မောင်ကွြားသည် တကူးတက ဖိတ်ထားပြီးမှ ကျောက်ဖရုံသီးနဲ့ ကျွေးမယ်စီစဉ်တာ တဆိတ်မလွန်ဘူးလားလို့ ပြောဆိုပြစ်တင်ကြပါတယ်။ သူတို့ဆရာကြီး ဦးကွန်းဆိုတာလဲ ရူးနေတာပဲဟာ၊ ကျောက်ဖရုံသီးဟင်းနဲ့ ထမင်းဖိတ်ကျွေးတာ ရူးလို့လုပ်တာပေါ့ကွာစသည်ဖြင့်လည်း စော်ကားပြောဆိုကြပါတယ်။ ဆရာကွြားကား ဘာမှမတုံ့ပြန်၊ သည်းခံ၍ ဣန္ဒြေမပျက် ရှိနေပါတယ်။

အကျွေးအမွေးတာဝန်ကျသူများကား ကျောက်ဖရုံသီးဟင်းတွေ ကော်ရခပ်ရ ကျွေးရမှာ မျက်နှာ

http://www.dhammadownload.com



ပျက်နေကြပြီ။ အချိန်တန်လို့ ရွာနီးချုပ်စပ်က ဆွေမျိုး မိတ်သင်္ဂဟများ ဖွေးဖွေးလှုပ်ရောက်ရှိလာတဲ့အခါ ထမင်းပွဲပြင်ပြီး ကျောက်ဖရုံသီးဟင်းတွေ ခပ်လိုက်တဲ့အခါ 'ဟင်၊ ဟာ'ဆိုတဲ့ အာမေဍိတ်သံတွေ ဆူညံပွဲတင်သွားပါတော့တယ်။ အိုးကြီး အိုးငယ်တွေနဲ့ ချက်ထားတဲ့ ကျောက်ဖရုံသီးများဟာ စားလို့ ကောင်းလိုက်ပုံများကလည်း ဆွေမျိုးမေ့အောင်ကောင်းတာတဲ့ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၅၁

ရက်ကန်းစင်တောင်ပေါ်မှာ အောင်တော်မူပြီးနောက် ဆရာကြီး ဦးကွန်းကတော့ တစ်နေ့တခြားများပြားလာတဲ့ ဧည့်ပရိသတ်တွေကို ရှောင်ရှားရင်း မိမိလည်း အားထုတ်ချိန်ရအောင် သံပျော့တောင်(ဝါ) သပျောတောင်ပေါ် တက်ခဲ့ပါကောကတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၅၁

ဆရာကြီးဦးကွန်းကိုလည်း ရက်ကန်းစင်တောင်ဆရာ၊ စင်တောင်ဆရာကြီး၊ မင်္ဂလာရန်အောင်ဆရာကြီး စသည်ဖြင့် အမည်အမျိုးမျိုးဖြင့် သာသနာပြုခဲ့ကြောင်း လေ့လာသိရှိရပါသည်။ ငါးမည်ရ ငါးဘွဲ့ခံဆိုသည်မှာ -

၁။ ရက်ကန်းစင်တောင်ဆရာတော် ဦးဩဘာသ ၂။ ဆရာကြီးဦးကွန်း ၃။ ကိုရင်ကြီး
၄။ မင်္ဂလာရန်အောင်ဆရာကြီး ၅။ စင်တောင်ဆရာကြီး . . . တို့ ဖြစ်ပါတယ်။

ကျမ်းကိုး၊ ယင်းစာ-၅၁

ဆရာတော်ဘုရားကြီးရဲ့ ထေရုပ္ပတ္တိကျောက်စာကမ္ဗည်းမော်ကွန်း စိုက်ထူထားပါတယ်။ ကျောက်စာမှာ ဖော်ပြထားတဲ့ ဆရာတော်ဘုရားကြီးရဲ့ ဖွားသက္ကရာဇ်နဲ့ အခြားသောစာအုပ်များ ခရစ်နှစ် (၁၉၇၆) ထုတ် ဦးအောင်မြတ်၏ သမထအာရုံ၊ မြန်မာသက္ကရာဇ် (၁၃၃၀) ထုတ်ဦးသောင်း၏ သင်္ခေပ ထေရုပ္ပတ္တိစာတမ်းတို့မှာ ဖော်ပြထားတဲ့ သက္ကရာဇ်ချင်း ကွဲလွဲနေတာတွေ့ရပါတယ်။ ဦးဩကျော်တက် ရက်ကန်းထွက်ဆိုတဲ့စကားအရ ဦးအောင်မြတ်၏ မြန်မာသက္ကရာဇ် (၁၁၂၇)၊ အေဒီ (၁၇၆၅) မှာ ဖွားမြင်တယ်လို့ ဆိုပါတယ်။ ဦးသောင်း၏ ထေရုပ္ပတ္တိစာတမ်းမှာ မြန်မာသက္ကရာဇ် (၁၁၉၉)၊ အေဒီ (၁၈၃၇) မှာ ဖွားတော်မူကြောင်း ဖော်ပြထားပါတယ်။ ကျောက်စာမှာတော့ မြန်မာသက္ကရာဇ် (၁၂၀၂) ခု၊ အေဒီ (၁၈၄၀) တပေါင်းလဆန်း (၉) ရက်၊ တနင်္ဂနွေနေ့ဖွားလို့ ရေးထိုးထားပါတယ်။ သက္ကရာဇ် ၁၂၅၈ ခု အေဒီ ၁၈၉၆၊ တပေါင်းလဆန်း (၈) ရက်၊ ညနေ (၅) နာရီ ရက်ကန်းစင်တောင် ဆုတောင်းပြည့်ဘုရားကြီး၏ အရှေ့တောင်ထောင့် ကျောက်ဖျာကြီးပေါ်တွင် သိဒ္ဓိစခန်းအပြီးတိုင် အောင်တော်မူကြောင်း မှတ်တမ်းတင်ရေးထိုးထားတာဟု ပညာရှင်တို့က ဆိုကြပါသည်။ ကျမ်းကိုး၊ ယင်းစာ-၅၂ ကို ကြည့်ပါ။

အေဒီ ၁၉၀၄ ရက်ကန်းစင်တောင်ဆရာတော်ဆိုတာငါပဲ၊ ငါဟာ သက္ကရာဇ် (၁၂၆၆) ခုနှစ်က မန္တလေးမြို့ရွှေလက်ဝါး ပယင်းရောင်ဆေးတိုက်က ထွက်လာခဲ့တာပဲဟု ဆိုပါသည်။

ကျမ်းကိုး၊ မောင်သွေးချွန်၊ ရက်ကန်းစင်တောင်ဦးဩဘာသ၊ ပါရမီကြိုးကိုင် ရက်ကန်းစင်တောင် ဆရာတော် (၂) ဝိဇ္ဇာရသစုံမဂ္ဂဇင်း၊ ၂၀၀၈ ခုနှစ်၊ အောက်တိုဘာလ၊ စာ-၇၂။

ရက်ကန်းစင်တောင် ဆရာတော်နှင့် ပတ်သက်သော ဆရာတော်တစ်ပါး အကြောင်းကိုလည်း လေ့လာသိရှိရပါသည်။ ထိုဆရာတော်မှာ ဦးပဋင်းလေး ဦးသဒ္ဓမ္မသိဒ္ဓိဆိုသူ ဖြစ်ကြောင်း သိရပါသည်။ ထိုဦးဇင်းသည် မြန်အောင် ညောင်တေားရွာမှ ရန်ကုန် သဃ်န်းကျွန်း ရွှေနားပန် ကျောင်းတိုက်သို့ ပြန်ကြွလာခဲ့ပါတယ်။ အဲဒီနောက် ဓာတ်ဆောင်ရာ ပုပ္ပားတောင်သို့ ဂန္ဓာရီ ခရီးကြွတော်မူခဲ့ပါတယ်ဟု သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၄

http://www.dhammadownload.com



ပုပ္ပားတောင် ရွှေနပေဂူမှာ မီးလွတ်၊ သက်သတ်လွတ် အာဟာရများကိုသာ ဇကေသနိက် တစ်ထပ် တည်းဘုဉ်းပေးပြီး ကျေးဇူးရှင် ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီး သွန်သင်လေသမျှ တစ်သဝေမတိမ်း ကျင့်ကြံအားထုတ်ပါတော့တယ်ဟု သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၄

အဲဒီတုန်းက ဆရာတော်လေး ဦးသဒ္ဓမ္မသိဒ္ဓိရဲ့ သက်တော်ဟာ သုံးဆယ်ကျော်မျှသာ ရှိပါသေး တယ်ဟု သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၄

ဆရာတော်ရဲ့တပည့်အရင်းတွေဖြစ်တဲ့ ဗောဓိပင်ဆရာဆိုင်နဲ့ အဖေကြီး ဦးချမ်းလှိုင်တို့ဟာ မန္တလေးအခြေစိုက်သာသနာပြု ပုဂ္ဂိုလ်ကြီးများ ဖြစ်ကြပါတယ်။ ဘုန်းကြီးငယ်ငယ်လေးဘဝ တုန်းက ရက်ကန်းစင်တောင်ဆရာတော်ကြီးကို မန္တလေးမှာတွေ့မြင်ခဲ့ဖူးတယ်။ အဲဒီတုန်း ကတော့ ကလေးဆိုတော့ ဘာသိဦးမှာလဲကွာ၊ ဆရာတော်ကြီးကို နေ့စဉ်လိုလိုဖူးခဲ့ရပါတယ်။ ရက်ကန်းစင်တောင်ဆရာတော်ကြီးရဲ့ ထူးချက်ကတော့ သံဇလုံကြီးနဲ့ ဆွမ်းခံတာပဲကွ၊ ဘုန်းကြီး ကိုယ်တိုင်မြင်ခဲ့တာ ဒါကြောင့် ဆရာတော်ကြီးကို သံဇလုံကိုယ်တော်ကြီးလို့ အရပ်ကခေါ်တာ မှတ်မိနေတယ်ဟု သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၅

ပြီးတော့ အထူးသတိပြုမိတာကတော့ ဆရာတော်ရဲ့ဦးခေါင်းတော်ပဲကွ၊ ဦးခေါင်းတော်က တော် တော်ကြီးတယ်၊ အရပ်ကလည်း ခြောက်ပေလောက်မြင့်တယ် ထင်ရတယ်။ မန္တလေး ဆေးရိုး ဝင်းထဲမှာ နေသွားတာ၊ ကျော်ရန်ရဲ့ ခြံဝင်းထဲမှာ တဲလေးတစ်လုံးထိုးပြီးနေသွားတာဟု သိရပါ သည်။

ကျမ်းကိုး၊ ယင်းစာ-၇၅

အေဒီ ၂၀၀၆ ရန်ကုန်တိုင်း၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ မေဓာလင်္ကာရကျောင်းတိုက်မှ သက်တော်ရှည် ဆရာ တော်ကြီးက ၆-၄-၀၆ နေ့က ပြောပြခဲ့တာတွေပါဟု သိရပါသည်။

အဲဒီတုန်းက မန္တလေးနန်းတွင်းထဲမှာ အင်္ဂလိပ်စစ်တပ်က တပ်စွဲထားပါတယ်။ ရက်ကန်းစင် တောင်ဆရာတော်ကြီးဟာ အစောင့်အကြပ်ထူထပ်လှတဲ့နန်းတွင်းထဲကို အတင်းကြွတော်မူပါ တယ်။ အင်္ဂလိပ် စစ်ဗိုလ်တွေနဲ့ ကုလား စစ်သားတွေက ဟန့်တားပေမယ့် ဆရာတော်ကြီး ကတော့ ဂရုမစိုက်ပါဘူး။ ကြောက်လန့်တဲ့ အမူအရာလည်း လုံးဝ မရှိပါဘူး။ ရက်ကန်းစင် တောင်ဆရာတော်ကြီးဟာ နန်းတွင်းထဲက ပုတ်တလုပ်(ပုန်းတလုပ်)ကန်ပေါင်ရိုးပေါ်မှာ အကျ အနထိုင်ပြီး သီတင်းသုံးနေတော်မူပါတယ်။ အင်္ဂလိပ်စစ်တပ်က ဘယ်လိုပင်ခြိမ်းခြောက်ပေမယ့် ဆရာတော်ကြီးကတော့ နည်းနည်းမှ မတုန်လှုပ်ပါဘူး။ ညအချိန်ရောက်တဲ့ထိ ဆရာတော်ကြီး ဟာ ကန်ပေါင်ရိုးပေါ်မှာ သီတင်းသုံးနေဆဲ ဖြစ်ပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၅

အဲဒီမှာ ဂေါ်ရာကုလားစစ်သားတွေ ရောက်လာပြီး ရက်ကန်းစင်တောင်ဆရာတော်ကြီးကို မောင်းထုတ်ပါတယ်၊ ဆရာတော်ကြီးကား မတုန်လှုပ်ကျောက်ရုပ်ကြီးတစ်ခုပမာသာ။ အဲဒီမှာ ဂေါ်ရာကုလားတစ်ယောက်က နံပါတ်တုတ် တရမ်းရမ်းနဲ့ ခပ်ကြမ်းကြမ်းမောင်းထုတ်တယ်။ ဆရာတော်ကြီးကား ပကတိတည်ငြိမ်စွာ သီတင်းသုံးလျက်။ ဂေါ်ရာ ကုလားဒေါသထွက်လာပြီး နံပါတ်တုတ်နဲ့ တအားရိုက်တော့တယ်။ အချက်ပေါင်းများစွာ ရိုက်ပေမယ့် ဆရာတော်ကြီးက လဲကျမသွားဟု ဆိုပါသည်။

http://www.dhammadownload.com



အေဒီ ၁၉၂၆ ငါ မနာဘူး. . . နင်နာမယ်ဟု ရက်ကန်းစင်တောင်ဆရာတော်ကြီးက ဣန္ဒြေမပျက် ပြောလိုက်တယ်။ ကုလား စစ်သားတွေ စိတ်ပျက်လက်ပျက်ပြန်သွားပြီး အင်္ဂလိပ်အရာရှိတွေကို အစီရင်ခံလိုက်တယ်။ ဆရာတော်ကြီးကို ရိုက်တဲ့ ဂေါ်ရာကုလားစစ်သားဟာ တာဝန်ချိန်ပြီးဆုံးလို့ နားနေပြီဆိုတာနဲ့ သူ့ကိုတစ်စုံတစ်ယောက်က လာရိုက်သလိုခံစားလိုက်ရပြီး တအားအား အော်ဟစ်ငိုယိုလူးလှိမ့်နေရတော့တယ်။ ငါမနာဘူး. . . နင်နာမယ်လို့ ဆရာတော်ကြီးအမိန့် ရှိတာကို သတိရလိုက်ပြီး ဗုဒ္ဓဘာသာကို မစော်ကားတော့ပါဘူး။ မြန်မာဘုန်းကြီးကို မစော်ကားတော့ပါဘူးလို့ ဆရာတော်ကြီးကို ရည်မှန်းကန်တော့ပြီး ဝန်ချလိုက်တော့မှ ဒဏ်ရာအနာတွေက သက်သာရာရတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၅

အေဒီ ၁၉၂၆ ဒီသတင်းဟာ ချက်ချင်း ပျံ့နှံ့သွားပေမယ့် အင်္ဂလိပ်စစ်ဗိုလ်တွေက မယုံဘူး။ ဒါနဲ့ ခပ်မိုက်မိုက် ဂေါ်ရာစစ်သားတွေကို တာဝန်ပေးပြီး ဆရာတော်ကြီးကို မောင်းထုတ်စေပြန်တယ်။ ဗလကောင်းကောင်းကုလားစစ်သားတစ်ဦးက ဆရာတော်ကို နံပါတ်တုတ်နဲ့ တအားလွဲရိုက်ပြန်ပါတယ်။ ငါမနာဘူး. . နင်နာမယ်လို့ ဆရာတော်ကြီးက ဒါပဲအမိန့် ရှိပြန်တယ်။ ဒီတစ်ခါတော့ ဂေါ်ရာ ကုလားဟာ တာဝန်ပြီးဆုံးချိန်ကို မစောင့်လိုက်ရဘူး။ အင်္ဂလိပ် စစ်ဗိုလ်တွေရဲ့ရှေ့မှာ တာဝန်ထမ်းဆောင်နေတုန်းမှာပဲ ဘယ်သူကမှန်းမသိ။ တဗုန်းဗုန်းရိုက်တာခံရပြီး လဲကျ လူးလှိမ့် အော်ဟစ်နာကျင်နေတော့တယ်။ ဗုဒ္ဓဘာသာရဲ့တန်ခိုးတေဇော်နဲ့ ရက်ကန်းစင်တောင် ဆရာတော်ကြီးရဲ့ စွမ်းရည်သတ္တိထူးတွေကို အင်္ဂလိပ်အရာရှိကြီးတွေ မျက်လုံးပြူး မျက်ဆံပြူး မြင်တွေ့လိုက်ရပေပြီ။ ဗုဒ္ဓဘာသာကို မစော်ကားတော့ပါ။ မြန်မာဘုန်းကြီးကို မစော်ကားတော့ပါလို့ ဂေါ်ရာကုလားက တောင်းပန်လိုက်ပါမှ ဒဏ်ရာအနာတရတွေက ချက်ခြင်း သက်သာရာရသွားပြန်ပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၅

အေဒီ ၁၉၂၆ အဲဒီတုန်းက နန်းတွင်းမှာ အင်္ဂလိပ်စစ်တပ်အုပ်ချုပ်ရေးပိုင်းမှာ အရေးပါတဲ့ အရာရှိတစ်ဦးကတော့ မစ္စတာ ဂရန့်ဆိုသူ ဖြစ်ပါတယ်။ ဂရန့်ဟာ အလေးအနက်စဉ်းစားပြီး ဆရာတော်ကြီးကို အသေအချာအကဲခတ်စေပါတယ်။ ဒီတော့မှ ပိုပြီးအံ့ဩစရာတွေနဲ့ ကြုံတွေ့လာရပါတော့တယ်။ နေ့နေ့ညည ဆရာတော်ကြီး ကျိန်းစက်နေတာ လုံးဝ မတွေ့ရ။ မှက်၊ ခြင်၊ ယင်စသော အကောင် လေးများဆရာတော်ကြီးကိုယ်ပေါ်မှာ လုံးဝမနား၊ လုံးဝမကိုက်။ မည်သည့် အာဟာရကိုမှ ဆရာတော်ကြီး ဘုဉ်းပေးတာမတွေ့ရ၊ ယုတ်စွအဆုံး ရေသောက်တာပင်မတွေ့ရ။ မအိပ် မစားသော်လည်း ဆရာတော်ကြီးသည် ပိန်ချုံးမသွား၊ ငိုက်မျဉ်း၍ မနေ၊ ဣန္ဒြေကြီးမားစွာဖြင့် သီတင်းသုံးနေသည်ကိုသာ တွေ့ကြရပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၆

အေဒီ ၁၉၂၆ ဗုဒ္ဓဘုရားရဲ့ သားတော်များ၊ မြန်မာလူမျိုးများဟာ အင်မတန်အံ့ဩဖွယ် ကောင်းလေစွတကားလို့ မစ္စတာဂရန့် ကောင်းစွာမှတ်သားခွင့် ရခဲ့ပေပြီ။ ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီးအား မန္တလေးနန်းတွင်းမှ မောင်းထုတ်ခြင်း၊ ရိုက်နှက်၍ နှိပ်စက်ခြင်းစသောသတင်းများ မြန်မာ ရပ်ကွက်များသို့ ပေါက်ကြားသွားလျှင် မြန်မာတို့သည် ဇာတိမာန် နိုးကြားလာကာ ဆူပူအုံကြွမှုများ ဖြစ်လာနိုင်တယ်လို့လည်း မစ္စတာဂရန့်တွေးမိပါတယ်။ ဒီတော့ အကြမ်းနည်းနဲ့ မရရင် အနုနည်းကိုသုံးမယ်လို့ စဉ်းစားမိပြန်ပါတယ်။ မိမိနဲ့ရင်းနှီးတဲ့ မြန်မာတစ်ဦးဦးနဲ့တိုင်ပင်ပြီး ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီးကိုစွဆောင်ရွက်မယ်လို့ စီစဉ်လိုက်ပါတော့တယ်။

http://www.dhammadownload.com



အေဒီ ၁၉၂၆ အဲဒီမှာ မြန်မာအမျိုးသားထဲက ဦးကျော်ရန်ဆိုတာ ဘာသာရေးကိုင်းရှိုင်းပြီး ယုံကြည် စိတ်ချရတယ်။ ဦးကျော်ရန်ကတစ်ဆင့် ရက်ကန်းစင်တောင်ဆရာတော်ကြီးကို ပင့်ပြီး နန်းတွင်းကနေ အပြင်ရောက်အောင်ပင့်ဆောင်ရင် သင့်တော်လိမ့်မယ်လို့ မစ္စတာဂရန့် စဉ်းစားမိတယ်။ ဒီကိစ္စ ဦးကျော်ရန်ကို ဖွင့်ဟတိုင်ပင်တဲ့အခါ ဆရာတော်ကြီးဘွဲ့တော်က ဘယ်လိုခေါ်ပါသလဲ၊ ဘယ်က ကြွလာပါသလဲ စသည်ဖြင့် ဦးကျော်ရန်က မေးမြန်းစုံစမ်းတယ်၊ မစ္စတာဂရန့် မဖြေနိုင်ပါ။ ဒီမေးခွန်း တွေကို သူတို့မေးပြီးခဲ့ပြီ။ ဆရာတော် ကိုယ်တိုင်က လုံးဝအဖြေမပေးခဲ့ပါ။ အဲဒီလို အင်္ဂလိပ်စစ်တပ်က အဖြေမပေးနိုင်တာသည်ပင်လျှင် ဦးကျော်ရန်အဖို့ စိတ်ဝင်စားစရာကောင်းနေပြီ။ ဒါနဲ့ဦးကျော်ရန် နန်းတွင်းကိုလိုက်လာပါတယ်။ "ဟဲ့ ကျော်ရန်၊ နင်အင်္ဂလိပ် ကိုယ်စားလှယ်လား" ရောက်မဆိုက်မှာပင် ရက်ကန်းစင်တောင်ဆရာတော်ဘုရားကြီးက ပြတ်ပြတ် သားသားမေးလိုက်လေရာ ဦးကျော်ရန်မှာ အသက်ထွက်မတတ် ကြောက်လန့်သွားပါတယ်ဟု ဆိုပါသည်။

အေဒီ ၁၉၂၆ ပြားပြားဝပ်ကန်တော့နေရာက ငါ့နာမည်ကို ဘယ်လိုလုပ်ပြီးသိနေပါလိမ့်လို့ ဦးကျော်ရန် စဉ်းစားနေမိလေရဲ့။ "မင်းတို့မန္တလေးမှာ ခွေးတွေကို ထမင်းဖိတ်ကျွေးတုန်းက မင်းဘယ်လို ဝေဖန်ခဲ့သလဲ။ အလှူခံတစ်ကျိပ်လေး. . ခွေးတောင်ပါသေးဆိုတဲ့ ဗုဒ္ဓယဉ်ကျေးမှုစကားပုံကို မင်းမကြားဖူးရှေ့သလား မောင်ကျော်ရန်ရဲ့. . . " ဘုရား. . . ဘုရား. . ။ သူ့ရဲ့စိတ်နဲ့ပြစ်မှားခဲ့တာကအစ ဆရာတော်ကြီးသိနေပါပေါ့လား။ "တပည့်တော်မှားမှန်းသိလို့ ရက်ကန်းစင်တောင်အထိ လိုက်လာခဲ့တာ ဝန်ချတောင်းပန်ဖို့ပါဘုရား။ အဲဒီတုန်းက ဆရာတော်ကြီးမရှိလို့ မဖူးခဲ့ရပါဘုရား၊ ယခုဖူးရလို့ဝမ်းသာလှပါတယ်ဘုရား. . . " ဦးကျော်ရန်ဟာ ထိခြင်းငါးပါးနဲ့ ဆရာတော်ကို ကန်တော့ရင်းလျှောက်ထားလိုက်ပါတယ်။ "ငါ့ကိုဖူးရလို့ မင်းကဂရန့်ကို ကျေးဇူးတင်နေတယ်ပေါ့လေ" သူ့စိတ်ထဲမှာဖြစ်နေတာ၊ ပြီးတော့အင်္ဂလိပ်အရာရှိရဲ့ နာမည် အားလုံးကို သိနေပါပေါ့လား။ ဦးကျော်ရန်နေစရာမရှိအောင် ကြောက်လန့်နေပေပြီ။ အတူ လိုက်ပါလာသော အင်္ဂလိပ်အရာရှိများလည်း အာစေးမိထားသူများပမာ ဘာမှ ဝင်မပြောရဲ။ သူတို့ လည်း ဆရာတော်ကြီးရှေ့မှာ ဒူးတုပ်ခစားလျက်ရှိတာ အလွန်အံ့ဩစရာပါပဲ။ "ကဲ. . မောင်ကျော်ရန်၊ ငါဒီမှာ လုပ်စရာရှိတာလုပ်ပြီးပြီ၊ ဒီကောင်တွေ (အင်္ဂလိပ်တွေကို ဆိုလိုသည်) မောင်းထုတ်လို့တော့ ငါမကြွဘူး. . " "တပည့်တော် အရှင်ဘုရားကို လာပင့်တာပါဘုရား၊ တပည့်တော်ကို သနားသဖြင့် ချီးမြှင့်သောအားဖြင့် ကြွတော်မူပါဘုရား" ဦးကျော်ရန်က အသည်းအသန် တောင်းပန်လျှောက်ထားလာတဲ့အခါ ဆရာတော်ကြီးငေါက်ခနဲရပ်လိုက်ကာ သုတ်ခနဲ ကြွတော်မူပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၇

အေဒီ ၁၉၂၆ ဒါပေမယ့်ဆရာတော်ကြီးဟာ ဦးကျော်ရန်ရဲ့ တိုက်ကြီးပေါ်မှာ မနေပါ။ ဦးကျော်ရန် ဆက်ကပ်တဲ့ ဆွမ်းဘောဇဉ်တွေကိုလည်း ဘုဉ်းမပေးပါ။ တမာပင်အောက်က တဲကလေးထဲမှာနေပြီး သံဖလုံးကြီးနဲ့ ဆွမ်းစားလေ့ရှိပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၇

အေဒီ ၁၉၂၆ "ငါထွက်ရင်ကျော်သုံးကျော်နဲ့ ထွက်မယ်ကွ" လို့ ဆရာတော်ကြီး အမိန့်ရှိခဲ့ဖူးပါတယ်။ ကျော်သုံးကျော်မှာ ဦးကျော်ရန်၊ ဦးကျော်ဒင်နှင့် ဦးကျော်တို့ ဖြစ်ပါတယ်။ ဦးကျော်ရန်ကား အများသိသော အထင်ရှားဆုံးပုဂ္ဂိုလ် ဖြစ်ပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၇

http://www.dhammadownload.com



သို့သော်ဦးကျော်ရန်သည် ဆရာတော်ကြီးအား ပါရမီဖြည့်ခွင့် ရသည့်တိုင်အောင် ဉာဏ်ရောင် လင်းခဲ့သူမဟုတ်ပါပေ။ သူဟာဆရာတော်ကြီးရဲ့ ဓာတ်လုံးအပေါ်မှာသာအမြဲ အာရုံကျလိုချင် လောဘရှိနေခဲ့ပါတယ်။ ဆရာတော်ကြီးက ထွက်ခါနီးမှာ လက်ဝါးထောင်ပြခဲ့တာလည်း သူသဘောမပေါက်ပါဘူး။ ဆရာတော်ကြီးက ငါ့ဘာမှ ယူမသွားဘူးလို့ လက်ဝါးထောင်ပြခဲ့တာ ဖြစ်ပါတယ်။ ဆရာတော်ကြီးရဲ့ဓာတ်လုံးဟာ လက်ထဲမှာ မရှိရင် သူ့ခေါင်းထဲမှာ ရှိလိမ့်မယ်။ နားထင်မှာ အဖုကြီးဖြစ်နေတာ ဓာတ်လုံးပဲဖြစ်မယ်လို့ ဦးကျော်ရန် စဉ်းစားပါတယ်ဟု ဆိုပါ သည်။

ကျမ်းကိုး၊ ယင်းစာ-၇၇

အေဒီ ၁၉၂၆ ဒါနဲ့ ဆရာတော်ကြီး ခန္ဓာဝန်စွန့်တဲ့အခါ ဦးကျော်ရန်ဟာ ပိုင်ပြီဆိုပြီး ဆရာတော်ကြီးရဲ့ဦးခေါင်း ကို ဆောက်နဲ့ထွင်းဖောက်ပြီး ဓာတ်လုံးရှာပါတယ်။ ရှာပါသော်လည်း ဘာမှမတွေ့ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၇

အေဒီ ၁၉၂၆ ဦးကျော်ရန်၏ ဇနီးကား မိန်းမပင် ဖြစ်လင့်ကစား ဦးကျော်ရန်ထက် အကင်းပါးတယ်လို့ဆိုနိုင် ပါတယ်။ ဆရာတော်ကြီးထွက်ခါနီး လက်ဝါးထောင်ပြသွားသည်ကို အပယိတ် နိမိတ်ယူပြီး မိမိတို့ ပယင်းရောင်ဆေးတိုက်ရဲ့ ကုန်အမှတ်တံဆိပ်ကို ရွှေလက်ဝါးပုံဖြင့် သင်္ကေတပြုလိုက်ပါ တယ်။ ပယင်းရောင်ရွှေလက်ဝါးဆေးတိုက်ကား နေ့ချင်း ညချင်းပင် အောင်မြင်ကျော်ကြား သွားကာ စီးပွားလာဘ်လာဘတွေဝင်လာမစဲ တသဲသဲရှိနေခဲ့တယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၇

နောက်ခြောက်လကြာတဲ့အခါ ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီးဟာ ရန်ကုန်မြို့ ဝင်ဒါ မီယာရှိ တပည့်ဖြစ်သူဦးကြီးဖေရဲ့ အိမ်မှာကြွရောက် သီတင်းသုံးနေပြီ ဖြစ်ပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၇

"ကျော်ရန်ဟာ သိပ်မိုက်တဲ့အကောင်၊ ငါ့ခေါင်းကို ဖောက်ပြီး ဓာတ်လုံးရှာသတဲ့ကွာ" လို့ ဦးကြီးဖေကို ပြန်ပြောပြပါတယ်။ တစ်ဆက်တည်းမှာ ဦးကြီးဖေရဲ့ဇနီးအား. . . "နင့်လင်လည်း မကြာခင် ထွက်ရတော့မယ်။ နင့်လင်ထိုကူးရင် နင်မျက်ရည်တစ်စက်မှ မကျစေရ. . ." လို့ ပြတ်သားစွာ အမိန့်ရှိလိုက်ပါတော့တယ်။ ကျေးဇူးတော်ရှင် ရက်ကန်းစင်တောင်ဆရာတော် ဘုရားကြီးရဲ့ တပည့်တွေထဲမှာ ဦးကြီးဖေတို့ကဲ့သို့သော မထင်မရှား ပေါက်ဆရာတွေအများကြီး ရှိနေပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၇

အေဒီ ၁၉၀၄ ရက်ကန်းစင်တောင်ဆရာတော်ဘုရားကြီးက သက္ကရာဇ် (၁၂၆၆) ခုနှစ်က မန္တလေးမြို့ ပယင်းရောင်ဆေးတိုက်မှ ထွက်ခဲ့ကြောင်း အနောက်ရိုးမ ရေကြည်အိုင်စခန်းမှာ ဦးပဥ္စင်းလေး ဦးသဒ္ဓမ္မသိဒ္ဓိ ကိုယ်တိုင်ပြောပြတော်မူခဲ့ပါတယ်။

"မန္တလေးရဟိုင်းဈေးတောင်ဘက်ကနေ အနောက်ဘက် တည့်တည့်သွားတဲ့လမ်း. . . ရောဝတီ မြစ်ချော်ဆိပ်သွားတဲ့လမ်း ဟိုတုန်းကတော့ ပန်းထက်တံခါး လမ်းလို့ခေါ်တယ်ထင် ပါရဲ့ကွာ၊ အဲဒီလမ်းပေါ်မှာ ရက်ကန်းစင်တောင် ဆရာတော်ကြီးရဲ့ ဂူရှိတယ်ကွ၊ အဲဒီဂူအနီးမှာ ဆရာတော် ကြီးရဲ့ ပုံတူရုပ်တုတော်ကြီး ရှိတယ်။ အဲဒီရုပ်တုတော်ကြီး ဟာ ဆရာတော်ကြီး သက်တော်ထင်ရှား ရှိစဉ်က ပုံပန်းသဏ္ဍာန်နဲ့ အတူဆုံးပဲ" ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းဟ-၇၇

http://www.dhammadownload.com



"မတ္တရာ ရက်ကန်းစင်တောင်ပေါ်မှာ ဆရာတော်ကြီးတရားကျင့်ခဲ့တဲ့ဂူတွေရှိတယ်။ မန္တလေး ရေတံခွန်တောင်မှာလည်း ဆရာတော်ကြီး အားထုတ်အောင်မြင်ခဲ့တဲ့ ဂူရှိတယ်" ဟု သက်တော်ရှည်ဆရာတော်ကြီးက ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၇

ရက်ကန်းစင်တောင် ဆရာတော်ကြီးဟာ သံသရာဘဝတစ်ခုမှာ ဆီသည်တစ်ဦးဖြစ်ခဲ့ဖူးပါတယ်။ ဆီဆုံကြီးကို နွားနှင့်လှည့်ကာ ဆီကြိတ်ပြီး အသက်မွေးခဲ့ရပါတယ်။ တလည်လည်ဖြစ်နေတဲ့ နွားနဲ့ဆီဆုံကြီးဟာ ပင်ပန်းဆင်းရဲစွာ သံသရာလည်နေပုံကို သရုပ်ဖော်နေသလိုပါပဲ။ ဒီဘဝ ရက်ကန်းစင်တောင် ဆရာတော်ကြီး ဖြစ်လာတဲ့အခါ ဆီသည်ဘဝက အသုံးပြုခဲ့တဲ့ ဆီဆုံကြီးကို အတိုင်းသား မြင်လာပါတယ်။ အဲဒီဆီဆုံကြီးကို တပည့်တွေကို အဝယ်ခိုင်းပြီး ရပ်တော်မူ ဗျာဒိပ် ပေးဘုရားပုံတော် ထုလုပ်ကိုးကွယ်ခဲ့ပါတယ်ဟုဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၇

အေဒီ ၁၉၆၉

"ငါသိသလောက်တော့ ရက်ကန်းစင်တောင် ဆရာတော်ကြီး ဝင်လိုက်ထွက်လိုက်လုပ်တာ အနည်းဆုံးငါးကြိမ် ရှိတယ်၊ နောက်ဆုံးအကြိမ်လို့ ထင်ရတာက သက္ကရာဇ် (၁၃၃၁) ခုနှစ်လောက်က တောင်ကြီးမှာဝင်ပြီး တောင်ငူက ထွက်သွားတာပဲ" ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၈

ကိုလိုနီခေတ်ဦးနှင့်လွတ်လပ်ရေး ကြိုးပမ်းမှုခေတ်၊ စစ်ကြိုခေတ်၊ နိုင်ငံထူထောင်ရေးခေတ်၊ ကွန်မြူနစ်ချေမှုန်းရေးခေတ်. . . ခေတ်အဆက်ဆက်မှာ ထွက်ကာဝင်ကာနဲ့ သာသနာပြုတော်မူခဲ့ကြပါတယ်ဟု ဆိုပါသည်၊

ကျမ်းကိုး၊ ယင်းစာ-၇၈

အေဒီ ၁၉၆၉

မြန်မာသက္ကရာဇ် (၁၃၃၀) ခုနှစ်၊ တပေါင်းလပြည့်ကျော် (၁၂)ရက် ၁၄. ၃. ၆၉ သောကြာနေ့မှာ ကျေးဇူးရှင် ရက်ကန်းစင်တောင် ဆရာတော်ကြီး တောင်ကြီးမြို့သို့ ကြွရောက်တော်မူလာခဲ့ပါတယ်။

ကျမ်းကိုး၊ ယင်းစာ-၇၈

ရွှေဘုန်းပွင့်ဘုရားသမိုင်းကိုပြုစုသော ဆရာတော်ဦးဂန္ဓမာဆိုသော ဆရာတော်ကြီး၏ ကိုယ်တွေ့ဖြစ်ရပ်များသည် ရက်ကန်းစင်တောင်ဆရာတော်နှင့် ဆက်စပ်နေကြောင်း ရှာဖွေတွေ့ရှိရပါသည်။ ထိုအချက်များကို ဘဒ္ဒန္တဝါသေဌ အရှင်မြတ်က ရရှိခဲ့ကြောင်း ထပ်ဆင့်သိရှိရပါသည်။

ကျမ်းကိုး၊ မောင်သွေးချွန်၊ ကျေးဇူးတော်ရှင် ရက်ကန်းစင်တောင်ဆရာတော်ဘုရားကြီး၏ အခါမီလှမ်းရမည့် ပါရမီလမ်း(၃)၊ ဝိဇ္ဇာရသစုံမဂ္ဂဇင်း၊ ၂၀၀၈ ခုနှစ်၊ နိုဝင်ဘာလ၊ စာ-၅၆။

အေဒီ ၁၉၆၃

ဆရာတော်ဦးဂန္ဓမာရဲ့ လူနာမည်က ဦးချစ်မောင်၊ အင်းတိုင်းရင်းသားဖြစ်ပြီး လက်သမားအလုပ်နဲ့အသက်မွေးသူဖြစ်ပါတယ်။ ဘုရားတရားကြည်ညိုသူဖြစ်ပြီး ဝိဇ္ဇာကျင့်စဉ်များကို အထူးစိတ်ဝင်စားရာက ဆရာရှာရင်း အဖေကြီးဦးစောလှနဲ့ တွေ့ဆုံခဲ့ပါတယ်။ အဖေကြီး ဦးစောလှဆီမှာ တပည့်ခံကျင့်ကြံရင်း သက္ကရာဇ် ၁၃၂၅ ခုနှစ်ရောက်တဲ့အခါ လက်သမားအလုပ်ကို လုံးဝစွန့်လွှတ်လိုက်ပါတယ်။ လက်သမားပစ္စည်းတွေကိုလည်း သူတစ်ပါးအား အကုန်ပေးစွန့်လိုက်ပြီး သမထကျင့်စဉ်လမ်းပေါ် လုံးလုံးလျားလျား ရောက်ရှိသွားပါတော့တယ်ဟု သိရှိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၅၆

အေဒီ ၁၉၆၃

သက္ကရာဇ် (၁၃၂၅) ခုနှစ်၊ တပေါင်းလပြည့်နေ့ည လောကရန်နိုင် ပိဋကတ်တိုက်တော်

http://www.dhammadownload.com



အတွင်းမှာ ဦးချစ်မောင်နှင့် ဦးရွှေဒွန်းကို အဖေကြီး ဦးစောလှက ခေါ်ယူတွေ့ဆုံပြီး "ရှမ်းကိုးမြို့ ပန္နက်ကို ငါရိုက်ခဲ့ပြီးပြီ၊ အဲဒီပန္နက်ကို မင်းဖော်ရမယ်။ မင်းတာဝန်ယူရမယ်" လို့ ဦးချစ်မောင်ကို ပြောပါတယ်ဟု သိရှိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၅၆

အေဒီ ၁၉၆၅ — သက္ကရာဇ် (၁၃၂၇) ခုနှစ်၊ တပေါင်းပွဲတော်မှာ ဦးချစ်မောင်ရဟန်းဘောင်တက်ခဲ့ပြီး ဘွဲ့တော်မှာ ဦးဂန္ဓမာဖြစ်ပါတယ်ဟု သိရှိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၅၈

အေဒီ ၁၉၆၇ — ရက်ကန်းစင်တောင်ဆရာတော်ဘုရားကြီးကို ခရစ်နှစ် (၁၉၆၇) ခုနှစ်လောက်မှာကတည်းက ရန်ကုန် ရွှေတိဂုံဘုရားကြီးရဲ့အင်္ဂါထောင့်မှာ အများပြည်သူတို့ ဖူးမြော်ခဲ့ကြရတယ်ဟု သိရှိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၅၈

အေဒီ ၁၉၆၇ — ထိုဆရာတော်ကြီးဟာ အဘိုးကလေးဝဆရာတော်ရဲ့ နာဂလိုဏ်ဂူကျောင်းမှာ သီတင်းသုံး သာသနာပြုခဲ့ကြောင်းလည်း သိရပါတယ်ဟု သိရှိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၅၈

"အန်ကယ်က နက္ခတ် ဗေဒင်လက္ခဏာ ဝါသနာပါတော့ ဆရာတော်ကြီးရဲ့ ခြေဖဝါး လက်ဖဝါး တွေကို လေ့လာကြည့်မိတယ်။ လက္ခဏာမဆိုထားနဲ့ ခြေဖဝါးပေါ်မှာတောင်မှ သန်လျက်ပုံ၊ စကြာပုံတွေပါနေတာတွေ့ရတယ်။ ပုဂ္ဂိုလ်ထူး၊ ပုဂ္ဂိုလ်မြတ်တို့ရဲ့ အမှတ်အသားတွေ ရက်ကန်း စင်တောင် ဆရာတော်ကြီးဆီမှာ တွေ့ရတယ်" ဟု တစ်ဆင့်သိရပါသည်။

လမ်းစဉ်ပါတီခေတ်က ဗဟိုနိုင်ငံရေး တက္ကသိုလ်ကျောင်းအုပ်ကြီး ဦးချစ်လှိုင် (စာရေးဆရာ ကိုကိုမောင်) က အဲဒီလိုပြန်ပြောပြခဲ့ပါသည်ဟုသိရပါသည်။ ကျမ်းကိုး၊ ယင်းစာ-၅၉ ကို ကြည့်ပါ။

အေဒီ ၁၉၆၇ — မြန်မာသက္ကရာဇ် (၁၃၂၉) တပေါင်းလမှာ ကျေးဇူးရှင်ရက်ကန်းစင်တောင်ဆရာတော်ဘုရားကြီး ကို ရွှေတိဂုံဘုရား အရှေ့ဘက်မုခ် လှေကားအတက် ဦးသော်တိုက်မှာ အများပြည်သူတို့ အလုအယက်ဖူးမြော်နေကြတာ တွေ့မြင်ရတယ်ဟု သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၅၉

အေဒီ ၁၉၆၈ — မြန်မာသက္ကရာဇ် (၁၃၃၀) ပြည့်နှစ်မှာ ဦးဂန္ဓမာဟာ လူဝတ်လဲခဲ့ပြီး ဦးချစ်မောင်ဘဝနဲ့ ရန်ကုန် တစ်ခေါက် ရောက်ခဲ့ပြန်ရာမှာ ရက်ကန်းစင်တောင်ဆရာတော်ဘုရားကြီးကို စတုတ္ထအကြိမ်မြောက် ကြုံဆုံဖူးတွေ့ရပြန်ပါတယ်ဟု သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၅၉

အေဒီ ၁၉၆၉ — ဒီလိုနဲ့ ရက်ကန်းစင်တောင်ဆရာတော်ကြီးဟာ သက္ကရာဇ် (၁၃၃၀) ပြည့်နှစ်၊ တပေါင်းလပြည့်ကျော် (၁၂) ရက် ၁၄. ၃. ၆၉ သောကြာနေ့မှာ တပည့်များခြံရံလိုက်ပါပြီး တောင်ကြီးမြို့သို့ ရထားဖြင့် ကြွတော်မူလာခဲ့ပါတယ်ဟု သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၅၉

ဆရာတော်ကြီးဟာ ရန်ကုန်က ရထားနဲ့ ကြွလာသော်လည်း တောင်ငူရောက်တဲ့အခါ ရထား ပေါ်ကဆင်းပြီး ဒေါ်ကြည်ဆိုတဲ့ ဒကာမအိမ်သို့ကြွတော်မူခဲ့ပါတယ်ဟု သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၅၉

သုံးဆယ့်တစ်ဘုံအတွက် ရည်စူးချက်နဲ့ တောင်ကြီးမြို့မှာ ဘုရားတည်ထားဖို့အတွက် ဦးဆောင်

http://www.dhammadownload.com



ညွှန်ကြားမှုပေးရန် ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီး ကြွတော်မူလာခြင်း ဖြစ်ပါတယ်။ ဆရာတော်ကြီးဟာ တောင်ကြီးမြို့ ကျောက်တစ်လုံးလမ်းရှိ ဦးစောလှမွှာရုံမှာ သီတင်းသုံးတော်မူခဲ့ပါတယ်ဟု သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၆၁

အေဒီ ၁၉၆၈ သုံးဆယ့်တစ်ဘုံသားတွေ ကပ်ဆိုးဘေးဆိုးက ကျော်ပြီးတော့ နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်ဖို့ ကိုးကွယ်ဖို့ ဉာဏ်တော် (၃၁) တောင်အမြင့်ဆောင်တဲ့ ဆူးလေစေတီတော် ပုံသဏ္ဌာန်စေတီ တစ်ဆူကို သက္ကရာဇ် (၁၃၃၁) ခုနှစ်မကုန်မီ အပြီးတည်ရမယ်လို့ ရုတ်တရက်အမိန့်ရှိတော်မူပါတယ်။ စေတီပြီးမြောက်သွားရင် ပရိယတ္တိ၊ ပဋိပတ္တိ၊ ပဋိဝေဓ သာသနာသုံးရပ် တိုးတက်ဖွံ့ဖြိုးလာမယ်။ ဗုဒ္ဓအဆုံးအမကို အခြေခံအုတ်မြစ်အဖြစ် တည်ဆောက်ထားတဲ့ မြန်မာ့ယဉ်ကျေးမှုတွေ၊ ရိုးရာ ဓလေ့ထုံးစံနဲ့ အနုပညာတွေ ပြန်လည် ဆန်းသစ်လာလိမ့်မယ်။ သာသနာတော်ကို အနှောင့် အယှက်ပေးနိုင်တဲ့ ရုပ်ကြမ်းဝါဒီ(ကွန်မြူနစ်) တို့ရဲ့ အန္တရာယ်က ကာကွယ်ပြီးဖြစ်မယ်လို့ ဆက်လက်အမိန့်ရှိပါတယ်ဟု သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၆၁

တောင်ကြီးမြို့မှာ ဘုရားတည် ရမည့်နေရာကို ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီးက ဒီလို လမ်းညွှန်တော်မူခဲ့ပါတယ်။ တောင်ကြီးမြို့အရှေ့ဘက်တောင်တန်းကြီးရဲ့ အလယ်ဗဟိုချက်ကျတဲ့ နွားလားဥသဘတောင် (ခေါ်) ဘိုးမင်းတောင်ပေါ် မှာ တည်ထားရမယ်။ နွားလားဥသဘဆိုတာ ဦးစီးဦးဆောင်ပြုတဲ့သဘောရှိပါတယ်။ တောင်ကြီးမြို့အရှေ့ဘက်က တောင်စဉ်တောင်တန်းကြီးရဲ့ အလယ်မှာ ပေနှစ်ဆယ်ခန့်မြင့်တဲ့ တောင်ကုန်းကလေးဟာ နွားတစ်ကောင်ရဲ့ ဘို့ပမာ ထူးထူးခြားခြားဖြစ်ပေါ်နေတဲ့အတွက် နွားလားဥသဘတောင်လို့ခေါ် ဆိုကြခြင်းဖြစ်ပါတယ်ဟု သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၆၁

အေဒီ ၁၉၆၉ ဒီနေရာဟာ ပင်လယ်ရေမျက်နှာပြင်မှ (၅၆၂၃) ပေခန့် မြင့်တဲ့နေရာ ဖြစ်ပါတယ်။ နွားလားဥသဘရဲ့ ဘို့နဲ့တူတဲ့ တောင်ကုန်းကလေးကို ဖြိုပြီး ဘုရားတည်ရန် မင်္ဂလာမြေနေရာအဖြစ် သက္ကရာဇ် (၁၃၃၀) ခု၊ တန်ခူးလဆန်း (၇)ရက် ၂၄. ၃. ၆၉ တနင်္လာနေ့မှာ ရွေးချယ်သတ်မှတ်ခဲ့ကြပါတယ်။

ကျမ်းကိုး၊ ယင်းစာ-၆၂

ဘုရားမြေနေရာသတ်မှတ်ပြီး တစ်ပတ်ခန့်အကြာ တနင်္ဂနွေနေ့ ၁၇. ၄. ၆၉ မှာ ပန္နက်တင်မင်္ဂလာငါးခုကို တစ်ပြိုင်တည်းဆောင်ရွက်ဖို့ ရက်ကန်းစင်တောင်ဆရာတော်ဘုရားကြီးက အမိန့်ရှိ တော်မူပါတယ်ဟု သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၆၂

အေဒီ ၁၉၆၉ ပန္နက်တင် မင်္ဂလာအောင်မြင်ပြီးနောက် တန်ခူးလပြည့်ကျော် (၃) ရက်နေ့မှာ ဆရာတော်ကြီးဟာ မတ္တရာ ရက်ကန်းစင်တောင်သို့ တပည့်များနဲ့အတူ ပြန်ကြွသွားပါတယ်။မန္တလေးမြောက်ပြင်ရပ် ဥပုသ်တော်ကုန်းနေ ရွှေဘိုဆရာတော်အမည်ရ ဦးအာစာရနှင့် ဘထွေးတော်ဦးဖျော်တို့ကို ရွှေဘုန်းပွင့်ဘုရားတည်ထားရာမှာ လိုအပ်သလို ကူညီပါဝင်ဖို့ အမိန့်ချမှတ်မှာကြားတော်မူခဲ့ပါတယ်။ ဒါကြောင့် ဦးအာစာရသည် ကဆုန်လမှာလည်းကောင်း၊ ဦးဖျော်သည် ဝါခေါင်လမှာ လည်းကောင်း တောင်ကြီးမြို့သို့ ရောက်ရှိလာကြပါတော့တယ်။ စိတ်ဝင်စားသူလူ (၂၀၀) ခန့် ဖိတ်ကြားပြီးတော့ သက္ကရာဇ် (၁၃၃၁) ခု၊ ဝါခေါင်လဆန်း (၄) ရက်၊ (၁၇. ၈. ၆၉)

http://www.dhammadownload.com



မှာ ဦးစောလှ မွှောရုံမှာပဲ အစည်းအဝေးကျင်းပခဲ့ပါတယ်။ အစည်းအဝေးရဲ့ ရလဒ်ကတော့ ခိုင်မာတဲ့ ဂေါပကအဖွဲ့ကြီး ပေါ်ပေါက်လာခြင်းပါပဲဟု သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၆၂

အေဒီ ၁၉၆၉ ဘုရားတည်မည့်ကိစ္စလေးလတိုင်အောင် ကြန့်ကြာခဲ့ရာမှ ယခုခွင့်ပြုမိန့်ရပြီဖြစ်၍ သက္ကရာဇ် (၁၃၃၁) ခုနှစ်၊ တော်သလင်းလပြည့်ကျော် (၁) ရက်၊ ၂၇. ၉. ၆၉ စနေနေ့နံနက်(၆)နာရီ ၁၀ မိနစ်အချိန်တွင် အရှေ့အရပ်မှ နေလုံးထွက်လာပြီး အနောက်အရပ်တွင်လည်း လဝန်းကြီး က ရှိနေသေးချိန် (နေမြင် လမြင်အချိန်)တွင် မောင်းထုပြီး စေတီမှကြီးနှင့် အရံစေတီရှစ်ဆူ တို့အား တစ်ပြိုင်တည်း အောင်မြင်စွာ အုတ်မြစ်ချနိုင်ခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းစာ-၆၅

ထိုသို့အုတ်မြစ်ချသည့်အချိန်တွင် ရက်ကန်းစင်တောင်ဆရာတော်ဘုရားကြီးသည် တောင်ကြီး မြို့တွင် ရှိမနေခဲ့ပါ။

ကျမ်းကိုး၊ ယင်းစာ-၆၅

အေဒီ ၁၉၆၉ အခြေအနေအရပ်ရပ်ကို သုံးသပ်ရှုမြင်တော်မူတဲ့ ရက်ကန်းစင်တောင် ဆရာတော် ဘုရားကြီး ဟာ သက္ကရာဇ် (၁၃၃၁) ခု၊ တန်ဆောင်မုန်းလမှာ တောင်ကြီးသို့ ဒုတိယအကြိမ် ကြွတော်မူ လာခဲ့ပါတယ်။ ဆရာတော်နှင့်အတူ စိန်ဖူးတော်လည်း ပါလာပါတယ်။

ကျမ်းကိုး၊ ယင်းစာ-၃၀

အေဒီ ၁၉၇၀ သက္ကရာဇ် (၁၃၃၁) ခုနှစ်မကုန်မီ (၃၁) ဘုံသားတွေအတွက် ထီးတင်မည်ဟု အမိန့်ရှိခဲ့သည့် အတိုင်း သက္ကရာဇ် (၁၃၃၁) ခုနှစ်၊ နှောင်းတန်ခူးလကွယ်နေ့ (၆. ၄. ၇၀) တနင်္လာနေ့တွင် ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီးသည် နောက်ပါသံဃာတော်များဖြင့် တောင်ကြီးမြို့ သို့ တတိယအကြိမ် ကြွရောက် တော်မူလာပါတယ်။

ဆရာတော်ကြီးက ရွှေဘုန်းပွင့်စေတီတော်တွင် (ကြေးထီးတော်)တင်လှူရန် ဆန္ဒမိန့်မှာတော်မူ ခဲ့ပါသော်လည်း ဦးအာစာရနှင့် ဒကာအချို့က (သံထီးတော်)ကို ပင့်ဆောင်လာခဲ့ကြပါသည်။

ကျမ်းကိုး၊ ယင်းစာ-၃၀

ဆရာတော်ကြီးသည် စိတ်ကုန်သွားသော်လည်း ဦးအာစာရအား အပြစ်မဖွဲ့တော့ဘဲ ရွှေဘုန်းပွင့် ဘုရားမှာ စတင်ပန္နက်ရိုက်စဉ်က စ၍ မာန်အောင်ဘုရား၊ ဓာတ်ပေါင်းစုဘုရား၊ လောက ထိပ်တင်သက်တော်ရှင်ဘုရား၊ အောင်ဝိဇ္ဇာဦးဘုရားဟူ၍ ဘွဲ့တော် အမျိုးမျိုးဖြင့် ထင်ပေါ် တော်မူခဲ့ရာမှ ထီးတင်ခါနီးမှ ရွှေဘုန်းပွင့်ဘုရားဟူ၍ အားလုံးအကြိုက်ညီ ဘွဲ့မည်တွင် တော်မူခဲ့ခြင်း ဖြစ်ပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၃၁

အေဒီ ၁၉၇၀ သက္ကရာဇ် (၁၃၃၁) ခု၊ နှောင်းတန်ခူးလဆန်း (၄) ရက် (၁၀. ၄. ၇၀)သောကြာနေ့ နံနက်(၈) နာရီမှ မွန်းတည့် (၁၂) နာရီအထိ ထီးတော်နှင့်ဘုရားများ တောင်ကြီးမြို့အတွင်း လှည့်လည် အပူဇော်ခံခဲ့ပါတယ်။

သက္ကရာဇ် (၁၃၃၁) ခု၊ နှောင်းတန်ခူးလဆန်း (၇)ရက်နေ့ (၁၃. ၄. ၇၀)အင်္ဂါနေ့ နံနက်(၉)နာရီ သင်္ကြန်အကြိုနေ့မှာ ရွှေဘုန်းပွင့်စေတီတော်ကြီးရဲ့ ပင်မထီးတော်နှင့် အရံစေတီတော်ရှစ်ဆူကို တင်လှူနိုင်ခဲ့ပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၃၁

အေဒီ ၁၉၇၀ ရွှေဘုန်းပွင့်ဘုရားကြီးရဲ့ ထူးခြားချက်များကို တင်ပြချင်ပါသေးတယ်။ ရွှေဘုန်းပွင့်ဘုရား၏

http://www.dhammadownload.com



ကြာသပတေးထောင့်တွင် မီးမပြတ်ထွန်းပေးရန်။ (ထို့ကြောင့် ကြာသပတေးထောင့်တွင် ၆၅ ပေအမြင့်ရှိသော မီးတိုင်ကြီးကို ဗဟိုပြု၍ မီးမပြတ် ပူဇော်ထားပါသည်။) ရက်ကန်းစင်တောင် ဆရာတော်ကြီး လုပ်ဆောင်ခဲ့သမျှ၊ ညွှန်ကြားခဲ့သမျှ အချည်းအနှီးအကြောင်းမဲ့သော အရာ ဟူ၍တစ်ခုမှ မရှိခဲ့ပေ။ လောကအချုပ် မဟာဘုတ်ဓာတ်လေးပါးကို အောင်တော်မူပြီးသော ဆရာတော်ကြီးတို့လုပ်ဆောင်သမျှ ဓာတ်သဘာဝ ဓာတ်ကိစ္စများမှာ လူသာမန်တို့ နားလည်ရန် ခက်ခဲသော်လည်း လေးနက်တဲ့ရည်ရွယ်ချက်ရှိတာ သတိပြုရပါမယ်၊ ဇိနနတ်စစ်သူကြီး ပုံထုလုပ်ထားရှိခြင်းနဲ့ ပတ်သက်ပြီး ဦးချစ်မောင်၊ ဦးတင်ဝင်းတို့က အကြောင်းရင်းကို မေး လျှောက်ကြတဲ့အခါ ဆရာတော်ကြီးက. . . "မင်းတို့ခုတလော ဘာသတင်းထူး ကြားကြသလဲ" လို့ ပြန်မေးလိုက်ပါတယ်။ "တပည့်တော်တို့ ဘာမှမကြားမိပါဘုရား" နောက်နှစ်ရက်သုံးရက်ခန့် အကြာတွင် သတင်းစာထဲ၌ ကြူကုတ်ကိုလာတိုက်ကြသော အင်အား (၁၅၀၀) ခန့်ရှိသော ဗကပသည် ပြန်လည်ဆုတ်ခွာသွားကြောင်း သတင်းထူးဖတ်ရလေသည်။ ထိုသတင်းကို ဆရာ တော်ကြီးအား လျှောက်ထားရာ ဆရာတော်ကြီးက "ရုပ်ဝါဒီသမားတွေ ဘယ်ခံနိုင်မှာလဲကွ" ဟူသာ မိန့်ကြားလိုက်ပါတော့သည်။

ကျမ်းကိုး၊ ယင်းစာ-၃၂ ဘုရားသမိုင်း စာ-၈၂

အေဒီ ၁၉၇၀ ရွှေဘုန်းပွင့် ထီးတော်တင်ပြီးတဲ့နောက် စေတီရင်ပြင်တော်မှာပဲ ဆရာတော်ကြီးက ဗျာဒိပ်ပေး ဘုရားဆက်လက် တည်ထားဖို့အမိန့်ရှိပါတော့တယ်။ ရွှေဘုန်းပွင့်ဘုရားရဲ့ ရာဟုထောင့်မှာ တည်ထားရမယ်လို့ လမ်းညွှန်ပါတယ်။ ခရစ်နှစ် (၁၈၈၆) ခုနှစ်မှာ ငါတို့မြန်မာနိုင်ငံဟာ အင်္ဂလိပ် ကုလားဖြူတွေရဲ့ လက်အောက်၊ ကိုလိုနီဘဝသို့ ကျရောက်ခဲ့တယ်။ (၁၉၈၆) ခုနှစ်ရောက်လျှင် အနှစ်တစ်ရာ ပြည့်တော့မယ်။ ကိုလိုနီဘဝမှာ အမျိုးဘာသာသာသနာ နိမ့်ကျညှိုးမှိန်ခဲ့ရတယ်။ ကပ်ဆိုးဘေးဆိုးတွေ ကြုံတွေ့ခဲ့ရတယ်။ အခုနှစ်တစ်ရာပြည့်ပြီးချိန်မှာ ကိုလိုနီခေတ်က အဖြစ် ဆိုးမျိုးတွေ မကြုံတွေ့အောင် သာသနာဘက်က ကြိုးပမ်းရမယ်။ ကပ်ဆိုးဘေးဆိုးတွေကာလ လွန်မြောက်ပြီး မြန်မာ့ယဉ်ကျေးမှု အနုပညာလက်ရာတွေ ပြန်လည်ထွန်းကားလာဖို့ ဗျာဒိပ်ပေး ဘုရားတည်ရမယ်လို့ မိန့်တော်မူခဲ့ပါတယ်။ ရွှေဘုန်းပွင့်ဘုရားတည်ပြီးနောက် စေတီတော်အား သံဃာ အပ်နှံခြင်း၊ တပည့်များအား ဒုလ္လဘ ရဟန်းခံပေးခြင်း၊ ဆွမ်းဆန်စိမ်းလောင်းလှူစေခြင်း များပြုလုပ်၏။

အေဒီ ၁၉၇၀ ပြီးနောက် သက္ကရာဇ် (၁၃၃၂) ခုနှစ်၊ တန်ခူးလပြည့်ကျော် (၂) ရက်နေ့ ၂၃. ၄. ၇၀ ကြာသပတေးနေ့ ညအချိန်တွင် ဦးချစ်မောင်၊ ဦးထွန်းအောင်၊ ဦးကြင်တို့အားခေါ်၍ ခုတင် ပေါ်တွင် လဲလျောင်းပြီး ဆရာတော်ကြီးက "ငါ့ကိုစောင်ခြုံပေး၊ ပြီးရင်ခြင်ထောင်ချ၊ အခန်းတံခါး ကို အသေအချာပိတ်၊ ဘယ်သူလာလာ ဖွင့်မပေးနဲ့" ဟု မိန့်မှာသည်။

ကျမ်းကိုး၊ မောင်သွေးချွန်၊ ဝိဇ္ဇာရသစုံမဂ္ဂဇင်း၊ ၂၀၀၈ ခုနှစ်၊ ဒီဇင်ဘာလ၊ စာ-၃၃၊ ဘုရားသမိုင်း စာ-၉၆။

အေဒီ ၁၉၇၀ ခရစ်နှစ် (၁၉၇၀) ဧပြီ (၂၄) ရက်နေ့ နံနက်စောစောမှာတော့ "မောင်ချစ်ဖေ. . ကားအဆင် သင့်ဖြစ်ပြီလား၊ ငါ့ခန္ဓာကိုယ်ကြီး မသယ်ချင်တော့ဘူးကွ" "မှန်ပါ အဆင့်သင့်ဖြစ်ပါပြီဘုရား" အားလုံး ငိုကြတယ်။ "မငိုကြနဲ့ ငါပြန်လာမှာပါ" ရန်ကုန်မှ တောင်ကြီးသို့ကြွလာစဉ်တုန်း ကလည်း ဒေါ်ကြည့်အိမ်ကို ဝင်ခဲ့သေးရဲ့။ ယခုလည်း. . "ဂျပန်ခေတ်က ဒေါ်ကြည်ဆိုတဲ့ အမည်နဲ့ မြန်မာအမျိုးသမီးတွေကို ချိုးနှိမ်တဲ့သီချင်း တဘောင်ပေါ်ခဲ့ဖူးတယ်။ နောက်နောင် တို့မြန်မာ အမျိုးသမီးတွေ ဘယ်တော့မှ အနှိမ်မခံရအောင် အဲဒီတဘောင်ကို ငါချေဖျက်ခဲ့မယ်"

http://www.dhammadownload.com



ဆရာတော်ကြီးကား နောက်ဆုံးအချိန်ထိ မျိုးချစ်စိတ်ဓာတ်အပြည့်နဲ့ အနာဂတ်ကို မျှော်ကြည့်သွားခဲ့ပါတယ်။

အေဒီ ၁၉၇၀ ဒီလိုနဲ့ ဆရာတော်ကြီးဟာ တောင်ကြီးမြို့နှင့် ဓာတ်တူနံ့တူတဲ့ တောင်ငူမြို့ ဒေါ်ကြည့် အိမ်မှာ သက္ကရာဇ် (၁၃၃၂) ခုနှစ်၊ တန်ခူးလပြည့်ကျော် (၃) ရက် (၂၄. ဧပြီ. ၇၀) စနေနေ့ နေ့လယ် ၂ နာရီမှာ ဘဝတစ်ခု၊ ခန္ဓာတစ်ခုကို စွန့်တော်မူလျက် ထွက်တော်မူခဲ့ပြီဖြစ်ပါတယ်ဟု သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၃၄

ရက်ကန်းစင်တောင်ဆရာတော်ဘုရားကြီးဟာ မတ္တရာကျေးလက်မှသည် မန္တလေးရွှေမြို့တော်ကြီးဆီတက်ပြီးတော့လည်း မြန်မာ့အစွမ်းကို အံ့မခန်းဖြစ်စေခဲ့ပြန်ပါတယ်။ နှစ်စဉ်ကျင်းပမြဲ ရွှေစာရံဘုရားပွဲကို မတ္တရာနယ်သူနယ်သားများလည်း အားခဲပြီးနွှဲနေကျပါ။ "ဟဲ့. . မိလှဝိုင်း. . ၊ နင်တို့ ရွှေစာရံတပေါင်းပွဲသွားရင် ဆန်ကိုးပြည်ယူသွားရမယ်၊ ဘုရားပွဲတော် မပြီးမချင်း သံဃာတော်တွေကို ဆွမ်းချက်ပြီး ကပ်လှူရမယ်၊ ဘုရားဖူးဧည့်ပရိသတ်တွေကိုလည်း မညည်းမညူ ကျွေးမွေးရမယ်" လို့ ရက်ကန်းစင်တောင်ဆရာတော်ကြီးက အမိန့်ရှိလိုက်ပါတော့တယ်။ ပွဲတော်ရက်များအတွင်း လာသမျှ ရဟန်းရှင်လူအပေါင်းတို့အား မိလှဝိုင်းက ဆန်ကိုးပြည်ဖြင့် အဝကျွေးသည်ဆိုသောသတင်းကိုလည်း ဗြိတိသျှ ပုလိပ်စုံထောက်တွေ ကြားသိသွားပြီး အင်္ဂလိပ်အာဏာပိုင်များထံ အစီရင်ခံတင်ပြကြပါတယ်။ အင်္ဂလိပ်အရာရှိကြီးများ ဆက်လက် စုံစမ်းစေတဲ့အခါ ရက်ကန်းစင်တောင်ဆရာတော်ကြီးက ဗုဒ္ဓဝါဒသမထကျင့်စဉ်တွင် လူတစ်ကိုယ်တည်းမှ လူတစ်ထောင်ပွားအောင် ဖန်ဆင်းနိုင်သော အဓိဋ္ဌာနဣဒ္ဓိ (အဓိဋ္ဌာန်တန်ခိုး) ဟူသည် ရှိကြောင်း၊ ဆန်ကိုးပြည်မှ ဆန်ကိုးအိတ်၊ ဆန်အိတ်ပေါင်း ကိုးဆယ်မက ပွားများအောင် ဗုဒ္ဓဘာသာကျင့်စဉ်က စွမ်းဆောင်နိုင်ကြောင်း ဝိသုဒ္ဓိမဂ်ပါဠိတော် အကိုးအကားဖြင့် ရှင်းပြလိုက်သောအခါ အင်္ဂလိပ် အာဏာပိုင်တွေ ခြေမကိုင်မိ လက်မကိုင်မိဖြစ်သည်အထိ အံ့သြသွားကြတယ်လို့ဆိုပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၃၆

အင်္ဂလိပ်မြူနီစပါယ်က မန္တလေးမှာ ခွေးလေခွေးလွင့်တွေကို သုတ်သင်နေချိန်မှာ ရက်ကန်းစင်တောင်ဆရာတော်ကြီး ကိုယ်တိုင် မန္တလေးသို့ ရောက်လာပါတယ်။ "သူတို့က ခွေးတွေကို သတ်နေချိန်မှာ ငါတို့က ခွေးတွေကို ဒါနပြုရမယ်ကွ၊ အလှူခံတစ်ကျိပ်လေး ခွေးတောင်ပါသေးလို့ ဆိုထားတယ်မဟုတ်လား၊ ဒီတော့ခွေးတွေကိုလည်းကောင်းကောင်း ကျွေးတာပေါ့ကွ" ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၃၆

အေဒီ ၁၉၆၂ မန္တလေးမျက်ပါးရပ်မှာ ထမင်းနဲ့ (ထမနဲ)ထိုးပြီး ခွေးတွေကို ကျွေးစေခဲ့ပါတယ်။ လမ်းတစ်လျှောက် ဖျာကြမ်းတွေ တန်းစီခင်းထားပြီး ဖျာပေါ်မှာ ထမင်းနဲ့တွေ တစ်ပုံပြီးတစ်ပုံထားရှိစေကာ ခွေးတွေကို စနစ်တကျကောင်းကောင်း မွှန်မွှန်ကျွေးခဲ့ခြင်း ဖြစ်ပါတယ်။ အင်္ဂလိပ်မြူနီစပါယ်က လိုက်လံ သုတ်သင်နေလို့ ထိတ်လန့်တကြား ပြေးလွှားနေရတဲ့ ခွေးအပေါင်းဟာ ဟိုကဒီက ညီညာဖျဖျ ရောက်လာကြပြီး လမ်းဘေးမှာ တန်းစီပြီးငြိမ်သက်စွာ၊ စည်းကမ်းရှိစွာ အားရပါးရစားနေကြတာကိုအင်္ဂလိပ်တွေမြင်တွေ့သွားခဲ့ပါတယ်။ ဒီအကြောင်းတွေကို (၁၃၂၄) ခု၊ နယုန်လဆန်း (၁၀) ရက်နေ့မှာ ဒေါ်လှဝိုင်းကိုယ်တိုင်က ပြန်ပြောခဲ့ခြင်း ဖြစ်ပါတယ်။ ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီးရဲ့ အရိယာဝိဇ္ဇာကျင့်စဉ်ထဲမှာ မေတ္တာကမ္မဋ္ဌာန်း

http://www.dhammadownload.com



(ဝါ) မေတ္တာကျင့်စဉ်ဟာ အဆင့်တိုင်းမှာ အရေးပါတဲ့ကျင့်စဉ်အဖြစ် ပါဝင်နေခြင်းဖြစ်ပါတယ်။ သိဒ္ဓိမဟိဒ္ဓိအတွက်ကား သရဏဂုံနှင့် ဂုဏ်တော်ကိုးပါးကိုပင် အခြေပြုကျင့်စဉ်အဖြစ် ညွှန်ကြား ထားပါတယ်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၃၆

"ငါတို့လူမျိုးဟာ ဘုန်းတန်ခိုးရှိတဲ့လူမျိုး ဖြစ်တယ်။ ဘုန်းတော်အနန္တ တန်ခိုးတော်အနန္တနဲ့ ပြည့်စုံတော်မူတဲ့ ဗုဒ္ဓမြတ်စွာဘုရားရဲ့ ဂုဏ်တော်ကိုးပါးကို ပွားများကြည်ညိုနေတဲ့အတွက် ဘုန်းတန်ခိုးရှိ တဲ့လူမျိုးဖြစ်တယ်။ လူမျိုးခြား မိစ္ဆာတွေ အားကောင်းလာချိန်မှာ ဘုန်းတန်ခိုးမညှိုး မှိန်အောင် ဂုဏ်တော်ကိုးပါးပွားများရမယ်" လို့ ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီးက ညွှန်ပြတော်မူခဲ့သည်ဟု သိရှိရပါသည်။

ကျမ်းကိုး၊ မောင်သွေးချွန်၊ ရက်ကန်းစင်တောင်ဆရာတော်ဘုရားကြီး၏ တပည့်အင်းလေး ဒေသမှ သက်တော်ရှည် သာသနာပြုဆရာတော်ကြီး ဦးဂန္ဓမာ၊ ဝိဇ္ဇာရသစုံမဂ္ဂဇင်း၊ ၂၀၀၉ ခုနှစ်၊ ဇန်နဝါရီလ၊ စာ-၆၄။

ကျမ်းကိုး၊ ဦးသန်းဖေမြင့်၊ သိဒ္ဓိစာတ်ထွင်ရုံခေါင် မတ္တရာရက်ကန်းစင်တောင်တော်သို့ တစ်ခေါက်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ်(၁၁၀)၊ ၁၉၉၅ ခု၊ စက်တင်ဘာလ စာ-၉ ကို ကြည့်ပါ)

ကျမ်းကိုး၊ ဆရာတော်ဘုရားကြီးရဲ့ ထေရုပ္ပတ္တိကျောက်စာ ကမ္ပည်းမော်ကွန်းစိုက်ထူထားပါ တယ်။

ကျမ်းကိုး၊ မိုးတား ဦးထွန်းရှိန်၊ မိုးတားရောက် ရက်ကန်းစင်တောင် ဆရာတော် ဦးသြဘာသ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၁၉၉၉ ခု၊ မတ်လ၊ အမှတ် ၁၅၃။

ကျမ်းကိုး၊ ခေတ္တရာ ဆရာကျော် အဓိဋ္ဌာန်အောင် မတ္တရာ ရက်ကန်းစင်တောင်သို့ နက္ခတ္တ ရောင်ခြည် မဂ္ဂဇင်း၊ ၂၀၀၃ ခု၊ ဖေဖော်ဝါရီလ၊ အမှတ် ၁၉၉။

ကျမ်းကိုး၊ စိုင်းပွေခမ်း၊ ရွှေဟောင်း ဘုရားဌာပနာတိုက်အတွင်းမှ ပေါ်ထွက်လာသော ရက်ကန်း စင်တောင်ဆရာတော်၏ ရုပ်တုတော် နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ ၁၉၉၆ ခု၊ စက်တင်ဘာလ၊ အမှတ် ၁၂၂ စာ ၃၅၊ ၃၈။

ကျမ်းကိုး၊ ဦးသိန်းထွန်းကြည်၊ ကျေးဇူးရှင် ရက်ကန်းစင်တောင် ဆရာတော်ကြီး ပေ ပုရပိုက်မှမှရရှိသည့် ပထဝီကသိုဏ်း ရှုပွားရန် ကျင့်စဉ်၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ ၂၀၀၃ ခု၊ ဇန်နဝါရီလ၊ စာ ၂၇၃။

http://www.dhammadownload.com



မုံရွာမြို့နယ်တွင် အကျော်ကြားဆုံးဖြစ်သော
ထိုခေတ်က ဂျုံးဂျုံးကျဆရာတော်ဘုရားကြီးနှင့် ခေတ်ပြိုင်ဖြစ်၍
ထိုခေတ် ထိုအခါက ရဟန္တာဟုကျော်စောသော

# ရွှေရောင်ပြဆရာတော် ဦးအာလောက

## (၁၈၅၃ – ၁၉၃၈)

ရဟန္တာဟုကျော်စောသော ဘုန်းတော်ကြီး ဦးအုန်းခိုင်၏ ဓာတ်ပုံကို ဆွေတော် မျိုးတော်များ အကြားတွင် ရှာဖွေရာမရရှိခဲ့ပါ။

ကျမ်းကိုး။ မောင်ပန်းမွှေး၊ ကျိုက်ထီးဆောင်းဋီကာ ပေါင်းချုပ်ကြီး၊ ပထမတွဲ၊ ဒုတိယတွဲ၊ တတိယတွဲ၊ စတုတ္ထတွဲတို့ကိုလည်းကြည့်ပါ။

မော်လမြိုင်မြို့ ရှင်မဟာဗုဒ္ဓဃောသ ကျောင်းအုပ်ကြီး ဖြစ်ခဲ့သော ဆရာကြီး ဦးဘသန်း ပြုစုသည့် မဟာစည်ထေရုပ္ပတ္တိကထာတွင်ကား မဟာစည်ဆရာတော်ဘုရား ငယ်စဉ်အခါ ပညာရှာစဉ်က သုသာန်ဓုတင်ကျင့်ခဲ့ပုံများကို အသေးစိတ်လေ့လာတွေ့ရှိရပါသည်။ သို့သော် ဦးအုန်းခိုင်၏ ဓာတ်ပုံကိုကား မတွေ့ရှိခဲ့ရပါ။

ကျမ်းကိုး။ မဟာစည် ထေရ်မြတ်အတ္ထုပ္ပတ်၊ ရှင်ဗုဒ္ဓဃောသ ဦးဘသန်း ဘီအေ၊ ဒုတိယအကြိမ်ကို ကြည့်။

ရွှေရောင်ပြ ဘုန်းတော်ကြီးသည် အနာဂါမ်အရိယာ ပုဂ္ဂိုလ်မြတ်ကြီးအဖြစ် ယုံကြည်စိတ်ချစွာ ကြည်ညိုနိုင်ပါကြောင်း အဘိဓဇမဟာသဒ္ဓမ္မဇောတိက သက္ကအလ်တစ်ရာဆရာတော်ဘုရားကြီးက မိန့်ကြားတော်မူခဲ့ခြင်းကြောင့် ဖြစ်ပေသည်။

ကျမ်းကိုး၊ ကျော်ဇောဟိန်း (ရွှေနံ့သာ)၊ ရွှေရောင်ပြဆရာတော်၊ ဝိဇ္ဇာမဂ္ဂဇင်း၊ ယင်းစာ-၄၅

ရွာမွန်သုသာန်ဆရာတော် ဘုရားကြီးဟူ၍ ဟိုးဟိုးကျော်သော ဓာတ်တော်ကျသည့် ဆရာတော်တစ်ပါးကြီးရှိ၏။ ထိုဆရာတော်ဘုရားကြီးက အလွန်ကြည်ညိုဖွယ်ရာကောင်းသော ရွှေရောင်ပြဆရာတော်အကြောင်းကို မပျံ့လွန်တော်မူပင်က မိန့်တော်မူခဲ့ခြင်းသည်ပင်လျှင် ထူးခြားချက်တစ်ခုဖြစ်၏။ ထို့ကြောင့်လည်း ရွှေရောင်ပြဆရာတော်၏ ထေရုပ္ပတ္တိကို မရမက ရှာဖွေရခြင်း ဖြစ်ပါသည်။

တစ်ခါက ဘားအံနယ်အတွင်း ဒေသစာရီ ကြွချီတော်မူစဉ် အပြန်ခရီး၌ ဘားအံဘက်မှ နေ၍ သံလွင်မြစ်တစ်ဖက်ကမ်းကူးမည်ဟု ကူးတို့သမားအားပြောရာ ကူးတို့သမားက ကူးတို့ခ (ပိုက်ဆံ) တောင်းသည်။ "ဘုန်းကြီးတို့(ဝိနည်းတော်အရ) ငွေကြေး ပိုက်ဆံမကိုင် ကြောင်း" ပြောပြီး ဖယောင်းတိုင်ပေးသော်လည်း မယူ၊ ဆရာတော်အားလည်းမတင်ဘဲ လှေကို လှော်ထွက်သွားလေသည်။

ကျမ်းကိုး၊ ယင်းစာ-၄၅

http://www.dhammadownload.com



သို့သော် ကူးတို့သမားမှာ တစ်ဖက်ကမ်းသို့ မရောက်မီမှာပင် နောင်တကြီးစွာရလေ၏။ အကြောင်းကား မိမိတစ်ဖက်ကမ်းသို့မရောက်မီမှာပင် ဆရာတော်ဘုရားက တစ်ဖက်ကမ်းသို့ ရောက်နှင့်တော်မူနေသည်ကို မြင်ရသောကြောင့် ဖြစ်၏။ ထိုကူးတို့သမားမှာ တစ်သက်လုံး တွေ့သမျှသံဃာတော်မြတ်တို့အား နိဗ္ဗာန်ကူးတို့ချည်း ကုသိုလ်ပြုလေတော့သည်ဟူ၏။ အခြားသော အရပ်ဒေသများ၌လည်း အံ့သြဖွယ်ဖြစ်ရပ်များ ရှိသည်။ ဆရာတော်ဘုရားကြီး ကြွရောက်ရာ အရပ်ဒေသတိုင်း၌ အံ့သြကြည်ညိုဖွယ်ရာ ဖြစ်ရပ်များကိုဒေသခံ ဒကာ ဒကာမများက ယနေ့တိုင် ပြောဆိုနေကြပါသည်။

ကျမ်းကိုး၊ ယင်းစာ-၄၅

ထိုရွှေရောင်ပြဆရာတော်ဘုရားထံ၌ (အဂ္ဂမဟာ ပဏ္ဍိတဆဋ္ဌသင်္ဂီတိပုစ္ဆက) ကမ္ဘာကျော် မဟာစည်ဆရာတော်ဘုရားကြီးသည်လည်း မိမိတရားရှာထွက်စဉ် နည်းခံခဲ့ဖူးကြောင်း ကျိုက္ကော်ရွှေဘုံသာစေတီကုန်းတော်ပေါ်၌ တရားဟောတော်မူစဉ် မိန့်ကြားတော်မူခဲ့ဖူးပါ သည်။

ရွှေရောင်ပြ ဆရာတော်ဘုရားကား ဓုတင်အကျင့်မြတ် ပဋိပတ်ကို ဖြည့်ကျင့်၍ မွေ့လျော် တော်မူ၏။ ရောင့်ရဲလွယ်မှု (သန္တုဋ္ဌိ) ခေါင်းပါးစွာကျင့်သုံးမှု (သလ္လေခ) အကျင့်မြတ်တို့နှင့် ပြည့်စုံတော်မူသည်။ သက်သတ်လွတ်ဘေးမဲ့ အာဟာရဖြင့် ရာသက်ပန် စားတော်မူ၏။ ဝိနည်းတော်ကိုလည်း အလွန်လေးစားရိုသေသည်။ ပရိယတ်၊ ပဋိပတ်စွယ်စုံ ကမ္ဘာကျော် လယ်တီဆရာတော်ဘုရားကြီးထံ နည်းနိဿယခံယူခဲ့ဖူးသော ရွှေရောင်ပြဆရာတော် ဘုရား ကြီးသည် မြန်မာဘာသာဖြင့်သော်လည်းကောင်း၊ ပအိုဝ်းဘာသာဖြင့်သော်လည်းကောင်း၊ ပဋိပတ်ကျင့်စဉ်စာအုပ်များကို ရေးသားရိုက်နှိပ်တော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းစာ-၄၅

အေဒီ ၁၉၃၆

မြန်မာသက္ကရာဇ် (၁၂၉၈) ခုနှစ်တွင် မြန်မာဘာသာနှင့် ပအိုင်ဝ်းဘာသာနှစ်အုပ်တွဲ စုစု ပေါင်း၍ ရိုက်နှိပ်ထားသော ပဋိပတ်ကျင့်စဉ် စာအုပ်များ ထုတ်ဝေခဲ့သည်။ (က) မြန်မာ ဘာသာဖြင့် စာမျက်နှာ(၂၃၆) မျက်နှာရှိ ဘုရားဟော လူဥပါသကာကျင့်စဉ် (ခ) ပအိုဝ်း ဘာသာဖြင့် စာမျက်နှာ(၁၄၄) မျက်နှာရှိ လူရှင်ရဟန်းတရားမှန်ကျင့်စဉ် စာအုပ်များ ပြုစုခဲ့ဖူးသည်။

ကျမ်းကိုး၊ ယင်းစာ-၄၆

အလွန်ကျော်စောသော အလံတစ်ရာဆရာတော်၏ ဆရာရင်းဖြစ်ကြောင်းလည်း အောက်ပါ အတိုင်း လေ့လာတွေ့ရှိရပါသည်။

ရွှေရောင်ပြဆရာတော်ကြီးထံ အလံတစ်ရာဆရာတော်လောင်းလျာ ရှင်စန္ဒနဝံသ ရောက် ရှိလာချိန်တွင် ဆရာတော်ဘုရားကြီး၏ သက်တော်ရွယ်တော်နှင့် ကျန်းမာရေးအခြေအနေ တို့မှာ နေဝင်ဖျိုးဖျ ညဆည်းဆာချိန်သို့ ရောက်ရှိတော်မူနေပေပြီဟု သိရသည်။

ကျမ်းကိုး၊ ယင်းစာ-၄၆

ရွှေရောင်ပြဆရာတော်ဟု ခေါ်ဆိုကြသော်လည်း ထိုအရှင်မြတ်၏ ဘွဲ့တော်မှာ ဦးအာလောက ဖြစ်ကြောင်း သိရှိရပါသည်။

ထိုရွှေရောင်ပြဆရာတော်နှင့် စပ်လျဉ်း၍ အဆက်အစပ်များရှာဖွေရာ အလံတစ်ရာ ဆရာ တော်ဘုရားကြီး၏ သာသနာပြုမှတ်တမ်းတွင် တွေ့ရှိရပါသည်။ ဦးခွန်ဉာဏ်ဦး ဓမ္မိက ရေးသား ပူဇော်သည့် စာ၊ ၁၉၉၁ ဇန်နဝါရီလ၊ ဒုတိယအကြိမ်၊ စစ်ပြန်ပုံနှိပ်တိုက် ၁၆၆၊ ပန်းဆိုးတန်း၊

http://www.dhammadownload.com



ရန်ကုန်မြို့က ပုံနှိပ်သည့်စာအုပ်ဖြစ်ပါသည်။ ထိုသာသနာပြုမှတ်တမ်းတွင် အဘိဓဇအဂ္ဂမဟာ သဒ္ဓမ္မ ဇောတိက အလံတစ်ရာ ဆရာတော်ကြီး၏ ငယ်ဆရာအဖြစ် မှတ်တမ်းတင်ထားကြောင်း အံ့သြ ကြည်ညိုဖွယ် ရှာဖွေတွေ့ရှိရပါသည်။

ယင်းရွှေရောင်ပြ ဆရာတော်ဘုရားကြီး အကြောင်းကို ဆရာကြီး လယ်တီ ဦးလှတင် (လယ်တီ ဝဏ္ဏိတ) က ရွှေရောင်ပြဆံတော်ရှင်သမိုင်း၊ ပဋိပတ်ဝိပဿနာ ဉာဏ်စဉ်ကျမ်းတို့ နှင့် စုပေါင်း၍ စာတစ်အုပ် ပြုစုထားပါသည်။

ရွှေရောင်ပြ ဆရာတော် ဘုရားကြီး၏ ဓမ္မာဘိသမယ (တရားထူးရခြင်း) နှင့် စပ်၍ လောကုတ် လောကီ ပဋိဝေဓဆိုက်သည်ဟု ဆိုရပါမည်။ ရဟန်းကိစ္စ ပြီးမပြီးကိုကား သာမန်ပုဂ္ဂိုလ်တို့ အရာ မဟုတ်ပါ။ အောက်မြန်မာပြည် (အထူးသဖြင့် ယခု မွန်ပြည်နယ်၊ ကရင်ပြည်နယ်) တို့၌ ရဟန္တာဟု ကျော်ကြားပေသည်။ လောကီ ပဋိဝေဓဆိုက် (အဘိညာဉ်) ရသည်မှာကား ထင်ရှားလှ၏။

ကျမ်းကိုး။ ယင်းကျမ်း၊ စာ ၂၀

အလံတစ်ရာဆရာတော်ဘုရားသည် ထိုနှစ် ဝါတွင်း ယင်း (ရွှေရောင်ပြတောရ) ၌ပင် ဆက် လက် ၍ သီတင်းသုံးသည်ဖြစ်ရာ တစ်ညဉ့်၌ ထူးခြားသည့် အိပ်မက်တစ်ခု မြင်မက်လေသည်။ အိပ်မက်တွင် စံလွန်တော်မူပြီး ဖြစ်သော ရွှေရောင်ပြ ဆရာတော်ဘုရားသည် တစ်ခုသော တောင်ထိပ်၌ သီတင်းသုံးပြီး တစ်ချိန်တွင် မိမိနေထိုင်ရာ တောင်ခြေသို့ သက်ဆင်းကြွရောက် လာတော်မူ၏။ဆရာတော် သီတင်းသုံးရာ တောင်ထိပ်ဆီသို့ မိမိလည်းလိုက်ပါ နေထိုင်လို ကြောင်း ခွင့်တောင်းလျှောက်ကြားရာ ဆရာတော်ဘုရားက "မောင်ရှင်သာမဏေ ဆရာတော်နှင့် အတူ လိုက်ပါနေထိုင်ရန် မသင့်လျော်သေး၊ အလောင်းအလျာ ဒါယကာ ဒါယိကာမများကို လမ်းညွှန် ပို့ဆောင်ရစ်ပါဦး" ဟု မိန့်ကြားကြောင်း မြင်မက်သည်ဟု ဆိုပါသည်။

ကျမ်းကိုး။ ယင်းကျမ်း၊ စာ ၂၂

ဤရွှေဤမျှကား ရဟန္တာဟုကျော်ကြားသော ရွှေရောင်ပြဆရာတော်တည်း ဟူသော အကြောင်း ကို သာသနာပြု အကျော်အမော် အဘိဓဇ အဂ္ဂမဟာ သဒ္ဓမ္မဇောတိက ဘွဲ့တံဆိပ်တော်ရ အလံ တစ်ရာဆရာတော် ဘုရားကြီး၏ မဟာ ထေရုပ္ပတ္တိကထာမှ သိရသမျှ ဖြစ်ပါသည်။

ယခု ဆက်လက်၍ မဟာစည်ဆရာတော်ဘုရားကြီး ဦးသောဘန ရဟန္တာ ကိုယ်တော်မြတ်ကြီး နှင့် စပ်လျဉ်းသမျှကို ဆက်လက်ရှာဖွေရသမျှ တင်ပြပါမည်။

ရွှေရောင်ပြဆရာတော်အကြောင်းနှင့် စပ်လျဉ်း၍ ဆက်လက်ရှာဖွေရာ မဟာစည်ဆရာတော် ဘုရားကြီးနှင့်လည်း အဆက်အစပ် ရှိကြောင်း လေ့လာတွေ့ရှိရပါသည်။ မဟာစည်ဆရာတော် ဟူ၍ ထေရဝါဒ သာသနာဂုဏ်ဆောင် ဖြစ်သောကြောင့် ကမ္ဘာတစ်ဝန်းလုံးက လေးစားတော်မူ ရသော မဟာစည်ဆရာတော် အလောင်းအလျာ ဦးသောဘနနှင့် စပ်လျဉ်းသမျှကို မင်းကွန်း ဇေတဝန်သထုံ ဆရာတော်ဘုရားကြီး၏ မဟာထေရုပ္ပတ္တိမှသိရှိရသမျှ ဖော်ပြပါမည်။

ဘီးလင်းမြို့အနီး ကုသိနာရုံ စခန်းသို့ ဦးစွာ ကြွရောက်တော်မူကြ၏။ ထိုမှ အဟုန်းဝ ခဲတန်ဝါး တောင်နှင့် ယင်းဒေသရှိ လမ်းသင့်ကြုံရာသုသာန်များသို့ ဝင်ရောက်၍ ကမ္မဋ္ဌာန်း ဘာဝနာ တရားပွားများရင်း လှည့်လည်ခဲ့ကြသည်။ မြောက်ဘက်ခရီးစဉ်ဆုံးလျှင် ရွှေရောင်ပြတောရ၌ ရက် အနည်းငယ်မျှ ပြန်ကြွအနားယူကြ၏။

မဟာစည် ဆရာတော် ဦးသောဘနမှာ ၂၀ ရာစု သာသနာခေတ်တွင် မြန်မာမဆန့် ကမ္ဘာအထိ ကျော်စောတော်မူသော ထေရဝါဒဂုဏ်ဆောင် မြန်မာပြည်သား ရဟန္တာအရှင်မြတ်ကြီးဖြစ်ပေ

http://www.dhammadownload.com



သောကြောင့် ကျွန်ုပ်လည်း အလွန် စိတ်ဝင်စားစွာ ဖတ်ရှုပါသည်။

ထိုစဉ်က ယခုအခါ ထင်ရှားကျော်စောလျက်ရှိသော ရန်ကုန်ဟာမစ်တစ်လမ်း သာသနာ့ ရိပ်သာရှိ မထေရ်ကြီးသည် . . .

အေဒီ ၁၉၃၁

အေဒီ ၁၉၃၁ ခု (၁၂၉၃ ခုနှစ်) က မော်လမြိုင်မြို့ တောင်ဝိုင်းကလေး တိုက်ကျောင်း၌တိုက် ကျောင်းဆရာတော်ကြီး၏ လက်ထောက်အဖြစ်ဖြင့် ပရိယတ္တိစာပေ ပို့ချနေသည့် ရဟန်း(၈)ဝါ ရ မဟာစရိယ ဦးသောဘနပင် ဖြစ်၏။ ၎င်း ဦးသောဘနသည် ပရိယတ္တိလုပ်ငန်းကို ကြိုးပမ်း ဆောင်ရွက်နေရာမှ ပဋိပတ္တိလုပ်ငန်းကိုလည်း လက်တွေ့ကျင့်သုံး အားထုတ်လိုသောကြောင့် မိမိနှင့် သာမာဆန္ဒတူမျှသော ဦးတေဇဝန္တ ခေါ် သီတင်းသုံးဖော် ရဟန်းတစ်ပါးနှင့်အတူ သပိတ်တစ်လုံး၊ သင်္ကန်းသုံးထည်မျှဖြင့် တရားကျင့်နည်းကို စုံစမ်းရှာဖွေရန် မိမိ၏နေမြဲ မော်လမြိုင်မှ ထွက်လာခဲ့၏။

ဇင်းကျိုက်တောင်၊ ကေလာသ မြသပိတ်တောင်နှင့် ရွှေရောင်ပြတောင် ရွှေရောင်ပြဆရာတော် ၏ဌာန စသည်တို့၌ စုံစမ်းခဲ့ပြီးနောက် သထုံမြို့ မင်းကွန်း ဇေတဝန်ကျောင်းတော်သည် သတိပဋ္ဌာန်သုတ် ပါဠိတော်နည်းဖြင့် လက်တွေ့ တရားအားထုတ်ပုံကို ဟောပြနေကြောင်း ကြားသိရသဖြင့် မော်လမြိုင်မှ ခရီးထွက်ခဲ့ခြင်း ဖြစ်ကြောင်း သိရပါသည်။ ထို့ကြောင့် မဟာစည် ဆရာတော်လောင်းလျာ ဦးသောဘနသည် မင်းကွန်းဆရာတော်ကြီး အကြောင်းသိပြီး ဖြစ်ပုံ ရလေသည်။

ဤတွင် ကျွန်တော်ပြောလိုသောအချက်ကို ရောက်ပါပြီ။ ထိုအချက်ကား အခြားမဟုတ် ရွှေရောင်ပြဆရာတော်ဆိုသူကား အဘယ်နည်းဟူသော အချက် ဖြစ်ပါသည်။

အထက်ပါ စာသားအရဆိုလျှင် ရွှေရောင်ပြဆရာတော်သည် ဇင်းကျိုက်တောင်မှာလည်း နေဖူးပုံရ၏။ ကေလာသတောင်မှာလည်း နေဖူးပုံရ၏။ မြသပိတ်တောင်မှာ နေဖူးပုံရ၏။ ရွှေရောင်ပြ တောင်မှာလည်း နေဖူးပုံရ၏။ ဤသို့ဆိုလျှင် ရွှေရောင်ပြဆရာတော်သည် တောစဉ် တောင်စဉ် လှည့်လည်လျက် တောကျင့်တောင်ကျင့် ကျင့်ကြံနေပုံရသော ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ် ဖြစ်ဟန်တူ လေသည်။

ကျမ်းကိုး။ သထုံ မင်းကွန်းဇေတဝန် ထေရုပ္ပတ္တိ၊ စာ ၇၅။

ထို့နောက် မဟာစည်ဆရာတော် ဦးသောဘနသည် ဤသို့ တွေးမိလေသည်။

ငါသည်လည်း သတိပဋ္ဌာနသုတ် ပါဠိ အဋ္ဌကထာ ဋီကာကို ငါတို့လည်း ကောင်းကောင်း လေ့လာထားပြီးပင် ဖြစ်၏။ သို့သော် မင်းကွန်းဇေတဝန်ဆရာတော်ကြီးမှာ သာမန်ပုဂ္ဂိုလ် မဟုတ်ပေ။ ပိဋကတ် ပါဠိ အဋ္ဌကထာ ဋီကာတို့၌ ကောင်းကောင်းတတ်ကျွမ်းသည့်ပြင် တရားကိုလည်း လက်တွေ့ကျင့်သုံးထားပြီး ဖြစ်ပေသည်။ တပည့် ရာပေါင်းများစွာတို့အားလည်း လက်တွေ့ ညွှန်ပြဟောကြားနေသော ဆရာတော်ဖြစ်ပေသည်။ သို့ဖြစ်၍ ၎င်း မင်းကွန်း ဇေတဝန် ဆရာတော်ကြီးထံမှာ နည်းနိဿယခံယူ၍ အားထုတ်သင့်သည်ဟု စဉ်းစားကြံစည် ပြီးလျှင် ရွှေရောင်ပြဆရာတော်၏ ဌာနမှ သထုံသို့ ခြေလျင်လျှောက်၍ (၂) ရက်တိုင်တိုင် လာခဲ့၏။

ကျမ်းကိုး။ ယင်းစာ- ၇၅

အေဒီ ၁၉၃၂

ရွှေရောင်ပြ ဆရာတော်၏ ဌာနမှာ ထွက်ခွာခဲ့ပြီးနောက် မဟာစည်ဆရာတော်သည် သထုံအထိ ခြေလျင်လျှောက်သွားသည်ဟု စာထဲတွင်ပါ ပါ၏။ (၂) ရက် ကြာကြာလျှောက်ရ၏ဟု ဆိုပါ သည်။

http://www.dhammadownload.com



ထို့ကြောင့် သက္ကရာဇ် (၁၂၉၃) ခု၊ တပေါင်းလဆန်း (၅) ရက်၊ ခရစ်နှစ် (၁၉၃၂) ခု မတ်လ (၁၁) ရက်၊ သောကြာနေ့တွင် မင်းကွန်းဆရာတော်ဘုရားကြီးထံသို့ ဆိုက်ရောက်ခဲ့ကြောင်း သိရှိရပါသည်။

ကျမ်းကိုး၊ ယင်းစာ- ၇၆

ထို့နောက် ထိုနေ့မှာပင် ကမ္မဋ္ဌာန်းတောင်းသဖြင့် ဆရာတော်ဘုရားကြီးက ညဉ့်ဦးယံ (၇) နာရီလောက်မှာ ကမ္မဋ္ဌာန်းနည်းကို ပေးတော်မူကြောင်း သိရှိရပါသည်။

ကျမ်းကိုး၊ ယင်းစာ- ၇၆

ထိုသို့ ကမ္မဋ္ဌာန်းပေးနေသည်မှာ တစ်နာရီခန့်ကြာ၏။ နာယူနေသော ဦးသောဘနလည်း နှစ်နှစ်ခြိုက်ခြိုက် သဘောကျ၏ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ- ၇၇

ဤတွင် ကျွန်တော်ဆိုလိုသည်မှာ ထို (၈) ဝါရ မဟာစရိယ ဦးသောဘနနှင့် ရွှေရောင်ပြ ဆရာတော်တို့အကြောင်း ဖြစ်ပါသည်။ ထို့ကြောင့် ကျွန်တော်သည် ရွှေရောင်ပြဆရာတော် အကြောင်းကို ရောက်ရာအရပ်မှာ မျက်စိဖွင့် နားစွင့်လျက် စုံစမ်းခဲ့ပါသည်။

ထို့ကြောင့် ဇင်းကျိုက်သို့ ရောက်သောအခါမှာလည်း ဟိုဟိုသည်သည် မေးမိ၏။ ကေလာသ တောင်သို့ ရောက်သောအခါမှာလည်း ဟိုဟိုသည်သည် မေးမိ၏။ မြသပိတ်တောင်သို့ ရောက် သောအခါမှာလည်း ဟိုဟိုသည်သည် မေးမိ၏။ ရွှေရောင်ပြတောင်သို့ ရောက်သောအခါမှာ လည်း ဟိုဟိုသည်သည် မေးမိ၏။ ထိုအခါ အောက်ပါအတိုင်း သိရပါသည်။

ရွှေရောင်ပြဆရာတော်အကြောင်းကို ဆက်လက်ရှာဖွေရာ သာမည ဆရာတော်ဘုရား ကြီးနှင့်လည်း အဆက်အစပ်ရှိကြောင်း လေ့လာသိရှိရပါသည်။

**အေဒီ ၁၉၃၂** သာမညဆရာတော်အသက် (၂၀) အရွယ် အေဒီ (၁၉၃၂) ခု၊ ဇွန်လ (၃) ရက်၊ သောကြာနေ့ (မြန်မာသက္ကရာဇ် ၁၂၉၄ ခု ကဆုန် လပြည့်ကျော် ၁၅ ရက်) လကွယ်နေ့တွင် မိဘနှစ်ပါး၏ ပစ္စယာနုဂ္ဂဟကို ခံယူကာ မော်လမြိုင်မြို့၊ ကျိုက်သန်လန်ဘုရား၊ တောင်ပေါ်ရှိ ရတနာ ဘုံမြင့်ကျောင်း ခဏ္ဍသိမ်တော်၌ ကြံခင်းကျောင်း ဆရာတော် ဦးအာစာရကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်ရှိသည်ဟု သိရပါသည်။

ကျမ်းကိုး၊ သာမည ဆရာတော် ထေရုပ္ပတ္တိ၊ ယင်းကျမ်း စာ ၆

**အေဒီ ၁၉၃၂** မော်လမြိုင် ရတနာဘုံမြင့်ကျောင်း၌ အထက်အညာ မိတ္ထီလာ ဇာတိ စာချဆရာတော် ဦးစန္ဒိမာ ထံမှ ဘုရားဂုဏ်၊ တရားဂုဏ်၊ သံဃာဂုဏ်တော်များနှင့် မေတ္တာဘာဝနာ ပွားပို့နည်းများကို လက်တွေ့ကျကျ သင်ယူဆည်းပူးခဲ့ရပေသည်။ သာမညဆရာတော်လောင်းလျာသည် အေဒီ ၁၉၃၂ ခု (၁၂၉၅ ခု) ရဟန်းဘဝ ပထမဝါကို ကြံခင်းကျောင်းတွင် ဝါဆိုသည်။ ယင်း ဆရာတော်ထံ၌ ပရိယတ္တိစာပေများကို သင်ယူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ- ၇

**အေဒီ ၁၉၃၃** သာမညဆရာတော်လောင်းလျာသည် အေဒီ (၁၉၃၃) ခု (မြန်မာသက္ကရာဇ် ၁၂၉၅ ခုနှစ်) သက်တော် (၂၂) နှစ်၊ ရဟန်းသိက္ခာ ဒုတိယဝါတွင်၊ ဘီးလင်းမြို့နယ် ရွှေရောင်ပြ တောရကျောင်း တောမှီရွှေရောင်ပြဆရာတော်ထံ ရောက်ရှိသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ- ၇

အရညဝါသီတောမှီ ရွှေရောင်ပြဆရာတော်သည် ထိုစဉ်အခါက နိုင်ငံအဝန်း ရဟန္တာဟု ထင်ရှားကျော်ကြားနေသည်။ ထိုဆရာတော်ထံမှ ဝိပဿနာတရားကျင့်ကြံအားထုတ်နည်းနှင့်

http://www.dhammadownload.com



ဩဝါဒများကို ခံယူမှတ်သားခဲ့ပြီး၊ သာမညဆရာတော်လောင်းလျာသည် တောင်စွန်းမြို့ ကျိုက်ထီး ဆောင်းတောရကျောင်းတွင် တရားကျင့်ကြံ အားထုတ်နိုင်ရန် သီတင်းသုံးခဲ့သည်။ ရွှေရောင်ပြတောရဆရာတော်သည် အသက်အသားမပါသော အသားလွတ် အာဟာရ ဖြစ်သည့် အသီးအနှံများဖြင့် တင်းတိမ်မှုတတော်မူသည်။ အသားလွတ် သုံးဆောင်နိုင်က ထူးခြားစွာ တရားမြမည်ဖြစ်ကြောင်း ရွှေရောင်ပြဆရာတော်၏ ဆိုဆုံးမ ဩဝါဒစကားကို ယနေ့တိုင် နားဝယ်ကြားယောင်၊ အမှတ်ရနေသည်ဟု အဘိဇဓအဂ္ဂမဟာသဒ္ဓမ္မဇောတိက ဘဒ္ဒန္တ ဝိနယ သာမည ဆရာတော်ဘုရားကြီးကိုယ်တော်တိုင် မိန့်တော်မူခဲ့သည်ဟု သိရှိရပါ သည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ- ၇

ဤရွှေ ဤမျှကား ရဟန္တာဟု ကျော်ကြားတော်မူသော (ဝါ) ရွှေရောင်ပြဆရာတော်ဟူ၍လည်း ကောင်း၊ မဟာစည်ဆရာတော်ဘုရားကြီးနှင့် ဆက်စပ်ပုံ၊ သာမည ဆရာတော်ဘုရားကြီးနှင့် ဆက်စပ်ပုံ၊ အလံတစ်ရာ ဆရာတော်ဘုရားကြီးနှင့် ဆက်စပ်ပုံတို့ကို ဖော်ပြခဲ့ပြီး ဖြစ်ပါသည်။

အေဒီ ၁၉၂၈ သက္ကရာဇ် ၁၂၉၀ ပြည့်နှစ်၊ နယုန်လ (၁၉၂၈ ခု၊ ဇွန်လ) တွင် မော်လမြိုင်မြို့ ပန်းဘဲတန်းရပ်ရှိ အင်္ဂလိပ်မြန်မာ နှစ်ဘာသာသင် ရှင်ဗုဒ္ဓဃောသ အထက်တန်းကျောင်းကြီးကို (သပိတ်မှောက် ခေတ်အတွင်း ယိုယွင်းပျက်စီးနေရာမှ) သာသနဓရအသင်းက ပြန်လည်ဖွင့်လှစ်ခဲ့ပါသည်။ ထိုသို့ ဖွင့်လှစ်ရာတွင် ဗုဒ္ဓဘာသာနှင့် မြန်မာစာပေဘက်က သင်ကြားပေးရန် ဆရာတစ်ဦး လိုလျက်ရှိသဖြင့် ရန်ကုန်မြို့၌ရှိသော ကျွန်တော့်အား သာသနဓရအသင်း၏ ဆုံးဖြတ်ချက်အရ ခေါ်ယူခန့်ထားခဲ့ပါသည်။ ထိုသို့ထားသည့်အတိုင်း ခရစ်နှစ် (၁၉၂၀) ပြည့်၊ ဝါဆိုလ (၁၉၂၈ ခု၊ ဇူလိုင်လ) တွင် အလုပ်ဝင်၍ ဗုဒ္ဓဘာသာ ပါဠိဘာသာနှင့် မြန်မာဘာသာများကို သင်ကြားခဲ့ သော ရှင်မဟာဗုဒ္ဓဃောသ ဦးဘသန်းအမည်ခံ မြန်မာရာဇဝင် ကျမ်းပြုဆရာကြီး၏ မှတ်တမ်း အရ ရွှေရောင်ပြဆရာတော်အကြောင်းကို သိခွင့်ရခဲ့ပါသည်။

> ကျမ်းကိုး၊ မော်လမြိုင်မြို့၊ ရှင်မဟာဗုဒ္ဓဃောသကျောင်း ဆရာကြီး ဦးဘသန်းဘီအေ ပြုစုသော မဟာစည်ထေရ်မြတ်အတ္ထုပ္ပတ်တွင် ဆရာကြီးသည် စာတွေ့ ငါတွေ့ လက်တွေ့ ရေးသားသော စာမှ ကိုးကားခြင်းဖြစ်၍ နိုင်လုံပါသည်။ ယင်းစာ - ၁။

ပဋိပတ္တိဘက်က တစ်ကိုယ်ရေတစ်ကာယ အားထုတ်တော်မူကြသော မဟာထေရ်ကြီးများလည်း ရှိပါသည်။

ထိုအခါ ပဋိပတ်အတွက် ကျော်စောသတင်းထွက်နေသည်မှာ မုဒုံမြို့ ဂျုံးဂျုံးကျ တောရ ဆရာ တော်နှင့် သထုံခရိုင် ဒုံဝန်းတောရ (ရွှေရောင်ပြတောင်ခြေ) ကျောင်း ရွှေရောင်ပြဆရာတော်တို့ ပင် ဖြစ်ပါသည်။

ဂျုံးဂျုံးကျတောရ ဆရာတော်ကြီးသည် ပဋိပတ်ဘက်က ထက်ထက်မြက်မြက် အားထုတ်တော်မူ နေရင်း ပျံလွန်တော်မူသွားရာ အလောင်းတော်ကို ဒုကုဋ်သက်န်းကြီးဖြင့် လွှမ်းခြုံထားရာမှ ရုတ်တရက် အလောင်းတော်ပျောက်ကွယ်၍ လွှမ်းခြုံထားသော ဒုကုဋ်သက်န်းသာ ကျန်ရစ် ကြောင်း ပြောစမှတ်ပြုကြပါသည်။ ဤမျှ ပြင်းပြင်းထန်ထန် အားထုတ်တော်မူသော ဆရာတော် ကြီးဖြစ်၍ ပျံလွန်တော်မူပြီးနောက်လည်း ဂျုံးဂျုံးကျတောရသို့ အလောင်းတော် ပြင်ဆင်သော ခုတင်နှင့် သက်န်းတော်ကို ဖူးမြော်ရန် သွားရောက်ကြသော ရှင်,လူတို့ကား ပြတ်သည်ဟူ၍ပင် မရှိပေ။

ကျမ်းကိုး၊ ယင်းစာ- ၅

http://www.dhammadownload.com



ကျော်စောတော်မူသော ရွှေရောင်ပြဆရာတော်သည်ကား အသက်လွန်မှ ရဟန်း ဘောင်သို့ ဝင်ရောက်ကာ သဒ္ဓါတရား ထက်သန်စွာနှင့် ပဋိပတ်လုပ်ငန်းကို သက်စွန့်ကြိုးပမ်း အားထုတ်တော်မူသော ပုဂ္ဂိုလ်ဖြစ်ပေသည်။ ဘုန်းတော်ကြီးကျောင်းသို့ ရောက်ဖူးသူများ၏ ပြောပြချက်အရ သိရသည်မှာ "ဘုန်းတော်ကြီးသည် သပိတ်တစ်လုံး၊ သက်န်းသုံးထည်စသော ရဟန်းပရိက္ခရာမှတစ်ပါး အခြားအသုံးအဆောင် အပိုမထား၊ တစ်ပါးတည်း သီတင်းသုံးတော်မူသည်။ ကျိန်းစက်ရာတွင် ခေါင်းအုံးဟူ၍ မရှိ၊ လှေခေါင်းရိုးကို ခေါင်းအုံးအဖြစ် ထားတော်မူသည်။ ဆွမ်းခံရွာဟူ၍ အတည်တကျ အမှတ်မထား၊ ဟိုရွာတစ်လှည့် သည်ရွာတစ်လှည့် ဆွမ်းခံတော်မူသည်" ဟူ၏။

ကျမ်းကိုး၊ ယင်းစာ- ၅

ဘုန်းတော်ကြီး၏ ပဋိပတ် ဂုဏ်သတင်းကြောင့် မော်လမြိုင်၊ မုတ္တမ၊ သထုံစသော ပတ်ဝန်းကျင်မြို့ရွာတို့မှာ မကြာခဏ ဘုန်းတော်ကြီးထံပါးသို့ သွားရောက်ဖူးမြော် ပူဇော်ကန်တော့ကြလေသည်။ ဘုန်းတော်ကြီးထံ ဆည်းကပ်၍ တစ်လကိုးသီတင်း တရားအားထုတ် နေထိုင်ကြသူကား မရှိချေ။ နေစရာ ထိုင်စရာ ကမ္မဋ္ဌာန်းကျောင်း အဆောက်အဦဟူ၍လည်း ဘုန်းတော်ကြီးသီတင်းသုံးသော ကျောင်းကလေးမှတစ်ပါး မရှိချေ။

ကျမ်းကိုး၊ ယင်းစာ- ၅

ရွှေရောင်ပြဆရာတော်ကျောင်းသို့ မဟာစည်ဆရာတော်ဘုရား ရောက်ရှိလာပုံမှာ ဤသို့ ဖြစ်ပါသည်။

အေဒီ ၁၉၃၂ ဒုံဝန်းဘူတာသို့ရောက်လျှင် အရှင်သောဘန တစ်ပါးတည်းသာ ဆင်းနေရစ်ခဲ့၍ ရွှေရောင်ပြဆရာတော် ကျောင်းရှိရာကို စုံစမ်းရင်း ဘူတာမှ တဖြည်းဖြည်း လမ်းလျှောက်လာသည်။ ရွှေရောင်ပြဆရာတော် ကျောင်းမှာ ဒုံဝန်းဘူတာမှ (၅) မိုင်သာသာ ဝေးကွာသော ရွှေရောင်ပြတောင်ခြေတွင် တည်ရှိလေသည်။ ခရီးမှာ ကျိုက်ထီးရိုးတက်လမ်းလောက်လည်း မဆိုးလှ၊ အနည်းငယ် ခဲယဉ်းသည်မှာ လမ်းဆုံ လမ်းခွဲ လမ်းမြွာတွေ များသဖြင့် ဟိုဘက်လိုက်ရနိုးနိုး သည်ဘက်သွားရနိုးနိုးနှင့် ဝိစိကိစ္ဆာ သဘောမျိုး ဖြစ်ရသည်။

ကျမ်းကိုး၊ ယင်းစာ- ၃၂

အေဒီ ၁၉၃၂ အဆင့်ဆင့် မေးမြန်းခြင်းဖြင့် ညနေချမ်း မှောင်ရီရီ ညီအစ်ကို မသိတသိ အချိန်လောက်ရောက်မှ ရွှေရောင်ပြဆရာတော် ကျောင်းဝင်းအဝင်ဝသို့ ရောက်သည်။ မီးရောင်ကလေး တလက်လက်ထွန်းထားလေပြီ။ ကျောင်းဝသို့မရောက်မီ ဇရပ်တစ်ခုတွင် ဘုန်းတော်ကြီးတစ်ပါးနှင့် ရဟန်းတစ်ပါးကို တွေ့ရ၍ "ဒီကျောင်းဟာ ရွှေရောင်ပြဆရာတော် ကျောင်းပဲလားဘုရား" ဟု လျှောက်ထားသည်တွင် "ဩော် ဟုတ်ပါတယ် ဟုတ်ပါတယ် ကြွသာ ကြွသွားပါ နေရာထိုင်ခင်းများသဘောရှိနေနိုင်ပါတယ်။ ကပ္ပိယလဲ ရှိပါတယ်" ဟု အမိန့်ရှိသဖြင့် ကျောင်းသို့ အရောက်ဝင်သွား၍ ကပ္ပိယနှင့် တွေ့လေသည်။

"ရွှေရောင်ပြဆရာတော် ရှိပါသလား"

"မရှိဘူး ခုတင်ကပဲ ထွက်ကြွသွားပြီ၊ လမ်းမှာ မတွေ့လိုက်ဘူးလား ဘုရား၊ ဦးပဉ္စင်း အဖော်တစ်ပါးလဲပါတယ်"

"ဩော်တွေ့လိုက်တယ်။ ရွှေရောင်ပြဆရာတော်မှန်း မသိလိုက်ဘူး၊ ရွှေရောင်ပြဆရာတော်ပဲလို့လဲ အမိန့်မရှိဘူး၊ ဘယ်ကြွသွားသလဲ"

"ကျောင်းမှာ ညအချိန် ကျိန်းလေ့ မရှိဘူး။ ဒီမှာ လာနေကြတဲ့ ရဟန်း၊ ရသေ့များလဲ ဘုန်းကြီး

http://www.dhammadownload.com



လိုပဲ ကျောင်းမှာ မကျိန်းကြရဘူး၊ နံနက်လင်းမှ ဆွမ်းခံပြီး ပြန်လာကြတာပဲ"
"ဘယ်သွားကျိန်းကြသလဲ"
"သုသာန်သချိုင်းရှိရာကြွပြီး တစ်ညလုံးနေကြတာပဲ၊ ကျိန်းကြတယ်လို့တော့ မရှိဘူး ထင်ပါတယ်"

ကျမ်းကိုး၊ ယင်းစာ- ၃၃

ဘုန်းကြီး ဦးအုန်းခိုင်ကား ချိုးမွမ်းဖွယ် ပုဂ္ဂိုလ်ကြီးပေတကား၊ ကျောင်းပေါ်တွင် ခေါင်းအုံးဟူ၍ မယ်မယ်ရရ မရှိ၊ သံရိုက်ထားသော သစ်သားခုံကလေးများသာရှိသည်။ ဖျာအနည်းငယ်ရှိသည်။ ဦးအုန်းခိုင်မှာ သီးခြားကျောင်းကလေးတစ်ဆောင်တွင် သီတင်းသုံးသည်။ ယောဂီရဟန်းများအတွက် သီးခြားကမ္မဋ္ဌာန်း ကျောင်းကလေးများလည်း ရှိသည်။ ကျောင်းဆောင်ကောင်းကောင်း ကျောင်းကြီးကြီး ဆောက်ခွင့်မပြုဟု သိရသည်။ ပရိဘောဂ အသုံးအဆောင်ဟူ၍ မတွေ့ရ၊ ဘုရားလက်ထက်တော်က ရဟန်းကျောင်းများကဲ့သို့ တစ်ဝါကျွတ်တစ်ခါပြောင်း သစ်ရွက်မိုးကျောင်းများနှင့် အလားတူလှသည်။ ရပ်ရွာနှင့် ဝေးကွာ၍ သားငှက်တိရစ္ဆာန် လူသံတိတ်ဆိတ်လှသည်။ တရားရှာသူ (ယောဂီ) များနှင့် သင့်လျော်၍ တောပျော်ပုဂ္ဂိုလ်တို့နှစ်ခြိုက်ဖွယ် ဋ္ဌာနဖြစ်ပေသည်။ ဤမျှ တိတ်ဆိတ်ငြိမ်သက်သော ဋ္ဌာနဖြစ်ပါလျက် ညအခါကျောင်းတွင်မနေ သုသာန်ရှိရာသို့ ကြွတော်မူ၍ သုသာန်ဓုတင် အာရညကင်ဓုတင် ရုက္ခမူဓုတင်များ ရရှိအောင် ကျင့်သုံးတော်မူကြသေး၏။

ကျမ်းကိုး၊ ယင်းစာ- ၃၄

အေဒီ ၁၉၂၃ ထိုည၌ အရှင်သောဘန တစ်ပါးတည်း ကျိန်းစက်ရသည်။ နံနက်မိုးလင်း၍ မကြာမီပင်ဘုန်းတော်ကြီး ဦးအုန်းခိုင်နှင့် ရဟန်းတော် (၁၀) ပါးတို့ သပိတ်ပိုက်ကာ ပြန်ကြွလာကြသည်။ ကျောင်းသို့ ရောက်လျှင် ဆွမ်းခံရာမှ ရလာသမျှသော ဆွမ်းနှင့် ဟင်းများကို ဇလုံကြီးများခွက်များ၌ အားလုံး ပေါင်းစုထားသည်။ ၉ နာရီခန့်မှာ ထိုပေါင်းစုထားသော ဆွမ်းများ ဟင်းများမှ မိမိတို့လိုသလောက် အသီးအသီး မိမိတို့ သပိတ်၌ ထည့်ယူပြီးလျှင် မိမိတို့နေရာ ကျောင်းသို့ သွား၍ ဆွမ်းဘုဉ်းပေးကြသည်။ ဘုန်းတော်ကြီး ဦးအုန်းခိုင်၏ ဘုန်းကံအားလျော်စွာ ပတ်ဝန်းကျင် ရပ်ရွာနေ လူအပေါင်းတို့မှာ ချက်ရေးပြုတ်ရေးဘက်တွင် သာမက ရဟန်းသံဃာများနှင့်ဆက်ဆံရာ စသည်တို့မှာလည်း ယဉ်ကျေးပြေပြစ် ရှိကြပုံရပေသည်။

ကျမ်းကိုး၊ ယင်းစာ- ၃၄

အေဒီ ၁၉၂၃ နေ့ခင်းအချိန်တွင်လည်း ဆွမ်းကိစ္စပြီးသည်နှင့် တစ်ပြိုင်နက်နေရာ၌ ဝိုင်းဖွဲ့မနေကြဘဲ ကိုယ့်ဆိုင်ရာ ဆိုင်ရာ ကျောင်းသို့ ကြွရောက်ကာ တိတ်ဆိတ်ငြိမ်သက်စွာ သီတင်းသုံးကြလေသည်။ ဘုန်းတော်ကြီးထံ သွားရောက်၍ ဖူးမြော်ကန်တော့ရင်း အလ္လာပ သလ္လာပ ပြောဆို လျှောက်ထားရာ၊ အမူအရာ အဆိုအမိန့် သိမ်မွေ့ပုံတို့ကို တွေ့ရသည်။ ထိုအခါ ဘုန်းတော်ကြီးမှာ သက်တော်(၆၀) မျှခန့်မှန်းရသည်။ ငယ်စဉ်က စာပေကျမ်းဂန်ကို သင်ကြားခြင်း မပြုခဲ့ရသော်လည်း (ပိဋကတ်အခြေခံရအောင် စာသင်တိုက်ကြီးများတွင် သင်ကြားခြင်း မရှိခဲ့သည်ကို ဆိုလိုပါသည်) မိမိတတ်သမျှ သိသမျှကို သဒ္ဓါတရားထက်သန်စွာနှင့် ထိထိရောက်ရောက် ကြိုးစားအားထုတ်တော်မူသည်မှာ အတုယူလောက်ပါပေသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၃၅

အသက်ခန္ဓာကို မငဲ့ကွက်၊ ပဋိပတ်သက်သက်ကို တစ်ဘဝတည်းနှင့် ကိစ္စပြီး လုံ့လ ကြီးစွာနှင့်အားထုတ်တော်မူသည်ကို ဒိဋ္ဌတွေ့မြင်ရသဖြင့် မကြည်ညိုသေးသူကို ကြည်ညိုစေရမည်၊

http://www.dhammadownload.com



ကြည်ညိုပြီးသူတို့ တိုး၍ ကြည်ညိုစေရမည်။ (အပ္ပသန္နာနံ ပသာဒါယ၊ ပသန္နာနံ ဘိယျော ဘာဝါယ) ဟူသော ဝိနည်း ပိဋကတ်လာ ဒေသနာတော်နှင့် ညီညွတ်လှပေသည်။ ကိုးကွယ် ဆည်းကပ်ကြသော ဒကာ ဒကာမတို့ကား ရဟန္တာ (အရိယာ) ကို ကိုးကွယ် ဆည်းကပ်ကြရသလို စိတ်ပါဝင်စား အားထားကြည်ညိုကြလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၃၅

အရှင်သောဘနအဖို့ နဂိုက ပဋိပတ်ဘက်သို့ စိတ်ညွတ်လျက်ရှိရာတွင် ဘုန်းတော်ကြီးကို တွေ့ရသောအခါ သဒ္ဓါတရားတိုးတက်ကာ ဓာတ်ကောင်းကူးစက်လျက် စိတ်အားထက်သန်ခြင်း တိုးတက်ခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၃၅

အရှင်သောဘနသည် ဘုန်းတော်ကြီး၏ ပဋိပတ်ကျင့်စဉ် ကျင့်နည်းကို သိလိုလှသဖြင့် "အရှင်ဘုရား နှလုံးသွင်းတော်မူတဲ့ လိုရင်းတရားကို တပည့်များ သိလိုလှပါသည်။ ခဲခဲယဉ်းယဉ်း ရောက်လာရတဲ့အခါ အမိန့်ရှိတော်မူပါဘုရား" ဟု လျှောက်၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၃၅

"အထူးမဟုတ်ပါဘူး ကိုယ်တော်၊ ခန္ဓာ၊ အာယတန၊ ဓာတ်လုံးများကို နှလုံးသွင်းပြီး ဒါတွေဟာ အနိစ္စ၊ ဒုက္ခ၊ အနတ္တတွေပဲလို့ ဆင်ခြင်နေပါတယ်။ ကြိုးကြိုးစားစား အားထုတ်ဖို့ပဲ လိုပါတယ်"

ကျမ်းကိုး၊ ယင်းကျမ်း စာ-၃၆

ဤမျှသာ အမိန့်ရှိတော်မူသည်။ တရားလမ်းစဉ်တစ်ခုကို လက်ဆုပ်လက်ကိုင် ရရှိအောင် "ဤသို့ အားထုတ်ရသည်" ဟူသော နည်းလမ်းကိုကား မသိရချေ။ဘုန်းတော်ကြီးမှာသီလ ပဋိပတ်ကို အထူးအလေးပြုတော်မူပြီးလျှင် သမာဓိဘက်က အခြေခိုင်ခဲ့တော်မူနေပြီဟု အကဲခတ်နိုင်သည်။ ကျောင်းကန် ပရိဘောဂကို အရေးမထား သက်သတ်လွတ် ဘုဉ်းပေးတော်မူသည်။ ကျောင်း၌အစဉ် မီးခိုးတိတ်၍ သပိတ်ကိုသာ အားပြုတော်မူသည်။ ညစဉ် ရဟန်းတစ်ပါးကိုအဖော်ပြုကာ သုသာန်ရှိရာသို့ကြွ၍ သုသာန်ဓုတင် ဆောက်တည်တော်မူသည်။ ရွာနှင့် ဝေးကွာသော တောရကျောင်းဖြစ်၍ အာရညကင်ဓုတင်လည်းရသည်။ ကျိန်းစက်သောအခါ လျောင်းခြင်းမရှိ၊ ထိုင်လျက်သာ ကျိန်းသဖြင့် နိသဇ္ဇိဓုတင်၊ ဆွမ်းအမြဲခံသောကြောင့် ပိဏ္ဍပါတ်ဓုတင်၊ ဆွမ်းစားရာတွင် တစ်နေရာတည်း တစ်ခွက်တည်း စားသောကြောင့် ဧကာသနိက်ဓုတင်နှင့် ပတ္တပိုဏ်ဓုတင်၊ သင်္ကန်းသုံးထည်ကိုသာ အမြဲဆောင်သောကြောင့် တိစီဝရိက်ဓုတင်၊ သုသာန်ဓုတင်ဆောင်သောအခါ သစ်ပင်အောက်၌သာ နေသောကြောင့် ရုက္ခမူဓုတင် ဤသို့လျှင် ၁။ သုသာန်ဓုတင် ၂။ အရညကင်ဓုတင် ၃။ နိသဇ္ဇိဓုတင် ၄။ ပိဏ္ဍပါတ်ဓုတင် ၅။ ဧကာသနိက်ဓုတင် ၆။ ပတ္တပိုဏ်ဓုတင် ၇။ တိစီဝရိက်ဓုတင် ၈။ ရုက္ခမူဓုတင် ဟူသော ဓုတင် (၈) ပါးကို အစဉ်မပြတ် ရရှိတော်မူသည်။ အလွန်အားထုတ်နိုင်ခဲ့သော ဓုတင်ပဋိပတ်များကို လက်မလွတ်တမ်း ကြိုးပမ်းတော်မူပုံကို တွေ့မြင်ရသောအခါ ဘုရားလက်ထက်တော်အခါက မဟာသာဝက မထေရ်ကြီးများလည်း ဤကဲ့သို့ပင် ခန္ဓာအသက်ကို မငဲ့ကွက်ဘဲ တရားကိုသာ အသက်ပြုကာ အားထုတ်တော်မူကြပေလိမ့်မည်ဟု အာရုံတန်း မှန်းမိပေသည်ဟု မှတ်တမ်းတွင် ပါရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၃၇

ဘုန်းတော်ကြီး ဦးအုန်းခိုင်မှာ အဖော်ရဟန်းတစ်ပါးနှင့်အတူ သုသာန်သို့ နေ့စဉ် ညနေ (၅) နာရီခန့်တွင် ကျောင်းမှ ထွက်သွားလေ့ရှိ၏။ ကျန်ရဟန်းတို့က တစ်ပေါင်းတည်း အခြားရွာ

http://www.dhammadownload.com



သုသာန်သို့ ကြွကြ၍ သုသာန်စုတင်ဆောင်လေ့ရှိကြသဖြင့် ဘုန်းတော်ကြီးနှင့် သုသာန် တခြား စီဖြစ်လေသည်။ သုသာန်တစ်ခုတစ်ခုတွင် (၃) ရက်သာနေ၍ (၃) ရက်ပြည့်လျှင် အခြား သုသာန်သို့ ပြောင်းရွှေ့ကြ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၃၇

အေဒီ ၁၉၂၃ တပို့တွဲလဆုတ် (၁၁) ရက်နေ့ ညနေ (၅) နာရီသည် ဆောင်းရာသီဖြစ်၍ တောင်စွယ် နေကွယ် တော့မည့်အချိန် ဖြစ်သည်။ ဘုန်းတော်ကြီးလည်း ကြွသွားလေပြီ၊ အာဂန္တု အရှင် သောဘနမှာ အခြားရဟန်းများနှင့်အတူ (ရသေ့များလည်းပါသည်) မိမိတို့နေရာ ကျောင်းသင်္ခမ်းမှ ထွက်ကြွ လာကြ၍ လွန်ခဲ့သော နှစ်ရက်က နှစ်ညနေပြီးသော သုသာန်သို့ ရောက်ကြလျှင် အသီးသီး နေရာယူရန် ပြင်ဆင်လျက်ရှိကြသည်။ ထိုအခိုက် လူရွယ် (လူလတ်) တစ်ယောက် သုသာန်သို့ ရောက်လာပြီးလျှင် -

"နက်ဖြန်ည တပည့်တော်တို့ရွာ သင်္ချိုင်းမှာ သုသာန်စုတင်ဆောင်ရန် အလှူည့်ကျပါသည်။ သို့ပေမယ့် ဒီကနေ့ညပဲ ကြွတော်မူပါဘုရား" ဟု ပင့်လျှောက်၏။ ရဟန်းတစ်ပါးက -

"ဘာကြောင့် ကြိုတင်ပင့်ရသလဲကွယ့်" ဟု မေးလေသည်။ "တပည့်တော်ရဲ့နှမတစ်ယောက် ဒီနေ့မှာပဲ ကြိုးဆွဲချသေပါတယ်ဘုရား၊ အစိမ်းသေဖြစ်တော့ ညအိပ်မထားရ၊ ချက်ချင်း သင်္ဂြိုဟ် လိုက်ရပါတယ်။ အစိမ်းသေဆိုတော့ ပယောဂအောက်လမ်းဆရာများလာပြီး အလောင်းကို ဆေးစီရင်ဖို့ တူးဖော်ယူတတ်ပါတယ်။ အနီးအနားမှာ လူသူမရှိရင် စိတ်မချရပါ။ သူတို့ထင် သလို လုပ်ကြပါလိမ့်မယ်။ ဒီလို အဖြစ်မခံနိုင်လို့ လာရောက်ပင့်ရပါတယ် ဘုရား" ဟု အကြောင်းပြလျှောက်ထားလေသည်။ ဟုတ်လည်းဟုတ်သည်။ ပယောဂ အောက်လမ်းဆရာ များသည် အစိမ်းသေရှိသည်ဟု ကြားလျှင် (သူတို့အဖို့ မင်္ဂလာသတင်းကောင်းဟု သဘောထား ကြသည့်အတိုင်း) အစိမ်းသေသင်္ဂြိုဟ်ရာ သုသာန်သို့ တိတ်တဆိတ်လာရောက်၍ သုသာန်တွင် မြှုပ်နှံထားပြီး ဖြစ်စေကာမူ ၎င်းတို့၏ အောက်လမ်းဂါထာမန္တန်ဖြင့် မန်းမှုတ်ကာ မြေပုံတွင်းက အလောင်းထွက်လာအောင် ပြုလုပ်တတ်ကြသည်။ အလောင်းကောင်မှ လက်ဖျံရိုး စသည်ကို ဖြုတ်ယူပြီး ဆေးစီရင်ကာ လိုရာတွင် အသုံးပြုတတ်ကြသည်။ ဤသို့ အသုံးပြုခြင်းခံရသော အလောင်းကောင် ကာယကံရှင်မှာ အစိမ်းဘဝမှ မကျွတ်လွတ်နိုင်ဘဲ ပယောဂဆရာ၏ အစေခံအဖြစ်သို့ ရောက်ရတော့သည်ဟု အယူရှိကြလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၃၇

အစိမ်းသေမြေပုံနှင့် ရင်ဆိုင်ရခြင်းအကြောင်းကို မဟာစည်ဆရာတော်ဘုရား၏ မှတ်တမ်းတွင် တွေ့ရှိရပါသည်။

"စစချင်း ဆောက်နဲ့ထွင်း" ဆိုသကဲ့သို့ သုသာန်သို့ တစ်ခါတစ်ခေါက်မျှ အကာလ ညအခါ မလိုက်ဖူး (မဆောက်တည်ဖူး) သော အရှင်သောဘနမှာ ရုတ်တရက်သော် ကျောစိမ့်၍သွား ပေမည်။ ယနေ့ညမှ ဤသို့သော အစိမ်းသေမြှုပ်ရာ သုသာန်မျိုးနှင့် တိုက်ဆိုင်မိခြင်းသည် လည်း အံ့တစ်ပါးပင် ဖြစ်တော့သည်။ အစိမ်းသေလည်းဖြစ်ပြန် လတ်လတ်ဆတ်ဆတ်လည်း ဖြစ်ပြန်၊ တစ္ဆေ ခြောက်ရိုးမှန်လျှင် ဤလိုအခါမျိုးသည် စံချိန်ကျိုးအောင် ခြောက်မည့်အခါပဲဟု စွဲလမ်းထားတတ်ကြလေရာ ညအခါ သုသာန်သို့ တစ်ခါတစ်ခေါက်မျှ မရောက်ဖူးသူ ဖြစ်ပါလျှင် မည်သို့ ဖြစ်လိမ့်မည်နည်း။ (ဖြစ်တတ်မည်နည်း)

ကျမ်းကိုး၊ ယင်းကျမ်း စာ-၃၇

ရဟန်းတော်များက "အေးအေး ကောင်းပြီ" ဟု အမိန့်ရှိကြပြီးနောက် ပင့်လာသူနှင့် အတူပင်

http://www.dhammadownload.com



ရှေ့မှ ရဟန်းတော်များက ကြွကြ၍ နောက်ပါအားလုံး အစိမ်းသေမြုပ်နှံရာ သုသာန်သို့ ဦးတည် ကြွသွားကြသည်။ ရဟန်းတော်များမှာ သုသာန်တစ်ခုမှ သုသာန်တစ်ခုသို့ ပြောင်းရွှေ့၍ သုသာန် ဓုတင်ဆောက်တည်တော်မူကြကြောင်းကို ပတ်ဝန်းကျင်က သိပြီးဖြစ်သည့်ပြင် နောက်ညမှာ ထိုသုသာန်သို့ အလှည့်ကျသည်ကိုလည်း သိပြီးဖြစ်နေသောကြောင့် ဤသို့ လာရောက်ပင့်ခြင်း ဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၃၇

သုသာန်ဓုတင်နှင့် စပ်လျဉ်း၍ ဘုန်းတော်ကြီး ဦးအုန်းခိုင်အကြောင်းကို မဟာစည် မဟာ ထေရုပ္ပတ္တိတွင် ဤသို့ ဖတ်ရှုရပါသည်။

သုသာန်ဓုတင်တည်ဆောက်တည်သော ပုဂ္ဂိုလ်သည် လမ်းမ (အများသွားနေကျလမ်း)က မသွားဘဲ ခရီးလမ်း မဟုတ်ရာက လျှို့ဝှက်စွာ သွားရမည်ဟု ဝိသုဒ္ဓိမဂ်တွင် ဆိုသည့်အတိုင်း တောလမ်း (လမ်းမတွင်ရာ) က ဖြတ်၍သွားကြရာ မကြာခင်ပင် အစိမ်းသေမြုပ်ရာ သုသာန်သို့ ရောက်ကြသည်။ ညဥ့်ဦးယံ ဖြစ်ခြင်း၊ တောချုံသစ်ပင်တို့ ဖုံးလွှမ်းနေခြင်း၊ လဆုတ်ပက္ခ (လ မထွက်သေးသော) အချိန်ဖြစ်ခြင်းတို့ကြောင့် အမှောင်ထုပတ်လည်ဝိုင်းလျက် ရှိချေပြီ။ ပတ်ဝန်း ကျင်တွင် တိတ်ဆိတ်ငြိမ်သက်လျက် သစ်ရွက် လေခတ်သံမျှလောက်သာ ကြားရသည်။ မှုန်မှုန် မွှားမွှား မြင်ရသော အာရုံများမှာ သူကောင်မြုပ်ရာ မြေပုံအဟောင်းအသစ်တို့သာ ဖြစ်ချေသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၄၀

သုသာန်သို့ရောက်သောအခါ တစ်နေရာ (နေရာတစ်ခုတည်း) တွင် စု၍မနေရ၊ ကိုယ့်နေရာနှင့် ကိုယ်ခွဲ၍ နေရမြဲ ဖြစ်သည့်အတိုင်း အသီးသီးနေရာကို ခွဲဝေလိုက်သောအခါ အရှင်သောဘန မှာ ပုဂ္ဂိုလ်သစ်ဖြစ်သည့် အားလျော်စွာ အစိမ်းသေမြေပုံသစ်ခေါင်းရင်းတွင် မဲကျလေတော့ သည်။တရားကို အထူးနှလုံးသွင်းအောင် တိုက်ဆိုင်မိခြင်း ဖြစ်ပေလိမ့်မည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၄၀

သုသာန်တွင် အသီးသီး ထိုင်ကြသောအခါ ကောက်ရိုးအခင်းသာ ရှိကြ၏။ ကောက်ရိုးကို လူအများက အသင့်ခင်းပေးထားကြသည်။ တစ်နေရာနှင့် တစ်နေရာ ပေအစိတ် သုံးဆယ်မျှ ဝေးကွာ၍ သစ်ပင်ချုံဖုတ်ကလေးများကလည်း ကွယ်လျက်ရှိသဖြင့် တစ်နေရာမှ တစ်နေရာသို့ မမြင်နိုင်ပေ။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၄၀

ကိုယ့်နေရာနှင့်ကိုယ် ထိုင်မိကြလျှင် ဘုရားဂုဏ်တော်ကိုလည်းကောင်း၊ ကမ္မဋ္ဌာန်းဆိုင်ရာ စာကို လည်းကောင်း၊ မေတ္တာပို့ကိုလည်းကောင်း တိုးတိုးကလေး ရွတ်ဆိုပွားများကြသည်ကို တိတ်ဆိတ် သော ညအခါဖြစ်၍ ကြားရသည်။ ညဥ့်နက်သန်းခေါင်လောက် ရောက်သောအခါ ထိုရွတ်ဆို ပွားများသံများ တိတ်ဆိတ်၍ လေတိုက်သံမျှလောက်သာ ကြားရတော့သည်။ တစ်ခါတစ်ခါ ခပ်လှမ်းလှမ်းတောစပ်ဆီမှ ညကျက်စားလေ့ရှိသော ငှက်များ၏ မြည်သံ၊ အတောင်ခတ်သံများ ကိုလည်း ကြားရသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၄၀

ဘုန်းတော်ကြီး ဦးအုန်းခိုင်နှင့် ညအခါ သုသာန်ဓုတင်ကျင့်ကြံရပုံကို မဟာစည်ဆရာတော်၏ ဘဝမှတ်တမ်းတွင် ဤသို့ ဖတ်ရှုရပါသည်။

အရှင်သောဘနမှာ မြေပုံသစ်၏ ခေါင်းရင်း မနီးမဝေး သုံးတောင်ခန့်တွင် သစ်ပင်၊ ထိုသစ်ပင် ရင်း၌ ကောက်ရိုးခင်းထားသော နေရာတွင်ထိုင်လျက် မြေပုံသစ်ကိုသာ စူးစိုက် အာရုံပြုလျက်

http://www.dhammadownload.com



နေသည်။ အစိမ်းသေမှာ သေပြီး အလောင်းကောင်ဖြစ်ခြင်း၊ သေဆုံးသူမှာ မိန်းကလေး ဖြစ်၍ မသေမီက ရဟန်းသံဃာများအပေါ်၌ ကြည်ညိုစိတ်နှင့် နူးညံ့သော စိတ်များရှိခြင်းတို့ကြောင့် ဘာမျှကြောက်ရွံ့ဖွယ် မရှိချေ။ သို့ရာတွင် သူသေကောင်အမှီပြုပြီး "အညီရှိ ယင်အုံ" ဆိုသကဲ့သို့ ဘီလူး၊ သဘက်တွေ လာရောက် ခြောက်လှန့်တတ်သည်ဟူသော ကျမ်းဂန်စာပေစကားအရ ဤအချက်ကိုသာ စဉ်းစား ကြံတွေးလျက် ကျောအေးသလို ဖြစ်မိလေသည်။ အသက်အရွယ်အားဖြင့် (၂၇) နှစ် ပျိုမျစ်တုန်းအရွယ်တွင် ဤသို့သော သုသာန်လယ် ဤသို့သော အစိမ်းသေ ခေါင်းရင်း၌ အကာလညအခါ မှောင်ကြီးမည်းမည်းမှာ အရဲစွန့်ကာ ဖွဲကောင်းကောင်းနှင့် နေနိုင် ခြင်းကား တရားထူးရခြင်း မရခြင်းကို အပထား၊ အံ့အားသင့်ဖွယ် ချီးကျူးဖွယ်တစ်ရပ်ဟု သတ်မှတ်သင့်ပေသည်။ ဓုတင် (၁၃) ပါးတွင် သုသာန်ဓုတင်သည် အခဲယဉ်းဆုံးဖြစ်သည်။ လူတိုင်း ကြောက်ရာ (စက်ဆုပ်ရာ) ဌာနတွင် ကြောက်ရွံ့ခြင်းကို တိုး၍ ဖြစ်စေသော ညအချိန်တွင်မှ သွားရောက် ကျင့်သုံးရသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၄၁

ဘုန်းတော်ကြီး ဦးအုန်းခိုင်နှင့်တကွ ကျောင်းနေရဟန်း (အာဂန္တုပါမကျန်) တို့မှာ သက်သတ်လွတ် ဆွမ်းကိုသာ ဘုဉ်းပေးကြသဖြင့် အစားအသောက်အတွက်ကြောင့် ဘီလူး သဘက်တို့ အန္တရာယ်ပြုနိုင်ဖွယ် မရှိပေ။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၄၃

ဤသို့သော အန္တရာယ်များ၍ ကြောက်ဖွယ်လိလိဖြစ်သော သချိုင်းအလယ်တွင် ရောက်ခါစ ဖြစ်သော အရှင်သောဘနသည် ညဉ့်နက်သန်းခေါင်တိုင်အောင် သတိကြီးစွာဖြင့် အစိမ်းသေ မြေပုံကိုသာ စူးစူးစိုက်စိုက် ကြည့်ရှုနေစဉ် အပြင်အပ အခြောက်အလှန့်ဟူ၍ ဘာမျှမတွေ့ရ၊ တိတ်ဆိတ်ငြိမ်သက်သော ညသဘာဝအတိုင်း ချီးချီးချွတ်ချွတ် အသံများကိုသာ ကြားရသည်။ အပြင်က မခြောက်၊ ကိုယ့်ကိုယ်ကိုယ် ကိုယ်ပြန်ခြောက်နေခြင်းသာ ရှိလေသည်။ သန်းခေါင်ကျော် အချိန်လောက်ကျမှ ကြောက်စိတ်ပြေသဖြင့် သစ်ပင်ကိုမှီကာထိုင်ရင်းပင် ကျိန်းစက်ခြင်းသို့ ရောက်သွားလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၄၄

ဘုန်းတော်ကြီး ဦးအုန်းခိုင်မှာ သက်ရွယ်ကြီးရင့်၍ သတ္တိရှိပြီး ဖြစ်သော်လည်း အဖော် ရဟန်း တစ်ပါးကို သုသာန်သို့ ခေါ်သွားလေ့ရှိသည်။ အန္တရာယ်များသော ဌာနဖြစ်၍ တစ်စုံတစ်ရာ အကြောင်းပေါ်လာက အဖော်မပါလျှင် ခက်ဘိတောင်း။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၄၉

ဘုန်းတော်ကြီး ဦးအုန်းခိုင်နှင့် ဘုန်းတော်ကြီး ဦးသီလတို့ ဆက်နွယ်ပုံကို ဤသို့ လေ့လာတွေ့ရှိရပါသည်။

ဘုန်းတော်ကြီး ဦးအုန်းခိုင်ကား လွန်ခဲ့သော နှစ်ပေါင်းငါးဆယ်ကျော်လောက်က မြန်မာနိုင်ငံတွင် ပဋိပတ်ဘက်က ထင်ရှားကျော်စောတော်မူသော ဘုန်းတော်ကြီး ဦးသီလ၏ တရားတော်ကို ကြားနာရသူ (ကြည်ညိုလေးစားသူ) တပည့်ဖြစ်သည်ဟု သိမှတ်ခဲ့ရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၄၉

စာရေးသူကိုယ်တိုင် ရောက်သွားဖူးသဖြင့် ဘုန်းတော်ကြီး ဦးသီလ သီတင်းသုံး သွားဖူးသော ဂူကြီးကို တွေ့မြင်ခဲ့ရပါသည်။ ယခုအခါ ပြိုပျက်နေချေပြီ။ ဤသို့ လှည့်လည် ကြွသွားတော်မူသဖြင့် ကျောင်းကန်နေရာ ဒကာ ဒကာမ ရဟန်းတပည့် လူတပည့်တို့လည်း အမြောက်အမြား

http://www.dhammadownload.com



ပင် ရှိခဲ့သည်။ ဤသို့သော တပည့်အမြောက်အမြားတို့တွင် ဘုန်းတော်ကြီး ဦးအုန်းခိုင်လည်း တစ်ပါးအပါအဝင် ဖြစ်သည်ဟု ပြောစမှတ် ပြုကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၅၂

ဘုန်းတော်ကြီး ဦးသီလ၏ ကျင့်စဉ်အတိုင်း ဘုန်းတော်ကြီး ဦးအုန်းခိုင်သည် ဆွမ်းခံခြင်း၊ သက်သတ်လွတ်စားခြင်း၊ တောရဆောက်တည်ခြင်း၊ သုသာန်ဓုတင် စသည်တို့ကို ဆောက်တည်ခြင်း၊ မဆုတ်မနစ် စွန့်စားခြင်း၊ ဖြောင့်စင်းခြင်းတို့နှင့် ပြည့်စုံတော်မူသည်။ ပဋိပတ် အလုပ်ကို လုပ်ရာ၌ မိမိသိသမျှကို စွန့်စွန့်စားစား နောက်မဆုတ်တမ်း ဖွဲကောင်းကောင်းနှင့် အားထုတ်ဖို့ အရေးကြီးကြောင်းကို ဘုန်းတော်ကြီးသည် နှုတ်ဖြင့်မပြော အလုပ်ဖြင့်သာ ပြောတော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၅၂

မဟာစည်ဆရာတော်၏ သုသာန်ဓုတင် အတွေ့အကြုံများကို မဟာစည် ထေရုပ္ပတ္တိတွင် အောက်ပါအတိုင်း တွေ့ရှိရ ပါသည်၊

ဒုတိယ၊ တတိယ၊ စတုတ္ထညများ၌လည်း အစိမ်းသေမြှုပ်ရာ သုသာန်သို့ပင် ကြွရောက် ဆောက်တည်ကြရသည်။ ဘုန်းတော်ကြီးကိုယ်တိုင် စွန့်စွန့်စားစား မားမားမတ်မတ် ရပ်တည်တော်မူကာ သွန်သင်လမ်းပြသည့်အလား ကြိုးစားတော်မူသဖြင့် အရှင်သောဘနမှာ ပဋိပတ်သို့ ညွတ်ကိုင်းသော စိတ်ရှိရာတွင် ဤသို့သောနေရာ ဤသို့သော ပုဂ္ဂိုလ်မြတ်ကြီးမှ ဓာတ်ကောင်းကူးစက်သဖြင့် အားတက်သော စိတ်များသာ တိုးပွားခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၅၂

အေဒီ ၁၉၂၃ ခရစ်နှစ် (၁၉၂၃) ခု၊ တပို့တွဲလဆုတ် (၁၃) ရက်နေ့ ည သုသာန်ဓုတင် ဆောက်တည်၍ ထိုညတစ်ညလုံး သုသာန်၌နေပြီးလျှင် ဆိုမှ သထုံမြို့သို့ ခရီးဆက်ရန်ရှိသဖြင့် ယနေ့ နံနက်ပင် သထုံဘက်သို့ သွားရပါမည့်အကြောင်းနှင့် ဘုန်းတော်ကြီးအား ကြိုတင်လျှောက်ထားပြီး ဖြစ်လေသည်။ ဤသို့ လျှောက်ထားပြီး ဖြစ်သည့်အတိုင်း ထိုနေ့နံနက်စောစော သုသာန်မှ ထွက်ခွာလာကာ ဘုန်းတော် ကြီးနှင့်အတူပင် ဆွမ်းခံရွာတွင် ဆွမ်းခံခဲ့၍ တောကျောင်းသို့ ပြန်မလိုက်တော့ဘဲ တစ်ဆက်တည်း ကျိုက်ကော်သို့ မှန်း၍ ခြေကျင်ကြွလာသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၅၄

အရှင်သောဘနသည် မော်လမြိုင်မြို့မှ ထွက်ခွာလာ၍ ဇင်းကျိုက်တောင်၊ ကေလာသတောင်၊ မြသပိတ်တောင်၊ ဝေပုလ္လတောင်ဟူသော တောစခန်းတောင်စခန်းများကို လှည့်လည် ကြည့်ရှုရင်း စေတီတော်များကို ဖူးမြော်ရာ၌ ကျိုက်ထီးရိုးတောင်မှ ဆင်းကာ ခြေလျင်ခရီးဖြင့် ရောက်ရာတွင် စခန်းချ၍ ကော့ကဒွတ်ကျောင်းကြီးအထိလာခဲ့ခြင်း၊ ထိုမှတစ်ဖန် ရွှေရောင်ပြတောရ ဘုန်းတော်ကြီး ဦးအုန်းခိုင် ကျောင်းသို့ ရထားတစ်တန် ခြေလျင်တစ်တန်ဖြင့် လာခဲ့ခြင်း၊ ဘုန်းတော်ကြီး၏ တပည့်ရဟန်းတော်များနှင့်အတူ (၄) ညတိုင်တိုင် သုသာန်ဓုတင်ကျင့်ခဲ့ကြောင်း လေ့လာတွေ့ရှိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ-၅၄

အေဒီ ၁၉၃၁ သုခိတာကျောင်းတွင် တစ်ညဉ့် ကျိန်းစက်၍ နံနက်အချိန် ဆွမ်းကိစ္စပြီးလျှင် ကျိုက်ကော်မှ သထုံသို့ ထွက်ကြွလာခဲ့သည်။ နားနားနေနေ တစ်နေ့လုံး လျှောက်လာခဲ့ရာ သက္ကရာဇ် (၁၂၉၃) ခု၊ တပေါင်းလဆန်း (၁) ရက်နေ့ ညနေတွင် သထုံမြို့ ယခင်တည်းခိုခဲ့ရာ ကျောင်းသို့ ဆိုက်ရောက်တော်မူသည်။

http://www.dhammadownload.com



အေဒီ ၁၉၃၈ မြန်မာသက္ကရာဇ် (၁၃၀၀) ပြည့်နှစ်၊ ဝါခေါင်လဆန်း (၇)ရက် အင်္ဂါနေ့ နံနက်(၉)နာရီ အချိန်တွင် ပျံလွန်တော်မူသွားလေတော့သည်။

ကျမ်းကိုး၊ ယင်းစာ-၄၅

ကျမ်းကိုး၊ အဂ္ဂမဟာပဏ္ဍိတ မဟာစည်ထေရ်မြတ် အတ္ထုပ္ပတ် ဝတ္ထုကျော်ထင် ဦးဘသန်း (ရှင် ဗုဒ္ဓဃောသ)ရေးသားစီစဉ်တော်မူသည်။ စာမူခွင့်ပြုချက်အမှတ် (၃၂၀၇၈၂၀၀၇) (၁-၁၁-၀၇) မျက်နှာဖုံးခွင့်ပြုချက်အမှတ် (၃၂၀၀၅၉၀၁၀၈) ဒုတိယအကြိမ်၊ ကျမ်းကိုး၊ ယင်းကျမ်းစာ-၅၆)

ကျမ်းကိုး၊ ထိုဘုန်းတော်ကြီး ဦးအုန်းခိုင်နှင့်စပ်လျဉ်း၍ အဆက်အစပ်များ ရှာဖွေရာ အလံ တစ်ရာ ဆရာတော်ဘုရားကြီး၏ သာသနာပြုမှတ်တမ်းတွင် တွေ့ရှိရပါသည်။ ဦးခွန်ညာဏ်ဦး ဓမ္မိက ရေးသားပူဇော်သည့် စာ၊ (၁၉၉၁) ဇန်နဝါရီလ၊ ဒုတိယအကြိမ်၊ စစ်ပြန်ပုံနှိပ်တိုက် ၁၆၆၊ ပန်းဆိုးတန်း၊ ရန်ကုန်မြို့က ပုံနှိပ်သည့် စာအုပ်ဖြစ်ပါသည်။ ထိုသာသနာပြုမှတ်တမ်း တွင် အဘိဓဇအဂ္ဂမဟာသဒ္ဓမ္မဇောတိက အလံတစ်ရာဆရာတော်ကြီး၏ ငယ်ဆရာအဖြစ် မှတ်တမ်းတင်ထားကြောင်း အံ့သြကြည်ညိုဖွယ် ရှာဖွေတွေ့ရှိရပါသည်။)

ကျမ်းကိုး၊ ယင်းရွှေရောင်ပြ ဆရာတော်ဘုရားကြီးအကြောင်းကို ဆရာကြီး လယ်တီ ဦးလှတင် (လယ်တီပဏ္ဍိတ) က ရွှေရောင်ပြဆံတော်ရှင်သမိုင်း၊ ပဋိပတ်ဝိပဿနာ ဉာဏ်စဉ် ကျမ်းတို့နှင့် စုပေါင်း၍ စာတစ်အုပ် ပြုစုထားပါသည်။

ကျမ်းကိုး၊ ကျော်ဇေဟိန်း (ရွှေနံ့သာ)၊ ရွှေရောင်ပြဆရာတော်၊ ဝိဇ္ဇာမဂ္ဂဇင်း၊ ယင်းစာ-၄၅။

ကျမ်းကိုး၊ မောင်ပန်းမွေး၊ ကျွန်ုပ်နှင့် ကေလာသ မြသပိတ်တောင် ရွှေရောင်ပြတောင် ဘုန်းတော်ကြီး ဦးအုန်းခိုင်အကြောင်း (ပထမပိုင်း) အချစ်ဂျာနယ်၊ (ဒုတိယပိုင်း) (တတိယ ပိုင်း အချစ်ဂျာနယ်) ၁၄-၇-၂၀၀၇ ခုနှစ်၊

http://www.dhammadownload.com



## ငှက်ကလေးများစကားကို နားလည်တော်မူသော ရဟန်းထူး

## မုံရွာမြို့

# ဒုတိယ ဇောင်ကြမ်းပင်ဆရာတော်

## (၁၈၅၄ - ၁၉၃၂)

ငှက်ကလေးများနှင့် စကားပြောသော ဆရာတော်တစ်ပါး ပေါ်ထွက်ခဲ့ဖူးသည်ဟု သတင်းရ၍ လိုက်လံစုံစမ်းသောအခါ ဇောင်ကြမ်းပင်ဆရာတော် ဟူ၍အမည်တော်ကို သိရပါသည်။ ငှက်တို့၏ စကားကို နားလည်သည်သာမက ကိစ္စရှိလျှင် ငှက်ကလေးများက ဆရာတော်ကို လာ၍ တိုင်ကြားတတ်ကြောင်း ထူးထူးဆန်းဆန်း သိရသဖြင့် ဇောင်ကြမ်းပင် ဆရာတော်ကို စိတ်ဝင်စားမိခြင်း ဖြစ်ပါသည်။ ထိုအချက်ကို ဤသို့ တွေ့ရပါသည်။

ဆရာတော်သည် မဂဓဘာသာကိုတတ်ကျွမ်းကြောင်း၊ ငှက်မြည်သံကြားရလျှင် ဘယ်အကောင်က ဘယ်အရပ်ဘက်ကို ခွဲပုံမည်ဖြစ်ကြောင်း ပြောပြတတ်ရာ မှန်ကန်ကြောင်း တွေ့ရှိရသည်။ "ဟဲ့ သစ်ပင်ပေါ်က ငှက်သိုက်ထဲ မြွေ နှောင့်ယှက်နေပြီ။ တက်ပြီး ခြောက်ထုတ်လိုက်ဟ" ဟု ဆရာတော်က အမိန့်ရှိရာ ဦးထွန်းခသည် မြွေကို တွေ့ရှိပြီး ခြောက်ထုတ်ခဲ့ရသည်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၃၄

ထိုစဉ်က မုံရွာမြို့သည် ရွာအဆင့်မျှသာ ရှိသေးသည်။ တစ်နည်းဆိုရသော် ဘဝရှင်မင်းတုန်းမင်းတရားကြီး အမရပူရမှ ရတနာပုံ မန္တလေး နေပြည်တော်သစ်သို့ ပြောင်းရွှေ့စိုးစံကာလဖြစ်ပါသည်။ မုံရွာဈေးတစ်ပင်ရပ် ကမ်းနားလမ်းနေ ကုန်သည်ကြီး ဦးဖောင်၊ ဒေါ်ရွှေကျော့တို့သည် ကျယ်ပြန့်သော မြေဝင်းကြီးတစ်ဝင်းကို ဝယ်ယူပြီး ကျောင်းဆောင်ဇရပ်တို့ကို ဆောက်လုပ်ပါသည်။ ယင်းနောက် ပရိယတ် ပဋိပတ်တို့ဖြင့် ပြည့်စုံတော်မူသော ရဟန်းတစ်ပါးအား ကျောင်းတင်၍ လှူဒါန်းပါတော့သည်။ ယင်းကျောင်းမှာ ဇောင်ကြမ်းပင်ကျောင်းတိုက်ဟု လည်းကောင်း၊ ယင်းရဟန်းမှာ ပထမဇောင်ကြမ်းပင် ဆရာတော်ဟုလည်းကောင်း ခေါ်တွင်ပါတော့သည်။

ပထမဇောင်ကြမ်းပင် ဆရာတော် ဦးဝိသုဒ္ဓမှာ အောင်သာရွာသားဖြစ်၍ မန္တလေးမြို့ သာသနာပိုင် ဆရာတော်ကြီးများဖြစ်သော ဆရာတော် ဦးဧယျ၊ ပခန်းဆရာတော်နှင့် ခင်မွန်ဆရာတော် ဦးဂုဏဝါတို့၏ထံမှောက်တွင် အန္တေဝါသိက တပည့်ရင်းအဖြစ် စာပေကျမ်းဂန်များ သင်ကြားတတ်မြောက်ခဲ့ပါသည်။

အေဒီ ၁၈၆၂ ဇောင်ကြမ်းပင် ကျောင်းတိုက်ကြီးကို ရေစက်သွန်းလောင်း လှူဒါန်းခဲ့သောနေ့ကား သက္ကရာဇ် (၁၂၂၄) ခုနှစ်၊ သီတင်းကျွတ်လဆန်း (၁၃) ရက်နေ့ ဖြစ်ပါသည်။ ယခုဆိုလျှင် နှစ်ပေါင်းတစ်ရာ့ သုံးဆယ်ကျော်ရှိပေပြီ။

http://www.dhammadownload.com



သည်လိုဆိုတော့ ဇောင်ကြမ်းပင်ကျောင်းတိုက်သည် လယ်တီကျောင်းတိုက်ထက် နှစ်ပေါင်း (၂၄) နှစ်မျှ စောပါပေသည်။

အေဒီ ၁၈၅၄ ဒုတိယ ဇောင်ကြမ်းပင် ဆရာတော်လောင်းလျာသည် သက္ကရာဇ် (၁၂၁၆) ခု၊ နတ်တော်လဆုတ် (၃) ရက်၊ ကြာသပတေးနေ့တွင် ဖွားမြင်တော်မူသည်။

အေဒီ ၁၈၅၆ မြန်မာသက္ကရာဇ် (၁၂၁၈) ခု၊ နတ်တော်လဆန်း (၁၃) ရက်နေ့တွင် ဖွားမြင်တော်မူသော လယ်တီဆရာတော် ဘုရားကြီးအောက် ရှစ်နှစ်မျှငယ်သည်။

အေဒီ ၁၈၇၃ (၁၉) နှစ်အရွယ်တွင် ဇောင်ကြမ်းပင်ကျောင်းတိုက်သို့ ရောက်ရှိ ခိုလှုံပြီး ပထမဇောင်ကြမ်းပင် ဆရာတော်ထံမှ ပိဋကပါဠိ၊ အဋ္ဌကထာ၊ ဋီကာ စသည်တို့ကို သင်ကြား တတ်မြောက်တော်မူသည်။

အေဒီ ၁၈၇၃ မြန်မာသက္ကရာဇ် (၁၂၃၅) ခု ဇောင်ကြမ်းပင်ကျောင်းတိုက်အတွင်း သမုတ်ပြီးစီးသည့် သိမ်တွင် အဦးဆုံး ရဟန်းခံတော်မူသည်။

ဘွဲ့တော်မှာ ပြုစုခဲ့သော ကျမ်းအချို့တွင် ပရမဘိဇဟု လည်းကောင်း၊ အချို့ကျမ်းအချို့တွင် အသျှင် ဖြဟ္မသိရိဟု လည်းကောင်း ပါရှိပါသည်။

ဆရာတော်သည် ရဟန်းနှစ်ဝါမြောက်မှ အစပြု၍ စာပေကျမ်းဂန်များကို အားထုတ်ရေးသား ပို့ချခဲ့ပါသည်။

အေဒီ ၁၉၃၂ ဒုတိယ ဇောင်ကြမ်းပင်ဆရာတော်သည် သက္ကရာဇ် (၁၂၉၄) ခု၊ သက်တော် (၇၈) နှစ်တွင် ပျံလွန်တော်မူသည်။

ဒုတိယ ဇောင်ကြမ်းပင်ဆရာတော်သည် ရဟန်းဘဝမှပင် အစပြု၍ ကျမ်းအတော်များများ ပြုစုသွားပါသည်။

ပုံနှိပ်ထုတ်ဝေ ပြီးစီးခဲ့သော ကျမ်းများမှာ -

(၁) ကစ္စာယန ဝုတ္တိသစ်ပါဌ်
(၂) ၎င်းအဖွင့်နိရုတ္တိကောလ္လဋီကာပါဌ်၊
(၃) ၎င်းဝုတ္တိသစ်နိဿယ၊
(၄) မဟာနိဗ္ဗာနဗျာကရီကျမ်း၊
(၅) စိတြိဗျာကရီကျမ်း၊
(၆) ခန္ဓာဒိဘေဒဗျာကရီကျမ်း၊
(၇) ဘဝစက္ကသမ္မောဓနီကျမ်း၊
(၈) သောတာပတ္တိယင်္ဂသုတ်တော်အဖွင့်၊
(၉) မေတ္တာသုတ်ပရိတ်တော်အဖွင့်၊
(၁၀) ကစ္စာယနသာရနိဿယသစ်
(၁၁) ဝဏ္ဏယုတ္တိကထာနိဿယသစ်၊
(၁၂) သာဒတ္တကီပါဌ်၊
(၁၃) ဝိထိလက်ရိုးသစ်၊
(၁၄) သဒ္ဒါပုဒ်စစ်လက်ရိုးသစ်၊
(၁၅) ၂-ဘိဓာန်ဂါထာ (၅၀၀)၊
(၁၆) သာဓုကာရီကျမ်း၊

http://www.dhammadownload.com



(၁၇) ဇီဝိသတ္တကီ၊
(၁၈) လေခကျော်ထင် သတ်ပုံလင်္ကာနှင့် အခြားစာစောင်ငယ်များ ဖြစ်ပါသည်။ နိရုတ္တိကောလ္လပါဠိကျမ်းမှာ တစ်စိတ်တစ်ပိုင်းမျှသာ ပုံနှိပ်ခဲ့ရဟန်တူပါသည်။ ယင်းကျမ်းမူရင်း ပေထုပ်များ ယခုတိုင်ရှိပါသည်။

ကျမ်းကိုး၊ ရတနာမွန်မဂ္ဂဇင်း၊ စ- ၃၄

"ဒီကျမ်းမျိုးကို ဘယ်လိုပုဂ္ဂိုလ်မှ ရေးသားပြုစုနိုင်မယ်မဟုတ်ဘူး။ ဘာဖြစ်လို့လဲဆိုတော့ ငါလိုဘယ်သူမှ အပင်ပန်းခံ အချိန်ပေးရေးအားကြမယ် မဟုတ်လို့ပဲကွယ်၊ ကောင်းကောင်းစောင့်ရှောက်ထားကြ" ဟု မှာကြားခဲ့ပါသည်။
ဒုတိယကမ္ဘာစစ်အတွင်း စစ်ဘေးမှ လွတ်ကင်းရာ တစ်ရွာမှ တစ်ရွာ ပြောင်းရွှေ့ ထိန်းသိမ်းထားခဲ့ရပါသည်။ တစ်နေ့ တစ်ချိန်တွင် တတ်ကျွမ်းသော ရဟန်းရှင်လူတို့က သုတ်သင်တည်းဖြတ်ပြီး ယင်းကျမ်းကြီးကို ပုံနှိပ်ထုတ်ဝေဖြစ်ခဲ့သော် ကောင်းလေစွ။

ကျမ်းကိုး၊ ယင်းစာ-၃၄

ကစ္စာယနဝုတ္တိသစ်ပါဌ်ခေါ် ကစ္စည်းသဒ္ဒါကျမ်းကို သီဟိုဠ်ဗုဒ္ဓဘာသာအဖွဲ့က အထူးနှစ်ခြိုက်၍ ဆရာတော်ထံ သံကြိုးရိုက် ချီးကျူးခဲ့သည်။
ဆရာတော်၏ ကျမ်းစာများမှာ စာသင်သားများအတွက် အထူးရည်ရွယ် ပြုစုခဲ့ခြင်းဖြစ်သဖြင့် မန္တလေးမြို့ မစိုးရိမ်နှင့် အခြား စာသင်တိုက်ကြီးများက ယင်းကျမ်းများ မှာယူဆည်းပူးခဲ့ကြသည်။

ကျမ်းကိုး၊ ယင်းစာ-၃၄

ကုန်းဘောင်ခေတ်နှောင်းပိုင်းတွင် အလွန်ကျော်စောသော မောင်းထောင် ဦးကျော်လှ အမည်ရှိသော သံချိုဆရာကြီးတစ်ဦးရှိ၏။ ထိုဆရာကြီး၏ ဉာဏ်ကြီးပုံကို စာပေသမိုင်းတွင် အများသိပြီးဖြစ်ပါသည်။ ဆရာတော်၏ ကစ္စည်းသဒ္ဒါကျမ်းနှင့် ပတ်သက်၍ သံချိုဆရာကြီး မောင်းထောင်ဦးကျော်လှက သံချို ရေးစပ်ချီးကျူးခဲ့ပါသည်။
ဇောင်ကြမ်းပင် သညာကျော်တဲ့၊ ဆရာတော် အာစရိယ၊ ပါဠိ ညီစွာနဲ့၊ ဋီကာပါ အဋ္ဌကထာရှလို့၊ ဗဟုမကျယ်မပွားရအောင်၊ သုတ်ခက်ရာ နှုတ်ပယ်ရှားလို့၊ ရုပ်များစွာ ကြားခါနဲ့ပြီးလောက်အောင် သဒ္ဒါကြီးရှစ်မည်၊ ဆန်းသစ်တီ၍ ဖွင့်လျှဒါန်း ဟူ၍ ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းစာ-၃၄

ဆရာတော်သည် ပါဠိအထူး ကျွမ်းကျင်နိုင်နင်းသည်ဟု ဆိုပါသည်။ ဆရာတော်၏ ကျမ်းအများကို ပါဠိဘာသာဖြင့်သာ ရေးသားပြုစုသည်။ ထို့ကြောင့် လယ်တီဆရာတော်၏ ကျမ်းများလောက် တစ်ပြည်လုံး ထိုးဖောက်၍ မထင်ရှားနိုင်ခဲ့ခြင်း ဖြစ်ဟန်တူပါသည်။

ကျမ်းကိုး၊ ယင်းစာ-၃၄

မုံရွာမြို့ ဆုတောင်းပြည့် ဘုရားကြီး၏ ဂေါပကအဖွဲ့ နာယကကြီး ဦးထွန်းခ (ကွယ်လွန်)၏ ပြောပြချက်အရ ဆရာတော်သည် ဗဟုသုတ အလွန်ကြွယ်ဝကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၃၄

ဆရာတော်သည် အင်္ဂလိပ်စာကိုလည်း မိမိဘာသာလေ့လာ၍ အတော်အတန် တတ်မြောက်သည်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၃၄

http://www.dhammadownload.com



ဆရာတော်သည် ဝိနည်းသိက္ခာကို အလွန်လိုက်နာထိန်းသိမ်းသည်။ ကျော်ကြားမှုကို အလိုမရှိ နယ်လှည့် တရားဟောခြင်းမပြု။
ဇောင်ကြမ်းပင်ဆရာတော်၏ တပည့်များတွင် အလွန်ကျော်စောသော ဆရာဦးဂုဏ်ဘန် ကဲ့သို့သော ပုဂ္ဂိုလ်များပင် ပါဝင်လေသည်။
စာဝါပို့ချခြင်း၊ ကျမ်းပြုခြင်း ဦးသိုင်း (ဦးဂုဏ်ဘန်၏ ဖခင်) ကဲ့သို့သော လူရဟန်းပညာရှိများ လာရောက်လျှောက်ထားမေးမြန်းသည့် ပြဿနာများကို ရှင်းလင်းဖြေကြားခြင်းဖြင့်သာ အချိန်ကို ကုန်လွန်စေပါသည်။ ယပ်လှဲ့သံဖြင့် တရားဟောခြင်းကို မနှစ်သက်ချေ။

ကျမ်းကိုး၊ ယင်းစာ-၃၄

ကွယ်လွန်သူ မြန်မာပညာရှိ ဦးဂုဏ်ဘန်မှာလည်း ဆရာတော်၏ ကျောင်းသားတပည့်အဖြစ် ဆရာတော်၏ ပညာရင်နို့ကို သောက်စို့ခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းစာ-၃၅

လယ်တီဆရာတော်နှင့် ပတ်သက်သော ဆရာတော်၏ စိတ်နေစိတ်ထားကိုလည်း အမှတ် မထင်တွေ့ရှိရပါသည်။
ဆရာတော်သည် အလွန်ရောင့်ရဲအလိုနည်းသည်။ ကျောင်းတိုက်အလယ်တွင် ပျက်စီးနေ သော ကျောင်းတိုက်ကြီးပြုပြင်ရန် ဒကာတစ်ဦးက ခွင့်တောင်းရာ "ငါ့ကျောင်းနဲ့ ငါ့သံဃာ လုံလောက် တယ်။ လယ်တီကျောင်းတိုက်ဟာ သံဃာ သိပ်များနေပြီ၊ အဲဒီကျောင်းလှူကြ" ဟု ဦးလှသိန်းက တရားပွဲများတွင် မကြာခဏ ထုတ်ဖော်ဟောပြော၍ သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ-၃၅

သာသနာရေးသာမက ရပ်ရေးရွာရေးကိုလည်း တစေ့တစောင်း လေ့လာတွေ့ရှိရပါသည်။
ညောင်တစ်ပင်လမ်း ဖောက်လုပ်ပေးသောအခါ ဇောင်ကြမ်းပင်ကျောင်းဝင်းကို ဖြတ်သန်း ဖောက်လုပ်ခွင့်ပြုခဲ့သည်။ လမ်းမြောက်ကျောင်းဝင်း ( ယခု မုံရွာမြို့ ဈေးသစ်အနောက်ခြမ်း) ကို မြို့လူထုအတွက် ဆေးရုံတည်ဆောက်ခွင့် ပေးခဲ့ပြန်သည်။ ယင်းအတွက် မုံရွာခရိုင် အရေး ပိုင်က ခရီးအခမဲ့ သွားလာခွင့်ကို ဆက်ကပ်ခဲ့ရာ ယင်းခွင့်ပြုစာကို ကပ်မိုးတွင် ထိုးထားပြီး ခရီးတစ်ခါမျှ မကြွသွားခဲ့။

ကျမ်းကိုး၊ ယင်းစာ-၃၅

ပထမ လယ်တီဆရာတော်နှင့် ပတ်သက်သော ဇောင်ကြမ်းပင်ဆရာတော်သည် လယ်တီ ဆရာတော်၏ ယုံ ကြည်မှုကိုရယူသည်မှာ အဘယ်ကြောင့်နည်းဟု စဉ်းစားလေလေ နက်နဲ လေဖြစ်ပါသည်။
လယ်တီဆရာတော်နှင့် ဇောင်ကြမ်းပင် ဒုတိယဆရာတော်တို့သည် အလွန်ချစ်ကျွမ်းဝင်ကြ သည်ဟု ဆိုကြပါသည်။ လယ်တီဆရာတော်သည် မိမိထက် ရှစ်နှစ်မျှငယ်သော ဇောင်ကြမ်း ပင်ဆရာတော်ကို ဗိုက်ကလေးဟု ချစ်စနိုး ခေါ်ဆိုတတ်သည်။
လယ်တီဆရာတော်နှင့် တရားဆွေးနွေးသည်ဟူသော အဆင့်ကို အောက်ပါအတိုင်း ခန့်မှန်း နိုင်ပါသည်။ ကျမ်းတတ်အကျော် ဆရာတော်နှစ်ပါးသည် ထန်းအုပ်အလယ်ဘုရားလှ အနီး ဇရပ်တစ်ဆောင်တွင် ချိန်းချက်တွေ့ဆုံပြီး တရားနှီးနှောတတ်ကြသည်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၃၅

ဇောင်ကြမ်းပင်ဆရာတော်၏ ပညာသမာဓိအဆင့်ကို လယ်တီဆရာတော်ကြီး၏ အတိုင်း အတာနှင့်ပင် အဆုံးအဖြတ်ယူနိုင်ပါသည်။ အောက်ပါစာသားကို ဖတ်ကြည့်ပါ။

http://www.dhammadownload.com



တစ်ခါက လယ်တီဆရာတော်သည် ရဟန်းတစ်ပါးအား ဖောင်ကြမ်းပင်ဆရာတော်ထံ စေလွှတ်၍ စာတမ်းတစ်စောင် ဖတ်ရှုရန်ပေးပို့ခဲ့ပါသည်။ "ဖတ်ပြီး ဗိုက်ကလေး ဘာပြော တယ်ဆိုတာမှတ်ခဲ့" ဟု မှာကြားလိုက်ပါသည်။ " အင်း ဒီကျမ်းကတော့ တမာရွက်သုပ်နဲ့ တူတယ်ကွယ်" ဟု ဝေဖန်လိုက်ရာ ရဟန်းငယ်မှာ မကျေမနပ်နှင့် လယ်တီဆရာတော်ကို လျှောက်ထားတော့သည်။ " ငါ့စာဟာ အမွန်းတွေကောင်းတယ်လို့ ချီးကျူးလိုက်တဲ့ သဘော ကွယ်" ဟု လယ်တီဆရာတော်သည် ရှင်းပြမှ ရဟန်းငယ်သည် ကျေနပ်သွားပါတော့သည်။

ကျမ်းကိုး၊ ယင်းစာ-၃၅

အေဒီ ၁၉၉၁ တိပိဋကရေ ဓမ္မဘဏ္ဍာဂါရိက ကျေးဇူးရှင် မင်းကွန်းဆရာတော်ကြီး ဦးဝိစိတ္တသည် ဘဝနတ် ထံမပျံလွန်မီ (၂)နှစ်ခန့်က မုံရွာမြို့ ဘိုးဘွားရိပ်သာ ရေစက်ချ အခမ်းအနားတွင် ဖောင်ကြမ်း ပင် ဆရာတော်အကြောင်းကို မိန့်ကြားတော်မူသဖြင့် မှတ်တမ်းတင်ရမည် ဖြစ်ပါသည်။ အဘယ်သို့ ထူးသည်ကို မှတ်သားနိုင်ပါသည်။

"မုံရွာမြို့ကို အထူးလေးစားမိရတာကတော့ နေလို လလို ထင်ရှားခဲ့တဲ့ ဆရာတော်ကြီးနှစ်ပါး ကြောင့်ပါပဲ၊ တစ်ပါးကတော့ တစ်ပြည်လုံးမက ကမ္ဘာပါ ကျော်ကြားတဲ့ လယ်တီဆရာတော် ပါပဲ၊ အထူး ထပ်ချီးကျူးဖို့ မလိုတော့ပါဘူး။ နောက်တစ်ပါးကတော့ ဒုတိယ ဖောင်ကြမ်းပင် ဆရာတော်ပါပဲ။ စာသင်သားဘဝက ဖောင်ကြမ်းပင် ဆရာတော်ရဲ့ သဒ္ဒါကျမ်းများကို လေ့လာ ဆည်းပူးခဲ့ရတယ်" မင်းကွန်းဆရာတော်ကြီးသည် ဖောင်ကြမ်းပင် ဆရာတော်၏ (၁) အဘိဓာန် ဂါထာ (၅၀၀) မှ ဂါထာအချို့ကို ရွတ်ဆိုပြပါသည်။ ဆက်လက်ပြီး "ဖောင်ကြမ်းပင် ဆရာတော် ရဲ့ ကျေးဇူးကို သတိရသောအားဖြင့် မုံရွာမြို့ ဝင်တိုင်းထွက်တိုင်း ဖောင်ကြမ်းပင်ကျောင်းတိုက်နှင့် ဆရာတော် တည်ထားခဲ့တဲ့စေတီကို လက်အုပ်ချီရပါတယ်" ဟု မင်းကွန်းဆရာတော် ဘုရား ကြီးက ထုတ်ဖော်မိန့်ကြားသွားသည်ကို မှတ်သားလိုက်ရပါသည်။ ကျောင်းထိပ်မှ သက်တော် ရှည် ရွှေစေတီကိုဆရာတော်သည် အိပ်မက်အရ တည်ထားကိုးကွယ်ခဲ့သည်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ယင်းစာ-၃၅

ဆရာတော်ကြီးရဲ့ ဂုဏ်ကျေးဇူးကို ထုတ်ဖော်သည့် သံချိုများစွာ ရေးသားစပ်ဆိုထားခဲ့ပါသည်။ မန္တလေးမြို့ သာသနာပိုင် ဆရာတော်ကြီးက ဖောင်ကြမ်းပင် ဆရာတော်ကို မုံရွာနယ်၏ ဂိုဏ်းချုပ်အဖြစ် ခန့်ထားသောအခါ ဦးကျော်လှသည် အောက်ပါသံချိုဖြင့် ဂုဏ်ပြုခဲ့ပါသည်။

"အဏ္ဏဝါမန္ဒဝီ၏ သလ္လဝတီဖန်ပြာ အနှစ်လိုပ၊ စီးရစ်ခွေသုံ့သုံ့၊ ပြေအလုံ့ ရွှေမုံကမ်းငယ်က၊ ဘုံမန်းတိုင် နိုင်ငံကျော်လို့ ရဟန်းတော်တွေ အသရမ် အချော်မရှုပ်ရအောင်၊ နှိုင်းမျှော်ကာ သမိုင်းအပေါ်က အုပ်ပါဟု ဂိုဏ်းတော်ချုပ် အပ်တော်မူ ဗုဒ္ဓဟေ ညောင်နန်းကဲ့သို့၊ ဖောင် ကြမ်းပင် အခြေခံတဲ့ ဝေဇယံ ဝိဟာရက၊ သီလသိက္ခာပုဒ်ကယ်တို့ အာနွတ်တွင် သင်ဝိနည်း နဲ့ နိဿရည်းအမှန် ကျမ်းဂန်ပြနိုင်တဲ့ စွမ်းအနှစ်စုံ ဂန္ထရနှင့်၊ ရဟန်းများအပေါ် မမော်ဦးပြီဟု ဥပေက္ခာမေတ္တာ နှလုံးရယ်နဲ့ သုံးတဲ့လျှစ်လျူ -

ကျမ်းကိုး၊ ယင်းစာ-၃၆

ဆရာတော်သည် ကဗျာလင်္ကာရေးဖွဲ့ရာတွင်လည်း နိုင်နင်းသူဖြစ်ပါသည်။ ဖော်ပြပါ သံဝေဂ ဂါထာသည် လယ်တီဆရာတော်ဘုရား၏ " မိုက်မလင်းနိုင်ဘူး " သံဝေဂဂါထာကဲ့သို့ မုံရွာ တွင် ထင်ရှားသည်။ ပါဠိဂါထာ အနက်ကို မြန်မာလို ဖွင့်ဆိုရာတွင် လင်္ကာဖွဲ့ဆင် ရေးသား ထားသဖြင့် တစ်မျိုးဆန်းပါသည်။

ဓမ္မကထိကဆရာကြီး ဦးလှသိန်းသည် တရားပွဲများ၌ မကြာခဏ ရွတ်ဆိုတတ်ပါသည်။

http://www.dhammadownload.com



ဦးလှသိန်းမှာ အသံကကောင်းကောင်း အပြောပိုင်ပိုင်နှင့် ယင်းဂါထာကို ရွတ်ဆိုရှင်းလင်းပြောပြတတ်ရာ နာကြားရသူများ အထူးနှစ်ခြိုက်လှပါသည်။

"အဒ္ဓိက၊ သံသရာရှည်လျား ခရီးသွားသည့် သနားဖွယ်ကြွယ် မောင်ဧည့်သည် တွံ့၊ ဧည့်သည်ပမာ ရုပ်မှာ နာမ်နှော အတ္တဘောသည်၊ အဇရောကိန္နု၊ ကြီးရင်ယွင်းယို မအိုပါပဲ အမြဲနေနိုင်လိမ့်မည်လား၊ အာရောဂေါ၊ ယခုလိုသာ အနာမရှိပဲ ရှောင်လွှဲ၍ကောရနိုင်မည်လား။ အမတော မရှည်မကြာ ခန္ဓာပျက်ကြေ သုသာန်မြေသို့ ဖယ်သွေ့ရှောင်ရှား ငါတကားဟု မသွားဆန်ပြား အသေကင်းအောင် အားတင်းနေနိုင်လိမ့်မည်လား၊ အပုနဗ္ဘဝေါ၊ သုဂတိနှင့် ဒုဂ္ဂတိမှန် တစ်မှန် ရောက်လှစ် ဘဝသစ်၌ မဖြစ်လေဘဲ အားအံခဲ၍ ရှောင်လွှဲနေနိုင်လိမ့်မည်လား"

ကျမ်းကိုး၊ ရတနာမွန်မဂ္ဂဇင်း၊ စာ ၃၄

http://www.dhammadownload.com



သက်တော် (၁၀၉)နှစ် ဝါတော်(၉၀)သက်တော်ရှည်

သန်လျင်မြို့ မနောမယ နံပါတ်တစ်ဆရာတော်

# နတ်စင်တစ်ရာ ဆရာတော် ဦးဒေဝံတေမိဇ

(၁၈၆၃ – ၁၉၇၃)



http://www.dhammadownload.com



ရန်ကုန်မြို့ ရွှေဘုန်းပွင့်စေတီတော်ရှိ ငှက်မြက်နားတွင် ရွှေသား ဝိဇ္ဇာရုပ်တုငယ် တစ်ခုရှိလေသည်။ ထိုရွှေသားရုပ်တုငယ်ကို မနောမယဆရာတော်ဘုရားကြီးက ခရစ်နှစ် (၁၉၂၈) ခုနှစ်၊ ထီးတော်အသစ်တင်ရာတွင် ထည့်သွင်းလှူဒါန်းခဲ့ခြင်းဖြစ်သည်။ ထိုစဉ်က ထိုဝိဇ္ဇာရုပ်တုငယ်မှာ အင်္ဂရတ် ဓာတ်ပညာဖြင့် ပြုလုပ်ထားသော ဓာတ်သားရုပ်တုသာ ဖြစ်သည်။ ထို့ကြောင့် ထိုခေတ်ထိုအခါက ရွှေအကဲဖြတ်သော ရွှေဘုံသာလမ်းမှ ပညာရှင်များက ရုပ်တုလက်ရာနှင့် တကွ အဆိုပါ ဓာတ်သားကို ငွေ (၂၀၀) ကျပ်ကျော်ကျော်ဖြင့်သာ သတ်မှတ်ခဲ့လေသည်။

ကျမ်းကိုး၊ သာသနာပြုအကျော် မနောမယဆရာတော်၊ ရွှေဘုန်းပွင့်စေတီတော်သမိုင်း၊ ၁၉၉၄/၃ ပထမအကြိမ် စာ-၅၁

သို့သော် ယခုနှစ်၊ ရွှေဘုန်းပွင့်စေတီ၏ ထီးတော်ကို အသစ်ပြင်ဆင်မွမ်းမံသောအခါ ဂေါပကအဖွဲ့ဝင်အားလုံး အံ့သြကြရလေသည်။ ဖြစ်ပုံမှာ အဆိုပါဝိဇ္ဇာဓာတ်သားရုပ်တုကလေးသည် အံ့သြဖွယ်ကောင်းစွာပြောင်းလဲသွားခဲ့ပါသည်။ ပြောင်းလဲသွားပုံမှာ ယခင်ကဓာတ်သား ဝိဇ္ဇာရုပ်တုမှသည် ယခု ရွှေသားစင်စစ် ဝိဇ္ဇာရုပ်ဖြစ်သွားသောကြောင့်ပင်တည်း။ ရွှေဘုန်းပွင့်စေတီမြတ်၏ ငှက်မြက်နားတွင် တစ်မူဆန်းသစ်သော ရှေးကလှူဒါန်းခဲ့သည့် ဝိဇ္ဇာရွှေရုပ်တုကလေးဖြင့် ပန်တင့်လျက်ရှိသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၉)

မနောမယဆရာတော်အကြောင်းကို လေ့လာသောအခါ အောက်ပါအတိုင်း တွေ့ရှိရပါသည်။ မနောမယဆရာတော်ဘုရားကြီးသည် တစ်ခေတ်တစ်ချိန်က မြန်မာနိုင်ငံဝယ် သာသနာပြုပုဂ္ဂိုလ်အကျော်ဖြစ်ပါသည်။ ဤဆရာတော်ကြီးသည် မနောမယဆရာတော်ဟူ၍လည်းကောင်း၊ သန်လျင်နတ်စင်တစ်ရာဆရာတော်ဟူ၍လည်းကောင်း၊ ဒေဝံတေမိဇဆရာတော်ဟူ၍လည်းကောင်း၊ ဘွဲ့အမျိုးမျိုးရှိသည်ကိုလေ့လာ တွေ့ရှိရပါသည်။ ဤဆရာတော်ကြီးသည် မနောမယဆရာတော်ဟု သက်တော် (၁၀၉) နှစ်အထိ ရှည်ခဲ့သည့် ပုဂ္ဂိုလ်ကြီးဖြစ်သည်။

ကျမ်းကိုး၊ သာသနာပြုအကျော် မနောမယဆရာတော်၊ ရွှေဘုန်းပွင့်စေတီတော်သမိုင်း၊ ၁၉၉၄/၃ ပထမအကြိမ် စာ-၅၁

အေဒီ ၁၈၆၃

ဆရာတော်ဘုရားကြီး၏ မွေးသက္ကရာဇ်ကို အတိအကျမသိရပေ။ ဆရာတော်ဘုရားကြီး၏ မွေးဖွားရာသည် ပဲခူးတိုင်းအတွင်းဟူ၍သာ သာမန်သိရှိရပါသည်။
သို့သော် သက်တော် (၁၀၉) တွင် ပျံလွန်တော်မူသဖြင့် ဆရာတော်ကြီး၏ မွေးသက္ကရာဇ်မှာ အေဒီ (၁၈၆၃) ဖြစ်ကြောင်း သိရှိနိုင်ပါသည်။
ဆရာတော်ဘုရားကြီး၏ ခမည်းတော်နှင့် မယ်တော်များ၊ ဆရာတော်ဘုရားကြီး သာသနာ့ဘောင်သို့ ရောက်ရှိလာပုံများကိုလည်း မသိရပါ။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၂)

ဆရာတော်ကြီး၏ တပည့်အရင်းများမှာ အလွန်လူသိများသော ရဟန်းထူး ပုဂ္ဂိုလ်ထူးများဖြစ်ပါသည်။ နာမည်ကြီးသော သာသနာပြု ပုဂ္ဂိုလ်အကျော် ဆေးဝက်ဘာဆရာတော် ဦးသူရိယ၏ဆရာလည်း ဖြစ်၏။ အလွန် နာမည်ကြီးသော ခမဲပြင် ဆရာတော်ကြီး၏ ဆရာလည်း ဖြစ်သည်ဟု သိရပါသည်။ ၎င်းအပြင် တွံတေးဇောင်းတော်ချုပ် ဆရာတော်ဘုရားကြီး၏ ဆရာလည်း ဖြစ်ပါသည်။
ထိုဆရာတော်၏ အုတ်ဂူပေါ်တွင် ရေးထားသောစာသားမှာ ဆရာတော်၏ ဘဝရုပ်ပုံလွှာကို ဖွင့်ဖော်လျက်ရှိပါသည်။ ထိုစာသားမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

http://www.dhammadownload.com



"သက်တော် ၁၀၉၊ ဝါတော် ၉၀ ရှိတော်မူထသော သန်လျင်မြို့၊ မနောမယ နံပါတ် (၁) ဆရာတော် ဦးဒေဝံတေမိဇ ဆရာတော်ဘုရားကြီးသည် ဗုဒ္ဓ နဂရ ရွှေပြည်တော် ထွက်ရပ်လမ်းသို့ အောင်မြင်ကြောင်း မှတ်တမ်းတင်အပ်ပါသည်။"

အထက်ပါစာသားအရ ပြီးခဲ့သော တော်သလင်းလပြည့်နေ့က သန်လျင်သို့ သွား၍ စုံစမ်းရာ ဆရာတော်ကြီး၏ ဂူမှာ အိမ်ကြိုအိမ်ကြားရောက်နေပြီးလျှင် ဂူအစား လူနေအိမ်များကိုသာ တွေ့ရပါတော့သည်။ ဂူကိုကား ဖျက်ပစ်လိုက်ကြပါတော့သည်။ ဂူပေါ်က စာသားမှာ မဖျက်ပစ်ခင်က ရေးကူးထားသောစာသားဖြစ်သဖြင့် တော်ပါသေးသည်ဟု မှတ်ရပါတော့သည်။

သန်လျင်မြို့အပါအဝင် မြန်မာနိုင်ငံတစ်ဝန်း၌ ရှေးဟောင်းစေတီပုထိုး တစ်ရာကျော်တို့ကို ပြုပြင် မွမ်းမံခဲ့ကြောင်း သိရပါသည်။ ဆရာတော်ဘုရားကြီး၏ ကျောင်းမှာ သန်လျင်မှာရှိ၍ နတ်စင်တစ်ရာကျောင်းဟု ခေါ်ပါသည်။ ရှေးအခါက နတ်စင်ကလေးများ တစ်ရာရှိသောကြောင့် နတ်စင်တစ်ရာကျောင်းဟု ခေါ်ဝေါ်ကြောင်း သိရပါသည်။

ထိုကျောင်းအကြောင်းကို ကျွန်တော်တို့ မှတ်မိသည်မှာ ထိုကျောင်းပရိဝုဏ်အတွင်း၌ မော်ဘီဆရာသိန်းကြီး နတ်စင်လည်း ရှိနေသောကြောင့် ဖြစ်ပါသည်။ ထိုအခါက ဆရာသိန်းကြီးသည် မော်ဘီမြို့မှာ နေပါသည်။ မသေသေးပါ။ သက်ရှိထင်ရှား ဖြစ်ပါသည်။ သို့ပါလျက် နတ်စင်တစ်ရာကျောင်းတွင် မော်ဘီဆရာသိန်းကြီးနတ်ဟု ကမ္ပည်းတပ်ကာ နတ်စင်ဆောက်နှင့်ထားကြောင်း စာပေသမားတို့က တအံ့တသြ သွားကြည့်ကြပါသည်။ ထို့ကြောင့် မှတ်မိနေပါသည်။

မနောမယဆရာတော်ကြီး မရှိသောအခါ နတ်စင်တစ်ရာကျောင်းကို စောင့်ရှောက်နေသူမှာ ရသေ့ကြီးဦးရွှေဘို ဆိုသူဖြစ်ကြောင်း သိရပါသည်။ ထိုရသေ့ကြီးမှာ ကျွန်တော်တို့ တွေ့သောအချိန်တွင် သက်တော် (၇၀) ကျော်ပါပြီ။ ရသေ့ကြီးသည် နတ်စင်တစ်ရာ ဆရာတော်ကြီးနှင့် နေခဲ့သည်မှာ နှစ်ပေါင်း (၅၀) ကျော်ရှိကြောင်း သိရပါသည်။

ဦးရွှေဘို အသက် (၁၆) နှစ်အရွယ်လောက်ကတည်းက နတ်စင်တစ်ရာကျောင်းသို့ ရောက်လာကြောင်း သိရပါသည်။

ထို့ကြောင့် ရသေ့ကြီးဦးရွှေဘိုထံမှ မနောမယ ဆရာတော်၊ နတ်စင်တစ်ရာဆရာတော်ဟု အမျိုးမျိုးခေါ်ဝေါ်ကြသော မနောမယ နံပါတ် (၁) ဆရာတော် ဦးဒေဝံတေမိဇ ဆရာတော်ကြီး ဗုဒ္ဓနဂရ ရွှေပြည်တော် ထွက်ရပ်လမ်းသို့ အောင်မြင်သည်ကို အကြောင်းပြု၍ မှတ်မိသမျှ ပြောပြပါဟု ကျင့်စဉ်များတောင်းခံသောအခါ ရရှိလာသော ကျင့်စဉ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်။ ထိုအချက်တို့ကို ရန်ကုန်တိုင်း၊ ပုဇွန်တောင်မြို့နယ်၊ ရွှေဘုန်းပွင့် ဆုတောင်းပြည့်စေတီတော်သမိုင်းမှတ်တမ်းတွင် ပြုစုသူ သုသုကက ဖော်ပြထားပါသည်။ စာမျက်နှာ ၅၄ - ၅၅ ကို ကြည့်ပါ။

ဆရာတော်ဘုရားကြီးသည် ရှေးဟောင်း စေတီတော်တစ်ဆူကို ပြန်လည်ပြုပြင်တော့မည်ဟု ဆိုလျှင် အဓိဋ္ဌာန် ကိုးရက်ဝင်သည်ဟုဆိုပါသည်။

(၁) ပထမနေ့ အဓိဋ္ဌာန်ရက်တွင် သက်သတ်လွတ် အရဏ်ဆွမ်း တစ်နပ်တည်းကိုသာ ဆွမ်းဘုဉ်းပေး၍ သမ္ဗုဒ္ဓေဘုရားရှိခိုးဂါထာတော်ကြီးကို တစ်ထောင် ရွတ်ဖတ်သရဇ္ဈာယ်လေသည်။

(၂) ဒုတိယနေ့တွင် ဆန်လွတ်၊ သက်သတ်လွတ် ဘုဉ်းပေး၍ သမ္ဗုဒ္ဓေ ဂါထာကြီးကိုပင် တစ်ထောင် ရှိခိုးပူဇော်လေသည်။

http://www.dhammadownload.com



(၃) တတိယနေ့တွင် သက်သတ်လွတ် ဆွမ်းစားပြန်၍ သမ္ဗုဒ္ဓေ ဂါထာကြီးကိုပင် တစ်ထောင် ရွတ်ဆို ပူဇော်လေသည်။
(၄) စတုတ္ထနေ့တွင် ဆရာတော်ကြီးသည် မီးလွတ်ဘုဉ်းပေး၍ သမ္ဗုဒ္ဓေ ဂါထာကြီးကိုပင် တစ်ထောင် ရိုခိုးပူဇော်လေသည်။
(၅) ပဉ္စမနေ့၌ သက်သတ်လွတ် ဆွမ်းပြန်ဘုဉ်းပေးပြီး သမ္ဗုဒ္ဓေ ဂါထာကြီးကို တစ်ထောင် ရှိခိုးပူဇော်လေသည်။
(၆) ဆဋ္ဌမနေ့တွင် ရေချည်းဘုဉ်းပေး၍ သမ္ဗုဒ္ဓေဂါထာကြီးကို တစ်ထောင် ပူဇော်လေသည်။
(၇) သတ္တမနေ့တွင် သက်သတ်လွတ်ဆွမ်းကို ပြန်လည် ဘုဉ်းပေးပြီး သမ္ဗုဒ္ဓေဂါထာကြီးကို တစ်ထောင်တိတိ ပူဇော်လေသည်။
(၈) အဋ္ဌမနေ့တွင် ဆရာတော်ကြီးသည် ဝစီပိတ် စကားမပြောတော့ဘဲ တစ်နေ့လုံး သမ္ဗုဒ္ဓေ ဂါထာတော်တစ်ထောင်ကို ရွတ်ဆိုသရဇ္ဈာယ်လေသည်။
(၉) နဝမနေ့တွင် ဆရာတော်ကြီးသည် သက်သတ်လွတ်ဆွမ်းကို ပြန်လည် ဘုဉ်းပေး၍ သမ္ဗုဒ္ဓေဂါထာကြီးကိုပင် တစ်နေ့လုံး တစ်ထောင်တိတိ ရှိခိုးပူဇော်လေသည်။

မနောမယ ဆရာတော်ဘုရားကြီးသည် ရွှေဟောင်း စေတီတော် တစ်ဆူကို ပြန်လည်မွမ်းမံ ပြုပြင်တော့မည်ဆိုလျှင် အထက်ပါအတိုင်း အဓိဋ္ဌာန်ကိုးရက်ဝင်သည်ဟု ဆိုသည်။

ဆရာတော်ကြီး၏ စရဏမှာ (ဝါ) ကျင့်စဉ်မှာ သက်သတ်လွတ်စားခြင်း (ဝါ) ဘုဉ်းပေးခြင်းနှင့် မီးလွတ်ဘုဉ်းပေးခြင်း၊ ရေချည်းဘုဉ်းပေးခြင်း၊ ဝစီပိတ် ကျင့်ကြံအားထုတ်ခြင်းစသော ထူးခြားချက်များကို တွေ့ရှိရပါသည်။

> ကျမ်းကိုး။ ရန်ကုန်တိုင်း၊ ပုဇွန်တောင်မြို့နယ်၊ ရွှေဘုန်းပွင့် ဆုတောင်းပြည့် စေတီတော်သမိုင်း မှတ်တမ်းတင် ပြုစုသူ သုသုကက ဖော်ပြထားပါသည်။ စာမျက်နှာ ၅၄ - ၅၅ ကို ကြည့်ပါ။
>
> မောင်ပန်းမွှေး၊ ဗုဒ္ဓနာဂရ ရွှေပြည်တော် ထွက်ရပ်လမ်းသို့ မြန်းတော်မူသော သန်လျင်မြို့ မနောမယ နတ်စင်တစ်ရာ ဆရာတော်ကြီး၏ သမ္ဗုဒ္ဓေကျင့်စဉ်ကြီး၊ ဝိဇ္ဇာမဂ္ဂဇင်း အတွဲ ၁၊ အမှတ် ၈၊ ၂၀၀၈ ခုနှစ်၊ မေလ စာ ၁၃၅၊ ၁၃၆။

နတ်စင်တစ်ရာ ဆရာတော်ကြီးနှင့်စပ်လျဉ်း၍ မှတ်တမ်းအနည်းငယ်သာ တွေ့ရှိရပါသည်။ ဆရာတော်ကြီးကိုယ်တိုင် ပြုစုတော်မူခဲ့သော ကျမ်းစာအုပ် တစ်အုပ်လည်း တွေ့ဖူးပါသည်။ အထူးသဖြင့် ဆရာတော်ကြီးအကြောင်းသည် ရန်ကုန်မြို့ ပုဇွန်တောင်မြို့နယ်ရှိ ရွှေဘုန်းပွင့် စေတီတော်နှင့် စပ်လျဉ်း၍ဆက်စပ်ခါ လူသိများလာပါသည်။ မူရင်း နတ်စင်တစ်ရာကျောင်းမှာ ယခုထက်တိုင် သန်လျင်မြို့တွင် ရှိပါသေးသည်။ ကျွန်ုပ်တို့က နတ်စင်တစ်ရာ ဆရာတော်ဟု အများခေါ်သည့်အတိုင်း အလွယ်တကူခေါ်ဆိုခြင်းဖြစ်ပါသည်။ စာထဲတွင်ကား မနောမယ ဆရာတော်ဟု တွေ့ရှိရပါသည်။ ဘွဲ့တော်မှာကား အလွန်အမှတ်ရခက်သဖြင့် မကြာမကြာ မေ့သွားပါသည်။ ဦးဒေဝတေမိဇ ဟူ၍ ဖြစ်ပါသည်။

မနောမယဆရာတော်ဘုရားကြီးသည် အစဉ်သက်သတ်လွတ်ဆွမ်းကိုသာဘုဉ်းပေးသည်။ ထိုသို့ သက်သတ်လွတ်ဆွမ်းဘုဉ်းပေးရာ၌ နံနက်အရုဏ်ဆွမ်း တစ်နပ်တည်းကိုသာ ဘုဉ်းပေးခြင်းဖြစ်ပါသည်။

http://www.dhammadownload.com



(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၃)

မနောမယ ဆရာတော်ကြီးသည် ရှေးဟောင်းဘုရားများကို ပြုပြင်ရာတွင်ချမ်းသာ ကြွယ်ဝသောသူဌေးများကို လိုက်လံရှာဖွေနေသောပုဂ္ဂိုလ်မဟုတ်၊ မိမိ၏စရဏ (၀ါ) ကျင့်ကြံအားထုတ်မှု အဓိဋ္ဌာန်အပေါ်တွင်သာ အားကိုးအားထားပြုသူ ဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၅)

ဆုတောင်းပြည့် ရှေးဟောင်း ရွှေဘုန်းပွင့် စေတီတော်မြတ်ကြီးကို မူလိယပ္ပ ဗုဒ္ဓဘာသာဝင် ကုလားလူမျိုးက ခရစ်နှစ် (၁၈၅၂) ခုနှစ်နောက်ပိုင်းတွင် ဘုရားဒကာအဖြစ် တည်ထားခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၈)

ထိုအချိန်တွင် သန်လျင်မြို့ နတ်စင်တစ်ရာ မနောမယကျောင်းတိုက်တွင် သီတင်းသုံးလျက်ရှိသော မနောမယဆရာတော်ကြီးသည် သတင်းအရ ရွှေဘုန်းပွင့်စေတီသို့ကြွ၍ လာခဲ့သည်။ ဤသို့ ရွှေဘုန်းပွင့်စေတီကို ပြန်လည်တည်ထားစဉ် (၂)လ အချိန်အတွင်း မနောမယ ဆရာတော်ဘုရားကြီးသည် ဘုရား၏ပရိဝုဏ်အတွင်း၌ သီတင်းသုံးနေထိုင်တော်မူခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၈)

စေတီတော်ကြီး၏ထီးတော်ကိုတင်ရာ၌ မနောမယဆရာတော်ဘုရားကြီးသည် ဓာတ်သားဖြင့် ထုလုပ်ထားသော ဝိဇ္ဇာရုပ်တုလေးကို စစ်ဆေးကြည့်ရှု မှတ်တမ်းတင်ကြရာတွင် အဂ္ဂိရတ် ဓာတ်သားမှသည် ရွှေစင်အတိ ဝိဇ္ဇာရုပ်တုကလေးဖြစ်နေသည်ဟု ဆိုသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၉)

အေဒီ ၁၉၇၃

ဤသို့သာသနာတော်အကျိုးကို ဆောင်ရွက်တော်မူခဲ့သော မနောမယဆရာတော်ကြီးသည် သက္ကရာဇ် (၁၃၃၅) ခုနှစ်၊ ဝါဆိုလပြည့်ကျော် (၂)ရက်၊ တနင်္လာနေ့ည (၈)နာရီ၊ မိနစ် (၂၀) အချိန်တွင် သန်လျင်မြို့ မနောမယကျောင်းတိုက်၌ ပျံလွန်တော်မူသည်ဟု တွေ့ရှိရပါသည်။

> ကျမ်းကိုး။ ရန်ကုန်တိုင်း၊ ပုဇွန်တောင်မြို့နယ်၊ ရွှေဘုန်းပွင့် ဆုတောင်းပြည့်စေတီတော် သမိုင်းမှတ်တမ်းတင်ပြုစုသူ သုသုကက ဖော်ပြထားပါသည်။ စာမျက်နှာ ၅၄ - ၅၅ ကို ကြည့်ပါ။
> မောင်ပန်းမွှေး၊ ဗုဒ္ဓနာဂရ ရွှေပြည်တော် ထွက်ရပ်လမ်းသို့ မြန်းတော်မူသော သန်လျင်မြို့ မနောမယ နတ်စင်တစ်ရာ ဆရာတော်ကြီး၏ သမ္မုဒ္ဒေကျင့်စဉ်ကြီး၊
> ဝိဇ္ဇာမဂ္ဂဇင်း အတွဲ ၁၊ အမှတ် ၈၊ ၂၀၀၈ ခုနှစ်၊ မေလ စာ ၁၃၅၊ ၁၃၆။

http://www.dhammadownload.com



လပွတ္တာမြို့နယ် ပိတ္တာလေးရွာ၊ သဲဖြူရွာတွင် မော်တော်ပေါ်မှ ဆင်း၍ ရေပေါ်မှာ လမ်းလျှောက်သွားသည်ကို အားလုံးဖူးမြော်လိုက်ကြရသော

လပွတ္တာမြို့ ပိတ္တာလေးကျေးရွာ

# အဘိုးလေး ဦးဝါသဝ (ခေါ်)

# မတောင်ချောင် ဆရာတော် ဦးဝါသဝ

(၁၈၆၄ – ၁၉၄၂)



http://www.dhammadownload.com



ဒုတိယကမ္ဘာစစ် မတိုင်မီတုန်းက ရောဝတီတိုင်း လပွတ္တာမြို့နယ်မှာ အလွန့်ထူးဆန်းတဲ့ ဖြစ်ရပ်တွေ ဖြစ်ခဲ့ပါတယ်ဆိုတော့ နာဂစ်ဒဏ်ခံမြို့နယ်က လူတွေက ဝမ်းသာရမလား၊ ဝမ်းနည်းရမလား ဖြစ်သွားပါတော့သည်။ ထိုစဉ်က ခင်ဗျားတို့ ကြားဖူးမှာပေါ့။ ပိတ္တာလေးဆိုတဲ့ရွာမှာ ရေပေါ်လမ်းလျှောက်သွားတဲ့ ဆရာတော်ကြီးကို အားလုံး မြင်ဖူးခဲ့ကြပါတယ်ဟု ပြောတော့ အသေးစိတ်မေး၍ ကွန်နိုပ်မှာလဲ စာတွေ့ ငါတွေ့ ညှိကာ စာရှာရပါတော့သည်။ ထိုဆရာတော်၏ အမည်မှာ ဦးဝါသဝဟု ခေါ်ပါ၏။ မတော့ချောင်မှာ နေပါ၏။ ဤသို့ ရှာတွေ့ပါ၏။

အေဒီ ၁၈၆၄ ဆရာတော်ဦးဝါသဝကို မကွေးတိုင်း၊ မင်္ဂကန်ကျေးရွာ၊ အဖ ဦးစံမင်း၊ အမိ ဒေါ်ငြိမ်းအေးတို့မှ သက္ကရာဇ် (၁၂၂၆) ခုနှစ်တွင် ဖွားမြင်ခဲ့သည်။

မွေးချင်း (၃) ဦးတွင် အစ်ကိုအကြီးဆုံး ဦးနန္ဒမာလကို အဘိုးကြီးဟူ၍ လည်းကောင်း၊ ညီအလတ် ဦးလာဘကို အဘိုးလတ်၊ ညီအထွေးဆုံး ဦးဝါသဝကို အဘိုးလေး ဟူ၍ အသီးသီး ခေါ်တွင်ကြပေသည်။

(ကျမ်းကိုး၊ ကျော်စိန်နု(ဝါးခယ်မ)၊ ဂမ္ဘီရမင်္ဂဇင်း၊ အမှတ်(၃)၊ စာ-၄၉)

ဆရာတော်ဦးဝါသဝမှာ ငယ်ဆရာများဖြစ်ကြသော ဦးအာဒိစ္စနှင့် ဦးနန္ဒမာလာထံတွင် စာပေပညာများကို ကြိုးစားသင်ယူခဲ့သည်။

အေဒီ ၁၈၈၄ ထို့နောက် သက္ကရာဇ် (၁၂၄၆) ခုနှစ်တွင် ရဟန်းအဖြစ်ပြုတော်မူပြီး အုတ်ဖိုကျောင်းဆရာတော် ဦးကောဏ္ဍထံတွင် စာပေပရိယတ္တိပညာများကို နှံ့စပ်အောင် သင်ယူခဲ့သလို ပဋိပတ်အလုပ်များကိုလည်း ကျင့်ကြံအားထုတ်တော်မူခဲ့သည်။

(ကျမ်းကိုး၊ ယင်းစာ-၄၉)

၎င်းဆရာတော် ဦးဝါသဝသည် သံသရာစခန်းမှ လွတ်မြောက်ရန်လမ်းကို ရှာကြံ၍ မိမိဇာတိရွာမှနေ၍ အောက်ပြည်အောက်ရွာသို့ စုန်ဆင်းတော်မူခဲ့သည်။ ဆရာတော်ဦးဝါသဝသည် အောက်ပြည်အောက်ရွာသို့ ဆင်းသက်လာရာတွင် ရှေးဦးစွာ တံတားကြီးကျေးရွာအနီး တောကြီး အတွင်းရှိ မတော့ပင်ကြီးကို မှီခို၍ မေတ္တာကမ္မဋ္ဌာန်းစီးဖြန်း၍ သီတင်းသုံးနေထိုင်တော်မူသည်။

မတော့ပင်ကို အမှီပြု၍ တရားအလုပ်များကို ကျင့်ကြံအားထုတ်တော်မူသောကြောင့် မတော့ချောင် ဆရာတော် ဦးဝါသဝ ဟူ၍ အထူးတလည် နာမည်ကြီးလှပေသည်။

(ကျမ်းကိုး၊ ယင်းစာ-၅၀)

ဆရာတော်ကြီးမှာ ညအလုပ်တရားစခန်းပြီးစီး၍ ကျိန်းစက်ရန်အတွက် မတော့ပင်ရင်းတွင် အမြစ်ကြီးအား ခေါင်းအုံး၍ အိပ်ပျော်နေစဉ် အလွန်အင်မတန်မှကြီးမားသော မိစ္ဆာကောင်ကြီးတစ်ကောင်သည် ခြေသလုံး၊ ပေါင်များကို ခွနင်း၍ လည်ပင်းကိုအတင်းညှစ်ထားရာ ဆရာတော်ကြီးမှ ဇိနဝန္ဒထဂေါတမံ. . . ကိုရွတ်ဆိုသောကြောင့် မိစ္ဆာကောင်ကြီးမှာ ညှစ်ထားသည့် လည်ပင်းအားလွှတ်၍ အပြီးထွက်ခွာသွားတော့သည်။

(ကျမ်းကိုး၊ ယင်းစာ-၅၀)

ဆရာတော်ကြီးသည် သက်တော်ထင်ရှားရှိစဉ်က ရောဂါဝေဒနာရှင်များအား (၇)ရက် သို့မဟုတ် (၄၉)ရက်တိုင် သီလဋ္ဌိတည်စေပြီး ပရိတ်တော်ရေဖြင့် ရောဂါဝေဒနာများကို ပျောက်ကင်းစေခဲ့သည်မှာ မရေမတွက်နိုင်အောင် များပြားလှပေသည်။

(ကျမ်းကိုး၊ ယင်းစာ-၅၀)

http://www.dhammadownload.com



မတော့ချောင်ဆရာတော်ဦးဝါသဝသည် ငယ်စဉ်ကာလ ရှင်သာမဏေဘဝကပင် ညဉ့်နက်သန်းခေါင် အချိန်များ၌ သုသာန်များသို့သွားရောက်ပြီး တရားဘာဝနာလုပ်ငန်းများကို ကြိုးစားအားထုတ်ခဲ့သည့်ပုဂ္ဂိုလ်ထူးဖြစ်သည်။

(ကျမ်းကိုး၊ ယင်းစာ-၅၀)

ဆရာတော်ကြီးသည် မေတ္တာကရုဏာကြီးမားစွာဖြင့် ရွာသူရွာသား၊ နယ်သူနယ်သားတို့အား ဒုက္ခအပေါင်းမှ လွတ်ငြိမ်းချမ်းသာစေကြောင်း မေတ္တာပရိတ်ရေများဖြင့် ပက်ဖျန်းစေခြင်း၊ သောက်သုံးစေခြင်းစသည်ဖြင့် ကယ်တင်၍ ကာယသုခ၊ စိတ္တသုခ ပြည့်ဝချမ်းသာခဲ့ကြသူများမှာ ယနေ့တိုင်ပြောမဆုံးအောင်ရှိနေကြဆဲပင်ဖြစ်သည်။

(ကျမ်းကိုး၊ ယင်းစာ-၅၀)

ဆရာတော်ဦးဝါသဝ ပိတ္တာလေးကျေးရွာသို့ ရောက်ရှိစဉ်က ဝါးဖြင့် ဆောက်လုပ်၍ ကိုးကွယ်ကြသည်။ တစ်နေ့ ကျောင်းသားမောင်ဖိုးကျောက်မှ ကျားသားစားချင်သည်ဟု စိတ်မှ ပြစ်မှားမိသဖြင့် ကျားကြီးတစ်ကောင် ဟိန်းဟောက်ရောက်ရှိလာသောကြောင့် ကျောင်းသားလေးမှာ ကျောင်းပေါ် သို့ ပြေးတက်သွားရသည်။

(ကျမ်းကိုး၊ ယင်းစာ-၅၁)

နှစ်အတန်ကြာလာပြီးနောက် ကျေးရွာအတွင်း နတ်ပွဲများမပြတ်ကပြနေသည်ကို ဆရာတော်မှ သိရှိတော်မူပေသည်။ ထိုကဲ့သို့ ရွာထဲတွင် နတ်ပွဲများကပြနေခြင်းကို ဆရာတော်မှ မိစ္ဆာအလုပ်များဖြစ်၍ ပြုပြင်ရမည်ဟု စိတ်က ရည်သန်၍ နတ်ပွဲအစား ကိုးနဝင်းစေတီတစ်ဆူတည်၍ ဘုရားပွဲများကို စည်ကားသိုက်မြိုက်စွာ ပြုလုပ်ခဲ့သည်။ ပွဲတော်ရက်အတွင်း သက်သတ်လွတ်စားသုံးကြရန်ကိုလည်း မိန့်ကြားခဲ့ပေသည်။

(ကျမ်းကိုး၊ ယင်းစာ-၅၁)

တစ်နေ့သောအခါတွင် ဆရာတော်ဦးဝါသဝသည် ပိတ္တာလေးကျေးရွာမှ မော်တော်ဖြင့်သွားပါက (၆)နာရီခန့် သွားရသောသဲဖြူသို့ တောရခိုမှီးရန်အတွက် ထွက်ခွာသွားခဲ့သည်။ သဲဖြူမှာ လူသူအရောက်နည်းပါးပြီးတောထူထပ်သော အရပ်ဖြစ်သည်။ (သဲဖြူသည် လပွတ္တာမြို့နယ် အပိုင်ဖြစ်၍ ယခုအချိန်တွင် တောများရှင်းလင်းသွား၍ ကျေးရွာကြီး တစ်ရွာအဖြစ် အထင်အရှားရှိနေသည်။)

(ကျမ်းကိုး၊ ယင်းစာ-၅၁)

ဆရာတော်သည် သဲဖြူတောအတွင်း ကန်ငယ်တစ်ခုအနီးတွင် ယာယီဝါးကျောင်းငယ်ကလေး ဆောက်လုပ်၍ သီတင်းသုံးနေတော်မူသည်။ ထိုကဲ့သို့ဆရာတော်သီတင်းသုံးနေထိုင်စဉ်အတွင်း ပတ်ဝန်းကျင်ကျေးရွာများဖြစ်သော တစ်ဖက်ကမ်းသို့ဆွမ်းခံ ထွက်လေ့ရှိသည်။ ဆွမ်းခံထွက်ရာတွင် ကုလားပိုင် မော်တော်ကလေးများဖြင့် အခမဲ့သွားလာမှုကို ပြုလုပ်ရသည်။ ဆရာတော်ဆွမ်းခံထွက်သည့်တစ်နေ့တွင် ၎င်းမော်တော်ပိုင်ရှင်ကုလားမှ "ခဏခဏစီးပြီးပိုက်ဆံလည်း တစ်ပြားမှ မပေးဘူး၊ မလိုက်နဲ့" ဟုပြောဆိုသဖြင့် ဆရာတော်မှ မည်သို့မျှပြန်လည်ပြောဆိုခြင်းမပြုဘဲ မော်တော်ပေါ်မှဆင်း၍ ရေပေါ်မှ. . . ဖြင့်ကြွသွားသည်ကို မော်တော်ပေါ်တွင်ပါသူအားလုံး မြင်တွေ့ကြရသဖြင့် ဖူးမြော်မဆုံး ကြည်ညိုမဆုံး ဖြစ်ကြရသည်ဟု ဆိုသည်။

(ကျမ်းကိုး၊ ယင်းစာ-၅၁)

ဆရာတော်ဦးဝါသဝ သဲဖြူတောတွင် (၃)နှစ်ခန့် တရားအလုပ်များကျင့်ကြံအားထုတ်နေစဉ်

http://www.dhammadownload.com



အတွင်း ပိတ္တာကလေးကျေးရွာတွင် ဝမ်းရောဂါများဖြစ်ပွားသဖြင့် တပည့်များမှ လိုက်လံ၍ ဆရာတော်ကြီးကို ပင့်တော်မူကြသည်။ ပိတ္တာလေးကျေးရွာသို့ ဆရာတော်ကြီး ပြန်လည်ကြွ ရောက်လာပြီး ရောဂါဘယဖြစ်သူများအား မေတ္တာရေများတိုက်ကျွေးသဖြင့် ရောဂါဘယဘေးမှ ပျောက်ကင်းချမ်းသာရာရကုန်ကြသည်။ ဆရာတော်ကြီးမှာလည်း ပိတ္တာလေးကျေးရွာတွင် အသက်ထက်ဆုံးနေထိုင်သွားတော်မူခဲ့သည်။

(ကျမ်းကိုး၊ ယင်းစာ-၅၂)

အေဒီ ၁၉၄၂ — သက္ကရာဇ် ၁၃၀၄ ခုနှစ်၊ နတ်တော်လဆုတ်(၅)ရက်နေ့တွင် ခန္ဓာဝန်ချ ဘဝနတ်နန်း စံမြန်း တော်မူခဲ့ပေသည်။

(ကျမ်းကိုး၊ ယင်းစာ-၅၂)

ဆရာတော်ကြီးမှာ ရောဂါဝေဒနာများ ဖိစီးခံစားနေစဉ်အတွင်း မိမိပျံလွန်တော်မူသည့်နောက်တွင် အလောင်းအား မည်သို့မျှ မပြုလုပ်ကြရန်နှင့် တစ်လကြာပါက မိမိပြန်လာမည်ဟုမိန့်ကြားခဲ့ပေ သည်။

သို့သော်လည်း ယင်းအချိန်တွင် အကြမ်းဖက်သောင်းကျန်းသူများကြီးစိုးနေချိန်ဖြစ်၍ အကြမ်း ဖက် သောင်းကျန်းသူအချို့မှ ရွာဦးထိပ်တွင် ဤကဲ့သို့ အလောင်းကြီးအားရက်ရှည်လများ မထားသင့်ကြောင်း မြန်မြန်သဂြိုဟ်ရမည်ဆိုသဖြင့် တပည့်ဒကာတို့မှာလည်း အကြမ်းဖက် သောင်းကျန်းသူများကို ကြောက်ရွံ့ရသောကြောင့် မီးသဂြိုဟ်ခြင်းအမှုကို အမြန်စီစဉ်လိုက်ကြ ရသည်။

ဤသို့ဖြင့် ဆရာတော်ကြီးအား နောက်ဆုံးမီးသဂြိုဟ်စဉ်အတွင်း ကျုံမငေးမှ တပည့် ဦးစစ် ကောက်ဆိုသူအမြန်ရောက်ရှိလာသည်။ ထိုမီးသဂြိုဟ်နေသော ဆရာတော်ကြီးမှာ ခြေထောက် ပိုင်းကျန်နေသေးသဖြင့် သွားများကျိုးနေသော ဦးစစ်ကောက်မှ အဓိဋ္ဌာန်ဖြင့် တဘက်နှင့်အုပ်၍ ခြေထောက်အားငုံ၍ ကိုက်လိုက်ရာ ခြေမတစ်ဖက် အလိုလိုပြုတ်ကျ၍ ရလိုက်သည်။

ထိုဆရာတော်ဦးဝါသဝ၏ ခြေတော်ကို ယနေ့ထက်တိုင် သိမ်းဆည်းထားသည်။ နှစ်စဉ် ဆရာ တော် ပျံလွန်တော်မူသည့် နတ်တော်လပွဲတော်ရက်အတွင်း ခြေမတော်ကိုဖူးကြရန်အတွက် စီမံ ဆောင်ရွက်ပေးကြသည်။

(ကျမ်းကိုး၊ ကျော်စိန်နု(ဝါးခယ်မ)၊ ဂန္ဓီရမဂ္ဂဇင်း၊ အမှတ်(၃)၊ စာ-၄၉)

http://www.dhammadownload.com



ခင်မွန်ဆရာတော်၏ တပည့်ရင်း ဂူဖြူဆရာတော်၏ တပည့်ရင်း
ဝိနည်းအလေးထား၍ ဓုတင် အမျိုးမျိုးဆောင်သော
ဝိနယဂရုကဓုတင်္ဂဓရ လဇ္ဇီသီလဝန္တအဖြစ် ထင်ရှားသော ရဟန်းထူး

# ကျောက်တန်း မဟာဗောဓိဆရာတော် အရှင်ကေလာသ

(၁၈၆၅ – ၁၉၄၆)



http://www.dhammadownload.com



ဝိနည်းအလေးထား၍ ဓုတင်အမျိုးမျိုးဆောင်သော ဝိနယဂရုက ဓုတင်္ဂရေ လဇ္ဇီသီလဝန္တအဖြစ် ထင်ရှားသည်။ အသက်ထက်ဆုံး မီးရထားကိုပင်မစီး၊ ခြေလျင်သာကြွလေ့ရှိသည်။ ဝိနည်းအကျော်ဂူဖြူတောရဆရာတော်နှင့် ခင်မွန် ဆရာတော်တို့၏တပည့်ဖြစ်သည်။

ကျမ်းကိုး၊ မောင်ဖေယျာ၊ ရှင်ကျော်တစ်ရာ (၁၆) ကျောက်တန်းမဟာဗောဓိဆရာတော် အရှင်ကေလာသ၊ သူရဋ္ဌမဂ္ဂဇင်း၊ ၅ နှစ်ပြည့်အထူးထုတ်၊ စာ-၆၇။

ဂူဖြူတောရဆရာတော်ထံစာလိုက်စဉ် မီးရထားမစီးရန် အလှူခံရာ တစ်သက်ပတ်လုံး တာဝန်ခံလှူဒါန်းခဲ့သည်။

(ကျမ်းကိုး၊ ယင်းစာ-၆၇)

ခင်မွန်ဆရာတော်၏ အမွေကို ဆက်ခံသောအားဖြင့် ဗောဓိပင်စိုက်ပျိုး၍ ဗောဓိဝတ်တည်ရာမှ မဟာဗောဓိ ဆရာတော်ဟုအမည်တွင်လာသည်။

(ကျမ်းကိုး၊ ယင်းစာ-၆၇)

အေဒီ၁၈၆၅ ခရစ်နှစ် ၁၈၆၅ ခုနှစ်၊ ဇွန်လ ၂၆ ရက် တနင်္လာနေ့တွင် ပဲခူးမြို့နယ်၊ သပြုရွာ၌ ဖွားသည်။ အဖ ဦးသာဒွန်း၊ အမိ ဒေါ်ပေအေးဖြစ်သည်။ မိဘများမှာ လယ်သမားဖြစ်သည်။ ငယ်မည် မောင်လူကြီးတွင်သည်။

(ကျမ်းကိုး၊ ယင်းစာ-၆၇)

အေဒီ၁၈၇၄ အသက်(၉)နှစ်အရွယ်တွင် သပြုရွာ၊ ဥတ္တရာရုံရွှေကျောင်းတိုက်ဆရာတော် ရှင်နာဂဝံသထံ ပညာသင်သည်။

ဖခင်ကွယ်လွန်၍ မိခင်ကိုလုပ်ကျွေးရန် လူဝတ်လဲသည်။ လယ်ယာလုပ်ငန်းဖြင့် မိခင်ကို လုပ်ကျွေးခဲ့သည်။ လူဝတ်ကြောင်ဘဝကို မပျော်ပိုက်၍ သာသနာ့ဘောင်ဝင်ရန် အမြဲ ကြံစည်ခဲ့သည်။

(ကျမ်းကိုး၊ ယင်းစာ-၆၇)

အေဒီ ၁၈၈၇ အသက်(၂၂)နှစ်အရွယ် ခရစ်နှစ် (၁၈၈၇) ခုနှစ်၊ မေလ (၃၁) ရက် အင်္ဂါနေ့တွင် သပြုရွာ၊ ဥတ္တရာရုံတိုက်၌ ရဟန်းပြုသည်။ ဥပဇ္ဈာယ်ဆရာမှာ ဇလွန်ဆရာတော် ရှင်ဝိဇယဖြစ်သည်။ ရဟန်းဘွဲ့ ရှင်ကေလာသဖြစ်သည်။

(ကျမ်းကိုး၊ ယင်းစာ-၆၇)

ရဟန်းဖြစ်စမှာပင် ပရိယတ်၊ ပဋိပတ်စွယ်စုံအားထုတ်သည်။ ပိဏ္ဍပါတ်ဓုတင်၊ တိစီဝရိက်ဓုတင်၊ ဧကာသနိက်ဓုတင်၊ ပတ္တပိဏ်ဓုတင်၊ ပံ့သကူဓုတင် အမျိုးမျိုးကိုဆောင်သည်။ထို့နောက် သပြေကန်ရွာအနီး ပုဂံတောင်ရွာ ရွှေကျောင်းတိုက်မုဒုံဆရာတော်ထံ ဒွေမာတိကာ၊ သဒ္ဒါ၊ သင်္ဂြိုဟ် ကျမ်းများ ထပ်မံသင်ယူသည်။

အေဒီ၁၈၈၈ ခရစ်နှစ် (၁၈၈၈) ခုနှစ်တွင် ဂန္ဓမာဘိသိရီကဝိဇ မဟာဓမ္မရာဇာဓိရာဇဂုရုဘွဲ့တံဆိပ်ရ ဟင်္သာတမြို့ မိုးကောင်းတိုက်ဆရာတော် ရှင်ဂန္ဓမာထံပြောင်းရွှေ့ ပညာဆည်းပူးသည်။ ဝိဘာဝနီမည်သော ဋီကာကျော်ကို အနက်မှန်း၍ ပါဠိရွတ်နိုင်သည်အထိ ကျေကျေညက်ညက် သင်ယူခဲ့သည်။ ဝိနည်း၊ သုတ္တန်၊ အဘိဓမ္မာပိဋကတ် သုံးသွယ်ကို အဋ္ဌကထာ၊ ဋီကာနှင့် တွဲ၍သင်ယူသည်။

(ကျမ်းကိုး၊ ယင်းစာ-၆၈)

မိုးကောင်းဆရာတော်ထံ စာလိုက်စဉ် ဂါရဝတရား ကြီးမားစွာ အရိုအသေပြု စာနာရာမှ အောက်ပိုင်းသေ ရောဂါရခဲ့သည်။ ရောဂါကို ကျုံပျော်မြို့သို့ ပြောင်းရွှေ့ကုသရာ ပျောက်ကင်းလျှင် မိုးကောင်းဆရာတော်ထံမှာပင် စာပေဆက်လက်သင်ယူသည်။

(ကျမ်းကိုး၊ ယင်းစာ-၆၈)

http://www.dhammadownload.com



အေဒီ ၁၈၉၂ ခရစ်နှစ် (၁၈၉၂) ခုနှစ်တွင် ပုသိမ်မြို့ မန်းကျောင်းဆရာတော်ထံ ပြောင်းရွှေ့ပညာသင်သည်။ ထိုစဉ်မန်း ကျောင်း ဆရာတော်၏ အမိန့်အရ ကျောင်းထိုင်ဘုန်းကြီး ကင်းမဲ့နေသော ငပုတောရွာတွင် ဝါတွင်းကျောင်းထိုင်သာသနာပြုသည်။

(ကျမ်းကိုး၊ ယင်းစာ-၆၈)

အေဒီ ၁၈၉၃ ခရစ်နှစ် (၁၈၉၃) ခုနှစ်တွင် မိခင်ရှိရာသပြုရွာပြန်၍ ဝါဆိုသည်။ (၁၈၉၄)ခုနှစ်တွင် ပဲခူးမြို့ ကမ္ဘဋ္ဌာန်း ကျောင်းဆရာ‌တော်ရှင်ပညာသီဟထံပြောင်း၍ ပရိယတ်စာပေပို့ချသည်။ ခရစ်နှစ် (၁၈၉၅) ခုနှစ်တွင် မန္တလေးမြို့မဟာဝိသုဒ္ဓါရုံ ဆရာတော်ထံ စာပေကျမ်းဂန် ဆက်လက် ဆည်းပူးသည်။

(ကျမ်းကိုး၊ ယင်းစာ-၆၈)

အေဒီ ၁၈၉၇ ခရစ်နှစ် (၁၈၉၇) ခုနှစ်တွင် ဥပဇ္ဈာယ်ဆရာတော်ထံပြန်၍ ပူဇော်ကန်တော့သည်။ ပဲခူးမြို့အနီး ကျောက်တန်းရွာ အနောက်ဘက် သီရိမင်္ဂလာဘုရားကိုးဆူတောရဆရာတော် ရှမ်းဘုန်းကြီး ရှင်မဏိထံဝါကပ်၍ တောရဆောက်တည်သည်။

(ကျမ်းကိုး၊ ယင်းစာ-၆၈)

ဝါကျွတ်လျှင် ဝိနည်းအရာအလွန်ထင်ရှားသော ပခုက္ကူနယ်ရေစကြိုမြို့အနီး ဂူဖြူတောရ ဆရာတော်ရှင်မေဓာထံ နည်းခံသည်။

(ကျမ်းကိုး၊ ယင်းစာ-၆၈)

ဂူဖြူဆရာတော်သည် ထိုစဉ်က စတင်ပေါ်ဆဲခါစ မီးရထားကို စီးအပ်၊ မစီးအပ် သံသယမကင်း ၍ မီးရထားမစီးရန် အလျှုခံရာ မီးရထားမစီးပါဟုလျှုဒါန်းခဲ့သည်။ နောင်အခါ ပဲခူး ကျောက်တန်းတွင် ဆရာတပည့်ပြန်လည်ဆုံစည်းရာ ရှင်ကေလာသက မီးရထားစီးအပ်၊ မစီးအပ်ကို ကျမ်းဂန် အထောက်အထားများအရ အာပတ်မထိုက်ကြောင်း လျှောက်ထား ဆွေးနွေးခဲ့သည်။ ဂူဖြူ ဆရာတော်သည် တပည့်ဖြစ်သူရှင်ကေလာသ၏ လျှောက်ထားချက်ကို ကျေနပ်၍ သံသယပျောက်သွားသည်။ သို့သော်ရှောင်လက်စနှင့် မီးရထားမစီးတော့ပါဘူးဟု မိန့်ရာ တပည့်ဖြစ်သူ ရှင်ကေလာသကလည်း ဆရာနှင့်အတူ မီးရထားစီးခြင်းကို တစ်သက်လုံး ရှောင်ကြဉ်ခဲ့သည်။

(ကျမ်းကိုး၊ ယင်းစာ-၆၈)

အေဒီ ၁၈၉၉ ခရစ်နှစ် (၁၈၉၉) ခုနှစ်တွင် သုံးဂိုဏ်းချုပ်၊ ခင်မွန်ဆရာတော် ရှင်ဇာဂရထံ ပြောင်းရွှေ့နည်းခံ သည်။ ခင်မွန်ဆရာတော်မှာ ဂူဖြူဆရာတော်ကဲ့သို့ ဝိနည်းအလေးထားသည်။ ပရိယတ်၊ ပဋိပတ် စွယ်စုံ ထင်ရှားသည်။ ရွှေကျင်နိကာယကို ရွှေကျင်ဆရာတော်ရှင်ဇာဂရနှင့်တွဲ၍ စောင့်ရှောက် ခဲ့သည်။

(ကျမ်းကိုး၊ ယင်းစာ-၆၈)

အေဒီ ၁၉၀၂ ခရစ်နှစ် (၁၉၀၂) ခုနှစ်တွင် ခင်မွန်ဆရာတော်ထံမှခွာ၍ ဇာတိသပြုရွာပြန်ကြွသည်။ သပြုရွာ တစ်ဖက်ကမ်း ဒါးပိန်ရွာ အရှေ့တောရကျောင်း၌ သီတင်းသုံးသည်။

(ကျမ်းကိုး၊ ယင်းစာ-၆၈)

အေဒီ ၁၉၂၆ သံဃာ (၃၀) ခန့်ရှိရာ ယင်းသံဃာတပည့်ငယ်များတွင် နောင်အခါ မေဓာဝီဆရာဆိုင်ဟု ထင်ရှားမည့် ကိုရင်ငယ်တစ်ပါး ပါဝင်သည်။ ကိုရင်မေဓာဝီသည် ရဟန်းဘဝ(၁၉၂၆-၂၇)တွင် သစ္စာဝါဒီ သတင်းစာတိုက်ပိုင်ရှင် မင်းတိုင်ပင်အမတ်ဦးလွန်း၏ သစ္စာဝါဒီဋီကာရွှေတံဆိပ်ရ၍ ဆဋ္ဌသင်္ဂါယနာတင်ချိန်တွင် ပါဠိဆရာကြီးဆရာဆိုင်အဖြစ် ထင်ရှားသည်။

(ကျမ်းကိုး၊ ယင်းစာ-၆၈)

http://www.dhammadownload.com



ရှင်ကေလာသသည် ခင်မွန်ဆရာတော်နှင့် ဂူဖြူဆရာတော်တို့၏ နိဿယအတိုင်း ဝိနည်းအလေးထား၍ သာသနာပြုသည်။

(ကျမ်းကိုး၊ ယင်းစာ-၆၈)

အေဒီ ၁၉၀၄ ခင်မွန်ဆရာတော်၏ အမွေကို ဆက်ခံသောအားဖြင့် ခရစ်နှစ် (၁၉၀၃) ခုနှစ်တွင် ဗောဓိပင်စိုက်ပျိုးရာ မဟာဗောဓိကျောင်း၊ မဟာဗောဓိဆရာတော်ဟု အမည်တွင်လာသည်။ ခရစ်နှစ် (၁၉၀၄) ခုနှစ်တွင် ကွမ်းခြံကုန်းသုံးခွမြို့နှင့် (၅)မိုင်ကွာ ဝါးကောက်တောရွာအနီး မဟာဝုန်တောရတိုက် မဟာဝုန်တောရ ဆရာတော်ထံ မှီခိုသီတင်းသုံးသည်။

(ကျမ်းကိုး၊ ယင်းစာ-၆၈)

အေဒီ ၁၉၀၅ ခရစ်နှစ် (၁၉၀၅) ခုနှစ်တွင် ရန်ကုန်မြို့ကျိုက္ကဆံ ဆရာတော်၏ အမိန့်အရ ကျောက်တန်းရွာသီရိမင်္ဂလာ ဘုရားကိုးဆူတောရတွင် နောက်ပါတပည့် (၆) ပါးနှင့်အတူ သီတင်းသုံး သာသနာပြုသည်။

ခရစ်နှစ် (၁၉၀၆) ခုနှစ်တွင် အိန္ဒိယမှ မဟာဗောဓိပျိုးပင်ရရှိ၍ မဟာဗောဓိပင်စိုက်တည်သောပွဲတော် ကျင်းပသည်။ ယင်းပွဲတော်သို့ ရွှေကျင်သာသနာပိုင် မဟာဝိသုဒ္ဓါရာမဆရာတော်၊ ဂူဖြူတောရ ဆရာတော်၊ ကျိုက္ကဆံဆရာတော်တို့ ကြွရောက်ချီးမြှင့်သည်။

(ကျမ်းကိုး၊ ယင်းစာ-၆၈)

နောက်ပိုင်းတွင် မဟာဗောဓိဆရာတော်သည် စာသင်စာချပရိယတ်တာဝန်များကို တပည့်ကြီးများအား လွှဲအပ်၍ ပဋိပတ်ကို အချိန်ပြည့်ကြိုးပမ်းဆောင်ရွက်သည်။

(ကျမ်းကိုး၊ ယင်းစာ-၆၈)

အေဒီ ၁၉၁၉ ခရစ်နှစ် (၁၉၁၉) ခုနှစ်တွင် မြန်မာနိုင်ငံအောက်ပိုင်း၊ ရွှေကျင်သာသနာပိုင် ကျိုက္ကဆံဆရာတော် ရှင်ဥတ္တမ (၁၈၅၂-၁၉၁၈) ပျံလွန်ရာ ဂိုဏ်းတာဝန်ပေးအပ်ချက်အရ ရန်ကုန်မြို့၊ ကျိုက္ကဆံ သဒ္ဓမ္မပဇ္ဇောတာရုံ ကျောင်းတိုက်၌ (၄)ဝါသီတင်းသုံးသည်။

အေဒီ ၁၉၂၁ ခရစ်နှစ် (၁၉၂၁) ခုနှစ်တွင် အုန္နဲရွာ ဒက္ခိဏာရုံကျောင်း၊ သဖြူရွာ၊ ဥတ္တရာရုံရွှေကျင်တိုက်များကိုလက်ခံ၍ တပည့်များအားလွှဲအပ်သာသနာပြုသည်။

(ကျမ်းကိုး၊ ယင်းစာ-၆၈)

အေဒီ ၁၉၂၃ ခရစ်နှစ် (၁၉၂၃) ခုနှစ်တွင် မဟာဗောဓိကျောင်းတိုက်သို့ ပြန်လည်ပြောင်းရွှေ့၍ စာပြန်ပွဲများဦးဆောင်ကျင်းပခြင်း၊ ဝိနည်းအလေးထား၍ ပရိယတ်ပဋိပတ် သာသနာပြုရာ ကျောက်တန်းမဟာဗောဓိ ဆရာတော်ဟူ၍ ထင်ရှားခဲ့သည်။

အေဒီ ၁၉၄၆ သက်တော် (၈၁)၊ ဝါတော် (၅၉) ဝါအရ ခရစ်နှစ် (၁၉၄၆) ခုနှစ်၊ မတ်လ (၁၃) ရက်နေ့နံနက် (၇း၄၀) နာရီတွင် ဒါးပိန်ရွာ မဟာဗောဓိတောရ၌ တစ်ဘဝတစ်ခန်းခွာ ချုပ်ငြိမ်းခဲ့ပါသည်။

ကျမ်းကိုး၊ မောင်ဇေယျာ၊ ရှင်ကျော်တစ်ရာ (၁၆) ကျောက်တန်းမဟာဗောဓိဆရာတော် အရှင်ကေလာသ၊ သူရဋ္ဌမဂ္ဂဇင်း၊ ၅ နှစ်ပြည့်အထူးထုတ်၊ စာ-၆၇။

ကျမ်းကိုး။ ရွှေဟင်္သာ ဆရာတော်ဘုရားကြီး၊ ရွှေကျင်သာသနာဝင်။

http://www.dhammadownload.com



ယနေ့တိုင် ပုပ်သိုးခြင်း မရှိသော

# ရန်ကုန်မြို့ ဟော်ကားတောရကျောင်း ဆရာတော် ဦးရေဝတ

(၁၈၆၆ – ၁၉၅၉)



http://www.dhammadownload.com



အင်္ဂလိပ်မြန်မာ ဒုတိယစစ်ပွဲ ဖြစ်ပွားပြီးသည့်နောက် နယ်ချဲ့တို့သည် ရန်ကုန်မြို့ကို အခြေပြု၍ နေထိုင်ကြသည်။ ထိုအချိန်တွင် အထက်မြန်မာနိုင်ငံ၌လည်း မြန်မာဘုရင်များ မြန်မာစာဆိုများ ရှိနေသေးသည်။ ထိုသို့သောအချိန်တွင် အင်္ဂလိပ်ပိုင် ရန်ကုန်လှော်ကားကန် တစ်နေရာတွင် လည်း ဦးရေဝတအမည်ရှိသော အရှည်ဝါသီ ဆရာတော်ကြီးသည် သမထ ဝိပဿနာ ဘာဝနာ များ ထိထိရောက်ရောက် အားထုတ်လျက်ရှိသည်။ ထိုအချိန်တွင် ဆရာတော်ကြီး၏ တပည့် တစ်ဦးရှိသေးရာ ထိုတပည့်မှာလည်း အမြင်အကြား အထင်အရှား ဖြစ်ပေ၏။ ဆရာတော် ဦးရေဝတအကြောင်းကို သေချာစွာ ပြန်လည်ပြောကြားနိုင်ကြောင်း မှတ်တမ်းများ ဖတ်ရှု ရပါသည်။

ဆရာတော်ကြီးမှာ မျက်စိအာရုံ၊ နားအာရုံများ ချို့ယွင်းနေတော်မူရှာသည်။ တိုက်ကျောင်း အတွင်းရှိ တိုင်များတွင် ဆရာတော်ကြီးအားပြု စင်္ကြံလျှောက်နိုင်ရေးအတွက် နိုင်လွန်ကြိုးကို လမ်းပြ ကြိုးတန်းကြီးအဖြစ်ထားရှိသည်။

အေဒီ ၁၉၉၂ ဆရာတော်ဘုရားကြီး ဦးပဏ္ဍိတ သက်တော် (၈၂) ဝါတော်(၆၂)ဝါသည် မိတ္ထီလာနှင့် ကျောက်ပန်းတောင်း နယ်စပ်တွင် တည်ရှိသည့် တောင်ဦး ရေငန်ရွာဇာတိ ဖြစ်သည်။

ကျမ်းကိုး၊ ဗိုလ်ချုပ်အောင်ဆန်း မြတ်ဘုန်းခေါင်စေတီတည်ရာ လှော်ကားတောရကျောင်း အောင်မြေ၊ မင်းကိုကို၊ သူရဇ္ဇမဂ္ဂဇင်း၊ ၂၀၀၅ ခုနှစ်၊ ဧပြီလ၊ စာ - ၂၇။

အေဒီ ၁၉၂၅ အသက်တစ်ဆယ့်ငါးနှစ်သား ရှင်သာမဏေဘဝကတည်းက ဤလှော်ကားကျောင်းတိုက် ဝင်းတည်ရာ အောင်မြေသို့ ရောက်ရှိသီတင်းသုံးနေတော်မူခဲ့ခြင်း ဖြစ်ပါသည်။

ဆရာတော်ကြီးသည် ရန်ကုန်သို့ငါးနှစ်သားကတည်းက ရောက်ရှိနေခဲ့သည်။ ရန်ကုန်မဟာ အောင်မြေဘုံစံမှာ နေခဲ့သည်။ ရွှေတိဂုံဘုရားခြေရင်းအနီးက အောင်မြေဘုံကျော်တွင် နေထိုင် သီတင်းသုံးရင်း မူလစမ္မာစရိယရခဲ့သည်အထိ သင်ကြားအောင်မြင်တော်မူခဲ့သည်။

အေဒီ ၁၉၁၀ ဆရာတော်မှာ သက္ကရာဇ် ၁၂၇၉ ခုနှစ်၊ နယုန်လတွင် ဖွားမြင်တော်မူခဲ့သူဖြစ်၏။

အေဒီ ၁၉၄၂ သက္ကရာဇ် ၁၃၀၄ ခုနှစ်၊ နတ်တော်လတွင် ရဟန်းအဖြစ်သို့ ရောက်တော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၇

အထက်ပါ အချက်များမှာ ဦးရေဝတ ပုဂ္ဂိုလ်ထူး အကြောင်းကို ပြန်လည်ပြောဆိုသော ပုဂ္ဂိုလ်ထူး ဦးပဏ္ဍိတ၏ အကြောင်းများ ဖြစ်ပေသည်။

ဆရာတော်ဦးပဏ္ဍိတမှာ အကြားအမြင်အာရုံများချို့ယွင်းနေသော်လည်း ကျောင်းသို့လာသူ ဒကာများစက်ဘီးနှင့် လာသည်၊ ကားနှင့်လာသည်၊ ခြေလျင်လာသည်စသည်တို့ကို တိတိပပ ပြောနိုင်စွမ်းအားရှိနေသည်မှာ ထူးခြားလွန်းလှပါသည်။

တောင်ကုန်းပေါ်တွင် တည်ထားသည့် ဗိုလ်ချုပ်အောင်ဆန်းမြတ်ဘုန်းခေါင်စေတီမြတ်ကြီးတွင် ထုံးသုတ်နေကြစဉ် ဆရာတော်သည် တိုက်ကျောင်းတွင် သီတင်းသုံးတော်မူနေရာက မည်သည့် နေရာကွက်နေကြောင်း၊ လိုနေသေးကြောင်းပြောရာ ပြန်၍ ကြည့်သူများ တအံ့တသြဖြစ်ကြ ရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၀

သာမညတောင်တော်သို့ သွားရောက်စဉ်က သာမညရောက်သည်နှင့် ဦးပဏ္ဍိတမည်သည့် နေရာ ကြွသွားသည်မသိ၊ ပါလာသည့်တပည့်များက စိတ်ပူ၍လိုက်ရှာကြရာ ရှာမတွေ့ဘဲဖြစ်နေခဲ့ရ သည်။ ပြန်ချိန်တန်သည်တွင်မှ မြတ်စောညီနောင်စေတီတော်အနီး သာမညဆရာတော်ကြီး က သက်န်းတစ်စုံ၊ ထီးတစ်လက်၊ ဖိနပ်တစ်ရန်၊ မျက်နှာသုတ်ပဝါတစ်ထည်နှင့်

http://www.dhammadownload.com



ငွေကျပ်ငါးရာကို ဦးပဏ္ဍဝအား လှူဒါန်းခဲ့သည်ကို တွေ့ခဲ့ရကြောင်းဦးကိတ္တိသာရ ပြောပြသဖြင့် သိခဲ့ရသည်။

တပည့်ဖြစ်သူ ဦးပဏ္ဍဝ ရဟန်းထူး၏ ထူးခြားပုံကို သာမညဆရာတော်ကြီးကိုယ်တော်တိုင် အသိအမှတ်ပြုတော်မူကြောင်း မှတ်တမ်းရှိပါသည်။ သာမညဆရာတော်က ဦးပဏ္ဍဝကို ရဟန်းထူးဟု ဆိုပါ၏။ ရဟန်းထူး ဦးပဏ္ဍဝက ဆရာရင်းဖြစ်သော လှော်ကားကန် အရညဝါသီ ဦးရေဝတကို ရဟန်းထူး ရဟန်းမြတ်ဟု ဆိုပါ၏။ တရားထူးများ ပေါက်မြောက် အောင်မြင်သူဟု ဆိုပါ၏။

ဆရာတော်ဦးပဏ္ဍဝပြောပြချက်အရ လှော်ကားတောရကျောင်းတိုက် အောင်မြေကိုစတင် တွေ့ရှိကာ တောရကျောင်းတည်ထောင်ခဲ့သူမှာ ဆရာတော်ဦးရေဝတပင် ဖြစ်သည်။

အေဒီ ၁၉၁၀ ဆရာတော်ဦးရေဝတသည် သက္ကရာဇ် ၁၂၇၂ တွင် တောထွက်ခဲ့သည့် အရိယာနွယ်ဝင် တစ်ပါး ဖြစ်သည်။ ကျောင်းကုန်း၊ လှော်ကား၊ စမ်းချောင်း၊ ပြည်တော်သာရပ်များတွင် သီတင်းသုံးရင်း တရားကျင့်ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၀

ဆရာတော်ဦးရေဝတသည် လှော်ကားတောရအောင်မြေအတွင်း တည်ရှိသည့်ခပ်မြင့်မြင့် ကုန်း တော်ပေါ်တွင် စေတီတော်မြတ်တစ်ဆူကို တည်ထားခဲ့သည်။ ထိုစေတီတော်မှာ ရှေးဟောင်း စေတီတော်ဟုပြော၍ ရနိုင်ပါသည်။ မူလစေတီပျက်နေရာကို ခုတ်ထွင်ရှင်းလင်းတူးဖော်၍ ရရှိခဲ့သည့်ဓာတ်တော်တို့ကို ဌာပနာ၍ မူလနေရာတွင် ပြန်တည်ထားခဲ့ခြင်း ဖြစ်ပါသည်

အေဒီ ၁၉၂၃ ဇိနမာန်အောင် မြတ်ဘုန်းခေါင်စေတီတော်မြတ်ကြီးကို ပြန်လည်တည်ခဲ့ရာ သက္ကရာဇ် ၁၂၈၅ ခုနှစ်၊ တပို့တွဲလတွင်ပြီးစီးခဲ့သည်။ စေတီတော်ရင်ပြင်တော်ပေါ် စေတီတော်၏ မြောက်ဘက် တွင် သစ္စာမဏ္ဍိုင်ထီးတော်ရှင်အေးစေတီနှင့် ဆရာတော် ဦးရေဝတ၊ ဆရာတော်ဦးပဏ္ဍဝတို့၏ ရုပ်တုတော်များကို ဖူးတွေ့ကြရသည်။

ရှေးအခါက စေတီတော်မြတ်ကြီး တည်နေရာသည် တောနက်သဖြင့် ဆင်များ၊ ကျားများပင် ရှိခဲ့သည့်နေရာဖြစ်ပြီး လိပ်ပုတ်ချောင်းဖျား ဖွဲ့ဘုရား ရွှေလှည်းကိုးစီး၊ ငွေလှည်းကိုးစီး ဟူသည့် စကားစုကလည်း လှော်ကားပတ်ဝန်းကျင် ပျံ့နှံ့နေခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၀)

ဇိနမာန်အောင် မြတ်ဘုန်းခေါင်စေတီတော်မြတ် သီတင်းသုံးရာ လှော်ကားတောရကျောင်းတိုက် အောင်မြေသည်ကား သာမန်အောင်မြေတစ်ခုတော့မဟုတ်ပါပေ။ တောရဆောက်တည်ကာ ဓုတင်အကျင့် ကျင့်ကြံပွားများရင်း အောင်လမ်းအရောက်မြန်းသွားနိုင်ခဲ့သည့် ဆရာတော် ဦးရေဝတဖွင့်ဆိုဖော်ကျူးကာ တည်ထားခဲ့သည့်အောင်မြေအစစ် အမှန်တစ်နေရာသာဖြစ်ပါ သည်။

အေဒီ ၁၉၁၀ ဇမ္ဗူဒီပမြေတွင် အကြောင်းဝဋ္ဋာလာပြရသည်မှာ တစ်ဆူပရမေရှင် အလောင်း အလျာတမျှ ထေရ်ဆရာ။ သက္ကရာဇ် (၁၂၇၂) ခု၊ ဝါဆိုလပြည့်၊ ဗုဒ္ဓဟူးမှာ မွေးနံကြုံလာတောထွက်ခဲ့တာ ထူးပေတစ်မျှ မြေမဟာမှာ ဦးရေဝတထေရ်ဆရာတည်ထားတဲ့ တောဝိဟာ ဟုဆိုပါသည်။

အရညဝါသီအဖြစ် တောထွက်လာခဲ့သည့် ဆရာတော်ဦးရေဝတသည် လှော်ကားတောရ တိုက်ဝင်းအတွင်းမှာပင် ဓုတင်အကျင့်ကို ကျင့်ကြံအားထုတ်ခဲ့သည်။

ရဟန်းတော် ဦးရေဝတ ဈာန်ပျံသည်ဟုပင် အများက ပြောဆိုသံများကြောင့် လူသိများလှ၏။ လေယာဉ်ပျံမောင်းသူ အချို့ကပင် ဆရာတော်အား ဈာန်နှင့်ကြွသွားကြွလာလုပ်သည်ကို

http://www.dhammadownload.com



ဖူးမြင်တွေ့ရပါသည် ဟုဆိုသည်။ လူအတော်များများက ဆရာတော် ဦးရေဝတကို ရဟန္တာဟု သမုတ်ခဲ့ကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၁

အေဒီ ၁၉၄၉ ဆရာတော်ဦးရေဝတသည် သက်တော်(၈၃)နှစ်၊ ဝါတော်(၆၄)ဝါ၊ သက္ကရာဇ် (၁၃၁၁) ခုနှစ်၊ ဝါဆိုလဆန်း (၁၂) ရက်နေ့တွင် ပျံလွန်တော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၁

ထိုအခါ တပည့်ဖြစ်သူ ဦးပဏ္ဍဝက ဆက်လက်၍ တောရကျောင်းကို ထိန်းသိမ်းစောင့် ရှောက်ခဲ့ပါသည်။ ထိုဆရာတော်ကြီး ဦးပဏ္ဍဝသည် မျက်စိလည်း မမြင်ပါ။ နားလည်း မကြားပါဘူးဟု ဆိုပါသည်။ သို့သော် အမြင်အကြား အထင်အရှား ပြည့်စုံသည်ဟု ဆိုပါသည်။

သိဒ္ဓိ၊ မဟိဒ္ဓိအစွမ်းများရရှိကာ အောင်လမ်းသို့ ထွက်ခွာသွားခဲ့သည့် ဆရာတော်ဦးရေဝတ။ ယခုလက်ရှိသက်တော်(၈၀)ကျော်နေပြီး အမြင်အာရုံ၊ အကြားအာရုံချို့ယွင်းနေပါလျက် အသိအာရုံဖြင့် အကြားဓာတ်၊ အမြင်ဓာတ်များကို ရရှိခံစားနေသည့် ဆရာတော်ဦးပဏ္ဍဝတို့ အစဉ်အဆက် အောင်လမ်းမြန်းနိုင်ရန် ကျင့်ကြံအားထုတ်ခဲ့ရာနေရာဖြစ်သည့် လှော်ကားတောရအောင်မြေသည်ကား သိဒ္ဓိ၊ မဟိဒ္ဓိသြဇာဓာတ်များဖြင့် လွှမ်းခြုံနေသည့် အောင်မြေမှန်ရာနေရာ တစ်နေရာ ဖြစ်ခဲ့ရပါသည်။ ထိုအောင်မြေသည် ဧကနှစ်ဆယ်ကျော် ကျယ်ဝန်းသည်ဟု သိရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၁

အေဒီ ၁၉၁၄ လျောင်းတော်မူဆင်းတုတော်ကြီးတစ်ဆူရှိပြီး သက္ကရာဇ် ၁၂၇၆ ခုနှစ်ကတည်းက တည်ထားခဲ့သည်။ ရှေးဟောင်း သစ်သားကျောင်းကြီးမှာ ဆရာတော် ဦးရေဝတ သီတင်းသုံးတော်မူသည့် ကျောင်းဟုသိရသည်။

ပုံပြင်မဟုတ်သော ဖြစ်ရပ်မှန်အဖြစ် လူသိများသော ဖြစ်ရပ်မှာ အောက်ပါအတိုင်း ဖြစ်၏။ ဤအောင်မြေတည်ရာ၏ မြောက်ဘက်ကုန်းအလွန်တွင် တစ်ချိန်က ကျတ်ကုန်းအဖြစ် လူသိထင်ရှားအပြောများခဲ့ကြောင်းပင်။ တစ်ခါက လှော်ကား ရွာသားတစ်ယောက် မှော်ဘီဘက်သို့ ပွဲဈေးရောင်းရန် ဖိနပ်ထုပ်ကြီးထမ်းအလာ ယခု အောင်မြေတည်ရာအလွန် မြောက်စူးစူးသို့အရောက်တွင် လူစည်ကားသည့်ပွဲကြီးတစ်ပွဲနှင့်ဆုံရသဖြင့် ဖိနပ်များ ထုတ်ရောင်းခဲ့ရာ အလွန်ရောင်းကောင်းခဲ့သည်။

ညဉ့်နက်လာသဖြင့် ပိုက်ဆံများထည့်ထားသည့် ငွေထုပ်ကိုပိုက်ကာ ပွဲအတွင်း အိပ်လိုက်သည်။ အိပ်ရာမှနိုးလာတော့ နေထွက်နေပြီဖြစ်သည်။ ပွဲနှင့်တူသော အစအနမျှမတွေ့တော့။ ဖိနပ်များကို အနီးအနားချုံပင်များပေါ် လိုက်ကောက်ရသည်။ လွယ်အိတ်ထဲတွင်ကား သစ်ရွက်ခြောက်များအပြည့်ဖြစ်နေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၃

ရဟန်းထူး ဦးရေဝတ၏အောင်မြေကို အောက်ပါအတိုင်း မှတ်တမ်းရှိ၏။

အရောက်သွားလိုသူများ ရွှေပြည်သာမြို့သစ် လှော်ကားတာဆုံအရောက် အင်းစိန်လှော်ကားကားများ၊ ကွန်ပျူတာတက္ကသိုလ်လိုင်းကားများစီးကာ တာဆုံမှထောက်ကြန့်ဘက်ဆွဲသည့် လိုင်းကားများစီးပါက ရောက်နိုင်ပါသည်။

http://www.dhammadownload.com



အထက်ပါအချက်များမှာ ရဟန်းထူး ဦးရေဝတအကြောင်း ခေတ်ပြိုင်မှတ်တမ်း ကောက်နုတ်ချက်များဖြစ်၏။ နောင်သောအခါ သုတေသီတို့သည် တစ်ဆင့်စကား မဟုတ်သော မှတ်တမ်းများကို အလိုရှိကြပေလိမ့်မည်။ ဤသို့သော သူများအတွက် မှတ်တမ်းများ စုဆောင်းတင်ပြလိုက်ရပါသည်။

ကျမ်းကိုး၊ ဇိနမာန်အောင် မြတ်ဘုန်းခေါင် စေတီတည်ရာ လှော်ကားတောရကျောင်း အောင်မြေ၊ မင်းကိုကို၊ သူရဋ္ဌမဂ္ဂဇင်း၊ ၂၀၀၅ ခုနှစ်၊ ဧပြီလ၊ စာ - ၂၇။

http://www.dhammadownload.com



ရခိုင်တိုင်းရင်းသား မြန်မာနိုင်ငံ နယ်ချဲ့ခေတ် ပြည်ထဲရေးဝန်ကြီး ဖြစ်လာသည့်
ဆာပေါ်ထွန်း၏ အစ်ကိုဖြစ်သော တရားထူး တရားမြတ်ရသော အရိယာသူတော်စင်ကြီး

# ရွှေတောင်မြို့ အမ္ဗာရာမကျောင်းတိုက်ဆရာတော်
# ဦးတိက္ခိန္ဒြိယ

(၁၈၃၀ – ၁၉၄၁)



http://www.dhammadownload.com



ညီဖြစ်သူ ဆာပေါ်ထွန်းဆိုသူမှာ မြန်မာနိုင်ငံရေးသမိုင်းတွင် အရေးပါသောသူဖြစ်၏။ အစ်ကိုဖြစ်သူက တရားထူးရသော ရဟန်းထူးဖြစ်သွား၏။ အခြားတစ်ယောက်က ဝန်ကြီးချုပ်ဖြစ်သွား၏။ ကုသိုလ်ကံချင်းမတူကြချေ။ ဤသို့သောအချက်ကို ရွှေတောင်ဆရာတော်ထံမှ သင်ခန်းစာ ရရှိပါသည်။

ရွှေတောင်ဆရာတော်တည်ထောင်ခဲ့သော ကြံခင်းမြို့ ကံကလေးတောရကျောင်းတွင် ဆက်လက်ဆက်ခံသော ဦးအဂ္ဂဝံသဆိုသော ရဟန်းထူးမှာ မူလပထမက မသိကြသော်လည်း ခန္ဓာဝန်ချသောအခါမှာ ဓာတ်တော်များ ကျတော်မူသဖြင့် ရဟန္တာကြီးဖြစ်ကြောင်း သိရ၏။ ထိုကျောင်း၏သမိုင်းကြောင်းနှင့်တကွ ထိုဓာတ်တော်ကျ ရဟန္တာကြီး၏ နောက်ကြောင်းသမိုင်းကြောင်းတို့ကို ရှာဖွေကြည့်သောအခါ ရွှေတောင်ဆရာတော်ကို ခြေရာကောက်ခံနိုင်ခဲ့လေသည်။

ရွှေတောင်ဆရာတော်မှာ သက်ရှိထင်ရှားရှိစဉ်အခါက မဂ်တရား ဖိုလ်တရားရအောင် တရားထူး၊ တရားမြတ် ရှာလိုသူများ တရားပေါက်သည်အထိ ကူညီပါမည်ဟူသော အနေအထားပါသော စာပိုဒ်တစ်ပိုဒ်ကို ဖတ်ဖူးသည်ကို သတိရပါသည်။ ထိုစာသားမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

ယခု ပစ္စက္ခဘဝ၌ ကျွတ်ထိုက်သူဝေနေယျအပေါင်းကို သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ် ရဟန္တာအဖြစ်ရောက်နိုင်ရန် အမြဲမြဲသို့လှည့်လည်၍ တရားဓမ္မဆုံးမသူအဖြစ် ပုံတော်ထည့်၍ ကြော်ငြာသည်ကို ဖတ်ရှုရပါသည်။

ကျမ်းကိုး၊ အရှင်တိက္ခိန္ဒြိယ၊ ရေးသား စီရင်အပ်သော သမုပ္ပါဒနိရောဓကျမ်း၊ ပထမတွဲ၊ ဒုတိယအကြိမ် ရိုက်နှိပ်ခြင်း၊ ဗုဒ္ဓသာသနာအဖွဲ့၊ ကမ္ဘာအေး၊ နိဒါန်းစာကို ကြည့်ပါ။

အထက်ပါစာတွင် အောက်ပါအတိုင်း ကြော်ငြာထားကြောင်း ဖတ်ရှုရပါသည်။

မည်သည့်မြို့ကမဆို တရားဓမ္မကို သိလိုနာခံမှတ်သားလေ့ကျက်လို၍ပင့်ခေါ်လျှင် အကြောင်းညီညွတ်လျှင် ခွင့်ပေးပါကြောင်း၊ မြတ်စွာဘုရား သာသနာတော် ပွင့်လင်းကြဖို့ရာ အကျိုးဆောင်လျက် အစဉ်ရှိပါကြောင်း၊ သမထ ဝိပဿနာတရားအလုပ်ကို ကျနစွာ လုပ်လိုသူ အပေါင်းတို့သည် ရွှေတောင်မြို့ ရှမ်းတန်းထိပ်၊ အမ္ဗာရာမတိုက်သို့ လာရောက်၍ တရားအလုပ် ကြိုးစားတော်မူရန် တိုက်တွန်းလိုက်ပါသည်။

ကျမ်းကိုး၊ အရှင်တိက္ခိန္ဒြိယ၊ ရေးသား စီရင်အပ်သော သမုပ္ပါဒနိရောဓကျမ်း၊ ပထမတွဲ၊ ဒုတိယအကြိမ် ရိုက်နှိပ်ခြင်း၊ ဗုဒ္ဓသာသနာအဖွဲ့၊ ကမ္ဘာအေး၊ နိဒါန်းစာကို ကြည့်ပါ။

ဆရာတော်၏ ငယ်နာမည်မှာ မောင်သာမဦး ဖြစ်၏။ ကိုရင်အမည်မှာ ကိုရင်တိဿ ဖြစ်၏။

ကျမ်းကိုး၊ ယင်းကျမ်း အတ္ထုပ္ပတ္တိစာတမ်းကို ကြည့်။

ဆရာတော်၏ ဆရာမှာ နာဇီဆရာတော်ဟု အမည်တော်ရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း အတ္ထုပ္ပတ္တိစာတမ်းကို ကြည့်။

ပညာသင်ဆရာမှာ ရန်ကုန်မြို့ ကျောင်းတော်ရာ ရွှေကျင်ဆရာတော်ဖြစ်၏။

ကျမ်းကိုး၊ ယင်းကျမ်း အတ္ထုပ္ပတ္တိစာတမ်း၊ စာမျက်နှာ ခ ကိုကြည့်။

ငယ်စဉ်အခါက သီဟိုဠ်၌ ငါးနှစ် သီတင်းသုံးတော်မူခဲ့၏။

ကျမ်းကိုး၊ ယင်းကျမ်း အတ္ထုပ္ပတ္တိစာတမ်း၊ စာမျက်နှာ ခ ကိုကြည့်။

http://www.dhammadownload.com



သီဟိုဠ်၌ သီတင်းသုံးစဉ် သီဟိုဠ် ဒက္ခိဏသာခါ ဗောဓိပင် ဘုရားဂုဏ်တော်ကို အာရုံပြုလျက် လွန်စွာ ကြည်ညိုလှသဖြင့် လက်ဝဲ လက်ညှိုးကို ဖြတ်လျက် ဆီစွတ်သော အဝတ်ဖြင့် ပတ်လျက် ဒက္ခိဏသာခါ ဗောဓိပင်အား ဆီမီး ပူဇော်ခဲ့ပါသည်။

ကျမ်းကိုး။ ယင်းကျမ်း အဌ္ဌုပ္ပတ္တိစာတမ်း၊ စာမျက်နှာ ခ ကိုကြည့်။

စစ်တွေသို့ အရောက်တွင် မကျန်းမာသဖြင့် လူထွက်ခဲ့ပြန်၏။

ကျမ်းကိုး။ ယင်းကျမ်း အဌ္ဌုပ္ပတ္တိစာတမ်း၊ စာမျက်နှာ ခ ကိုကြည့်။

၎င်းနောက် သံဝေဂရ၍ ရသေ့ပြုလုပ်ပြန်၏။ မဟာမြိုင်တော၌ တရားအားထုတ်နေခဲ့၏။ ၎င်းနောက် စစ်ကိုင်းသို့ ကြွခဲ့၏။ သမ္ဗုဏ္ဏာရာမကျောင်း၌ သီတင်းသုံးတော်မူခဲ့၏။

ကျမ်းကိုး။ ယင်းကျမ်း အဌ္ဌုပ္ပတ္တိစာတမ်း၊ စာမျက်နှာ ခ ကိုကြည့်။

၎င်းနောက် ကြံခင်း၊ ကံကလေးတောရသို့ ကြွတော်မူ၏။ ထိုအခါ ရွှေကျင်ဆရာတော်ကြီး ညောင်တုန်း ရွှေဟင်္သာတောရ ဆရာတော်ကြီးက ကိုရင်တိဿအား အမည်ပြောင်း၍ ဦးတိက္ခိန္ဒြိယ ဟူသော ဘွဲ့ကို ပေးသနားတော်မူ၏။

ကျမ်းကိုး။ ယင်းကျမ်း အဌ္ဌုပ္ပတ္တိစာတမ်း၊ စာမျက်နှာ ခ ကိုကြည့်။

ထိုအရှင်မြတ်သည် ကြိမ်ကျောင်း၌လည်းကောင်း၊ လေးမျက်နှာ၌လည်းကောင်း သီတင်းသုံးတော်မူဖူးသည်။ မြင်းခြံ၌ သီတင်းသုံးတော်မူစဉ် ထူးဆန်းလှစွာသော အိပ်မက်ကို မြင်မက်ပြီးနောက် ဤဝိပဿနာလမ်းစဉ်ကို ထိုးထွင်းသိမြင်တော်မူပြီးလျှင် ကျင့်ကြံကြိုးကုတ် အားထုတ်တော်မူရာ အားလုံးတို့ကပင်လျှင် အရိယာသူတော်စင်မထေရ်မြတ်ဟူ၍ ယုံကြည်စွာ ဆည်းကပ်ကိုးကွယ်ကြသည်။

ကျမ်းကိုး။ ယင်းကျမ်း အဌ္ဌုပ္ပတ္တိစာတမ်း၊ စာမျက်နှာ ဂ ကိုကြည့်။

ထို့နောက် ကြံခင်းမြို့ ကံကလေးတောရ၌ သီတင်းသုံး၏။ ပန်းတောင်းမြို့ ကြေးဘုရားကြီးအနီး၌ သီတင်းသုံးပြန်၏။ ၎င်းနောက် ရွှေတောင်မြို့ ရွှေပြောင်ပြောင်ဘုရားသို့ ကြွရောက်တော်မူ၏။

ကျမ်းကိုး။ ယင်းကျမ်း အဌ္ဌုပ္ပတ္တိစာတမ်း၊ စာမျက်နှာ ဂ ကိုကြည့်။

ထိုအခါ စစ်တွေမြို့ အာဂျက်တော်ကုန်းဆရာတော် ဦးနာရဒအား ဆရာတော်သည် မိမိတရားအမြင်ပေါက်ပုံကို မိန့်ကြားတော်မူပါသည်။

ကျမ်းကိုး။ ယင်းကျမ်း အဌ္ဌုပ္ပတ္တိစာတမ်း၊ စာမျက်နှာ ဂ ကိုကြည့်။

ရှေးက ကန်ကလေးတောရဟု ဆို၏။ ယခု ကံကလေးတောရဟု စာလုံးပေါင်းကြ၏။

ကြံခင်းမြို့၊ အင်တိုင်းဘုရားကုန်း အင်တိုင်းရွာသို့သွားသော လယ်ကွင်းဖြတ်လမ်းကလေးဖြစ်ပါ သည်။ ထိုရွာဦးတွင် ဓာတ်တော်ကျသည်ဟု ကျော်ကြားသော ကံကလေးတောရ ဆရာတော် ဦးအဂ္ဂဝံသ၏ ဓာတ်တော်များအား ပူဇော်ရန် ခေါ်ဆောင်သွားခြင်းဖြစ်ကြောင်း သိရသည်။ ဤကံကလေးတောရမှာ တရားအမြင်ပေါက်မြောက်သည်ကို ကိုယ်တိုင် မြွက်ကြား၍ တရားအရာတွင် စာတွေ့ ကိုယ်တွေ့ပေါင်းစပ်ကာ ကျမ်းအမျိုးမျိုး ရေးသားဖြန့်ဝေခဲ့သည့် ရွှေတောင် ဆရာတော် ဦးတိက္ခိန္ဒြိယ စတင်ထူထောင်ခဲ့သော တောရ ဖြစ်လေသည်။

ကျမ်းကိုး။ ဘူမိနက်သန် ကံကလေးတောရကမ္မဋ္ဌာန်းဌာန၊ စံထွန်းသာ၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ စာ-၄၁။

ဆရာတော်ဦးတိက္ခိန္ဒြိယသည် သမုပ္ပါဒနိရောဓကျမ်း၊ ဝိညာဏာနုပဿနာကျမ်း၊ နိဗ္ဗာနတ္တဝိနိစ္ဆယကျမ်းစသည် ကျမ်းပေါင်းများစွာပြုစုကာ မိမိသိမြင်ထားသည့် ဓမ္မချမ်းသာမှုကိုဖြန့်ဝေ

http://www.dhammadownload.com



ပေးသည့်အပြင် ကိုယ်တိုင်လည်း တွေ့ဆုံဟောပြော ညွှန်ပြပေးတော်မူသည်။

ဆရာတော်သည် စစ်တွေမြို့ဇာတိဖြစ်၍ စစ်တွေမြို့ အနောက်ပေါက်ချောင်တောရ၌ နာဇီဆရာတော်ထံ သာမဏေဝတ်၊ ရဟန်းတက်တော်မူကာ ရန်ကုန်၊ ကျောင်းတော်ရာ ရွှေကျင်တိုက်၊ အိန္ဒိယနိုင်ငံ၊ သီရိလင်္ကာနိုင်ငံတို့၌ နှစ်ကာလကြာရှည်စွာ စာဝါလေ့လာသီတင်းသုံးခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၁)

ထိုမှ ညောင်တုန်းမြို့ ရွှေဟင်္သာတောရတွင် ရောက်ရှိသီတင်းသုံးနေသည့် ရန်ကုန် ရွှေကျင်ဆရာတော်ထံသို့ ကြွရောက်ကာ ဆရာရင်းဖြစ်ခဲ့သူ ရွှေကျင်ဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဘောင်သို့ ပြန်လည်ဝင်ရောက်သည်။ ဆရာတော်က ဦးတိက္ခိန္ဒြိယဟု ဘွဲ့အမည်ပေးခဲ့သည်။

(နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ ဖေဖော်ဝါရီ ၂၀၀၈၊ အမှတ် ၂၅၉ ၊ စာမျက်နှာ - ၄၃)

ကံကလေးတောရကို အမှီပြုကာ အနယ်နယ်မှ ပင့်ဖိတ်ရာသို့ လှည့်လည်ကြွရောက်ခဲ့ရာ မြင်းခြံတွင် သီတင်းသုံးကျင့်ကြံစဉ် ပထမဦး တရားထူး ရရှိသည်။

(နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ ဖေဖော်ဝါရီ ၂၀၀၈၊ အမှတ် ၂၅၉ ၊ စာမျက်နှာ - ၄၃)

ထို့နောက် ကြံခင်း၊ ပန်းတောင်း၊ ရွှေတောင် စသည်တို့သို့ လှည့်လည်ခဲ့ပြန်ရာ ရွှေတောင်မြို့၊ အမ္ဗာရာမကျောင်းတွင် သီတင်းသုံး အားထုတ်ခဲ့စဉ် ရှေးကထက် ပို၍ထူးသော တရားအမြင်ပေါက်မြောက်ခဲ့သည်။

ကျမ်းကိုး၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ ဖေဖော်ဝါရီ ၂၀၀၈၊ အမှတ် ၂၅၉ ၊ စာမျက်နှာ - ၄၃

ဆရာတော်သည် ခရစ်နှစ် (၁၈၇၀) ခုနှစ်တွင် မွေးဖွား၍ ပဋိပတ္တိ သာသနာပြုစုလျက် (၁၉၄၁) ခုနှစ်၊ ဝါဆိုလဆုတ် (၁၁) ရက်တွင် ခန္ဓာဝန်ချတော်မူသည်။

ကျမ်းကိုး၊ ယင်းစာ စာမျက်နှာ - ၄၃

ဤသည်တို့ကား ကြံခင်းမြို့နယ်၊ အင်တိုင်းရွာရှိ ကံကလေးတောရနှင့် ထူထောင်ခဲ့သူ ဆရာတော်၏ ဖြစ်စဉ်အချို့ ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းစာ၊ စာမျက်နှာ - ၄၄

အေဒီ ၁၉၂၀ ဆရာတော် ဦးတိက္ခိန္ဒြိယဟာ သက္ကရာဇ် (၁၂၈၂) ခုနှစ်မှာ ရွှေတောင်မြို့က ဒကာတွေဆောက်လှူတဲ့ အမ္ဗာရာမကျောင်းကို စတင်လက်ခံ သီတင်းသုံးတယ်လို့ ဆိုတယ်။

ကျမ်းကိုး၊ ယင်းစာ၊ စာမျက်နှာ - ၄၅

ဆရာတော်သည် ပျံလွန်တော်မူသည်အထိ ကမ္မဋ္ဌာန်း ဝိပဿနာကို ညွှန်ပြကာ ကိုယ်တိုင်လည်း အပြင်းအထန်ကျင့်ကြံသည်။ ကံကလေးမဓမ္မရိပ်သာကို ဦးဆောင်တာဝန်ယူရသော ကာလတစ် လျှောက် ကိုယ်ပိုင် အိပ်ရာ၊ ခုတင် စသည် မထားခဲ့ပါ။

ငွေကြေးဝတ္ထုမှအစ လူပရိသတ်အများ လှူဒါန်းကြသော လာဘ်လာဘများကိုလည်း ကိုင်တွယ်သာယာနေခြင်းမရှိ။ တော်ရာတွင် ချောင်ထိုးထားပြီး မည်သူမဆို ယူငင်သုံးစွဲသူတို့ကိုလည်း တစ်ခွန်း တစ်ပါဒမျှ မိန့်ကြားပြောဆိုခြင်း မရှိခဲ့။

ကျမ်းကိုး၊ ယင်းစာ ၊စာမျက်နှာ - ၄၆

နံနက်အရုဏ်တက်လို့ ဆွမ်းခံကြွဖို့ ပြင်ဆင်ကြတော့ သံဃာကုဋီရှေ့ သစ်သားတုံး ခေါင်းအုံးပြီးကျိန်းနေတဲ့ ဆရာတော်ကို တွေ့ရတယ်။

ကျမ်းကိုး၊ ယင်းစာ ၊စာမျက်နှာ - ၄၆

http://www.dhammadownload.com



အထက်ပါအကြောင်းအရာတို့မှာ ကြံခင်းမြို့ရှိ ကံကလေးတောရကျောင်းနှင့် ရွှေတောင်မြို့ရှိ အမ္ဗာရာမကျောင်းသို့ သမိုင်းကြောင်း ဆက်နွယ်ပုံတစေ့တစောင်း ဖြစ်၏။ ၎င်းအပြင် ထိုကံကလေးကျောင်းထွက် ရွှေတောင်ဆရာတော်သည်လည်း တရားထူးရခဲ့သော ရဟန်းထူး ဖြစ်၏။ ကြံခင်းတွင် ကံကလေးတောရကျောင်းကို ဆက်ခံသော ဆရာတော်မှာလည်း ဓာတ်တော်ကျသော ရဟန်းထူးကြီး ဖြစ်၏ဟု ဆက်နွယ် လေ့လာတွေ့ရှိရပါသည်။

ကျမ်းကိုး၊ ယင်းစာ ၊စာမျက်နှာ - ၄၆

# စစ်ကိုင်း တောင်ပီလာဆရာတော်

# အရှင်ပဏ္ဍိဝံသ

(၁၈၆၁ – ၁၉၄၁)



http://www.dhammadownload.com



တောင်ဖီလာဆရာတော် ဦးဝိလာသ ကိုယ်တော်ကြီးရှိစဉ်က ကိုယ်တိုင် ဖူးမြင်ခဲ့ရပါသည်။ ထိုအခါ တောင်ဖီလာ ဦးဝိလာသ ကိုယ်တော်ကြီးက ဆရာကောင်းတပည့် ပန်းကောင်းပန်ဟု ဆိုကာ ဆုများပေးလျက် အစဉ်အဆက်က ဆရာများ၏ အရိုးဓာတ်တော်များကို ပြတော်မူပါသည်။ ထိုအခါ ဆရာ့ ဆရာတို့မှာ ဓာတ်တော်ကျတော်မူသော ကိုယ်တော်မြတ်ကြီးများ ဖြစ်တော်မူကြောင်း အထင်အရှား သိရပါသည်။

ထိုတောင်ဖီလာဆရာတော် ဦးဝိလာသထက်စော၍ ဦးပဏ္ဍဝံသက ပေါ်ထွန်းတော်မူပါသည်။ တောင်ဖီလာဟု လူသိများသော်လည်း ရွှေကျင်ဆရာတော်ကြီး၏ ရွှေကျင်သာသနာသမိုင်းတွင် တောင်ဗိလာဆရာတော်ဟူ၍ တွေ့ရှိရပါသည်။ မျိုးရိုးဇာတိကို အောက်ပါအတိုင်း ပြဆိုထားပါသည်။

အေဒီ ၁၈၆၁ တောင်ဗိလာဆရာတော်ကြီးသည် မိတ္ထီလာမြို့အနီး ကုန်းသာရွာဦးဘိုးကျင် ဒေါ်ပိုးတို့၏ သားရတနာဖြစ်သည်။ သက္ကရာဇ် (၁၂၂၃) ခုနှစ်၊ ဝါခေါင်လဆန်း (၈) ရက်နေ့တွင် ဖွားမြင်တော်မူသည်။ ဘွဲ့တော်မှာ အရှင်ပဏ္ဍဝံသ ဖြစ်သည်။

ကျမ်းကိုး၊ စစ်ကိုင်းတောင်တော်ရိုး၊ ရွှေဟသ်ာဆရာတော်အရှင်ပဏ္ဍိတထေရ်၊ ဒုတိယအကြိမ် စီစဉ်ရေးသားအပ်သော ရွှေကျင်နိကာယသာသနာဝင်၊ ၁၉၈၈၊ စာမျက်နှာ ၃၄၄။

တောင်ဗိလာဆရာတော်၏ ဆရာရင်းမှာ မဟာဝိသုဒ္ဓါရာမ ဆရာတော်ဖြစ်၏ဟု သိရပါသည်။ တောင်ဗိလာဆရာတော်သည် မြန်မာမင်းလက်ထက်၌ ပထမပြန်ဆိုအောင်မြင်ခဲ့သည်။ တောင်ဗိလာဆရာတော်သည် စာတတ် ဝိနည်းမှိုရ် ဆရာတော်ဖြစ်ကြောင်း ပြဆိုထားပါသည်။ တောင်ဗိလာဆရာတော်သည် မြန်မာနိုင်ငံ၌ ဓုတင်္ဂရေ၊ ဝိနယဓရေ၊ ခမာဇာဂရိယ စသော ဂုဏ်တို့ဖြင့် ထင်ရှား၍ လူသိများသော စာတတ်ဝိနည်းမှိုရ် ဆရာတော်ကြီးဖြစ်တော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၃၄၄

ထိုထိုအရပ်သို့ အခိုက်အတန့်ဒေသစာရီ ကြွတော်မူသော်လည်း စစ်ကိုင်းတောင်ရိုးတောင်ဗိလာ ကုဋ္ဌာသယချောင်၌သာ အမြဲသီတင်းသုံးတော်မူသည်။

အေဒီ ၁၉၄၁ သက္ကရာဇ် (၁၃၀၃) ခုနှစ် ဒုတိယကမ္ဘာစစ်ကြီးအတွင်း၌ ပျံလွန်တော်မူသည်။

ကျမ်းကိုး၊ ယင်းစာ-၃၄၄

ရွှေဟသ်ာဆရာတော်ဘုရားကြီး၏ မှတ်တမ်းအရ မိဘမျိုးရိုးနှင့် ဖွားသက္ကရာဇ်တို့ကို သိခွင့်ရရှိခဲ့ခြင်း ဖြစ်ပါသည်။

တောင်ဗိလာဆရာတော်၏ အချက်အလက် အသေးစိပ်ကို ဆက်လက် ရှာဖွေရာ အောက်ပါအတိုင်း စုဆောင်းရရှိခဲ့ပါသည်။ ပဋိပတ္တိ သာသနာ့သမိုင်းကြီးကို ရုပ်ရှင်မင်းသား၊ မင်းသမီး အတ္ထုပ္ပတ္တိလောက်မှ အလေးမထား မမှတ်မသားဘဲ ရှိတတ်သောသဘာဝကို မနှစ်သက်သောကြောင့် ကျွန်ုပ်က သာသနာ့အကျိုးငှာ ပူဇော်လို၍ မှတ်တမ်းတင်ခြင်း ဖြစ်ပါသည်။ ရွှေကျင်သာသနာဝင်မှ ထေရုပ္ပတ္တိကို အနည်းငယ်မျှသာ သိခွင့်ရပါသည်။ ရွှေဟသ်ာ ဆရာတော် ကျေးဇူးကြောင့် ဤမျှ သိရခြင်း ဖြစ်သည်။

ကျမ်းကိုး၊ စစ်ကိုင်းတောင်တော်ရိုး၊ ရွှေဟသ်ာဆရာတော်အ ရှင်ပဏ္ဍိတထေရ်၊ ဒုတိယ အကြိမ် စီစဉ်ရေးသားအပ်သော ရွှေကျင်နိကာယသာသနာဝင်၊ ၁၉၈၈၊ စာမျက်နှာ ၃၄၄။

ကံကောင်းထောက်မသောအချက်မှာ ကျွန်ုပ်သည် စစ်ကိုင်းတောင်ဗိလာချောင်သို့ ရောက်ရှိ၍ တောင်ဗိလာ ဆရာတော်အား ဖူးမြော်ခဲ့စဉ်အခါက ဆရာတော်၏ ကျေးဇူးကြောင့် ယခင်က တောင်ဗိလာဆရာတော်ဘုရားကြီး၏ အရိုးတော်ဓာတ်ကို ဖူးခွင့်ရခဲ့ခြင်း ဖြစ်ပါသည်။ ထိုအရိုး

http://www.dhammadownload.com



တော် ဓာတ်တော်ကို တောင်ဗိလာဆရာတော် ဦးဝိလာသ ကိုယ်တော်တိုင်က ညွှန်ပြတော်မူ၍ "ဒါ ငါ့ဆရာတွေပဲ ဓာတ်တော်တွေ သွားဖူး" ဟု အဖူးခိုင်းသောကြောင့် ချက်ခြင်း လက်ငင်း ဖူးတွေ့ခဲ့ရခြင်း ဖြစ်ပါသည်။ ကျွန်ုပ်သည် တောင်ဗိလာ ဆရာတော် ဦးဝိလာသ ကိုယ်တော်မြတ်ကြီးကို ကိုယ်တိုင်မီခဲ့ပါသည်။

ကျမ်းကိုး၊ စစ်ကိုင်းတောင်တော်ရိုး၊ ရွှေဟင်္သာဆရာတော်အရှင်ပဏ္ဍိတထေရ်၊ ဒုတိယအကြိမ် စီစဉ်ရေးသားအပ်သော ရွှေကျင်နိကာယသာသနာဝင်၊ ၁၉၈၈၊ စာမျက်နှာ ၃၄၄။

ကံကောင်းထောက်မသဖြင့် တောင်ဗိလာဆရာတော်ကြီး၏ ဓာတ်ပုံကို ဖူးခွင့်ရခဲ့ပါသည်။ ထို့ကြောင့် ပူးတွဲတင်ပြနိုင်ပါသည်။

ကျမ်းကိုး၊ ယင်းစာ၊ ၃၄၃ ကို ကြည့်ပါ။ မူရင်းဓာတ်ပုံရှိပါသည်။

http://www.dhammadownload.com



တိရစ္ဆာန်ဆေးကုဌာန ဝန်ထောက်တစ်ယောက်က ရဟန္တာဖြစ်နိုင်ပါသလား
ယခင်က ကြံခင်းမြို့တွင် ရဟန္တာဟု ကျော်စောတော်မူပြီးနောက်
ရန်ကုန်မြို့ ကြို့ကုန်းအရှေ့ပိုင်းတောရတွင် ရုပ်ကလာပ်တော် ကြွင်းကျန်တော်မူခဲ့၍

# ကျောက်ဖြစ်နေသော ရွှေညောင်ပင် ဦးသီလ

## (၁၈၃၃ – ၁၉၅၈)



http://www.dhammadownload.com



က်ကောင်းထောက်မသဖြင့် ရွှေညောင်ပင် ဆရာတော် ဦးသီလ၏ ဓာတ်ပုံကို ဖူးခွင့်ရပါသည်။ ဆရာတော်၏ ကမ္မဋ္ဌာန်းကျမ်းမျက်နှာဖုံးတွင်လည်း ဖူးတွေ့နိုင်ပါသည်။

ကျမ်းကိုး။ သမထ ဝိပဿနာ၊ ဘာဝနာကျမ်း ဦးသီလ

ဆရာတော်၏ ဆရာမှာ ရန်ကုန်ဗောဓိကုန်းဓမ္မရိပ်သာကို စတင်ထူထောင်ခဲ့သော ဦးအောင်ဆိုသူဖြစ်၏။ ဦးအောင်၏ တပည့်များအနက် ရွှေညောင်ပင်ဆရာတော် ဦးသီလမှာ လူသိများ၏ဟု မှတ်တမ်းတွေ့ရပါသည်။

ကျမ်းကိုး။ ဇင်ညိုငယ်၊ ကြံခင်းမြို့မှ မီးလွတ်နယ်မြေ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် ၂၆၅၊ ဩဂုတ်လ ၂၀၀၈ ခုနှစ်၊ စာ ၃၄။

ဦးအောင်ထံမှ နည်းနာခံယူ ကျင့်ကြံနေစဉ် ရဟန်းပြုလိုသည်ဟုဆိုသဖြင့် သီးသန့်ခွဲထွက်ကာ တစ်ပါးတည်း ကျင့်ကြံခရီးရောက်ခဲ့သော ဆရာတော်ဖြစ်၏။

ကျမ်းကိုး။ ဇင်ညိုငယ်၊ ကြံခင်းမြို့မှ မီးလွတ်နယ်မြေ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် ၂၆၅၊ ဩဂုတ်လ ၂၀၀၈ ခုနှစ်၊ စာ ၃၅ ၊

အရှေ့ကြို့ကုန်း (၃)လမ်းမှ မဟာသုခိတာ လမ်းမကြီးအတိုင်း လျှောက်သွားကြသည်။ မိနစ် နှစ်ဆယ်ခန့်လျှောက်မိကြသောအခါ အုံ့မှိုင်း၊ အုံ့ဆိုင်းနေသော ကျောင်းဝင်းကြီးတစ်ခုအတွင်းသို့ ရောက်ရှိခဲ့ကြလေသည်။

ကျမ်းကိုး။ မိုးရဲ (ကြို့ကုန်း) ကျောက်ဖြစ်နေသော ရွှေညောင်ပင်ဆရာတော် ဦးသီလရုပ်ကလာပ်ရှိရာသို့တစ်ခေါက်၊ ပါရမီမဂ္ဂဇင်း၊ အမှတ်(၂၉)၊ ၁၉၉၅ ခုနှစ်၊ ဖေဖော်ဝါရီလ၊ စာ-၂၈။

သစ်သားကျောင်းကြီးပေါ်သို့ ခေါ်ဆောင်သွားသည်။ ဘုရားခန်းရှေ့ဆုံးတွင် ဘုန်းတော်ကြီးတစ်ပါး၏ ဓာတ်ပုံတစ်ပုံကို ကပ်လျက်ထောင်ထားသည်ကိုတွေ့ရသည်။ ဓာတ်ပုံ၏အောက်ခြေတွင် ရဟန္တာမြတ်ဟု ကျော်စောထင်ရှားသော ကျေးဇူးတော်ရှင် ရွှေညောင်ပင်တောရ ကမ္မဋ္ဌာန်းဆရာတော်ဘုရားကြီး ဦးသီလဟုရေးသားထားသည်ကို တွေ့မြင်လိုက်ရသည်။

(ကျမ်းကိုး၊ ယင်းစာ-၂၈)

ရုပ်ကလာပ်တော်ထားရှိရာ တိုက်ကျောင်းအား သော့ခတ်ထားသည်ကိုတွေ့ရသည်။မည်သည့်အတွက်ကြောင့် သော့ခတ်ထားသည်ကို မေးမြန်းကြည့်သောအခါ မသမာသူအချို့သည် ရဟန္တာအရှင်မြတ်ဟု သမုတ်ခြင်းခံရသော ဆရာတော်ဦးသီလ၏ ရုပ်အလောင်းမှ ဆံပင်မွေးညှင်းများဖြတ်တောက်ယူငင်ခြင်း၊ အဆောင်အလို့ငှာ အသားစများကိုလှီးဖဲ့ယူခြင်းပြုလုပ်ကြသဖြင့် ဤကဲ့သို့ပြုလုပ်ထားရသည်ဟု သိရှိရပါသည်။

(ကျမ်းကိုး၊ ယင်းစာ-၂၉)

ဆရာတော်ကြီး၏ ရုပ်အလောင်းသည် အပေါ်ထပ်တွင်ရှိပါသည်ဟု မယ်သီလရှင်ကြီးက ပြောပါသည်။ ဒုတိယအထပ်သို့ ဆက်လက်တက်သွားဖြစ်သည်။ အရှေ့ဘက်ခန်းတွင် ဆရာတော်ကြီး၏ ပုံတူရုပ်တုနှင့် ခမည်းတော်၊ မယ်တော်ရုပ်တုကိုတွေ့ရပါသည်။ ယင်းရုပ်တုများ၏ မျက်နှာစာတည့်တည့်တွင် အခန်းဖွဲ့၍ မှန်စီရွှေချအခေါင်းဖြင့် လဲလျောင်းစံပယ်နေတော်မူသော ဆရာတော်၏ရုပ်အလောင်းကို ဖူးမြင်တွေ့ရှိရပါတော့သည်။ ဆရာတော်ကြီး ရုပ်အလောင်းမှာ ကျောက်ဖြစ်ရုပ်ကြွင်းအဖြစ်တည်ရှိနေသည်ကို စာရေးသူကိုယ်တိုင် ကိုင်တွယ်စမ်းသပ်ကြည့်မိမှသိရှိရပါတော့သည်။ ပုဂ္ဂိုလ်ထူးများ၏ ရုပ်အလောင်း

http://www.dhammadownload.com



များရှိရာသို့ ရှာဖွေသွားရောက်ဖူးမြော်ခြင်းသည်လည်း ထူးမြတ်သောကုသိုလ် ဖြစ်ပါသည်။

ကျမ်းကိုး။ မိုးရဲ (ကြို့ကုန်း) ကျောက်ဖြစ်နေသော ရွှေညောင်ပင်ဆရာတော် ဦးသီလရုပ်ကလာပ်ရှိရာသို့တစ်ခေါက်၊ ပါရမီမဂ္ဂဇင်း။ အမှတ်(၂၉)၊ ၁၉၉၅ ခုနှစ်၊ ဖေဖော်ဝါရီလ၊ စာ-၂၈

ရွှေညောင်ပင် ဦးသီလအကြောင်းမှာ အဖြစ်ကဆန်းသလောက် သမိုင်းကြောင်းရှာမရသဖြင့် တစိမ့်စိမ့်ရှာကြံရာ တစ်နေ့သောအခါ ကြံခင်းမြို့ မီးလွတ်နယ်မြေအကြောင်း တခမ်းတနား အဆန်းအပြား ဖတ်မိပါတော့သည်။ ဤတွင် ရွှေညောင်ပင်ဆရာတော် ဦးသီလအကြောင်း နောက်ဆက်တွဲသိရှိရပါသည်။ နောက်ဆက်တွဲဟု မခေါ်ဘဲ ရှေ့ဆက်တွဲဟု ခေါ်ရမည်လား မသိပါ။ အဘယ်ကြောင့်ဆိုသော် ရွှေညောင်ပင်ဦးသီလ၏ ရန်ကုန်မြို့၊ ကြို့ကုန်းသို့ မရောက်မီက ဇာတ်လမ်းဖြစ်နေသောကြောင့် ဖြစ်ပါသည်။

ဦးအောင်ထံမှ နည်းခံကာ ရဟန်းဝတ်၍ ပေါက်မြောက်သွားသော ရွှေညောင်ပင်ဆရာတော် ဦးသီလဟူသော စာသားကို တွေ့ရှိရပါသည်။

ကျမ်းကိုး။ ဇင်ညိုငယ်၊ ကြံခင်းမြို့မှ မီးလွတ်နယ်မြေ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် ၂၆၅၊ ဩဂုတ်လ ၂၀ဝ၈ ခုနှစ်၊ စာ ၃၅ ။

ရွှေညောင်ပင် ဦးသီလ၏ ကမ္မဋ္ဌာန်းကျမ်းစာအုပ်နှင့် ဖွားသက္ကရာဇ်ကို ကြံခင်းမှ ရရှိပါသည်။

အေဒီ ၁၈၇၃ ရွှေညောင်ပင် ဦးသီလသည် သက္ကရာဇ် ၁၂၃၅ ခုနှစ်တွင် ဖွားမြင်တော်မူသည်။ ကြံခင်းမြို့ ဇာတိဖြစ်သည်။

ထိုကျောက်ခေတ် ကိုယ်တော်မြတ်ကြီးသည် တိရစ္ဆာန်ဆေးကုဌာနဝန်ထောက်ဘဝမှ တောထွက်ကျင့်ကြံ၍ အရိယာသူတော်စင်ကြီးဘဝသို့ ကူးပြောင်းသွားသည်ကို သိသူနည်းလှပါသည်။

ထိုခေတ်က တိရစ္ဆာန်ဆေးကုဌာန၊ ဝန်ထောက်အဖြစ်မှ တောထွက်ရဟန်းပြုသွားသူ ဖြစ်သည်ဟူ၍ သိရှိရပါသည်။

ကျမ်းကိုး။ ဇင်ညိုငယ်၊ ကြံခင်းမြို့မှ မီးလွတ်နယ်မြေ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် ၂၆၅၊ ဩဂုတ်လ ၂၀ဝ၈ ခုနှစ်၊ စာ ၃၅ ။

ကျမ်းကိုး။ မိုးရဲ (ကြို့ကုန်း) ကျောက်ဖြစ်နေသော ရွှေညောင်ပင်ဆရာတော် ဦးသီလရုပ်ကလာပ်ရှိရာသို့တစ်ခေါက်၊ ပါရမီမဂ္ဂဇင်း၊ အမှတ်(၂၉)၊ ၁၉၉၅ခုနှစ်၊ ဖေဖော်ဝါရီလ၊ စာ-၂၈။

ကျမ်းကိုး။ ဓမ္မာစရိယ ဦးဌေးလှိုင်၏ ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများစာအုပ် အရှေ့ပိုင်း ပုံနှိပ်ထုတ်ဝေသည့်စာအုပ်များတွင် တွေ့ရှိရသည်ဟု မှတ်ချက်တွေ့ရသည်။

http://www.dhammadownload.com



ဆရာတော် ကျင့်ကြံအားထုတ်ခဲ့သော ရေးမြို့ ရန်ကင်းတောင်တွင် ယခုထက်တိုင် မြက်မပေါက်ဘဲ မီးကွင်းတော်မှုသော

# ထားဝယ်မြို့ ဇေယျဝတီကျောင်းတိုက်၊ ဦးသီလ မထေရ်မြတ်

(၁၈၃၄ - ၁၉၃၇)



http://www.dhammadownload.com



ဆရာတော်ကြီး ဦးသီလ၏ တောင်ဝှေးတော်နှင့် ရေသနုတ်တော်ကို ဌာပနာထားသော စေတီတော်ကို ဇဟန်းမြို့နယ် အုတ်လမ်းတွင် ဖူးတွေ့ရပါသည်။

ကျမ်းကိုး။ သာသနာ့ ဝပုနကျမ်း၊ လောကမာန်အောင် ဆရာတော်၊ စာ ၄၀၁ - ၄၀၄ ကို ကြည့်။

ဆရာတော် ဦးသီလ အကြောင်းကို ရှာဖွေရာ ဦးစွာပထမ ထားဝယ်ရေးရာ မှတ်တမ်းပဒေသာတွင် အနည်းငယ် တွေ့ရှိရပါသည်။

ကျမ်းကိုး။ ရတနာထားဝယ် ပြုစုသူ၊ ထားဝယ်ရေးရာ မှတ်တမ်းပဒေသာ ၁၉၉၇ ခုနှစ်၊ ဖေဖော်ဝါရီလ၊ ပထမအကြိမ်၊ စာ ၂၃၃၊

အေဒီ ၁၈၇၄ ထားဝယ်ခရိုင်၊ လောင်းလုံမြို့နယ်၊ မင်းရပ်ရွာ၊ ခမည်းတော် လှေသူကြီး ဦးဖိုးထွေး၊ မယ်တော် ဒေါ်မွှေးအုံတို့မှ ကောဇာသက္ကရာဇ် (၁၂၃၆) ခုနှစ်၊ ဒုတိယဝါဆိုလဆန်း (၆) ရက်၊ သောကြာနေ့တွင် ဖွားမြင်သည်။ ငယ်မည် မောင်ချစ်ရင် ဖြစ်သည်။

ကျမ်းကိုး၊ ထားဝယ်ရေးရာ၊ မှတ်တမ်း ပဒေသာ၊ ရတနာ (ထားဝယ်) ပြုစုသည်၊ ပုံနှိပ်ခြင်း၊ ပထမအကြိမ်၊ ၁၉၉၇ ခု၊ ဖေဖော်ဝါရီလ၊ စာမျက်နှာ ၂၃၃။

ဆရာတော် ဦးသီလ အကြောင်း အပြည့်အစုံကိုကား ထားဝယ်မြို့ ဇေယျဝတီကျောင်းတိုက်ကြီး အဋ္ဌုပ္ပတ္တိကျမ်း၌ အကျယ်တဝင့် တွေ့ရှိရပါသည်။

ထိုစာအုပ်တွင် ဆရာတော် ဦးသီလ၏ တပည့် တောင်ပွားဆရာတော်အကြောင်းကိုလည်း တွေ့ရပါသည်။ တောင်ပွားဆရာတော် တရားထူးရကြောင်း အတိအလင်း ဖွင့်ဆိုထား၏။ တောင်ပွားဆရာတော်၏ ဓာတ်ပုံကိုလည်း တွေ့ရ၏။ ဆရာတော် ဦးသီလက နာယက တရားပြဆရာဖြစ်၏။ တောင်ပွားဆရာတော်က တိုက်အုပ်ဆရာတော် ဖြစ်၏။ တပည့်ဖြစ်၏။

ကျမ်းကိုး။ ထားဝယ်မြို့ ဇေယျဝတီကျောင်းသမိုင်း ကိုကြည့်။

ထားဝယ် ဇေယျဝတီသမိုင်းစာအုပ်တွင် တရားထူးရတော်မူသော အရှင်မြတ်ကြီး ဘုန်းတော်ကြီး စီပိုအကြောင်းကိုလည်း တရားထူး ရပုံရနည်းနှင့်တကွ ဘုန်းတန်ခိုးကြီးပုံ ရဟန္တာဟု ကျော်ကြားတော်မူပုံတို့ကို အသေအချာ ဖတ်ရှုရပါသည်။ ပွင့်ပွင့်လင်းလင်းပင် ဝန်ခံရေးသားထားပါသည်။ ထိုဘုန်းကြီးစီပိုသည်လည်း ဦးသီလ၏ တပည့်ပင် ဖြစ်၏။

ကျမ်းကိုး။ ထားဝယ်မြို့ ဇေယျဝတီကျောင်းသမိုင်း ကိုကြည့်။

ထိုထားဝယ် ဇေယျဝတီ သမိုင်းစာအုပ်တွင်လည်း ရဟန်းထူးတစ်ဦး ပါသေး၏။ ထိုပုဂ္ဂိုလ်မှာ တရားထူး ရတော်မူသော ရဟန္တာအရှင်မြတ် ဦးနန္ဒိယ ကိုယ်တော်ကြီး အကြောင်းပင်ဖြစ်၏။ ထိုနန္ဒိယ ကိုယ်တော်ကြီးသည်လည်း ထားဝယ်မြို့မ ဆရာတော် ဦးသီလ၏ တပည့်ပင် ဖြစ်လေသည်ဟု သိရပါသည်။

ကျမ်းကိုး။ ထားဝယ်မြို့ ဇေယျဝတီကျောင်းသမိုင်း ကိုကြည့်။

ကျွန်ုပ်တို့သည် ထားဝယ်မြို့မ ဆရာတော်ဦးသီလ၏ ထူးမြတ်ပုံကို အံ့သြကြည်ညိုသဖြင့် ဆက်လက်ရှာဖွေရာ ကြိုကြားကြိုကြား ရှာဖွေတွေ့ရှိရပါသည်။

ရေးမြို့တွင် ရန်ကင်းတောင် ဟူ၍ရှိ၏။ ထိုရန်ကင်းတောင်၏ မူလပထမ ဆရာတော် ဦးဇာဂရသည်လည်း တရားထူးရတော်မူ၏။ ထိုတောင်မှာပင် ပေါက်မြောက်တော်မူ၏။ မြင်ကွန်းမြင်းခုံတိုင် မင်းသားကြီးကို ခေါ်ဆောင်သွားခဲ့သော တောင်ဖြစ်၏။ ဘေးရန်ကင်းသောကြောင့် ရန်ကင်းတောင်ဟု ခေါ်ဆိုခြင်း ဖြစ်၏။ ဦးဇာဂရသည် မြင်ကွန်း မြင်းခုံတိုင် ညီနောင်တို့ကို ဘေးလွတ်ရာသို့ ပို့ဆောင်ပြီးနောက် ရန်ကင်းတောင်မှာပင် တရားထူးရတော်မူ၏။ အလွန်

http://www.dhammadownload.com



အံ့ဖွယ်ကောင်းသော တိမ်မြုပ်နေသည့် ရဟန္တာ ဇာတ်လမ်းဖြစ်၏။ ကျွန်ုပ်ကား ကံကောင်းသဖြင့် ဦးဇာဂရ ကိုယ်တော်ကြီးကို တွေ့ခွင့်ရခြင်း ဖြစ်သည်။

ကျမ်းကိုး။ ရေးမြို့ ရန်ကင်းတောင်ကို ကြည့်။

ထိုရန်ကင်းတောင်တွင် ဘုန်းတော်ကြီး ဦးသီလလည်း တရားထူး ရတော်မူ၏။ ပေါက်မြောက်တော်မူ၏။ ထိုရန်ကင်းတောင်တွင်ပင် ဘုန်းတော်ကြီး ဦးဒိုက် တရားထူး ရတော်မူ၏။ ပေါက်မြောက်တော်မူ၏။ ထိုပုဂ္ဂိုလ်တို့ တစ်ချိန်တည်း တစ်နေရာတည်းတွင် တရားထိုင်ကြရာ တစ်တောင်လုံးလင်းနေ၏။ ရပ်ဝေးမှ မြင်ရ၏။ မီးလောင်နေသည်ထင်၍ လာကြည့်ရ၏။ မဟုတ်ချေ။ တရား၏ တန်ခိုးအာနုဘော်ကြောင့် အမှောင်ခွင်း၍ အရောင်လင်းခြင်း ဖြစ်၏။

ကျမ်းကိုး။ ရေးမြို့ ရန်ကင်းတောင်ကို ကြည့်။

ထိုရန်ကင်းတောင်၌ တရားထူးရပြီးနောက် ဘုန်းတော်ကြီး ဦးသီလသည် ထားဝယ်မြို့ ဇေယျဝတီတိုက်သို့ ကြွတော်မူ၏။ ထိုအခါ တောင်တော်ကို တပည့်ကြီးဖြစ်သူ ဦးပညာဇောတအား လွှဲအပ်ထားခဲ့၏။ ထိုဦးပညာဇောတ ရဟန်းထူးသည် တရားကျင့်ရာ၌ အလွန်ပြင်းထန်၏။ ဆားနှင့်စား၍ သုံးနှစ်ကျင့်၏။ သစ်ရွက်စား၍ တစ်နှစ်ကျင့်၏။ ရေနှင့် တစ်နှစ်ကျင့်၏။ ဤသို့ဖြင့် ရန်ကင်းတောင် ဦးပညာဇောတသည် တရားထူး ရတော်မူ၏။ ပေါက်မြောက်တော်မူ၏။ ထိုအခါ သာမည ဆရာတော်ကပင်လျှင် ရန်ကင်းတောင်မှာ ရဟန်းထူး တစ်ပါးရှိတယ်။ သွားဖူးကြဟု ညွှန်ကြားတော်မူခြင်းခံရသော ကိုယ်တော်မြတ်ကြီးဖြစ်လေသည်။

ကျမ်းကိုး။ ရေးမြို့ ရန်ကင်းတောင်ကို ကြည့်။

ထိုသို့ ထူးခြားသော ရန်ကင်းတောင် ကိုယ်တော်ကြီးသည် နောင်သောအခါ ထားဝယ် ဇေယျဝတီ ကိုယ်တော်ကြီးအဖြစ် လူသိများလာတော်မူလေသည်။ ထို့ကြောင့် ထားဝယ်မြို့ ဇေယျဝတီ ဦးသီလအကြောင်း သိကောင်းစရာများကို အချက်အလက်များ ခေတ်ပြိုင်မှတ်တမ်းများ ရှာဖွေရာ နောင်လာနောက်သားများအတွက် ပုံပြင်မဟုတ်သော ခေတ်ပြိုင်မှတ်တမ်းများကို အောက်ပါအတိုင်း တွေ့ရှိရပါသည်။

အေဒီ ၁၈၈၉ — မောင်ချစ်ရင်သည် မင်းရပ်ရွာ၊ တလိုင်းမော်ကျောင်း ဆရာတော်ဘဒ္ဒန္တသုမနထံတွင် ပညာသင်၍ (၁၄) နှစ်အရွယ် သက္ကရာဇ် (၁၂၅၁) ခုနှစ်တွင် မိဘနှစ်ပါး၏ ပစ္စယာနုဂ္ဂဟကို ခံယူကာ ရှင်သီလ ဟူသော ဘွဲ့အမည်ဖြင့် ရှင်ဖြစ်ခဲ့သည်။

ကျမ်းကိုး၊ ထားဝယ်ရေးရာ၊ မှတ်တမ်း ပဒေသာ၊ ရတနာ (ထားဝယ်) ပြုစုသည်၊ ပုံနှိပ်ခြင်း၊ ပထမအကြိမ်၊ ၁၉၉၇ ခု၊ ဖေဖော်ဝါရီလ၊ စာမျက်နှာ ၂၃၃။

အေဒီ ၁၈၉၄ — သက္ကရာဇ် (၁၂၅၆) ခုနှစ်၊ ပိဋကတ်တိုက်ကျောင်း ဆရာတော်ဘဒ္ဒန္တက္ကဝံသကို ဥပဇ္ဈာယ်ပြု၍ ပိဋကတ်တိုက်ကျောင်း ခဏ္ဍသိမ်၌ ရဟန်းအဖြစ်သို့ ရောက်ခဲ့သည်။ မင်းရပ်ရွာ၊ တလိုင်းမော်ကျောင်းဆရာတော် ဘဒ္ဒန္တသုမန၏ ကိုယ်တိုင်ပို့ဆောင်အပ်နှံပေးခြင်းဖြင့် ရေနံချောင်းမြို့ စိန်ပန်းပင်ကျောင်းတိုက်ဆရာတော်၊ မိုးနံကုန်းဆရာတော်၊ မန္တလေးမြို့ တောင်ပြင်မိုးတားကျောင်းတိုက် သာသနာပိုင် မိုးတားဆရာတော်၊ ရန်ကုန်တိုင်း၊ အလုံမြို့နယ်၊ ဇောတနာရာမကျောင်းတိုက်ဆရာတော်တို့ထံတွင် ပရိယတ္တိကျမ်းစာများကို သင်ယူဆည်းပူးခဲ့လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၃၃)

အေဒီ ၁၉၀၅ — ထားဝယ်ခရိုင်၊ လောင်းလုံမြို့နယ်၊ မင်းရပ်ရွာ တလိုင်းမော်ကျောင်းဆရာတော်ထံတွင် ပြန်လည်နေထိုင်ပြီး ကောဇာသက္ကရာဇ် (၁၂၆၇) ခုနှစ်၊ လောင်းလုံမြို့နယ် စစ်ပြေရွာ၊ ရေပုံးကျောင်းကို အလှူခံတော်မူပြီး ပရိယတ္တိစာပေများကို (၃) နှစ် ချီးမြှင့်ပို့ချသင်ကြားပေးခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၃၃)

http://www.dhammadownload.com



အေဒီ ၁၉၀၈ သက္ကရာဇ် (၁၂၇၀) ပြည့်နှစ်၊ ထားဝယ်မြို့မှ ဒကာ ဒကာမတို့၏ ပင့်လျှောက်ချက်အရ ရွှေတောင်စားဘုရားကြီး၏ အရှေ့မြောက်ဘက်တွင် ဇေယျဝတီကျောင်းတိုက်ကို တည်ထောင်ကာ ပရိယတ္တိ သာသနာထွန်းကားစေရန် ကြိုးစားထုတ်တော်မူခဲ့လေသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၃၄)

အေဒီ ၁၉၂၀ ဆရာတော်သည် (၂၅) နှစ် ကာလမျှ သက္ကရာဇ် (၁၂၈၂) ခုနှစ်တွင် နေ့ ဝါ ညဝါများကို သင်ကြားပို့ချတော်မူ၍ (၁၂၈၂) ခုနှစ်တွင် မင်းရပ်ချောင် (ခေါ်) ပရိယတ္တိရိပ်သာတစ်ခုကို တည်ထောင်တော်မူခဲ့လေသည်။

အေဒီ ၁၉၂၈ သက္ကရာဇ် (၁၂၉၀) ခုနှစ်တွင် လောင်းလုံမြို့နယ် ကဒတ်ကြီးရွာ၊ ရန်ကင်းတောင် ပရိယတ္တိရိပ်သာတစ်ခုကို တည်ထောင်တော်မူခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၃၄)

အေဒီ ၁၉၄၁ သက္ကရာဇ် (၁၃၁၃) ခုနှစ်တွင် ဇေယျဝတီ ပဋိပတ္တိရိပ်သာ ဇေယျဝတီ ပရိယတ္တိရိပ်သာကို တည်ထောင် တော်မူ၍ ယောဂီပုဂ္ဂိုလ်တို့အား ဟောပြခဲ့လေသည်။

အေဒီ ၁၉၅၇ သက္ကရာဇ် (၁၃၁၉) ခုနှစ် ကဆုန်လပြည့်ကျော် (၁၄) ရက်၊ တနင်္လာနေ့ ညနေ (၆) နာရီအချိန်၊ သက်တော် (၈၃)၊ သိက္ခာတော် (၆၃) ဝါ၌ ဘဝနတ်ထံ ပျံလွန်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၃၄)

အထက်ပါအချက်အလက်များကို ထားဝယ်မှတ်စုမှ ရရှိပါသည်။ မကျေနပ်သဖြင့် ဆက်လက်ရှာဖွေသောအခါ အလွန်အားကိုးလောက်သော လောကမာရ်အောင်ကျမ်း သာသနာ့ဝပုနကျမ်းကြီးကို တွေ့ရှိရပါသည်။ ထိုကျမ်းတွင် ရသေ့ဦးအောင်၏ မူရင်းပုရပိုဒ်များ တွေ့ရသော်လည်း တစ်ဖက်စွန်းရောက်သူတို့ မနှစ်သက်မည်စိုးသဖြင့် နှမြောပါလျက်နှင့် ချန်လှပ်ထားခဲ့ပါသည်။ ဆရာတော်ဘုရားကြီး၏ အကြောင်းအရာသက်သက်ကိုသာ ယူခဲ့ပါသည်။

ရန်ကုန်မြို့ ဗဟန်းမြို့နယ် အုတ်ကျောင်း လောကမာရ်အောင်ဆရာတော်သည် ဦးသီလ၏ သားအရင်းသဖွယ် တပည့်အရင်းသဖွယ် ဖြစ်၏။ ထို့ကြောင့် ထိုဆရာတော်၏ မှတ်စုစာအုပ်မှ အချက်အလက်များသည် ကိုယ်တွေ့အချက်များဖြစ်၏။ တစ်ဆင့်စကားမဟုတ်ချေ။ မျက်မြင် နားကြား ခေတ်ပြိုင်အထောက်အထားများဖြစ်၏။ ထို့ကြောင့် အသေအချာ စုဆောင်းမှတ်တမ်းတင်ခြင်းဖြစ်၏။ အသေအချာ ကြည့်ရှုတော်မူကြပါ။

ထိုဆရာတော်ကြီးသည် မိမိပေါက်မြောက် အောင်မြင်သောအခါ မိမိ၏ ဆရာတော်အရှင်တို့၏ အမွေအနှစ်များကို ဌာပနာတည် တည်ထားကိုးကွယ်သည်မှာ အောက်ပါဆရာတော်တို့ ပါဝင်ပါသည်။

(၁) ထားဝယ်ရဟန္တာဟု သမုတ်ကြသော ထားဝယ်မြို့ ဦးသီလမထေရ်၏ တောင်ဝှေးနှင့် သင်းပိုင်တော်၊

(၂) လူသိနည်းစွာဖြင့် ပေါက်မြောက်အောင်မြင်တော်မူသော အရှင်မြတ်ကြီး ဖြစ်သည့် ခြောက်ထပ်ကြီး ဆရာတော် အဂ္ဂမဟာ ပဏ္ဍိတ ဘဒ္ဒန္တအာစိဏ္ဏမထေရ်မြတ်၏ အမြဲခုတင်ဆောင်တော်မူသော နှစ်ထပ်သက်န်း ဒုကုဋ်တော်၊

(၃) မွန်ပြည်နယ်၊ ဘီးလင်းမြို့နယ်၊ ဝေဠုလ္လတောင် ညအခါ လူတစ်ဦးမှ မပါဘဲ တရားဟော ပလ္လင်ကြီးပေါ်မှ နေ၍ နတ်ပရိသတ်ကို နှစ်ပေါင်း (၄၅) နှစ်ပတ်လုံး တစ်နေ့ သုံးကြိမ် ဖမ္မစကြာဟောတော်မူသော အလွန်ထူးခြား အံ့သြဖွယ်ကောင်း

http://www.dhammadownload.com



သည့် ဘုန်းဘုရားဟု အများသိသော ဝေပုလ္လတောင် ဆရာတော် ဦးကောသလ္လ၏ ပလ္လင်တော် သားဇရေနွယ်အခင်း၊

(၄) သစ်သီးဆရာတော်ဟု ကျော်စောတော်မူသော အရည်ဝါသီ ထားဝယ်၊ ဇေယျဝတီ ဦးတေဇိန္ဒ (တောင်ပွား) ဆရာတော် ဘုရားကြီး၏ အမွေအနှစ်များ ဌာပနာခဲ့ကြောင်း အထောက်အထားရသဖြင့် ရဟန်းထူး ရဟန်းမြတ်တို့ ၏ အမည်တော်စာရင်းကို ကျွန်ုပ်သည် ရှာဖွေတွေ့ရှိခဲ့ရပါသည်။

လောကမာန်အောင်ဆရာတော်၏ အကြောင်းအရာတို့သည် ရဟန္တာဟု ကျော်စောသော ထားဝယ် ဇေယျဝတီကျောင်းတိုက်ဆရာတော် အရည်ဝါသီ ထားဝယ် ဦးသီလနှင့် ဆက်စပ်လျက် ရှိပေသည်။

လယ်မြေပိုင်ရှင် ဘုရားဒကာ၊ ဘုရားအမ၊ ကျောင်းဒကာ ကျောင်းအမ ဘိုးတော် ဘွားတော် ဦးဘလုံး၊ ဒေါ်မယ်ခွေးမှ ဆင်းသက်။ ခမည်းတော် ဦးဘနောင်၊ မယ်တော် ဒေါ်မယ်အင် မြခါးပတ်ကျေးရွာ၊ လောင်းလုံမြို့၊ ထားဝယ်။

အေဒီ ၁၉၂၉ — သက္ကရာဇ် (၁၂၉၁) ခုနှစ်၊ နှောင်းတန်းခူးလဆန်း၊ (၁၂) ရက်၊ ဗုဒ္ဓဟူးနေ့၊ နံနက် (၄) နာရီအချိန် မိဘနှစ်ပါးတို့မှ မီးရှူးသန့်စင် ဖွားမြင်တော်မူသည်။

မွေးချင်းခုနစ်ယောက်အနက် အငယ်ဆုံး သားရတနာ ဖြစ်ပါသည်။ အစ်မကြီး ဒေါ်ကြင်ငွေ၊ ဒေါ်ကြင်အောင်၊ ဦးချစ်ကို၊ ဦးလှညွန့်၊ ဒေါ်ကြင်မှို၊ ဒေါ်သန်းလှ၊ မောင်လှရှင် ဟူ၍ မွေးချင်း ခုနစ်ယောက် ဖြစ်ပါသည်။

ကျမ်းကိုး၊ လောကမာန်အောင်ဆရာတော်၏ သာသနာဝံ့ဇာကျမ်း၊ စာမျက်နှာ - ၃၉၂ မိဘနှစ်ပါး ကွယ်လွန်ပြီး ကိုးနှစ်သားကလေးအရွယ် ကျန်ရစ်ခဲ့ပါသည်။ အစ်မကြီး ဒေါ်ကြင်ငွေ က မြခါးပတ်ကျောင်း၌ လောကီပညာလေးတန်းမျှ သင်ကြားစေပြီး ၎င်းရွာရှိ ဘုန်းတော်ကြီး ဖရင်ခေါ် ဆရာတော်ကြီးထံ လောကုတ္တရာပညာရပ်များ ဆည်းပူးရန် အပ်နှံခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၉၂)

ထားဝယ်မြို့ ဇေယျဝတီစာသင်တိုက်မှ နယ်လှည့် ဓမ္မကထိက ဆရာတော် ဦးပညာဇောတိ တရားဟောကြွလာရင်း သာသနာတော်အတွက် အကျိုးရှိမည့်သူ ဖြစ်လိမ့်မည်ကို မြင်တွေ့၍ အစ်မဒေါ်ကြင်ငွေထံမှ မောင်လှရှင်ကို တောင်းယူခဲ့ပြီး ဇေယျဝတီစာသင်တိုက်ကြီးသို့ ခေ သူခဲ့ပါတော့သည်။

အေဒီ ၁၉၄၀ — အသက်မှာ (၁၁) နှစ်သားအရွယ်ရှိခဲ့ပြီး ဖြစ်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၉၂)

အေဒီ ၁၉၀၉ — မူလ ဇေယျဝတီစာသင်တိုက်ကြီးကို သက္ကရာဇ် (၁၂၇၀) ပြည့်နှစ်လောက်ကပင် သူဌေးကြီး စစ်မြကျေးရွာ၊ ရေဖုံးကျောင်းမှ စာချဘုန်းကြီးလေးအား ပင့်ဆောင်၍ အပ်နှံခဲ့ရသူ ဖြစ်ပါသည်။ မြေ (၁၅) ကေမျှရှိသော ဇေယျဝတီ ပရိယတ္တိ၊ ပဋိပတ္တိတိုက်ကြီးကို ရဟန်းဝါ (၃၀) မျှလောက် ကပင် တပည့်ကြီး ဦးတေဇဝန္တ၊ ဦးသာဂရ စသော ဆရာတော်ကြီးတို့အား အပ်နှံခဲ့ပြီး ထားဝယ် မြို့နှင့် ခုနစ်မိုင်ခန့်အကွာ ထားဝယ်အနောက်ဘက်ကမ်း မင်းရပ်ရွာအနီး တောရကျောင်းကို တည်ထောင်ပြီး ပဋိပတ်လမ်းစဉ် တရားများကို အားထုတ်နေခဲ့၏။

တစ်နေ့သောအခါ ဆရာတော်ဘုရားကြီးထံ ဝတ်ကြီးဝယ်ငယ်ပြုနေသော တောထွက်ရဟန်း ကြီးတစ်ပါးသည် ဆရာတော်၏ အိပ်ရာအနီးအပါးရှိ နာရီ၊ ဓာတ်မီး၊ ဖောင်တိန်၊ မျက်မှန်စသော အသုံးအဆောင် ပစ္စည်းအားလုံး ခိုးယူထွက်ပြေးသွားပါတော့သည်။

http://www.dhammadownload.com



ထိုအကြောင်းအရာကို ဆရာတော်၏ ညီအရင်း ဘိုးကြင်ဇာအား ပြောပြရာ ဘိုးကြင်ဇာက "အရှင်ဘုရား ပစ္စည်းခိုးသွားတော့ ပါရာဇိကလဲ ကျသွားတာပေါ့ဘုရား" လို့ လျှောက်ထားလိုက်သည်။

ကျမ်းကိုး၊ လောကမာန်အောင်၊ စာမျက်နှာ - ၃၉၄

ထိုရောအခါ ဆရာတော်ဘုရားကြီးက "ဘိုးကြင်ဇာ ငါ့ပစ္စည်း ဘယ်သူခိုးခိုး ပါရာဇိက မကျပါဘူး။ ငါက ငါ့ပစ္စည်းမယူမီ တစ်နာရီခအလိုက လှူထားပြီးသားပါ" လို့ ရယ်ရယ်မောမော ပြောပြပါ သည်။ "ဘိုးကြင်ဇာ ဒီကိစ္စ သူများ မပြောပါနဲ့နော်" လို့ ထပ်ဆင့်မှာထားခဲ့သည်။ ဘိုးကြင်ဇာထံမှ ကြားသိရဖူးသည်။ ဆရာတော်ဘုရားကြီးသည် ငယ်ဆရာ မင်းရပ်တလိုင်း မော်ကျောင်း ဆရာတော်ထံမှ ပိဋကတ်သင်ရိုး ကုန်ဆုံးအောင် သင်ပြီးတော့မှ ရန်ကုန်၊ မန္တလေး၊ ပခုက္ကူ စသော စာသင်တိုက်ကြီးများသို့ ဆရာနည်းယူ၍ ပညာရှာထွက်ခဲ့ဖူးပါသည်။ ထိုစဉ်က ညီအရင်း ဘိုးကြင်ဇာက ပိုက်ဆံကိုင်ပြီး နောက်တော်ပါးက ကပ္ပိယအဖြစ် အမြဲလိုက် ခဲ့ပါသည်။

အေဒီ ၁၉၅၈ — အသက် (၈၄) နှစ် ပျံလွန်သည့်နေ့အထိ ဆရာတော်ဘုရားကြီးသည် တစ်ပြား၊ တစ်ကျပ်၊ တစ်ဆယ် လုံးဝ မသိပါ။ ကိုင်တွယ်ခြင်း လုံးဝမရှိခဲ့ပါ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၉၄

မြို့တစ်မြို့မှ တစ်မြို့သို့ သင်္ဘောနှင့် သွားရာ၌ ဆရာတော်ဘုရားကြီးသည် သင်္ဘောပေါ်မှာ ဒကာမပါနေ၍ တစ်ညဥ့်လုံး ငုတ်တုတ်ထိုင်ပြီး တရားမှတ်နေသတဲ့။ ဘိုးကြင်ဇာထံမှ သိရပါသည်။

ထိုဆရာတော်ဘုရားကြီးသည် တစ်နေ့သောအခါ ညနေ (၄) နာရီအချိန်လောက် ထားဝယ်မြို့မှ ခြောက်မိုင်ကွာဝေးသော ဇလွန်ရွာရှိ သူ၏ သူငယ်ချင်းကျောင်းသို့ ကျောင်းသား မောင်လှရှင် အား ခေါ်သွားပါသည်။ ၎င်းညကျလျှင် သူ၏ ခြေရင်းနား ခြင်ထောင်ကလေးဖြင့် အိပ်ခိုင်းပါ သည်။ "မအိပ်နဲ့ဦးနော် ဆောင့်ကြောင့်ထိုင်ပြီး နှာခေါင်းမှ ထွက်လေ ဝင်လေ မှတ်နေပါ။ ငါ မအိပ်သေးဘူး" ဟု ခြင်ထောင်လေးမ,ပြီး မှာကြားထားသဖြင့် တော်တော်နှင့် မအိပ်ရဲဘဲ ထွက်လေဝင်လေ မှတ်နေရပါသည်။

နံနက် (၃) နာရီ အချိန် တစ်ခါ လာနှိုးပြန်သည်။ မျက်နှာသစ်ခိုင်းပြီး "ခဏကြာလျှင် ငါတို့ ဖေဃ္ဃဝတီတိုက်မှ နံနက် (၄) နာရီ သံချောင်းကြီးအသံ ကြားလိမ့်မည်။ ထိုအသံကို နားထောင် ရင်း ထွက်လေ ဝင်လေ (ထွက်သက် ဝင်သက်လေ) မှတ်ပါ" လို့ မှာထားပြန်သဖြင့် နံနက် (၄) နာရီ သံချောင်းသံ ကြားလျှင် ငါ့အား ပြောပါဆို၍ အသံကို နားထောင်ရင်း (၃) နာရီမှ (၄) နာရီအတွင်း မအိပ်ရဲဘဲ ထွက်လေ ဝင်လေ မှတ်နေရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၉၅

အေဒီ ၁၉၄၄ — (ရှင်ဝဏ္ဏိတ) သည် (၁၆) နှစ်သားအရွယ် စိတ်ဓာတ်က အထူးထက်မြက်ချိန်ကာလ ဖြုန်းဆို အမှတ်မထင် ဗိုလ်ချုပ်အောင်ဆန်းတို့၏ လွတ်လပ်ရေးတိုက်ပွဲစခဲ့ပြီး ညနေ (၄) နာရီ အချိန် ထားဝယ်မြို့လုံး ဖုံးအုပ်လုမတတ် လေယာဉ်ပျံဝဲလာပြီး ဗုံးတွေကြဲ စက်သေနတ်တွေ အရမ်းပစ် ပါတော့သည်။ ထားဝယ်မြို့တစ်မြို့လုံး မီးဟုန်းဟုန်းတောက်လုမတတ် ဆူညံသွားကြပါသဖြင့် စာသင်တိုက်ကြီးလည်း လောင်းလုံမြို့၊ အောင်သပြေ ကျောင်းသို့ရွှေ့ခဲ့ပြီး ဆရာတော်များနှင့် အတူလိုက်နေရပြန်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၉၆

http://www.dhammadownload.com



အေဒီ ၁၉၄၆ ရှင်ဝဏ္ဏိတတို့ အသက် (၁၈)နှစ် အရွယ် တိုင်းပြည်အခြေအနေ ငြိမ်သက်လာ၍ ထားဝယ်မြို့ပေါ် ပြန်လာကြသော်လည်း လူ၊ ရှင်၊ ရဟန်းများ စားဝတ်နေရေး အတော် ဆင်းရဲနေကြပြီး သစ်ပင်မှ အခေါက်ကို ပုဆိုးလုပ်ဝတ်တာ မြင်ဖူးလာပြီး နာနတ်ရွက်ကိုထု၊ ရေစိမ်၊ ကြိုးမျှင်လေးလို အပ်ချည်လုပ်ချုပ်ရပါသည်။ ကျောင်းသားများ ဘုရားစင်၊ ခန်းဆီး၊ လိုက်ကာ၊ ကန့်လန့်ကာကို ချုပ်ပြီး ဝတ်ကြရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၉၆

သက်န်းတွေကို မြေမြှုပ်ပြီး အမည်းထည့်လုပ် ဝတ်ကြရသည်။ သတ္တုတွင်းမှ လူတွေ အုပ်စုဖွဲ့ပြီး မြို့ပေါ်အငတ်ဘေးကြောင့် ပြေးလာကြပြီး ထမင်းငတ်တဲ့မသာ တစ်နေ့ (၃၀) မျှ ဘုရားကြီးဝင်းမှ (ဝင်းကြီးမ) သင်္ချိုင်းသို့ ကုလားလှည်းတို့ဖြင့် သယ်ယူပြီး ကျောင်းနားက ဖြတ်၍ ဆန်ရှိသူတွေက ဆန်မရှိ၍ လုသူတွေကို သတ်ရန် တုတ်၊ ဓားဖြင့် ထိုင်စောင့်နေကြပါသည်။

မြို့ထဲ ရွာထဲမှာ သခင်ကြီးတွေကို ဇေယျဝတီတိုက်နား (ဝင်းကြီး) သင်္ချိုင်းတွင် ကိုယ့်တွင်းကိုယ်တူး တွင်းဝမှာ ထိုင်ခိုင်း၊ မျက်လုံးနှစ်ဖက် စက္ကူအုပ်ကာ သူခါးမှ ဓားရှည်ဖြင့် ခုတ်သတ်နေတာ (ကိုရင်ဝဏ္ဏိတ) သွားကြည့်နေ၍ မြင်ရပြီး ဓားသံကြား၍ မခုတ်ရဘဲကြောက်ပြီး တွင်းထဲလိမ့်ကျသူများကို အရှင်လတ်လတ် မြေမြှုပ်နေကြပြီး ဟင်း ငါတို့ လွန်ခဲ့တဲ့ နှစ်နှစ်လောက်က ဆိုခဲ့တဲ့ သီချင်းနဲ့ ဘာဆိုင်တုံးကွာ၊ သီချင်းလေးက (ဂျပန်တွေမလာသေး၊ ဖာထေးလို့ ဝတ်ရသည်) ဆိုတဲ့ တခြားစီပဲ၊ တယ်ရက်စက်တဲ့ လူမျိုးတွေပါလားဆိုတာ ဝဏ္ဏိတနှလုံးသားတွင် (ဖျက်မရသော မျိုးချစ်စိတ်ဓာတ် တဖွားဖွား ပေါ်ခဲ့ပြီ)

စာသင်တိုက်ထဲမှာ သခင်ဘုန်းကြီး တစ်ပါးက စာသွားပေးခိုင်းတဲ့ အုတ်ထံတား ကြိုးက သခင်ဦးဘိုးမှဲ့ဆိုတဲ့ အဘိုးကြီးများ ခုတ်သတ်တဲ့ထဲ ပါသွားသလား မသိပါ။ ထိုအဘိုးကြီးထံ စာသွားမပို့ရပါ။ နောက်တော့ သံဖြူဇရပ်မှာ သွားသတ်တဲ့ ကိုးဦးထဲ ပါသွားတယ်လို့ သိရပြန်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၉၆

ဗိုလ်ငွေကိုင် ထားဝယ် အထက်ရေမြှုသားက စစ်သားသစ်များ၊ လက်ခံသူ ဖြစ်သည်။

ကိုရင်အတူ ဝတ်ခဲ့သူမို့ ရင်းနှီးချစ်ခင်သူ ဖြစ်သည်။ သူက စစ်တပ်ထဲ လက်မခံပါ။ "နင်မဝင်ပါနဲ့၊ နင်ဘုန်းကြီး လုပ်ပါ။ ငါတို့ တိုက်မယ်ကွာ" ဟု အတန်တန် တားဆီးနေပြန်သည်။ "ငါတို့ ပြန်လမ်းမရှိဘူးကွာ၊ ပေးစာအုပ်" ဆိုပြီး လက်မှတ်ထိုးပြီး စစ်တပ်ထဲ ဝင်လိုက်ပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၉၇

အခြားစစ်သားလောင်းတွေထက် ကိုရင်လူထွက်ကလေးတွေမို့ သားသားနားနား ရှိ၍လားမသိ ရန်ကုန်မှ စစ်သားစုဆောင်းလာသူဗိုလ်မှာ သူ၏ကားဖြင့် ခေါ်သွားပါသည်။ ဆေးစစ်ဆေးရာ လုပ်စရာရှိတာ သူပဲ အလုပ်လုပ်ပေးနေပါသည်။

သန်ဘက်ခါမှ ရန်ကုန်သို့ သင်္ဘောဖြင့် သွားကြရပါမည်။ ရှင်ဝဏ္ဏိတ၏ ရည်ရွယ်ချက်မှာ ဂျပန်ကို သတ်ဖို့ တစ်ခုပဲ ဖြစ်သည်။ ထားဝယ်တွင် မမျှော်လင့်ဘဲ နှစ်ရက်ကြာနေပါပြီ။ နောက်နေ့ညနေ ယခု ဇေယျဝတီတိုက်ကြပ်စာချ ဦးခေမာဝံသသည် စစ်တပ်သို့လိုက်လာပြီး စစ်သား (၅၀၀) အကြား စစ်ဗိုလ်လေးက တိုင်းပြည်က အရေးကြီးကြောင်း၊ တစ်ဦးက သာသနာက အရေးကြီးကြောင်း စကားစစ်ထိုးနေကြပါသည်။ တစ်နာရီနီးပါး ကြာခဲ့ပြီ။ နောက်ဆုံး စစ်ဗိုလ်လေးက မောင်လှရှင်ဘက်လှည့်ပြီး မျက်စပစ်ထားသည်။ မလိုက်သွားနဲ့ဆိုတဲ့ သဘောဖြစ်သည်။

http://www.dhammadownload.com



ထို့နောက် စစ်ဗိုလ်ကလေးက "အရှင်ဘုရား၏ တပည့် အရှင်ဘုရားခေါ်လို့ရလျှင် ခေါ်သွားပါ" လို့ပြောတော့ ဆရာတော် ဦးခေမာဝံသက "ဟေ့ကောင် လာစမ်း" ဆိုပြီး ရင်ဘတ်တစ်ပြင်လုံးရှိ အကျီအားလုံး ဆွဲခြေပြီး ဇေယျဝတီကျောင်းတိုက်သို့ အရောက်ဆွဲခေါ်ခဲ့ပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၉၇

ဆရာအား ဘယ်လိုမှ မဖိဆန်နိုင်တော့ပါ။ ကျောင်းသို့ရောက်ပြီး သက်နိုးချက်ချင်း ဝတ်ပေး၍ တစ်နေရာတွင် သော့ခတ်ပြီး ထမင်းကျွေးပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၉၇

အေဒီ ၁၉၅၆ ဆရာတော် ဘုရားကြီးသည် သက္ကရာဇ် (၁၃၁၈) ခုနှစ်၊ ကဆုန်လလောက်ကပင် အသက် (၈၃) နှစ်၊ ဇရာဗျာဓိသဘောဖြင့် ကျန်းမာရေးမကောင်းတော့ပါ။ ဆရာတော်ဘုရားကြီး၏ အနီးကပ် ပြုစုနေသော တပည့်ဝဏ္ဏိတ၊ ဂျပန်သာသနာပြု ဦးဓမ္မစာရ (ပျံလွန်) တို့အား ပြောပါသည်။

ငါ့အမြဲပူဇော် နှလုံးသွင်းနေသော ဓမ္မစကြာ၊ အနတ္တလက္ခဏာသုတ်ပဋ္ဌာန်း ဒေသနာတော်များ နာကြားလိုကြောင်း ပြော၍ ဝဏ္ဏိတ၊ ဦးဓမ္မစာရနှင့် ခြောက်ပါး အဖွဲ့ဖွဲ့ ပြီး နေ့စဉ် ညနေတိုင်း ဆရာတော်ဘုရားကြီး အနီးပါးမှာ ပူဇော်ပေးကြပါသည်။

ဆရာတော်ဘုရားကြီးက ပြီးဆုံးတဲ့ အခါတိုင်း သာဓုခေါ်ပြီး "ငါနိဗ္ဗာန်သို့ ရောက်သွားသလို ကာယဝိဝေက စိတ္တဝိဝေက ခံစားရတယ်" ဆိုပြီး ပူဇော်သူ ဝဏ္ဏိတနှင့် တပည့်တို့အား အမြဲဝမ်းမြောက်စကား ပြောကြားပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၉၈

မကွယ်လွန်မီ လေးလအလို ညနေ (၆) နာရီ ဝတ်ကြီးဝတ်ငယ် ပြုစုသူ ဝဏ္ဏိတနှင့် တပည့်တို့အား "ငါ့ဦးခေါင်းပေါ်က သမ္ဗသနဉာဏ်၊ ဥဒယဉာဏ် စသည်ဖြင့် ဉာဏ်စဉ် မနေမနား တစ်နေ့လုံး ရွတ်နေကြပါတယ်။ နင်တို့ မကြားဘူးလား" လို့ ခဏခဏ မေးနေပါတယ်။

တပည့်တို့က "ထိုအသံဟာ လူတွေ မဟုတ်ပါဘူးဘုရား၊ နတ်တွေက ဆရာတော်ဘုရားကြီးအား ပူဇော်နေတဲ့ အသံဖြစ်ကြောင်း" လျှောက်ထားတော့ "နင်တို့ ပါရမီနဲ့ ကွာသတဲ့"

အေဒီ ၁၉၅၇ ဤလိုနဲ့ပဲ တစ်နေ့ တစ်လ ကြာညောင်းခဲ့ပြီး သက္ကရာဇ် ၁၃၁၉ ခု ကဆုန်လဆုတ် (၁၄)ရက်နေ့ (၆) နာရီ၊ သက်တော် (၈၃) နှစ်၊ သိက္ခာတော် (၆၃) ဝါ အရောက် တပည့် ကြီးငယ်များ ဝိုင်းရံနေသည့်ကြားဝယ် အိပ်သောယောက်ျား နိုးသောလားသို့ အနီးကပ်ရှိနေသော ဆရာဝန်ကြီး ဦးကြည်ထုံက နှာခေါင်းဝပေါ် ဝါဂွမ်းတင်ကြည့်တော့ ဆရာတော်ဘုရားကြီး ဗြဟ္မာပြည်သို့ ပျံကြွသွားပြီဖြစ်ကြောင်း ပြောကြားလိုက်တော့မှ တပည့်ကြီးငယ်အပေါင်း ကြိမ်မီးအုံးပမာ ငိုကြွေးကြရှာပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၉၉

အေဒီ ၂၀၀၇ ဆရာတော်ဘုရားကြီး ဝတ်၍ အသက်ပျောက်ခဲ့ရသော သင်္ကန်း၊ သင်းပိုင်လေးကို တပည့်ဝဏ္ဏိတမှ ဆရာတော်ဘုရားကြီး၏ ကိုယ်စား အလှူခံပြီး အမြတ်တနိုး ကိုးကွယ်လာခဲ့ရာ သက္ကရာဇ် ၁၃၆၉ ခု၊ တော်သလင်းလပြည့်နေ့ (၇-၁၀-၈၇) ရန်ကုန်မြို့ ငါးထပ်ကြီးဘုရား ကုန်းမြေ မဂ္ဂင်ကျောင်း ဦးကုဏ္ဍလကျောင်းဝင်းထဲမှာ ငွေငါးသောင်းကျော်လှူ၍ ရွှေတိဂုံဘုရား၏ ပုံတူမုခ်လေးခုဖြင့် စေတီတည်ပြီး ကိုးကွယ်ထားပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၀၀

http://www.dhammadownload.com



ထိုစေတီ၏ ဌာပနာများမှာ

(၁) ဘုရားရှင်၏ ဓာတ်တော်၊ မွေတော်များ၊

(၂) ဆရာတော် ဦးသီလ မထေရ်၏ တောင်ဝှေးနှင့် သင်းပိုင်တော်၊

(၃) ခြောက်ထပ်ကြီး ဆရာတော် အဂ္ဂမဟာ ပဏ္ဍိတ ဘဒ္ဒန္တအာစိဏ္ဏမထေရ်မြတ်၏ အမြဲ ဓုတင်ဆောင်တော်မူသော နှစ်ထပ်သင်္ကန်း ဒုကုဋ်တော်၊

(၄) မွန်ပြည်နယ်၊ ဘီးလင်းမြို့နယ်၊ ဝေပုလ္လတောင်၌ နှစ်ပေါင်း (၄၅) နှစ်ပတ်လုံး တစ်နေ့ သုံးကြိမ် ဓမ္မစကြာဟောရာ၌ ဆရာတော် ဦးကောသလ္လ၏ ပလ္လင်တော် သားရေနွယ် အခင်း၊

(၅) ထားဝယ်၊ ဇေယျဝတီ ဦးတေဇိန္ဒ(တောင်ပွား) ဆရာတော်ဘုရားကြီးများ၏ ကျောက်ထီးတန္တ အလေးမူ၍ ဤဇမ္ဗူဒီပါလေးကျွန်း မာရ်အောင် ဆုတောင်း ပြည့် စေတီ တည်ထား။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၀၀

ကျမ်းကိုး၊ လောကမာန်အောင်ဆရာတော်၏ သာသနာဝံသကျမ်း၊ စာမျက်နှာ - ၃၉၂ အထက်ပါ အချက်အလက်များအရ ထားဝယ်မြို့မှ ဇေယျဝတီဆရာတော်ဘုရားကြီး ဖြစ်တော်မူသော ကိုယ်တော်မြတ်ကြီးသည်လည်း တရားထူး တရားမြတ်ရသော ရဟန်းထူးကြီး ဖြစ်တော်မူပါသည်။ ထို့ကြောင့်ပင် ထိုအရိယာစစ်စစ်ကြီး၏ တောင်ဝှေးတော်နှင့် သင်းပိုင်တော်ကို ဌာပနာတော်မူကြောင်း သိရပါသည်။

၎င်းအပြင် အသစ်သိရသော အချက်အလက်တစ်ခုမှာ ခြောက်ထပ်ကြီး ဆရာတော် အဂ္ဂမဟာ ပဏ္ဍိတ ဘဒ္ဒန္တအာစိဏ္ဏမထေရ်မြတ်၏ အမြဲဓုတင်ဆောင်တော်မူသော နှစ်ထပ်သင်္ကန်း ဒုကုဋ်တော်ကိုလည်း ဌာပနာတော်မူကြောင်း မိန့်ဆိုခဲ့ပါသည်။ ဆိုလိုသည်မှာ ခြောက်ထပ်ကြီး ဆရာတော် ဦးအာစိဏ္ဏကိုယ်တော်မြတ်ကြီး တရားထူးရတော်မူကြောင်း အလွန်လူသိနည်းသော အချက်တစ်ချက် ဖြစ်ပါသည်။

အခြားအချက်အလက်တစ်ခုမှာ မွန်ပြည်နယ်၊ ဘီးလင်းမြို့နယ်၊ ဝေပုလ္လတောင်၌ နှစ်ပေါင်း (၄၅) နှစ်ပတ်လုံး တစ်နေ့ သုံးကြိမ် ဓမ္မစကြာဟောရာ၌ ဆရာတော် ဦးကောသလ္လ၏ ပလ္လင်တော် သားရေနွယ်အခင်းကို ဌာပနာတော်မူသည် ဆိုသည်မှာလည်း ထိုဘုန်းဘုရားကြီး ဦးကောသလ္လ တရားထူး တရားမြတ်ရပုံကို သိသာထင်ရှားစေသောကြောင့် တပည့်ဖြစ်သူက ဆောင်ရွက်ခြင်း ဖြစ်ပေသည်။ ဘုန်းဘုရားကြီး ဦးကောသလ္လသည် ညတိုင်း ညတိုင်း နတ်တို့ကို ဓမ္မစကြာ တရားဟောသည်မှာ နှစ်ပေါင်း (၄၀) မျှ ကြာမြင့်ခဲ့လေသည်။ ဤရွှေ ဤမျှ ထူးသော ဘီးလင်းမြို့နယ် ဝေပုလ္လတောင်က ဘုန်းဘုရားကြီး ဖြစ်၏။

ထားဝယ်၊ ဇေယျဝတီ ဦးတေဇိန္ဒ (တောင်ပွား) ဆရာတော်ဘုရားကြီး၏ ဓာတ်တော်များကိုလည်း ဌာပနာတော်မူခဲ့ကြောင်း သိရှိရပါသည်။

အထက်ပါ အချက်အလက်များတွင် ဖော်ပြပါရှိသော ဆရာတော်ကြီးများတို့သည် ဓာတ်တော်ကျတော်မူသော ရဟန္တာများနှင့် တရားထူး တရားမြတ်ရသော အရိယာစစ်စစ်ကြီးများ ဖြစ်ကြောင်း သိသာထင်ရှားစေလိုသောကြောင့် လော‌ ‌ ာရ်အောင် အုတ်ကျောင်းဆရာတော်က ဖွင့်ဖော် ခြင်း ဖြစ်သည်။ အမှန်စင်စစ် လောကမာရ်အောင် အုတ်ကျောင်းဆရာတော်သည်လည်း တရား ထူးရသော ပေါက်ဆရာတော်ကြီး ဖြစ်လေသည်။ ဤသို့အားဖြင့် ဆရာစဉ်ဆက် ဆက်နွယ်နေသော ရဟန္တာနှင့် ရဟန်းထူး သမိုင်းကြောင်းကြီးသည် အလွန် အံ့သြကြည်ညိုဖွယ်ဖြစ်ပေသည်။

မှတ်တော်တဖွားဖွားကျသော

တောင်တွင်းကြီးမြို့နယ်၊ ဇေယျဝဍ္ဍနတိုက် ဇင်းပျိုးတောရကျောင်း ဣသိနာဂ ဣစ္ဆာသယ

# နက္ခတ်ပိုင် ဇင်းပျိုး ဦးဉာဏ်ဂုဏ်သ

(၁၈၃၅ – ၁၉၄၈)



http://www.dhammadownload.com



နက္ခတ်ပိုင် ဇင်းဖျိုး ဦးဥက္ကံသ ဟူသော စကားလုံးကို ကျွန်ုပ်ကိုယ်တိုင် စစ်ကိုင်း တောင်ဗိလာ ချောင်သို့ ရောက်စဉ်အခါက တောင်ဗိလာ ဆရာတော်ဘုရားကြီးကိုယ်တော်တိုင် လက်ညှိုး ထိုး၍ "ဟောဟိုက ဓာတ်ပုံကြီးက နက္ခတ်ပိုင် ဆရာတော်ဘုရားကြီးပဲ" ဟူ၍အသေအချာ ကြည့်ခိုင်းခြင်းကြောင့် အသေအချာ မှတ်မိနေခြင်းဖြစ်ပါသည်။ အချို့သောသူတို့က ဇင်းဖျိုး ဟူသော စကားကို မသိသဖြင့် စာလုံးပေါင်းမှားသည်ထင်ကာ ပဥ္စင်းပျိုများလားပင် ဟူ၍ပင် ပြောဆိုကြပါသည်။

ကျွန်ုပ်သည်ကား တောင်ဗိလာ ဆရာတော်ဘုရားကြီးကိုယ်တိုင် ညွှန်ကြားပြသထားသော ကိုယ်တွေ့ ဖြစ်ရပ် ရှိသည်ဖြစ်၍ ဇင်းဖျိုးဟူသော စကားကို ရိပ်မိပြီး ဖြစ်ပါသည်။ စာရှာသော အခါ အောက်ပါအတိုင်း တွေ့ရပါသည်။

မကွေးဒိစတြိတ် (ယခုမကွေးတိုင်း) တောင်တွင်းကြီးမြို့နယ်၊ အနောက်မြောက် (၈) တိုင်အကွာ မြို့လုလင်မှ (၅) တိုင် အကွာ ဇင်းဖျိုးရွာ ဟူ၍ ရှိပါသည်။

ကျမ်းကိုး၊ လေးစိုး (မုံရွာ)၊ ဝိဇ္ဇာ ၂၀၀၈ ၊ အောက်တိုဘာလ ၊ စာမျက်နှာ - ၈၀

အထက်ပါစကားအရ ဇင်းဖျိုးဟူသည်မှာ ဇင်းဖျိုးရွာဟု ဆိုလိုကြောင်း သိရှိရပါသည်။ တောင်ဗိလာ ဦးဝိလာသ ကိုယ်တော်ကြီးကို ဖူးတွေ့ဖူးသော စာပေပညာရှင်တို့၏ ကိုယ်တွေ့ မှတ်တမ်းများ ဖြစ်သဖြင့် အထက်ပါ မှတ်တမ်း အောက်ပါမှတ်တမ်းများသည် ခေတ်ပြိုင် မှတ်တမ်းများ ဖြစ်၏။ ကျွန်ုပ်ရှာဖွေ စုဆောင်းသဖြင့် သာသနာ့သမိုင်းတွင် တန်ဖိုးကြီးကြောင်း နောင်အခါ သိရပါလိမ့်မည်။

အေဒီ ၁၈၇၅ ထိုဇင်းဖျိုးရွာနှင့် ဆရာတော်ကြီး၏ ဇင်းဖျိုးတောရကျောင်းသည် တာ (၅၀၀) ကွာပါသည်။ ဇင်ဖျိုးတောရဆရာတော်ဘုရားကြီး ဦးဥက္ကံသကို ဇင်းဖျိုးရွာတွင် မြန်မာသက္ကရာဇ် (၁၂၃၇) ခုနှစ်၌ ဖွားမြင်တော်မူပါသည်။

ကျမ်းကိုး၊ လေးစိုး (မုံရွာ)၊ ဝိဇ္ဇာ ၂၀၀၈ ၊ အောက်တိုဘာလ ၊ စာမျက်နှာ - ၈၀

ဇင်းဖျိုးဦးဥက္ကံသဆရာတော်ဘုရားကြီးသည် ငယ်ရွယ်စဉ် ပဥ္စင်းဘဝတွင် မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမ ဘုရားကြီးတိုက် ဆရာတော်ကြီး ရန်ကုန်ကျောင်း၌ သီတင်းသုံးနေထိုင်တော်မူစဉ် ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီး ဦးဩဘာသထံမှ ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်း၊ မေတ္တာ ကမ္မဋ္ဌာန်းများကို သင်ကြားခဲ့ရကြောင်း သိရှိရပါသည်။

၎င်းကမ္မဋ္ဌာန်း၏ ပညာအစကိုလည်း အောက်ပါအတိုင်း သိရှိရပါသည်။

သည်ပညာများသည် အိန္ဒိယပြည် ရာဇဂြိုလ်ပုဂ္ဂိုလ် (၄) ဦးကစခဲ့ကြောင်း အမိန့်ရှိဖူးပါသည်။ ရာဇဂြိုလ်ပုဂ္ဂိုလ်ကျော် အရှင်မြတ်တို့၏ ဘွဲ့အမည်တော်များကို မမှတ်မိသဖြင့် မဖော်ပြနိုင်ပါ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၁

အဘယ်ကြောင့် ဇင်းဖျိုး ဆရာတော်ဟု ခေါ်ကြောင်း အဖြေရှိပြီး ဖြစ်ပါသည်။

ဇင်းဖျိုးရွာ ဇင်းဖျိုးတောရကျောင်းတွင် သီတင်းသုံးခြင်းကြောင့် ဇင်းဖျိုးဆရာတော်ဟု ကျော်ကြားတော်မူပါသည်။

ဟင်းခပ်ဇွန်း ထမင်းခပ်ဇွန်း အလိုအလျောက် ရောက်လာသော အထူးအဆန်းဖြစ်ရပ်တစ်ခု ရှိဖူးပါသည်။ ထိုအချက်ကို အကြောင်းပြု၍ ဇွန်းကိုယ်တော်ဟူသော စကားအထူးအဆန်း တစ်လုံး တွေ့ရှိရပါသည်။

ဣသိနာဂဏ္ဍသယတွဲ့သည် ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီး ဦးဩဘာသက ပေးခြင်း ဖြစ်ပါသည်။ ယောနယ်ဘက်မှ ဇွန်းကိုယ်တော်ဟုလည်း ကျော်ကြားပါသည်။ ဇွန်း မပါဘဲနှင့် ဆွမ်းကပ်သည့်အခါတွင် ဇွန်းအလိုအလျောက် ရောက်သည်ဟု ဆိုပါသည်။

http://www.dhammadownload.com



လွန်းကိုးချက်ပိုင် သဖြင့် လွန်းကိုယ်တော်ဟုလည်း ကျော်ကြားပါသည်။ လာသမျှ လူအပေါင်းကို လက်ခံကျွေးမွေးပြီး ဗုဒ္ဓါနုဿတိ ကမ္မဋ္ဌာန်း၊ မေတ္တာကမ္မဋ္ဌာန်း၊ အသုဘကမ္မဋ္ဌာန်းများကို သင်ကြားပြသပါသည်။ အနည်းဆုံး ပရိသတ်တစ်ရာ၊ ကိုးဆယ် ရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၁

နက္ခတ်ပိုင်ဆရာတော်နှင့် စပ်လျဉ်း၍ ရုပ်သေးမင်းသားကြီး ဆရာကျုံကိုယ်တိုင် အထူးအဆန်းများကို ဝါဒဖြန့်ခဲ့ကြောင်း အောက်ပါ အထောက်အထားအရ သိရှိရပါသည်။

ဆရာတော်ကြီး ဦးဥက္ကံသနှင့် စပ်လျဉ်း၍ "ဇမ္ဗူဒီပါ လက်ျာတောင်တွင်း၊ စကြာမင်းနောက်၊ သံခမောက်နှင့် လေးယောက်ဝိဇ္ဇာ၊ ကမ်းတစ်ဖက်ကူး၊ မန်းစက်ဦးသို့ အဖူးလာမည်၊ မမိုက်ရာထောင်၊ သိုက်စာစောင် ပြောင်ပြောင်လင်း၊ ဇင်းဗျိုးဆရာတော် ဦးဥက္ကံသ၊ သမထကြောင့် စမ,ပေါ်၊ ဇော်လားဂျီလား၊ ခွေယိုင်မန္တမ်း၊ နေထိုင်လမ်း၊ ဆွမ်းမစားရာ၊ မတိုးနဲ့ငေါက်၊ ကိုးဆယ့်ခြောက် ပျောက်ရပါသည်။ လူ, ရှင်သာမဏာ၊ မကျေနပ်လျှင် အသေစာတ်ပြနိုင်ပါသည်။ ငါးရာတစ်ထောင်၊ ဆန်မဆောင်နှင့် ပြန်အောင်ကျွေး၊ မဈေးမဝယ်၊ မတယ်မချက်၊ ယုံသော်အပြီး၊ ဂုဏ်တော်ကြီး၊ ဣဋ္ဌာရုံတင်၊ အလိုရှိရာ ကိုယ်ကြည့်ပါက၊ သိသာမြင်လိမ့်၊ သိရန်ကိုအချက်၊ ပထဗျာအပြင်၊ ဝဋ္ဋာတခွင်၊ မကြာခင်ထွက်ပါလိမ့်မည်။ ဟောသည်က စကြာတောင်သို့၊ သက်သာအောင် နာဂိန်ကြီးရယ်နှင့် စကြာမောင်လာချိန်နီးပြီမို့၊ ကြိမ်ပုတီးစိပ်ခါကြိုကြပါတော့၊ ဝိဇ္ဇာစိုရ် ဇော်ဂျီလောင်းတို့ရယ်၊ ခတ်စည်မောင်း၊ ခတ်လိုက်ရပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၁

ဤစာသည် ရုပ်သေး မင်းသားကြီး ဆရာကျုံရေးသားစပ်ဆိုသောစာဟု သိရပါသည်။ နောင်လာနောက်သားများ သိမှတ်ရန် ရည်ရွယ်ပါသည်။

နက္ခတ်ပိုင်ဆရာတော်၏ အံ့ဖွယ်ဖြစ်ရပ်ဆန်းများကိုလည်း မှတ်တမ်းတွေ့ရှိရပါသည်။ အောက်ပါ ထမင်းအိုးနှင့် တောင်ဝှေးအကြောင်းကို ဖတ်ကြည့်လျှင် သိသာပါလိမ့်မည်။ အပိုပြောစရာ မလိုတော့ပါ။

ကပ္ပိယက . . .

"နက်ဖြန် ကျွေးမွေးချက်ပြုတ်ရန် ဆန်ပြတ်တော့မယ်ဘုရား"

ဟု လာလျှောက်လျှင် ဆရာတော်ကြီးက

"ထမင်းအိုး၊ ဟင်းအိုးတွေ ငါ့ဆီယူခဲ့" ဟု အမိန့်ရှိလိုက်ပြီး ထမင်းအိုးဟင်းအိုးတွေကို ကြည့်၍ "ဟဲ့ . . ထမင်းအိုး၊ နင်သည် ဆန်ရောက်အောင် လုပ်ရမည့်တာဝန်သည် နင့် တာဝန်ဖြစ်သည်" ဟု အမိန့်ပေးကာ ထမင်းအိုးကို တောင်ဝှေးနှင့် ရိုက်လိုက်ပါတော့သည်။

နံနက် လုပ်လိုက်လျှင် ည ဆန်လှည်းတွေ တကျိကျိနှင့် ရောက်လာပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၁

အံ့ဖွယ်ဖြစ်ရပ်ဆန်းများ၏ အဖြေကို မေတ္တာ၏ တန်ခိုးကြောင့်ဟူ၍ပင် အဖြေထွက်ခဲ့ပါသည်။ အောက်ပါဖြစ်ရပ်ဆန်းကို ကြည့်ပါ။

ကွမ်းမရှိလျှင် ကွမ်းအစ်ကို ညှပ်နှင့် ခေါက်ပါသည်။ ခေါက်လိုက်လျှင် ပုပ္ပားနယ်က ကွမ်းထမ်းကြီးတွေနှင့် ရောက်လာသည်ကို ဤအရှင် ကိုယ်တွေ့မြင်ခဲ့ရပါသည်ဟု မှတ်တမ်းရှိ၏။ သည်ဟာ ဘာလဲဆိုလျှင် မေတ္တာတန်ခိုးပင် ဖြစ်ပါသည်ဟု အဖြေပေးထားပါ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၁

စကြာမင်း နောက်လေးယောက် ဝိဇ္ဇာဆိုသည်မှာ ဒုက္ခ၊ သမုဒယ၊ နိရောဓ၊ မဂ္ဂသစ္စာ လေးပါးကို ဆိုလိုပေသည်။

http://www.dhammadownload.com



စကြာမင်းဆိုသည်မှာလည်း ရှင်တော်မြတ်ဘုရားကြီးကို ဆိုလိုပါသည်။ လူ၊ ရှင် သာမဏေ မကျေနပ်လျှင် အသေဓာတ်ပြနိုင်ပါသည် ဆိုသည်မှာ လောဘမီး၊ ဒေါသမီး၊ ကာမဂုဏ်မီးတွေ သေအောင် သတိမရအောင် မေ့နိုင်အောင် ဆိုလိုပါသည်။
မကြာခင်ထွက်မှာမို့ ဆိုသည်မှာ သုံးဆယ့်တစ်ဘုံမှ ထွက်ခြင်းကို ဆိုလိုပါသည်။ ဤမျှဆိုလျှင် ဉာဏ်ရှိသလို အကျယ်ချဲ့၍ သိလောက်ပါပြီ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၁

နယ်ချဲ့တော်လှန်ရေး ခေါင်းဆောင် ဟူ၍ ကျော်စောသော ဆရာစံနှင့်လည်း တစ်ခါတုန်းက ပတ်သက်ခဲ့ဖူးပါသည်။ ဤသည်မှာလည်း မြန်မာ့အရေးသည် သာသနာ့အရေးနှင့် ဆက်စပ်လျက်ရှိကြောင်း သက်သေကောင်းတစ်ခုဖြစ်ပါသည်။

အေဒီ ၁၉၃၀

မြန်မာသက္ကရာဇ် (၁၂၉၂)၊ ခရစ်နှစ် (၁၉၃၀) သာယာဝတီနယ်မှစတင်၍ သုပဏ္ဏက ဂဠုန် ဆရာစံတို့ တောင်သူလယ်သမားတော်လှန်ရေး ဆင်နွှဲစဉ်က ဆရာစံ၏ တပည့်တစ်ရာကျော် ခန့် ဇင်းဖျိုးတောရကျောင်းလာပြီး ခိုလှုံနေကြပါသည်။ ဆရာတော်ကြီးက "လာကြ. . လာကြ" ဟုခေါ်ပြီး ယင်းတို့၏ နဖူးတွေကို ဆရာတော်ကြီးတံတွေးဖြင့် 'ဝ' ရေးလွှတ်လိုက်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၂

ဆရာစံ၏ ကိုယ်ပျောက်တပ်သားများအဖြေကို နက္ခတ်ပိုင်ဆရာတော်တွင် လေ့လာတွေ့ရှိနိုင်ပါသည်။
စစ်ပုလိပ်များ မြေလှန်ရှာပါသော်လည်း ဆရာစံ၏ တပည့်များ တစ်ဦးတစ်ယောက်ကိုမျှ မတွေ့တော့ပါ။ လွယ်အိတ်၊ ဆေးလိပ်၊ ထီး၊ အဝတ်အထည် စသည့် ပစ္စည်းများကို တွေ့ရှိ၍ ဆရာတော်ကြီးထံမှောက် ယူဆောင်လာပြီး ပစ္စည်းရှင်များကို အပ်ရမည်ဟု ဆရာတော်ကြီးကို အကျပ်ကိုင်ပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၂

ဆရာတော်ကြီးကလည်း . . .
"တို့ ဗုဒ္ဓဘာသာ ထုံးတမ်းစဉ်လာအရ ဘယ်မြို့ဘယ်ရွာ ဘယ်ကလာလာ၊ ဥပုသ်စောင့်လိုပါတယ်။ တရားအားထုတ်လိုပါတယ်ဆိုရင် တို့ဘုန်းကြီးတွေက လက်ခံရတာပဲ၊ သူတို့ရဲ့ ဒေသမြို့ရွာတွေလဲ အတိအကျ မမှတ်မိဘူး၊ ဒါကြောင့် ဒီလူတွေအပ်ရမည်ဆိုတာတော့ ဘယ်နည်းနဲ့မှ မဖြစ်နိုင်ဘူး၊ မင်းတို့အစိုးရလခ ရိက္ခာယူနေတဲ့ အမှုထမ်းတွေ လူတွေကို ဖမ်းဖို့ မင်းတို့တာဝန်ပဲ လိုက်ဖမ်းကြဖို့ပဲရှိတယ်" ဟု ဆရာတော်ကြီးက အမိန့်ရှိလိုက်သောအခါ အရာရှိများက
"ဒါဖြင့်ရင် အရှင်ဘုရားကို ဖမ်းရပါလိမ့်မယ်" ဟု လျှောက်ထားသောအခါ -
နက္ခတ်ပိုင်ဆရာတော်ကြီးသည် အင်္ဂလိပ်နယ်ချဲ့လက်ထက်တွင် ဆရာစံနှင့် စပ်လျဉ်း၍ အဖမ်းခံရပါသည်။ အဘယ်ကြောင့်မသိ။ သူပုန်အမှုသည် ကြက်ခိုးသောအမှုဖြစ်သွားပါသည်။ အံ့ဖွယ်ဖြစ်၏။
"ဥက္ကံသ ဖမ်းရုံမကလို့ ကြိုးစင်တင်ရင်လဲ တင်နိုင်တယ်" ဟု အမိန့်ရှိပါတယ်။ ဆရာတော်ကြီးအား ဖမ်းဆီးသွားပြီး မြို့သစ်အချုပ်ထောင်၊ တောင်တွင်းကြီးထောင်၊ မကွေးထောင်၊ ထောင်သုံးထောင်မှာ သီတင်းသုံး၍ ရုံးတင်စစ်ဆေးသောအခါတွင် ဖမ်းစဉ်က သူပုန်လက်ခံမှုဖြစ်သော်လည်း ရုံးတင်စစ်ဆေးသောအခါတွင် ကြက်ခိုးမှုဖြစ်သွားပါသည်။
ဆရာတော်ကြီးထောင်မှ လွတ်ပြီးနောက် အမိန့်ရှိသော စကားအရ ဆရာတော်ကြီး၏ မေတ္တာနှင့် လောကကြီးကို ရှုမြင်ပုံကို အမြင်ကျယ်ကျယ် စဉ်းစားနိုင်ပါသည်။

http://www.dhammadownload.com



"ငါ့ကိုဖမ်းတုန်းက သူပုန်လက်ခံမှု ရုံးတင်တော့ အမှုက ကြက်ခိုးမှုတဲ့၊ ငါရှက်လိုက်တာကွာ" ဟု ရယ်ရယ်မောမော အမိန့်ရှိပါသည်။

ကျမ်းကိုး။ ယင်းကျမ်း။ စာ-၈၂

ဆရာတော်ကြီး၏ အံ့ဖွယ်ဖြစ်ရပ်များကို ထောင်ဘက်ဆိုင်ရာ ပုဂ္ဂိုလ်တို့ သိပြီးဖြစ်ပုံရပါသည်။ "အပြင်မှာ ပြောင်းဖူးဖက်ဆေးလိပ်သောက်ရပါတယ်၊ ထောင်ထဲရောက်မှ ကပ်ကျေး ဆေးလိပ်တို့ ပိုလိုတို့ သောက်ရတယ်၊ စားစရာသောက်စရာတွေကလဲ မကုန်နိုင်မခန်းနိုင်အောင်ပဲ၊ ထောင်ထဲကလူတွေက ငါထွက်သွားမှာကို စိုးရိမ်နေကြဘာ" ဟု မိန့်ကြားပါသည်။

ကျမ်းကိုး။ ယင်းကျမ်း။ စာ-၈၂

အေဒီ ၁၉၃၁ ခရစ်နှစ် (၁၉၃၁)၊ နိုဝင်ဘာလ (၂၈) ရက်နေ့၊ စနေနေ့ နံနက်တွင် သာယာဝတီထောင်ကြီး အတွင်း၌ ဆရာစံအား ကြိုးပေးပါသည်။

ကျမ်းကိုး။ မြန်မာ့အလင်း သတင်းစာ ၁၉၃၁ ခု၊ ဒီဇင်ဘာ ၁၄၊ တနင်္လာနေ့တွင်ပါသည့် သတင်း။ စက်တိုင် တက်ခါနီး ဆရာစံက မှာကြားသွားပုံ အောင်ပါစေဆိုတဲ့ ဆုကို တောင်း ပေးကြပါဟူသော ခေါင်းစဉ်ကို ကြည့်ပါ။

ဆရာစံ ဂဠုန်ထနေစဉ် ဖြစ်သဖြင့် သတင်းစာဖတ်သူများက သူပုန်သတင်းကို စိတ်ဝင်စားကြ၏။ ဆူပူသောင်းကျန်းရေးသတင်းနှင့် ညဥ့်သန်းခေါင် ကြေးနန်းပါသည်ဟု သတင်းစာ မျက်နှာဖုံးများက ဖော်ပြနေချိန်ဖြစ်သည်။

ကျမ်းကိုး။ လောကသာရ သတင်းစာ၊ ၁၉၃၁ ခုနှစ်၊ ဇွန်လ ၂၀ ရက်၊ စနေနေ့ကို ကြည့်။ ဆရာထင်ကြီးမြန်မာနိုင်ငံ သတင်းစာများအညွှန်း။ စာ ၁၉၅ လည်း ကြည့်။

နက္ခတ်ပိုင် ဆရာတော်ကြီး၏ နက္ခတ်ပိုင်ပုံပိုင်နည်းမှာ အံ့မခန်း ဖြစ်ပါသည်။ အောက်ပါ တေးထပ်ကို ဖတ်လျှင် စဉ်းစားတတ်သူတို့အတွက် အဖြေပေါ်နိုင်ပါသည်။

"တီကောင်ကို မြွေမှတ်လို့၊ သေမတတ်ကြောက်ရှာ၊ ပြေအများမှောက်မှာကို၊ မထောက်ညှာ လေအား၊ ဦးအဂ္ဂမြတ် ဘုန်းမော်ငယ်၊ တိုင်းလုံးနော်နှံ့သိကျော်ကြား၊ လောင်းဗုဒ္ဓရာဇာငယ်၊ ပါရမီထင်ရှား၊ သာကီဝင်အရှင်ဖွားဟာမို့ အများနှင့်မတူ၊ ဘုန်းပညာ ဉာဏ်လက်ရုံးရယ်နှင့်၊ မြန်အားလုံးသုံး၍ မကုန်၊ မင်းနာရစ္စေနန်းဘုံမှာ၊ ငွေစန်းယုံတည်ထွန်းလို့၊ တောက်လင်းမည့် သာသနာ၊ ဝင်းထိန်လို့ဝါ၊ ဇမ္ဗူဒိပ်ကျွန်းလက်ျာမှာ စက်အာဏာတည်ကြောင်း ဘုရားလေး. ."

ယခုတေးထပ်မှာ ဆရာတော်ကြီး ထောင်မှ လွတ်မြောက်လာသော အချိန်က ရေးစပ်သော တေးထပ်ဟု သိရပါသည်။

ကျမ်းကိုး။ ယင်းကျမ်း။ စာ-၈၂

အေဒီ ၁၉၄၈ ဇင်းပျိုးတောရ ဦးဥက္ကံသ ဆရာတော်ဘုရားကြီးသည် သက္ကရာဇ် (၁၃၁၀) ခု၊ တပေါင်းလဆန်း (၈) ရက်နေ့တွင် ထွက်ရပ်လမ်းသို့ ကြွမြန်းတော်မူပါသည်။

ကျမ်းကိုး။ မှတ်ချက် - ၁၃၄၆ခု၊ ဝါခေါင်လ စစ်ကိုင်းတောင်ရိုး၊ တောင်ဗိလာဆရာတော် ကြီး 'ဦးဝိလာသ' ၏ သစ္စာမေတ္တာ သိဒ္ဓိကျမ်းမှ ကောက်နုတ်တင်ပြအပ်ပါသည်။
ကျမ်းကိုး။ လေးစိုး (မုံရွာ)၊ ဝိဇ္ဇာ ၂၀၀၈ ၊ အောက်တိုဘာလ ၊ စာမျက်နှာ - ၈၀
ကျမ်းကိုး။ မြန်မာ့အလင်း သတင်းစာ ၁၉၃၁ ခု၊ ဒီဇင်ဘာ ၁၄၊ တနင်္လာနေ့တွင် ပါသည့် သတင်း။ စက်တိုင် တက်ခါနီး ဆရာစံက မှာကြားသွားပုံ အောင်ပါစေဆိုတဲ့ ဆုကို တောင်း ပေးကြပါ ဟူသော ခေါင်းစဉ်ကို ကြည့်ပါ။
ကျမ်းကိုး။ လောကသာရ သတင်းစာ၊ ၁၉၃၁ ခုနှစ်၊ ဇွန်လ ၂၀ ရက်၊ စနေနေ့ကို ကြည့်။ ဆရာထင်ကြီးမြန်မာနိုင်ငံ သတင်းစာများအညွှန်း။ စာ ၁၉၅ လည်း ကြည့်။

http://www.dhammadownload.com



ကနောင်မင်းသား၏ သားတော် မင်းတုန်းမင်းတရားကြီး၏ မြေးတော်
သုံးဆယ်မင်းသား၏ တူတော် ထိပ်တင်လု
ဟားတမော့ဆရာတော် ဟု အသိအမှတ်ပြုကြသည့်

# မဟာမြိုင် အရှင်စန္ဒာသူရိယ

(၁၈၃၆ – ၁၉၆၉)



http://www.dhammadownload.com



မဟာမြိုင်ဆရာတော်ဟူ၍ ကြားဖူးပါသည်။ သို့သော် ဘွဲ့တော်ကို အသေအချာမသိပါ။ စာထဲတွင်သာ အရှင်စန္ဒာသူရိယဟု တွေ့ရပါသည်။ ထိုဆရာတော်ကြီး၏ ဒကာတော် သာသနာပြုပုဂ္ဂိုလ်တစ်ဦးကိုတွေ့ခဲ့ဖူးရာ ထိုပုဂ္ဂိုလ်ကြီး အင်းဝဆင်ဖြူများရှင် စေတီတော်ကြီးကို ပြုပြင်ခဲ့သဖြင့်လည်း အမှတ်တရ ရှိပါသည်၊

ထို့ကြောင့် မဟာမြိုင် အရှင်စန္ဒာသူရိယ ဆရာတော်ဘုရားဟု ဘွဲ့အမည်တပ်လျှင် သင့်တော်မည် ထင်ပါသည်။ ထူးခြားချက်မှာ မင်းမျိုးမင်းနွယ်များထဲမှ တစ်မူထူးခြား၍ တရားထူးရပေါက်မြောက်တော်မူသော ပုဂ္ဂိုလ်ကြီးဖြစ်သဖြင့် မင်းဆွေ မင်းမျိုးတို့က အထူး ကြည်ညိုကြကြောင်း သိရှိရပါသည်။

ကျွန်ုပ်တို့သည် သုံးဆယ်မင်းသားနှင့် မင်းသမီးတို့၏ ဓာတ်ပုံစုံတွဲကို တွေ့ခဲ့ဖူးပါသည်။ ထိုသုံးဆယ်မင်းသား၏ တူတော်သည် မဟာမြိုင်ဆရာတော်ဖြစ်ကြောင်း နောက်မှ သိရပါသည်။ အင်းဝဆင်ဖြူများရှင် စေတီတော်တွင် ရသေ့ကြီး ဦးခန္တီနှင့် အကြောင်းစပ်လျက် ပြုပြင် မွမ်းမံတော်မူခဲ့ကြောင်း သိရသည်မှာလည်း အဆက်အစပ်တစ်ခုဖြစ်ပါသည်။

ထိုထို ဤဤ အလီလီသောအကြောင်းတို့တွင် ထူးထူး ဆန်းဆန်း ထွေထွေလာလာ အမှတ်မထင်သိရှိရသော အကြောင်းအရာတစ်ခုကား ခေတ်ပြိုင်မှတ်တမ်းဖြစ်သင့်သည်ဟု ယူဆ၍ ကျွန်ုပ်သည် မှတ်စုကတ်တလောက်များထုတ်နုတ်မှတ်သားခဲ့ပါသည်။ ထိုအချက်အလက်များအရ မဟာမြိုင်ဆရာတော်ဆိုသည်မှာ ပုံပြင်မဟုတ်ကြောင်း၊ ခေတ်ပြိုင်မှတ်တမ်းများရှိကြောင်း နောင်လာနောက်သားများအတွက် အထောက်အထားကောင်းများအဖြစ် မှတ်တမ်းတင်ခြင်းဖြစ်သည်။ ဤသို့ဖြင့် သာသနာသမိုင်းကြီးကို အထောက်အကူ ပြုနိုင်ပါသည်။ အောက်ပါကျွန်ုပ်၏ မှတ်စုကတ်တလောက်များကို တဆိတ်လောက် ဖတ်ကြည့်တော်မူကြပါ။ အတိအကျဖြစ်ပါသည်။

ရန်ကုန်မြို့၊ စမ်းချောင်းမြို့နယ် ကြည့်မြင်တိုင်ဘူတာရုံလမ်းရှိ မဟာမြိုင်ဘုန်းဘုရားကျောင်းသည် ထူးခြားသည်ဟု ဆိုရပါသည်။

ကျမ်းကိုး။ ဒေါ်မြင့်မြင့်ဝင်း။ မင်းတုန်းမင်းတရားကြီး၏ မြေးတော် မဟာမြိုင်ဘုန်းဘုရား၊ လောကပါလ ဂမ္ဘီရသုတစာစုံမဂ္ဂဇင်း ၂၀၀၇ခုနှစ်၊ နိုဝင်ဘာလ၊ အမှတ် ၁၀၊ စာ ၂၀

မဟာမြိုင်ဘုန်းဘုရား၏ ငယ်မည်ကား ထိပ်တင်လှ၊ ၎င်း၏ခမည်းတော်က ထိပ်တင်မှတ်ဖြစ်၏။ ထိပ်တင်မှတ်သည် သီပေါမင်း၏ ညီတော်ဖြစ်၍ မဟာမြိုင်ဘုန်းဘုရားသည် ပဉ္စမသင်္ဂါယနာတင် မင်းတုန်းမင်းတရား၏ မြေးတော်တည်း။

ကျမ်းကိုး၊ ယင်းစာ ၂၀

ဘုန်းဘုရားလောင်းလျာ ထိပ်တင်လှ ငယ်စဉ် ၈ နှစ်သားအရွယ်က အင်္ဂလိပ်တပ်များ မန္တလေးသို့ ချီလာစဉ် ထိပ်တင်မှတ်က နောင်တော်သီပေါမင်းကို အင်းဝမှခုခံတိုက်ခိုက်ခြင်းပြုရန် လျှောက်ထား၏။

ကျမ်းကိုး။ ယင်းစာ ၂၀

သီပေါမင်းက ခွင့်ပြုတော်မမူဘဲ ရွှေဘိုမှ ခုခံတိုက်ခိုက်ရန်အတွက် ကြိုက်ရာ စစ်သေနာပတိကိုရွေးယူစေ၏။

ကျမ်းကိုး၊ ယင်းစာ ၂၀

နောင်တော်၏ ဆန္ဒနှင့်အညီ စစ်သေနာပတိ (၄) ဦးကို ရွေးယူပြီး ဆရာတော်တစ်ပါးကိုပင့်ဆောင်ကာ ထိပ်တင်မှတ်သည် ရွှေဘိုသို့ ချီ၏။

http://www.dhammadownload.com



ကျမ်းကိုး၊ ယင်းစာ ၂၀

စစ်သေနာပတိ (၄) ဦးကား ဝန်းသိုဒစ်ဘွား ဦးအောင်မြတ်နှင့် ဗိုလ်ရှမ်း၊ ဗိုလ်ဥတ္တမ၊ ဗိုလ်လရောင်တို့ ဖြစ်သည်။

ကျမ်းကိုး၊ ယင်းစာ ၂၀

ထိပ်တင်မှတ်သည် ဝန်းသိုစော်ဘွား ဦးအောင်မြတ်ကို ရွှေဘို၏ အနောက်မြောက် အင်ကြင်းမြိုင်မှာ စခန်းချစေပြီး ဗိုလ်ရှမ်းကို ရှိန်းမကားမှ တော်လှန်စေ၏။

ကျမ်းကိုး၊ ယင်းစာ ၂၀

ဗိုလ်ဥတ္တမကိုမူ မကွေးတွင် တပ်စွဲစေသည်။ ဗိုလ်လရောင် ( ဗိုလ်ချုပ်အောင်ဆန်း၏အဘိုး) ကို နတ်မောက်တွင် ခုခံစေ၏။

ကျမ်းကိုး၊ ယင်းစာ ၂၀

ထိပ်တင်မှတ်ကိုယ်တိုင်ကား ရွှေဘိုနှင့် မုံရွာခရိုင်ကို တာဝန်ယူပြီး တော်လှန်ခဲ့သည်။ မုံရွာကို ထိပ်တင်မှတ်ဝင်တိုက်ရာ အင်္ဂလိပ်က ကလေးဝမှ တစ်ဆင့် အိန္ဒိယသို့ ပြေးဝင်ဆုတ်ခွာ၏။ အင်္ဂလိပ်တို့ကို တိုက်ထုတ်ပြီး ကလေးဝမှ မုံရွာသို့ ချီလာသော ထိပ်တင်မှတ်သည် နတ်မြစ်အနီး ကနီကနဲအရပ်တွင် တစ်ထောက်နား၍ တပ်စခန်းချစဉ် နတ်မြစ်မှ ဖက်ပုပ်ရေကို မကျိုချက်ဘဲ သောက်သုံးမိရာက အဖျားဝင်ပြီး ကံကုန်တော်မူလေသည်။

ကျမ်းကိုး၊ ယင်းစာ ၂၀

အေဒီ ၁၈၈၄ ထိုစဉ်က (၈) နှစ်သားအရွယ်ရှိ ဘုန်းဘုရားလောင်းလျာ ထိပ်တင်လှကား နန်းတော်မှ ခမည်းတော် ထိပ်တင်မှတ် ပင့်ဆောင်လာသည့် ဆရာတော်နှင့်အတူ ရွှေဘို၏အနောက်မြောက် မဟာမြိုင် တောစပ်ရှိ အင်ကြင်းမြိုင်မှာ အတူနေခဲ့ရသည်။

ကျမ်းကိုး၊ ယင်းစာ ၂၁

ထိပ်တင်မှတ်စံလွန်ကြောင်း ဆရာတော်ကြားသော် (၈) နှစ်ရွယ် ထိပ်တင်လှကို ယုံကြည်ရသူ ဒကာ ဇနီးမောင်နှံထံ အပ်နှံပြီး စောင့်ရှောက်စေ၏။ အင်ကြင်းမြိုင်၌ ထိပ်တင်မှတ်၏ သားတော်ကျန်ရှိကြောင်း ကြားသိသော အင်္ဂလိပ်တပ်သည် လာရောက်ရှာဖွေရာ စောင့်ရှောက်ထားသူ ဇနီးမောင်နှံက ကလေးငယ်အား ရက်ကန်းစင်အောက်တွင် တောင်းနှင့်အုပ်ကာ ဖုက်ထားခဲ့ရသည်။

ကျမ်းကိုး၊ ယင်းစာ ၂၁

ကလေးငယ် ထိပ်တင်လှ၏ လုံခြုံမှုမှာ အင်ကြင်းမြိုင်တွင် စိတ်မချရတော့၍ ဒီပဲယင်းရှိ ကိုးဂိုဏ်းချုပ်ဖြစ်တော်မူသော တတိယရွှေကျင်သာသနာပိုင်ဆရာတော်ထံ ဘုန်းဘုရားလောင်းလျာကို ပို့ဆောင်စေပြီး ရှင်သာမဏေပြုစေ၏။

ကျမ်းကိုး၊ ယင်းစာ ၂၁

တတိယရွှေကျင်သာသနာပိုင်ဆရာတော်ဘုရားသည် ဒီပဲယင်းမှ မန္တလေးမြို့အနောက် ဝိသုဒ္ဓါရုံတိုက်ကို တည်သောအခါ ဝိသုဒ္ဓါရုံတွင် ပညာဆက်လက်ဆည်းပူးပြန်၏။ စာဝါများပြည့်စုံလာသောအခါ မဟာမြိုင်တောစပ် အင်ကြင်းမြိုင်တွင် သီတင်းသုံးနေသော ဆရာတော်ကြွရောက်လာပြီး ဘုန်းဘုရားလောင်းလျာ၏ ဆန္ဒတော်နှင့်အညီ ဝိပဿနာဓူရကျင့်ကြံအားထုတ်ရန် ဆရာတော်နှင့်အတူ မဟာမြိုင်တောသို့ ခေါ်ဆောင်သွားတော့သည်။

ကျမ်းကိုး၊ ယင်းစာ ၂၁

အေဒီ ၁၈၈၇ မုံရွာအနီး ရွှေဘာတောင်သို့ ကြွရောက်ကာ (၃) နှစ်တာပြောင်းရွှေ့သီတင်းသုံး၏။ ထို့နောက်

http://www.dhammadownload.com



ခမည်းတော်ပင့်ခဲ့သည့် ဆရာတော်က ကရင်ပြည်နယ်၊ ဒေါနတောင်တွင် သွားရောက်အားထုတ်ရန် အမိန့်ရှိရာ ဘုန်းဘုရားလောင်းလျာသည် မသွားမလာတတ်ဖြစ်နေစဉ် ရန်ကုန်ဘူတာ၌ အဘိုးအိုတစ်ဦးနှင့် တွေ့ဆုံပြီး အဘိုးအိုကပင် နတ်လမ်းညွှန်အဖြစ် စရိတ်အကုန်အကျခံကာ ဒေါနတောင်ခြေအရောက်ပို့ဆောင်ပေး၏။

ကျမ်းကိုး၊ ယင်းစာ ၂၁

အေဒီ ၁၇၉၅ ဒေါနတောင်တွင် (၈) နှစ်အားထုတ်ခဲ့လေသည်။

ကျမ်းကိုး၊ ယင်းစာ ၂၁

ကရင်ပြည်နယ် ဒေါနတောင်မှသည် သထုံမြသပိတ်တောင်သို့ ပြောင်းရွှေ့သီတင်းသုံးပြန်သည်။ နွေနှင့်ဆောင်းတွင် တောင်ပေါ်၌သီတင်းသုံးပြီး မိုးတွင်းတွင် စက်ရှင်မင်းကြီး ဦးစ၊ ဇနီး ဒေါ်မြိုင်တို့ ဆောက်လုပ်လှူဒါန်းသော မြသပိတ်တောင်၏ အရှေ့တောင်ထောင့်ရှိ တဲကျောင်းမှာ သီတင်းသုံး၏။

ကျမ်းကိုး၊ ယင်းစာ ၂၁

ယင်းနောက် နေမိန္ဒရတောင်အဆင်းရှိ သစ်စေးတောမှာ သီတင်းသုံးပြန်သည်။ သစ်စေးတောတွင် သီတင်းသုံးစဉ် ပုဂံခေတ်က ထွက်ရပ်ပေါက် ဆံရှည်ကိုယ်တော်ဟု နာမည်ကြီးသော ဦးမေ့စာရီက ဘုန်းဘုရား၏ ကပ္ပိယအဖြစ် လိုက်ပါ ပြုစုစောင့်ရှောက်ခဲ့သည်။ ဘုန်းဘုရား၏ အရွယ်မှာ နုပျို၍ သက်တော်ကို ခန့်မှန်းရခက်သည်။ ရုပ်အပြောင်းအလဲရှိသည်ဟု ဆိုကြ၏။

ကျမ်းကိုး၊ ယင်းစာ ၂၁

ဘုန်းဘုရားသည် သထုံ သစ်စေးတောမှသည် ဥက္ကံမြို့ အရှေ့ဘက်ရှိ မြစိမ်းတောင်သို့ ကြွရောက် တော်မူပြန်၏။

ကျမ်းကိုး၊ ယင်းစာ ၂၁

မန္တလေးဝိသုဒ္ဓါရုံတွင်စာသင်စဉ်က သူငယ်ချင်းဖြစ်ခဲ့သည့် ပုဇွန်တောင် ရွှေကျင်တိုက် ဆရာတော် ၏ ကျောင်းမှာ သီတင်းသုံးမည်ဖြစ်ကြောင်း ဘုန်းဘုရားက မိန့်တော်မူလိုက်သည်။ ဘုန်းဘုရားသည် မြစိမ်းတောင်တွင် (၃) နှစ်အားထုတ်ပြီး မင်းလှ မဟာမြိုင်တောသို့ ကြွ၍ အားထုတ်ပြန်သည်။

ကျမ်းကိုး၊ ယင်းစာ ၂၂

ဘုန်းဘုရားကြွ၍ အားထုတ်သော တောတောင် လှိုဏ်မြောင်များကား မြန်မာပြည်တစ်နံတစ်လျား အနှံ့အပြားဟုပင် ဆိုရပေမည်။

ကျမ်းကိုး၊ ယင်းစာ ၂၂

ရန်ကုန်မြို့ (၅၂) လမ်းနေ သူဌေး ဦးဆင် (ဇနီး) ဒေါ်မမလေးတို့သည် မင်းလှ မဟာမြိုင်တောမှ ပုဇွန်တောင် ရွှေကျင်တိုက်သို့ ဘုန်းဘုရားကြွရောက်တော်မူလာပြီဟု သတင်းကြားသောအခါ သွားရောက်ဖူးမြော်ကြသည်။

ကျမ်းကိုး၊ ယင်းစာ ၂၂

ယခု ပုဇွန်တောင်မြို့နယ်ရှိ စတုဘုမ္မိက ကျောင်းတည်ရာ ချစ်တီးတိုက်ကို ဝယ်ယူပြီး ရန်ကုန်မြို့ရှိ ဆရာတော် (၃)ပါးတို့နှင့်အတူ ပုဇွန်တောင်ရွှေကျင်ဆရာတော်နှင့် ဘုန်းဘုရားတို့ကို ပင့်ဆောင်ကာ ဆရာတော် (၅) ပါးဖြင့် ရေစက်ချပြီး ဘုန်းဘုရားကို ကျောင်းလှူဒါန်းတော့သည်။

ကျမ်းကိုး၊ ယင်းစာ ၂၂

http://www.dhammadownload.com



ကျောင်းဒကာများ၏ စေတနာ သဒ္ဓါတရားကို ငဲ့ညှာသောအားဖြင့် (၂) ပတ် သီတင်းသုံးပြီး ကျောင်းဒကာ ဒကာမများဖြစ်သော သူဌေး ဦးဆင်တို့အား ကျောင်းကိုပြန်လည်စွန့်တော်မူပြီး သထုံသို့ ကြွကာ သထုံမှ မုတ်ကျွန်း၊ မိန်းမလှကျွန်း၊ ယင်းနောက် မြင်းကကုန်း အရှေ့ကျောင်းနှင့် မြင်းကကုန်းအနီး ယင်းသို့ လာရောက်ကြည်ညိုသူများမှတစ်ဆင့် မင်းသား ဆရာတော်ဟု လူသိ များလာပြီး ရန်ကုန်မြို့တစ်ခွင်တွင် ဟိုးလေးတကျော်ဖြစ်လာပါတော့သည်။

ကျမ်းကိုး၊ ယင်းစာ ၂၂

မင်းသားဆရာတော်၊ မင်းသားဆရာတော်ဟု ဟိုးလေးတကျော်ဖြစ်လာချိန်မှာ မန္တလေးမြို့တည် မင်းတုန်းမင်းတရား၏ သားအငယ်ဆုံး သုံးဆယ်မင်းသား၏ ကြင်ယာတော် မင်းတပ်မင်းသမီး သည် ဝင်ဆာလမ်း၌ နေထိုင်၏။

ကျမ်းကိုး၊ ယင်းစာ ၂၂

ၡင်းမှာ သုံးဆယ်မင်းသားဆုံးပြီး သားဖြစ်သူမှာလည်း လောကီဘက်လိုက်ကာ မိုက်မှားနေ၍ စိတ်အဆင်းရဲကြီး ဆင်းရဲနေသော အချိန်ဖြစ်နေစဉ် မင်းမျိုးမင်းနွယ်ရဟန်းတစ်ပါးရှိနေကြောင်း ကြားသိရ၍ ဝမ်းမြောက်ဝမ်းသာဖြစ်ကာ သူဌေး ဦးဆင်အိမ်သို့ လာရောက်ဖူးတွေ့ပြီး ဆွေမျိုး တော်စပ်ပုံကို လျှောက်တော့သည်။ မင်းသား ဆရာတော်ဟု ဟိုးလေးတကျော်ဖြစ်နေသူမှာ တူတော်ထိပ်တင်လှဖြစ်နေ၍ ဝင်ဆာလမ်း၌ ၎င်း၏နေအိမ်နှင့် မနီးမဝေး၌ အမြဲတမ်းသီတင်း သုံးရန် လျှောက်ထားတောင်းပန်တော့သည်။

ကျမ်းကိုး၊ ယင်းစာ ၂၂

သူဌေးမကြီး ဒေါ်ဖွားခင် ဦးဆောင်ကာ ကျောင်းရာလှူဒါန်းကြသည်။ ဘုန်းဘုရားသည် ၎င်းတို့ ဝယ်ယူလှူဒါန်းထားသော ကြည့်မြင်တိုင် ဘူတာရုံ၏ အရှေ့တောင်ထောင့်ရှိ မြယုဂါကျောင်းကို စစ်ရဲမောင်မောင်က စိတ်တိုင်းကျ သစ်သားကျောင်း ပြန်ဆောက်ပေးပြီး၊ ၎င်းကျောင်းတွင် ဘုန်းဘုရား အမြဲသီတင်းသုံးတော့သည်။

ကျမ်းကိုး၊ ယင်းစာ ၂၂

မြယုဂါကျောင်းသို့ မရောက်မီ ခရမ်းမြို့အနီး မကျည်းကန်ရွာမှာ သီတင်းသုံးခဲ့သေးကြောင်း မကျည်းကန်ရွာ တိုက်သူကြီး၏ သမီး ဒေါ်ခင်ညွန့်၏ ပြောပြချက် သိရပြန်သည်။

ကျမ်းကိုး၊ ယင်းစာ ၂၃

ထိုစဉ်က မကျည်းကန်တိုက်သူကြီးမှာ ဖိုထိုးအလွန်ဝါသနာပါ၏။ တစ်နေ့ ၎င်းတစ်ဦးတည်း ရှိစဉ် ရဟန်းတစ်ပါး အိမ်ရှေ့ ဆွမ်းရပ်၍ ဆွမ်းထွက်လောင်းရာ "ရဟန်းဒကာကြီး ဖိုထိုးဝါသနာ ပါသလား" ဟုမေးရာ တိုက်သူကြီးက ဖိုထိုးအလွန်ဝါသနာပါကြောင်း ပြန်ဖြေ၏။ ရဟန်းက "ဒကာကြီး ဖိုပညာ အင်္ဂရတ်ပညာကော နားလည်သလော" ဟု ထပ်မေး၏။ ကြားဖူးနားဝဖြင့် ဖိုထိုးပါကြောင်း ပြန်လျှောက်ရာ ဆရာတော်က "ပညာပေးရင်ကော ယူချင်သလော" ဟု ဆက်မိန့်၏။ တိုက်သူကြီးက ပညာယူချင်ပါကြောင်း လျှောက်ထားပြီး မိမိ၏ အိမ်အပေါ်ထပ်ကို ဆရာတော် သီတင်းသုံးရန် ကျောင်းအဖြစ် လှူဒါန်းပြီး သီတင်းသုံးစေ၏။ ဆရာတော်ပေးသည့် နည်းလမ်း အတိုင်း ဖိုထိုးပါတော့သည်။ ဘုန်းဘုရားသည် ဝါဝင်ခါနီးတွင် လူပုဂ္ဂိုလ်များနေအိမ်၌ ရဟန်း သီတင်းသုံးရန် မသင့်တော်ကြောင်းမိန့်ကြားရာ တိုက်သူကြီးသည် ရွာသားများ၏ စုပေါင်းအားဖြင့် တစ်ထပ်ကျောင်းနှင့် ဖိုရုံကို မကျည်းကန်ရွာထိပ်တွင် နေ့ချင်းပြီးဆောက်လုပ် စေကာ ဘုန်းဘုရားသီတင်းသုံးရန် စီစဉ်ပါတော့သည်။

ကျမ်းကိုး၊ ယင်းစာ ၂၃

http://www.dhammadownload.com



ယင်းကျောင်းတွင် ၃ နှစ်သီတင်းသုံးပြီး ရန်ကုန်သို့ ကြွ၏။ တိုက်သူကြီး အဘိုးအိုက အကြိမ်ကြိမ်တားသော်လည်း ဘုန်းဘုရားက လက်မခံ၊ ရန်ကုန်သို့ကြွလျှင် သုံးခွကားဂိတ်အထိသာ ပို့ခိုင်း၏။

ဘုန်းဘုရား ရန်ကုန်ကြွပြီး မကြာခင် ကုလား ဗမာအဓိကရုဏ်းဖြစ်၏။ ဤသို့နှင့် ဘုန်းဘုရားနှင့် သူကြီးတို့ ကွဲကွာသွားကြတော့သည်။ သူကြီးအိုသည် ဘုန်းဘုရားနှင့် ကွဲကွာနေ သည့်အချိန်ကာလ အတွင်း ဘုန်းဘုရားပေးခဲ့သည့် နည်းနာနိဿယအတိုင်း ကျင့်ကြံနေခဲ့သည်။

အေဒီ ၁၉၃၈ စစ်ရေး စစ်ရာများ ရှုပ်ထွေးပြီး မြန်မာနိုင်ငံကို ဂျပန်မသိမ်းမီ ၄ နှစ်အလိုတွင် သန်လျင်ပုဂံတောင်ရွာမှ ရက်ကန်းစင်တောင် ဆရာတော် ဦးဩဘာသ တရားဟောမည်ဟု တရားဖိတ်သံကို မကျည်းကန်က သူကြီးအိုကြားရာ ၎င်းနှင့် ကွဲကွာနေသော ဘုန်းဘုရားများဖြစ်လေမလားဟု သိချင်ဇောဖြင့် ပုဂံတောင်ရွာ တရားပွဲသို့ သွားခဲ့ပြီး တရားနာစဉ်က ဘုန်းဘုရားမဟုတ်ဟု ကောက်ချက်ချ၏။ သို့သော် တရားပွဲအပြီးတွင် ရက်ကန်းစင်တောင်ဆရာတော်က သူကြီးကို လူလွှတ်ခေါ်ခိုင်း၍ အနားရောက်သောအခါ သူကြီးအိုက ရက်ကန်းစင်တောင်ဆရာတော်ကို မော်၍ ဖူးလိုက်၏။ ထိုအခါ ဘုန်းဘုရားဖြစ်နေတော့သည်ဟု ဆို၏။

ကျမ်းကိုး၊ ယင်းစာ ၂၃

ဘုန်းဘုရားက သူကြီးအိုအား ကြည့်မြင်တိုင် မြယုဂါကျောင်းတိုက်သို့ လိုက်ခဲ့ပေတော့ဟု ခေါ်၏။ သူကြီးအိုသည် မကျည်းကန်ရွာသို့ ပြန်ပြီး သမက်ဖြစ်သူ တိုက်သူကြီးအား ရာထူးကို ရုံးတွင် သွားရောက်လွှဲပြီး ပိတ်ဖြူဝတ်ကာ မြယုဂါကျောင်းတွင် (၃) နှစ်တိုင် ဝေယျာဝစ္စကို ဆောင်ရွက်ပေးရင်း အားထုတ်နေခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၂၃

ဂျပန်တပ်များ မြန်မာပြည်ဝင်ရန် လုံ့လပြုချိန်တွင် သူကြီးအိုက မကျည်းကန်ရွာသို့ ခေတ္တပြန်ခွင့်ပြုရန် ဘုန်းဘုရားထံ ပန်ကြားသည့်အခါ ဘုန်းဘုရားက ပြန်မလာခဲ့နဲ့တော့၊ ထွက်တော့ဟု မိန့်သည်ဆို၏။

ကျမ်းကိုး၊ ယင်းစာ ၂၃

သူကြီးအိုသည် မကျည်းကန်ရွာသို့ မပြန်မီ ဘုန်းဘုရားအား သံဃာရော လူပုဂ္ဂိုလ်များကပါ အမျိုးမျိုး ဝေဖန်နေကြပါ၍ ဘုန်းဘုရား၏ ထေရုပ္ပတ္တိရေးခွင့်ပြုရန် တောင်းဆိုသည်။ ထိုအခါ တိုတို တုတ်တုတ်ရေးရန် ခွင့်ပြုတော်မူ၏။ သူကြီးအိုသည် မကျည်းကန်ရွာ မပြန်မီ ဘုန်းဘုရား၏ ထေရုပ္ပတ္တိကို ဆန္ဒတော်အတိုင်း တိုတိုတုတ်တုတ်ရေးကာ ရိုက်နှိပ်ဖြန့်ဝေခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၂၃

မခင်ညွန့်အား ရွာရှိ သံဃာများနှင့် လူပုဂ္ဂိုလ်များအား ဆွမ်းဆက်ကပ်လှူဒါန်းလိုကြောင်း ဖိတ်ကြားခိုင်း၏။ ဆွမ်းကပ်ပြီးချိန်မှာ ဘုရားစင်ရှေ့တွင် ၎င်း၏ အိပ်ရာခင်းစေ၏။ သူကြီးအိုသည် အိပ်ရာပေါ် လှဲမအိပ်မီ သမီးဖြစ်သူအား ဓာတ်လုံးတစ်လုံးပေးပြီး ၎င်းသေပါက (၃) ရက်မြောက်တွင် ခေါင်းဖွင့်ကြည့်ရန်မှာပြီး အိပ်ရာပေါ် လှဲအိပ်ကာ ကွယ်လွန်တော့သည်။

ကျမ်းကိုး၊ ယင်းစာ ၂၄

သူကြီးအိုမှာခဲ့သည့်အတိုင်း (၃) ရက်မြောက်မှာ ခေါင်းဖွင့်ကြည့်ရာ ပုဂ္ဂိုလ်၏ ရုပ်အလောင်း မရှိတော့ဟု ဆိုသည်။

ကျမ်းကိုး၊ ယင်းစာ ၂၄

http://www.dhammadownload.com



ထိုအခါ သူကြီးသမီး မခင်ညွန့်သည် ဘုန်းဘုရားထံ အကျိုးအကြောင်း ပြေးလွှားပြီး လာလျှောက်တော့သည်။ ဘုန်းဘုရားက ဆိတ်ဆိတ်နေစေ၏။ ယင်းဖြစ်စဉ်ကား ဘုန်းဘုရားနှင့် မကျည်းကန်ရွာ တိုက်သူကြီးတို့ တွေ့ဆုံပုံပင် ဖြစ်သည်။

ကျမ်းကိုး၊ ယင်းစာ ၂၄

ဘုန်းဘုရား သီတင်းသုံးသည့် မြယုဂါကျောင်းမှ သည် မဟာမြိုင်ဘုန်းဘုရားကျောင်းဟု အမည်တွင်လာပုံကား ဤသို့တည်း။ မြယုဂါသစ်သားကျောင်းကို သခင်ကိုယ်တော်မှိုင်း မိသားစုနှင့် ရန်ကုန်မြို့ သံတမန်လမ်းနေ ဦးယုဆိုင်၊ ဒေါ်ရှုကြည်တို့က တိုက်ကျောင်း ပြန်ဆောက်လှူကြသည်။

ကျမ်းကိုး၊ ယင်းစာ ၂၄

မန္တလေးမြို့ နှစ် (၁၀၀) ပြည့်ပွဲတော်ကို ယင်းအချိန်က နိုင်ငံခြားရေးဝန်ကြီး ဦးသိဟန်နှင့် ဗိုလ်မှူးကြီး တင်သိန်းလှုတို့နှင့်အတူ ဘုန်းဘုရားဦးစီး ကျင်းပခဲ့သည်။ ဘုန်းဘုရားသည် ဘိုးတော် ကနောင်မင်း ခေါင်းချသော နေရာ၌ တည်ထားကိုးကွယ်သည့် စန္ဒာမုနိစေတီကို ပြုပြင်သည်။

ကျမ်းကိုး၊ ယင်းစာ ၂၄

ထို့နောက် တကောင်းမြို့ရှိ တကောင်းဘုရားကို ပြင်ရန် ကြွရောက်တော်မူပြီး ကြာညှပ်အရပ်တွင် သီတင်းသုံးနေစဉ် ညနေခင်း လှုပါးချိန်၌ အရပ် (၆) ပေကျော်ရှိ အဘိုးအိုတစ်ဦးသည် ဘုန်းဘုရားထံ ခြေတော်ဦးခိုက် ကန်တော့၏။

ကျမ်းကိုး၊ ယင်းစာ ၂၄

ဘုန်းဘုရား၏ ခြေဖမိုးတွင်ရှိသော ငုင်းမှတ်သားထားသည့် အမှတ်အသားကို တွေ့ရာမှ မိမိငယ်စဉ်က ဝတ်ကြီးဝတ်ငယ်ပြုပြီး အနီးကပ် ဆည်းကပ်ခဲ့သော ဆရာတော်ဖြစ်ကြောင်း သိရှိရာ ဝမ်းသာ ဝမ်းနည်းငိုကြွေးတော့သည်။

ကျမ်းကိုး၊ ယင်းစာ ၂၄

မဟာမြိုင်တောတွင် နှစ်ပေါင်းများစွာ အားထုတ်ခဲ့သော ဆရာတော်ကြီးဖြစ်ကြောင်း လူအများ သိရှိသွားကြပြီး မင်းသားဆရာတော်မှသည် မဟာမြိုင်ဘုန်းဘုရားဟု အမည်တွင်လာပါတော့သည်။

ကျမ်းကိုး၊ ယင်းစာ ၂၄

ဘုန်းဘုရားသီတင်းသုံးရာ ကြည့်မြင်တိုင် ဘူတာရုံလမ်းရှိ မြယုဂါကျောင်းမှာလည်း မြယုဂါ အမည်ပျောက်ပြီး မဟာမြိုင် ဘုန်းဘုရားကျောင်းဟု အမည်တွင်လာပါတော့သည်။

ကျမ်းကိုး၊ ယင်းစာ ၂၄

အေဒီ ၁၉၆၉ မြန်မာသက္ကရာဇ် (၁၃၃၀) ပြည့်နှစ်တွင် ဆရာတော်ပျံလွန်တော်မူရာ မပျံလွန်မီ တပည့်ဖြစ်သူ လက်ရှိ ဆရာတော် ဦးဝိဇ္ဇာလင်္ကာရအား ငုင်းဝတ်ရုံထားသော သင်္ကန်းတော်ကို စွန့်တော်မူပြီး ဘုန်းဘုရားကျောင်းတွင် စာအံသံများကို ကြားလိုကြောင်းနှင့် မဟာမြိုင်ဘုန်းဘုရားကျောင်းကို အုပ်ချုပ်ရစ်ပေတော့ဟု မှာကြားတော်မူခဲ့သည်။

ကျမ်းကိုး။ ဒေါ်မြင့်မြင့်ဝင်း၊ မင်းတုန်းမင်းတရားကြီး၏ မြေးတော် မဟာမြိုင်ဘုန်းဘုရား၊ လောကပါလ ဂန္တီရသုတစာစုံမဂ္ဂဇင်း ၂၀၀၇ ခုနှစ်၊ နိုဝင်ဘာလ အမှတ် ၁၀၊ စာ၂၀။

ကျမ်းကိုး၊ ကလျာမဂ္ဂဇင်း၊ ၁၉၉၈ မတ်လလည်း ကြည့်။

အထက်ပါ အချက်အလက် မှတ်စုကတ်တလောက်များမှာ မင်းတုန်းမင်းတရားကြီး၏ မြေးတော်

http://www.dhammadownload.com



မဟာမြိုင် ဘုန်းဘုရားအကြောင်းကို အတွင်းသိ အစင်းသိ တပည့်ရင်းများက မှတ်တမ်းတင်ထားသော အချက်အလက်ဖြစ်၍၊ ငြင်းဆိုစရာအကြောင်းမရှိပါ။ ကျွန်ုပ်တို့သည် ကံကောင်းထောက်မသဖြင့် မဟာမြိုင်အရှင်စန္ဒာသူရိယ ထေရုပ္ပတ္တိကထာကို ဖတ်ရှုရရာ အံ့ဖွယ်ရာကောင်းသော အသေးစိတ်များကို သိရှိရပါသည်။ မှတ်တမ်းတင်သော ပုဂ္ဂိုလ်မှာ တပည့်အရင်းကြီး ဖြစ်တော်မူသော အသျှင်ဝိဇယ ကိုယ်တော်ကြီးဖြစ်ပါသည်။ ထိုစာအုပ်ကြီးကို ၁၉၆၄ ခုနှစ်က ပုံနှိပ်ထုတ်ဝေခဲ့ပါသည်။ ယခုအခါ ရှားနေပါသည်။ ကျွန်ုပ်တို့ တစ်ခါတလေ အမှတ်မထင်တွေ့ရသော ထိုမှတ်တမ်းကြောင့် သိကောင်းစရာများကို အတိအကျ သိရသည့်အတွက် အသျှင်ဝိဇယကို ကျေးဇူးဆပ်သောအားဖြင့် မဟာမြိုင်ဆရာတော်ဘုရားကြီး ဘဝလမ်းကြောင်းကို ထပ်ဆင့် ဖောက်သည်ချခြင်း ဖြစ်သည်။ သာသနာပြု ပုဂ္ဂိုလ်ကျော်တို့၏ ဘဝဇာတ်ကြောင်းတွင် အတုယူစရာများလည်း ရှိ၏။ မြုပ်ကွက်များလည်း ရှိ၏။ လျှို့ဝှက်ချက်များလည်း ရှိ၏။ သို့သော် တရားထူးရမည့်ဘဝတွင်ကား အနှောင့်အယှက်များကို ကျော်လွှားနိုင်ကြောင်း သက်သေကောင်းအဖြစ် အောက်ပါမှတ်စုများက ရည်ညွှန်းလျက်ရှိ၏။ အသေအချာ ဖတ်ရှုတော်မူကြပါ။

မင်းတုန်းမင်း၏ ညီချစ် ကနောင်မင်း၏ မြေးချစ်ဖြစ်သော မဟာမြိုင်ဘုန်းဘုရား၏ ထေရုပ္ပတ္တိဖြစ်စဉ်ကို ရေးသားလိုက်ပါသည်ဟူသော စကားအရ ဆွေစဉ်မျိုးဆက်ဇယား ခိုင်လုံ၏။

> ကျမ်းကိုး၊ ကျေးဇူးတော်ရှင် မဟာမြိုင် အသျှင်စန္ဒာသူရိယ၏ ထေရုပ္ပတ္တိကထာ၊ ၁၃၂၅ခု၊ တန်ဆောင်မုန်းလ၊ အောင်မိတ်ဆက် စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ အန္တေဝါသိက တပည့်၊ အသျှင် ဝိဇယ၊ ရေးသားသည်။ စာမျက်နှာ၊ ၁၂။

အချို့နေရာတို့၌ မင်းသားလေး ဟူ၍ လည်းကောင်း၊ ကိုယ်တော်လေး ဟူ၍လည်းကောင်း၊ ထိပ်တင်လှ ဟူ၍လည်းကောင်း၊ ရှင်စန္ဒာသူရိယ ဟူ၍ လည်းကောင်း၊ မဟာမြိုင်ဘုန်းဘုရား ဟူ၍ လည်းကောင်း၊ အမည်များကို ထုတ်ဖော်ပြဆိုသွားမည် ဖြစ်ပါသည်။

ကျမ်းကိုး၊ စာမျက်နှာ ၁၃

အေဒီ ၁၈၇၆ — သီရိပဝရ မဟာသုဓမ္မရာဇာ ဘွဲ့တော်သာသည့် မဟာဥပရာဇ် အိမ်ရှေ့စံမင်းတရား၏ ရင်နှစ်သည်းချာ ထိပ်တင်မှတ်သားရတနာနှင့် ကြင်ယာတော် ရှင်ဆင့်တို့မှာ သက္ကရာဇ် (၁၂၃၈) ခု၊ ရတုဟေမန္တ ဆောင်းနှောင်းကာလ သမယချိန်ခါ တပေါင်းလဆန်း (၁) ရက်၊ အင်္ဂါနေ့၌ နေသိဗ္ဗိနက္ခတ် ဒုတိယပါဒ် မွန်းတည့်မတ်သောအခါ မင်္ဂလာတွင် စန်းယှဉ်လျက် ဘုန်းအင်ပါရမီ ပြည့်စုံညီသော ဇာနည်သွေးသာကီယ ထိပ်တင်လှသတိုးမဟာကို မီးရှူးသန့်စင် ဖွားမြင်တော်မူသတည်း။

ကျမ်းကိုး၊ စာမျက်နှာ ၁၈

အေဒီ ၁၈၉၁ — မဟာဆီ သွေး နတ်ပေးပညာ သားရတနာ ထိပ်တင်လှကား (၁၅) နှစ်အရွယ် ပညာကြွယ်သဖြင့် ဒီပဲယင်းမြို့ အင်အုတ်တောရ ကိုးဂိုဏ်းချုပ် ဆရာတော်ဘုရားကြီးထံ၌ နိယံမပြတ်ပရိယတ် ကျမ်းဂန်ကို သင်အံတော်မူလျက် သာမဏေရ ပဗ္ဗဇ္ဇမင်္ဂလာ ဆင်မြန်းတော်မူခဲ့၏။

အေဒီ ၁၈၉၆ — သက်တော် (၂၀) ပြည့်ဖြိုးကြွယ်ရကား မန္တလေးမြို့ ရွှေကျင်နိကာယ ဒုတိယ သံဃရာဇာဝိသုဒ္ဓါစာရာဓိပတိ သီရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု သွင်းထုံခတ်နိုပ် မင်းလှူတံဆိပ်ကို ခံယူ ရရှိတော်မူသော ရွှေကျင်သာသနာပိုင် ဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍ ဥပသမ္ပဒရဟန်းမြတ်အဖြစ်သို့ ရောက်တော်မူလတ်သတည်း။

ကျမ်းကိုး၊ စာမျက်နှာ ၁၈

http://www.dhammadownload.com



အေဒီ ၁၉၀၃ မုဆိုးဘိုအပိုင် ခရိုင်အတွင်း သတင်းပုံ့လှိုင် ပန်းစုံကြိုင်သည့် မဟာမြိုင်တောကြီးအတွင်း၌ ကိုယ်တွင်းရန် လေး ကိလေမေးတို့ကို တရားတော် ရေအေးဖြင့် ချွတ်ဆေးသုတ်သင်တော် မူလျှင်း၍ (၇) နှစ်မျှ သီတင်းသုံးဝါဆိုကာ တောမှီခိုတော်မူသဖြင့် ဌာနူပစာသညာဘွဲ့ရ ထိပ်တင်လှ အမည်တော်မှ မဟာမြိုင်တောရ ဆရာတော် အရှင်စန္ဒာသူရိယဟု နေလ ရထား ကောင်းကင်သွားသို့ ထင်ရှားပါကဋသာသနာ့ဂုဏ်ရည် အာဇာနည် မဟာထေရ်တစ်ပါး အဖြစ်သို့ ရောက်တော်မူလေသတည်း။

ကျမ်းကိုး၊ စာမျက်နှာ ၁၉

အေဒီ ၁၉၂၉ သက္ကရာဇ် (၁၂၉၁) ခုနှစ်တွင် ဝေရိကူယ နဂရဟု နာမသုတ်ရန်ငုတ်အကုန် မြို့ရန်ကုန်၏ နောက်ခံချက်ရိုင် ကြည့်မြင်တိုင်တစ်ဝိုက် ဥယျာဉ်တိုက်အတွင်း သတင်းပြည့်လျှံ မြယုဂန် ကျောင်းတော်ကြီး၌ ခိုမှီးဝသလေးဝသော ဣရိယပထဖြင့် မျှတစ္ဆင်ပြီး သီတင်းသုံးနေတော် မူသတည်း။

ကျမ်းကိုး၊ စာမျက်နှာ ၁၉

ထို့ကြောင့် မဟာမြိုင် ဆရာတော်ဘုရားကြီး၏ မော်ကွန်းကျောက်စာ (သံပိုင်းလင်္ကာ) ၌ - သောင်းထိုက်လျှံလူ ကျွန်းဇမ္ဗူ၌ ပြိုင်သူမဝံ့ နန်းညွှန့်၏ အစွန့်နွှယ်စည် မြေးတော်မည်သား ဇာနည် ဥက္ကဋ္ဌ ငါမထေရ်မြတ်သည် ရဟတ်သံယာ ဖဲထွက်ခွာ၍ နိဗ္ဗာသောင်ကမ်း ရောက်စေ ငြမ်း ဟု မင်္ဂလမ်းရှာမှီး မြိုင်တောကြီးမှ ခိုမှီးထွက်ရာ ခုနစ်ဝါ၌ ပဏ္ဍာပေါင်းကြို့ ရွှေဂုန်မြို့တွင် မှိုင်းညို့ဥယျာဉ် တိုက်တော်ပြင်၌ ရွှေစင်ပြုဖန် မြယုဂန်တည့် ဝေယန်တုမှီးကျောင်းတော်ကြီးကို ဦးစီးညာပိုင်မဟာမြိုင်ဟု ပြန့်လှိုင်ကျော်ဟီး ရှင်ပျော်ညီးက စောထီးသာသနာ မြင့်ရှည်ကြာသို့ မဟာပဓာနကြီး လုံ့လ၍ ဗုဒ္ဓဝါဒီ ကျင့်ဝသီနှင့် လေးလီယာပထ ရွှင်ပြုံးမျှ ရှင့်ဂန္ထဘာဝနာ ဒွေးစုရာဟု လောင်းလျှာကျင့်နည်း ငါဖြည့်ဆည်းသည် ကမ္ဘည်းကျောက်စာ မော်ကွန်းတည်းဟု ဆိုထားပေသည်။

ကျမ်းကိုး၊ စာမျက်နှာ ၁၉-၂၀

မန္တလေးမြို့တည် နန်းတည် ပဉ္စမသင်္ဂါယနာတင် ဘဝရှင်မင်းတရားကြီး၏ ညီတော် သီရိပဝရ မဟာ သုဓမ္မရာဇာဘွဲ့ခံ အိမ်ရှေ့ဥပရာဇ် ကနောင်မင်း၏ သားတော် စစ်ဖြစ်တော်မူသော ထိပ်တင်မှတ်နှင့် မှန်နန်း အပျိုတော် ကြင်ယာတော် ရှင်ဆင့်တို့မှ အင်္ဂတြိဒွေးအစ် သက္ကရာဇ်တွင် တပေါင်းလဆန်း (၁) ရက်၊ အင်္ဂါနေ့ နံနက် စက် (၄) နာရီ အချိန် ဓနသိဋ္ဌိ နက္ခတ် ဒုတိယပါဒ် မွန်းတည့်မတ်သောအခါ မင်္ဂလာတွင် ကမ္ဘာဦးကစ၍ ယနေ့တိုင်အောင် ရပ်နားခြင်း မရှိ၊ ပကတိ သဘာဝအားဖြင့် အဇ္ဈာပြင်ကျယ် ကောင်းကင်လယ်၌ သွားလာ လျက်ရှိသော ဂြိုဟ်တို့သည် မြိဿာရာသီတွင် အင်္ဂါဂြိုဟ်ရောက်ခိုက် ဓနုရာသီတွင် ကြာသပတေး ဂြိုဟ် ရောက်ခိုက် မကာရ ရာသီတွင် ဗုဒ္ဓဟူး၊ သောကြာဂြိုဟ်တို့ ရောက်ခိုက် ကုမ်ရာသီတွင် တနင်္ဂနွေ၊ တနင်္လာ၊ စနေ၊ ရာဟုဂြိုဟ်တို့ တိုက်ခိုက်အချိန်တွင် ကြုံကြိုက်တွေ့သိဒ္ဓိ ခါကောင်း မင်္ဂလာ ဇေယျာသီရိ သတိတိမ်မြူ ပတ္တမြားလဝန်းတမူ သိမ်မွေ့ထူးမြတ် ဖိုးမပြတ်နိုင်သော ဇောတိရည်ကျော်ပမာကဲ့သို့ မယ်တော် မိခင်သည် လောင်းလျာမည်တွင် သတို့သားရတနာ သားရွှေစင်ကို မီးရှူးသန့်စင် ဖွားမြင်တော်မူလေသတည်း။

ကျမ်းကိုး၊ စာမျက်နှာ ၂၀-၂၂

အေဒီ ၁၈၈၅ သီပေါအရှင် ဘုရင်မင်းမြတ်သည် ကံကြမ္မာညှိုးမှိန်ခိုက်တွင် ကြုံကြိုက်တော်မူသဖြင့် သက္ကရာဇ် (၁၂၄၇) ခုနှစ်၊ တန်ဆောင်မုန်းလဆုတ် (၈) ရက်၊ တနင်္ဂနွေနေ့ (၃) ချက်တီး အချိန်အခါတွင်

http://www.dhammadownload.com



ထီးနန်းကို စွန့်လွှတ်တော်မူ၍ ခြွေရံတော်ကင်းမဲ့လျက် အိန္ဒိယနိုင်ငံ မဒရပ်မြို့တော်သို့ ပါတော်မူရရှာ သည်။

ကျမ်းကိုး၊ စာမျက်နှာ ၂၉

ပါတော်မူပုံအသေးစိတ်ကို မင်းသား ဦးမောင်မောင်တင်အမည်ခံ ပညာရှိကြီး ပြုစုသော ကုန်းဘောင်ဆက် မဟာရာဇဝင်တော်ကြီး တတိယတွဲနှင့် ယှဉ်တွဲလေ့လာသင့်ပါသည်။

ကျမ်းကိုး။ ကုန်းဘောင်ဆက် မဟာရာဇဝင်ကြီး၊ တတိယတွဲ ရာပြည့်ပုံနှိပ်တိုက်၊ လမ်း-၅၀၊ ၁၁၉ ကို ကြည့်။

အေဒီ ၁၈၈၅ — နိုဝင်ဘာ (၂၄) ရက် အင်္ဂါနေ့တွင် မြန်မာတပ်များက အောင်ပွဲဆင်သည်ဟု သီပေါဘုရင်ထံ ကြေးနန်းပို့သော်လည်း တကယ်က ရှုံးနိမ့်ခြင်း၏ အစဖြစ်ပေသည်။

အေဒီ ၁၈၈၅ — ခရစ်နှစ် (၁၈၈၅) ခု၊ နိုဝင်ဘာ (၂၈) ရက်၊ စနေနေ့ညနေ နေဝင်ရီတရောအချိန်တွင် မန္တလေး နေပြည်တော်၌ ဗြိတိသျှစစ်တပ်များ၏ စစ်သေနာပတိဖြစ်သူ ဂျင်နရယ်ပရင်တာဂတ်က သီပေါ ဘုရင်နှင့် စုဖုရားလတ်တို့အား ဖမ်းဆီးထီးနန်းချ၍ မန္တလေးကို သိမ်းပိုက်လိုက်၏။

ကျမ်းကိုး၊ ဒေါက်တာ မျိုးသန့်တင်၊ ၁၉၈၄ ဇူလိုင်လ၊ သိပ္ပံမဂ္ဂဇင်းကို ကြည့်။

သီပေါဘုရင်နှင့်အဖွဲ့ သင်္ဘောဆင်းသည်ကို မျက်မြင်တွေ့ရသူတစ်ယောက်က လန်ဒန်သတင်း စာသို့ သတင်းရေးသားပေးပို့ကြောင်း သိရသည်။ ထိုအခါ ကမ္ဘာက သိ၏။

ကျမ်းကိုး။ ၁၈၈၆ ခု၊ ဇန်နဝါရီလ ၂၃၊ စနေနေ့ထုတ် နယူးယောက်တိုင်းမ် သတင်းစာ ကိုကြည့်၊ တက္ကသိုလ်ထင်ကြီး မြန်မာနိုင်ငံ သတင်းစာများအညွှန်း၊ စာပေဗိမာန်၊ စာ ၇၁ ကိုကြည့်။

ထိုအချိန်အခါက အဖြစ်အပျက်များသည် မဟာမြိုင်ဆရာတော်ကြီးနှင့် ဆက်စပ်လျက်ရှိလေ သည်။ ဆက်၍ဖတ်ပါ။

ရန်ကြီးအောင် ရွှေဘိုသို့ ထွက်ခါနီးဆဲဆဲတွင် အထိန်းတော်နှစ်ယောက်တို့ကို ခေါ်တော်မူပြီး လျှင် "ငါကိုယ်တော် အရေးတကြီး အခါကောင်းရွေးချယ်ပြီး ရေဝတီကျော်ဘက် အနောက် ဘက်သို့ ယနေ့ပင်လျှင် ထွက်တော်မူသည်။ သားတော်လေးကို လျှို့ဝှက်စောင့်ရှောက်နေခဲ့ကြ ပေဦး၊ ခဏမျှရှောင်တိမ်း၍ မကြာမီရက်အတွင်း အမီလိုက်ခဲ့ကြရမည်"ဟု အမိန့်တော်ချမှတ် တော်မူပြီး ရဲမက်ဗိုလ်ပါ စုံလင်စွာဖြင့် ဗျူဟာခင်း၍ ထွက်တော်မူလေသည်။

ကျမ်းကိုး၊ စာမျက်နှာ ၃၀

ထိုသို့ခမည်းတော် ထွက်တော်မူသွားလေလျှင် သားတော်လေးထိပ်တင်လှမှာ မယ်တော်ဘုရား သည် ဘယ်ပုံ ဘယ်နည်းဖြစ်၍ ဘယ်စခန်း ဘယ်လမ်းရောက်နေသည်ကိုလည်းမသိရ၊ ခမည်း တော်ဘုရားကလည်း ထွက်တော်မူသွား၊ ဆွေတော်မျိုးတော် နန်းတွင်းနန်းတွင်းသားများကို လည်း မတွေ့မမြင်ရသဖြင့် စိတ်အား ငယ်ငယ်နှင့် အထိန်းတော်ကြီး နှစ်ယောက်နှင့်အတူ မြို့အပြင် အညတြ မထင်မရှား ပြေးလွှားပုန်းလျှိုး၍ နေကြရာ နှစ်ရက်လောက်အကြာတွင် ခမည်းတော်ထွက်တော်မူရာလမ်း ခော်ရမ်း၍လိုက်ကြရာ မောဟိုက်ပင်ပန်း ခြေလှမ်း၍ မလိုက် နိုင်သောအခါ အထိန်းတော်ကြီးနှစ်ယောက်ခမျာမှာ အလှည့်ကျ ပခုံးထမ်းကျောပိုးနှင့် လှည်းကြုံ တွေ့က လှည်းပေါ်တင်ကာဖြင့် အစဉ်တစိုက်သတင်းစုံစမ်း၍ လိုက်ကြရာ ဒီပဲယင်း ကန်တော် ကြီးမှာ တပ်စခန်းချလျက်နေသော ခမည်းတော်ထိပ်တင်မှတ် စံတော်မူရာသို့ ရောက်ကြလေ၏။

ကျမ်းကိုး၊ စာမျက်နှာ ၃၀

ပြုန်းခနဲ ကုလားဖြူတပ်တွေ ပစ်ခတ်ဝင်ရောက်၍လာရာ ထိုအခါ ခမည်းတော် ထိပ်တင်

http://www.dhammadownload.com



မှတ်တပ်မှာ စစ်အင်္ဂါ လက်နက်တို့ကို မတပ်ဆင်ရသေးဖြစ်၍ ခုခံကာ မတိုက်တော့ဘဲ အရေးကလည်း အလွန်နီးကပ်၍လာသဖြင့် သားတော်လေးကို သယ်ဆောင်၍ မသွားနိုင်တော့ဘဲ တပ်ထဲ၌ ပါလာသော ဘုန်းတော်ကြီးတစ်ပါးအား အလုံးစုံစကားမှာကြား၍ ထိပ်တင်လှ သားတော်လေးအားအပ်ထားပြီးလျှင် တစ်နေရာသို့ တပ်စခန်းတွေ ရွှေ့ပြောင်း၍ အောင်မြင်စွာ ဆုတ်ခွာ၍ ထွက်တော်မူရရှာလေသည်။

ကျမ်းကိုး၊ စာမျက်နှာ ၃၁

ထိုအချိန်တွင် ဘုန်းတော်ကြီးက မင်းသားကလေးကို ကယ်တင်သကဲ့သို့ပင်လျှင် ဘုန်းတော်ကြီး ဦးဇာဂရက မြင်ကွန်း မြင်းခုံတိုင် မင်းသားနှစ်ပါးကိုလည်း ဘေးကင်းရာသို့ လျှို့ဝှက် ယူဆောင်၍ ရေးမြို့ ရန်ကင်း တောင်သို့ သွားခဲ့၏။ ထိုအကြောင်းကို ရေးမြို့ ရန်ကင်းတောင်သမိုင်းတွင် ကြည့်ပါ။

ကျမ်းကိုး။ ထားဝယ်မြို့၊ ဇေယျဝတီကျောင်းတိုက်သမိုင်း၊ ဦးသီလ ကို ကြည့်။

မြင်ကွန်း မြင်းခုံတိုင် မင်းသားနှစ်ပါးသည် ရန်ကုန်သို့ရောက်စဉ် ငါးထပ်ကြီး ဆရာတော် ဦးအာသဘ အရညဝါသီကိုယ်တော်ကြီးအား ဝင်ရောက်ဖူးတွေ့ပြီးမှ ခရီးဆက်ကြောင်း သိရှိရပါသည်။

ကျမ်းကိုး၊ ငါးထပ်ကြီး ဘုရားသမိုင်း၊ ဦးအာသဘအကြောင်း၊ ဟံသာဝတီ ပုံနှိပ်တိုက်ကိုလည်း ကြည့်ပါ။

ထိုသို့ အင်္ဂလိပ်နယ်ချဲ့ဘေးရန်ကြောင့် ထွက်ပြေးရသော မင်းညီမင်းသားတစ်စုအကြောင်းကိုလည်း ကျိုက်ထီးရိုး ဆံတော်ရှင်အကြောင်းနှင့် ဆက်စပ်၍ လေ့လာတွေ့ရှိရပါသည်။ နယ်ချဲ့ကို မခံချင်သည်က တစ်ကြောင်း၊ တော်လှန်၍ မနိုင်သည်ကတစ်ကြောင်း အကြောင်းတို့ကြောင့် မနိုင်သည့်အတူတူ အနှုံလည်းမပေးဘဲ သာသနာနယ်ပယ်သို့ ခြေစုံပစ်ဝင်သွားသော ထွက်ရပ်ပေါက် ပုဂ္ဂိုလ်ကြီးတစ်ဦးရှိ၏။ ထိုပုဂ္ဂိုလ်ကြီးတစ်ဦးမှာ ဘိုးဗုဒ္ဓေါဟု ခေါ်ဆို၏။ ဗုဒ္ဓေါ ဗုဒ္ဓေါ ကျင့်စဉ်ဖြင့် ပေါက်မြောက်အောင်မြင်ခဲ့သော ပုဂ္ဂိုလ်ကြီးဖြစ်၏။ ထိုပုဂ္ဂိုလ်ရသေ့ကြီး၏ ကျင့်စဉ်ကို ဆက်ခံအမွေရသောပုဂ္ဂိုလ်မှာ အလွန်နာမည်ကျော်ကြားသော စစ်ကွင်းဆရာတော်ကြီး ဖြစ်၏။

ကျမ်းကိုး၊ ကျိုက်ထီးရိုး ကိုယ်တွေ့မှတ်တမ်း၊ ဘိုးဝါယမ၊ သတ္တမကျော်အောင်စံထား ဆရာတော်ကိုလည်း ကြည့်ပါ။

ဤကား မဟာမြိုင်ဆရာတော် ထွက်ပြေးရပုံနှင့် ဆက်စပ်လျှင်း၍ တစ်ပါးတည်းမဟုတ်။ သာသနာရေးနယ်ပယ်သို့ ကူးသွားသော ပုဂ္ဂိုလ်များ အများအပြားရှိကြောင်း လေ့လာတင်ပြခြင်း ဖြစ်ပါသည်။

ဤနေရာမှာလည်း ခမည်းတော်နှင့် တစ်ကြိမ်မြောက်ကွဲသွားရခြင်းပင်ဖြစ်လေသည်။ မယ်တော် ဘုရားနှင့်မှာမူ အရေးတော်ပုံ မပေါ်မီကလေးတွင် ကွဲခဲ့ရသည်။ ဤအကြောင်းများကို မဟာမြိုင် ဘုန်းဘုရားကိုယ်တိုင် အမိန့်ရှိတော်မူ၍ သိရပါသည်။ မိန့်တော်မူပုံ အလုံးစုံကိုဆက်၍ တင်ပြပါဦးမည်။

ကျမ်းကိုး၊ စာမျက်နှာ ၃၁

ခမည်းတော်တပ်တွင်းမှာ ပါလာသော ဘုန်းတော်ကြီးသည် ခမည်းတော် အထွတ်အထိပ်ရောက်လျှင် မင်းကြီး သက်တော်ရှည် လုပ်ရန်ရည်ရွယ်လျက် ဂျပန်များကဲ့သို့ ဓားလွတ်ကြီးတစ်ချောင်းကို ခါးမှာလွယ်လျက် တပ်ထဲအမြဲလိုက်ပါနေသော ဘုန်းတော်ကြီးတစ်ပါး ဖြစ်ခြင်းကြောင့်

http://www.dhammadownload.com



သူ့ အတွက် အလွန်အရေးပါလှ၍ နေ့ညမရှောင် လျှို့ဝှက်စွာ တိမ်းရှောင်ပြေးရသဖြင့် မင်းသားလေး၊ ကိုယ်တော်လေး၊ အရှင့်သားတော်လေး စသည့်ဖြင့် ခေါ်ကာ ခေါ်ကာ ချော့မော့ကာနှင့် ပခုံးပေါ် ထမ်းတဲ့အခါ ထမ်း၊ ကျောပိုးတဲ့အခါ ပိုးနှင့် ခရီးပြင်းသွားကြရာ စစ်တပ်နှင့် အတော်လှမ်းတော့မှ ရောက်ရာရွာမှ သူကြီးများ လှည်းဆင့်ခေါ်၍ ခရီးဆက်ကာ သွားကြလေရာ ရောက်ရာ ကျောင်းဇရပ်များမှာ ခဏမျှ တည်းခို၍ မင်းသားလေးပါကြောင်း ရပ်ရွာကသိသဖြင့် ပွဲတော်အုပ် ဆက်ရန်လာကြသူများအား ပွဲတော်အုပ် ဆက်ပြီး အဆင့်ဆင့် ပြောကြလေရာ မျက်ရည်ကျသူ ကျ၊ ငိုသူငို တို့အရှင်သခင်ကို အစမွဖမ်းယူခြင်းပဲဟု မခံနိုင်ကြ၍ အံကြိတ်သူကကြိတ်၊ လက်သီးလက်မောင်းတန်းသူကတန်းနှင့် ဖြစ်နေကြသဖြင့် ရှေ့စခန်းသို့ဆက်၍ သွားကြရာ ရှည်လျားသော တောတန်းကြီးတစ်ခုကိုကျော်ဖောက်၍ ဝက်ပုပ်ကြီး (ခေါ်) ရွာနှင့် နှစ်မိုင်လောက် ဝေးကွာသော အောင်သမနာတောမှာ ဖက်ရွက်မိုးကျောင်းလေးနှင့် ရပ်ရွာ နယ်ပယ် မသာယာမှုကြောင့် ပုန်းလျှိုကာနေရသော ဘုန်းတော်ကြီး ဦးဉာဏကျောင်းသို့ ရောက်ကြလေ၏။

ကျမ်းကိုး၊ စာမျက်နှာ ၃၃

ထိုကျောင်း၌ သုံးရက်လောက်နေကြပြီး ဘုန်းတော်ကြီး ဦးဟိန်းနှင့် အထိန်းတော်ကြီး နှစ်ယောက်တို့သည် ဘုန်းတော်ကြီး ဦးဉာဏထံမှာ ထိပ်တင်လှ ကိုယ်တော်လေးကို ယုံကြည်စွာ အပ်ထားခဲ့၍ ရှောင်တိမ်းထွက်သွားကြပြန်ပါသည်။ ဘုန်းတော်ကြီး ဦးဉာဏထံမှာ သာဆင့်ဟူသော ကျောင်းသားနှင့် အတူနေကာ ဆွေတွေကို ရော်ရမ်းမျိုးတွေကို မျှော်မှန်းပြီး အလွမ်းနှင့်သာ အချိန်ကုန်ခဲ့ရသည်။

ကျမ်းကိုး၊ စာမျက်နှာ ၃၃

ခမည်းတော်ကို လွမ်းလျက်တမ်းတ၍နေစဉ် ရှစ်ရက်လောက်အကြာတွင် ဗိုလ်ရန်ကြီးအောင်၊ ဗိုလ်ဇော်ဂျီ၊ ဗိုလ်ပြုံးဟု ဆိုအပ်သော ကိုယ်ရံတော် သုံးယောက်နှင့်တကွ ခမည်းတော် ထိပ်တင်မှတ် ကိုယ်တော် ရောက်လာပြန်သည်။ သားတော် ထိပ်တင်လှကို အားမငယ်ရန် အမျိုးမျိုးချော့ကာ ဘုန်းတော်ကြီး ဦးဉာဏအား ကျေးဇူးတင်စကား လျှောက်ထားတော်မူပြီး သုံးစွဲရန် ဝတ္ထုကြေးငွေများ လှူဒါန်းကာ တစ်ဖန် မြင်းဖြင့် ဒုန်းစိုင်း၍ သွားကြပြန်ပါသည်။

ကျမ်းကိုး၊ စာမျက်နှာ ၃၃

ခမည်းတော် ထွက်သွားတော်မူ၍ ဆယ့်ငါးရက်လောက်အကြာတွင် ဦးဉာဏထံမှာ ထားခဲ့သော ဘုန်းတော်ကြီး ဦးဟိန်းသည် အထိန်းတော်ကြီးနှစ်ယောက်နှင့် အရေးတကြီးရောက်လာပြန်၍ ခမည်းတော် တပ်စခန်းချရာအရပ်သို့ ခေါ်ဆောင်ကာ တောလမ်းကဖြတ်သန်း၍ ကျောပိုးပခုံးထမ်းပြီး အပင်ပန်းခံကာ သွားကြရသည်။

ကျမ်းကိုး၊ စာမျက်နှာ ၃၃

တစ်ဖန် ခရီးဆက်ကြပြန်ရာ နှစ်ရက်မြောက် ရောက်သောအခါ ဆုံကုန်းရွာအနီး ဆည်တော်ရွာ အနောက် လေးမိုင်ခန့်ဝေးသော ခမည်းတော် တပ်စခန်းချရာ မြင်ဒင်ဂေါခေါ်သော တောသို့ ရောက်ကြ၍ ဝမ်းသာအားရ ခမည်းတော်နှင့်တွေ့ရပြီဟု အားခဲ၍ လာခဲ့ရာ တပ်စခန်းတစ်နေရာသို့ ရွှေ့သွားခြင်းကြောင့် ခမည်းတော်အားတွေ့ရန် အားခဲ၍လာခဲ့သော ထိပ်တင်လှကိုယ်တော်လေးမှာ ခမည်းတော်ဘယ်လမ်းဘယ်စခန်း ထွက်တော်မူသည်ကို မသိရခြင်းကြောင့် ခြေစုံဆင်း၍ ငိုချင်မတတ် ဝမ်းနည်းကြေကွဲကာဖြစ်ခဲ့ရပါသည်။

ကျမ်းကိုး၊ စာမျက်နှာ ၃၄

http://www.dhammadownload.com



ဘုန်းတော်ကြီး ဦးဟိန်းလည်း စိတ်လျှော့ စိတ်ပျက်၍လားမသိ။ မကြာမီ ပျောက်ကွယ်ထွက်သွားသဖြင့် သုံးယောက်သား တောကြီးအလယ်မှာ အားငယ်စွာ မကြဲတတ်အောင် ဘေးမှိုင်ကာ ကျန်ခဲ့ရပါသည်။ ထိုအရပ်၌ ကြာကြာနေ၍ မသင့်ပြန်ခြင်းကြောင့် ထိုတောနှင့်အနီးဆုံးဖြစ်သော ဆီးတောရွာဘုန်းကြီးပုလေးကျောင်းသို့ သွားရောက်သောအခါ ဘုန်းကြီးပုကလေးက လက်မခံ လိုဟန် လေသံခပ်ပြင်းပြင်းနှင့် "ဟဲ့ ဒကာတို့ ယခုတိုင်းပြည်မှာ အုပ်ချုပ်တဲ့ မင်းမရှိတော့ဘူးတဲ့၊ အုပ်ချုပ်တဲ့ မင်းမရှိလို့ အားလုံးဆူပူသောင်းကျန်းမှုတွေကြောင့် လူတွေဟာ ပြေးသူပြေး၊ ပြောင်းသူပြောင်း ပြောင်းဆန်အောင် ဖြစ်နေကြတာ မင်းတို့မသိကြ မကြားကြဘူးလား၊ တို့အရပ်က ဘယ်မြို့ ဘယ်ရွာနဲ့မှမနီး တောကျလို့ တော်ပါသေးတယ်၊ ဒါနှင့်သော်မှ တို့ကျောင်းနှင့် တစ်တိုင်လောက်သာ ဝေးသော မြင်ဒင်ဂါတောကြီးထဲမှာ မင်းသားလို့ ပြောကြတယ်၊ လူ အမြောက်အမြားနှင့် ခုနစ်ရက်သာနေပြီး ထွက်သွားကြတာ ငါးရက်လောက်ရှိသေးတယ်"

ကျမ်းကိုး၊ စာမျက်နှာ ၃၄

ဤကဲ့သို့ မဟာမြိုင်တောစပ် ခြောက်အိမ်စုအရပ်မှာ ဒုက္ခခံ၍ တစ်နှစ်လောက်အကြာတွင် တိုင်းပြည်အခြေအနေ အကဲခတ်စုံစမ်းရင်း ကွင်းပြင်သို့ ထွက်ကြရန် ပြင်ဆင်၍နေဆဲ ရဟန်းထင်ရသော ပုဂ္ဂိုလ်နှင့် လူသူတော်ရောက်လာပြန်၍ အကျိုးအကြောင်း ပြောသောအခါ ဘေးအန္တရာယ်ကင်းစေရန် ကျောက်စရစ်ခဲလုံးကို မန်းမှုတ်၍ ပေးလိုက်သည်ကို အားကိုးကြီးပြုလုပ်၍ လာကြရာ အန္တရာယ်ကင်းစွာဖြင့် ထွက်လာစဉ်က စခန်းဖြစ်သော အင်းကြီးရွာငယ်သို့ ရောက်ကြလေ၏။

ကျမ်းကိုး၊ စာမျက်နှာ ၃၆

ထိုရွာသားတွေ အကဲခတ်ကြသည်မှာ ဟိုတစ်ခါ တစ်နှစ်လောက်က သုံးရက်လောက်နေပြီး ပျောက်ကွယ်သွားကြတာလည်း ဒီသုံးယောက်၊ ယခုရောက်လာတာလည်း ဒီသုံးယောက် မြင်ရပုံ အလွန်ဆန်းလှလို့ မသက်မှုနှင့် မေးရာတွင် မလွှဲမရှောင်သာ ဖြစ်၍ အမှန်အဟုတ်ကို ပြောပြသဖြင့် ဩော်သနားဖွယ်ရာပါလားဟု ညည်းတွားကာ စုတ်တသပ်သပ်နှင့် ငါတို့ အရှင်သခင်သားတော်ဟု မင်းသားမှန်းသိကြကာ ဘုရားထူးသူကထူး၊ ကျွန်တော်မျိုး ပြောသူကပြောနှင့် ယောက်ျား၊ မိန်းမ ရှိသမျှ လူစုကာ ဝိုင်းအုံလာကြပြီး အလုံးစုံတာဝန်ယူကာ မင်းသားလေးအား ဝိုင်းဝန်း၍ စောင့်ရှောက်ကြလေသည်။

ကျမ်းကိုး၊ စာမျက်နှာ ၃၇

ထိုအရပ်ရောက်၍ ငါးရက်လောက်ကြာသောအခါ အထိန်းတော်ကြီးနှစ်ယောက်မှာ မဟာမြိုင်တောမှ စွဲကပ်လာခဲ့သော ငှက်ဖျားရောဂါသည် ပြင်းထန်စွာနှိပ်စက်လာ၍ အနီးအပါးရှိလူတို့က လာ၍ ကြည့်ရာတွင် ထိုကြည့်ရှုသော လူများအား အထိန်းတော်ကြီးနှစ်ယောက်က "ကျွန်တော်တို့မှာ ခင်ဗျားတို့မြင်တဲ့အတိုင်း ဝေဒနာစွဲကပ်၍ အခက်တွေ့ နေပါပြီ။ ကျွန်တော်တို့ ဤနေရာက ရှုတ်တရက်မသွားနိုင်အောင် ဖြစ်ပါတော့သည်။ ကျွန်တော်တို့အတွက် ကိုယ်တော်လေးအတွက် က ဤနေရာမှာ ကြာရှည်နေလို့ သင့်တော်မည်မထင်ခြင်းကြောင့် ဘုန်းတော်ကြီး ဦးဉာဏထံ ကျေးဇူးပြု၍ ပို့ပေးကြစေလိုပါသည်" ဟု ပြော၏။

ကျမ်းကိုး၊ စာမျက်နှာ ၃၇

ထိုအခါကျမှ လူသုံးယောက်တို့က တာဝန်ယူပြီး ထိပ်တင်လှကိုယ်တော်လေးအား လိုရာသို့ ပို့ကြပါသည်။ ထိပ်တင်လှ ကိုယ်တော်လေး လမ်းမလျှောက်နိုင်တဲ့နေရာမှာ သစ်သားလေး

http://www.dhammadownload.com



ချောင်းကို ဆိုင်းလုပ်ပြီး နွယ်ကြိုးချည်၍ ထမ်းရှာကြပါသည်။ ဤကဲ့သို့ တောစခန်းက တဖြည်းဖြည်းလာခဲ့ကြရာ သုံးရက်ခန့်အကြာတွင် ဘုန်းကြီး ဦးဉာဏကျောင်းသို့ ရောက်ကြလေ၏။

ကျမ်းကိုး၊ စာမျက်နှာ ၃၈

တစ်နေ့သောအခါ ဘုန်းတော်ကြီးက ဒါယကာကြီး ဦးဘိုးချိအား ခေါ်တော်မူပြီး "တိုင်းပြည်တော့ တော်တော် ငြိမ်ပုံရပြီ၊ ရွာထဲ ရပ်ထဲအကဲခတ်စုံစမ်းရင်း သွားလာနေထိုင်ကြည့်ကြစမ်း" ဟု တိုက်တွန်းချက်အရ ဝက်ပုပ်ခေါ် ရွာထဲသို့ သူတစ်ပါးအိမ်ကို မှီကပ်၍ တစ်ဖက်ရပ်တဲကလေး ထိုးကာ နေထိုင်ကြလေ၏။ ထိုသို့နေထိုင်၍ တစ်လလောက်အကြာတွင် ကုလားမြင်းတပ်ကြီး ဝင်လာ၍ ရွာထဲမွေ့နှောက်ကာ သူပုန်ရှိသလားဟု မေးမေးပြီး အိမ်စေ့လိုက်၍ ရှာခြင်းကြောင့် ထိပ်တင်လှကို ရက်ကန်းစင်ထဲ အတင်းသွင်းကာ တောင်းကြီးနှင့် အုပ်ထားရလေ၏။

ကျမ်းကိုး၊ စာမျက်နှာ ၄၀

နောက်များမကြာမီ ဤနေရာမှာ လုံခြုံပုံမရသောကြောင့် တောအကျဆုံးအရပ်ကိုရှာ၍ အင်ကြင်းသား ပိုးရွာ၊ တောင်ဂံရွာ၊ နတ်ချွတ်ရွာ ၎င်းမှတစ်ဖန် ခရီးအထောက်လှမ်းသော သရေအိုင်ရွာ ထိုရွာရောက်တော့ သင့်တော်မည်ထင်၍ ရွာ၏တောင်ဘက်အစွန်အဖျားကင်ပွန်းချုံလား ကလိန်ချုံလား အသေအချာမသိပါသော ချုံအောက်မှာ တဲအိမ်ဆောက်၍ ခဏမျှနေကြရာ တစ်ညသောအခါ ကျားသစ်တစ်ကောင်လာ၍အဆွဲခံရပါသည်။ ဒဏ်ရာမှာ ငယ်သောဒဏ်ရာဖြစ်၍ အနည်းငယ်ခံရပါသည်။ ထိုရွာမှာနေထိုင်ကြကာ ခြောက်လလောက်ကြာလိမ့်မည် အထင်မှာ ဘယ်အတွက်မသိပါ ရပ်ရွာထဲမှာ ရုတ်ရုတ်ရက်ရက်ဖြစ်ကြ၍ မွေးစားမိဘများလဲ မနေရဲ ကြတော့ဘဲ သရေအိုင်ရွာနှင့် နှစ်တိုင်လောက် ကွာဝေးမည်ထင်ရသော ထုံးကြီးမွန်ခေါ်သော တောအရပ်မှာ တဲထိုး၍ နေကြပြန်ပါသည်။

ကျမ်းကိုး၊ စာမျက်နှာ ၄၀

ဤသို့ နေထိုင်ကြရာ ဆယ့်ငါးရက်လောက်အရှိတွင် ပန်ချာပီစစ်သားထင်ရသော နှုတ်ခမ်းမွေးထူ မုတ်ဆိတ်မွေးထူ ခုနစ်ယောက်ဟု ထင်ရသော ကုလားကြီးတွေ မြင်းကိုယ်စီ စီးလျက်ဖြုန်းခနဲ ရောက်လာရာ မွေးစားဘခင် ဦးဘိုးချိလဲ မပုန်းနိုင် မပြေးနိုင်ဘဲ အဘွားကြီးလဲ သားတော်ကို လက်ကဆွဲပြီး တုန်တုန်ရင်ရင်နှင့် ထိုင်နေကာ အဘိုးကြီးကို အဘွားကြီးနားခေါ်ကာ အဘိုးကြီး ကြည့်လိုက်၊ အဘွားကြီးကို ကြည့်လိုက်၊ သားတော်ကို ကြည့်လိုက်နှင့် မသင်္ကာတဲ့သဘောနှင့် "သည်နယ်ဒီအရပ်မှာ မင်းသားစားပြတစ်ယောက် သားငယ်ကို ထားခဲ့တယ် ကြားတယ်၊ မောင်မင်းကို ပေးထားခဲ့သလား မှန်မှန်ပြောပါ" ဟု မေးလေ၏။ အဘိုးကြီးက မင်းသားစားပြဆိုတာ မသိတဲ့ အကြောင်းပြောလေ၏။ ဤကလေးလည်း မိမိ၏ သားမှန်တဲ့အကြောင်းကို ပြောလေ၏။ အဘွားကြီးကိုလည်း ဤနည်းအတိုင်း ခြောက်လှန့်၍ မေး၏။

ကျမ်းကိုး၊ စာမျက်နှာ ၄၁

သားတော်ကလေးကိုလည်း "လူကလေးအဖေ အမေ ဘယ်သွားလဲ၊ ဘယ်မှာနေသလဲ" မေး၏။ အလုံးစုံစကားကို စကားပြန်က ပြောရသည်။ ပြောပြသော်လည်း မယုံဘူးထင်ပါသည်။ အဘိုးကြီးကို ခပ်ဝေးဝေးခေါ်သွားပြီး ရိုက်စစ်ကြပြန်ပါသည်။ ပြန်လာတော့ ကျောမှာ သွေးရဲရဲနှင့်တွေ့ရ ပါသည်။

ကျမ်းကိုး၊ စာမျက်နှာ ၄၁

၎င်း ဒဏ်ချက်သည် သေသည်အထိ ကျောလယ်မှာ အမာရွတ်ကြီး သုံးချောင်း ပါသွားရရှာပါသည်။ ထိုတောမှာ နေထိုင်ပြီးနောက် တဖြည်းဖြည်း တိုင်းပြည်အေးလာသဖြင့် အနီးဆုံးဖြစ်

http://www.dhammadownload.com



သော အင်ကြင်းပင်ရွာသို့ ဝင်၍ အိမ်ကလေးဆောက်၍ နေပါသည်။ တခြားအရပ်ကလူတွေလည်း စုပေါင်းဝင်ရောက်ကြ၍ အိမ်ခြေ ၃၀ - ၄၀ လောက် ဖြစ်လာပါသည်။ ဘုန်းကြီးကျောင်းလည်း ရှိပါသည်။ ထိုသို့ တွေ့ဆုံစုပေါင်းမိကြသောအခါ ဖြစ်ပျက်ကြောင်းတွေ မေးကြပြောကြထုံးစံအတိုင်း သားရေးသမီးရေးတွေ မေးကြရာ "ညည်းသားနာမည် ဘယ်လို ခေါ်သလဲ" လို့ ဒေါ်ခကိုမေးကြရာ "ကျုပ်သားနာမည်လေ ရွှေပေါ်မှာမြတင်ထားသည်နှင့်တူလို့ မောင်ရွှေမြတင်လို့ ခေါ်သတော့" ဟုပြောသောအခါ "ဩော်ဟုတ်လဲ ဟုတ်ပေတော် ဖြူဖြူသန့်သန့်ကလေးဆိုတော့ နာမည်နှင့် လိုက်ပါပေတယ်၊ တော်တို့ ဇာတိဘယ်ကလဲ" ဟု မေးကြရာ "အကျွန်ုပ်တို့သည် ဒီမြို့ ဒီနယ်ကပါပဲ၊ ယခုအခါ ရွာကိုတော့ မပြောနိုင်တော့ကြောင့် အင်ပုတ်ရွာ၊ ကြည်ရွာ၊ ကျားသေရွာ စသည်တို့က တောပုန်းကြရာက ၎င်းရွာမှာပဲ နေထိုင်ကြကြောင်း" ပြောပါသည်။

ကျမ်းကိုး၊ စာမျက်နှာ ၄၂

ဘုန်းဘုရားလောင်းလျာ သားရတနာကို ဆရာတော် ဦးနေမိန္ဒကျောင်းသို့ အပ်ထားလိုက်လေသည်။

ကျမ်းကိုး၊ စာမျက်နှာ ၄၂

ဥပဇ္ဈာယ် ဆရာတော်ကား ဒီပဲရင်းမြို့ အင်ဘုတ်တောရ ကိုးဂိုဏ်းချုပ်ဆရာတော် ဘုရားကြီးပင်ဖြစ်၍ ဘွဲ့တော်ကို ရှင်စန္ဒာသူရိယဟု ဥပဇ္ဈာယ်ဆရာမြတ်က ပေးအပ်တော်မူလေသည်။

ကျမ်းကိုး၊ စာမျက်နှာ ၄၂

မန္တလေးမြို့ အနောက်ပြင် မြတောင်တိုက် ရွှေရေးကျောင်းသို့ ပြောင်းရွှေ့ကာ စာပေ ပရိယတ္တိတို့ကို ဆက်လက် တစ်ဖန် သင်ပြန်တော်မူလေသည်။

ကျမ်းကိုး၊ စာမျက်နှာ ၄၂

ထို အနောက်ပြင် မြတောင်တိုက် တောင်ရွှေရေးကျောင်း၌ တစ်ဝါတစ်နွေ နေပြီးလျှင် ၎င်းတိုက်မှ ရွှေ့ပြောင်း၍ အရှေ့ပြင် မဟာဝိသုဒ္ဓါရာမတိုက် ဒုတိယ သာသနာပိုင် ဒီပဲယင်းဆရာတော်ဘုရားကြီးထံ နိယံမပြတ် ဆည်းကပ်၍ ဥပဇ္ဈာယ်ယူပြီးလျှင် ရှင်သာမဏေအဖြစ်နှင့်ပင် သဒ္ဒါ ငယ်၊ ဝစ္စဝါစကမှစ၍ အဘိဓမ္မာသင်္ဂဟကျမ်း ဋီကာကျော်ကျမ်း အစရှိသော ကျမ်းတို့ကိုသင်အံ လေ့ကျက်တော်မူလေသည်။

ကျမ်းကိုး၊ စာမျက်နှာ ၄၂

အေဒီ ၁၈၉၆ ရှင်စန္ဒာသူရိယသည် မဟာဝိသုဒ္ဓါရုံတိုက်တွင် ပညာသင်ရင်း သက်တော် (၁၉) နှစ် (၃) လသို့ ရောက်သောအခါ မွေးစားဖခင် ဦးဘိုးချို၊ မိခင် ဒေါ်မယ်ခတို့ကပင် သာသနာ ဒါယကာ သာသနဒါယိက သာသနာ့အမွေကို ခံယူကြလျက် ပစ္စယာနုဂ္ဂဟပြုပြီးလျှင် မန္တလေးမြို့ အရှေ့ပြင် အင်းကန်း တိုက် ရွှေကျင်နိကာယ ဒုတိယသယ်ရာဇာ ဝိသုဒ္ဓါစာရာဓိပတိ သီရိပဝရ မဟာ ဓမ္မရာဇာဓိ ရာဇာဂုရု သွင်းပြုခတ်နှိပ် မင်းလှူတံဆိပ်ကို ခံယူရရှိတော်မူသော ရွှေကျင်သာသနာပိုင် ဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍များစွာသော ကာရက သံဃာတော်အပေါင်းခြံရံ၍ ဥပသမ္ပဒ ရဟန်းမြတ်အဖြစ်သို့ ရောက်တော်မူလေသည်။

ကျမ်းကိုး၊ စာမျက်နှာ ၄၂

အေဒီ ၁၉၀၁ (၅) ဝါအရတွင် အထက်အလုံမြို့ ဒုတိယသာသနာပိုင် အုတ်ဖိုဆရာတော် ဦးပရမထံတော်သို့ ပြောင်းရွှေ့ကာ ပိဋကတ်ကျမ်းအဖုံဖုံတို့ကို မွေနှောက်ကာ (၂) ဝါ တိုင်တိုင် သင်ကြားကြိုးကုတ်အားထုတ်ကာနေလေသည်။ ရဟန်းတရားများ အားထုတ်နိုင်တော့မည်ဟု သမ္ဘဇဉ်ဉာဏ်

http://www.dhammadownload.com



ယှဉ်တွေးကာ အကြံကောင်းရသဖြင့် ဥပဇ္ဈာယ်ဆရာကိုမှ မပန်ကြားမိဘဲ ရွှေဘိုခရိုင် ဒီပဲယင်းနယ် မဟာမြိုင် တောကြီးသို့ ရှေ့ရှုကာ ခြေလျင်လျှောက်၍ ခရီးထောက် နားကာ နားကာ ကြွတော်မူရာ (၁၂) ရက် အကြာတွင် သင်းတပျံ့ပျံ့ နှင်းရနံ့ ကြိုင်လှိုင်သော မဟာမြိုင်တောသို့ ရောက်လေသည်။ ထိုမဟာမြိုင်တော၌ သစ်ခုတ် ဝါးခုတ်သမား ဒါယကာများကို ဂေါစရဂါမ် ဆွမ်းခံရွာ ပြု၏။

ကျမ်းကိုး၊ စာမျက်နှာ ၄၂

ဤကဲ့သို့ မဟာမြိုင်တောကြီးတွင် ခုနစ်ဝါတိတိ ကိုယ်စိတ်ချမ်းသာ ရွှင်လန်းကာဖြင့် သပ္ပာယ လေးဝမျှတစွာဖြင့် ရဟန်းတရားတို့ကို မဆုတ်မနစ် အားသစ်ကြိုးပမ်း၍ နေတော်မူစဉ် ဘေးလောင်းတော်၊ ဘိုးလောင်းတော်တို့မှစ၍ ပဌမ သင်္ဂါယနာတင် သာသနာ့ဒါယကာ ဘဝရှင် မင်းတုန်းမင်းတရားတိုင်အောင် ပြုပြင် စောင့်ရှောက် ချီးမြှောက်ကော်ရော် ပူဇော်တော်မူခဲ့သော ရောင်ရှင်တော် မကုဋ္ဌ အတုလ ထိပ်တင် တိဂုံရှင် စေတီတော်မြတ်ကို ဆည်းကပ်ကြည်ညို သဒ္ဓါယိုဖိတ် ဖူးမြင်လိုသောစိတ် အကြံဖြစ်ပေါ်လာကာ ရန်ကုန်မြို့သို့ ကြွတော်မူ၍ တိဂုံရှင် စေတီတော် အလယ်ပစ္စယ တနင်္ဂနွေထောင့်ရှိ ဇရပ်တစ်ဆောင်ကို ကျောင်းအမှတ် မှီတင်း၍ ကိုးရက်တိုင်တိုင် စေတီတော်မြတ်ကြီးအား အစလသဒ္ဓါ ထက်သန်စွာဖြင့် ဗုဒ္ဓါရမ္မဏာပီတိ ဇောဝီထိကျကာ ပူဇော်တော်မူသည်။

ကျမ်းကိုး၊ စာမျက်နှာ ၅၆

ဤကဲ့သို့ တိဂုံရှင်စေတီတော်မြတ်အား အစလသဒ္ဓါ ထက်သန်စွာဖြင့် ဗုဒ္ဓါရမ္မဏာပီတိ ဇောဝီတိကျကာ ပူဇော်၍နေစဉ် သမ္မာဒေဝနတ်များ တိုက်တွန်း နှိုးဆော်လေသလားမသိ၊ ရန်ကုန်မြို့ ကြည့်မြင်တိုင် ဟုမ်းလမ်းအိမ်တော်၌ စံတော်မူသော အိမ်ရှေ့မင်းသား ဘကြီးတော် လင်းပင်း မင်းသားကြီးနှင့် ဘဝရှင်မင်းတုန်း မင်းသမီးတော် မင်းတပ်ထိပ်ခေါင်တင် အရီးတော် နှစ်ပါးနှင့် တွေ့ဆုံကာ ရှေ့ဖြစ်ဟောင်းအောက်မေ့ဖွယ်ရာ အမှတ်တရအဖြစ်မျိုးနှင့် တိုက်ဆိုင် နှိုးနှောမိသောအခါ "ဩော် တူတော်ကြီးပါလား အရီးတော် ဘကြီးတော်" စသည်တို့ဖြင့် ဇာတိမျိုးနွယ် ဆက်သွယ်ခြင်းကြောင့် ကြည့်မြင်တိုင် ဥယျာဉ်တိုက် မဟာမြိုင်ကျောင်း၌ သီတင်းသုံးတော်မူရန် ဆွေတော် မျိုးတော်တို့၏ လျှောက်ထား တောင်းပန်တော်မူချက်အရ မဟာမြိုင်ကျောင်း၌ အရှင် စန္ဒာသူရိယဟူသော ဘွဲ့တံဆိပ်ခတ်နှိပ်၍ ယာပထ လေးလီဖြင့် မျှညီရွှင်ပျော် သီတင်းသုံးတော်မူလေသည်။

ကျမ်းကိုး၊ စာမျက်နှာ ၆၁

လင်းပင်းမင်းသားကြီးနှင့် မင်းသမီး မင်းတပ် ထိပ်ခေါင်တင်တို့၏ ဓာတ်ပုံကို ကုန်းဘောင်ဆက် မဟာရာဇဝင်တော်ကြီး တတိယတွဲတွင် အထင်အရှားတွေ့ရှိရပါသည်။

ကျမ်းကိုး။ ဦးမောင်မောင်တင်၊ ကေအက်စ်အမ် အေ တီ အမ်၊ ကုန်းဘောင်ဆက် မဟာရာဇဝင်တော်ကြီး တတိယတွဲ ရာပြည့်ပုံနှိပ်တိုက်၊ လမ်း ၅၀၊ ၁၉၉၉၊

အေဒီ ၁၉၀၈ ဤအရာ၌ ဘုန်းဘုရား သီတင်းသုံးတော်မူသော မဟာမြိုင်ကျောင်း ဟူသော အမည်သည် ခုနစ်နှစ် တိုင်တိုင် တောရဆောက်တည်တော်မူခဲ့သော မဟာမြိုင်တောကို အစွဲပြု၍ ဌာနူပစာအားဖြင့် မဟာမြိုင်ကျောင်းဟု အမည်ပြု ခေါ်တွင်ခြင်း ဖြစ်သည်။

ကျမ်းကိုး၊ စာမျက်နှာ ၆၁

ထို ၁၉၀၈ ခုနှစ် အချိန်အခါသည်ကား ကျွန်ုပ်တို့ စာပေလောကတွင်လည်း အကူးအပြောင်း ကာလဖြစ်၏။ အမျိုး ဘာသာ သာသနာတို့သည် ဆက်စပ်လျက်ရှိ၏။ မဟာမြိုင်ဆရာတော်

http://www.dhammadownload.com



ဘဝစုံလင်ဖြစ်ပျက်နေစဉ်တွင် စာပေလောကနှင့် ဆက်စပ်ကြည့်နိုင်အောင် လေ့လာတင်ပြပါသည်။

အေဒီ ၁၉၀၆ ဆရာအေးသည် ထိုနှစ်တွင် စောဒေဝမင်းခေါင်နှင့် စကြာရမင်းနောင် စာအုပ်ကို ထုတ်ဝေခဲ့သည်။

အေဒီ ၁၉၀၆ ရွှေတောင်ဆရာလွန်းသည် ထိုအချိန်တွင် ကဗျာသာရမဥ္ဇူစာအုပ်ကြီးဖြင့် အကျော်တစောရှိနေချိန်ဖြစ်သည်။

အေဒီ ၁၉၀၇ ထိုအချိန်တွင် မော်ဘီဆရာသိန်းကြီးသည် (၁၂) လရာသီဘွဲ့အမျိုးမျိုးကို ထုတ်ဝေလျက်ရှိနေချိန် ဖြစ်သည်။

အေဒီ ၁၉၀၇ ထိုအချိန်တွင် မောင်ဘသင်ဆိုသူသည် မောင်တာနော ဝတ္ထုကို ရေးသား ထုတ်ဝေလျက်ရှိပေသည်။

အေဒီ ၁၉၀၈ ထိုအချိန်တွင် မြန်မာစာပေ ခေတ်သစ် အကူးအပြောင်း အစပထမ ဖြစ်ပေ၏။ ထိုနှစ်တွင် အက်စ်အေရာမန် ဆိုသူက တစ်ထောင့်တစ်ည စာအုပ်ကို ဘာသာပြန် ထုတ်ဝေလေသည်။

အေဒီ ၁၉၀၈ ထိုအချိန်တွင် ကင်းဝန်မင်းကြီး ဦးကောင်း သက်ရှိထင်ရှား ရှိသေး၏။ ထိုနှစ်တွင်ပင် လန်ဒန်မြို့သွား နေ့စဉ်မှတ်တမ်းစာအုပ်ကြီး ထုတ်ခဲ့သေး၏။ ကိုယ်တိုင်မြင်သွားရ၏။ သို့သော် တိုက်ဆိုင်မှု တစ်ချက်မှာ ထိုနှစ်တွင်ပင် ကင်းဝန်မင်းကြီး ဦးကောင်း ကွယ်လွန်ခဲ့လေသည်။

အေဒီ ၁၉၀၉ ထိုနှစ်တွင် မြန်မာ့ ပထမ ဝတ္ထုရေး ဆရာမတစ်ဦး ပေါ်ထွန်းလာခဲ့သည်ဟု ကောင်းစွာမှတ်မိပါ၏။ ထိုသူသည် မအေးခင်ဆိုသူဖြစ်၏။ သူကပင် တီထွင်၍ ချစ်ရိုးအမှန် ဝတ္ထုကြီးကို ထုတ်ဝေခဲ့ပါ၏။ တစ်ဖန် ဟဒယမျက်ရှင်ဝတ္ထုကိုလည်း ထုတ်ဝေခဲ့ပါသည်။ အမှတ်တရ ဖြစ်၏။ စာပေလောကတွင် ဤသို့ လှုပ်ရှားနေကြ၏။

အေဒီ ၁၉၁၀ ထိုအချိန်တွင် မြန်မာနိုင်ငံ သုတေသနအသင်း စတင်ဖွဲ့စည်း၏။ အသင်းဂျာနယ် ဂျေ ဗီ အာရ် အက်စ် အတွဲ ၁၊ အပိုင်း ၁ စတင်ထုတ်ဝေခဲ့၏။

ဤသည်တို့မှာ အမျိုးဘာသာသာသနာ ဆက်သွယ်လှုပ်ရှားပုံတို့ကို နိုင်ငံရေး ရှုထောင့် စာပေ ရှုထောင့် ဘာသာရေး ရှုထောင့်တို့မှာ လေ့လာတင်ပြခြင်း ဖြစ်၏။ သို့မှသာ ဘယ်သူတွေက ဘာတွေလုပ်နေသနည်း သိကြပေလိမ့်မည်။ ထိုအချိန်တွင် မဟာမြိုင်ဆရာတော်ဘုရားကြီးနှင့် တကွ သာသနာပြု ပုဂ္ဂိုလ်အပေါင်းတို့သည် သက်ဆိုင်ရာ သာသနာနယ်ပယ်တွင် သာသနာတော်ကြီး ထွန်းကားရေးအတွက် ကိုယ်တိုင်ကျင့်ကြံ အားထုတ်ရုံသာမက နယ်ချဲ့လက်အောက်တွင်လည်း သာသနာတော်ကြီး မသေမပျောက် ပွင့်လန်းရအောင် ဆောင်ရွက်လျက်ရှိကြောင်း သက်သေကောင်းများ ဖြစ်၏။

အဂ္ဂမဟာပဏ္ဍိတ လေသာဆရာတော် ဘဝနတ်ထံ စံလွန်တော်မူသောအခါ ဥယျာဉ်တိုက်ရှိ အားလုံးသော သံဃာတော်များက ကျေးဇူးရှင် ဘုန်းဘုရားကြီးအား ဥယျာဉ်တိုက် နိကာယ ဂဏာစရိယ ဂဏာဘိပါလကအဖြစ်သို့ တင်မြှောက်တော်မူလေသည်။ ထိုမှတစ်ပါး မြန်မာနိုင်ငံ ဘုရင့်ဆွေတော်၊ မျိုးတော်အသင်းကြီး၏ ဦးစီးနာယက ဩဝါဒါစရိယအဖြစ် ရွေးကောက်တင်မြှောက်ခြင်းကို ပြုကြလေသည်။

ကျမ်းကိုး၊ စာမျက်နှာ ၆၃

အေဒီ ၁၉၁၁ ထိုမှတစ်ပါး ကျေးဇူးတော်ရှင် ဘုန်းဘုရားကြီးသည် လောက သာသနာနှစ်ဖြာအကျိုးကို သယ်ပိုးတော်မူရင်း သက္ကရာဇ် (၁၂၇၃) ခုနှစ်၊ ပြာသိုလဆန်း (၂) ရက်နေ့တွင် ဟံသာဝတီခရိုင် ကျိုက်ကမော့တောင်ပေါ်ရှိ ရှေးပုဂ္ဂိုလ်များဖြစ်သော တလိုင်းမင်း ဘိုးမင်းစောနောင်မင်း

http://www.dhammadownload.com



တည်ထားကိုးကွယ်တော်မူခဲ့၍ ပျက်စီးလျက်ရှိသော စေတီတော်အား တပည့် ဒကာ ဒကာမတို့၏ စေတနာ သဒ္ဓါတရားကိုခံယူပြီးလျှင် ထိုစေတီတော်ကြီး ပျက်စီးနေသည်ကို အသစ်တစ်ဖန် ပြန်လည်တည်ထား ကိုးကွယ်သည်မှ အစပြု၍ ဝန်းကျင်ပတ်ချာ ရပ်ဒိသာတို့တွင် သာယာ အေးချမ်းဘေးမသန်းဘဲ ရှင်လန်း ကြည်မြ ဖြစ်ကြလေသည်။

ကျမ်းကိုး၊ စာမျက်နှာ ၆၃

ဘိုးမင်းစောနောင်အကြောင်းကို ပျောက်ဆုံးနေသော ပါဒနေပြည်တော်ကြီးနှင့် စပ်လျဉ်း၍ သိခွင့်ရပါသည်။ ထိုနေပြည်တော်ကြီးမှာ ရန်ကုန်တစ်ဖက်ကမ်း သန်လျင်မြို့ အလယ်တွင်ရှိ၏။ သုတေသန မှတ်တမ်းခိုင်ခိုင်မာမာ ရှိ၏။ မဟာမြိုင်ဆရာတော်သည် အကြောင်းမဲ့ လုပ်သည်မဟုတ်ချေ။

ကျမ်းကိုး၊ ပြည်တော်သာ ဦးထွန်းရီ၊ နှစ်ပေါင်း ၂၆၀၀ ကျော်က ပျောက်ဆုံးနေသော ပါဒနေပြည်တော်ကြီးကိုလည်း ကြည့်ပါ။

အေဒီ ၁၉၅၉ သက္ကရာဇ် (၁၃၂၁) ခုနှစ်သို့ ရောက်သောအခါ အနှစ်တစ်ရာ ပြည့်မြောက်လည်ဖြစ်၍ ရတနာပုံမြို့တော်တွင် နှစ်တစ်ရာပွဲ ခြိမ့်ခြိမ့်သဲသဲ စည်ကားသိုက်မြိုက် ဆင်နွှဲနေခိုက်ဝယ် ရန်ကုန်မြို့ ရဟန်းပရိသတ် လူပရိသတ်တို့ဖြင့် ကြွတော်မူ၍ (၁၅၀၀) တန် ရွှေမဏ္ဍပ်နှင့်တကွ ဧည့်ခံတော်မူကာ လေးပြင်လေးရပ်ရှိ သီလဝန်ထေရ်မော် သံဃာတော် တစ်ရာကျော်တို့အား တစ်ပါးလျှင် တစ်ရာကျော်တန် အလှူဝတ္ထုတို့ကို ပေးလှူတော်မူကာ (၇) ရက်တိုင်တိုင် လာလာသမျှ ပရိသတ်တို့အား စတုဒိသာအလှူပေးတော်မူလေသည်။

ကျမ်းကိုး၊ စာမျက်နှာ ၆၄-၆၅

ထိုမှတစ်ပါး ကျေးဇူးတော်ရှင် ဘုန်းဘုရားကြီးသည် မြင်ကွန်းမြင်းခုံတိုင် မားရေးဖြင့် နတ်ရွာစံတော်မူသောဘိုးတော်အိမ်ရှေ့ဥပရာဇာ "သီရိပဝရ မဟာသုဓမ္မရာဇာ" ဘွဲ့တော်ခံ ကနောင်မင်း၏ ကျေးဇူးတော်ကို အထူးဆပ်လိုသော ဆန္ဒတော်ပိုသဖြင့် ဦးခေါင်းကျရာ မန္တလေးတောင်ခြေ ကုသိုလ်တော်ဘုရားအနီးရှိ စန္ဒာမုနိစေတီတော်ကို ရေတပ် ဗိုလ်မှူး တင်သိန်းလူ၊ ဇနီး ဒေါ်ခင်ခင်စု၊ သားသမီးတစ်စုတို့အား လှူဒါန်းပြုပြင်စေတော်မူ၏။

အေဒီ ၁၉၆၀ သက္ကရာဇ် (၁၃၂၂) ခုနှစ်၊ နတ်တော်လဆန်း၊ (၈) ရက်၊ သောကြာနေ့ (၁၂) နာရီအချိန်တွင် ကြီးကျယ်အံ့ဩ ပြော၍မခမ်း မင်းခမ်းမင်းနား ဆန်းပြားဖုံဖုံ ပရိသတ်ဗိုလ်ပုံတို့ဖြင့် ကြီးစွာသော အလှူ ကုသိုလ်တော်ကို (၅) ရက်တိုင်တိုင် ပေးလှူ ကျွေးမွေးကာ ထီးတော်တင်လေသည်။

ကျမ်းကိုး၊ စာမျက်နှာ ၆၅

၎င်းစန္ဒာမုနိစေတီတော် ထီးတော်တင်ပွဲကို ကြွတော်မူသော ကျေးဇူးရှင်ဘုန်းဘုရားကြီးသည် ရန်ကုန်မြို့မှ ရထားတွဲလုံးငှား၍ ရဟန်းပရိသတ် လူပရိသတ် တစ်ရာကျော်တို့ဖြင့် အောင်စည်ဟိန်းကာ ကြွတော်မူလေသည်။ ရန်ကုန်မြို့မှ နာမည်ကျော် ရွှေလိပ်ပြာ အငြိမ့်အဖွဲ့ ပုဏ္ဏာပြန် ဦးကျော်အေး ရုပ်စုံအဖွဲ့က လူပေါင်း (၂၀၀) ကျော်တို့ကိုပါ ထီးတော်တင်ပွဲ၌ ကပြ ဖြေဖျော်စေရန် လိုက်စေတော်မူသည်။

ကျမ်းကိုး၊ စာမျက်နှာ ၆၅-၆၆

မန္တလေးမြို့ စိတ္တရမဟီရပ် ဘိုးတော် စိတ္တရနှင့် ပါရမီဂိုဏ်းသား တပည့်အများတို့က စန္ဒာမုနိစေတီ ထီးတော်ကို လှူဒါန်း၍ (၂၀၀၀) ကျော်တန် ရွှေမဏ္ဍပ်နှစ်ခုဖြင့် ညစဉ် ဆိုင်းများကို ပြိုင်၍ တီးစေကာ မန္တလေးမြို့ နာမည်ကျော် မြို့တော်စိန်ဇာတ်အဖွဲ့ နယ်လီမြိုင်အငြိမ့်အဖွဲ့

http://www.dhammadownload.com



တို့ဖြင့် ဖြေဖျော်၍ လာလာသမျှ ပရိသတ်တို့အား စတုဒိသာထမင်းဟင်းတို့ဖြင့် ကျွေးမွေး လှူဒါန်းကူညီတော်မူကာ ကုသိုလ်ပြုလေသည်။

ကျမ်းကိုး၊ စာမျက်နှာ ၆၆

ထိုမှတစ်ပါး ကျေးဇူးတော်ရှင် ဘုန်းဘုရားကြီးသည် ထီးတော်တင်ပွဲဆင်နွှဲပြီးနောက် အမရပူရ ခေတ် ဘိုးတော်ကောင်းမှုတည်ထားပြုခဲ့သော ကမ္ဘာ့အံ့ဖွယ် အကြီးဆုံး ခေါင်းလောင်းကြီး၊ ဘုရားကြီး၊ ခြင်္သေ့ကြီး၊ ရေကန်ကြီး ငှင်းကြီးလေးကြီးရှိရာ မင်းကွန်းသို့ ရေယာဉ်ဖြင့် ကြွတော်မူ၍ ပုထိုးတော်ကြီးအား ကြည်ညိုကာ မင်းကွန်းသူအိုရုံရှိ လူအို တစ်ရာကျော်တို့အား ကျွေးမွေး လှူဒါန်း ဒါနပန်း ကြဲတော်မူလေသည်။

ကျမ်းကိုး၊ စာမျက်နှာ ၆၆

အေဒီ ၁၉၆၀

ထိုမှတစ်ပါး ကျေးဇူးတော်ရှင် ဘုန်းဘုရားကြီးသည် ဥတ္တရတိုင်း သီဟဗလ သီရိပျံချီ သစ်တော မင်းကြီး ဦးစောလင်း၊ ကသာမြို့ သစ်တောခရိုင်ဝန် ဦးအောင်မြင့်၊ ဝန်ကတော် ဒေါ်ခင်ငြိမ်းလှ တို့၏ ပင့်လျှောက်ချက်အရ အညာ တကောင်းမြို့တော်အနီး ပုဂံမြို့ရွှေစည်းခုံ စေတီတော်မြတ် ကြီးကို ပြုပြင်မွမ်းမံရန်အလို့ငှာ (၁၃၂၂) ခု၊ တပေါင်းလဆန်း (၈) ရက်နေ့၌ ရန်ကုန်မြို့မှ ထွက်တော်မူ၍ ငှင်းလဆန်း (၉) ရက်၊ ည (၁၂) နာရီအချိန် ဧရာဝတီ တတိယ မြစ်ကျဉ်း အထက်နား သပိတ်ကျင်းမြို့အနီး သီဟတောဘုရားသို့ ရောက်တော်မူလေရာ ထိုသီဟတော ဘုရားတွင် ဘုန်းဘုရားကြီးသည် သဒ္ဓါဇောမြတ်သော မနတ်ဝေဖြာ စေတနာဖြင့် လေးရက် တိုင်တိုင် ကြည်ညိုတော်မူကာ လာသမျှ ပရိသတ်တို့အား စတုဒိသာ ကျွေးမွေး၍ ဒါနပန်းမိုး ရွာဖြိုးတော်မူလေသည်။

ကျမ်းကိုး၊ စာမျက်နှာ ၇၁-၇၂

သီဟတောစေတီတော်မြတ်အား ဧရာဝတီမြစ်ရေတို့သည် အဟုန်ပြင်းစွာ တိုက်ခတ်သဖြင့် ပျက်စီးလေရာ ဥတ္တရတိုင်း သီဟဗလသီရိပျံချီ သစ်တောမင်းကြီး ဦးစောလင်း၊ ကသာ သစ်တော ဝန် ဦးအောင်မြင့်တို့ ဦးဆောင်၍ တိုင်းပြည်သို့ အလှူခံကာ စေတီတော်မြတ်အား ပြုပြင်မွမ်းမံ ပြန်လေသည်။

ကျမ်းကိုး၊ စာမျက်နှာ ၇၃

ထိုမှတစ်ဖန် ကျေးဇူးရှင် ဘုန်းဘုရားကြီးသည် တပည့်ပရိသတ်တစ်ရာကျော်ဖြင့် တကောင်းမြို့ သို့ ကြွတော်မူပြန်ရာ တကောင်းမရောက်မီ ဆင်ညှပ်ကုန်းခေါ် အရပ်သို့ ရောက်သည်တွင် ထိုရွာ၌ မော်တော်ဆိုက်ခိုက် ဖူးမြော်ကန်တော့ကြရာ ဘုန်းဘုရားကြီးသည် ဖူးမြော်ကြသော ပရိသတ်တို့ကို လက်ဖက်တစ်ရိုးစီပေး၍ အမျိုးစပ်လေသည်။ ထိုဆင်ညှပ်ကုန်းရွာဦး မော်တော် ဆိုက်ရာအရပ်၌ ရွာလူထုပရိသတ် ကန်တော့သည်ကို အစွဲပြု၍ ကန်တော့ခံ ဘုရားတစ်ဆူကို ဗိုလ်မှူး တင်သိန်းလှူ၊ ဇနီး ဒေါ်ခင်ခင်စုတို့အား လှူဒါန်းစေပြီး ဘုရားဒကာပြုစေကာ ကိုးနဝင်း ကပ်ကျော် စေတီတော်ကို အာရုံခံတန်ဆောင်းနှင့်တကွ တည်စေတော်မူသည်။

ကျမ်းကိုး၊ စာမျက်နှာ ၇၄

ထိုဆင်ညှပ်ကုန်းနေရာသည်လည်းကောင်း၊ တကောင်းမြို့ဟောင်းသည်လည်းကောင်း အမှန် တကယ် ရှိခဲ့သောကြောင့် မဟာမြိုင်ဆရာတော်ကြီးကိုယ်တိုင် အသိအမှတ်ပြုတော်မူကြောင်း ထင်ရှား၏။ တစ်နေ့သောအခါ တကောင်းမြို့ဟောင်းကြီး ပေါ်ပေါက်လတ္တံ့သည်ကို မဟာမြိုင် ကြိုတင်ဖွင့်ဖော်ခဲ့သည်ကို သုတေသီအချို့တို့သည် ကြည်ညိုစွာ ဆက်စပ်ကြည့်တတ်လျှင် အကျိုး ရှိပါလိမ့်မည်။

http://www.dhammadownload.com



ကျမ်းကိုး။ မြင်းခြံ ဓာတ်တော်တိုက်၊ မြတ်ပွင့်ဖြူ ပြုစုသည့်စာအုပ်လည်းကြည့်ပါ။ တကောင်း ဓာတ်တော်တွေအကြောင်း အသေအချာ ပါရှိ၏။ တကောင်းတကယ်ရှိခဲ့ကြောင်း ဓာတ်တော်များက သက်သေခံနေ၏။

ထိုမှတစ်ဖန် ကျေးဇူးရှင် ဘုန်းဘုရားကြီးသည် တကောင်းမြို့သို့ ကြွတော်မူရာ တကောင်းမြို့တော်သူ မြို့တော်သားတို့သည် ဘုန်းဘုရားကြီးအား မင်းခမ်း မင်းနား ဆန်းပြားဖုံဖုံ ပရိသတ်ဗိုလ်ပုံတို့ ခြံရံ၍ ဝေါတော်ဖြင့်ထမ်းကာ ကသာ သစ်တောဝန် ဦးအောင်မြင့်၊ ဇနီး ဒေါ်ခင်ငြိမ်းလှ၊ သား ချစ်ကိုကိုတို့သည် နိဗ္ဗာန်ကိုရည်မှန်း၍ ဆောက်လုပ်လှူဒါန်းအပ်သော စန္ဒာသူရိယ စံနန်းတော်ရှိရာ ပုဂံမြို့ရွှေစည်းခုံဘုရားသို့ စည်ကားသိုက်မြိုက်စွာဖြင့် ပင့်ဆောင်ကြလေသည်။

ကျမ်းကိုး၊ စာမျက်နှာ ၇၄

စစ်ကိုင်း ရတနာဆင်များရှင်စေတီနှင့် မဟာမြိုင် အရှင်စန္ဒာသူရိယနှင့် ဦးခန္တီတို့အကြောင်းကို လေ့လာရာတွင် တပည့်အရင်း ဒကာအရင်းများထံမှ အချက်အလက်များစွာ ရရှိပါသည်။ အောက်ပါအချက်အလက်များမှာ အလွန် လူသိများသော အချက်အလက်များဖြစ်သော်လည်း နောင်သောအခါ မှတ်တမ်းသီးခြားမရှိလျှင် မေ့ပျောက်သွားပါလိမ့်မည်။

ကျွန်ုပ်သည် ရသေ့ကြီး ဦးခန္တီ၏ခြေရာကို ရှာဖွေရာ ဆင်အကောင်တစ်ရာတွင် တစ်ကောင် အသက်ရှင်လျက် ပတ္တမြားမျက်ရှင်ရှိသည်ဟု အစဉ်အလာကျော်စောခဲ့သော စစ်ကိုင်းမြို့ ရတနာ စေတီဆင်များရှင်သို့ ရောက်ရှိသွားပါသည်။

ရှေးအခါက ရသေ့ကြီး ဦးခန္တီသည် ဆင်များရှင် စေတီကို ပြုပြင်ခဲ့ဖူးသည်ဖြစ်ရာ ဦးခန္တီ၏ တံဆိပ်တုံးကလေးတစ်ခုကို ကျွန်ုပ်ရရှိခဲ့ဖူးပါသည်။ ထိုတံဆိပ်တုံးကလေးမှာ စစ်ကိုင်း ဆင်များရှင်ဟူသော စာတမ်းကလေးကို တွေ့သဖြင့် ကျွန်ုပ်သည် ဆင်ဖြူများရှင်ကို အလွန် ရောက်ဖူးချင်ပါသည်။

ထို့နောက် ရောက်သောအခါ သဒ္ဓါထက်သန်စွာဖြင့် ဆရာကြီး ဦးဖိုးထူး ဦးထိပ်ထား၍ မောင်ပန်းမွှေးကောင်းမှုဟု ကမ္ပည်းတပ်ကာ အလှူများပြုခဲ့ဖူးပါသည်။ ထိုစဉ်က ကျွန်ုပ်၏ လောကီပညာ ဆရာမှာ ဆရာဦးသန်းစီ ဖြစ်ပါသည်။ မူလဒါယကာမှာ မိုးညှင်းမင်းတရားကြီး မင်း ဖြစ်၏။ သို့သော်လည်း ဦးခန္တီက ပြန်လည် ပြုပြင်ခဲ့၏။

ကျမ်းကိုး။ ရွှေကိုင်းသား ဦးသောဘိတ၊ ဆင်ဖြူများရှင်သမိုင်းလည်း ကြည့်ပါ။

အေဒီ ၁၉၄၇ ထို့နောက် ခရစ်နှစ် (၁၉၄၇) ခု၊ ဇူလိုင်လ (၁၆) ရက်နေ့တွင် မြေငလျင်ကြီး လှုပ်သဖြင့် အကြီးအကျယ် ပြိုပျက်ခဲ့ပြန်လေသည်။ ထို့သို့သော အစဉ်အလာရှိသည့် စစ်ကိုင်း ဆင်များရှင် စေတီအကြောင်း စပ်စုသောအခါ သတင်းအဟောင်းများကို အားကိုးတကြီး ရှာဖွေရပါသည်။

ကျမ်းကိုး။ စစ်ကိုင်းမြို့ ရတနာစေတီ ဆင်များရှင် စေတီတော်သမိုင်း၊ အဖွဲ့ မှထုတ်ဝေသည်၊ စစ်ကိုင်းမြို့ အတုလဝတီ စာပုံနှိပ်တိုက် ၁၃၂၀ တပေါင်းလ၊ အဖိုး ၁ ကျပ်။

အေဒီ ၁၉၅၈ ခရစ်နှစ် (၁၉၅၈) ခု၊ စက်တင်ဘာလ (၅) ရက်၊ မြန်မာသက္ကရာဇ် (၁၃၂၀) ခု၊ တော်သလင်း လဆန်း (၁) ရက်နေ့ထုတ် လူထုသတင်းစာ အမှတ် (၇၈၉) တွင် စစ်ကိုင်းဆင်များရှင်စေတီကို တစ်ဦးတည်းဒါယကာခံ၍ ပြင်ဆင်လိုသူ ကုသိုလ်ရှင်ပေါ်ပြီ ဟူသော ခေါင်းကြီးပိုင်းကို ဖတ်ရှုရပါသည်။

ကျမ်းကိုး။ လူထုသတင်းစာ အမှတ် ၇၈၉၊ ၁၉၅၈ ခုနှစ် စက်တင်ဘာ ၅ ရက်ကိုကြည့်။

၎င်းနောက် ဆက်လက်ရှာဖွေပြန်ရာ ငလျင်ကြောင့် နာရီပိုင်းအတွင်း မြို့ပျက်ကြီးဖြစ်ရတဲ့ စစ်ကိုင်း၊ အပျက်အစီးများ အကြားမှာ တစ်ချို့ တစ်ချို့ ဟစ်အော် ငိုကြွေးတမ်းတသံများက

http://www.dhammadownload.com



တိတ်ဆိတ်နေသော မြို့ပျက်ကြီးကို အသက်ဝင်လာစေနိုင်သော်လည်း ရင်နာဖွယ်၊ ကြေကွဲဖွယ်၊ စိတ်မချမ်းမြေ့ဖွယ်ကောင်းလှခြင်းဟု ခေါင်းကြီးတပ်ထားသော (၁၉၅၆) ခု၊ ဇူလိုင်လ (၁၈) ရက်နေ့ထုတ်၊ လူထုသတင်းစာ အမှတ် (၇၄၉) ကို တွေ့ရှိရပါသည်။

ကျမ်းကိုး။ လူထုသတင်းစာ အမှတ် ၇၄၉၊ ခရစ်နှစ် ၁၉၅၆ ခုနှစ် ဇူလိုင်လ ၁၈ ရက်ကို ကြည့်။

အေဒီ ၁၉၅၆ ထို ခရစ်နှစ် (၁၉၅၆) ခုနှစ်၊ ဇူလိုင်လ (၁၇) ရက် နေ့လယ်ပိုင်းအထိ လှုပ်နေသေးသော ငလျင်ကြားမှ အလောင်းပေါင်း (၃၀) ခန့် တူးဖော်ရရှိထားပြီးဖြစ်သော်လည်း နောက်ထပ် အလောင်းများ တွေ့ရှိရလိမ့်ဦးမည်ဟု မျှော်လင့်တူးဖော်နေရခြင်းဟူသော သတင်းကို လည်းကောင်း၊ စစ်ကိုင်းတိုက်တာ (၈၀) ရာနှုန်းပြိုပျက်ပြီး ကျန် (၂၀) ရာနှုန်း ကွဲအက်သွားခါ စစ်ကိုင်းတံတားကြီးကိုလည်း မီးရထားကူးခွင့်မပြုဘဲ ပိတ်ထားရခြင်းဟူသော သတင်းကို လည်းကောင်း ဖတ်ရှုရပါသည်။

ထိုအချိန်တွင် အခြားသတင်းတစ်ခုကို ဖတ်ရရာ မတ္တရာမြို့နယ် ငလျင်ကြီး၊ ကိုရင်တစ်ပါး ပျံလွန်ပြီး လူ (၇) ယောက် ဒဏ်ရာရသည်။ မြို့ထဲမှ တိုက်များ အားလုံးကွဲအက်ပြီး မြေများ လည်း ကွဲအက်၍ ရေများထွက်လာသည်ဟူ၍ ဖတ်ရှုရပါသည်။

အေဒီ ၁၉၅၆ ၎င်းအပြင် ငလျင်ဒဏ်ကြောင့် ပြိုကျပျက်စီးနေသော စစ်ကိုင်း ဆင်များရှင်ဘုရားကြီး ပြိုကျပျက်ဆီးနေသော အုတ်ပုံများအောက်မှ အကြောင်းဆိုးကြုံရှာသော မရှိခဏ သုသာန်စောင့် (၁၄) ဦးတို့၏ အလောင်းများကို ဆွဲထုတ်ယူရသည်

ကျမ်းကိုး။ ၁၉၅၆ခု ဇူလိုင်လ ၁၈ရက် (၁၃၁၈ခု၊ ဝါဆိုလဆန်း ၁၁ ရက်) ဗုဒ္ဓဟူးနေ့ အမှတ် ၇၄၉ လူထုသတင်းစာတွင် တွေ့ရှိရပါသည်။

ထို့ကြောင့် ယခုခေတ် ခေတ်စားနေသော မာလာမုန့်တိုင်းများ အကြောင်းကိုလည်းကောင်း၊ ဆူနာမီ မုန့်တိုင်းများ အကြောင်းကိုလည်းကောင်း ဆက်စပ်စဉ်းစားမိပါသည်။ ဌာပနာတွင်းမှ တွေ့ရှိသော ပတ္တမြားမှာ ၃ ရတီခန့်ရှိ၍ စစ်ကိုင်းကျောက် နားလည်သော ပန်းထိမ်နှင့် ရွှေထည်များက အရည်အသွေးကောင်းလှ၍ အဖိုးမဖြတ်ဝံ့ပါဟု ဆိုကြပါသည်။

ကျမ်းကိုး။ ၁၉ အောက်တိုဘာ ၁၉၅၇ ၊ ၁၃၁၉ ခု၊ သီတင်းကျွတ် လပြည့်ကျော် ၁၁ရက်၊ စနေနေ့ လူထု သတင်းစာတွင်မူကား အဖိုးမဖြတ်ဝံ့သေးသော ပတ္တမြား စစ်ကိုင်း ဆင်များရှင် ဌာပနာတိုက်တွင်းမှ တွေ့ရှိရသော သတင်းကို ဖတ်ရှုရပါသည်။

ထိုစဉ်က ငွေ (၁၀၀၀) ဖြင့် ကန်ထရိုက်ပေး၍ အုတ်ပုံများကို ပြိုဖျက် ရှင်းလင်းခဲ့ရကြောင်း သိရှိရပါသည်။ ထို့နောက် ရွှေကိုင်းသားအမည်ခံ ယွန်းချောင်းဆရာတော် ဦးသောဘိတ ဆရာတော်က ပြန်လည်တည်ဆောက်မည့် စေတီတော်ပုံတော်ကို ရေးဆွဲတင်ပြပါသည်။ နိုင်ငံတော်က အတည်ပြုခဲ့ပါသည်။

အေဒီ ၁၉၆၀ အုတ်မြစ်ချအခမ်းအနားကို (၂၇) ဇွန် လ (၁၉၆၁) ခု (၁၃၂၃ ခုနှစ်၊ ပထမဝါဆိုလပြည့်နေ့) တွင် ကျင်းပခဲ့ပါသည်။

ထိုအခါ ဒေ့ခံမဏ္ဍာပ်တွင် အကျော်အမော် အပေါင်းတို့ကို တွေ့ရှိရပါသည်။ အလင်္ကာကျော်စွာ ရွှေမန်း ဦးတင်မောင်၊ အလင်္ကာ ဦးဟန်ပ၊ ဆိုင်းအလင်္ကာ ဦးဘမောင်တို့က တွဲဖက်သီဆို တီးမှုတ်ကြပါသည်။ ထိုအခါ အလင်္ကာကျော်စွာ ရွှေမန်းဦးတင်မောင်က မင်္ဂလာပိုဒ်စုံရတုများကို သီဆိုပါသည်။ တိုင်းချစ် သန်းစိန်က ဘုန်းတော် ဘွဲ့မင်္ဂလာသီချင်းကြီးများဖြင့် သီဆို ဒေ့ခံပါသည်။

ထိုစဉ် ကောင်းကောင်းမှတ်မိသည်မှာ ပွဲတော်ပြီးဆုံးသည်အထိ လာရောက်ကြသော ဘုရားဖူး

http://www.dhammadownload.com



များ အသွားအလာ လွယ်ကူစေရန် မီးရထား မီးသင်္ဘောတို့၏ လက်ရှိနှုန်းထားအပေါ် (၂၅) ရာနှုန်းလျှော့ပေါ့ ကောက်ခံရန် ပြည်ထောင်စုမြန်မာနိုင်ငံတော် သယ်ယူပို့ဆောင်ရေး စာတိုက် ကြေးနန်းဝန်ကြီးဌာန အတွင်းဝန်ကိုယ်စား မစ္စတာဒီအီးဂျွန်(စ်)ကိုယ်တိုင် လက်မှတ် ရေးထိုး ထုတ်ပြန်ခဲ့ခြင်း ဖြစ်ပါသည်။အထူးအားဖြင့် ပို၍မှတ်မိသည်မှာ ဆင်များရှင် ဘုရားကြီး အရှေ့ ဘက်တွင် ပွဲတော်ဘူတာတစ်ခုကို အထူးတီထွင်ဖန်တီးလျက် ထားရှိခြင်းဖြစ်ပါသည်။ ဤသို့ ကုသိုလ်ယူကြပါသည်။

၎င်းနောက် အထူးမှတ်မိသောအချက်မှာ ဘုရားကြီးသည် နောင်သောအခါ အလှူခံဌာနများ ဖွင့်လှစ် အလှူခံခဲ့ပါသော်လည်း ထင်သလောက် ခရီးမပေါက်ခဲ့ခြင်း ဖြစ်ပါသည်။

အေဒီ ၁၉၇၀

ခရစ်နှစ် (၁၉၇၁) ခုနှစ်၊ မေလ (၉) ရက် (၁၃၃၃ ခု ကဆုန်လပြည့်) တနင်္ဂနွေနေ့တွင် တစ်မြို့လုံးပါဝင်သော ညောင်ရေ သွန်းပွဲကြီး ကျင်းပခဲ့ကြပါသည်။ ပွဲတော် ကြီးနှင့်အတူ ဌာပနာတော်များ ထည့်သွင်းပူဇော်ခဲ့ပါသည်။ ဌာပနာပိတ်ပွဲလည်း ကျင်းပခဲ့ပါသည်။ သို့သော် လည်း ငွေရေးကြေးရေး အဆင်မပြေသဖြင့် တာဝန်ယူထားသော ဆရာတော်အပေါင်း ပုဂ္ဂိုလ် အပေါင်းတို့မှာ စိတ်ဝမ်းညှိုးငယ်လာကြသည်ဟု ဆိုပါသည်။ သို့နှင့် (၁၀) နှစ်ကျော် ကြာခဲ့သော် လည်း တိုးတက်မှုမရှိသဖြင့် နောက်ဆုံးတွင် ဘုရားကြီးပြီးဆုံး အောင်မြင်ရန် သစ္စာအဓိဋ္ဌာန် ပြုကြသည်ဟု သိရပါသည်။ သစ္စာပြုပုံမှာလည်း အလွန်တိကျ၏။ ဆန်းကြယ်၏ဟု ဆိုရပါမည်။ သစ္စာဆိုပုံကိုလည်း ကြည့်ပါဦး။ အောက်ပါအတိုင်း ဖြစ်ပါသည်။

'ဆင်များရှင်စေတီတော်ကြီးအား မိမိအနေဖြင့် အားသွန်ခွန်စိုက် ဦးဆောင်လုပ်ကိုင်နေသော် လည်း ပြီးစီးမည့် လက္ခဏာ မြင်တော်မမူပါသဖြင့်၊ ယနေ့မှ စတင်၍ (၂) နှစ်တာအတွင်းမှ ပြီး မြောက်အောင်မြင်ခြင်းသို့ မရောက်ပါက၊ ပြုပြင်ရေးလုပ်ငန်းအား ဆက်လက် မလုပ်ကိုင်လို တော့ပါ၊ ကုန်းတော်ပေါ်သို့ပင် မတက်တော့ပါ ဘုရား၊ သို့ဖြစ်ပါ၍ ဘုရားပြီးမြောက်အောင်မြင် အောင် လှူဒါန်းနိုင်မည့်ပုဂ္ဂိုလ်များ ပို့ပေးတော်မူပါဘုရား' ဟု သစ္စာအဓိဋ္ဌာန်ပြုခဲ့ခြင်း ဖြစ်လေ သည်။

အေဒီ ၁၉၈၂

ဤသို့ အဓိဋ္ဌာန်ပြုပြီး များမကြာမီ (၁၉၈၂) ခုနှစ်၊ (၁၃၄၄ ခုနှစ်) နှစ်ဦးပိုင်းတွင် ဗိုလ်မှူးကြီး တင်သိန်းလူနှင့် ဇနီး ဒေါ်ခင်ခင်စု မိသားစုတို့သည် စစ်ကိုင်းမြို့သို့ ရောက်ရှိလာပြီး ဆင်များရှင် ဘုရားကြီးအား လှူဒါန်းလိုသည် ဖြစ်၍ ဘုရားကြီးအား ဦးဆောင်ပြုပြင်တော်မူသည့် လေးကျွန်း မြေအုတ်ကျောင်းဆရာတော် ဦးသာဂရအား ဖူးတွေ့ရန် သွားရောက်ခဲ့ကြသည်။ သို့ရာတွင် ဆရာတော်သည် ရန်ကုန်သို့ ကြွသွားသဖြင့် မဖူးတွေ့ခဲ့ကြရပေ။ သို့ရာတွင် နောက်တစ်ကြိမ် လာရောက်မည်ဖြစ်ကြောင်းနှင့် ရန်ကုန်လိပ်စာပါပေးကာ ပြန်ခဲ့ကြပါသည်။

တစ်နှစ်နီးပါးခန့်ကြာသောအခါ ဗိုလ်မှူးကြီးတင်သိန်းလူနှင့် မိသားစုများသည် စစ်ကိုင်းမြို့သို့ ဒုတိယအကြိမ် ရောက်ရှိခဲ့ရာ ဆရာတော်သီတင်းသုံးရာ လေးကျွန်းမြေအုတ်ကျောင်းသို့ သွား ရောက်ဖူးမြော်ပါသည်။ ထို့နောက် ဆရာတော်နှင့်အတူ ဆင်များရှင်စေတီသို့ သွားရောက် ဖူးမြော်ကြည်ညိုခဲ့ကြလေသည်။

"ဆရာတော်ဘုရား တပည့်တော် ဤဘုရားကြီးကို ဘယ်လောက်ပဲကုန်ကုန် တစ်ဦးတည်း ဒါယကာခံကာ ပြုပြင်သွားပါမည်ဘုရား" ဟု လျှောက်တင်လေသည်။

တစ်ဦးတည်း ဒါယကာဖြစ်သူ ဗိုလ်မှူးကြီး တင်သိန်းလူအကြောင်းကို စစ်ကိုင်းမြို့ ရတနာစေတီ ဆင်များ ရှင် စေတီတော်ကြီးသမိုင်းတွင် ဖတ်ရှုရပါသည်။

ကျမ်းကိုး။ မူလကျမ်းပြုဆရာမှာ ဦးသောဘိတ ဖြစ်၏။ ဦးသောဘိတမှာ ရတနာပုံ ဖိုးမှတ်စု၊

http://www.dhammadownload.com



မှတ်စုမောင် စစ်ကိုင်းဖိုးရာဇာ၊ ရွှေကိုင်းသား စသော ကလောင်အမည်များဖြင့် စာပြု ကျမ်းပြု စာရေးဆရာကြီး ဖြစ်ပါသည်။ အဘိုးဖြစ်သူမှာ မိုးတား ဝန်ထောက်မင်း ဖြစ်၏။ ဆင်ယင်ထုံးဖွဲ့မှု ဟူသော ကျမ်းဖြင့် စာပေဗိမာန်ဆုကြီးကို ရခဲ့ဖူးသူဖြစ်၏။ နှစ်တစ်ရာပြည့် မန္တလေး၊ ပတ္တမြားစေတီ ဘုရားသမိုင်း၊ ပုညရှင်ဘုရား သမိုင်း၊ ရွှေကြက်ယက်ဘုရားသမိုင်း၊ အင်ကြင်းတော ဘုရားသမိုင်း၊ လောကမကိုင်း ဘုရားသမိုင်းတို့ကို ပြုစု ခဲ့သူ ဖြစ်၏။ ကျွန်ုပ် ကောင်းစွာ မှတ်မိသည်မှာ ရွှေကိုင်းသားအမည်ခံ ဆရာတော် ဦးသောဘိတသည် သက်တော် (၇၈) နှစ်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့ကြောင်း ဖြစ်ပါသည်။ ထိုနေ့သည် ၁၉၈၇ ခု၊ ဇွန်လ ၂၉ ရက်နေ့ ဖြစ်ပါ၏။

အေဒီ ၁၉၈၃ ရွှေကိုင်းသား မှတ်တမ်းတင်ခဲ့သော ရတနာစေတီ ဆင်များရှင်ဘုရားကြီးနှင့် တစ်ဦးတည်းသော ဒါယကာ ဗိုလ်မှူးကြီး တင်သိန်းလှူအကြောင်းမှာ အောက်ပါအတိုင်း ဖြစ်၏။

အေဒီ ၁၉၈၃ ရန်ကုန်မြို့ မဟာမြိုင် ဆရာတော် အသျှင်စန္ဒာသူရိယအား အမှူးထား၍ တပည့်သားသမီးများ ဖြစ်ကြသည့် ဗိုလ်မှူးကြီးတင်သိန်းလှူ၊ ဗိုလ်မှူးကြီးကတော် ဒေါ်ခင်ခင်စုတို့သည် ဆရာတော် ဦးသာဂရ၏ ဦးဆောင်မှုဖြင့် မြန်မာသက္ကရာဇ် (၁၃၄၅) ခုနှစ်၊ ကဆုန်လပြည့်နေ့တွင် အလှူငွေများ စတင်လှူဒါန်းသည်။ နယုန်လမှ စတင်၍ ဘုရားကြီးအား စတင်ပြုပြင်တည် ဆောက်တော်မူခဲ့ပါသည်။လေးလခန့်အကြာ၌ ဘုရားကြီး၏ ရုပ်လုံးတော်မှာလည်း ပေါ်လာပြီဖြစ်သော ကြောင့် မြန်မာသက္ကရာဇ် (၁၃၄၅) ခုနှစ်၊ သီတင်းကျွတ်လဆန်း (၈) ရက်နေ့တွင် ထီးတော်ပင့်ဆောင်ပွဲကို စည်ကားသိုက်မြိုက်စွာ ကျင်းပခဲ့သည်။ ထီးတော်ကြီးအား ဆင်တော် ဖြင့် ပင့်ဆောင်စေလျက် မိုးဇာ၊ ပန်းဘဲတန်း၊ မြေဝတီ၊ လေးကျွန်းမြေ၊ ရှိုင်တန်းရပ်ကွက်များမှ ဆွမ်းတော်ကြီးအရုဏ်တော် ဝတ်အသင်းများ၊ ရှေ့ဝင်း၊ နောက်ဝင်း၊ ဒေဝါဝင်း၊ ရာဇဝင်း၊ အတီးအမှုတ် အကအခုန်တို့ဖြင့် တခမ်းတနား ပင့်ဆောင်တော်မူခဲ့လေသည်။

အေဒီ ၁၉၈၃ မြန်မာသက္ကရာဇ် (၁၃၄၅) ခုနှစ်၊ သီတင်းကျွတ်လပြည့်ကျော် (၄) ရက်နေ့တွင် ဒုတိယမင်းခေါင် ၏ မယ်တော် အမိတ္တ မိဖုရားကြီး၏ ဌာပနာတော်များ ထည့်သွင်းပူဇော်လေသည်။

အေဒီ ၁၉၈၃ ဤသို့ဖြင့် (၁၃၄၅) ခုနှစ်၊ နယုန်လဆန်းမှ စတင်၍ လူအား ငွေအား အလုံးအရင်းဖြင့် အင်တိုက် အားတိုက် တည်ဆောက်ခဲ့မှု မြို့လူထု၏ တက်ကြွသည့်လုပ်အား ဒါနတို့ကြောင့် (၉) လမျှဖြင့် ပြီးစီးအောင်မြင်ခဲ့ပါတော့သည်။

အေဒီ ၁၉၈၃ (၁၃၄၅) ခုနှစ်၊ တပို့တွဲလတွင် ဘုရားကြီးပြီးစီးအောင်မြင်တော်မူသဖြင့် တပေါင်းလဆန်း (၇) ရက်နေ့မှ တပေါင်းလပြည့်နေ့အထိ ထီးတော်ကြီးနှင့် စိန်ဖူးအထွဋ်တင်လှူပွဲတော်ကြီးကို (၉) ရက်တိုင်တိုင် ခမ်းနားကြီးကျယ် စွာကျင်းပခဲ့ပါသည်။

ထီးတော်တင်ပွဲကျင်းပသည့် အစ ထပမနေ့ ဖြစ်သော တပေါင်းလဆန်း (၇) ရက်နေ့တွင် ဘုရား ပရိဝုဏ်တွင် ဆောက်လုပ်ထားသော မဏ္ဍပ်များ၌ ပျားများ (၁၈) အုံတိတိ လာရောက် အုံဖွဲ့သည်ကို ထူးဆန်း အံ့ဩဖွယ်တွေ့မြင်ကြရပါသည်။ ထို့ပြင် ည (၁၁) နာရီအချိန်တွင် မြေငလျင် လှုပ်ခါသွားသည်ကိုလည်း တွေ့ရှိရပါသည်။ နောက်တစ်ရက် သတင်းစာများတွင် အခြား မည်သည့်နေရာဒေသတွင်မှ ငလျင်လှုပ်ခဲ့ခြင်း၊ အလျင်းမရှိဘဲ ထီးတော်တင်ပွဲကျင်းပရာ ဒေသဝန်းကျင်၌သာ လှုပ်ခဲ့ကြောင်း သိရသဖြင့် အလွန်ပင်ထူးခြားလှပါသည်။ ထီးတော်တင်ပွဲ ကြီးကို (၉) ရက်တိုင်တိုင် ခြိမ့်ခြိမ့်သဲသဲကျင်းပခဲ့ရာ အငြိမ့်ပွဲ၊ ဇာတ်ပွဲ၊ ပျော်ပွဲရွှင်ပွဲများဖြင့် အထူးပင် စည်ကားလှပါသည်။ စိန်ညွန့်ဂီတဝိုင်းမှ ညစဉ် ဖြေဖျော်ဧည့်ခံခဲ့သည်။ သွင်ဝင်းနိုင် ဇာတ်ညွှန်း ရေးသားစီစဉ်ပြီး ရတနာစေတီဆင်များရှင်ဘုရားကြီး၏ သမိုင်းနှင့် ဂုဏ်တော်ဘွဲ့

http://www.dhammadownload.com



တေးသီချင်းများကို ပန်တျာချစ်လှိုင်၊ ဂန္ထဝင်မောင်ဝိုင်း၊ ရွှေတိုင်မြေခင်မောင်ဆွေ၊ ကိုတင်အောင်သန်းတို့မှ ရေးဖွဲ့ သီကုံးခဲ့ကြသည်။ အသံဖမ်း ဦးကျော် (အိုအေစစ်) မှ တာဝန်ယူပြီး ရုပ်ရှင်သရုပ်ဆောင် မေဝင်းမောင်၊ အဆိုတော်များဖြစ်ကြသည့် ရီရီသန့်၊ သုမောင်၊ ခင်ခင်၊ မေခလာ၊ ခေတ္တရာ တမာချို၊ ကျော်ဖေယျလှိုင်၊ ဝင်းမြင့်လေး၊ တင်မောင်သန်းတို့မှ သီဆိုဧည်ခံခဲ့ကြသည်။ မြန်မာနိုင်ငံတစ်ဝန်းလုံးမှ ဘုရားဖူးလာကြသောကြောင့် အထူးပင် စည်ကားလှသော ပွဲတော်ကြီးအဖြစ် မှတ်တမ်းတင်ရမည်ပင်ဖြစ်ပါသည်။

အေဒီ ၁၉၈၃ — မြန်မာသက္ကရာဇ် (၁၃၄၅) ခုနှစ်၊ ကဆုန်လပြည့်နေ့တွင် ကဆုန်ညောင်ရေသွန်းပွဲတော်ကြီးနှင့်အတူ ဆရာတော် ဦးသာဂရ၏ ပင့်လျှောက်မှုဖြင့် ရန်ကုန်မြို့မှ နိုင်ငံတော်သံဃမဟာနာယကဆရာတော်ကြီးများအပါအဝင် သံဃာတော်အပါး (၁၀၈) ပါးအား တစ်ပါးလျှင် ဝတ္ထုငွေ ၅၀၀ိ/- နှင့် လှူဖွယ်ပစ္စည်းများ ဆက်ကပ်တော်မူပြီး ဘုရားကြီးအား အနေကဇာတင်တော်မူခဲ့သည်။

ဤသို့ ရတနာစေတီဆင်များရှင်ဘုရားကြီးအစမှ ပြီးဆုံးအောင်မြင်သည်အထိ ဗိုလ်မှူးကြီးတင်သိန်းလှူနှင့်ဇနီး ဒေါ်ခင်ခင်စုတို့ မိသားစုမှ ကုန်ကျခဲ့သည့် အလှူတော်ငွေပေါင်းမှာ ထိုခေတ်ကပင် ကျပ်သိန်း (၃၀) ကျော် ကုန်ကျခဲ့သောကြောင့် ဗုဒ္ဓဘာသာဝင်သူတော်စင်အပေါင်း သာဓုအနုမောဒနာ ခေါ်စေနိုင်စေကြောင်း ကမ္ဘည်းမော်ကွန်းရေးထိုး မှတ်တမ်းတင်လိုက်ရ ပါသည်။

> ကျမ်းကိုး၊ ကျေးဇူးတော်ရှင် မဟာမြိုင်၊ အသျှင်စန္ဒာသူရိယ၏ ထေရုပ္ပတ္တိကထာ၊ ၁၃၂၅ခု၊ တန်ဆောင်မုန်းလ၊ အောင်မိတ်ဆက် စာပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ အန္တေဝါသိက တပည့် အသျှင်ဝိဇယ၊ ရေးသားသည်။ စာမျက်နှာ၊ ၁၂။

ထိုအချိန်က စစ်ကိုင်းတောင်ရိုးတွင် ပတ္တမြားစေတီအရောက် လမ်းဖောက်လျက်ရှိ၏။ ထိုအကြောင်းတို့ကို လူထုသတင်းစာတွင် အကျယ်တဝင့်ဖော်ပြပါ၏။ ထိုအချိန်က ဆရာကြီးသခင်ကိုယ်တော်မှိုင်းဟူသော ကြီးတစ်ကြီး၊ ရွှေဥဒေါင်းကြီး ဟူသော ကြီးတစ်ကြီး ထိုကြီးနှစ်ကြီးတို့ အခမ်းအနားသို့ တက်ရောက်ကြောင်း လူထုသတင်းစာက ဖော်ပြခဲ့ပါသည်။

မဟာမြိုင်ဆရာတော်ဘုရားကြီး ကျင့်ကြံအားထုတ်ခဲ့သော နေရာတစ်နေရာမှာ သန်လျင်မြို့ရှိ ကျိုက္ကမော့စေတီတော် တည်ရာနေရာဖြစ်၏။

> ကျမ်းကိုး။ အောင်သာကျော်၊ အောင်စခန်းတွေမှာ အောင်ပန်းတွေ ဝေခဲ့သည့် မဟာမြိုင်ဘုန်းဘုရားကြီးနှင့် သိဒ္ဓိဝင်အပင်၊ ဝိဇ္ဇာမဂ္ဂဇင်း ၂၀၀၇ ခု၊ စက်တင်ဘာလ စာ ၆၁၊

ထိုနေရာတွင် မဟာမြိုင်ဆရာတော်ဘုရား သီတင်းသုံးခဲ့သော ဂူဟောင်းလည်း ရှိ၏။ ဇရပ်ဟောင်းလည်းရှိ၏။ ထိုကျိုက္ကမော့ စေတီတော်မြတ်ကြီးကို ဇေကမ္ဘာဥက္ကဋ္ဌ ဒေါက်တာခင်ရွှေကဘက်စုံပြုပြင်မည်ဟူ၍ ကျိုက်ထီးဆောင်းဆရာတော်ဘုရား ဦးဆောင်ပြီး သွားခဲ့သေး၏။ ထိုအခါ ကျိုက်ထီးဆောင်းဆရာတော်က ကျိုက္ကမော့ဆံတော်ရှင်ကို ဘွဲ့တော်အမည်ပြောင်းလဲဆက်ကပ် တော်မူ၏။ ဘွဲ့တော်သစ်မှာ ဗားတမော့ ကျိုက္ကမော့ ဆံတော်ရှင် စေတီတော်ဟူ၍ ဖြစ်ပါသည်။ အဘယ်ကြောင့်ဆိုသော် မဟာမြိုင်ဆရာတော်ဘုရားကြီးသည် ယခင်က ဗားတမော့ဆရာတော် ဟု ကျော်စောတော်မူခဲ့သော ဆရာတော်ကြီးဖြစ်သောကြောင့် ဖြစ်ပါသည်။

> ကျမ်းကိုး၊ မောင်ပန်းမွှေး၊ အချစ်ဂျာနယ်၊ မဟာမြိုင်ဆရာတော်နှင့် ကျိုက်ထီးဆောင်းဆရာတော် ပဌာန်းဆက်ကိုလည်းကြည့်၊ ကျိုက်ထီးဆောင်းဋီကာ ပေါင်းချုပ်ကြီးကိုလည်းကြည့်။

http://www.dhammadownload.com



မဟာမြိုင်ဆရာတော်ဘုရားကြီး ခန္ဓာဝန်ချသော ခုနှစ်မှာ ခရစ်နှစ် (၁၉၆၉) ခုနှစ် ဖြစ်၏။ ထိုအချက်ကို ခိုင်လုံစေသော အထောက်အထားမှာ ကြေးမုံသတင်းစာ ဖြစ်ပါသည်။ အောက်ပါခေတ်ပြိုင်မှတ်တမ်း စာသားအဖြစ် မှတ်ယူထိုက်သော မှတ်စုကတ်တလောက်ကို ကြည့်ပါ။

မန္တလေးမြို့တည် နန်းတည် ပဥ္စမသင်္ဂါယနာတင် မင်းတုန်းမင်းတရားကြီးနှင့် အိမ်ရှေ့စံ ကနောင်မင်းသားမြတ်တို့၏ မြေးတော်ဖြစ်တော်မူသော သက်တော် (၉၄) နှစ် သိက္ခာတော် (၇၄) ဝါရှိတော်မူသော ကျေးဇူးရှင် အရှင်စန္ဒာသူရိယဘွဲ့ခံ မဟာမြိုင်ဘုန်းဘုရားကြီးသည် မြန်မာသက္ကရာဇ် (၁၃၃၀) ခုနှစ် တန်ခူးလဆုတ် (၇) ရက်၊ ခရစ်နှစ် (၁၉၆၉) ခု၊ ဧပြီလ (၈) ရက်၊ အင်္ဂါနေ့ မွန်းလွဲ (၄) နာရီ (၅၀) မိနစ်အချိန်တွင် ထွက်ရာလမ်းသို့ ကြွမြန်းတော်မူပြီး ဖြစ်ပါ၍ ရန်ကုန်မြို့ ကြည့်မြင်တိုင် ဥယျာဉ်တိုက် မဟာမြိုင်ကျောင်းမှ (၆) မိုင်ခွဲ ဒူဘာမ်းလမ်းရှိ မဟာအတုလရံသီ ဆုတောင်းပြည့် စေတီတော်မြတ်သို့ မြန်မာသက္ကရာဇ် (၁၃၃၀) ခု၊ ကဆုန်လဆန်း (၄) ရက်၊ ခရစ်နှစ် (၁၉၆၉) ခု၊ ဧပြီလ၊ (၁၉) ရက်၊ စနေနေ့ မွန်းတည့် (၁၂) နာရီအချိန်တွင် တပည့်များ ပူဇော်နိုင်ရန် ပြောင်းရွှေ့စံတော်မူမည်ဖြစ်ပါသဖြင့် နာယက ဆရာတော် အဂ္ဂမဟာပဏ္ဍိတ မန္တလေးတောင်ဆရာတော် ဦးဇောတိက အမှူးပြု၍ နိုင်ငံခြား ရေးဌာနတာဝန်ခံ ဦးသီဟန်၊ ဦးတင်သိန်းလူ (ဗိုလ်မှူးကြီးဟောင်း) နှင့် ပါရမီရှင်အဖွဲ့တို့မှ ရပ်နီးရပ်ဝေးသို့ ဘုန်းဘုရားကြီး၏ တပည့်သားမြေးအပေါင်းတို့အား ပူဇော်ပွဲသို့ ကြွရောက်ကြ ပါရန် ဖိတ်ကြားအပ်ပါသည်။

ကျမ်းကိုး။ ကြေးမုံ သတင်းစာ၊ ၁၉၆၉ ခုနှစ်၊ ဧပြီလ၊

မဟာမြိုင် ဆရာတော်ဘုရားကိုအကြောင်းပြု၍ ရန်ကုန်မြို့ ကြည့်မြင်တိုင် ဥယျာဉ်တိုက် အတွင်း မဟာမြိုင် ကျောင်းတိုက်ဟူ၍ရှိ၏။ ထိုနေရာတွင် မဟာမြိုင်ဆရာတော်ဘုရားသည် ခန္ဓာဝန် ချတော်မူသည်အထိ သီတင်းသုံးတော်မူခဲ့ပါသည်။

ကျမ်းကိုး။ မင်းကိုကို၊ သူရဲ့ဓမ္မဂုဏ်၊ ၂၀၀၄ ခုနှစ်၊ ဖေဖော်ဝါရီလ၊ စာ ၁၉၈ကို ကြည့်၊ မဟာမြိုင်ကျောင်းဒါယကာမှာ ဒေါ်ခင်ညွန့် ဖြစ်၏။ ထိုဒေါ်ခင်ညွန့်နေထိုင်သော နေရာတွင် မဟာမြိုင် ဆရာတော်ဘုရား ပရိတ်ရွတ်တော်မူခဲ့သော နတ်ရေတွင်း ရှိ၏။ ရန်ကုန်မြို့ ဗိုလ်ဆွန်ပက်လမ်း အမှတ် ၆၇၊ ၆၉ ပန်းဘဲတန်းမြို့နယ်၊ ပထမထပ်တွင် ရှိ၏။ နတ်ရေတွင်း မှာ မြေညီထပ်တွင် ရှိ၏။

http://www.dhammadownload.com



နှစ်ပေါင်း ၄၇ နှစ်ကျော်ခဲ့သော်လည်း ယနေ့တိုင် မပုပ်မသိုး တည်ရှိသော

ရော၀တီတိုင်း၊ ဝါးခယ်မမြို့နယ်၊ တရုတ်စုကျေးရွာ

# ကန်ကျောင်းဆရာတော် ဦးနေမိန္ဒ

(၁၈၇၄ – ၁၉၆၂)



http://www.dhammadownload.com



နာဂစ်မုန်တိုင်းဒဏ်ကြောင့် ၂၀၀၈ ခုနှစ်၊ မေလ ၂/၃ ရက်နေ့များတွင် ရန်ကုန်တိုင်းနှင့် ဧရာဝတီတိုင်းအတွင်း ပျက်စီးသွားသော စေတီပုထိုးတော်များနှင့် သာသနိက အဆောက်အအုံများကို ဇေကမ္ဘာဥက္ကဋ္ဌက ဦးဆောင်ပြုပြင်သောအခါ ကျွန်ုပ်တို့လည်း ကောင်းမှုကုသိုလ် ပြုခွင့်ရခဲ့ပါသည်။

ကျမ်းကိုး၊ ခရစ်တော်မပေါ်မီ ၅၈၉ ဘီစီ၊ ဗုဒ္ဓခေတ် တပုဿ ဘလ္လိကလက်ထက် ဆံတော်ကြို သုတေသနစာတမ်း၊ မောင်ပန်းမွေး၊ ပြုစုသူ၊ ဇေကမ္ဘာ ဓမ္မဒါန၊ ၂၀၀၈ ခုနှစ်၊ ပုံနှိပ် ၁၉၉ လမ်း ၅၀၊ အဲဗားဂရင်း ပုံနှိပ်တိုက်ထုတ်၊ စာတမ်းကို ကြည့်ပါ။

ထိုအခါ လပွတ္တာမြို့နယ် ဖျာပုံမြို့နယ်တစ်ခွင်ကို နေ့စဉ်နှင့်အမျှ အခါခါ အခေါက်အခေါက် ရောက်လျက်ရှိရာ သတင်းထူး သတင်းဆန်းများရနိုးနိုးဖြင့် ရဟန္တာနှင့် ရဟန်းထူးများ ရှာပုံတော်ဖွင့်ခဲ့ရာ ဝါးခယ်မမြို့နယ် တရုတ်စုကျေးရွာတွင် ကန်ကျောင်းဟူ၍ရှိ၏ဟုသိရ၏။ ထိုကန်ကျောင်း ဆရာတော် ဦးနေမိန္ဒ ပျံလွန်တော်မူခဲ့သည်မှာ နှစ်ပေါင်း ၄၇ နှစ်ကျော်ကျော်ကြာခဲ့သည် ဖြစ်သော်လည်း ယနေ့ထက်တိုင် ရုပ်ကလာပ်တော် မပုပ်မသိုး တည်ရှိကြောင်း သတင်းကောင်း ရခဲ့ပါသည်။

ထိုဆရာတော်ကြီးမှာ သီပေါမင်း ပါတော်မူသောအခါ အသက် (၁၁) နှစ်ရှိပြီဖြစ်ကြောင်း သိရသည်။ ဆရာကြီး သခင်ကိုယ်တော်မှိုင်းနှင့် မတိမ်းမယိမ်းပင် ရှိပေလိမ့်မည်ဟု သိရသည်။ တိုက်တိုက်ဆိုင်ဆိုင်ပင်လျှင် ထိုဆရာတော်ကြီးလည်း ခရစ်နှစ် (၁၉၆၂) ခုနှစ်တွင် ပျံလွန်တော်မူသည်။ ဆရာကြီး သခင်ကိုယ်တော်မှိုင်းလည်း မှတ်မှတ်ရရအားဖြင့် (၁၉၆၂) ခုနှစ်တွင်ပင် ကွယ်လွန်ခဲ့သည်။ ထိုအချက်ကို ဤကျမ်းပြုသူ ကောင်းစွာမှတ်မိပါသည်။ ထိုအချိန်က ကျွန်ုပ်တို့ တစ်စုမှာ တက္ကသိုလ်ဆရာပေါက်စများ ဖြစ်စကာလဖြစ်ပါသည်။

ထိုသို့ အစကလေးတစ်စ ရလိုက်သောကြောင့် ကျွန်ုပ်သည် ကန်ကျောင်းဆရာတော်အကြောင်း ခေါင်းထဲထည့်လျက်ရှာဖွေရာ သက်ဆိုင်ရာ သုတေသီတို့၏ကောင်းမှုကြောင့် အချက်အလက်များစွာ ရခဲ့ပါသည်။ နှစ်ပေါင်းများစွာကြာမှ ရေးသည့် စာများမဟုတ်။ ခေတ်ပြိုင်မှတ်တမ်းများ ဖြစ်သဖြင့် အချက်အလက်တို့သည် မှန်ကန်ရုံသာမက လတ်လတ်ဆတ်ဆတ် ရှိလှ၏။ ကျွန်ုပ်၏ ကတ်တလောက်ကို ကြည့်တော်မူကြပါ။

ဤဆရာတော်မှာ ဧရာဝတီတိုင်း၊ မြောင်းမြခရိုင်၊ ဝါးခယ်မမြို့နယ်၊ တရုတ်စုကျေးရွာတွင် သေတပန် သက်တဆုံး သီတင်းသုံးနေထိုင်တော်မူသွားသော ဆရာတော် ဦးနေမိန္ဒပင် ဖြစ်သည်။

ကျမ်းကိုး၊ ကျော်စိန်နု၊ ဝါးခယ်မ ဂမ္ဘီရမဂ္ဂဇင်း အမှတ် ၁၃၊ နှစ်ပေါင်း ၃၀ ကျော်တိုင် မပုပ်မသိုး အနံ့မထွက်သည့် တရုတ်စုကျေးရွာ ကန်ကျောင်းဆရာတော်၊ စာမျက်နှာ ၁၂၂

အေဒီ ၁၈၇၄ ဆရာတော်ကြီးကို မြန်မာသက္ကရာဇ် (၁၂၃၆) ခုနှစ်၊ သီတင်းကျွတ်လပြည့်ကျော် (၁၂) ရက်၊ စနေနေ့တွင် မွေးဖွားသည်ဟု သိရှိရပါသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၂

ဆရာတော် ဦးနေမိန္ဒပျံလွန်တော်မူစဉ်က ထုံးတမ်းစဉ်လာနှင့်အညီ ဗိုက်ခွဲ အူအသည်းထုတ်ယူခြင်းမပြုဘဲ မူလရုပ်သွင်အတိုင်း မှန်ခေါင်းထဲ ထည့်သွင်း၍ တပည့် ဒါယကာ ဒါယိကာမများ အပူဇော်ခံခဲ့ကြသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၂

ဆရာတော်ကြီးအား မှန်ခေါင်းအတွင်း ထည့်သွင်း၍ အပူဇော်ခံထားသော်လည်း ပုပ်သိုးခြင်း၊

http://www.dhammadownload.com



အနံ့ထွက်ခြင်း၊ အရည်ထွက်ခြင်း၊ အလျှော်းမရှိဘဲ မူလရုပ်သွင်အတိုင်း ကျိန်းစက်သလို ဖြစ်နေခြင်းကြောင့် ဆရာတော်ကြီး၏ တပည့်များမှာ မီးသဂြိုဟ်ခြင်း၊ မပြုလုပ်ဘဲ အစဉ်ဖူးတွေ့ နိုင်ရန် စေတီတစ်ဆူတည်၍ စေတီတော်အတွင်း ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်အား ထည့်သွင်းပူဇော်ခဲ့ကြသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၂

ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်ကို ထားရှိရာတွင် မသမာသူတို့မှ သွားများကို နုတ်ယူကြသဖြင့် ပါးစပ်အဟောင်းသားဖြင့် ကြည့်ရှုမကောင်း ဖြစ်သွားသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၃

မပုပ်မသိုးရှိနေခြင်းအပြင် ခေါင်းတော်မှ ဆံပင်အချို့ ပြန်လည်ပေါက်နေသည်ကိုပင် ဖူးတွေ့ခဲ့ရသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၃

နှစ်စဉ် တပို့တွဲလပြည့်နေ့မှ စတင်၍ (၇) ရက်တိုင် ပဋ္ဌာန်းရွတ်ဖတ်ပူဇော်ခြင်း၊ တရားပွဲများ ပြုလုပ်ခြင်း၊ ဇာတ်သဘင်ပွဲများဖြင့် ဆရာတော်ကြီး၏ သက်န်းလဲလှယ်ပွဲကို စည်ကားသိုက်မြိုက်စွာ ကျင်းပကြသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၃

ဆရာတော်ကြီးသည် တရုတ်စုကျေးရွာ ဇာတိသားမဟုတ်ဘဲ ရွှေဘိုခရိုင် ဒီပဲယင်းမြို့နယ်ဇာတိဖြစ်ကာ ရဟန်းဝတ်ဖြင့် ငယ်စဉ်ကပင် တရုတ်စုကျေးရွာသို့ ရောက်ရှိသီတင်းသုံးနေထိုင်ခဲ့ခြင်း ဖြစ်သည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၃

အေဒီ ၁၉၅၄ — နောင်နှစ်အတန်ကြာ မြန်မာသက္ကရာဇ် (၁၃၁၆) ခုနှစ်တွင် ညောင်ပင်သာကျေးရွာ ကျောင်းအစ်မဒေါ်ဆင့်မှ တရုတ်စုကျေးရွာနှင့် အတန်ငယ်အလှမ်းဝေး၍ ကုန်းမြင့်သောနေရာတွင် သွပ်မိုးပျဉ်ထောင် ကျောင်းကြီးတစ်ကျောင်းကို ဆောက်လုပ်၍ ကိုးကွယ်ခဲ့ကြသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၄

ဆရာတော်ကြီးသည် လပြည့်လကွယ် သီတင်းနေ့တိုင်း (ဝါတွင်းဝါပ) ဥပုသ်သီလ ဆောက်တည်သူများအား သီလပေးခြင်း၊ တရားဟောခြင်း အလုပ်ကို မပြတ်လုပ်တော်မူသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၄

ကျန်ရက်များတွင် တရားအလုပ်ကျင့်စဉ်တို့ဖြင့် ကမ္မဋ္ဌာန်းတရားအားထုတ်ခြင်း အဓိဋ္ဌာန်ပုတီးစိပ်ခြင်း၊ အင်းပညာလေ့လာလိုက်စားသူများအား အင်းပညာ သင်ပေးခြင်းများကို ပြုလုပ်တော်မူသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၄

အင်းပညာကို ဆရာတော်ကြီးမှာ ကျွမ်းကျင်စွာ တတ်မြောက်သော်လည်း အင်းအတတ်ပညာဖြင့် ကိုယ်တိုင်ကုသပေးခြင်းအလုပ်ကို မလုပ်ခဲ့ပေ။

ကျမ်းကိုး၊ ယင်းစာ ၁၂၄

အင်းပညာသင်ယူနေသော တပည့်များက စုန်း၊ တစ္ဆေ ဖမ်းစားခြင်းခံရသူများ၏ ရောဂါများကို အင်းချ၍သော်လည်းကောင်း၊ မေတ္တာတရားဖြင့်သော်လည်းကောင်း ကုစားပျောက်ကင်းစေခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၄

ဆရာတော်ကြီးသည် ထူးခြားသော အသိတရားရှိသည်ဟု ဆိုရပေမည်။ လူနာရောဂါသည်တစ်

http://www.dhammadownload.com



ဦး ကျောင်းသို့ ရောက်ရှိလာသည့်အခါတွင် ကံနာ၊ ဝဋ်နာ ခွဲခြား၍ ကုသရမည် မရမည်ကို အတတ်ပြောလေ့ ရှိသည်။ သို့အတွက်ကြောင့် ဆရာတော်ကြီးကို တရုတ်စုကျေးရွာ ကန်ကျောင်း ဆရာတော် ဦးနေမိန္ဒဟု အသိများကြပေသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၄

အထူးသဖြင့် ဆရာတော်ကြီး အမြဲပြောလေ့ရှိသည်မှာ "ကျုပ်ကတော့ မေတ္တာပါပဲ၊ ကျုပ် ရေကန်က ရေတွေဟာ မေတ္တာရေပါပဲ။ ဘေးဒုက္ခအပေါင်း ကင်းဝေးစေပါတယ်။ နေအိမ်များမှာ ဆောင်ထားပြီး အိမ်ပတ်ဝန်းကျင်ကို ပက်ဖျန်းပေးပါ။ သွားလေရာ ကိုယ်နဲ့မကွာဆောင်ထားပါ။ ကျုပ်ကတော့ မေတ္တာပါပဲ" ဟူ၍ တဖွဖွပဲ ပြောလေ့ရှိသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၄

ပုဂ္ဂိုလ်ထူး ဧည့်သည်ထူး လာရောက်မည်ဟု ကြိုတင်မိန့်ကြားခြင်း၊ ရောဂါဝေဒနာရှင်များက ဆရာတော်ကြီးထံသို့ လာရောက်၍ အကူအညီတောင်းခံသည့်အခါတွင် "ကျုပ်ကတော့ မေတ္တာ ပါပဲ။ ကျုပ်ကန်ထဲက မေတ္တာရေကိုသာ လိုသလို ယုံယုံကြည်ကြည် သုံးစွဲပါ။ ရောဂါဝေဒနာ များ ပိန်းကြာဖက်ပေါ် ရေမတင်သကဲ့သို့ လျှောစင်သွားလိမ့်မယ်" ဟု ဆရာတော်ကြီးမှ မိန့်ကြားလေ့ရှိသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၅

- တစ်နေ့ ကျောင်း၌ ထူးထူးခြားခြား လူစုံသည့်အခါတွင် "ဒါယကာကြီးတို့ရွာကို ထူးခြားသည့် ပုဂ္ဂိုလ်ထူးရောက်ရှိလာမည်။ အဲဒါ ဧည့်ဝတ်ကျေပွန်အောင် ဆောင်ရွက်ဖို့" မိန့်ကြားခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၅

**ဝေဘူဆရာတော်ကြွတော်မူခြင်း**

ရွာမှ လူအများကလည်း ဘယ်လိုပုဂ္ဂိုလ်ထူးပါလိမ့်ဟူ၍ သိချင်စိတ်ဖြင့် မျှော်လင့်နေကြပါသည်။ မမျှော်လင့်သော တစ်နေ့တွင် နာမည်ကြီး တန်ခိုးကြီးကျေးဇူးရှင် ဝေဘူဆရာတော်ဘုရားကြီးမှာ ဝါးခယ်မမြို့သို့ ကြွရောက်အပူဇော်ခံပြီး မြောင်းမြမြို့သို့ ဆက်လက် ကြွရောက်သည့်နေ့ဖြစ် သည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၅

၎င်းဝေဘူဆရာတော်ကြီးမှာ ဝါးခယ်မနှင့် မြောင်းမြကြားရှိ တရုတ်စုကျေးရွာ ဆရာတော် ဦးနေမိန္ဒထံ ကြွရောက်ခဲ့ပေသည်။ ကျေးရွာသား ကျေးရွာသူ တပည့်အပေါင်းကလည်း ဝမ်းသာ မဆုံး ဂုဏ်ယူမဆုံး တအံ့တသြ ရှိနေကြပေတော့သည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၅

**ဝေဘူဆရာတော်နှင့် ကန်ကျောင်းဆရာတော်တို့ တွေ့ဆုံကြခြင်းမှတ်တမ်း**

ဆရာတော်ကြီးနှစ်ပါး တွေ့ဆုံကြရာတွင် တစ်ပါးနှင့်တစ်ပါး ထွေရာလေးပါးစကားပြောကြားခြင်း မရှိဘဲ ရဟန်းကိစ္စများ ပြီးမြောက်ကြပြီလားဟု အပြန်အလှန် ပြောကြားကြပြီးနောက် ဝေဘူ ဆရာတော်ကြီးက မြောင်းမြသို့ ဆက်လက်ကြွသွားတော်မူသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၅

ဝေဘူဆရာတော်ကြီးမှာ တရုတ်စုကျေးရွာ ဆရာတော်ကြီးထံ ဝင်သွားသည်ဆိုသည့်သတင်းမှာ ပျံ့နှံ့၍ ဂယက်ရိုက်ခတ်သွားတော့သည်။ ထိုကဲ့သို့ တရုတ်စုဆရာတော်ကြီးထံ ဝေဘူဆရာတော် ကြီး ဝင်သွားသည်ဆိုသည့် နောက်ပိုင်းတွင် ဆရာတော်ကြီးထံ လာရောက် ဖူးမြော်သူများ ပိုမို များပြားလာသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၅

http://www.dhammadownload.com



**ဆရာတော်ကြီး စျာန်ရသည်ဟု ကျော်စောတော်မူခြင်း**

ရေကျော်ကျေးရွာမှ ဒုသစ်များကို သယ်ယူရောင်းချသူ ဦးဘမော်ဆိုသူမှာ အောက်ပိုင်း ပင်လယ်ဘက်မှ ဒုသစ်များ သယ်ယူရင်း ဘောက်တူ နစ်မြုပ်သွားရာ အလုပ်သမားများနှင့်အတူ တစ်ဦးနှင့်တစ်ဦး ကယ်သူမဲ့ဖြစ်နေကြသည်။ ဦးဘမော်မှ တရုတ်စုကျေးရွာ ကံကျောင်းဆရာတော်ကြီး ဦးနေမိန္ဒဆရာတော်ကြီး ကယ်မ,ပါဟူ၍ ရည်စူး၍ကန်တော့လိုက်ရာ မလှမ်းမကမ်း၌ ပျဉ်ပြားတစ်ချပ် ဘွားခနဲပေါ်လာပြီး ဆယ်ယူ၍ အသက်ဘေးမှ လွတ်မြောက်ခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၆

**ဆရာတော်ကြီး ရေပေါ်လမ်းလျှောက်သည်ဟု အကျော်တစောဖြစ်ခြင်း**

တရုတ်စုကျေးရွာနှင့် မျက်စောင်းထိုးတွင် ကနစို ကျေးရွာကြီးရှိသည်။ ထိုကျေးရွာကြီးသည် ကရင် အမျိုးသားများ နေထိုင်ကြပြီး ခရစ်ယာန် ဘာသာကို ကိုးကွယ်ကြသည်။ တရုတ်စုကျေးရွာမှ ဈေးသည်များသည် နံနက်ပိုင်းလှေဖြင့် ဈေးရောင်းသွားကြရာတွင် ကနစိုကျေးရွာမှ ရွာသားရွာသူအချို့က "နင်တို့ရွာက ဘုန်းကြီး ညဘက် ညဘက် ရေပေါ်မှာ လမ်းလျှောက်လျှောက်နေတာ တွေ့ရတယ်" ဟု တအံ့တသြဖြင့် ပြောကြားကြသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၆

**အခြားနယ်များတွင် ဆွမ်းခံကြွသည်ဟု ကျော်စောတော်မူခြင်း**

ထို့ထက် ပိုမို၍ ထူးခြားလာသည်မှာ တရုတ်စုဆရာတော်ကြီးကို ဖူးတွေ့လိုက်ရတယ်။ ဆွမ်းကပ်လိုက်ရတယ် စသည်ဖြင့် မြို့ရွာနယ်ပယ် အနှံ့သတင်းများ ပျံ့နှံ့၍ ကြည်ညိုသူများနှင့် ဖူးတွေ့လိုသူများ တစ်စထက်တစ်စ ပိုမိုများပြားလာသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၆

အမှန်မှာ တရုတ်စုကျေးရွာ ဆရာတော်ကြီးသည် မည်သည့် အရပ်ဒေသကိုမှ ညဥ့်အိပ်ညဥ့်နေကြွသွားခြင်း မရှိသလို ရွာထဲကိုတောင်မှ ကြွရောက်ခြင်း မရှိခဲ့ပေ။

ကျမ်းကိုး၊ ယင်းစာ ၁၂၆

**ဆရာတော်ကြီး သုသာန်စုတင် ကျင့်တော်မူခြင်း**

ဆောင်းနှင့် နွေအခါများတွင် ဆရာတော်ကြီးသည် တောင်ဝှေးဖြင့် သုသာန်သို့ တစ်ပါးတည်းကြွရောက်သွားတတ်ပေသည်။ သုသာန်သို့ ရောက်သည့်အခါတွင် တစ်နာရီခန့်လောက် တရားထိုင်နေသည်ကို တွေ့ရသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၅

ထိုကဲ့သို့ ဆရာတော်ကြီးအား ဖူးတွေ့ရန် ကြည်ညိုရန် ရောက်ရှိလာကြသော တပည့် ဒါယကာဒါယိကာမများမှာ များပြားလွန်း၍ ကျောင်းနှင့် မဆန့်သည့်အခါများတွင် အသုတ်လိုက်ခွဲ၍ ဖူးမြော်ကြသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၆

ဆရာတော်ကြီးမှာ လှူဒါန်း၍ရသမျှ ပစ္စည်းများအား ပေးကမ်းစွန့်ကြဲခြင်းများကြောင့် ကိုယ်ပိုင်ပစ္စည်းဟူသမျှ မရှိဘဲ သင်္ကန်းနှစ်စုံ သုံးစုံလောက်နှင့် သပိတ်တစ်လုံးစသည့် ရဟန်းသုံးပစ္စည်းလောက်သာ ကျန်နေပေသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၆

http://www.dhammadownload.com



ကျေးဇူးတော်ရှင် တရုတ်စုကန်ကျောင်း ဆရာတော်ကြီး ဦးနေမိန္ဒမှာ ကျောင်းပေါ်တွင် ကျောင်းမထိုင်ဘဲ မူလပိုင်ရှင်အား နှစ်အတော်ကြာကပင် ပြန်လည်အပ်နှံ၍ ထားသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၆

ကျောင်းနှင့်ကပ်လျက်သော ကမ္ဗဋ္ဌာန်း ကျောင်းပေါ်တွင်သာ ပျံလွန်တော်မူသည်အထိ သီတင်းသုံးနေထိုင်သွားတော်မူခဲ့ပေသည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၆

အေဒီ ၁၉၆၂ ဆရာတော် ဦးနေမိန္ဒသည် မြန်မာသက္ကရာဇ် (၁၃၂၄) ခုနှစ်၊ သီတင်းကျွတ်လဆန်း၊ (၁၂) ရက်နေ့ သက်တော် (၈၈) နှစ်တွင် ပျံလွန်တော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၁၂၂။

ကျမ်းကိုး၊ ကျော်စိန်နု၊ ဝါးခယ်မ ဂမ္ဘီရမဂ္ဂဇင်း အမှတ် ၁၃၊ နှစ်ပေါင်း ၃၀ ကျော်တိုင် မပုပ်မသိုး အနံ့မထွက်သည့် တရုတ်စုကျေးရွာ ကန်ကျောင်းဆရာတော်၊ စာမျက်နှာ ၁၂၂။

http://www.dhammadownload.com



ကျောက်သားအဖြစ် ပြောင်းလဲနေသော ရုပ်ကလာပ်တော်ပိုင်ရှင် ပခန်းငယ် ရွှေသာမောင်း

# အရှေ့ကျောင်းဆရာတော် ဦးစန္ဒိမာ

## (၁၈၇၇ – ၁၉၆၇)

ကျောက်ဖြစ် ရဟန္တာဟူသော စကားကို တောင်တန်းသာသနာပြု ပရိတ်ရေဆူ ဆရာတော်ကြီး အဘိဓဇ အဂ္ဂမဟာသဒ္ဓမ္မဇောတိက ဘဒ္ဒန္တဥတ္တမသာရ ကိုယ်တော်ကြီးထံမှ ကြားသိရပါသည်။

ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ဓမ္မဒူတ ပ - ဒု - တ တို့ကို ကြည့်ပါ။

ရွှေဘိုကျောက်ဖြစ် ဆရာတော်ကြီး အရှင်နရိန္ဒာဘိ ကိုယ်တော်မြတ်ကြီးရှိကြောင်း သွားဖူးကြ ဟူသောစကားကိုလည်း ဦးဥတ္တမသာရ ကိုယ်တော်ကြီးထံမှ ကြားသိရပါသည်။ ထိုစကားသည် ချက်ခြင်း ပြန့်နှံ့သွားပါသည်။

ကျမ်းကိုး၊ မောင်ပန်းမွှေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မစာအုပ်တိုက်၊ ၂၀၀၈ အောက်တိုဘာ၊ ပထမအကြိမ်၊ စာ ၆၄၄ ကို ကြည့်ပါ။

ထိုရွှေဘို ဆရာတော်ကြီးမှာ ခရစ်နှစ် (၁၉၆၃) ခုနှစ်က ခန္ဓာဝန်ချတော်မူပါသည်။ သို့သော်လည်း နောက်ထပ် (၂၅) နှစ်လုံးလုံး ဆံပင်များ ရှည်လာ၏။ လက်သည်းများ ရှည်လာ၏။ သို့သော် ခရစ်နှစ် (၁၉၈၈) ခုနှစ်တွင်ကား ဆရာတော်ကြီး၏ ရုပ်ကလာပ်တော် တစ်ခုလုံး ကျောက်အတိ ဖြစ်သွားပါ၏။ ရုပ်ကလာပ်တော်သာမက အနီးအနားရှိ တမာငုတ်တိုလည်း ကျောက်သား ပကတိဖြစ်သွား၏။ အုန်းသားငုတ်တိုလည်းကျောက်သား အတိဖြစ်သွား၏။

ကျမ်းကိုး၊ ဇင်ညိုငယ်၊ ရွှေဘိုကျောက်ဖြစ် ဆရာတော်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၂၀၀၄ ဇန်နဝါရီလ၊ စာ ၄၉ ကို ကြည့်ပါ။

ထို ယခု ပခန်းငယ် ရွှေသာမောင်း အရှေ့ကျောင်းဆရာတော် ဦးစန္ဒိမာသည်လည်း ပျံလွန်တော်မူခဲ့သည်မှာ နှစ်ပေါင်း (၄၀) ကျော်ရှိပြီး ဖြစ်သော်လည်း ကျောက်သားကဲ့သို့ ဖူးတွေ့နေရပါသည်။

ကျမ်းကိုး၊ နက္ခတ္တရောင်ခြည်၊ ကိုသက်ရှည်၊ ဦးစန္ဒိမာ ၏ ၃၉ နှစ်တိုင် မပုပ်မသိုး ရုပ်ကလာပ်တော် စာ ၂၁ ကို ကြည့်ပါ။

အလွန် ထူးဆန်းသော တိုက်ဆိုင်မှုများလည်း ရှိပါသေးသည်။ ထိုဦးစန္ဒိမာ ဖွားသောနှစ်တွင် မြင်းခြံ စွန်းလွန်းဂူကျောင်း ဆရာတော် ဦးကဝိ ဖြစ်လာမည့်သူကိုလည်း မွေးဖွားခဲ့ပါသည်။ နှစ်ချင်း တိုက်ဆိုင်နေ၏။

ကျမ်းကိုး၊ မောင်ပန်းမွှေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မစာအုပ်တိုက်၊ ၂၀၀၈ အောက်တိုဘာ၊ ပထမအကြိမ်၊ စာ ၄၄၆ ကို ကြည့်ပါ။

၎င်းအပြင် ခရစ်နှစ် (၁၈၇၇) ခုနှစ်ဖွား ရဟန်းထူး ရဟန်းမြတ်ကြီး ရှိသေး၏။ ထိုဆရာတော်ကြီးကား စစ်ကိုင်းတောင် မနောမယချောင် မနောမယ ဆရာတော်ဘုရားကြီး ဖြစ်၏။

ကျမ်းကိုး၊ မောင်ပန်းမွှေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မစာအုပ်တိုက်၊ ၂၀၀၈ အောက်တိုဘာ၊ ပထမအကြိမ်၊ စာ ၄၅၅ ကို ကြည့်ပါ။

http://www.dhammadownload.com



ထို့ကြောင့် ခရစ်နှစ် (၁၈၇၇) ခုနှစ်ဖွား ရဟန္တာနှင့် ရဟန်းထူးများကို ရှာဖွေသောအခါ ယခု အချိန်အထိ (၃) ပါး တိတိ ရှာဖွေတွေ့ရှိခဲ့ပြီး ဖြစ်ပါသည်။

ကျမ်းကိုး၊ မောင်ပန်းမွှေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မစာအုပ်တိုက်၊ ၂၀၀၈ အောက်တိုဘာ၊ ပထမအကြိမ်၊ မာတိကာ ကို ကြည့်ပါ။

မကွေးတိုင်း၊ ချောက်မြို့နယ်၊ ပခန်းငယ် ရွှေသာမောင်းအရှေ့ကျောင်းတွင် အသက်ထက်ဆုံး သီတင်းသုံး နေထိုင်တော်မူသွားသော ဆရာတော် ဦးစန္ဒိမာပင် ဖြစ်ပါသည်။

အေဒီ ၁၈၇၇ ဆရာတော် လောင်းလျာအား ချောက်မြို့နယ်၊ အိုင်ကြီးကျေးရွာတွင် ခမည်းတော် ဦးရွှေဘော်၊ မယ်တော် ဒေါ်ပြည့်တို့မှ မြန်မာသက္ကရာဇ် (၁၂၃၉) ခု၊ ဝါခေါင်လဆန်း (၁၄) ရက်နေ့တွင် မီးရှူးသန့်စင် ဖွားမြင်တော်မူခဲ့ပါသည်။ ဆရာတော် ဦးစန္ဒိမာသည် ပရိယတ်၊ ပဋိပတ်၊ ပဋိဝေဓ သာသနာတော်မြတ်ကြီးအား ကျင့်ကြံကြိုးကုတ် အားထုတ်တော်မူခဲ့သည်။

ကျမ်းကိုး၊ နက္ခတ္တရောင်ခြည်၊ စာ ၂၀

ဆရာတော် ကိုယ်တိုင်လည်း ကျောင်းအနီးနားရှိ ဘုရားစေတီများတွင် ပရိတ်တော်များအား ရွတ်ဖတ်သရဇ္ဈာယ်ကာ မေတ္တာဘာဝနာ ကမ္မဋ္ဌာန်းတရားများ၊ ဝိပဿနာတရားများအား အစဉ် အမြဲပွားများလျက်ရှိခဲ့ပါသည်။

အေဒီ ၁၉၆၇ ဆရာတော် ဦးစန္ဒိမာသည်လည်း မြန်မာသက္ကရာဇ် (၁၃၂၉) ခု၊ ပြာသိုလဆန်း (၁၁) ရက်နေ့ သက်တော် (၉၀)၊ သိက္ခာတော် (၇၀) တွင် ခန္ဓာရုပ်သိမ်း ဘဝချုပ်ငြိမ်းကာ ဘဝနတ်ထံ ပျံလွန်တော်မူခဲ့ပါသည်။ ထိုကဲ့သို့ ဆရာတော် ပျံလွန်တော်မူပြီးနောက်တွင် ဆရာတော်၏ ရုပ်ကလာပ်အား ဆေးထိုးနှံခြင်းလည်း မရှိ၊ ဗိုက်ခွဲ အူအသည်းတို့အား ထုတ်ယူခြင်းမပြု သော်လည်း ပုပ်ပွနံစော်ခြင်း မရှိ၊ အရည်များလည်း မထွက်၊ မူလရုပ်သွင်အတိုင်း ကျိန်းစက် သလို ဖြစ်နေခြင်းဖြစ်သည်။

ကျမ်းကိုး၊ နက္ခတ္တရောင်ခြည်၊ စာ ၂၁

ဆရာတော်ကြီး မိဘရပ်ရွာဖြစ်သည့် အိုင်ကြီးကျေးရွာသို့ ခေတ္တပြန်ချိန်တွင် ပျံလွန်တော် မူခဲ့ပေ သည်။ ယခု ရွှေသာလျောင်းအရှေ့ကျောင်းသို့ ရုပ်ကလာပ်အား ပြန်လည် ပင့်ဆောင်လာချိန် အထိပင် ဆရာတော်မိန့်မှာချက်အတိုင်း မြေမမြှုပ်၊ မီးမကျူ၊ ရေမမျှော သူသဘောသူဆောင် ရုပ်ကလာပ်တော်အား မှန်ပေါင်သွင်းကာ ယခင် သီတင်းသုံးရာ ပခန်းငယ်မြို့ ရွှေသာမောင်း အရှေ့ကျောင်း အနောက်ဘက် ဂန္ဓကုဋီတိုက်နှင့်တကွ နောင်လာနောက်သား တပည့် ဒါယကာ၊ ဒါယိကာမများ ဖူးမြော်ကြည်ညို ကုသိုလ်ပွားနိုင်စေရန် ရည်သန်ကာ အရိယာထူပါရုံ စေတီတော် အတွင်း အချိန်မရွေး လာရောက်ဖူးမြော်ကြည်ညိုနိုင်ပါသည်။

ကျမ်းကိုး၊ နက္ခတ္တရောင်ခြည်၊ စာ ၂၁

အေဒီ ၂၀၀၆ ဆရာတော် ပျံလွန်တော်မူခဲ့သည်မှာ နှစ်ပေါင်း (၃၉) နှစ်ပင် ရှိပြီဖြစ်သော်လည်း ရုပ်ကလာပ် တော်မှာ မူလအနေအထားမပျက် ကျောက်သားကဲ့သို့ တွေ့ရှိဖူးမြင်ရပါသည်။

အေဒီ ၂၀၀၉ ဆရာတော်အား မြန်မာနိုင်ငံအထက်အောက် အရပ်ဒေသစုံမှ ယနေ့တိုင် မပုပ်မသိုးသည့် ရုပ်ကလာပ်တော်နှင့် အရိယာ ရဟန္တာတစ်ပါးအဖြစ် လာရောက်ဖူးမြော်လျက်ရှိပါသည်။ ပုဂံခေတ် တစ်ခါက ပုဂံငယ်ဟု ထင်ရှားကျော်ကြားခဲ့သည့် ပခန်းငယ်မြို့သို့ စလေမြို့မှ တစ်ဆင့် ခရီးနှင်ကာ (ရှစ်မိုင်) ခရီးသာ ဝေးကွာလျက် ရှိသည်။

ကျမ်းကိုး၊ မောင်ပန်းမွှေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မစာအုပ်တိုက်၊ ၂၀၀၈ အောက်တိုဘာ၊ ပထမအကြိမ်၊ စာ ၆၄၄ ကို ကြည့်ပါ။

http://www.dhammadownload.com



ကျမ်းကိုး၊ ဇင်ညိုငယ်၊ ရွှေဘိုကျောက်ဖြစ်ဆရာတော်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၂၀၀၄ ဇန်နဝါရီ လ၊ စာ ၄၉ ကို ကြည့်ပါ။
ကျမ်းကိုး၊ နက္ခတ္တရောင်ခြည်၊ ကိုသက်ရှည်၊ ဦးစန္ဒိမာ၏ ၃၉ နှစ်တိုင် မပုပ်မသိုး ရုပ်ကလာပ်တော် စာ ၂၁ ကို ကြည့်ပါ။

http://www.dhammadownload.com



ရန်ကုန်မြို့ ရှမ်းတဲကြီးရွာတွင်ရုပ်ခန္ဓာမပုပ်မသိုးကျန်ရှိ၍
နှစ်ပေါင်း (၃၀)ကျော်ကျော် ပူဇော်ပြီးမှ
မီးသင်္ဂြိုဟ်သောအခါ ဓာတ်တော်များကျတော်မူသော

# ရှမ်းတဲကြီး တောကျောင်း ဆရာတော် ဦးကိတ္တိ

(၁၈၇၉ – ၁၉၅၈)



http://www.dhammadownload.com



ရဟန္တာနှင့် ရဟန်းထူးများကို ရှာဖွေပူဇော်သောအခါ ရန်ကုန်မြို့သည်လည်း အရေးပါသော သာသနာ့နယ်မြေအဖြစ် တွေ့ရှိရလေသည်။ အဘယ်ကြောင့်ဆိုသော် ရန်ကုန် မြို့နယ်အတွင်း ဖူးတွေ့ရသော ရဟန္တာနှင့် ရဟန်းထူးများသည် စာရင်းအရ အတော်ကလေး များပေသည်။ ယခုလက်ရှိ တွေ့ရှိထားသမျှမှာ ရန်ကုန်တိုင်းအတွင်းတွင် သီတင်းသုံးတော်မူပြီးနောက် ခန္ဓာဝန် ချသောအခါ ဓာတ်တော်များ ကျတော်မူခြင်း၊ ၎င်းအပြင် ရုပ်ကလာပ်တော်ကို မပုပ်မသိုး ကြွင်းကျန်တော်မူစေရန် အဓိဋ္ဌာန်ထားတော်မူသော ရဟန်းထူးများကို ရှာဖွေစုဆောင်းသော အခါ ကြည်ညိုဖွယ်ရာ ဖူးတွေ့ရခြင်း၊ ၎င်းအပြင် ကျောက်သားအဖြစ် ပြောင်းလဲနေသော ကျောက်ဖြစ် ကိုယ်တော်တစ်ပါးကိုလည်း ဖူးတွေ့ရ၏။ ထို့ကြောင့် ရန်ကုန်တိုင်းအတွင်း ရဟန္တာ နှင့် ရဟန်းထူးများမှာ ဤကျမ်းပြုသူ ရှာဖွေတွေ့ရှိသမျှ အပါးပေါင်း (၂၀) ကျော် ရှိပေသည်။

ကျမ်းကိုး၊ မောင်ပန်းမွှေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မစာအုပ်တိုက်၊ ၂၀၀၈ ခုနှစ်ထုတ် စာအုပ်ကြီးကို ကြည့်ပါ။

ယခု ရှာဖွေတွေ့ရှိရသော ဆရာတော်မှာ ဒဂုံမြို့နယ်အနီး ရှမ်းတဲကြီးရွာတွင် ဖြစ်ပေသည်။ ထိုအချက် ကို သာသနာပြု စာရေးဆရာတို့၏ ရှာဖွေစုဆောင်းမှုကြောင့် တွေ့ရခြင်းဖြစ်သည်။ ခေတ်ပြိုင် မှတ်တမ်းဖြစ်၍ ကျွန်ုပ်ရှိသေစွာ ကတ်တလောက်ပြု ထိန်းသိမ်းစုဆောင်းခဲ့ပါ၏။ ပြုစုပါ၏။

အေဒီ ၁၈၇၉ — မြန်မာသက္ကရာဇ် (၁၂၄၁) ခုနှစ်ကာလသို့ တိုင်ရောက်ခဲ့ကြပြီး တပို့တွဲလပြည့် တနင်္လာနေ့ အဝင်၊ ညတာ၏ ကုန်ဆုံးလုလု နံနက် (၅)နာရီအချိန်၌ကား ရတနာသုံးပါး ဦးထိပ်ထားလျက် သားဦးရတနာ တစ်ယောက်ကို ဖွားမြင်သန့်စင်၍ မိခင်ရော ကလေးပါ ကျန်းမာကြသည်ကို ကြားသိကြရပေ၏။

ကျမ်းကိုး၊ ပျံလွန်တော်မူ၍ ရုပ်ခန္ဓာမပုပ်မသိုးကျန်ရှိသော ကျေးဇူးရှင်ရှမ်းတဲကြီးတော ကျောင်း ဆရာတော် ဦးကိတ္တိ၊ ကျော်ဇောဟိန်း(နွံသာ)၊ ဂန္ဓာရီမဂ္ဂဇင်း၊ အမှတ်(၁)၊ ၂၀၀၆ ခုနှစ်၊ ဇန်နဝါရီလ၊ စာ-၅၅- ၅၆- ၅၇ - ၅၈ တို့ကို ကြည့်ပါ။

အထက်ပါ မှတ်တမ်းအရ အသေးစိတ်မှာ အောက်ပါအတိုင်း ဖြစ်၏

ဖွားမြင်လာသော သူငယ်၏ အမည်ကို တနင်္လာနေ့သားဖြစ်၍ အညွှန့်နံအဖျားသတ်ကာ မောင်ကျော်ဇောဟု မှည့်ခေါ်စေသည်။ မည်သို့ပင်မိဘဆရာတို့ အမည်ပေးငြားသော်လည်း ထိုအမည်များမှာ မပေါ်လွင်မထင်ရှားခဲ့ပေ။ မောင်ကျွန်းညိုဟုသာ အမည်တွင်ကာ သဘာဝ အလျောက်ခေါ်စရာဖြစ်ခဲ့လေသည်။

အေဒီ ၁၈၉၁ — ကာလလွန်မြောက်(၁၂) နှစ်သားအရွယ်သို့ ရောက်လာသော သူငယ်မောင်ကျွန်းညိုသည် ရှမ်းတဲကြီးရွာအနီးချုပ်စပ်ကလေးသူငယ်တို့အား သင်ပုန်းကြီး၊ မင်္ဂလသုတ်၊ အပြင်အောင်ခြင်း၊ အတွင်းအောင်ခြင်း၊ ရတနာရွှေချိုင့်၊ နမက္ကာရ၊ လောကနီတိ၊ ဗိုလ်လက်ာ စသည်တို့ကို သင်ကြားပေးနေသော ဆရာကြီး ဦးပေါ်ကျောင်း၌ ကျောင်းသား အဖြစ်(၃)နှစ်ကြာ နေထိုင်ခဲ့၏။

အေဒီ ၁၈၉၄ — (၁၅)နှစ်သားအရွယ် ရောက်သောအခါ ရွာဦးကျောင်းဘုန်းတော်ကြီး ဦးဝဏ္ဏထံ ကပ်ရောက်၍ သဒ္ဒါ၊ သင်္ဂြိုဟ် သာသနာ့ အခြေခံစာပေကို ဆက်လက်သင်ကြားသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၆

အေဒီ ၁၈၉၈ — (၁၉)နှစ်သားအရွယ် မြန်မာသက္ကရာဇ်(၁၂၆၀) ခုနှစ်တွင် ပဗ္ဗဇ္ဇမင်္ဂလာကို ညီငယ်များခံယူ၏။

အေဒီ ၁၉၀၀ — နှစ်နှစ်လွန်မြောက် မြန်မာသက္ကရာဇ် (၁၂၆၂) ခုနှစ်သို့ ရောက်သောအခါ မိခင်၊ ဖခင်တို့ကပင် ပစ္စယာနုဂ္ဂဟအဖြစ်ခံယူကာ ကောက်ကွေ့ကျောင်း ပထမ ဆရာတော်ဦးဇာဂရ (အနုသာသက-

http://www.dhammadownload.com



ပထမ ကမ္မဝါစာဆရာ) နှင့်တကွ ကာရကသံဃာတော်(၁၁)ပါးတို့က ချီးမြှောက်တော်မူကြသဖြင့် ရှမ်းတဲကြီး အောက်ရွာ ခဏ္ဍသိမ်တော်တွင် မြင့်မြတ်သော ပဉ္စင်းအဖြစ်သို့ ဦးကတ္တိ ဟူသောဘွဲ့တော်ဖြင့် ရောက်တော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၆

အေဒီ ၁၈၉၄ ရဟန်းတော်ဦးကိတ္တိသည် ရဟန်းအဖြစ်သို့ ရောက်တော်မူပြီးနောက် (၁) လတာ မျှလောက်သာ ရှမ်းတဲကြီးရွာ၌ သီတင်းသုံးတော်မူပြီးလျှင် ရန်ကုန်မြို့၊ ပုဇွန်တောင်ကျိုက်ထီးရိုးကျောင်းတိုက်သို့ ဦးဥက္ကံသ (ကျားဆရာကြီး) ကို အမှီသဟဲ ပြု၍ ကြွရောက်သီတင်းသုံးတော်မူ၏။

အေဒီ ၁၈၉၉ ဆရာတော် ဦးဇာဂရထံတော်တွင်လည်းကောင်း၊ ဆရာ၏ ဆရာဖြစ်တော်မူကြကုန်သော ဆရာတော်ကြီးများ ထံတော်တို့တွင်လည်းကောင်းပရိယတ်၊ ပဋိပတ်တို့ကို နည်းခံလေ့လာတော်မူနေသည်မှာ (၅)ဝါပင် ကြာမြင့်တော်မူ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၆

အေဒီ ၁၉၀၇ ယင်းသည့်နောက် ကုန်းညောင်ပင်ရွာ သရက်ပင်ချောင်း၊ ဒေးဇာတ်ရန်ကုန်ဒေသတို့၌ မွေ့လျော်သမျှ လှည့်လည်၍ (၈)နှစ်တိုင်သီတင်းသုံးတော်မူပြီးမှ ရှမ်းတဲကြီးအထက်ရွာ အရှေ့ဘက်ကမ်းကျောင်းတွင် ဂါမာဝါသီ၊ ရွာမှီရဟန်းအဖြစ်ကြွရောက်သီတင်းသုံးတော်မူ၏။ ထိုအချိန်တွင်မူ (၁၃)ဝါပင်ရရှိခဲ့ချေပြီ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၆

အေဒီ ၁၉၁၂ ရဟန်းတော်ဦးကိတ္တိကိုကား ဤသို့သော ဂါမာဝါသီရွာမှီရဟန်းအဖြစ်သည် နှစ်သက်စုံမက်မှုကို မပေးစွမ်းနိုင်ချေ၊ သို့ဖြစ်၍ ဆန္ဒတော်ရှိသည့်အတိုင်း စစ်ကိုင်းတောင်ရိုးသို့ ကြွလှမ်းတော်မူ၍ ဂန္ဓာရုံကျောင်းတွင် ပဋိပတ်ဘက်ယိမ်းကာ ရဟန်းတရားကို စတင်၍ တွင်တွင်ကြီး အားထုတ်တော်မူတော့၏။

**တွံတေးတောရ၌ အားထုတ်ခြင်း**

အားထုတ်တော်မူ၍ မကြာမီပင် မိမိအတွက် ဤနေရာဌာနသည် အလိုရှိအပ် သော တရားမွေကို ရရှိနိုင်မည် မထင်သဖြင့် အောက်ပြည်သို့ ပြန်လည်စုန်ဆင်းကာ တွံတေး တကူပုံတောရ၌ တစ်ဝါပတ်လုံး သီတင်းသုံးပြီးလျှင် မွေအမွေရှာဖွေပြန်ပါလည်း ရှေ့နည်းနှင်နှင် တွေ့နိုင်ဖို့ လမ်းမမြင်သေးရာ ဇာတိနယ်မြေဖြစ်သည့် အင်းတိုင်အနီး စမ်းရေဖျားတောရသို့ ကြွရောက်တော်မူပြန်၍ ကျင့်ဆောင်အားထုတ်မြဲဆက်လက်ကျင့်သုံးတော်မူငြားလည်း ကျေနပ်နှစ်သိမ့်ခြင်းကို ရတော်မမူရှာ။

ရှမ်းတဲကြီး အထက်ရွာ အရှေ့တောရသို့ ကြွရောက် တော်မူပြန်ပြီး (၅)ဝါ တို့ပတ်လုံး ကျင့်ဝတ်ပဋိပတ်ကို အထပ်ထပ်အားထုတ်တော်မူ၏။ သို့သော် ကျေနပ်တော် မမူသေးပေ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၆

**ကွင်းကောက်တောရ၌ အားထုတ်ခြင်း**

ထိုစဉ်အတွင်း (ဟင်္သာတခရိုင်)အနောက်ရိုးမ တောင်ခြေရှိ ကွင်းကောက်တောရ၏ သတင်းရနံ့သည် ပန်းသတင်းလေညင်းဆောင်ဆိုသကဲ့သို့ ဆရာတော်အရှင်ထံဆိုက်ရောက်လာလေတော့သည်။ ကြားရရုံမျှဖြင့်ပင် စိတ်လှုပ်ရှားတစ်မူ ထူးခြားခြင်းရှိသည်ဖြစ်၍ ရွှင်မြူးတက်ကြွ ထိုနေရာဌာနသို့ ကြွရောက်အားထုတ်တော်မူလေ၏။ ယင်းသို့ နေ့ ည မပြတ်အပတ်တကုတ် အားထုတ်တော် မူလိုက်၏။

http://www.dhammadownload.com



**ပထမအကြိမ် တရားရခြင်း**

အေဒီ ၁၉၁၃ တစ်ဝါမက ကျွတ်တော်မူလျှင်ပင် ဦးစွာအစ ပထမအကြိမ် နှစ်သိမ့်ကျေနပ်ခြင်းကို ရရှိတော်မူလေသတည်း။

**ဂုံမင်းစခန်းတောရ၌ အားထုတ်ခြင်း**

ဆရာတော်သည် ဤမျှဖြင့် ရောင့်ရဲခြင်းမပြုလို၊ တစ်နေရာတည်း၌ ကြာရှည်စွာ နေပြန်လျှင်လည်း လူသူလေးပါးနှင့် ရောနှောဆက်ဆံမှုများပြား၍ အနှောင့်အယှက်တစ်မျိုးဖြစ်ပေဦးမည်။ ထို့ကြောင့် ၎င်းမှ ခွဲခွာတော်မူပြီး ဂုံမင်းစခန်းတောရသို့ မှီတင်း ကပ်ရပ်ပဋိပတ်ကို ထပ်၍ တစ်ဖန်ဆက်လက်အားထုတ်တော်မူပြန်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၇

**သန်လျင် ထမလုံတောရတွင် အားထုတ်ခြင်း**

အေဒီ ၁၉၁၄ ထိုမှတစ်ဖန် သန်လျင်ကုန်းတန်း ထမလုံတောရတွင် တစ်ဝါ၊

အေဒီ ၁၉၂၁ ၎င်းမှ ရှမ်းတဲကြီးအထက် အောက် နှစ်ရွာအကြား ဒါယကာဦးပန်းဦးဆောက်လုပ် လှူဒါန်းသော တောရကျောင်းတွင် (၇)ဝါ၊

**အုတ်ဖိုတောရ၌ အားထုတ်ခြင်း**

ပဋိပတ်လုပ်ငန်းကိုပင် ဆောင်ရွက်တော်မူရင်း မိမိကိုယ်တိုင်အားထုတ်ခဲ့သည်။ ကိုယ်တွေ့လမ်းစဉ်နှင့် ယှဉ်သောပဋိပတ်တစ်နည်းညွှန် (ကမ္မဋ္ဌာနနယဒီပနီ) အမည်ရှိ ကျမ်းတစ်စောင် စီရင်ရေးသား ဓမ္မဒါနပြုတော်မူပြီးနောက် အုတ်ဖိုတောရကျောင်းသို့ ရွှေ့ပြောင်းအားထုတ်တော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၇

အုတ်ဖိုတောရကျောင်းသို့ ရောက်သောအခါစေတီတော်တစ်ဆူတည်ထားကိုးကွယ်ပြီး မှုတ ရွှင်ပြုံးသီတင်းသုံးလျက် အားထုတ်မြဲ ပဋိပတ်ကို ဆက်၍ အားထုတ်တော်မူ၏။

**ဒုတိယအကြိမ် တရားထူး ရရှိခြင်း**

အေဒီ ၁၉၂၁ ထိုသို့ အားထုတ်၍ မကြာမီ ဒုတိယအကြိမ်ကျေနပ် နှစ်သိမ့်မှုကို ရရှိတော်မူလေ၏။ ထိုအကြောင်းအရာများကို ဆရာတော်ကိုယ်တိုင် တစ်ခါက လူသူလေးပါးဖယ်ရှားစေ၍ ဦးဩဘ၊ ဦးသုမနာစာရ အရှင်နှစ်ပါးတို့အား ရင့်ကျက်တည်ငြိမ်လှသော သမာဓိလက္ခဏာဖြင့် ကြည်ညို ဖွယ်ရာ ဤသို့လျှင် မိန့်ကြားတော်မူဖူးပါသည်။ "တပည့်တို့ရဲ့ ခက်တော့အခက်သားပဲ၊ အဓိမာန ဆိုတာလဲ ရှိပြန်တော့ အဲ. . . ဟို ကွင်းကောက်တောရတုန်းက ဆိုရင် တစ်မဂ်လောက်တော့ ဖြစ်ကောင်းတယ်ကွယ့်၊ ဘာလို့လဲဆိုတော့ ခုအထိ စာပေနဲ့ မကိုက်ညီအောင် ကျိုးပေါက်လို့ မနေမိဘူး၊ နေလို့လဲ မရတော့ဘူး"

**ကျေနပ်လောက်အောင် တရားရခြင်း**

အေဒီ ၁၉၂၁ အဲဒီတော့ ဘုန်းကြီးဖြင့် အတော်ကျေနပ်မိတယ်။ အဲဒီလွန်ခဲ့တဲ့ (၄၁)ဝါလောက်က တွေ့တုန်းကလိုပဲ အခုလေးငါးနှစ်လောက်ကလဲ ဒုတိယအကြိမ်ကျေနပ်မှုကို ရခဲ့တယ်ကွယ့်။ အတန်းအစား ခွဲနိုင်လောက်အောင် ဟောထားတဲ့ ဒေသနာနဲ့အညီ နေလို့လဲရတယ်၊ လွန်ကြူးလိုတဲ့စိတ်လည်းပဲ မရှိဘူး။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၇

http://www.dhammadownload.com



**လက်တွေ့ ကမ္မဋ္ဌာန်းကျမ်းကို ပြုစုခြင်း**

အေဒီ ၁၉၄၁ အုတ်ဖိုတောရကျောင်း၌ပင် သီတင်းသုံးမြဲ ဆက်လက်သီတင်း သုံးတော်မူ၍ ကျင့်သုံးမြဲ ပဋိပတ်ကိုပင် ကျင့်သုံးတော်မူနေပြီး ကမ္မဋ္ဌာနယဒီပနီကျမ်းကိုလည်း မွမ်းမံ၍ ဓမ္မဒါန ပြုတော်မူနေသေး၏။ သို့ဖြင့် တရွေ့ရွေ့နှင့် အနှစ် (၂၀)ကြာညောင်းတော်မူခဲ့လေသည်။

အနားယူသည်ဟုမရှိ ကိုယ်နှင့်အသက် မငဲ့ကွက်ဘဲအမြဲမပြတ်ကျင့်ဆောင်တော်မူခဲ့ခြင်းကြောင့် နွမ်းနယ်မှုသည် လည်းကောင်း၊ သက်တော်သီသီ ထောက်လျှင်ပင် ကြောက်စရာ ဇရာတရားသည် လည်းကောင်း၊ ဗျာဓိနှင့် စုပေါင်းဖိနှိပ်တော့ရာ အင်အားတော်ကုန်ပြီမို့ ကြုံလှီချိနဲ့စွာ မကြာခဏ မကျန်းမမာဖြစ်တော်မူရရှာ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၇

အေဒီ ၁၉၅၃ ဤအဖြစ်ကို မကြည့်ရက်ဖြစ်သော သရက်ပင်ချောင်းဆရာတော်ဦးဥတ္တမကလည်းကောင်း၊ ပြုစုလိုသူဒကာ၊ ဒကာမအပေါင်းသည်လည်းကောင်း၊ လျှောက်ထားတောင်းပန်ကြသဖြင့် အထက်ရွာ ကွင်းဘုရားကျောင်းတောရ၌ မြန်မာသက္ကရာဇ် ၁၃၁၅ ခုနှစ်တွင် ပြန်လည်ပြောင်းရွှေ့ပြီး မှုတတော်မူရင်း ပဋိပတ်တရားကို ကိုယ်တိုင်လည်း ကျင့်သုံး၊ တပည့်ဒါယကာ၊ ဒါယိကာမများကိုလည်း နည်းညွှန်တော်မူလျက် ဝိပဿနာခွဲရကို ထမ်းရွက်တော်မူနေလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၇

**စန္ဓာဝန်ချတော်မူခြင်း**

အေဒီ ၁၉၅၈ မြန်မာသက္ကရာဇ် ၁၃၂၀ ခုနှစ်၊ တန်ဆောင်မုန်းလဆုတ်(၂)ရက်နေ့ (၂)နာရီ မိနစ် (၂၀) အချိန်တွင် ဘဝတော ခရီးဆုံးသို့ရောက်ကာ ပျံလွန်တော်မူခဲ့လေသတည်း။

**ရုပ်ကလာပ်တော်မပုပ်မသိုး ရှိတော်မူခြင်း**

အေဒီ ၁၉၉၁ ဆရာတော်သည် ဘဝနတ်ထံ ပျံလွန်တော်မူသောအခါ ရုပ်ကလာပ်တော် မပုပ်မသိုးဘဲ ရှိလေသည်။

**နှစ်ပေါင်း ၃၀ ကျော် မပုပ်မသိုးတည်ရှိခြင်း**

ဆရာတော်အရှင်ဦးကိတ္တိ၏ မပုပ်မသိုးသောရုပ်ကလာပ်တော်ကို မြန်မာသက္ကရာဇ် ၁၃၂၀ ခုနှစ်၊ တန်ဆောင်မုန်းလဆုတ်(၆)ရက်နေ့မှ စ၍ (၁၃၅၃) ခုနှစ်အထိထားရှိရာ နှစ်ပေါင်း (၃၀) ကျော် ကျော်မျှ စံကျောင်းတော်ဖြင့် ထားရှိပူဇော်ခဲ့၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၈

**နှစ် ၃၀ ကြာပြီးနောက် မီးသင်္ဂြိုဟ်သောအခါ ဓာတ်တော်များကြွင်းကျန်တော်မူခြင်း**

အေဒီ ၁၉၉၁ ဆရာတော်အရှင်ဦးကိတ္တိ၏ ရုပ်ကလာပ်တော်ကို မီးသင်္ဂြိုဟ်ပူဇော်၍ မီးမခ,ဘဲ ကျန်ရှိခဲ့သော အရိုးတော်၊ ဓာတ်တော်များကို ရှမ်းတဲကြီးအထက်ရွာကွင်းဘုရားကျောင်းဝိုင်း အတွင်း (ယခုအခေါ်ဝေါ်) အရှေ့တောရ ဘုရားကျောင်းဝိုင်းအတွင်း စီမံဆောက်လုပ်အပ်သော လိုဏ်ဂူတော်တွင် အစဉ်ပူဇော်နိုင်ကြရန် မြန်မာသက္ကရာဇ် (၁၃၅၃) ခုနှစ်၊ ဦးဆန်း (၁) ရက်နေ့တွင် ဂူသွင်းပူဇော်ထားရှိလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၈

**အရိုးတော်၊ ဓာတ်တော် စေတီကို ဗောဓိညောင်ကိုင်းများ ပူဇော်ခြင်း**

အေဒီ ၁၉၉၄ ဆရာတော်၏ ရုပ်ကလာပ်တော်ကို မီးသင်္ဂြိုဟ်ပြီး မီးမခဘဲ ကျန်ရှိသောအရိုးတော်၊ ဓာတ်တော်တို့ကိုဂူသွင်းပြီး ပူဇော်ထားရှိရာ နှစ်နှစ်ခွဲသုံးနှစ်လောက်(ခန့်မှန်း)နှစ်တွင် ဆရာတော်၏ အုတ်ဂူ

http://www.dhammadownload.com



အနီးမှ သူ့အလိုလို ဗောဓိညောင်ပင်ပေါက်လာပြီး ဆရာတော်၏ အုတ်ဂူပေါ်သို့ ဗောဓိညောင် ကိုင်းများ အုပ်မိုးထားရှိသည်။

ဆရာတော်၏ တပည့်များဖြစ်ကြသောဦးဩဘာ၊ ဦးသုန္ဒရ၊ ဦးသုဝဏ္ဏတို့က ရေးသားပူဇော် မှတ်တမ်းတင်သော ကျေးဇူးရှင်၊ ရှမ်းတဲကြီးတောကျောင်း ဆရာတော်ဦးကိတ္တိ၏ ထေရုပ္ပတ္တိ သင်္ခေပ ကထာ၊ စာ-၅၈။

အထက်ပါ မပုပ်မသိုးသော နှစ်ပေါင်း ၃၀ ကြာ ရုပ်ကလာပ်တော်မှာ ရန်ကုန်တိုင်းအတွင်းတွင် ပင် ရှိပါသည်။ မီးသင်္ဂြိုဟ်သောအခါ ဓာတ်တော်ကျတော်မူသည်မှာလည်း ရန်ကုန်တိုင်းအတွင်း မှာ ဖြစ်ပါသည်။ ဘုရားရှင် လက်ထက် ခရစ်မပေါ်မီ (၅၈၉) ဘီစီ ဘလ္လိက ရဟန္တာ အရှင်မြတ် ကြီး လက်ထက်ကစခဲ့သော သုဝဏ္ဏဘူမိ ပေါက္ခရဝတီ သာသနာတော်ကြီးသည် ဆက်လက် ဖွံ့ဖြိုးဆဲ ဖြစ်ပါသည်။

http://www.dhammadownload.com



ဆရာဖြစ်သူ ထားဝယ်မြို့မကျောင်း ဦးသီလလည်း တရားထူးရ
ကျင့်ဖော်ကျင့်ဖက် မြိတ် ဦးနန္ဒိယလည်း တရားထူးရ
ကျင့်ဖော်ကျင့်ဖက် ဘုန်းကြီး စီပိုလည်း တရားထူးရ
မိမိကိုယ်တိုင်လည်း တရားထူးရတော်မူသော

# တောင်ပွားဆရာတော်

(၁၈၈၄ – ၁၉၆၆)



http://www.dhammadownload.com



တောင်ပွားဆရာတော် အကြောင်းကို ဦးစွာသိရှိရသည်မှာ မြိတ်မြို့ ဇေယျဝတီကျောင်းတိုက် သမိုင်းအစ ဖတ်ခြင်းမှ ဖြစ်ပေသည်။

ကျမ်းကိုး။ မြိတ်မြို့ ဇေယျဝတီကျောင်းတိုက်သမိုင်း၊ ၁၃၃၀ ခုနှစ် သုဓမ္မဝတီပုံနှိပ်တိုက်ထုတ် စာအုပ်ကိုကြည့်ပါ။

တောင်ပွားဆရာတော်သည် မြိတ်မြို့ ဇေယျဝတီတိုက် ဦးသီလကျောင်းတိုက်တွင် မူလပထမ တိုက်အုပ်အဖြစ် ဆောင်ရွက်တော်မူ၏။ ဦးသီလလက်ထက်က တိုက်အုပ်တောင်ပွားဆရာတော် ဟု လူသိများ၏။

ကျမ်းကိုး၊ ရတနာ ထားဝယ်၊ ထားဝယ်ရေးရာ မှတ်တမ်းပဒေသာ၊ ၁၉၉၇၊ ပထမအကြိမ်၊ စာ ၂၃၃ ကို ကြည့်ပါ။

တောင်ပွားဆရာတော် အမွေအနှစ်အဖြစ် တရားတိပ်ခွေ (၄) ခွေကျန်ခဲ့ကြောင်း သိရှိရပါသည်။ နှစ်ပေါင်း (၁၀၀) ကျော် ကြာခဲ့သည်ဖြစ်ပါသည်။

ကျမ်းကိုး။ ယင်းစာအုပ်ကို ကြည့်ပါ။

တောင်ပွားဆရာတော်နှင့် တရားကျင့်ဖက်မှာ မြိတ်မြို့ ဦးနန္ဒိယ ဖြစ်၏။ ဦးနန္ဒိယသည် ဈာန် အဘိညာဉ်ရတော်မူ၏။ ထိုအကြောင်းကို ဇေယျဝတီမြို့မ ဆရာတော် ဦးသီလကိုယ်တော်တိုင် ဖော်ထုတ်ခဲ့၏။

ကျမ်းကိုး။ ယင်းစာအုပ်ကို ကြည့်ပါ။

ဘုန်းတော်ကြီး ဦးသီလမဟုတ်သော အခြားတစ်ပါးဖြစ်သည့် ထားဝယ် ဇေယျဝတီကျောင်း တိုက် ဆရာတော် ဦးသီလနှင့် ဘုန်းတော်ကြီး ဦးဒိုက်နှင့် ဘုန်းတော်ကြီး ဦးစီပိုတို့ (၃) ပါးဆိုင်၍ ရေးမြို့ ရန်ကင်းတောင်တွင် တရားအားထုတ်ရာ တစ်တောင်လုံး လင်းနေသည်ကို အနီးအနား ရွာများမှ မြင်ရ၏။

ကျမ်းကိုး။ ရေးမြို့ ရန်ကင်းတောင် အောင်မြေများ၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း ကိုကြည့်။

ထူးခြားမှု အထွေထွေရှိသော ခေတ်ပြိုင်မှတ်တမ်းများလည်း ရှာဖွေတွေ့ရှိရသော တရားထူး တရားမြတ်ရတော်မူသည့် တောင်ပွားဆရာတော်အကြောင်းကို ကျွန်ုပ်၏မှတ်စုကတ်တလောက် တွင် အောက်ပါအတိုင်းတွေ့ရှိရပါသည်။

အေဒီ ၁၈၈၄ ထားဝယ်မြို့ ကူးတို့တောရကိုဏ်းကြီး၏ နာယကတစ်ပါးအပါအဝင် ဖြစ်တော်မူသော ဇေယျဝတီ ကျောင်းတိုက် တိုက်အုပ် တောင်ပွားဆရာတော်သည် သက္ကရာဇ် ၁၂၄၆ ခုနှစ် ဝါခေါင်လဆန်း ၁၀ ရက် စနေနေ့တွင် ထားဝယ်မြို့ ကရင်ပြင်ရပ်၌ မွေးဖွားခဲ့သည်။ ခမည်းတော် မယ်တော် တို့၏အမည်မှာ ဦးရွှေလူနှင့် ဒေါ်သွန်းတို့ ဖြစ်ကြသည်။ သူတို့သည် လယ်ယာကိုင်းကျွန်းအလုပ် ဖြင့် အသက်မွေးကြသည်။ တစ်မိဝမ်းတွင်း သားသမီး ၇ ယောက်အနက် ဆရာတော်သည် တတိယမြောက် သားရတနာ ဖြစ်သည်။

ကျမ်းကိုး၊ ကျော်နန္ဒအောင်၊ ဝိပဿနာရှုနည်း ၉ နည်း ပဥ္စမတွဲ ၊ စာမျက်နှာ -၁၀၈၊ ကျောင်းစာ စတုတ္ထတန်းအထိသာ သင်ရပါသည်။

အေဒီ ၁၈၉၄ ဆရာတော်၏ ငယ်နာမည်မှာ မောင်ဘိုးအောင် ဖြစ်သည်။ ရုပ်အဆင်းသန့်ရှင်းဖြူစင်၍ ဥပဓိ ကောင်းသူ ဖြစ်သည်။ အသက် ၁၀ နှစ် အရွယ်တွင် ကရင်ပြင်ရပ် အစိုးရမူလတန်းကျောင်း၌ မိဘတို့က အပ်နှံခဲ့သည်။ ထိုကျောင်း၌ စတုတ္ထတန်းကိုအောင်မြင်ပြီးနောက် ကျောင်းမှထွက်ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၀၈

http://www.dhammadownload.com



သာသနာ့ အမွေခံယူစေရန် ထားဝယ်မြို့မှ အရှေ့ဘက် ၃ မိုင်ခန့်ဝေးသော ပေါက်တိုင်းရွာ တောင်ပွားကျောင်း ဆရာတော်ဦးဂုဏထံတွင် အပ်နှံခဲ့ကြသည်။ ရှင်သာမဏေ ကျင့်ဝတ် စာပေများကိုသင်ယူပြီး ထိုနှစ်မှာပင် မိဘနှစ်ပါးတို့က ပစ္စည်းလေးပါးဒါယကာပြု၍ မောင်ဘိုးအောင်သည် ဖန်ဝါနီမြန်း ဝတ်သက်န်းဖြင့် ရှင်သာမဏေအဖြစ်သို့ ရောက်ခဲ့သည်။ ဘွဲ့အမည်မှာ ရှင်တေဇိန္ဒဖြစ်သည်။ ကျောက်ထီးတန္တုအလေးပြုအပ်သော ဥပဇ္ဈယ်ဆရာဦးဂုဏထံ၌ပင် ၄ နှစ်တိုင်တိုင် လောကုတ္တရာ အခြေခံပညာရပ်များကို သင်ယူခဲ့သည်။

ကျမ်းကိုး။ ယင်းကျမ်း၊ စာ-၁၀၈

အေဒီ ၁၉၁၁

ထို့ကြောင့် သက္ကရာဇ် ၁၂၇၃ ခုနှစ်၊ နယုန်လဆန်း ၁၂ ရက်နေ့တွင် မိဘနှစ်ပါးတို့က ပစ္စည်းလေးပါးဒါယကာပြု၍ ထားဝယ်မြို့ ကည့်ရပ် မြေတိုက်ကျောင်း ခဏ္ဍသိမ်၌ ဇလွန်အရှေ့ကျောင်းဆရာတော် ဦးဝဏ္ဏကို ဥပဇ္ဈာယ်ဆရာပြု၍ ရဟန်းဘဝသို့ ရောက်ခဲ့သည်။ ရဟန်းဘွဲ့အမည်မှာ ဦးတေဇိန္ဒဖြစ်သည်။

ကျမ်းကိုး။ ယင်းကျမ်း၊ စာ-၁၀၈

**ဆေးလိပ်သောက်ခြင်း မြင်းလှည်းနွားလှည်းစီးခြင်းတို့ကို ရှောင်တော်မူပါသည်။**

ရဟန်းဘဝ၌ အကျင့်သီလ မညစ်နွမ်းစေခြင်းငှာ နေလွဲစားခြင်း၊ ဆေးဝါးခြင်း၊ ဆေးလိပ်သောက်ခြင်း၊ မြင်းလှည်းနွားလှည်းစီးခြင်းတို့မှ လုံးဝရှောင်ကြဉ်ခဲ့သည်။

ကျမ်းကိုး။ ယင်းကျမ်း၊ စာ-၁၁၉

**ကျမ်းစာမှာ ပါဠိတော် အဋ္ဌကထာသင်ရိုးပေါက်ပါသည်။**

ပိဋကတ်တိုက် ဆရာတော် ဦးကလျာဏဝံသ တိုက်တွန်း နှိုးဆော်ချက်အရ ဦးတေဇိန္ဒသည် ရဟန်းတစ်ဝါ၌ ထားဝယ်မြို့ ဇေယျဝတီကျောင်းတိုက် ဆရာတော်ဦးသီလထံတွင် ပညာသင်ယူရန် ကြွရောက် သီတင်းသုံးခဲ့သည်။ ဆရာတော်ဦးသီလထံ၌ နိကာယ်ငါးရပ်ကို ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာနှင့်တကွ သင်ရိုးပေါက်ခဲ့သည်။

ကျမ်းကိုး။ ယင်းကျမ်း၊ စာ-၁၁၉

**တောင်ပွားကျောင်းတွင်နေခဲ့၍ တောင်ပွားဆရာတော်ဟု ခေါ်ပါသည်။**

ဆရာတော် ဦးသီလသည် ဦးတေဇိန္ဒကို တောင်ပွားကျောင်း၌ နေခဲ့သည်ကို အစွဲပြု၍ တောင်ပွား ဦးပဉ္စင်းဟုခေါ်ခဲ့သည်။ နောင်အခါ၌ တောင်ပွားဆရာတော်ဟု အမည်တွင်လေသည်။

ကျမ်းကိုး။ ယင်းကျမ်း၊ စာ-၁၁၉

အေဒီ ၁၉၁၉

၁၂၈၁ ခုနှစ်၊ ၈ ဝါအရတွင် သင်ရိုးပေါက်ပြီးနောက် ဗုဒ္ဓတက္ကသိုလ်ဖြစ်သော မန္တလေးမြို့သို့ ဒေသန္တရ ဂန္ထန္တရများကို ဆည်းပူးသင်ယူရန်ကြွခဲ့သည်။ အနောက်ပြင် မေယဝတီတောင်သမန်ကျောင်းတိုက် ဆရာတော်ဦးသီးဟု ကျော်ကြားသော ဦးသုမင်္ဂလထံတော်တွင် ပိဋကတ်လာ ခက်ဆစ်အဓိပ္ပာယ်အဆုံးအဖြတ်များကို တစ်နှစ်မျှသင်ယူပြီး ထားဝယ်မြို့သို့ တစ်ဖန် ပြန်ကြွခဲ့သည်။

ကျမ်းကိုး။ ယင်းကျမ်း၊ စာ-၁၁၉

**ကမ္မဋ္ဌာန်းတရားကို ဦးသီလထံမှ သင်ယူပါသည်။ ကျမ်းတတ်၍ ဝိပဿနာမကျင့်လျှင် သူကန်းမျှသာ ဖြစ်၏ဟု ဆိုပါ၏။**

အေဒီ ၁၉၂၀

မြန်မာသက္ကရာဇ် ၁၂၈၂ ခုနှစ်တွင် တောင်ပွားဆရာတော်သည် ကျမ်းဂန်သာတတ်၍ ဝိပဿနာအကျင့်မပါလျှင် သူကန်းသာ ဖြစ်သေးသည်။ မိမိ၏ ဘဝမှ လွတ်မြောက်ရေး၊

http://www.dhammadownload.com



မဂ်ဖိုလ် ရရှိရေးအတွက် ရဟန်းပြုခဲ့ပုံကို နှလုံးသွင်း၍ ဇေယျဝတီ ဆရာတော် ဦးသီလထံတွင် ကမ္မဋ္ဌာန်းသင်ယူပြီး ဆရာတော် ဦးသီလတည်ထောင်ထားသော ထားဝယ်မြို့မှ အနောက်ဘက် ၄ မိုင်ခန့် ဝေးသော မင်းရပ်ကမ္မဋ္ဌာန်းကျောင်းသို့ တရားအားထုတ်ရန် ကြွခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၉

ထိုချောင်တွင် ဝိပဿနာတရားကို အားထုတ်ခြင်း၊ ပတ်ဝန်းကျင်မြို့နယ်များမှ ယောဂီများအား တရားအလုပ်ပေးခြင်း၊ တရားစစ်ခြင်း၊ တရားဟောခြင်းတို့ဖြင့် မိမိ သူတစ်ပါး အကျိုးများကို ကျင့်ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၀

**ဂျပန်ခေတ်တွင် ဗုံးဆံ အမြောက်ဆံများကြားတွင် တရားကျင့်ခဲ့ပါသည်။**

အေဒီ ၁၉၄၁ မြန်မာသက္ကရာဇ် ၁၃၀၃ ခုနှစ်တွင် ထားဝယ်မြို့ကို ဂျပန်တို့က ဗုံးကြဲတိုက်ခိုက်လာသောအခါ ဇေယျဝတီကျောင်းတိုက်မှ ဆရာတော်ဦးသီလသည် စာသင်သားသံဃာတော်များနှင့်တကွ ဗုံးဒဏ်မှရှောင်လွှဲလို၍ လောင်းလုံမြို့ အောင်သပြေ ကျောင်းတိုက်သို့ ပြောင်းရွှေ့ သီတင်းသုံးခဲ့သည်။ ဂါမဝါသီကျောင်းထိုင်ဘဝကို မိမိကိုယ်ပိုင်အလုပ်ချိန်နည်းသဖြင့် ငြီးငွေ့လာသည့် တောင်ပွားဆရာတော်သည် ကျော့ကွင်းမိသော သားကောင်ပမာ လွတ်ရက်ကို စောင့်မျှော်နေတုန်းမှာ ဆရာတော် ဦးသီလရောက်လာသည့်အတွက် ဝမ်းမြောက်ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၀

မိမိရသော အခွင့်အရေးကို လက်မလွတ်စေသင့်ဟု သဘောပိုက်၍ မိမိပိုင်သော အောင်သပြေကျောင်းကို ဂရုဘဏ်၊ လဟုဘဏ်နှင့်တကွ ဆရာတော် ဦးသီလအား လှူဒါန်းခဲ့သည်။ ဒါယကာတို့က မိမိအားလှူဒါန်းခဲ့သမျှ ပစ္စည်းလေးပါး ဒါနကုသိုလ်အစုစုတို့ကိုလည်း ရေစက်ချ အမျှဝေစေ၍ တရားဓမ္မဖြင့် နှစ်သိမ့်စေခဲ့ပြီး မိမိ၏ မဂ်ဖိုလ် နိဗ္ဗာန် ခရီးအတွက် အောင်သပြေကျောင်းမှ မင်းရပ်ချောင်သို့ တစ်ဖန်ကြွသွားခဲ့သည်။

**ဓုတင်များဆောင်တော်မူပါသည်။**

မင်းရပ်ချောင်တွင် ဝိပဿနာတရားများကို ပြင်းပြင်းထန်ထန် အားထုတ်နေစဉ်အတွင်း ပိဏ္ဍပါတ်ဓုတင်၊ ဧကာသနိက်ဓုတင်၊ ပတ္တပိုဏ်ဓုတင်၊ တိစီဝရိက်ဓုတင်များကို အမြဲကျင့်သုံးခဲ့သည်။

**ကူးတို့တောရဂိုဏ်းကြီးတွင် နာယကဆရာတော်ဖြစ်ခဲ့ပါသည်။**

အေဒီ ၁၉၅၅ မြန်မာသက္ကရာဇ် ၁၃၁၇ ခုနှစ်တွင် မိမိ၏ ဓမ္မာစရိယ ဖြစ်တော်မူသော ဇေယျဝတီဆရာတော် ဦးသီလသည် မကျန်းမမာဖြစ်လာခဲ့သည်။ လုပ်ကျွေးမွေးရန်အတွက် မင်းရပ်ချောင်မှ ဇေယျဝတီကျောင်းတိုက်သို့ ကြွခဲ့သည်။ ထိုနှစ်မှာပင် ဇေယျဝတီကျောင်းတိုက်၌ ကူးတို့တောရဂိုဏ်းကြီး၏ နှစ်ပတ်လည်အစည်းအဝေးတွင် တောင်ပွားဆရာတော်သည် ကူးတို့တောရဂိုဏ်းကြီး၏ နာယကဆရာတော်အဖြစ် တင်မြှောက်ခြင်းခံရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၀

အေဒီ ၁၉၅၇ မြန်မာသက္ကရာဇ် ၁၃၁၉ ခုနှစ် ကဆုန်လဆုတ် ၁၄ ရက် ညနေ ၆ နာရီအချိန်တွင် ဇေယျဝတီဆရာတော်အား မြို့ပေါ်မှ ဒါယကာများ ပင့်လျှောက်ချက်အရ ဇေယျဝတီကျောင်းတိုက်၌ ဝါဆိုတော်မူသည်။ ဇေယျဝတီ ပဋိပတ္တိရိပ်သာ ဝိပဿနာ နည်းပြဆရာတော်အဖြစ်ဖြင့်လည်းကောင်း၊ ပရိယတ္တိ စာသင်တိုက်ကြီး၏ တိုက်အုပ်ဆရာတော်အဖြစ်ဖြင့်လည်းကောင်း တင်မြှောက်ခြင်းခံရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၁

http://www.dhammadownload.com



ဇေယျဝတီ ပဋိပတ္တိရိပ်သာနှင့် မင်းရပ်ချောင် ၂ ဌာနတွင် နှစ်ပေါင်း ၃၆ နှစ်ကာလပတ်လုံး ပဋိပတ်တာဝန်ကို ထမ်းဆောင်ခဲ့သဖြင့် ဝိပဿနာအရာတွင် ပါရဂူမြောက်သော ပုဂ္ဂိုလ်တစ်ပါး ဖြစ်ခဲ့ပေသည်။

**ဝိသုဒ္ဓိမဂ်ကျမ်းကို လေ့လာအားထုတ်ကြပါဟု မှာကြားခဲ့ပါသည်။**

ပျံလွန်တော်မူမည့်နှစ်တွင် ဥပုသ်သိမ်အတွင်း သံဃဥပုသ်ပြုရာ၌ သံဃာတော် အရှင်မြတ်တို့အား ဝိသုဒ္ဓိမဂ်ကျမ်းကို လေ့လာအားထုတ်ကြပါဟူ၍ ဩဝါဒပေးခဲ့သည်။

**နေ့ဆွမ်းဘုဉ်းပေးပြီး ညနေလေးနာရီတွင် ဘာရောဂါမှမရှိဘဲ ခန္ဓာဝန်ချတော်မူပါသည်။**

အေဒီ ၁၉၆၆ မြန်မာသက္ကရာဇ် ၁၃၂၈ ခုနှစ် ဒုတိယဝါဆိုလဆုတ် ၁၅ ရက်နေ့သည် ဥပုသ်နေ့ဖြစ်၍ ပရိသတ်ကို နံနက်ပိုင်း တရားဟောပြီး နေ့ဆွမ်းဘုဉ်းပေးတော်မူသည်။ ထို့နောက် သီတင်းသုံးတော်မူရာစံကျောင်း၌ တစ်ပါးတည်း ကိန်းအောင်းတော်မူနေစဉ် ညနေ ၄ နာရီအချိန်တွင် ပျံလွန်တော်မူခဲ့သည်။

အေဒီ ၁၉၆၆ ပျံလွန်တော်မူသည့်အချိန်တွင် ကျေးဇူးရှင် တောင်ပွားဆရာတော်သည် သက်တော် ၈၂ ဝါတော် ၅၅ ဖြစ်ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၀

ထားဝယ်မြို့ ဇေယျဝတီ ပဋိပတ္တိရိပ်သာကြီး၏ ပဋိပတ်အရာတွင် ပင်စည်ပင်မကြီးသဖွယ် ဖြစ်တော်မူသော ဇေယျဝတီတိုက်အုပ် တောင်ပွားဆရာတော်ဘုရားသည် အရပ်ရပ် အနယ်နယ်မှ ခညောင်းရောက်လာကြကုန်သော ပရိသတ်အပေါင်းတို့အား ဝိပဿနာ တရားတော်တည်းဟူသော အမြိုက်ဆေးဖြင့် ကိလေသာအနာရောဂါတို့မှ ကင်းငြိမ်းပပျောက်ကြစေရန် စောင့်ရှောက်ခဲ့ပေသည်။

ကျမ်းကိုး၊ ဝိပဿနာရှုနည်း ၉ နည်း ပဥ္စမတွဲ ၊ စာမျက်နှာ -၁၀၈

တောင်ပွားဆရာတော်၏ ရေသနုတ် သင်းပိုင်တော်ကို ဌာပနာထားသော ဇမ္ဗူဒီပါ လေးကျွန်းမာန်အောင် ဆုတောင်းပြည့်စေတီဟူ၍ ရန်ကုန်မြို့ အနောက်ရွှေဂုံတိုင် အုတ်လမ်းတွင် ရှိပါသည်။

ကျမ်းကိုး၊ သာသနာ့ ဝပုဏကျမ်း၊ ဦးဝဏ္ဏိတ လောကမာန်အောင် သာသနာ့ ဗိမာန်ကျောင်းတိုက် အနောက်ရွှေဂုံတိုင် ရပ်ကွက်၊ အုတ်လမ်း၊ ဗဟန်း ရန်ကုန်မြို့၊ စာ - ၄၀၀ ကို ကြည့်။

တောင်ပွားဆရာတော်သည် နတ်များကို ညစဉ် နှစ်ပေါင်း ၄၀ တိုင်တိုင် ဓမ္မစကြာ ဟောတော်မူသော ဘုန်းတော်ကြီး ဦးဝေပုလ္လ ဘီးလင်းမြို့နယ် ဆရာတော်ဘုရားကြီးအောက် (၁) နှစ်ငယ်ပါသည်။

ကျမ်းကိုး၊ မောင်ပန်းမွှေး၊ မြန်မာနိုင်ငံ ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မ စာအုပ်တိုက်၊ ၂၀၀၈ ခုနှစ် ပထမအကြိမ်၊ စာ ၄၈၀ ကို ကြည့်။

တောင်ပွားဆရာတော်သည် တေဝိဇ္ဇ ရဟန္တာဟု ဆိုကြသောသာသနာပြုအကျော် ပြည်မြို့ နိဗ္ဗိန္ဒ ဆရာတော်ထက် ၂ နှစ် ကြီးတော်မူပါသည်။

ကျမ်းကိုး၊ မောင်ပန်းမွှေး၊ မြန်မာနိုင်ငံ ရဟန္တာနှင့် ရဟန်းထူးများ တော်ဝင်မြို့မ စာအုပ်တိုက်၊ ၂၀၀၈ ခုနှစ် ပထမအကြိမ်၊ စာ ၄၉၅ ကို ကြည့်။

အေဒီ ၁၈၈၄ ထားဝယ်မြို့ ဇေယျဝတီကျောင်းတိုက် တိုက်အုပ် ဝိပဿနာနည်းပြ တောင်ပွားဆရာတော်

http://www.dhammadownload.com



ဦးတေဇိန္ဒသည် ထားဝယ်မြို့ ကရင်ပြင်ရပ် လယ်မြေပိုင်ရှင် ခမည်းတော် ဦးရွှေလူ မယ်တော် ဒေါ်သွန်းတို့မှ ကောဇာသက္ကရာဇ် ၁၂၄၆ခုနှစ် ဝါခေါင်လဆန်း ၁၀ရက် စနေနေ့တွင် သန့်စင် ဖွားမြင်တော်မူသည်။

သားသမီး ၇-ယောက်တို့တွင် သုံးယောက်မြောက်သားဖြစ်လေသည်။ ငယ်မည်မှာ မောင်ဘိုး အောင်း ဖြစ်လေသည်။ မွေးချင်းများမှာ ၁-မောင်ဘခင်၊ ၂-မစောမေ၊ ၃-မောင်ဘိုးအောင်း၊ ၄-မအေးဝင်း၊ ၅-မောင်ဖေသီး၊ ၆-မအေးမေ၊ ၇-မသီးဆင်များ ဖြစ်ကြလေသည်။

အေဒီ ၁၈၉၄ — မောင်ဘိုးအောင်းသည် အသက် ၁၀ နှစ်သားအရွယ် ထားဝယ်မြို့တွင် ကရင်ပြင်ရပ် အစိုးရ မူလတန်းကျောင်းမှ စတုတ္ထတန်းအထိ လောကီပညာများကို သင်ကြားခဲ့လေသည်။

အေဒီ ၁၉၀၁ — မောင်ဘိုးအောင်းသည် အသက် ၁၇-နှစ်အရွယ်ဖြစ်လတ်သော် ထားဝယ်မြို့နယ် ပေါက်တိုင်း ရွာ တောင်ပွားကျောင်း ဆရာတော် ဦးဂုဏထံတွင် ရှင်သာမဏေ ၄-နှစ် ပြုခဲ့လေသည်။

အေဒီ ၁၉၀၅ — မောင်ဘိုးအောင်းသည် ရှင်သာမဏေအဖြစ်မှ ထွက်၍ မိဘတို့နိုးရာ သမ္မာအာဇီဝ အလုပ်ဖြစ် သော လယ်ယာအလုပ်များကို လုပ်ကိုင်စားသောက်နေထိုင်၍ မိဘများကို တရားသဖြင့် ၇- နှစ် လုပ်ကျွေး စောင့်ရှောက်နေထိုင်ခဲ့လေသည်။

အေဒီ ၁၉၁၁ — ထားဝယ်မြို့ ကညွှဲရပ်၊ မြေတိုက်ကျောင်း ခဏ္ဍသိမ်တွင် ဇလွန်းအရှေ့ကျောင်း ဆရာတော် ဦးဝဏ္ဏကို ဥပဇ္ဈာယ်ပြု၍ သက္ကရာဇ် ၁၂၇၃ခုနှစ် နယုန်လဆုတ် ၁၂-ရက်နေ့၌ ရှင်သာမဏေ ဘဝမှ ဦးတေဇိန္ဒ ဟူသော ရဟန်းအဖြစ်သို့ ရောက်လေသည်။

အေဒီ ၁၉၁၁ — ဦးတေဇိန္ဒသည် အသက် ၂၇-နှစ်ရောက်မှ ရဟန်းဖြစ်သည့် အတွက်ကြောင့် ဉာဏ အနည်းငယ် ထိုင်းမှိုင်း၍ ဆရာပို့ချသောစာများကို ဖွဲ၊ လုံ့လဖြင့် မရမနေ ကြိုးစား အားထုတ်လေ့ရှိသည်။ ဦးတေဇိန္ဒသည် ဆရာတော်ဦးသီလထံတွင် ပိဋကတ်အခြေပြု သဒ္ဒါ၊ သင်္ဂြိုဟ်၊ ကခ်ီ၊ ဋီကာမှစ၍ သင်ရိုးပိဋကတ်ပါဠိတော် အဋ္ဌကထာ ဋီကာကျမ်းများ ကုန်သည့်တိုင်အောင် ၇-နှစ် သင်ကြား အားထုတ်ခဲ့လေသည်။

အေဒီ ၁၉၁၉ — ဦးတေဇိန္ဒသည်သက္ကရာဇ် ၁၂၈၁ခုနှစ်ရဟန်း၇-ဝါအရတွင် ဆရာတော်၏ ခွင့်ပြုချက်အရ ဒေသန္တရနှင့် ဂန္ထန္တရဗဟုသုတ ရှာမှီးအားထုတ်ရန်အတွက် မန္တလေးမြို့ အနောက်ပြင် မေယဝတီတောင်သမန် ကျောင်းတိုက် ဆရာတော် ဦးသီး (ခေါ်) ဦးသုမင်္ဂလထံတွင် ပိဋကတ် ကျမ်းစာများကို ဆက်လက်သင်ကြား အားထုတ်တော်မူလေသည်။

ဦးတေဇိန္ဒသည် ဆရာတော်ဦးသီးထံတွင် စာလိုက်စဉ်အခါကလည်း ခဲရာခက်ဆစ် အဆုံး အဖြတ်တို့ကို ပေးသောအခါ မလွတ်စတမ်း ဖြေကြားလေသည်။ ထို့ကြောင့် ဆရာတော် ဦးသီး က အကြံသမားကြီးဟု ခေါ်လေသည်။ ဦးတေဇိန္ဒသည် မန္တလေးမြို့၌ တစ်နှစ်မျှသာ သင်ကြား တော်မူလေသည်။

အေဒီ ၁၉၂၀ — ဦးတေဇိန္ဒသည် သင်ရိုးပိဋကတ် ပရိယတ္တိများကို သင်ယူအားထုတ်ပြီး ၍ ကိုယ်ကျင့်တရားကို အားထုတ်လိုသည်ဖြစ်သောကြောင့် သက္ကရာဇ် (၁၂၈၂) ခုနှစ် ရဟန်း ၈-ဝါအရတွင် ဇေယျဝတီ ကျောင်းတိုက်မှ ပြောင်းရွှေ့၍ မင်းရပ်တောကျောင်း၌ ကိုယ်ကျင့်တရား အားထုတ်လေတော့ သည်။

အေဒီ ၁၉၃၀ — သက္ကရာဇ် ၁၂၉၂ခုနှစ် ရဟန်းသိက္ခာ ၁၅-ဝါအရတွင် လောင်းလုံမြို့ အောင်သပြေကျောင်း သစ် ကို လက်ခံတော်မူလျက် သီတင်းသုံးနေထိုင်တော်မူလေသည်။

အေဒီ ၁၉၄၁ — ဆရာတော် ဦးတေဇိန္ဒသည် ဇေယျဝတီဆရာတော်ကြီးအား သက္ကရာဇ် ၁၃၀၃ခုနှစ် ရဟန်း သိက္ခာ (၂၇) ဝါအရတွင် လျှုဒါန်းခြင်း။

http://www.dhammadownload.com



အေဒီ ၁၉၄၂ ထားဝယ်မြို့သို့ ဂျပန် ရောက်သော နှစ်၌ ဇေယျဝတီ ဆရာတော်ဘုရားကြီးအား အောင်သပြေကျောင်းကို ဂရုဘဏ်၊ လဟုဘဏ်နှင့်တကွ ပြန်လည်လှူဒါန်း စွန့်လွှတ်လေသည်။
ဆရာတော် ဦးတေဇိန္ဒသည် ကျောင်းရှိ ပစ္စည်းများကို မယူသွားမူ၍ မိမိ၏သပိတ်တစ်လုံး သက်န်း ၃-ထည်နှင့် မီးခြစ်တစ်ထုပ်၊ ဖယောင်းတိုင်တစ်ထုပ်ကိုသာ ယူ၍ သံဃာများအား ပန်ကြားတော်မူပြီး ကြွသွားတော်မူလေသည်။
ထိုစဉ်အခါမှာ မင်းရပ်တောကျောင်းတွင် တရားအားထုတ်ဖက် သမဂ္ဂ ဆရာတူ တပည့်ဖြစ်သော ဘုန်းတော်ကြီး ဦးနန္ဒိယ ရှိလေသည်။

အေဒီ ၁၉၅၅ ကူးတို့ဂိုဏ်း နာယကဆရာတော်အဖြစ် တောင်ပွားဆရာတော် ဦးနန္ဒိယအား သက္ကရာဇ်-၁၉၅၅ ခုနှစ် တပေါင်းလကူးတို့ ဂိုဏ်းလုံးကျွတ် သံဃအစည်းအဝေးကြီးက ဂိုဏ်းနာယက ဆရာတော်အဖြစ်တင်မြှောက်တော်မူကြလေသည်။

အေဒီ ၁၉၉၅ သက္ကရာဇ် ၁၃၅၇-ခုနှစ် နယုန်လဆန်း ၆-ရက်နေ့ ဇေယျဝတီ ဓမ္မာရုံ၌ ကျောင်းတိုက် ဒကာ ဒကာမများ အစည်းအဝေးတွင် တောင်ပွားဆရာတော် ဦးတေဇိန္ဒအား ဇေယျဝတီ တိုက်အုပ်ဆရာတော်နှင့် ဝိပဿနာနည်းပြ ဆရာတော်အဖြစ် တင်မြှောက်တော်မူ၍ အသိအမှတ်ပြုလေသည်။
တိုက်အုပ်တောင်ပွားဆရာတော်သည် တရားအားထုတ်ရန် ရောက်လာကြသော ရဟန်းရှင်လူ ယောဂီပုဂ္ဂိုလ်များကိုလည်း ဆရာတော်ဘုရားကြီးပေးတော်မူသော နည်းအတိုင်းပေးတော်မူ၍ အားထုတ်ခိုင်းလေသည်။ တရား ထင်မြင်လာကြသော ယောဂီပုဂ္ဂိုလ်များအားလည်း ကျမ်းဂန်အရ မေးမြန်းစိစစ်၍ စာတွေ့၊ ကိုယ်တွေ့တရားများ ဟောပြောလေသည်။ အဆင့်အတန်းကို ဆုံးလေ့မရှိ မူ၍ ရှေ့ကိုသာ ဆက်လက်ပြီး အားထုတ်ခိုင်းလေသည်။
တိုက်အုပ်တောင်ပွားဆရာတော်သည် သုမင်္ဂလ၊ ဒုမင်္ဂလ အလှူအတန်းများ၌ ဒါန၊ သီလ၊ ဘာဝနာ၊ ဝိပဿနာနှင့် ဆက်သောတရားများကို အသိအလိမ္မာနှင့် ကျင့်ကြံအားထုတ်စေခြင်းငှာ စေတနာ၊ သဒ္ဓါတရားဖြင့် ဟောပြောသောအခါ၌ များသောအားဖြင့် တရားဟော အချိန်ကာလမှာ လိုသည်ထက် ပိုသည်ကများလေသည်။ အဘယ်ကြောင့်ဆိုသော် ကိုယ်ချင်းစာပြီး ဒကာ၊ ဒကာမများအား ဒါနပြုသည်ဖြစ်စေ၊ သီလဆောက်တည်သည် ဖြစ်စေ၊ ဘာဝနာပွားများသည်ဖြစ်စေ အမှတ်တမဲ့မဖြစ်စေလိုမူ၍၊ ဝါ-ငွေကုန်သံပြာ လူပန်ပင်ပန်းစေပြီး ဘာကိုရည်မှန်းအာရုံပြုရမည်ဟုမဖြစ်စေလို၍ ဘုရားဟောကျမ်းဂန်လာရှိသည့်အတိုင်း သေသေချာချာ သဘောပေါက်အောင် ဉာဏ်ယှဉ်စေပြီး ဟောပြောလေ့ရှိတော်မူသည်။
တောင်ပွားဆရာတော်သည် ရေသောက်ခြင်း၊ ချောင်းဟန့်ခြင်း၊ ဟိုရွှေ့ဒီရွှေ့ မပြုမူ၍ ကရားမှ ရေသွန်သလို မပြတ်ဘဲ ဟောပြောလေ့ ရှိတော်မူသည်။
ဆရာတော်၏ထူးခြားချက်များမှာ တိုက်အုပ်တောင်ပွားဆရာတော်သည်နံနက်ပိုင်းနှင့် ညနေပိုင်း အခါတွင် ဆေးကွမ်းများကို အချင်းခပ်သိမ်းစားသောက်လေ့မရှိသည့်အပြင် မြို့တွင်းရွာတွင်းသို့ သွားလာသောအခါ၌ ဖိနပ်ကိုလည်းစီးလေ့မရှိပါ။ ထို့အပြင် မြင်းရထား နှင့် နွားလှည်းများကိုလည်း စီးလေ့မရှိပါ။
ဇေယျဝတီဆရာတော်ဘုရားကြီးကလည်း တပည့်ကြီးတောင်ပွားဆရာတော်ကို "တောင်ပွား ဦးပဥ္စင်းသည် တချို့နေရာတွင် ကျုပ်ထက်တောင် သာပါသေးတယ်" ဟု ချီးမွမ်းခံရလေသည်။ သာပါသေးသည်ဟူသော စကားသည် အကျင့်ကိုဆိုလိုသည်။
တောင်ပွားဆရာတော်သည် ပေါက်တိုင်းရွာ တောင်ပွား ကျောင်းမှဇေယျဝတီ ကျောင်းတိုက်

http://www.dhammadownload.com



သို့ စာသင်လာစဉ်အခါ ဇေယျဝတီဆရာတော်က တောင်ပွားဦးပဉ္ဇင်းဟု ခေါ်လေ့ရှိသည်။ နောက် အသက်သိက္ခာ ကြီးရင့်လာသောအခါ တောင်ပွား ဘုန်းတော်ကြီး၊ တောင်ပွား ဆရာတော်ကြီးဟု ခေါ်ဝေါ်ကျော်ကြားလေသည်။

တောင်ပွားဆရာတော်သည် လေရောဂါစွဲကပ်ပြီး ခြေလက်ထုံကျင်နာကြွင်းသော်လည်း အောင့်အီးသည်းခံလျက် အနန္တဇိနဘုရားကြီးသို့ တစ်နေ့ ၂-ကြိမ် ကြွရောက်၍ ဘိက္ခုပါတိမောက် ပါဠ်နှင့် သင်္ဂြိုဟ် ၉-ပိုင်းကို အမြဲရွတ်ဆို ပူဇော်လေ့ရှိသည်။

အေဒီ ၁၉၆၆ ခရစ်နှစ် ၁၉၆၆ခုနှစ် ဒုတိယဝါဆိုလဆုတ် ၁၅-ရက်နေ့ ညနေ ၄-နာရီကျော်အချိန် သက်တော် ၈၂-နှစ် သိက္ခာ ၅၅-ဝါအရတွင် ဒုက္ခဝေဒနာခံစားမှုမရှိဘဲ "အိပ်သောယောကျ်ား နိုးသောအလား" ကဲ့သို့ ခဏလျောင်းစက်နေရာတွင် ရဟန်းရှင်လူ မည်သူ တစ်ယောက်မျှ မသိလိုက်ရဘဲ ဘဝနတ်နန်း မြန်းကြွတော်မူလေသည်။

အေဒီ ၁၉၆၆ ကြွင်းကျန်သော တောင်ပွားဆရာတော်၏ ရုပ်ကလာပ်အလောင်းတော်ကို ကျောင်းတိုက်စည်းမျဉ်းဥပဒေအတိုင်း မနှေးမမြန် ဝါခေါင်လဆန်း ၃-ရက်နေ့တွင် ဇေယျဝတီကျောင်းတိုက်အတွင်း၌ " အန္တိမအဂ္ဂိဈာပန" နောက်ဆုံးဆေးရိုးမီးဖြင့် ပြာကျလေတော့သတည်း။

ဇေယျဝတီ တိုက်အုပ်တောင်ပွားဆရာတော် ပျံလွန်တော်မူသွားသော်လည်း အသံသွင်းတိတ်ခွေ ၄ - ခုကိုအသံဖမ်းစက် တိတ်ရီကော်ဒါဖြင့် အသံဖမ်းယူထားသောကြောင့် လူသာပျောက်ကွယ်သွား၍ အသံမကွယ်ပျောက်ဘဲ ဆရာတော်ကိုယ်စား ကျန်ခဲ့လေတော့ သတည်း။ တရားတိတ်ခွေများမှာ ၁။ ဓမ္မစကြာတရားများ၊ ၂။ ဝိပဿနာအခြေပြု တရား၊ ၃။ ဝိပဿနာအခြေခံရပြီး တရားများ၊ ၄။ ကထိန် သင်္ကန်းအလှူ အာရုံပြုနှင့် ကထိန်တရား။

http://www.dhammadownload.com



နေ့စဉ်နေ့တိုင်း ဝိနည်းငါးကျမ်း အာဂုံရွတ်ဆို၍ ဘုရားရှင်ကို ပူဇော်တော်မူသော

ပထမ မင်းကွန်း

# ဓမ္မနာဒ ဆရာတော်

၁၈၈၅ – ၁၉၃၇



http://www.dhammadownload.com



ဓမ္မနာဒ ပထမမင်းကွန်း ဆရာတော်ဘုရားကြီးမှာ ဤလူ့ရွာသို့ တာဝန်ဖြင့် ရောက်လာ၏။ တာဝန်ပြီးပြေ၍နေရင်း ဌာနသို့ ပြန်ကြွခဲ့၏။ ထိုပညာစက္ကဟူသော ပညာရှိ နတ်သားသည် ယခုအခါ တာဝတိံသာ နတ်တို့ရွာ၌ ပညာစက္က ဟူသော နတ်သားအဖြစ်ဖြင့် တည်ရှိ၏။

ကျမ်းကိုး။ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ဓမ္မဒူတ၊ ဒုတိယအုပ်၊ ၁၉၈၈ ခုနှစ် ပထမအကြိမ်၊ ပိဋကတ်သုံးပုံကို နှုတ်စဉ် ရွတ်ဖတ်ပူဇော်သူများ၊ စာမျက်နှာ ၁၈၂ ကို ကြည့်ပါ။

ပညာစက္ကဟူသော ပညာရှိနတ်သား (ဓမ္မနာဒပထမမင်းကွန်းဆရာတော်ဘုရားကြီး) ကို အမှီပြု၍ (တိပိဋက ဆရာတော်ဟု ကျော်စောတော်မူသော အရှင် ဝိစိတ္တသာရာဘိဝံသဆရာတော်ဘုရားကြီးသည်) တာဝတိံသာနတ်တို့ရွာ၌ ဓမ္မဓရဟူသော အန္တတ္တအမည်ဖြင့် အောက်သို့မလား အဆင့်ဆင့်တက်သွားမည့် သောတာပန်နတ်သားသည် စင်စစ်မသွေ ဖြစ်ပေ၏ဟူသော အထူးအဆန်းစကားကို ကြားရလျှင် အသင်ယုံမည် မယုံမည် မသိနိုင်ပါ။

ကျမ်းကိုး။ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ဓမ္မဒူတ၊ ဒုတိယအုပ်၊ ၁၉၈၈ ခုနှစ် ပထမအကြိမ်၊ ပိဋကတ်သုံးပုံကို နှုတ်စဉ် ရွတ်ဖတ်ပူဇော်သူများ၊ စာမျက်နှာ ၁၈၂ ကို ကြည့်ပါ။

ထူးဆန်းသော မှတ်ချက်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

အရှုပဘုံ၊ အသညသတ်ဘုံများတွင် ကျေးဇူးရှင်ဆရာသခင် ဓမ္မနာဒပထမမင်းကွန်းဆရာတော်ဘုရားကြီးသည် ခေတ္တနားခိုမည်ကို စိုးရိမ်ပူပန်နေရာမှာ ဆရာတော်ကြီး၏ အဖြေစကားကို ကြားရသောအခါ အလွန်ဝမ်းသာသွားပါသည်ဟု တိပိဋကဆရာတော် သက်တော်ထင်ရှားရှိစဉ်က စကားမှတ်တမ်းကို ဖတ်ရှုရပါသည်။

ကျမ်းကိုး။ နဝဓတဂီစာရ မဟာထေရ်၏ ကမ္မာဂန္တဝင် သာသနာ့သင်ခန်းစာကျမ်း၊ စာမျက်နှာ ၅၀၃ တွင် အတိအလင်း ရေးသားဖော်ပြပါ၏။ အဆိုပါ နဝဓတဂီစာရ မဟာထေရ်ဟူသော ရဟန်းတော်ကြီးမှာ ဟင်္သာတမြို့၊ ဘုရားကြီးတိုက်တွင် အထင်အရှားရှိတော်မူသော ဓုတင် ၁၃ ပါးအောင် ဆရာတော်ဖြစ်၍ အစဉ်ထာဝရအားဖြင့် နဝဓတဂီစာရမဟာထေရ် ဟူ၍ သူတော်ကောင်းလောကတွင် အနီးအဝေး ကျော်စောတော်မူပါသည်။ ဆရာတော်ကိုယ်တိုင် ကျွန်ုပ်အား အထက်ပါ မှတ်တမ်းစာအုပ်ကြီးကို ချီးမြှင့်တော်မူသဖြင့် အကြောင်းထူးရှိမည်ဟူ၍ လှန်မိလှန်လိုက်သောအခါ အထက်ပါ စာမျက်နှာ ၅၀၃ ကို ဖတ်မိလျက်သားဖြစ်နေပါသောကြောင့် ဖတ်ကြည့်သောအခါ ကျွန်ုပ်သည် ရဟန္တာနှင့်ရဟန်းထူးများ ဒုတိယတွဲကို ပြုစုရာတွင် ပညာစက္ကမထေရ်တည်းဟူသော အရှင်မြတ်သည် ယခုအခါ ဘယ်ဘုံတွင်ရှိပါမည်နည်းဟူသော ကျွန်ုပ်၏ စဉ်းစားလိုက်ရုံ တွေးလိုက်ရုံကလေးမျှနှင့်ပင် နဝဓတဂီစာရ မဟာထေရ်က ချက်ခြင်းသိတော်မူ၍ အဖြေပေးတော်မူခဲ့ပါသည်။ အသေအချာဖတ်ရှုတော်မူကြပါ။

ပိဋကတ်သုံးပုံကို နှုတ်စဉ် ရွတ်ဖတ်ပူဇော်သည်ဟုဆိုလျှင် ကြားရသည်ကပင်လျှင် အလွန့်အလွန်ကို အံ့ဩစရာ မယုံနိုင်စရာ ဖြစ်ပါသည်။ သို့သော် ထိုဖြစ်ရပ်မျိုး တကယ်ရှိခဲ့ပါသည်။ ထိုသို့ ပိဋကတ်သုံးပုံကို နှုတ်စဉ်ရွတ်ဖတ်ပူဇော်သော ရဟန်းထူးကား မင်းကွန်း ဓမ္မနာဒ ဆရာတော်ဘုရားကြီး ဦးပညာစက္ကဖြစ်ပါသည်။

ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ပိဋကတ်သုံးပုံကို နှုတ်စဉ် ရွတ်ဖတ်ပူဇော်သူများ၊ ၁၉၈၈ ခုနှစ်၊ ပထမအကြိမ် ဓမ္မဒူတ ဒုတိယအုပ် စာ ၁၇၁။

ဓမ္မနာဒ ဆရာတော်ဘုရားကြီးသည် သက်ရှယ်တော် ခပ်ငယ်ငယ်ကပင် ကျောင်းရှိ ပိဋကတ်သုံးပုံ ပါဠိတော်စာအုပ်များ ဓမ္မစေတီများကို ဘုရားရှေ့၌ စားပွဲများခင်းလျက် စားပွဲပေါ်၌ စနစ်တကျ အမြဲပူဇော်ထားရှိ၏။

ကျမ်းကိုး၊ယင်းစာ ၁၇၂

http://www.dhammadownload.com



**နေ့စဉ် ဝိနည်းငါးကျမ်းကို ပူဇော်သည်ဆိုလျှင် သင်ယုံမည်လား။**

ဝိနည်း ၅ ကျမ်း ပါဠိတော်၊ သုတ္တန် ၃ ကျမ်း ပါဠိတော်၊ အဘိဓမ္မာ ၇ ကျမ်းပါဠိတော် ဒီဃနိကာယ် မဇ္ဈိမနိကာယ်၊ သံယုတ္တနိကာယ်၊ အင်္ဂုတ္တရနိကာယ်၊ ခုဒ္ဒကနိကာယ် နိကာယ် အလိုက် စားပွဲပေါ်၌ တန်းစီစေလျက် မြတ်စွာဘုရားရှင်အား ပူဇော်သကဲ့သို့ ပန်း ဆီမီးမှ အစ သီးခြားပူဇော်၏။ အထူးသဖြင့် နံ့သာရေမွှေးများဖြင့်လည်း၊ ထုံမွှမ်းဆွတ်ဖျန်းပူဇော် တော်မူ၏။ 'ဓမ္မပူဇေမိ' ကို လက်တွေ့ အဓိပ္ပာယ်ဖွင့်ပြနေသကဲ့သို့ ရှိသည်။

ကျမ်းကိုး၊ယင်းစာ ၁၇၂

**ရွတ်ဆိုချိန် တစ်နှစ်ကြာ၏။**

နှစ်ဆန်း ၁ ရက်နေ့ မှ စတင်၍ ရွတ်ဖတ်ပူဇော်ရာ တစ်နှစ်တာကုန်ဆုံးသောရက်တွင် ပိဋကတ် သုံးပုံအစအဆုံး ရွတ်ဆိုပူဇော်ပြီး ဖြစ်၏။

ကျမ်းကိုး၊ယင်းစာ ၁၇၂

**နောက်နှစ်တွင် အစကပြန်ရွတ်ပြန်၏။**

ဆရာတော်၌ တစ်နေ့တာ ရွတ်ဖတ်ပူဇော် စံနှုန်းရှိနေပြီးဖြစ်သည်။ တစ်ဖန် နှစ်ဆန်း ၁ ရက် ရောက်ပြန်လျှင် ဝိနည်း ၅ ကျမ်းမှ စကာ တစ်ကြော့ပြန်၍ တစ်နှစ်တာ စပြန်လေသည်။

ကျမ်းကိုး၊ယင်းစာ ၁၇၂

ဓမ္မနာဒ တရားရင့်ကျူး ကြွေးကြော်ရာ ကျောင်းတိုက် ဟူသောအမည်သည် မည်ကာမတ္တ မဟုတ်၊ အလုပ်နှင့်အပြော တစ်သဘောတည်း ဖြစ်သကဲ့သို့ အမည်နှင့် အရည် အသံ အဆံ လည်း တစ်ကြိမ်တည်း ကိုက်ညီကာ အန္ဒတ္ထသညာ ဖြစ်လေတော့သည်။

ကျမ်းကိုး၊ယင်းစာ ၁၇၂

အမွှေးနံ့သာ ပန်း ဆီမီး ရေချမ်းများ ပူဇော်ပြီးလျှင် ဓမ္မစေတီများ အနီးကြမ်းပြင်၌ ကျုံ့ကျုံ့က လေးထိုင်ကာ လက်အုပ်ချီလျက်က စာတင်ခုံအမြင့်၌ အနေတော်လှန်ချထားသော ပါဠိတော် များကို တစ်လုံးချင်း ပီပီသသ လေးလေးပင်ပင် ရွတ်ဖတ်ပူဇော်လေ့ရှိသည်။

ကျမ်းကိုး၊ယင်းစာ ၁၇၂

**ပိဋကတ်မှော်ပေါက်သည်ဆိုလျှင် သင်ယုံမည်လား။**

နေ့စဉ်နှင့်အမျှ မြင်တွေ့ရသော ထိုမြင်ကွင်းမှာ ယေဘုယျ ကိုရင် ဦးပဉ္စင်းများအဖို့ ကြည်ညိုရ သည်မှအပ မထူးခြားလှသော်လည်း ကိုရင် ဝိစိတ္တသာရ ဦးပဉ္စင်းကလေး အရှင်ဝိစိတ္တသာရာ ဘိဝံသ အတွက်ကား ဖော်မပြနိုင်သော ခံစားချက်များကို ဖြစ်ပေါ်စေခဲ့၏။

ကျမ်းကိုး၊ယင်းစာ ၁၇၃

ရွတ်ဖတ်ပူဇော်ဖန်များလာသောအခါ အရှင်ဝိစိတ္တသာရာဘိဝံ၌ ထူးခြားသော အသိအမြင် အတွေးအခေါ်များ ဝင်လာ၏။ မြတ်စွာဘုရားရှင်အပေါ်ကြည်ညိုမှု၊ ရွတ်ဖတ်ရင်း ရွတ်ဖတ်ရင်း ယခင်က မဖြစ်ဖူးသော အသိဉာဏ်များ လျှပ်စစ်ဘတ်သီးပွင့်သလို ပွင့်လာမှုများ တစ်နေ့ တခြား ဖြစ်ပေါ်လာ၏။

ကျမ်းကိုး၊ ယင်းစာ ၁၇၃

**ပိဋကတ်မှော်အကြောင်း**

ပိဋကတ်မှော်ပင်ပေါက်နေရော့သလား ထင်ရလောက်အောင်ပင် စဉ်းစားစရာတွေ ထူးခြား သော ခံစားမှုများတွေ များစွာဖြစ်ပေါ်လာလေသည်။

ကျမ်းကိုး၊ယင်းစာ ၁၇၃

http://www.dhammadownload.com



အရှင်ဝိစိတ္တသာရာဘိဝံသည် ထိုအသိ အမြင်ခံစားချက်များကို မျိုသိပ်မနေနိုင်ဘဲ ဓမ္မနာဒ ဆရာတော်ဘုရားကြီးအား ဖွင့်ဟ၍ပင် လျှောက်ထားမိလေတော့သည်။ ပထမတွင်ကား ဆရာတော်ကြီးက ကြည်နူးစွာ ပြုံးလျက်ပင် နေတော်မူ၏။

ကျမ်းကိုး၊ယင်းစာ ၁၇၃

### လျှောက်မပြောနဲ့

"အင်း ဦးပဍ္ဍင်း၊ ဒီအကြောင်းကို သူများတွေ လျှောက်မပြောနဲ့။ မလုပ်တဲ့လူတွေက ဘယ်လိုမှ ယုံကြည်ကြမှာ မဟုတ်တော့ ငရဲကြီးတတ်တယ်".

ကျမ်းကိုး၊ယင်းစာ ၁၇၄

### သိဒ္ဓိပေါက်နည်း

"ဦးပဍ္ဍင်းတို့ ငါတို့ဒီလို အမြဲပူဇော်နေတာကို ဘုန်းကြီးချင်လို့၊ သိဒ္ဓိတွေပေါက်ချင်လို့ ထင်မှတ် ပြောဆိုမိရင် တို့များလည်း မကောင်းဘူး၊ ပြောတဲ့သူလဲ မကောင်းတော့ဘူး" ဟု မိန့်တော်မူ သည်။

ကျမ်းကိုး၊ယင်းစာ ၁၇၄

### ဘုရားရှင်ပညာတော်

မြတ်စွာဘုရားရှင် ကိုယ်တော်မြတ်ကြီးဟာ လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်း စီးပွားဥစ္စာ၊ အင်္ဂါခြေ လက် အသက်များစွာ စတေးပြီး ဆည်းပူးမှုရတော်မူတဲ့ သဗ္ဗညုတဉာဏ်တော်ကြီးနှင့် ဟောထား တဲ့ စာတွေ၊ တရားတွေဆိုတော့ လေးသင်္ချေ ကမ္ဘာတစ်သိန်းက အင်အား သတ္တိတွေ၊ တန်ခိုးတွေ စကားလုံးတိုင်း စကားလုံးတိုင်းမှာ အကုန်ပါဝင်ကိန်းအောင်းနေတာဟု မိန့်တော်မူပါသည်။

ကျမ်းကိုး၊ယင်းစာ ၁၇၅

### ပိဋကတ်သူရဲကောင်း

ဆရာတော်ဘုရားကြီးသည် မင်းကွန်းတောင်ရိုး ဓမ္မနာဒကျောင်းတိုက်ကြီး၌ သံဃာလေးငါးဆယ် ၏ ပရိယတ္တိပညာရေး ( ပရဟိတ၊ သာသနဟိတ) အတွက် ဦးစွာသော ပိဋကတ် သူရဲကောင်း ကြီး တစ်ဦး ထွက်ပေါ်နိုင်သည့်တိုင်အောင် အလေးပေးစွမ်းဆောင်တော်မူသည့် ကြားက အတ္တဟိတ၊ သာသနဟိတ ပြဆိုခဲ့သော ဓမ္မပူဇာအလုပ်ကိုလည်း ရာသက်ပန် ဝတ်မပျက် ဆောင်ရွက်တော်မူခဲ့၏။

ကျမ်းကိုး၊ယင်းစာ ၁၇၅

### အရည္ဝါသိ

စာဝါများ အားလပ်သည့်အခိုက်တွင်လည်း နေ့စဉ်လိုပင် အရည္ဝါသိ ဇကစာနေတော်မူလေ့ရှိ ကြောင်း သိမှတ်ရ၏။

ကျမ်းကိုး၊ယင်းစာ ၁၇၇

### နန္ဒမူလိုဏ်ဂူ

ဓမ္မနာဒချောင်၏ အနောက်မြောက်ဘက်တွင် ဥရုဝေလချောင်ဟူ၍ရှိသည်။ ယခု ဇောဓိပက္ကိ ချောင် မြောက်ပိုင်း၊ ယင်းချောင်သည် ဓမ္မနာဒချောင်နှင့်စာလျှင် လူသံ သူသံ ကင်းဝေးဆိတ်ငြိမ် ၍ တောင်ကမ်းပါးယံတွင် တစ်ပါးနေ လိုဏ်ဂူတစ်ခုကိုလည်း ဖန်တီးတော်မူထားသည်။ နန္ဒမူလိုဏ်ဂူ ဟု သမုတ်တော်မူထား၏။

ကျမ်းကိုး၊ယင်းစာ ၁၇၇

http://www.dhammadownload.com



**ဇေကစာ**

ဆရာတော်သည် နေ့စဉ်ပင် နန္ဒမူလိုဏ်ဂူ၌ ဇေကစာ သီတင်းသုံးကာ ဘာဝနာ တရားဖြင့် မွေ့လျော် နေတော်မူလေ့ရှိ၏။ ဗုဒ္ဓါနုဿတိ ဘာဝနာ၌ များစွာလေ့ထုံတော်မူ၏။

ကျမ်းကိုး၊ယင်းစာ ၁၇၇

ဆရာတော် ဇေကစာ သီတင်းသုံးသော နန္ဒမူလိုဏ်မှာ အမြဲတမ်း မွှေးကြိုင်သင်းပျံ့သော ရနံ့များ လှိုင်နေသည်ဟု ဆိုကြပါသည်ဟု မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ယင်းစာ ၁၇၇

မူလ ဓမ္မနာဒ ဆရာတော်ကား သက်တော်မရှည်ရှာပါ။ သက္ကရာဇ် ၁၂၉၉ ခုနှစ်၊ တော်သလင်း လပြည့်ကျော် ၉ ရက် သက်တော် ၅၂ နှစ်မှာ ပျံလွန်တော်မူခဲ့၏။

ကျမ်းကိုး၊ယင်းစာ ၁၇၇

**ပျံလွန်ခါနီးဟောသောတရား**

ပျံလွန်ကာနီး တရားနှင့်စပ်၍ ဆရာတပည့် ပြောဆိုကြသော စကားများမှာ အလွန်မှတ်သား ဖွယ်ရာ ကောင်း၏ ဟူ၍ သိရှိရပါသည်။

ကျမ်းကိုး၊ယင်းစာ ၁၇၇

အထက်ပါအကြောင်းအရာများမှာ ရဟန္တာနှင့် ရဟန်းထူးများ စာအုပ်ထူးကြီးတွင် ထည့်သွင်း ပူဇော် မှတ်တမ်းတင်ရန် အချက်အလက်များ ရှာဖွေသောအခါ ထူးခြားချက်များ တွေ့ရှိရမှု အခြေအနေဖြစ်ပါသည်။ ထို့ကြောင့် ကျွန်ုပ်သည် အရှင်ပညာစက္ကကိုယ်တော်မြတ်ကြီး အကြောင်းကို မှတ်စုကတ်တလောက်များ ရှာဖွေပြုလုပ်ရပါတော့သည်။ အောက်ပါ ခေတ်ပြိုင် မှတ်တမ်းကတ်တလောက်ကို ရရှိပါ၏။ ကြည့်ရှုတော်မူကြပါ။

အေဒီ ၁၈၈၅ — စစ်ကိုင်းတိုင်း၊ စစ်ကိုင်းမြို့နယ်၊ မင်းကွန်းတောင်ရိုး ဓမ္မနာဒကျောင်းတိုက် ပထမ ဆရာတော် ဦးပညာစက္ကမထေရ်သည် မြင်းခြံမြို့ သပြေပင်ရပ်၊ ခမည်းတော် ဦးတူ၊ မယ်တော် ဒေါ်အိမ်မြ တို့မှ မြန်မာသက္ကရာဇ် ၁၂၄၇ ခု၊ တော်သလင်းလဆန်း (၂) ရက် ကြာသပတေးနေ့တွင် ပညာဂြိုဟ်ကြီး တိုင်ထိပ်စီးလျက် မီးရှူးသန့်စင်ဖွားမြင်သော သားဦးရတနာပင် ဖြစ်ပါသည်။ ဆရာတော့်ငယ်မည်မှာ မောင်မြောက်ဖြစ်၍ မောင်ရောက်၊ မောင်မောက် ညီနှစ်ယောက်နှင့် မတင်ဟူသော နှမတစ်ယောက် ရှိပါသည်။

ကျမ်းကိုး၊ ဝိပဿနာရှုနည်း ၉ နည်း-ပဌမတွဲ၊ စာမျက်နှာ-၁၅၄

အေဒီ ၁၈၉၂ — ခုနစ်နှစ်အရွယ် ရောက်သောအခါ မိဘများက သားငယ်မောင်မြောက်ကို မြင်းခြံမြို့ မင်းကျောင်း တိုက် တနင်္ဂနွေထောင့်ကျောင်း ဆရာတော် ဦးကေသရ (ဦးရီးတော်)အထံ၌ အပ်နှံ၍ ပညာ သင်စေပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅၄

အေဒီ ၁၈၉၅ — ဆယ်နှစ်သားအရွယ်တွင် ဆရာတော် ဦးကေသရကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေ အဖြစ်သို့ ရောက်သည်။ စက်တမျှ ထက်မြက်လှသော ပညာရပ်ဉာဏ်ရှိမှုကို အကြောင်းပြု၍ ရှင်ပညာ စက္က သည် ဦးရီးတော် ဦးကေသရနှင့် မင်းကျောင်းတိုက် ဆရာတော်ကြီးအထံတွင် ပိဋကတ် အခြေခံစာများနှင့် ပါဠိတော် အဋ္ဌကထာများကို သင်ယူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅၄

အေဒီ ၁၉၀၂ — သာမဏေဘဝ တစ်ဆယ့်ခုနစ်နှစ်မှစ၍ ရဟန်း ၇ ဝါရသည့် တိုင်အောင် သဒ္ဒါနည်း၊ ဝါကျ

http://www.dhammadownload.com



နည်း၊ ဝိနိစ္ဆယနည်းတို့ကို ပိဋကတ်သုံးပုံ နိကာယ်ငါးရပ် ကူးခတ်ပေါက်မြောက်နိုင်သည် အထိ သင်ယူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅၄

အေဒီ ၁၉၁၂ မြန်မာသက္ကရာဇ် ၁၂၇၄ ခုနှစ်တွင် ဥရုဝေလချောင် အဝင်ဝရှိ ဒကာကြီးဦးပု၏ ကျောင်းငယ်ကို မြင်သည်။ တောင်ပေါ်၌ရှိသော အုတ်ကွပ်မိုး စကြံကျောင်းကိုလည်း ရွှေ့ပြောင်းပြင်သည်။ ထိုကျောင်းမှာ သီတင်းသုံးစဉ် စာပို့ချသည်။

ဓမ္မာစရိယဖြစ်သော ဦးပညာစက္ကအား ဆရာကြီး ဒေါ်ဓမ္မစာရီက နံနက်ဆွမ်း၊ နေ့ဆွမ်းတို့ဖြင့် နေ့စဉ်မပြတ် (နိဗဒ္ဓဝတ်ထား၍) ဆက်ကပ် လှူဒါန်းသည်။

ဦးပညာစက္ကက ဆရာကြီးဒေါ်ဓမ္မစာရီအား အဘိဓမ္မာ အဌကထာ၊ နေတ္တိပါဠိတော် အဌကထာ နှင့် ပဋ္ဌာန စသော ကျမ်းစာများကို ပို့ချပေး၍ ဓမ္မာနုဂ္ဂဟဖြင့် အတုံ့ပြန်ကာ ဆွမ်းကြွေးဆပ် တော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅၄

ဦးပညာစက္က မင်းကွန်းနေစက ခုနစ်ဝါမျှသာရှိပြီး ဓမ္မနာဒတိုက် တည်ပြီးသောအခါ ၁၃ ဝါမျှသာ ရှိသေးသော်လည်း သက်ကြီးဝါကြီးဆရာတော်ကြီးများသာ လုပ်နိုင်သည့် ပိုင်ပိုင်နိုင်နိုင် စာပေပို့ချမှု၊ ကြီးကျယ်သော သာသနာပြုလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက် စွမ်းနိုင်တော် မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅၅

အေဒီ ၁၉၂၇ ဆရာကြီး ဒေါ်ဓမ္မစာရီ၏ ဆက်သွယ်ပေးမှုကြောင့် သီလာရသော ဦးမြို့၊ ဒေါ်မမတို့မှာ မန်လည်ဆရာတော်ကြီး၏ တပည့်များဖြစ်ကြ၍ အပွေးမြင် အပင်သိကြရာ ဦးပညာစက္ကကို ဖူးတွေ့ရလျှင် သီလဂုဏ်၊ သမာဓိဂုဏ်၊ ပညာဂုဏ်ကို အလွန်ယုံကြည်ကြ၊ လေးစားကြသည်။ ဓမ္မနာဒ ကျောင်းတိုက်ဝယ် တင့်တယ်ခမ်းနားသော နှစ်ထပ်တိုက်ကြီး ဆောက်လုပ်လှူဒါန်းပြီး သက္ကရာဇ် ၁၂၈၉ ခုနှစ် တန်ဆောင်မုန်းလဆန်း ၁၀ ရက် သောကြာနေ့၌ ကျောင်းလွှတ်သဘင် ကြီးကျယ် စွာ ဆင်ယင်၍ ရေစက်ချလှူဒါန်းကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅၅

ဆရာကြီး ဒေါ်ဓမ္မစာရီ၏ ဆက်သွယ်ပေးမှုကြောင့်ပင် ရန်ကုန်မြို့ သူဌေးကြီး ဆာဦးသွင်နှင့် ဒေါ်ဒေါ်သိန်းတို့လည်း ဓမ္မနာဒ ဘုန်းကြီး ဦးပညာစက္ကအား ဆည်းကပ်ကိုးကွယ် လာကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅၅

အေဒီ ၁၉၁၂ မြန်မာသက္ကရာဇ် ၁၂၇၄ ခု မင်းကွန်းရောက်စကပင် နေ့ပရိယတ်၊ ညပဋိပတ် အလုပ်ဖြင့် သီတင်းသုံးခဲ့ရာ သက္ကရာဇ် ၁၂၉၇ ခုနှစ်တွင် ဆရာတော် ဦးပညာစက္က၏ သက်တော် ၅၀ ပြည့်ပြီဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅၅

အေဒီ ၁၉၃၅ 'ငါ့အလုပ် ငါလုပ်တော့မည်၊ ငါလည်း အသက်ငါးဆယ်ပြည့်ပြီ' ဟု မိန့်ဆိုကာ စာချဖို့အတွက် တိပိဋကဓရအလျာ အရှင် ဝိစိတ္တသာရအား လွှဲအပ်၍ ကျောင်းသားငယ်၊ ရှင်ရဟန်းငယ်များကို ထိန်းဖို့အတွက် ဦးနန္ဒိယအား လွှဲအပ်ကာ တရားဘာဝနာနှလုံးဖြင့် အချိန်ပြည့် အေးချမ်းစွာ သီတင်းသုံးနေတော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅၆

အေဒီ ၁၉၂၇ မြန်မာသက္ကရာဇ် ၁၂၈၉-ခုနှစ်၊ နှောင်းတပေါင်းလတွင် ဆရာတော်ဦးပညာစက္က၏ လည်ပင်း တွင် အနာရောဂါ စွဲကပ်လာသည်။

http://www.dhammadownload.com



**ပျံလွန်တော်မူခါနီးတွင် ပညာအမွေ ပေးတော်မူခြင်း**

အေဒီ ၁၉၃၇ မြန်မာသက္ကရာဇ် ၁၂၉၉ ခု ဦးတန်ခူးလတွင် မန္တလေးမြို့ ကင်းဝန်မင်းကြီးတိုက် သီရိဝေပုလ္လ ကျောင်းသို့ ကြွရောက်သီတင်းသုံး၍ မြန်မာဆေးပညာရှင်၊ အနောက်တိုင်း ဆေးပညာရှင်တို့၏ ကုသမှုကို ခံယူသည်။ အနာမှာ သက်သာသည် မရှိ၊ တစ်စတစ်စ တိုး၍ တိုး၍ ဆိုးလာသည်။ ဤမျှ ဆိုးဝါးသောဝေဒနာကို ခံရသော်လည်း ဆရာတော်၏ မျက်နှာမှာမူ ရှုံ့မဲ့ခြင်း၊ ဖောက်ပြန်ခြင်းမရှိသည့်အပြင် ညည်းညူမှု၊ ပင်ပန်းမှု အရိပ်အယောင်လုံးဝမရှိဘဲ ပကတိ တည်ငြိမ် အေးချမ်းစွာ သည်းခံနိုင်ပါသည်။

သီရိဝေပုလ္လ ဆရာတော်အရှင်ဇာဂရမထေရ်သည် ထိုအခြင်း အရာကို မြင်ရ၍ ဆရာတော်၏ သန္တာန်ဝယ် အထူး နှလုံးသွင်းထားအပ်သည့် တရားများ ကေန်ရှိမည်ဟု ယုံကြည်အားကိုးစွာ ဖြင့် "တပည့်တော်များ အသက်ထက်ဆုံး နှလုံးသွင်း၍ ကောင်းမည့်တရားကို ညွှန်ကြားတော်မူ ပါ" ဟု လျှောက်ထားတောင်းပန်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅၆

**စကားမပြောအား၍ မပြောနိုင်ဘဲ ဗလာစာအုပ်တောင်းကာ ရေးပေးတော်မူခြင်း အံ့ဖွယ်**

အေဒီ ၁၉၃၇ ထိုအခါ ဓမ္မနာဒဆရာတော်က အကျယ်တဝင့် ရှင်းလင်းဟောပြရန် ရောဂါ အခြေအနေက မပေးသဖြင့် "ဦးဇာဂရ ဗလာစာအုပ် တစ်အုပ်ပေးပါ" ဟု မိန့်မြွက်တော်မူကာ ဓာတ်ခြောက်ပါး သိမ်းဆည်းပုံ ဟူသော စာစောင်ငယ်ကို ရောဂါနှိပ်စက်ဒဏ်ခံရင်း ရေးသားတော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅၆

**ဓမ္မနာဒ ဆရာတော်၏ လက်ရေးမူ ပညာအမွေ**

အေဒီ ၁၉၃၇ ကျားကိုက်သည့် ဒဏ်ချက်၊ မြားမှန်သည့် ဒဏ်ချက်တို့ကို မရေတွက်ဘဲ တရားနှလုံးသွင်း၍ ကိစ္စပြီးမြောက်သွားသည့် အရှင်မြတ်များ ဥဒါန်းကျူးရင့်သွားကြသကဲ့သို့ ဓာတ်ခြောက်ပါး သိမ်းဆည်းပုံ စာစောင်ငယ်သည်လည်း ပထမ ဓမ္မနာဒဆရာတော်ဘုရား၏ လက်ဖြင့် ရေးသား သည့် ဥဒါန်းစကားဟုပင် ဆိုထိုက်ပေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅၆

**လွှာဘဝတွင် ကိစ္စပြီးခြင်း**

အေဒီ ၁၉၃၇ လူ့ဘဝတွင် ကိစ္စပြီး ပြည့်စုံသည့်အားဖြင့် သက္ကရာဇ် ၁၂၉၉ ခု၊ တော်သလင်းလပြည့်ကျော် ၉ ရက် နေ့တွင် ဘဝနတ်ထံ ပျံလွန်တော်မူလေသည်။

ကျမ်းကိုး၊ ဝိပဿနာရှုနည်း ၉ နည်း-ပဋ္ဌမတွဲ၊ စာမျက်နှာ-၁၅၄

ပျံလွန်ကာနီး တရားနှင့်စပ်၍ ဆရာတပည့် ပြောဆိုကြသော စကားများမှာ အလွန်မှတ်သား ဖွယ်ရာ ကောင်း၏ ဟူ၍ သိရှိရပါသည်။

ကျမ်းကိုး၊ ဓမ္မာစရိယ ဦးငွေးလှိုင်၊ ဓမ္မဒူတ ဒုတိယတွဲ၊ ယင်းစာ ၁၇၇

**ဆရာတပည့် အမေးအဖြေ**

ကျန်းမာရေးမကောင်း၍ လဲလျောင်းနေချိန်တွင် တရားအားထုတ်ရန် နန္ဒမူလိုဏ်ဂူသို့ မကြွနိုင်တော့ပါ။ အနီးကပ်ပြုစုနေသော တပည့်ရှင်ဝိစိတ္တသာရသည် ကျေးဇူးရှင်ဆရာတော် ဘုရားကြီး ရောဂါဝေဒနာ ဖိစီးမှုကြောင့် တရားနှလုံးသွင်းမှု မေ့လျော့နေမည်ကို စိုးရိမ်တော်မူ လှပါသည်။ တပည့်လိမ္မာပီပီ ဆရာသမားကို ပညာသားပါပါ သတိပေး မေးလျှောက်ပုံနှင့်

http://www.dhammadownload.com



မေတ္တာကြီးသော ဆရာသမား၏ အဖြေစကားများသည် သင်ခန်းစာယူဖွယ်ရာ ဖြစ်ပါသည်။

ကျမ်းကိုး၊ နဝဝုတဂီစာရ မဟာထေရ်၊ ကမ္မဋ္ဌာန်းဝင် သာသနာ့ သင်ခန်းစာကျမ်း၊ စာ ၅၀၂။

**ပညာပါသောအမေး**

"ဆရာတော်ဘုရားကြီး ဓိရုပ် စက်ဆုပ်ရွံရှာဖွယ်ရာ ရုပ်တရား ၊ ဓိနာမ် စက်ဆုပ်ရွံရှာဖွယ်ရာ နာမ်တရားတွေကို နှလုံးသွင်းလျက် ပြည့်စုံနိုင်တယ် မဟုတ်လားဘုရား ဘာလိုသေးတယ်လို့ ပြောစရာမရှိဘူး မဟုတ်လားဘုရား" ဟု မေးလျှောက်တော်မူပါသည်။

ကျမ်းကိုး၊ နဝဝုတဂီစာရ မဟာထေရ်၊ ကမ္မဋ္ဌာန်းဝင် သာသနာ့ သင်ခန်းစာကျမ်း၊ စာ ၅၀၂။

**တာဝန်သိသောအမေး**

တာဝန်သိသော တပည့်ချစ်၏ စိုးရိမ်ကြောင့်ကြသော သတိပေးအမေးကို နည်းညွှန်လမ်းပြ ဓမ္မအမွေပေးတော်မူရာ ရောက်အောင် နှလုံးသွင်း၍ ပြန်လည်ဖြေကြား နှစ်သိမ့်ဆုံးမတော်မူပါသည်။

**တရားပေါက်သောအဖြေ**

"ဝဇီရာထေရီမလေးဟာ အသက် ၇ နှစ်သာ ရှိသေးတဲ့ ရဟန္တာမလေး ဖြစ်ပါတယ်။ ဒီရဟန္တာမလေးကို မာရ်နတ်က မဟုတ်မဟတ်ပြောတော့၊ ဒီရဟန္တာမလေးက ရုပ်နာမ်နှစ်ပါး ဒုက္ခတရားဟာ ခဏပဲတည်တယ်၊ ခဏနဲ့ချုပ်ပျောက်တယ်၊ ဒုက္ခရဲ့ တရားကိုယ်က ရုပ်နာမ်တွေပဲလို့ တအား ဉာဏ်ထက်တဲ့ ပုဂ္ဂိုလ်ဆိုတော့ ရုပ်နာမ်တွေ အကုန်မြင်တယ်ကွ၊ အဲဒီတော့ တို့တတွေက ဒါဇီဝပဲ၊ ဒါအတ္တပဲလို့ ညွှန်ပြစရာမရှိပါဘူး။ ခန္ဓာရုပ်နာမ်လို့ နှလုံးသွင်းကွာ သိပ်ကောင်းတာပဲ" လို့ မိန့်တော်မူပါသည်။

ကျမ်းကိုး၊ နဝဝုတဂီစာရမဟာထေရ်၊ ကမ္မဋ္ဌာန်းဝင် သာသနာ့သင်ခန်းစာကျမ်း၊ စာ ၅၀၃။

**တရားထူးရသောအဖြေ**

နားသတိ အသိဉာဏ်ရှိသော ရှင်ဝိစိတ္တသာရသည် အရှုပဘုံ၊ အသညသတ်ဘုံများတွင် ကျေးဇူးရှင် ဆရာသခင် ခေတ္တနားခိုမည်ကို စိုးရိမ်ပူပန်နေရာမှ ဆရာတော်ဘုရား၏ အဖြေစကားကို ကြားနာရသောအခါ အလွန်ဝမ်းသာသွားပါသည်။

ကျမ်းကိုး၊ နဝဝုတဂီစာရ မဟာထေရ်၊ ကမ္မဋ္ဌာန်းဝင် သာသနာ့ သင်ခန်းစာကျမ်း၊ စာ ၅၀၃။

အထက်ပါ အချက်အလက်များမှာ သာသနာ ၂၅၀၀ ပြည့်တွင် ရှေ့ဆင့်နောက်ဆင့် ပေါ်တော်မူသော သာသနာ့အာဇာနည်သူရဲကောင်းများအဖြစ် မှတ်တမ်းတင်ထိုက်သော ခေတ်ပြိုင်မှတ်တမ်းများ ဖြစ်ပါသည်။ ဆရာလည်း တရားပေါက်တော်မူ၏။ တပည့်လည်း တရားပေါက်တော်မူ၏။ ဆရာလည်း တာဝန်ဖြင့် လူ့ပြည်သို့ ရောက်လာ၏။ တပည့်လည်း တာဝန်ဖြင့် လူ့ပြည်သို့ ရောက်လာ၏။ သာသနာ တာဝန်များ ပြီးဆုံးသောအခါ ဆရာဖြစ်သူလည်း မိမိမူလနေရာသို့ ပြန်ကြွတော်မူ၏။ တပည့်ဖြစ်သူလည်း မိမိမူလနေရာသို့ ပြန်ကြွတော်မူ၏။ ဆရာသည် ပညာစက္ကုမည်သော နတ်သားထူးဖြစ်၏။ တပည့်သည် ပညာစရမည်သော နတ်သားထူး ဖြစ်၏။ ဟူသော အချက်ကို ဆရာကြီး ဓမ္မာစရိယ ဦးဌေးလှိုင်က အသေအချာ မှတ်တမ်းတင်ခဲ့ပါသည်။

ကျမ်းကိုး၊ နဝဝုတဂီစာရ မဟာထေရ်၊ ကမ္မဋ္ဌာန်းဝင် သာသနာ့သင်ခန်းစာကျမ်း၊ စာ ၅၀၃။
ကျမ်းကိုး။ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ဓမ္မဒူတ ဒုတိယအုပ်၊ ၁၉၈၈ ခုနှစ်၊ ပထမအကြိမ်၊ စာမျက်နှာ ၁၈၂ ကိုအသေအချာ ကြည့်တော်မူကြပါ။
ကျမ်းကိုး။ ကျော်နန္ဒအောင်၊ ဝိပဿနာရှုနည်း ၉ နည်း-ပဋ္ဌမတွဲ၊ စာမျက်နှာ-၁၅၄။

http://www.dhammadownload.com



# မိုးတားမြို့မှ အဘိညာဉ်ရဆရာတော်ကြီး

# ဦးဥဒေယျမမွ

(၁၈၈၅ - ၁၉၅၅)



http://www.dhammadownload.com



ချာန်အဘိညာဉ် ရသည်ဟူသော စကားကို ဤကျမ်းပြုသူသည် အလွန်ကြည်ညို ပူဇော်ချင်ပါသည်။ ထို့ကြောင့် အချက်အလက်များ လေ့လာရှာဖွေရပါသည်။ ထိုအခါ မိုးတားမြို့မှ အဘိညာဉ် ဆရာတော်ကြီးဟူသော စာကို ဖတ်ရှု ကြည်ညိုရပါသည်။

ကျမ်းကိုး၊ အရှင်သံဝရသီလ (ဝန်ပို)၊ သူရဋ္ဌမဂ္ဂဇင်း၊ ၂၀၀၇ ခုနှစ်၊ ဒီဇင်ဘာလ၊ စာ - ၄၉

ခရစ်နှစ် ၂၀၀၇ ခုနှစ်၊ ဖေဖော်ဝါရီလထုတ် သူရဋ္ဌမဂ္ဂဇင်း အတွဲ (၇)၊ အမှတ် (၉)တွင် စာရေးဆရာမ ရတနာဒေဝီ၏ ရဟန္တာကို ဖူးမြော်ရခြင်း ဆောင်းပါးကို အမှတ်မထင်ဖတ်ရှု လိုက်ရ၏။

ကျမ်းကိုး၊ အရှင်သံဝရသီလ (ဝန်ပို)၊ သူရဋ္ဌမဂ္ဂဇင်း၊ ၂၀၀၇ ခုနှစ်၊ ဒီဇင်ဘာလ ၊ စာ - ၄၉

**အဘိညာဉ်ရ သီးလုံးဆရာတော်**

အဘိညာဉ်ဟူသော စကားကို ရှာဖွေရာ ရှေးကတည်းက မှတ်တမ်းရှိကြောင်း တွေ့ရ၏။ ကင်းတောရဆရာတော်သည် ထန်းနှစ်ဖျားခန့် အထက်ကောင်းကင်သို့ ရောက်သွားပြီးလျှင် ကောင်းကင်၌ရပ်လျက် သီးလုံးဆရာတော် နေရစ်ပေတော့ဆို၍ ကောင်းကင်ကပင် ကြွသွား တော်မူလေသည် ဟူသော စကားကို စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာဆရာတော်ဘုရား မှတ်တမ်း တွင် ဖတ်ရှုရပါသည်။

ကျမ်းကိုး၊ စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာဆရာတော် အရှင်ပဏ္ဍိတ စီရင်ရေးသားအပ် သော ရွှေကျင်နိကာယ သာသနာဝင်အကျဉ်းနှင့် ရွှေကျင်ဆရာတော်ဘုရားကြီး၏ ဩဝါဒ ကထာများ ၁၉၈၈ ခုနှစ်၊ စာ ၈၀ တွင် ကြည့်ပါ။

**ချာန်အဘိညာဉ် ဆရာတော်အကြောင်း**

ချာန်အဘိညာဉ် သီးလုံးဆရာတော် အရှင်မြတ်ကြီးအကြောင်းကို ဤစာရေးသူကိုယ်တိုင် ရေးသားခဲ့ဖူးပါသည်။

ကျမ်းကိုး။ အချစ်ဂျာနယ် မောင်ပန်းမွှေး၊ ချာန်အဘိညာဉ်ရ သီးလုံးဆရာတော်၊ အတွဲ ၄၊ အမှတ် ၃၉၊ ၂၆-၁၂-၂၀၀၅ တွင် ကြည့်ပါ။

**ရွှေတိဂုံသို့ ချက်ခြင်း ကြွတော်မူခြင်း**

သီးလုံးဆရာတော်သည် ရွှေတိဂုံသို့ လျှပ်တစ်ပြက်အတွင်း ကြွတော်မူပြီးနောက် ထိုတစ်ခဏချင်း မှာပင် ရွာသို့ ပြန်ရောက်ပြီးလျှင် ဆွမ်းခံတော်မူလေသည်ဟု မှတ်တမ်းရှိပါသည်။

ကျမ်းကိုး၊ ဦးဘခိုင်၊ သီးလုံးဆရာတော် မဟာထေရုပ္ပတ္တိ ၁၂၉၁ ခုနှစ် တော်သလင်းလ၊ ပုံနှိပ်၊ ပထမအကြိမ်၊ အုပ်ရေ ၅၀၀ ထုတ်ဝေရာဌာန၊ ရန်ကုန်၊ ၁၄၁ လမ်း အမှတ် ၃၄- ၃၆ နေပြည်တော်စာအုပ်တိုက် စာ ၇၁-၇၂ ကို ကြည့်ပါ။

**ဂျပန်အမေး ဝေဘူဆရာတော်အဖြေ**

၁၉၇၅ ခရစ်နှစ် ၁၉၇၅ ခုနှစ်တွင် ဂျပန်ပြည်မှ ဘုန်းတော်ကြီးများ ဝေဘူချောင်သို့ ကြွလာကြပါသည်။ ထိုအခါ ဝေဘူဆရာတော်ကြီးအား "အရှင်ဘုရား ချာန်ပျံကြောင်း ကြားရတာ မှန်ပါသလား" ဟု မေးလျှောက်ကြရာ "ဘုရားရှင်လက်ထက်တော်က ရတာမျိုးတွေကို ပြောတာတူပါတယ်" ဟု ပြန်လည်မိန့်ကြားတော်မူပါသည်။

ကျမ်းကိုး၊ တင်အောင်သွင်၊ ဝေဘူဆရာတော်ဘုရားကြီး၊ ဂန္ထိရမဂ္ဂဇင်း ၂၀၀၃ ခုနှစ်၊ အောက်တိုဘာလ၊ စာ ၅၁-၅၂ ကို ကြည့်ပါ။

**တန်ခိုးဣဒ္ဓိဝိဓကို သာသနာအကျိုးငှာ မွှင့်လင်းစွာသုံးစွဲခြင်း**

ဝေဘူဆရာတော်ကြီးသည် ဒုတိယ ကမ္ဘာစစ်ကြီးမတိုင်မီကတည်းကပင် သာသနာတော်၏

http://www.dhammadownload.com



အကျိုးငှာ ကွတ္တိဝ်ကို ပွင့်လင်းစွာ သုံးခဲ့သည်ဟု သိရပါသည်။ နံနက် စောစော အိပ်ရာထ လုပ်ငန်းခွင် ဝင်ကြသော မိလ္လာသိမ်း ကုလားများ နွားနို့ရောင်းကုလားများက "ဒီတောင်ပေါ်မှာ မြန်မာဘုန်းကြီး လူစွမ်းကောင်း ရှိတယ်" ဟု ပြောကြ၍ ကျောင်းဒကာကြီးမှာ အင်္ဂလိပ်အစိုးရ အဖမ်းခံရမည်စိုး၍ လိုက်လံ ပိတ်ပင်ရဖူးလေသည်။

ကျမ်းကိုး၊ တင်အောင်သွင်၊ ဝေဘူဆရာတော်ဘုရားကြီး၊ ဂမ္ဘီရမဂ္ဂဇင်း ၂၀၀၃ ခုနှစ်၊ အောက်တိုဘာလ၊ စာ ၅၁-၅၂ ကို ကြည့်ပါ။

**နံနက် တစ်ကြိမ် ည တစ်ကြိမ် ချာန်ဖြင့် ပူဇော်ခြင်း**

ဝေဘူဆရာတော်သည် နံနက်တစ်ကြိမ် ညတစ်ကြိမ် တန်ခိုးဖြင့် တောင်ရိုးတစ်လျှောက် စေတီတော်များအား မီးပူဇော်လေ့ ရှိသည်။

ကျမ်းကိုး၊ မောင်ပန်းမွေး ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မစာအုပ်တိုက်၊ ပထမအကြိမ်၊ ၂၀၀၈ ခု၊ အောက်တိုဘာလ၊ စာ ၆၀၆ ကို ကြည့်ပါ။

**အခြား ရှာမတွေ့ရှိရသော မိုးတားမြို့မှ အဘိညာဉ်ရ ဆရာတော်**

အစဉ် ရေးသားဖော်ပြထားသည့် ရဟန္တာ ဆိုသော ဆရာတော်ကြီးမှာ စာရေးသူတို့ ငယ်စဉ်ကပင် စာရေးသူတို့၏ ကသာ၊ မိုးတား၊ ဗန်းမော်နယ်များ၌ ယနေ့ထက်တိုင် ပြောမဆုံးနိုင်အောင် ရှိနေကြသော ဆရာတော်ကြီး၏ အကြောင်းအရာများပင် ဖြစ်ပါ၏ဟူ၍ မှတ်တမ်းပြုသူက ပြောဆိုပါသည်။

ကျမ်းကိုး၊ အရှင်သံဝရသီလ (ဝန်ပို)၊ သူရဋ္ဌမဂ္ဂဇင်း၊ ၂၀၀၇ ခုနှစ် ဒီဇင်ဘာလ စာ ၄၉ ကို ကြည့်ပါ။ မိုးတားမြို့မှ အဘိညာဉ် ဆရာတော်ကြီး ဦးဥေယျမွေ။

ကျမ်းကိုး၊ မိုးတားတောင်ပေါ်ကျောင်းဆရာတော်မှာ စာရေးသူတို့ကို အမြဲ ဆိုဆုံးမလေ့ရှိသော ဆရာရင်းသဖွယ်ဖြစ်သလို စာပေဆရာလည်း ဖြစ်ပါ၏။ မိုးတား အရှင် ကုမုဒ၊ ကျော်မိုးနိုင် (မိုးတား) ကလောင်အမည်တို့ဖြင့် စာပေကဗျာများကို ရေးသားနေပြီး ဗန်းမော်၊ ရွှေကူ၊ မိုးတား၊ ကသာနယ်များ၌ ဆရာတော်၏ သာသနာပြု ဂုဏ်သတင်းမှာ သင်းပျံ့လှပါ၏။ ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၉။

**အုတ်ဂူကြီး ယနေ့တိုင် ရှိသေးခြင်း၊**

ကိုက် (၁၀၀) ခန့် လျှောက်ခဲ့ကြပြီး အိုင်တလူ မြတ်စွာဘုရားကြီးအနောက်ဘက်၌ အုတ်ဂူကြီး တစ်ခုကို တွေ့လိုက်ကြရ၏။ ကြီးမားလှသော အုတ်ဂူကြီးဖြစ်ပြီး အလျား (၁၂) ပေ၊ အနံ (၈)ပေ၊ အမြင့် (၂၀) ပေခန့် ရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၀

**အလောင်းတော် တည်ရာ**

အုတ်ဂူ၏ ရှေ့တွင် ဆရာတော်က ရပ်လျက် လက်ညှိုးညွှန်ပြပြီး "အဲ့ဒါပဲကွယ့်၊ မဂ္ဂဇင်းထဲမှာ ပါတဲ့ ဆရာတော်ကြီးဆိုတာ။ ဒါသူ တရားအားထုတ်သွားတဲ့ဂူ။ ပျံလွန်တော်မူတော့လည်း အလောင်းတော်ကို ဒီဂူထဲမှာပဲ ဂူသွင်းလိုက်ကြတယ်"

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၉

အေဒီ ၁၉၃၉ ဤမျှကြီးမားသောဂူကို ကြည့်ပြီး စာရေးသူတို့ အားလုံး ရင်သပ်ရှုမော ဖြစ်ကြရ၏။ ဂူကြီး၏ အနောက်ဘက် (၁၀) ပေ ခန့်အမြင့်တွင် မြန်မာသက္ကရာဇ် ၁၃၀၁ ခုနှစ်၊ ဝါဆိုလဆန်း ၁ ရက်နေ့ပြီးစီးသည်ဟု ကမ္ပည်းရေးထိုးထားသည်ကို ထင်ထင်ရှားရှား တွေ့ကြရ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၀

http://www.dhammadownload.com



ဆရာတော်ကြီးရဲ့ ဘွဲ့တော်က ဦးဥေ ယျ၊ဓမ္မ ခေါ်တယ်ကွယ့်၊ ဦးပဥ္စင်းကိုယ်တိုင် သက်တော်ထင်ရှား မိရုံလေးမိလိုက်ပေမယ့် ဦးပဥ္စင်းက ဆရာတော်ကြီးရဲ့ တတိယမြောက် သာသနာ့အမွေ ဆက်ခံခဲ့ရတာဆိုတော့ ဦးပဥ္စင်းရဲ့ ဆရာအရင်း ဆရာတော် ဦးသီလဝံသဆီကနေပြီး ဆရာတော်ကြီးအကြောင်း ကောင်းကောင်းသိခွင့်ရခဲ့တယ်ဟု ကိုယ်တွေ့ ရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၀

**သိမ်ပေါမင်း ပါတော်မူသောနှစ်တွင် မှတ်မှတ်ရရ မွေးဖွားခြင်း**

အေဒီ ၁၈၈၅ ဆရာတော်ကြီးကို ပြိတိသျှခေတ်တွင် ကသာခရိုင်၊ မိုးတားမြို့ ရွှေအခေါ် ရေလဲပိုင်း ယခုအခေါ် အရှေ့ရပ်၌ ခမည်းတော် အမည် မမှတ်မိ၊ မယ်တော်ဒေါ်ဂျန်တို့မှ မြန်မာသက္ကရာဇ် ၁၂၄၇ ခုနှစ်၊ နှောင်းတန်ခူး လပြည့်ကျော် ၆ ရက် ၊ အင်္ဂါနေ့၌ မိးရှုးသန့်စင် ဖွားမြင်တော်မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၁

မွေးချင်း ညီအစ်ကိုတော်နှစ်ယောက် ရှိသည်။ အစ်ကိုကြီးမှာ ဦးဆွဲ ဖြစ်ပြီး ဆရာတော်ကြီး၏ ငယ်မည်မှာ မောင်မြဲ ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၁

အေဒီ ၁၉၀၅ ငယ်စဉ်ကာလမှာပင် မိုးတားတောင်ပေါ် ကျောင်းဆရာတော်ထံ၌ ရှင်သာမဏေဘဝဖြင့် စာပေ ပရိယတ္တိ သင်ကြားခဲ့ပြီး သက္ကရာဇ် ၁၂၆၇ ခုနှစ်တွင် ရဟန်းဖြစ်တော်မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၁

အေဒီ ၁၉၄၅ သက်တော် (၆၀)၊ သိက္ခာတော် (၄၀) အရတွင် မိုးတားအထက်ဂိုဏ်း ကျောင်းတိုက် (၂၃) တိုက်တို့၏ ဂိုဏ်းချုပ်ဆရာတော်အဖြစ် ရွေးချယ်တင်မြှောက်ခြင်း ခံရ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၁

**တစ်ပါးတည်း တရားအားထုတ်တော်မူခြင်း**

သို့သော် ဆရာတော်ကြီးမှာ ရပ်ရေးရွာတာ ကျောင်းတိုက်တာတို့၏ ကိစ္စအဝဝကို ငြီးငွေ့တော်မူနေသည့်အတိုင်း ဘွဲ့ထူး၊ ဂုဏ်ထူး၊ ဂိုဏ်းချုပ်တာဝန်တို့ကို ငြင်းပယ်တော်မူပြီး မိမိ၏ လက်ရင်းတပည့် ဆရာတော် ဦးမာယိန္ဒထံ ကျောင်းတိုက်တာ တစ်ခုလုံးအား လွှဲအပ်ကာ မိုးတားမြို့မှ တစ်မိုင်ကွာ ဆိပ်သာအိုင်တလူဘုရားသို့ တစ်ပါးတည်း ကြွသွားတော်မူခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၁

**ငါသေလျှင် ဒီနေရာမှာ ဂူသွင်းဖို့ ဂူကြီးတည်ဆောက်ခြင်း**

အိုင်တလူဘုရားကြီး၌ပင် "ငါသေလျှင်လည်း အလောင်းကို ဤနေရာမှာပင် ဂူသွင်းပေတော့" ဟု မှာထားလျက် ဂူကြီးတစ်လုံး တည်ဆောက်ပြီး လူသံ သူသံ တိတ်ဆိတ်သည့် ဤဂူတွင်းမှာပင် အာနာပါန ကမ္မဋ္ဌာန်းတရားကို အရိုးကြေကြေ အရေခန်းခန်း မလျှော့တမ်း ဇွဲ လုံ့လဖြင့် ပြင်းထန်စွာ အားထုတ်တော်မူခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၁

**နယ်ချဲ့ခေတ်တွင် တောကြီးတောင်ကြီးထဲ သစ်ကျား၊ ဆင်ပြောင်အကြား တရားအားထုတ်တော်မူခြင်း**

မြန်မာနိုင်ငံမှာ ခေတ်ဆိုးစနစ်ဆိုးတို့၏ သားကောင်ဖြစ်နေရသော အချိန်ဖြစ်၏။ အင်္ဂလိပ်တစ်လှည့်၊ ဂျပန်တစ်လှည့်၊ မဟာမိတ်တပ်တို့က တစ်လှည့်ဖြင့် အလှည့်အပြောင်းတွေ မြန်ဆန်လွန်းလှ၏။

http://www.dhammadownload.com



စိမ့်ကြီးမြိုင်ကြီး ရိပ်ကြီးတောတောင် နေရောင်မခ အိုင်တလူ ဆိပ်သာဒေသသည် လူသူ အရောက်အပေါက် နည်းသလောက် သစ်၊ ကျား၊ ဆင်၊ ပြောင် စသော တောကောင်ကြီးများ ကြီးစိုးသည့်ဒေသဖြစ်၏။ အသက်ကို ပဓာနမထားဘဲ အာနာပါနကျင့်စဉ်များကို တစိုက် မတ်မတ် အားထုတ်နေခဲ့သော ဆရာတော်ကြီး၏ ဂုဏ်သတင်းများမှာ ကသာ၊ ဗန်းမော်၊ ရွှေကူ၊ မံစီနယ်များအထိ ပျံ့နှံ့နေခဲ့၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၁

**အခြား ရွာတစ်ရွာတွင် ဆွမ်းခံကြွသည်ဟု နှစ်ကိုယ်ခွဲ ကျော်စောတော်မူခြင်း**

ဦးရှိန် အကြီးအကျယ် အံ့ဩသွား၏။ တကယ်တော့ မံသာရွာဆိုတာ ကချင်ပြည်နယ် မံစီမြို့နယ် ထဲမှာ မိုးတားကသွားလျှင် မြစ်ချောင်းတောတောင် အထပ်ထပ် ကျော်ဖြတ်လျက် လေးငါးည အိပ်လောက်သွားရ၏။ တစ်ခါတွင်လည်း ဖောင်စုန်သွားရင်းပင် ဗန်းမော် အထက် ပိုင်း မိုးလဲချောင်း သိမ်သော်ရွာ ဝိလာသတောင်မှ သီလရှင်လေးပါးတို့ကလည်း သူတို့ထံ ဆိပ်သာဘုန်းကြီး ဆွမ်းခံကြွခဲ့ကြောင်း ပြောကြသည်ကို ကိုယ်တိုင်ကြုံခဲ့ရ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၂

**ဆရာတော်ကြီး နောက်မှ ရောက်လာခြင်း အံ့ဖွယ်**

မျက်စိတစ်ဖက်လပ် ကပ္ပိယကြီး ကွယ်လွန်ပြီးနောက် ဆိပ်သာရွာမှ ဦးညို၊ ဦးထွန်းဖေတို့က ကပ္ပိယအဖြစ် ဆောင်ရွက်နေစဉ် တစ်ညနေ ဆရာတော်ရှေ့၌ ခေါက်ဆွဲစားချင်ကြောင်း ပြောမိ ကြရာ ဆရာတော်က နေရာမှထ၍ အနောက်ဘက်သို့လှည့်ပြီး အသံကျယ်ကျယ်ဖြင့် 'ခေါက်ဆွဲ စားချင်တယ်ဟေ့' လို့ ဟစ်အော်လိုက်၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၂

နောက်နေ့ မနက်စောစောတွင် မိုးတားအရှေ့ရပ်မှ တရုတ်လူမျိုး ဦးစိန်ရွှေမိသားစု တို့မှ ဆရာတော်ကို ခေါက်ဆွဲဆွမ်းများ အလှူပယ်လာကပ်ကြသည်ကို ကပ္ပိယကြီးများထံမှ သိခဲ့ရ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၂

**ဧည့်သည်များ လာမည်ကို ကြိုတင်သိ၍ တဲကြီးကြီးဆောက်ခိုင်းခြင်း အံ့ဖွယ်**

ဆရာတော်အား ဖူးမြော်လာကြသူများမှာ (၁၅၀)၊ (၂၀၀) ခန့် နေ့တိုင်းလိုလိုပင် ရှိ၏။ တစ်ခါသော် ဆရာတော်က- "ဟေ့-ဖိုးသံနဲ့ ထွန်းဖေ၊ နက်ဖြန်ကို လူတစ်ထောင်ကျော် လောက် လာကြလိမ့်မယ်။ တို့ ဒီတဲကလေးတွေနဲ့ မလောက်ဘူး၊ ရွာက လုပ်တတ်တဲ့လူလေး တွေခေါ်ပြီး တဲကြီးကြီး ဆောက်ထားလိုက်ကြ" ဟု အမိန့်ရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၂

**ရေလိုချင်တယ်ဟေ့ဟု အော်လိုက်သောအခါ သောင်ပြင်ပေါ်သို့ ရေများအလိုလို တက်လာခြင်းအံ့ဖွယ်**

ချက်ချင်းတဲဆောက်ပြီး နောက်တစ်နေ့တွင် တကယ်ပင် လူတစ်ထောင်ကျော်ခန့် ရောက်လာ ခဲ့ကြ၏။ အခြားထူးခြားလှသောအကြောင်းအရာများလည်း များစွာပင် ရှိပါ၏။အထူးခြားဆုံး အကြောင်းအရာမှာ နွေခေါင်ခေါင် တပေါင်းလဖြစ်သော ကာလ၌ အိုင်တလူ မြတ်စွာဘုရားပွဲ အတွက် ရေအခက်အခဲကို ဒကာ၊ ဒကာမများက လျှောက်ထားကြရာ ဆရာတော်ကြီးကိုယ်တိုင် ဧရာဝတီမြစ်ကမ်းပါးထိပ်မှ အရှေ့ဘက်သို့ မျက်နှာမူ၍ 'ရေလိုချင်တယ်ဟေ့' ဟု သုံးကြိမ် ဟစ်အော်လိုက်ရာ မကြာမီ သောင်ပြင်ပေါ်သို့ ရေများ လွှမ်းတက်လာကြသည်ကို ယခု သက်ရှိ ထင်ရှားရှိ ဦးရှိန်နှင့်တကွ နယ်သူနယ်သားများ အံ့ဩမဆုံးနိုင်အောင် မြင်တွေ့လိုက်ကြရပေ၏။

http://www.dhammadownload.com



ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၂

**မျောသွားသောလှေများကို အစီအရီ ချည်နှောင်ထားခြင်း အံ့ဖွယ်**

"ဆရာတော်ဘုရား၊ ရေတွေ ရောက်လာတာတော့ ဟုတ်ပါပြီ။ ဘုရား တပည့်တော်တို့ လှေတွေ အားလုံးလည်း ရေထဲ မျောပါကုန်ပါပြီ ဘုရား"

"ဟေ-အေးအေး၊ မင်းတို့လှေတွေ မမျောပါဘူးကွယ်။ ဒူးညှပ်လျှိုဆိပ်မှာ သွားယူလိုက်ကြ" ဟု အမိန့်ရှိ၍ လှေပိုင်ရှင်များ သွားကြည့်ကြရာ ဒူးညှပ်လျှိုဟု အမည်တွင်သော ယခု ဒဂုန်သစ်ဆိပ်တွင် လူများ ချည်ထားသည့်အတိုင်း၊ အစီအရီ ရှိနေသော လှေများကို အံ့သြစွာ တွေ့လိုက်ရလေ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၂

**ဆင်သံ ကျားသံများအကြားတွင် တရားဟောခြင်း**

အေဒီ ၁၉၄၈ ခရစ်နှစ် ၁၉၄၈ ခု၊ မြန်မာနိုင်ငံ လွတ်လပ်ရေးရပြီးကာလနောက်ပိုင်း ဆရာတော်ကြီးသည် ဖူးမြော်ရန် လာရောက်ကြသည့် ဒကာ၊ ဒကာမများကို မကြာမကြာ တရားဟောကြားတော်မူလေ့ရှိ၏။

အေဒီ ၁၉၅၅ တောတွင်းမှ ဆင်သံ၊ ကျားသံများ ကြားနေကြရလျှင်လည်း မည်သို့မျှ အန္တရာယ် မပြုကြောင်း၊ ကြောက်ရွံ့ထိတ်လန့်ခြင်း မဖြစ်ကြရန် ပြောကြားပြီး အာနာပါန အခြေခံသည့် သမထ၊ ဝိပဿနာ တရားများ အစဉ်တစိုက် ဟောကြားတော်မူ၏။

အေဒီ ၁၉၅၅ မြန်မာသက္ကရာဇ်၁၃၁၇ ခု၊ ပြာသိုလဆန်း ၅ ရက် အင်္ဂါနေ့တွင် ဘ၀ခန္ဓာ ချုပ်ငြိမ်းတော်မူခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၂

အေဒီ ၂၀၀၇ ယခု မိုးတားမြို့ တောင်ပေါ်ကျောင်း ဆရာတော်ကိုယ်တိုင် ဦးစီးပြုပြင်ထားသော သမိုင်းဝင် အိုင်တလူ ဆိပ်သာစေတီတော်မြတ်ကြီး၏အနီး၌ ဆရာတော်ဘုရားကြီး၏ အုတ်ဂူတော်မှာ မပျက်မစီး ထင်ရှားစွာ ကျန်ရှိနေပါသေး၏။

ကျမ်းကိုး၊ အရှင်သံဝရသီလ (ဝန်ပို)၊ သူရဋ္ဌမဂ္ဂဇင်း၊ ၂၀၀၇ ခုနှစ်၊ ဒီဇင်ဘာလ ၊ စာမျက်နှာ - ၄၉

အထက်ပါ မိုးတားဆရာတော်ကြီးအကြောင်းကို ဖတ်ရှုရသောအခါ ဝေဘူဆရာတော်ကြီး၏ မိန့်ခွန်းတော်ကို အောက်မေ့ဖွယ်ရာ ဖြစ်ပါသည်။ တို့ဘုရား သာသနာက လိုတရသကွဲ့ ဟူသော မိန့်ခွန်းတော်ကြီး ကို ဝေဘူဆရာတော်ကြီးက ရဲရဲဝံ့ဝံ့ ပြောကြားတော်မူပါသည်။ သစ်ပင်ရှိရင် ဆွမ်းရတယ်ကွဲ့ဟူသော စကားကို မှတ်တမ်းတင်ကြရပါသည်။

ကျမ်းကိုး။ နဝဓုတင်္ဂီစာရ မဟာထေရ်၏ ကမ္ဘာ့ဂန္ထဝင်သာသနာသင်ခန်းစာကျမ်း၊ ဝေဘူဆရာတော်ကထ္ထာတွင် အသေအချာ ပါရှိပါသည်။

ကျွန်ုပ်တို့ ဗမာဘုန်းကြီးတွေက ကောင်းကင်လည်း ပျံလို့ရတယ်။ မိုးရွာအောင် လုပ်လို့လည်း ရတယ်၊ လေမုန်တိုင်းကြီးကိုလည်း တားနိုင်တယ်။ တတိယ ကမ္ဘာစစ်ကြီးကိုလည်း ရွှေ့နိုင်တယ် ဟူ၍ပင် တောင်တန်းသာသနာပြု ပရိတ်ရေဆူ ဆရာတော်ကြီး အဘိဓဇ အဂ္ဂမဟာသဒ္ဓမ္မဇောတိက ဘဒ္ဒန္တဥတ္တမသာရ ကိုယ်တော်ကြီးက ရဲရဲဝံ့ဝံ့ မိန့်တော်မူပြီးသည်ကို အောက်မေ့ဖွယ် မှတ်တမ်းတင်ဖွယ် ဖြစ်ပါသည်။

ကျမ်းကိုး။ နဝဓုတင်္ဂီစာရ မဟာထေရ်၏ ကမ္ဘာ့ဂန္ထဝင်သာသနာသင်ခန်းစာကျမ်း၊ ဝေဘူဆရာတော်ကထ္ထာတွင် အသေအချာ ပါရှိပါသည်။

http://www.dhammadownload.com



ကျမ်းကိုး။ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ဓမ္မဒူတ ပ -ဒု- တ - တွဲ များကို အကျယ်တဝင့် ဖတ်ရှုတော်မူကြပါ။ ဆရာကြီးသည် စေ့စေ့စပ်စပ် မှတ်တမ်းတင်ခဲ့ပါသည်။

ကျမ်းကိုး၊ အရှင်သံဝရသီလ (ဝန်ပို)၊ သူရဋ္ဌမဂ္ဂဇင်း၊ ၂၀၀၇ ခုနှစ်၊ ဒီဇင်ဘာလ၊ စာ - ၄၉

ကျမ်းကိုး၊ စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာဆရာတော် အရှင်ပဏ္ဍိတ စီရင်ရေးသားအပ်သော ရွှေကျင်နိကာယ ရာပြည့် သာသနာဝင်အကျဉ်းနှင့် ရွှေကျင်ဆရာတော်ဘုရားကြီး၏ ဩဝါဒကထာများ ၁၉၈၈ ခုနှစ်၊ စာ ၈၀ တွင် ကြည့်ပါ။

ကျမ်းကိုး။ အချစ်ဂျာနယ် မောင်ပန်းမွှေး၊ ဈာန်အဘိညာဉ်ရ သီလုံးဆရာတော်၊ အတွဲ ၄၊ အမှတ် ၃၉၊ ၂၆-၁၂-၂၀၀၅ တွင် ကြည့်ပါ။

ကျမ်းကိုး၊ ဦးဘခိုင်၊ သီးလုံးဆရာတော် မဟာထေရုပ္ပတ္တိ ၁၂၉၁ ခုနှစ် တော်သလင်းလ၊ ပုံနှိပ်၊ ပထမအကြိမ်၊ အုပ်ရေ ၅၀၀ ထုတ်ဝေရာဌာန၊ ရန်ကုန်၊ ၁၄၁ လမ်း အမှတ် ၃၄-၃၆ နေပြည်တော်စာအုပ်တိုက် စာ ၇၁-၇၂ ကို ကြည့်ပါ။

ကျမ်းကိုး၊ တင်အောင်သွင်၊ ဝေဘူဆရာတော်ဘုရားကြီး၊ ဂမ္ဘီရမဂ္ဂဇင်း ၂၀၀၃ ခုနှစ်၊ အောက်တိုဘာလ၊ စာ ၅၁-၅၂ ကို ကြည့်ပါ။

http://www.dhammadownload.com



ရဟန်းမစားသော ဆွမ်းတစ်နပ် ရပ်ရှင်မှတ်တမ်းဖြင့် ပူဇော်အပ်သော

# ညောင်လေးပင်တောရ ဆရာတော်ကြီး

# ဘဒ္ဒန္တအရိယ

(၁၈၈၆ - ၁၉၅၂)



http://www.dhammadownload.com



အေဒီ ၁၉၉၄ မင်္ဂလာဗျူဟာအသင်းချုပ်က ကြီးမှူး၍ စာရေးဆရာကြီး ဒါရိုက်တာဦးသုခ၏ သီလဝိသုဒ္ဓိ (ရဟန်းမစားရသောဆွမ်းတစ်နပ်) ဇာတ်ကားအကြောင်းဟောပြောပွဲကို ၂၁-၈-၉၄ (တနင်္ဂနွေနေ့) မွန်းလွဲ ၁ နာရီတွင် ဗဟန်းမြို့နယ်၊ အာဇာနည်လမ်းရှိ မင်္ဂလာဗျူဟာ အသင်းချုပ်၌ ကျင်းပသည်။

ကျမ်းကိုး၊ သီလဝိသုဒ္ဓိ (ရဟန်းမစားရသောဆွမ်းတစ်နပ်) ဇာတ်ကားအကြောင်း၊ မဟာသဒ္ဓမ္မဇောတိကဓဇ ဆရာကြီးဦးသုခ ဟောပြောပွဲ၊ မြတ်မင်္ဂလာစာစောင်၊ အတွဲ ၁၀၊ အမှတ် - ၄၊ ၁၉၉၄ခုနှစ်၊ အောက်တိုဘာလ၊ စာ-၁၁။

## ဒါရိုက်တာ ဦးသုခ၏ သာသနာ ဝါဒဖြန့်မှု

အခမ်းအနားတွင် မင်္ဂလာဗျူဟာအသင်းချုပ် အတွင်းရေးမှူး ဦးလှဦးက အခမ်းအနားမှူး အဖြစ်ဆောင်ရွက်သည်။ ရှေးဦးစွာ သဘာပတိ ဥက္ကဋ္ဌကြီးဦးအောင်သိမ်းက အဖွင့်အမှာ စကားပြောကြားပြီး ဒုတိယဥက္ကဋ္ဌ မြတ်မင်္ဂလာစာစောင် အယ်ဒီတာချုပ် မင်းယုဝေက ဆရာကြီး ဦးသုခအကြောင်း မိတ်ဆက်စကားပြောကြားသည်။ ဆက်လက်၍ ဆရာကြီး ဦးသုခက သီလဝိသုဒ္ဓိ(ရဟန်းမစားရသောဆွမ်းတစ်နပ်) ရုပ်မြင်သံကြားဇာတ်ကားအကြောင်း ကို အကျယ်တဝင့် ဟောပြောသည်။ ထို့နောက် ဒါရိုက်တာမောင်နှင်းမိုး၊ ကိုဇော်မင်း (ညောင်လေးပင်တောရဆရာတော်ဘုရားကြီးအဖြစ်သရုပ်ဆောင်သူ)တို့က ဇာတ်ကား ရိုက်ကူးစဉ် တွေ့ကြုံခဲ့ရသော ခံစားချက်များကို အသီးသီးပြောကြားကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁

ထို့နောက် ဆရာကြီး ဦးသုခအား မင်္ဂလာဗျူဟာ အသင်းချုပ်အမှုဆောင် လူကြီးများ နှင့်အသင်းသူ၊ အသင်းသား ဓမ္မမိတ်ဆွေများက ရှိခိုးကန်တော့ကြသည်။ ဆက်လက်၍ ရဟန်းမစားရသောဆွမ်းတစ်နပ် ရုပ်မြင်သံကြားဇာတ်ကားကို ပရိသတ်အားကုသိုလ်ဖြစ် ပြသသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁

## မြန်မာ့အသံမှ လွှင့်ထုတ်ချက်

အေဒီ ၁၉၉၄ ဤအခမ်းအနားတွင် ဟောပြောခဲ့သော ဆရာကြီးဦးသုခ၏ ဟောပြောချက်ကို မြန်မာ့ အသံက ၂၈-၈-၉၄ ည ၇-နာရီ ၁၅-မိနစ်တွင် ထုတ်လွှင့်ပေးခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁

အေဒီ ၁၈၈၆ ညောင်လေးပင်မြို့၊ တောရကျောင်းတိုက် မဟာနာယကဆရာတော်ကြီးအဂ္ဂမဟာပဏ္ဍိတ ဦးအရိယအရှင်သူမြတ်သည် မြန်မာသက္ကရာဇ် ၁၂၄၈ခု၊ ပြာသိုလဆန်း ၂-ရက်၊ တနင်္ဂနွေ နေ့ (၂၆-၁၂-၁၈၈၆)တွင် ဖွားမြင်တော်မူခဲ့သည်။ ကျောင်းဆရာကြီး ဆရာခေါင်၊ ဒေါ်ဒေါ် ခက်တို့၏ ရင်သွေးရတနာဖြစ်သည်။ ညောင်လေးပင်မြို့နှင့် ၄ မိုင်ခန့်ဝေးသော ပုဇွန် မြောင်းရွာဇာတိဖြစ်သည်။

ကျမ်းကိုး၊ ညောင်လေးပင်တောရကျောင်းတိုက်၊ မဟာနာယကဆရာတော်ကြီး အဂ္ဂမဟာ ပဏ္ဍိတ ဦးအရိယ၊ မြတ်မင်္ဂလာ၊ အတွဲ-၁၂ အမှတ်-၃၊ ၁၉၉၆ခုနှစ်၊ စက်တင်ဘာလ၊ စာ-၁။

အေဒီ ၁၉၀၆ အသက် ၁၂-နှစ်အရွယ်တွင် ရှင်သာမဏေပြု၍ အသက် ၂၀ အရွယ် ၉-၁၂-၁၉၀၆ တွင် ရဟန်းဘဝသို့ ရောက်သည်၊ ဥပဇ္ဈာယ်ဆရာတော်ကား ဘုန်းတော်ကြီး ဦးသီလထေရ် အရှင်မြတ်ဖြစ်သည်။ ဆရာတော်ဦးအရိယသည် မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးထံ တွင် ပရိယတ္တိစာပေများ သင်ကြားဆည်းပူးခဲ့သည်။

http://www.dhammadownload.com



အေဒီ ၁၉၂၀ ၁၄-ဝါမြောက်တွင် ညောင်လေးပင် တောရတိုက်ကြီး၏ ဦးစီးနာယက ဆရာတော်အဖြစ် တာဝန်ယူ ဆောင်ရွက်တော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁

အေဒီ ၁၉၅၂ ဆရာတော်ကြီးသည် နိုင်ငံတော်အစိုးရ၏ အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်နှင့် မန္တလေးမြို့ ပရိယတ္တိသာသနဟိတသက္ကျသီဟအသင်းကြီး၏သက္ကျသီဟ မူလဓမ္မာစရိယဘွဲ့တံဆိပ်တော် များကို ဆက်ကပ်ခြင်းခံရသည်။

အေဒီ ၁၉၅၂ ဆရာတော်ကြီးသည် သက်တော် (၆၇) နှစ် (၄-၈-၁၉၅၂) တွင် လေငန်းရောဂါဖြင့် ပျံလွန်တော်မူခဲ့သည်။ ရောဂါကြောင့် အင်အားကုန်ခန်းနေသဖြင့် ဆရာဝန်ကြီးများနှင့် ဒကာ၊ ဒကာမများက ညနေစောင်းအခါတွင် လက်ဖက်ရည်၊ ကော်ဖီ၊ ဆန်ပြုတ်ဘုဉ်းပေး တော်မူရန် လျှောက်ထားသည်ကို လက်မခံ၊ ဝိနည်းတော်အပျက်မခံဘဲ အသက်စွန့်သွား တော်မူခဲ့သည်။

အေဒီ ၁၉၉၄ (စာရေးဆရာ-ဒါရိုက်တာကြီး ဦးသုခ၏ "ရဟန်းမစားရသော ဆွမ်းတစ်နပ်" (သီလဝိသုဒ္ဓိ) ဗီဒီယိုဇာတ်ကားတွင် ထိုဖြစ်ရပ်ကိုတင်ပြခဲ့သည်။)

ကျမ်းကိုး၊ သီလဝိသုဒ္ဓိ (ရဟန်းမစားရသောဆွမ်းတစ်နပ်) ဇာတ်ကားအကြောင်း၊ မဟာ သဒ္ဓမ္မဇောတိကဓဇ ဆရာကြီးဦးသုခ ဟောပြောပွဲ၊ မြတ်မင်္ဂလာစာစောင်၊ အတွဲ ၁၀၊ အမှတ် ၄၊ ၁၉၉၄ခုနှစ်၊ အောက်တိုဘာလ၊ စာ-၁၁။

**မော်ကွန်းတင်ထိုက်သော ရဟန်းထူး ရဟန်းမြတ်ဖြစ်ခြင်း အံ့မွယ်တစ်ရပ်**

မြန်မာပြည်သာသနာဝင် ရွှေကျင်ဂိုဏ်း၌ သမိုင်းတိုးမော်ကွန်းတင်လောက်အောင် တတိယ မြောက်ညောင်လေးပင်တောရ မဟာနာယက အဂ္ဂမဟာပဏ္ဍိတဘွဲ့ခံကျေးဇူးရှင် ဆရာ တော်ဘုရားကြီးသည် သာသနာတော်၏အသက်သွေးကြောဖြစ်သော ဘုရားအလိုတော်ကျ သာသနာ့လုပ်ငန်းစဉ်များနှင့် တရားစည်းကမ်းအရ လူ့လောက၏ အသိတရားတိုးတက်မှု အရပ်ရပ်တို့ကို တစ်သာသနာလုံးစိတ်ဝင်စားလာရသည်အထိ တာဝန်သိသော ပုဂ္ဂိုလ်ထူး၊ ပုဂ္ဂိုလ်မြတ်တစ်ပါးအဖြစ်ဖြင့် သူမတူအောင် ဆောင်ရွက်ခဲ့ပါသည်။

ကျမ်းကိုး၊ အဂ္ဂမဟာပဏ္ဍိတ ကျေးဇူးရှင်ညောင်လေးပင်တောရ ဆရာတော်ဘုရားကြီး၏ အကြောင်းတရား၊ မဟာထေရာပဒါန်၊ ရန်ကုန်မြို့ဟံသာဝတီပိဋကတ်ပုံနှိပ်တိုက် ၁၉၅၄ ကျမ်းကိုး၊ အရှင်စန္ဒဇောတိ၊ ဓမ္မာစရိယ၊ မြန်မာပြန် ပဋိဝိသောဓကခေတ္တ၊ သာသနာ့ရိပ်သာ၊ ရန်ကုန်။

ခရစ်ယာန်ဘာသာဝင်ကရင်တစ်စုက မျိုးဝါးလုမတတ်ဖြစ်နေသော ဗုဒ္ဓ ဘာသာဝင် ကရင် လူမျိုးစုများအတွက် သူတို့ရင်ဆိုင်နေရသော ဘေးဆိုးကြီးမှ ကာကွယ်ပေးမည် ဟူသော ရည်ရွယ်ချက်ဖြင့် ညောင်လေးပင် တောရဆရာတော်ဘုရားကြီးသည် ကရင်ဗမာ ချစ်ကြည်ရေး ကို လှုံ့ဆော်လျက် ကရင်လူထုကြီးတစ်ရပ်လုံးအား အမြဲတစေ ဗုဒ္ဓဘာသာ အသိတရားများ ဖြန့်ဖြူးပေးခဲ့သည်။

ညောင်လေးပင်ကရင်ဗုဒ္ဓဘာသာဝင်လူထုကြီးကလည်း သူတို့အား ဗုဒ္ဓဘာသာစိတ်ဓာတ် သွင်းပေးသော သာသနာ့အာဇာနည် ညောင်လေးပင်တောရ ဆရာတော်ဘုရားပင် သူတို့၏ (Mother and Father) အမိလည်း ဤဆရာတော်ပင်ဖြစ်၏။ အဘလည်း ဤဆရာတော်ပင် ဖြစ်၏ဟု ဘာသာရေးမိဘအနေဖြင့် လေးစားကြလေသည်။

ပြီးဆုံးခြင်းသို့ရောက်သောကျမ်းစာများမှာ (၂၁)ကျမ်းမျှဖြစ်၍ တစ်စိတ်တစ်ဒေသအားဖြင့်

http://www.dhammadownload.com



ရေးသား၍ အပြီးအဆုံးမရောက်သေးသော ကျမ်းစာများမှာ (၁၀)ကျမ်းလောက်ရှိပေသည်။ ဤရေးပြီးကျမ်းစာများတွင်လည်း ပုံနှိပ်ပြီးသော ကျမ်းစာများကား (၁၈)ကျမ်း၊ ပုံနှိပ်မပြီးသေးသောကျမ်းစာများမှာ (၃)ကျမ်းမျှလောက်ရှိပေသည်။

ပုံနှိပ်ပြီးကျမ်းစာများမှာ-

၁။ ဓမ္မပဒဘာသာပြန်
၂။ ကထိန်အရသာ
၃။ ဓမ္မစကြာအရသာ
၄။ ဘာဝနာအရသာနှင့် သိဿကောဝါဒစကားပုံ
၅။ သတိပဋ္ဌာန်အရသာ
၆။ ရှင်သာမဏေဝိနည်းခေါ် ရှင်ကျင့်ဝတ်
၇။ ဘုန်းတော်ကြီး ဦးသီလထေရုပ္ပတ္တိ
၈။ ဂုဏ်တော် အရသာနှင့် လက္ခဏာအရသာ
၉။ ပဋိစ္စသမုပ္ပါဒ် အခြေပြု
၁၀။ ပဋိစ္စသမုပ္ပါဒ် အရသာ
၁၁။ အလင်္ကာ အရသာ
၁၂။ ဒွေမာတိကာအရသာ
၁၃။ ဥပါသကာ လက်သုံး
၁၄။ ဝိသုဒ္ဓိမဂ် အရသာ
၁၅။ သင်္ဂြိုဟ်အရသာ
၁၆။ ကမ္မဝါ ကံဆောင် အခဏ်း (၂၀)
၁၇။ စတုရာရက္ခကျမ်း
၁၈။ ကရင်ဗမာဓမ္မချစ်ကြည်ရေး

ပေါင်း (၁၈)ကျမ်း

အေဒီ ၁၉၅၂ သက်တော် (၆၆)နှစ်ထဲမှာပင် လေငန်းရောဂါ စွဲကပ်တော်မူရသည်။

ထိုအခါဝယ် ဆရာတော်၏ ဆင်းရဲမှုကို မရှုရက်နိုင်သော ဆရာဝန်ကြီးများက အစာမရှိ၍သာ ဤလိုဖြစ်ရသည်။ အစာကိုအချိန်မရွေးစားနိုင်ပါမှ ဤကဲ့သို့ဖြစ်ရမည်မဟုတ်ဟု ဆုံးဖြတ်ချက်ချပြီးလျှင် ဝိကာလ(နေလွဲ) အခါ၌ပင် ကော်ဖီဘုဉ်းပေးရန်၊ စွတ်ပြုတ်သောက်တော်မူရန် အပြင်းအထန်လျှောက်ကြားကြရာ ဆရာတော်ကြီးသည် ကိုယ်တော်မြတ်၏ ဘွဲ့မည်တော်အားလျော်စွာ အသက်သာအသေခံ၍ သိက္ခာပုဒ်တော်ကို ကျူးလွန်လေ့မရှိသော အရိယာအရှင်မြတ်ကြီးတို့၏ လမ်းစဉ်အရ ဝိကာလဘောဇန သိက္ခာပုဒ်စည်းမျဉ်းကို မကျော်နင်းလိုသဖြင့် ဆရာဝန်ကြီးများ၏ အလိုဆန္ဒကို လက်ဟန်ပြ၍ငြင်းဆန်တော်မူသည်။

မြတ်စွာဘုရား၏တပည့်သားဖြစ်ကြသော သာသနာ့ဝန်ထမ်း ရဟန်းသာမဏေများသည်လည်း ဘုရားရှင်၏ဥပဒေ ဝိနည်းဒေသနာတော်ကို လိုက်နာရပေသည်။

တပည့်ဒကာတို့က အစိုးရအမှုထမ်းတွေဖြစ်၍ အစိုးရဥပဒေကို လိုက်နာသောအားဖြင့် ကျွေးမွေး ကြသော်လည်း ဆရာတော်တို့ကား ဘုရားရှင်၏ ဝိနည်းဥပဒေကို လိုက်နာရသူများဖြစ်၍ နေမွန်းလွဲသောအခါ ဒကာတို့ကျွေးတာကို မစားနိုင်သဖြင့် ဝမ်းနည်းပါသည်ဟု အဓိပ္ပါယ် ဆိုလိုရင်း ဖြစ်သည်။

http://www.dhammadownload.com



ကြားရသူတို့၏နားထဲဝယ် စွဲမြဲကျန်ရစ်ခဲ့မည်ဖြစ်သော ဋင်းစာကလေးကို ဖတ်ရှုကြရသောအခါ များစွာသော တပည့်သံဃာ၊ ဒကာ၊ ဒကာမတို့သည်လည်း ကျမျက်ရည် တဖြိုင်ဖြိုင်ယိုစီးလျက် အနည်းနည်းထိန်းချုပ်ကြရလေသည်။

အေဒီ ၁၉၅၂ သက်တော် (၆၆) နှစ် သိက္ခာတော် (၄၇)ဝါအရဖြစ်သော မြန်မာသက္ကရာဇ် ၁၃၁၄ ခု၊ ဝါခေါင်လဆန်း (၁၄)ရက်နေ့ ညဉ့်ဦးယံ(၇)နာရီ မိနစ် (၄၀)အချိန်ဝယ် ရန်ကုန်မြို့၊ ပြည်သူ့ဆေးရုံကြီး အထူးခန်း၌ပင် ဘဝနတ်ထံ ပျံလွန်တော်မူ ခဲ့လေသည်။

ကျမ်းကိုး၊ အဂ္ဂမဟာပဏ္ဍိတ ကျေးဇူးရှင် ညောင်လေးပင်တောရ ဆရာတော်ဘုရားကြီး၏ အကြောင်းတရား၊ မဟာထေရာပဒါန်၊ ရန်ကုန်မြို့ဟံသာဝတီ ပိဋကတ်ပုံနှိပ်တိုက် ၁၃၅၄။

http://www.dhammadownload.com



ညာဘက်မျက်လုံးကို ဖောက်၍
ရှမ်းပြည်နယ်၊ ဂုတ်ထိပ်တံတားအနီး ဘုရားမှာဌာပနာထည့်သွင်းလှူဒါန်းခဲ့သော
သက်တော် ၁၀၉ နှစ်ရှိ

# မြစ်သားသိမ်တောင် ဦးသံဝရဗုဒ္ဓိ

(၁၈၈၃ – ၁၉၉၈)



http://www.dhammadownload.com



မြစ်သားသိမ်တောင် ဆရာတော်ဘုရားကြီးမှာ သာသနာတစ်ခေတ်တွင် ကျော်ကြားတော်မူသော အံ့ဖွယ်ဆရာတော်ကြီးဖြစ်၏။ ဆရာတော်ကြီး၏ အသီတိစေတီနှင့် အောင်ထူးဆန်းဂါထာတော်မြတ်ကို တစ်စောင်တစ်ဖွဲ့ မှတ်တမ်းတင်သူများလည်း ရှိ၏။

ကျမ်းကိုး။ သီဟသွေး။ အသီတိစေတီနှင့်အောင်ထူးဆန်းဂါထာ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း စာ ၁၃၃ ကိုကြည့်ပါ။

ဆရာတော်ကြီး၏ အံ့ဖွယ်သက်တော်ရှည်မှုသည် စံချိန်ဖြစ်၏။ သက်တော် (၁၁၀) အထိ နေရ၏။ ထို့ကြောင့် ဆရာတော်ကြီး၏ တပည့်တို့သည် အောင်မြေနင်း အောင်သိဒ္ဓိဂါထာတို့ကို ပညာအမွေ ဆက်ခံကာ အဆင့်ဆင့်မှတ်တမ်းတင်ကြ၏။ ခေတ်ပြိုင်မှတ်တမ်းအဖြစ် မှတ်သားသင့်ပါသည်။

ကျမ်းကိုး။ ၁၉၉၈ ခု၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ဩဂုတ်လနှင့် စက်တင်ဘာလလည်း ကြည့်ပါ။

**အောင်ထူးဆန်း ပညာအမွေ**

ဆရာတော်ကြီး၏ အံ့ဖွယ်တစ်ရပ်မှာ မျက်မှန်အမြဲ တပ်ထားခြင်းဖြစ်၏။ အကြောင်းအရင်းကို တစေ့တစောင်းသိရသောအခါ ပို၍ ပို၍ ကြည်ညိုစရာ ဖြစ်ပါသည်။ ညာဘက်မျက်လုံးကိုဖောက်၍ ဂုတ်ထိပ်တံတားအနီးတွင် စေတီတည်သောအခါ ဌာပနာတော်မူခဲ့ကြောင်း လေ့လာတွေ့ရှိရသောအခါ ခေတ်ပြိုင်မှတ်တမ်းအဖြစ် မှတ်တမ်းတင်ရပါသည်။

ကျမ်းကိုး။ မောင်ပန်းမွေး၊ မျက်လုံးဖောက်လှူတာ ယခုခေတ်မှာ ရှိပါသလား။
ဦးသံဝရဗုဒ္ဓိ၊ ဝိဇ္ဇာမဂ္ဂဇင်း၊ အတွဲ ၁၊ အမှတ် ၇၊ ၂၀၀၈ ခုနှစ်၊ ဧပြီလ၊ စာ ၁၃၇ ကြည့်ပါ။

**ရေနံဆီဖြင့် မီးရှို့ပူဇော်မှုပြုခဲ့သော ဦးဝိဇ္ဇာဗလ ရွှေဖျိုင်းနားဆရာတော်**

ထိုအချက်နှင့် စပ်လျဉ်း၍ မိမိကိုယ်ကို ရေနံဆီလောင်းကာ မီးရှို့ပူဇော်မည်ဟု ကြံစည်ပြုလုပ်သော ရွှေဖျိုင်းနားဆရာတော်ဟု ကျော်ကြားသော ပြည်မြို့ ရတနာမာန်အောင်တောရဆရာတော် ဦးဝိဇ္ဇာဗလကိုသတိရဖွယ် အောက်မေ့ဖွယ် ကြည်ညိုဖွယ်ဖြစ်ရပါသည်။

ကျမ်းကိုး။ မောင်ပန်းမွေး၊ ရွှေဖျိုင်းနား ဆရာတော်၊ ကမ္ဘာ့ရွှေရင်အေးဆရာတော်၊ မဟာထေရုပ္ပတ္တိရုပ်ပုံလွှာ၊ ၂၀၀၅ ခုနှစ်၊ ဝင်းတိုးအောင် ပုံနှိပ်တိုက်၊ အမှတ်- ၁၉၉ လမ်း- ၅၀ကို ကြည့်ပါ။

ဆရာတော်ကြီး ဦးသံဝရဗုဒ္ဓိ ညာဘက်မျက်လုံးဖောက်၍ လှူခဲ့သော မှတ်တမ်းကို စာစောင်များတွင် တသီးတခြား ဖော်ပြပါရှိပါသည်။

ကျမ်းကိုး။ မင်းထူး ညာဘက်မျက်လုံးကိုဖောက်၍ ဘုရားဌာပနာခဲ့သူ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း ၁၉၉၇ခုနှစ်၊ ဇူလိုင်လ၊ စာ- ၇၃ကို ကြည့်ပါ။

မြစ်သားမြို့ အဝင်ဝရှိ သိမ်တောင်ကျောင်းတိုက်သို့ သွားရောက်လေ့လာသူများလည်း ရှိ၏။ မြစ်သားမြို့မှ (၁၀၇) နှစ်သက်တော်ရှည် ဆရာတော်ကြီးအကြောင်း ခေတ်ပြိုင်မှတ်တမ်းအဖြစ်ရှာဖွေတွေ့ရှိရပါသည်။

ကျမ်းကိုး။ ဦးသန်းဖေမြင့်၊ ပါရမီ မဂ္ဂဇင်း၊ အမှတ် ၂၉၊ ၁၉၉၅ ခု၊ ဖေဖော်ဝါရီလ၊ စာ ၄၂ မြစ်သားမှ (၁၀၇) နှစ် သက်တော်ရှည် ဆရာတော်ကြီး။

ငယ်စဉ်က ဆရာတော်ကြီးနေခဲ့သည်ဆိုသော ရန်ကုန်မြို့ ပုဇွန်တောင် ရေကျော်အနီးမှ ကျောင်းတစ်ကျောင်းကိုအကြောင်းပြု၍ အဆင့်ဆင့် စုဆောင်းလေ့လာထားသော မှတ်တမ်း

http://www.dhammadownload.com



ကတ်တလောက်အသီးသီးကို ဖော်ပြအပ်ပါသည်။ ခေတ်ပြိုင်မှတ်တမ်းဖြစ်၍ နောင်တစ်ခေတ်တွင် အခိုင်အမာ ကိုးကားနိုင်ပါသည်။

အေဒီ ၁၈၈၇ ဆရာတော်ကြီးကို မြန်မာသက္ကရာဇ် ၁၂၄၉ ခု၊ ကဆုန်လဆန်း (၂)ရက်သောကြာနေ့မှာ မွေးဖွားသန့်စင်ခဲ့ပါသည်။ ခမည်းတော်၊ မယ်တော်တို့ကတော့ ဦးရွှေနှစ်-ဒေါ်ဇာငြိမ်းပါ။ မွေးချင်းငါးယောက်အနက် တတိယမြောက် သားရတနာပါ။

ကျမ်းကိုး၊ မြစ်သားမှ ၁၀၇ နှစ်သက်တော်ရှည်ဆရာတော်ကြီး၊ ဦးသန်းဖေမြင့်၊ ပါရမီမဂ္ဂဇင်း၊ အမှတ် ၂၉၊၁၉၉၅ခုနှစ်၊ ဖေဖော်ဝါရီလ၊ စာ-၄၂။

**အသက်ရှည်စေသောနည်း**

လောကရဲ့ ရှုပ်ထွေးမှုအဖုံဖုံကို မြင်ရတဲ့ သံဝေဂကို အရင်းတည်ပြီး ရဟန်းဘောင်မှာ မြဲသွားကြောင်း မိန့်ပါတယ်။ အသက်ရှည်လိုမှုတိုက်ပွဲမှာ မရေရာလှတဲ့ သက်တမ်းတိုကလေးနဲ့ပဲ ကျဆုံးသွားကြရပါတယ်။ ဒီအကြောင်းကို ဆရာတော်ကြီးကိုလျှောက်ထားတဲ့အခါ ဆရာတော်ကြီးက "လောဘဟာ လူမုန်းစေတယ်။ ဒေါသက အသက်တိုစေတယ်။ မောဟကို ဘုရားမကြိုက်ဘူး" လို့လိုရင်း အနှစ်ကို မိန့်ပါတယ်။

ကျမ်းကိုး။ ယင်းစာ ၄၂

**တစ်နေ့ ဆွမ်း ၃ လုပ်**

နေ့စဉ်ဆွမ်းသုံးလုပ် အများဆုံးခုနစ်လုပ်ပဲ ဘုဉ်းပေးကြောင်းသိရပါတယ်။ ဘုဉ်းပေးတဲ့နေရာမှာ သက်သတ်လွတ်ပဲဘုဉ်းပေးပါတယ်။ ဆရာတော်ကြီးရဲ့ ဆုံးမဩဝါဒထဲမှာ ငြိုးခြိတရားပါပါတယ်။

ကျမ်းကိုး။ ယင်းစာ ၄၂

**တစ်နေ့ ဂုဏ်တော်တစ်ထောင်**

"မြင့်မြတ်တာကိုကြံ၊ မှန်ကန်တာကိုပြော၊ စိတ်သဘောလည်းကြီး၊ စောစောကြီးလည်းထ၊ ရှိသမျှနဲ့ရောင့်ရဲ၊ သည်းခံမှုကို လက်စွဲ၊ ဤသူချမ်းသာမြဲ" လို့မိန့်ထားပါတယ်။ ဆရာတော်ကြီးဟာ တစ်နေ့ကို ဂုဏ်တော်တစ်ထောင်ပွားများတယ်လို့ သိရပါတယ်။

ကျမ်းကိုး။ ယင်းစာ ၄၂

**မျက်လုံးတော်မောက်လှူခဲ့ခြင်း**

ဆရာတော်ဘုရားကြီးမှာ ညာဘက်မျက်လုံးတော် မရှိတော့ပါဘူး။ ရှမ်းပြည်နယ်ဂုတ်ထိပ်တံတားအနီးမှာရှိတဲ့ ပတ္တမြားစေတီတော်မှာ လှူခဲ့ကြောင်း သိရပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၂

**အချဉ်နှင့်အခါးကိုရှောင်**

အသက်လည်းရှည်၊ အနာလည်းကင်းနေတော်မူတဲ့ ဆရာတော်ကြီးက "ဘုန်းကြီးအနေနဲ့ အချဉ်နဲ့အခါးကို ရှောင်တယ်။ အိပ်သင့်မှအိပ်တယ်။ တစ်နေ့ဘုရားသုံးကြိမ် ဝတ်ပြုတယ်"

ကျမ်းကိုး။ ယင်းစာ ၄၂

**မေတ္တာများများပို့**

"အသက်ရှည်ပြီး ရောဂါကင်းချင်ကြတယ်ဆိုရင် လောဘ၊ ဒေါသ၊ မောဟရဲ့သဘောကို သိအောင်လုပ်ပြီး နှိမ်နင်းပေတော့။ အချိန်ရတိုင်းလဲ သတ္တဝါတွေကိုမေတ္တာပွား" လို့မိန့်တော်မူပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၃

http://www.dhammadownload.com



**ဆရာတော်ကြီး နေပုံထိုင်ပုံ**

သက်တော်ရှည် ဆရာတော်ကြီးဟာ လွန်ခဲ့တဲ့နှစ်နှစ်ကျော်လောက်ကတည်းက ရေမချိုး . တော့ဘူးလို့သိရပါတယ်။ အပြင်လည်းမထွက်တော့။ ကျောင်းတော်ပေါ်မှာ ဆရာတော်ကြီး အမြဲသီတင်းသုံးတဲ့နေရာသုံးခုရှိပါတယ်။ အဲဒါတွေကတော့ -

၁။ ခုတင်ပေါ်

၂။ ကုလားထိုင်ပေါ်

၃။ ကပျဉ် (ကပြင်) ပေါ်တို့ပါပဲ။

ပြုံမလိုဖြစ်နေတဲ့ခနိုမိုး၊ ဝါးထရံကာကျောင်းဟောင်းကြီးပေါ်မှာပဲ ရောင့်ရောင့်ရဲရဲနဲ့ သီတင်း သုံးနေခဲ့ပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၃

**ဆရာတော်ဘုရားကြီး၏ကောင်းမှုတော်များ**

အရင်ကကျောင်းတော်ရဲ့ဝင်းအတွင်းမှာ သဲနဲ့ဝါးကိုသာသုံးတဲ့ သဲပုံစေတီတော်များကိုသာ တည်ထားကြောင်း သိရပါတယ်။ သဲကသောကြာ၊ ဝါးကဗုဒ္ဓဟူး၊ ဝံသေဓာတ်ရစေတယ် လို့သိရပါတယ်။ ဆရာတော်ကြီး သီတင်းသုံးတဲ့ ကျောင်းတော်နေရာမှာ ရှေးက -

၁။ မန်လည်ဆရာတော်ကြီး

၂။ လယ်တီဆရာတော်ကြီးနဲ့

၃။ သိမ်တောင်အင်းမကြီးဆရာတော်ကြီး

တို့ သီတင်းသုံးခဲ့ကြဖူးကြောင်းသိရပါတယ်။

ကျမ်းကိုး။ ယင်းစာ ၄၃

**မြစ်သားမှာ နှစ် ၅၀**

အေဒီ ၁၉၉၄ ဒီကျောင်းတော်မှာ သီတင်းသုံးတာ နှစ်ပေါင်း(၅၀) ရှိပြီလို့ သိရပါတယ်။ သိမ်တောင် ကျောင်းရောက်တဲ့အခါ ကမ္ဘာ့ထိပ်တင် လေးကျွန်းရှင်စေတီတော်ကိုဖူးတွေ့ရပါတယ်။ ဒီစေတီတော်ကို ခရစ်နှစ် ၁၉၉၄ခု၊ တန်ဆောင်မုန်းလမှာ ပန္နက်ရိုက်ပြီး တော်သလင်းလ မှာ ထီးတော်တင်ခဲ့ပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၃

**ကမ္ဘာကြီးချမ်းသာဖို့**

စေတီတော်မြတ်မှာ ကမ္ဘာ့နိုင်ငံအသီးသီးက သုံးငွေကျပ်စေ့များကို ထည့်သွင်းပြီးဌာပနာ ထားကြောင်း သိရပါတယ်။ ကမ္ဘာကြီးအေးချမ်းသာယာစေရန် ရည်ရွယ်ပြီး တည်ထား ကိုးကွယ်ကြောင်းသိရပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၃

**အန္တရာယ်ကင်းလက်ဖက်ချိုင့်ကြီး**

ကျောင်းတော်ကိုရောက်ရှိတဲ့အခါ ဧည့်ခန်းမှာ လက်ဖက်များကိုထည့်ထားတဲ့ ချိုင့်ကြီးတစ်ခု ကို တွေ့ကြရပါတယ်။ လာသမျှပရိသတ် အန္တရာယ်ကင်းဘေးရှင်းစေဖို့အတွက် လက်ဖက် ချိုင့်ကြီးကို နှစ်သက်သလိုသုံးဆောင်နိုင်ရန် ချပေးထားပါတယ်။ လ-က-၄၊ ဖက်-က ၅း၉ ကျောင်းတော်ရှိတဲ့ မြစ်သားဟာ ကျောက်ဆည်(၉)ခရိုင်ထဲ ပါဝင်နေတာဖြစ်လို့ နဝင်းရပါ တယ်။ ဆရာတော်ကြီးရဲ့ မေတ္တာဓာတ်ပြည့်ဝနေတဲ့ လက်ဖက်ကို သုံးဆောင်ခြင်းဖြင့် နဝင်းကြေပြီး ဘေးရန်ကင်းရှင်းနိုင်ကြပါတယ်။

http://www.dhammadownload.com



ကျမ်းကိုး၊ မြစ်သား မှ ၁၀၇ နှစ်သက်တော်ရှည်ဆရာတော်ကြီး၊ ဦးသန်းဖေမြင့်၊ ပါရမီ မဂ္ဂဇင်း၊ အမှတ် ၂၉၊ ၁၉၉၅ ခုနှစ်၊ ဖေဖော်ဝါရီလ၊ စာ-၄၂

အေဒီ ၁၉၉၇ ဆရာတော်ကြီးသည် မြန်မာနိုင်ငံတွင် သက်တော်အရှည်ဆုံးသော ရဟန်းပုဂ္ဂိုလ် ဟူ၍လည်းကောင်း၊ သိက္ခာတော် အကြီးဆုံး ဆရာတော် ဟူ၍လည်းကောင်း ဆိုနိုင်ပါသည်။ သက္ကရာဇ် ၁၃၅၉ ခုနှစ်တွင် သက်တော် ၁၀၉ နှစ်၊ ဝါတော် ၉၀ ရှိခဲ့လေသည်။

ကျမ်းကိုး၊ မောင်ပန်းမွေး၊ မျက်လုံးဖောက်လှူတာ ယခုခေတ်မှာ ရှိပါသလား။ ဦးသံဝရဗုဒ္ဓိ၊ ဝိဇ္ဇာမဂ္ဂဇင်း၊ အတွဲ ၁၊ အမှတ် ၇၊ ၂၀၀၈ ခုနှစ်၊ ဧပြီလ၊ စာ ၃၇ ကြည့်ပါ။

အေဒီ ၁၉၉၇ အေဒီ ၁၉၉၇ ခု၊ မေလ ၁၁ ရက်၊ (၁၃၅၉ ခု၊ ကဆုန်လဆန်း၊ ၅ ရက်) နေ့တွင် သက်တော် ၁၀၉ နှစ် ပြည့်တော်မူကြောင်း သိရလေသည်။ ထိုရက်မှ ကျော်လျှင် သက်တော် (၁၁၀) သို့ ကူးပြောင်းမည် ဖြစ်ကြောင်း သိရပါသည်။

ကျမ်းကိုး၊ မောင်ပန်းမွေး၊ မျက်လုံးဖောက်လှူတာ ယခုခေတ်မှ ရှိပါသလား။ ဦးသံဝရဗုဒ္ဓိ၊ ဝိဇ္ဇမဂ္ဂဇင်း၊ အတွဲ ၁၊ အမှတ် ၇၊ ၂၀၀၈ ခုနှစ်၊ ဧပြီလ၊ စာ ၁၃၇ ကြည့်ပါ။

ရန်ကုန်မှ မန္တလေးသို့အသွား ကူမဲမှအကျော် ကျောက်ဆည်သို့ မရောက်မီ မြစ်သား ဟူ၍ ရှိပါသည်။ မန္တလေးတိုင်းတွင် ပါဝင်ပါသည်။ ထိုမြစ်သားတွင် သိမ်တောင် နိကာယကျောင်း ဟူ၍ ရှိပါသည်။ ရွှေသူဌေးရပ်ကွက်တွင် တည်ရှိပါသည်။ ထိုကျောင်းတွင် ဦးသံဝရဗုဒ္ဓိ ကိုယ်တော်ကြီး သီတင်းသုံးခဲ့ပါသည်။ ယခုအခါကား ခန္ဓာဝန် ချခဲ့ပြီး ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းစာ ၁၃၇

အေဒီ ၁၉၉၇ ထို ခရစ်နှစ် ၁၉၉၇ ခု၊ သက်တော် (၁၁၀) အပြည့်တွင် ထိုသက်တော်ရှည် ဆရာတော်သည် မျက်စိလည်း ကောင်းသေး၏၊ နားလည်း ကောင်းသေး၏၊ သတိလည်း ကောင်းသေး၏၊ ဤသို့ ဖြင့် ဖြူနေသော ဆံပင်များလည်း ပြန်၍နက်လာကြောင်း၊ သွားများလည်း အသစ်ပြန်၍ ထွက်လာ ကြောင်း သိရသည်။ အလွန် စိတ်ဝင်စားဖွယ်ရာ ကောင်းလှပါသည်။

ကျမ်းကိုး၊ ယင်းစာ ၁၃၇

ထို့ကြောင့်လည်း ကျွန်တော်တို့ လူတစ်စုမှာ ဆရာတော်ကြီး၏ သတင်းကို မလွတ်တမ်း စုံစမ်းကြပါသည်။ အစားအသောက်တွင်လည်း ထူးထူးခြားခြား စားသောက်သည် မဟုတ်ပါ။

**မွန်းမတည့်မီ ပဲဟင်း ၁၀ ဇွန်း**

မနက်စောစောတွင် အရုဏ်ဆွမ်းအဖြစ် ယာဂုကိုသာ သုံးဆောင်ကြောင်း သိရပါသည်။ နေ့ခင်းနေ့လယ် မွန်းမတည့်မီတွင် ပဲဟင်းလောက်သာ သုံးဆောင်တော်မူကြောင်း သိရပါသည်။ ပဲဟင်းမှာလည်း များများမဟုတ် (၁၀) ဇွန်း (၁၁) ဇွန်းလောက်သာ ဘုဉ်းပေးသုံး ဆောင်ကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ ၁၃၇

**အဘယ်ကြောင့် မျက်မှန်အနက်တပ်သနည်း**

ကျွန်တော်တို့သည် ရှမ်းပြည်နယ်ဘက်သို့ ခရီးလှည့်စဉ်အခါမှာ မြန်မာ့ အံ့ဖွယ်အဖြစ် ဂုတ်ထိပ် တံတားသို့လည်း ဂရုတစိုက် လေ့လာကြရပါသည်။ ထိုဂုတ်ထိပ်တံတားအနီးတွင် ဆယ်တောင် ပြည့် ဘုရားတစ်ဆူ ရှိကြောင်း သိရပါသည်။ ထိုဘုရားတည်စဉ်အခါတွင် ဆရာတော်ကြီးသည် ညာဘက်မျက်လုံးကို ဖောက်၍ ငွေကြုပ်နှင့် ထည့်ပြီး ဌာပနာသွင်း လှူဒါန်းတော်မူကြောင်း

http://www.dhammadownload.com



သိရသည်။ ထို့ကြောင့်လည်း မျက်မှန် အနက်ရောင် တပ်ဆင်လေ့ ရှိကြောင်းသိရသည်။

ကျမ်းကိုး၊ ယင်းစာ ၁၃၇

အေဒီ ၁၈၉၅ ထိုစဉ်အခါက ဆရာတော်မှာ သက်တော် (၅၇)နှစ်၊ သိက္ခာတော် (၃၇) ဝါ ရှိပြီးဖြစ်ကြောင်း သိရပါသည်။

မြစ်သားမြို့မှာ ငယ်ငယ်ကတည်းက သီတင်းသုံးသည် မဟုတ်ပါ။ လွန်ခဲ့သောနှစ် ၅၀ လောက်မှ ရောက်ရှိ လာကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ ၁၃၇

## မြစ်သားမှာနေသော်လည်း ဇာတိမှာ ရေကြည်ရွာ

ဆရာတော်ကြီး ဇာတိမှာ ရေကြည်ရွာ ဖြစ်ကြောင်း သိရပါသည်။ ပုသိမ်ခရိုင်ဘက်တွင်လည်း ငသိုင်းချောင်းမြို့၊ ရေကြည်မြို့ ဟူ၍ ရှိပါသေးသည်။ သို့သော်လည်း ဆရာတော်ကြီးမှာ ထိုရေကြည်ရွာ ဇာတိမဟုတ်ပါ။ စစ်ကိုင်းတိုင်း၊ ဆားတောင် ငါးရွာအုပ်စုတွင် အပါအဝင် ဖြစ်သော ရေကြည်ရွာဇာတိ ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းစာ ၁၃၇

## သိမ်ပေါ်မင်းပါတော်မူပြီးမှ ၃ နှစ်အကြာမှာ မွေးဖွားခဲ့

အေဒီ ၁၈၈၈ အေဒီ ၁၈၈၈ ခု၊ ဧပြီလ ၁၄ ရက်၊ ( မြန်မာသက္ကရာဇ် ၁၂၅၀ ပြည့်နှစ်၊ ကဆုန်လဆန်း ၅ ရက်) သောကြာနေ့တွင် ဖွားမြင်တော်မူကြောင်း အဖမှာ ဦးစိုင်းဖြစ်ပြီး အမိမှာ ဒေါ်မြိုင် ဖြစ် ကြောင်း သိရပါသည်။

ဆရာတော်ကြီးသည် ရောက်ရာအရပ်တွင် ဘုရားတည် သာသနာပြုလျက် ရှိကြောင်း သိရပါသည်။ ဤတွင် ထူးခြားသော အချက်တစ်ချက်မှာ တည်တော်မူခဲ့သော စေတီတော်များ ကိုလည်း ကမ္ဘာ့ထိပ်တင် လေးကျွန်းရှင် ဟူ၍ ဘွဲ့အမည်တစ်ခုတည်းကိုသာလျှင် အစဉ်တစိုက် ပေးလေ့ရှိကြောင်း တစ်ကမ္ဘာလုံးငြိမ်းချမ်းစေဖို့ ရည်ရွယ်ကြောင်း သိရှိရပါသည်။

ကျမ်းကိုး၊ ယင်းစာ ၁၃၇

## တစ်နေ့ ၁၅ မိနစ် ကျိန်း

ဆရာတော်ကြီး၏ အိပ်စက်ချိန်မှာလည်း တစ်နေ့တစ်နေ့လျှင် ၁၅ မိနစ်လောက်သာ ကျိန်းစက်လေ့ရှိ ကြောင်းသိရသည်။

ကျမ်းကိုး၊ ယင်းစာ ၁၃၇

သို့သော်လည်း ကျန်းမာရေးကို ဘယ်လိုမှ မထိခိုက်ခဲ့ကြောင်း ဓာတ်သိများက ပြောဆိုကြပါ သည်။ ဥပုသ်နေ့ရောက်လျှင်လည်း အသံမာမာဖြင့် သီလပေးနိုင်ကြောင်း အသံသြဇာနှင့် ပြည့်စုံတော်မူကြောင်း သိရှိရပါသည်၊

ကျမ်းကိုး၊ ယင်းစာ ၁၃၇

## ကိုယ်သင်းနံ့

ကိုယ်နံ့မှာ သင်းပျံ့လျက်ရှိကြောင်း သိရပါသည်။ အသားအရေ တွန့်ခြင်းလည်း မရှိ တွဲကျခြင်း လည်း မရှိပါ။ ရေမချိုးသည်မှာလည်း ကြာပြီဖြစ်ကြောင်း သိရပါသည်။ လွန်ခဲ့သော ၃ နှစ်လောက် က တစ်ကြိမ်သာ ရေချိုးကြောင်း သိရပါသည်၊ ထိုအတောအတွင်း ရေမချိုးဟု သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ ၁၃၇

http://www.dhammadownload.com



**သီလရနံ့**

သီလစင်ကြယ်ခြင်းသည် အသက်ရှည်ခြင်း၏ အကြောင်းရင်း ဖြစ်ကြောင်း ဆရာတော်ကြီးမှ မိန့်တော် မူကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ ၁၃၇

**ဘိုးပေါက်ဆိန်နှင့်တူ**

ဆရာတော်ကြီး၏ ရုပ်ရည်ရူပကာယမှာ ခန့်ခန့်ကြီး ဖြစ်ပါသည်။ အနီးစပ်ဆုံး တင်စားရလျှင် ရန်ကုန် ပရိသတ်များနှင့်တကွ မဟာဂန္ဓာရီ ပရိသတ်တို့ သိရှိပြီးဖြစ်သော ရန်ကုန်ပေါက်စေတီမှ ဘုန်းဘုရားကြီး ဘိုးပေါက်ဆိန်နှင့် အလွန်တူကြောင်း ဥပမာ ပေးနိုင်ပါသည်။

ကျမ်းကိုး၊ ယင်းစာ ၁၃၇

**တောင်ငူ မြတ်စောညီနောင် ရန်ကုန်ဆရာတော်နှင့်တူ**

ထိုကဲ့သို့ ဘုန်းဘုရားကြီး ဘိုးပေါက်ဆိန်နှင့် တောင်ငူမြတ်စောညီနောင်တွင် သာသနာပြုနေသော ရန်ကုန် ဆရာတော် ကြီးနှင့်လည်း အလွန်တူကြောင်း မျက်မြင်ကိုယ်တွေ့ ဖူးတွေ့ခဲ့ရပါသည်။ ထို တောင်ငူ မြတ်စောညီနောင် ဆရာတော်ကြီးကား သာသနာ့ ယောဓ အရှင်သီလဝံသ ဘွဲ့အမည်ရှိသော ဆရာတော်ကြီး ဖြစ်၏။ ယခု သက်တော် (၈၈) နှစ် အရွယ်၌ ခန္ဓာဝန်ချပြီး ဖြစ်ပါသည်။

**သမ္ဗုဒ္ဓေတစ်ထောင်လက်ဖက်**

ယခု သိမ်တောင် ဆရာတော်ကြီး၏ ထူးဆန်းသောအချက်မှာ သမ္ဗုဒ္ဓေတစ်ထောင် ရွတ်ဖတ်ထားသော လက်ဖက်များ အဆင်သင့်ရှိ၏။ လာဖူးသူများကို ဆရာတော်ကြီးသည် သမ္ဗုဒ္ဓေတစ်ထောင် ရွတ်ဖတ်ထားသော လက်ဖက်များကို ကျွေးမွေးလေ့ရှိကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ ၁၃၇

**ငယ်ငယ်က အင်္ဂလိပ်ရတ်ထိုးသေးခဲ့**

ဆရာတော်၏ ဆွမ်းစားကျောင်း၏ ခေါင်းရင်းဘက်တွင် ဖိုထိုးသော ဖိုနေရာကိုလည်း တွေ့ရပါသည်။ ရှေးသရောအခါက အင်္ဂလိပ်ရတ်နည်းဖြင့် ဓာတ်ပြာလုပ်ခဲ့ကြောင်း၊ ထိုဓာတ်ပြာ ကွမ်းရိုး တစ်တို့စာလောက်တို့၍ တစ်ပိဿာလောက်ရှိသော ပျားရည်ထဲ ထည့်လိုက်လျှင် ပွက်ပွက်ဆူလာကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ ၁၃၇

ရှေးအခါက အသက်ရှည်ချင်သောကြောင့် စားခဲ့ကြောင်း သိရပါသည်။ အခုတော့လည်း မစားရတာကြာ ပြီ ဖြစ်ကြောင်း သိရပါသည်။ ထိုဓာတ်ပြာများသည် သီလ၊ သမာဓိ ရှိသူတို့သာ စားသုံးသင့်ကြောင်း၊ သီလ၊ သမာဓိ မရှိသူတို့ စားသုံးလျှင် ရူးတတ်ကြောင်း ဆရာတော်ကြီးက မိန့်တော်မူဖူးကြောင်း သိရသည်။

ကျမ်းကိုး၊ ယင်းစာ ၁၃၇

**မ တစ်လုံးကျေ**

ဆရာတော်ကြီးသည် ငယ်စဉ်အခါက မြို့ကြီးပြကြီးများတွင် သွားရောက်၍ ပရိယတ္တိစာပေများကို သင်ကြားခဲ့ကြောင်း သိရှိရပါသည်။ ငယ်စဉ်အခါက မသင်ကြားဖူးသော ပညာဟူ၍ မရှိကြောင်း ထပ်ဆင့်၍ သိရပါသည်။ အင်္ဂလိပ်ပညာများကိုသာမက ဆေးဝါးပညာ ဓာတ်ပညာ၊ အင်းပညာ၊ ဂါထာမန္တန်များကိုလည်း လေ့လာ လိုက်စားခဲ့ကြောင်း သိရှိရပါသည်။ လောကီ

http://www.dhammadownload.com



လောကုတ္တရာ ပညာရပ်များကို လေ့လာဆည်းပူးခဲ့ကြောင်း သိရသည်။

ကျမ်းကိုး၊ ယင်းစာ ၁၃၇

**ဝါးတဲကျောင်းမှာသာနေခြင်း အံ့ဖွယ်**

ထိုဆရာတော်ကြီး၏ ကျောင်းဝင်းအတွင်း၌ သိမ်တောင်ဆရာတော်၏ မူလတဲကျောင်းကလေးကိုလည်း တွေ့ရပါသည်။ ထိုဆရာတော်ကြီး၏ သိမ်တောင်ကျောင်းဝင်း အတွင်း၌ လယ်တီဆရာတော်နှင့် မန်လည် ဆရာတော်တို့ သီတင်းသုံးခဲ့ဖူးသော ဝါးတဲကျောင်းကလေးကိုလည်း အံ့ဩစဖွယ် တွေ့ခဲ့ရပေသည်။

ကျမ်းကိုး၊ ယင်းစာ ၁၃၇

**သက်တော် ၁၁၀ နေခြင်း အံ့ဖွယ်**

အေဒီ ၁၉၉၈

ခရစ်နှစ် ၁၉၉၈ ခုနှစ်၊ သက်တော် ၁၁၀ နှစ်၌ ခန္ဓာဝန်စွန့်တော်မူပါသည်။ ထိုအခါ ဝါတော် ၉၀ ရှိပါပြီ။

ကျမ်းကိုး။ သီဟသွေး။ အသီတိစေတီနှင့် အောင်ထူးဆန်းဂါထာ၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း စာ ၁၃၃ ကိုကြည့်ပါ။

ကျမ်းကိုး။ ၁၉၉၈ ခု၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း။ ဩဂုတ်လနှင့်စက်တင်ဘာလလည်း ကြည့်ပါ။

ကျမ်းကိုး၊ မောင်ပန်းမွှေး၊ မျက်လုံးဖောက်လှူတာ ယခုခေတ်မှာ ရှိပါသလား။ ဦးသံဝရဗုဒ္ဓိ၊ ဝိဇ္ဇာမဂ္ဂဇင်း၊ အတွဲ ၁၊ အမှတ် ၇၊ ၂၀၀၈ ခုနှစ်၊ ဧပြီလ၊ စာ ၁၃၇ ကြည့်ပါ။

ကျမ်းကိုး။ မောင်ပန်းမွှေး၊ ရွှေဗိုင်းနားဆရာတော်၊ ကမ္ဘာ့ရွှေရင်အေးဆရာတော်၊ မဟာထေရုပ္ပတ္တိရုပ်ပုံလွှာ၊ ၂၀၀၅ ခုနှစ်၊ ဝင်းတိုးအောင် ပုံနှိပ်တိုက်၊ အမှတ် - ၁၉၉၊ လမ်း -၅၀ကို ကြည့်ပါ။

ကျမ်းကိုး၊ မင်းထူး ညာဘက်မျက်လုံးကို ဖောက်၍ ဘုရားဌာပနာခဲ့သူ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၁၉၉၇ခုနှစ်၊ ဇူလိုင်လ၊ စာ- ၇၃ ကို ကြည့်ပါ။

http://www.dhammadownload.com



နှစ်ပေါင်း ၄၀ ကြာ မပျက်မစီးသော ရုပ်ကလာပ်တော် ထားခဲ့သော

# ဗိုလ်ကုန်းမြို့ကျောင်းကြီးတိုက် ဦးဘောဂ

(၁၈၉၀ – ၁၉၆၈)



http://www.dhammadownload.com



မပုပ်မသိုးသော ရုပ်ကလာပ်တော်များကို သုတေသန ပြုရှာဖွေသောအခါ ဇီးကုန်းမြို့အနီး ကျောင်းတိုက်ကြီးတွင် ဆရာတော်တစ်ပါးကို ရှာဖွေတွေ့ရှိရပါသည်။ ထိုဆရာတော်မှာ ဦးဘောဂ ဖြစ်၏။ နှစ်ပေါင်း ၄၀ ကြာခဲ့ပြီး ဖြစ်၏။

ထိုဆရာတော် မွေးဖွားသောနှစ်မှာ ခရစ်နှစ် ၁၈၉၀ ခုနှစ်ဖြစ်၏။ ဆရာတော်နှင့် မရှေးမနှောင်း မွေးဖွားတော်မူသော ဓာတ်တော်ကျသည့် ရဟန်းတော်ကြီးတစ်ပါးမှာ တော်ကူးဆရာတော်ကြီး ဖြစ်၏။ တော်ကူးဆရာတော်သည် ခရစ်နှစ် ၁၈၉၁ ခုနှစ်တွင် မွေးဖွားတော်မူခဲ့၏။ ဆရာတော် ဦးဘောဂက တစ်နှစ်ကြီး၏။

ကျမ်းကိုး။ မောင်ပန်းမွှေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မစာအုပ်တိုက်၊ ၂၀၀၈ ခုနှစ်၊ အောက်တိုဘာလ စာ ၅၂၁ ကို ကြည့်။

ဆရာတော် ဦးဘောဂထက် အသက် တစ်နှစ်ကြီးသော ဆရာတော်မှာ မွန်ပြည်နယ် ကော့ခပုံ ကျေးရွာ တောင်ပေါ်တောရ ရေတံခွန်ကျောင်း မဟာရင်ဂိုဏ်းကြီး၏ ဦးစီးမဟာနာယက ဆဋ္ဌမ ဂိုဏ်းချုပ်ဆရာတော် ဘဒ္ဒန္တဇောတိပါလ မထေရ်မြတ် ဖြစ်၏။ ဦးဘောဂထက် တစ်နှစ်ကြီးတော် မူ၏ဟု လေ့လာတွေ့ရှိရပါသည်။

ကျမ်းကိုး။ မောင်ပန်းမွှေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မစာအုပ်တိုက်၊ ၂၀၀၈ ခုနှစ်၊ အောက်တိုဘာလ စာ ၅၂၁ ကို ကြည့်။

ခေတ်ပြိုင်မှတ်တမ်းအဖြစ် ရှာဖွေ စုဆောင်းသောအခါ ကျွန်ုပ်တို့ထက် စောစောစီးစီးကပင်လျှင် စိတ်ဝင်စားစွာ မှတ်တမ်းတင်ထားသော သာသနာပြု စာရေးဆရာများ ခေတ်ပြိုင်ရှိသေးသဖြင့် ကျွန်ုပ်တို့က မှတ်စုထုတ်ကာ လေ့လာမှတ်သားရပါသည်။ သာသနာအတွက် ကျေးဇူးကြီးလှ ပါ၏။

ဇီးကုန်းမြို့နောက်ဘက်ရှိ ကျောင်းကြီးတိုက်တွင် နှစ်လေးဆယ်နီးပါးမပျက်မစီးသော ဆရာ တော်ဦးဘောဂ၏ ရုပ်ကလာပ်တော်တည်ရှိကြောင်းသိရသည်။ ဘူတာအမည်ကမ္ပည်းတွင် ထန်းတပင်ဘူတာ ဟူ၍သာ မြင်တွေ့ရသည်။ ထို့ကြောင့်ပင် ထန်းတပင်-ဇီးကုန်း ဟူ၍ တွဲဖက် ခေါ်ဝေါ်ခြင်းဖြစ်ပေမည်။ ရှေးအခါက ထန်းတပင်မြို့၊ ဇီးကုန်းမြို့ဟူ၍ သီးခြား ရပ်တည်ခဲ့ သော်လည်း ယခုအခါ ထန်းတပင်မှာ ဇီးကုန်းမြို့ အရှေ့ဘက် လေးမိုင်ခန့်ရှိ ရွာငယ်ကလေး အဖြစ်သာ တွေ့ရတော့သည်။

ကျမ်းကိုး၊ ဇီးကုန်းမြို့ကျောင်းကြီးတိုက်မှ နှစ်ပေါင်း (၄၀) ကြာ မပျက်မစီးသော ရုပ်ကလာပ် တော်၊ စောသိုင်းလ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် - ၂၄၃၊ ၂၀၀၈ ခု၊ ဇွန်လ၊ စာ -၁၁၃။

**တတိယဆရာတော်ဖြစ်**

အေဒီ ၁၈၃၈

ဒီတော့ပထမဆရာတော်(ဘွဲ့မည်မသိ)က မြန်မာသက္ကရာဇ် ၁၂၀၀ ပြည့်နှစ်ကျော်လောက်မှာ ကျောင်းထိုင်တယ်လို့မှန်းဆရတယ်။ တတိယဆရာတော်က အခုမပျက်မစီး ရုပ်ကလာပ်တော် ဦးဘောဂပါ။ စတုတ္ထက ဦးရေဝတနဲ့ ဦးပဏ္ဍိစ္စ နှစ်ပါးပြိုင်၊ ပြီးမှ ဘုန်းကြီးက ပဉ္စမဆရာတော်ပါ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၄

တစ်ခုသိရတာက ရွှေဘိုမင်းလက်ထက် မဟာနန္ဒာကန်ကို ဖောင်စကြာနဲ့ ကြွချီတော့ သိက္ခာဝါ တော်ကြီးမား ကျော်စောတဲ့ ပထမကျောင်းကြီးတိုက် ဆရာတော်ကို လာဖူးပါတယ်။ ဘုရင်က "ဆရာတော်အလိုရှိတာမိန့်တော်မူပါလို့" လျှောက်တော့ "ဖောင်ဦးက ရုပ်ပွားတော်ကို ပူဇော်လို တယ်" လို့မိန့်ပါတယ်။ ဒါနဲ့ ဘုရင်က ဖောင်တော်ဦး ရုပ်ပွားတော်ကို ကျောင်းကြီးတိုက်မှာ စံပယ်စေခဲ့တယ်လို့ဆိုပါတယ်။

http://www.dhammadownload.com



**ရွှေဘိုမင်းလက်ထက်က ရုပ်ပွားတော်ကြီးလည်းရှိ**

အေဒီ ၁၈၄၇ ရွှေဘိုမင်းက မြန်မာသက္ကရာဇ် (၁၂၀၉) ခုနှစ်မှာ နတ်ရွာစံတော်မူတာကြောင့် ပထမဆရာတော်က မြန်မာသက္ကရာဇ် (၁၂၁၀) ပြည့်ကျော်နှစ်တွေမှာ ကျောင်းထိုင်နေပြီလို့ သိနိုင်ပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၅

**ဆုတောင်းပြည့် ကိုယ်တော်ကြီး**

ရုပ်ပွားတော်က ပြည့်ရှင်ဘုရင် ကိုယ်တိုင်ဖောင်တော်ဦးထားကိုးကွယ်တာမို့ ပြည့်ကိုယ်တော်လို့ ဆရာတော်ကြီးက ဘွဲ့မည်ကပ်လှူခဲ့တယ်။ နောက်ဆက်ခံတဲ့ ဦးဩဘာသ၊ ဦးဘောဂတို့လဲ အလေးအမြတ်ပြု ကိုးကွယ်ကြပါတယ်။ ဘုရားခန်းထဲဝင်ဖူးတော့ ပန်း၊ ရေချမ်းဝေဝေဆာဆာ ကပ်လှူထားတဲ့ တင်ပျဉ်ခွေရုပ်ပွားတော် အတော်များများ မြင်ရတယ်။ အလယ်ဗဟိုပလ္လင်ထက်မှာ ကိန်းဝပ်တာက ပြည့်ကိုယ်တော်ဆင်းတုပါ။ မကိုင်ရှုလွယ်ဆင်ဘူမိဖဿမုဒြာ ဆင်းတု ဖြစ်ပြီး ပုဂံခေတ် လက်ရာဆန်ပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၅

**ရုပ်ကလာပ်တော် မှန်ခေါင်းတလားကို ယနေ့တိုင် တွေ့နိုင်**

ဆရာတော်ဦးဘောဂဗိမာန်ကျောင်းဝင်းရဲ့ အရှေ့တောင်ထောင့်မှာ သီးခြားအရံတံတိုင်း ခတ်ထားတယ်။ တံတိုင်းအဝင်ဝမှ အုတ်အခင်းကိုလဲ တစ်ပေလောက်ချန်လှပ်စည်းခြားထားတာ တွေ့ရတယ်။အရှေ့ဘက်မှာ သီးခြားအဆောင်ထုတ်ပြီး ဆရာတော်ရဲ့ ရုပ်ကလာပ်တော်ကို ပူဇော် ထားတာတွေ့ရတယ်။ အုတ်ခုံထက်မှ မှန်ခေါင်းတလားနဲ့ အတွင်းမှာတော့ မပျက်စီးတဲ့ ရုပ်ကလာပ်တော်ဖူးတွေ့ရတယ်။

**ဆရာတော်၏ ခေတ်ပုံ**

ခေါင်းရင်းမှာ ဆရာတော်ထင်ရှားရှိစဉ်က ရိုက်ထားတဲ့ ပုံတော် ချိတ်ဆွဲထားတယ်။ ခြေရင်းမှာ ထေရုပ္ပတ္တိအကျဉ်းကို မှတ်တမ်းတင်ထားပါတယ်။

**ထေရုပ္ပတ္တိ အကျဉ်းမှာအောက်ပါအတိုင်း ဖြစ်၏။**

အေဒီ ၁၈၉၀ ရွှေဘိုမြို့ မြောက်ဘက် ငါးရာနဲမြို့နယ် (ယခု ကန့်ဘလူမြို့နယ်)အဝင်အပါ ဇီးကုန်း မြို့နေ ဦးတိုနီ၊ ဒေါ်ရွှေမတို့မှ ၁၂၅၂ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း(၅)ရက် ကြာသပတေးနေ့တွင် ဖွားမြင်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၆

အေဒီ ၁၉၀၂ ငယ်မည် မောင်ချစ်ပေါ တွင်သည်။ (၁၂)နှစ်သားတွင် ကျောင်းကြီးတိုက်ဆရာတော်ဦးဩဘာသ ထံ ရှင်သာမဏေဝတ်သည်။

အေဒီ ၁၉၁၀ သက္ကရာဇ် ၁၂၇၂ ခုနှစ်တွင် ဇီးကုန်းမြို့အနောက်ကျောင်းကြီးတိုက် ခတ္တာသိမ်၌ ဆရာတော် ဦးဩဘာသကို ဥပဇ္ဈာယ်ပြု၍ မြင့်မြတ်သောရဟန်းဘောင်သို့ ရောက်ရှိသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၇

ရဟန်းဖြစ်ပြီးနောက် ရွှေဘိုပရိယတ္တိအသင်းတိုက်ဆရာတော်၊ မန္တလေးတောင်ပြင်ညောင်ကန် ဆရာတော်၊ ရွှေရေဆောင်ဆရာတော်(ဦးကြည်)တို့ထံတွင် လောကုတ်၊ လောကီပညာအရပ်ရပ်တို့ကို ဆည်းပူးလေ့လာခဲ့သည်။

အေဒီ ၁၉၁၄ သက္ကရာဇ် ၁၂၇၆ ခုနှစ်တွင် ဆရာတော်ဦးဩဘာသ မကျန်းမာသဖြင့် ဇီးကုန်းမြို့ ကျောင်းကြီး တိုက်သို့ ပြန်လာကာ ဆရာတော်ကြီး ပျံလွန်ရာတွင် ဆက်ခံ၍ ထိန်းသိမ်းတော်မူရသည်။

http://www.dhammadownload.com



**နေ့ဝါ ညဝါ စာပို့ချ**

အေဒီ ၁၉၁၇ ဆရာတော်ဦးဘောဂသည် ရဟန်း(၅)ဝါမှ စတင်ကာ(၅၉)ဝါ (သက်တော် ၇၉နှစ်) တိုင်အောင် စာသင်သား သံဃာများအား နေ့ဝါ ညဥ့်ဝါ အမြဲမပြတ် ပို့ချတော်မူခဲ့သည်။

**သူခိုး ဓားပြဘေး ကင်းဝေးအောင် မေတ္တာခြံ**

ဘုရားရှင် ပညတ်ခဲ့သော ဝိနည်းသိက္ခာကို စင်ကြယ်အောင် နေတော်မူလေ့ရှိသည်။ဒုတိယကမ္ဘာစစ်အတွင်းကာလ ဇီးကုန်းမြို့သူမြို့သားများအား မီးပေါက်အမြောက်လက်နက်ဘေး၊ ခိုးသားဓားပြသူပုန်ဘေးတို့မှ လွတ်ကင်းစေရန် မေတ္တာအရံအတားပြုကာ ကျောင်းကြီးဝင်းအတွင်း ခိုလှုံခွင့်ပေးခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၇

**ဂျပန်ခေတ်က ဈေးကျောင်း**

ခေတ်ကာလမအေးချမ်းသော်လည်း ကျောင်းကြီးတိုက်ဝန်းကျင်မှာ ရောင်းဝယ်ဖောက်ကားအေးချမ်းရာ ဘေးမဲ့နယ်မြေဖြစ်နေရာ ဖက်ဆစ်ဂျပန်တို့က ဈေးကျောင်းဟု အမည်ပေးကြသည်။ စစ်အတွင်းကာလတွင်ဆရာတော်၏မေတ္တာရိပ်ကြောင့် ဘေးအန္တရာယ်မကြုံခဲ့ရသော ဇီးကုန်းမြို့ကလေးဖြစ်သည်။

**ဝံသာနုစိတ်ဓာတ်ကြောင့်ဖြစ်သလော**

အေဒီ ၁၉၄၂ သက္ကရာဇ် ၁၃၀၄ ခုနှစ်တွင် စားနပ်ရိက္ခာဆန်အိတ်ထောက်ပံ့ပေးပါရန် ဆရာတော်အား တောင်းပန် လျှောက်ထားကြစဉ်ကလည်း ဝံသာနုစိတ်ဓာတ်ရင့်သန်သော ဆရာတော်ကိုယ်တိုင် စုဆောင်းကြီးကြပ်၍ ဇီးကုန်းမှ မိုင်(၃၀)ခန့်ကွာဝေးသော မြစ်ဆိပ်အရောက် ကားဖြင့် လိုက်ပို့ပေးတော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၇

**ဝေဘူဆရာတော်နှင့်အတူ ဆဋ္ဌသင်္ဂါယနာတင်ခဲ့**

အေဒီ ၁၉၅၆ သက္ကရာဇ် (၁၃၁၈) ခုနှစ် ဆဋ္ဌသင်္ဂါယနာဝန်ဆောင်အဖွဲ့တွင် ဝေဘူဆရာတော်နှင့်အတူ လေယာဉ်ဖြင့် ကြွရောက်၍ သင်္ဂါယနာဆိုင်ရာ တာဝန်ဝတ္တရားများ ဆောင်ရွက်တော်မူသည်။

**ဆံမဖြူ သွားမကျိုး**

အေဒီ ၁၉၆၈ ဆရာတော်သည် သက်တော်(၇၉)နှစ်၊ သက္ကရာဇ်(၁၃၃၀) ပြည့်နှစ်တိုင် ဆံမဖြူ၊ သွားမကျိုး၊ နားမထိုင်း၊ ခါးမကိုင်းဘဲ ရောဂါဝေဒနာတစ်ကြိမ်တစ်ခါမျှ ဖိစီးနှိပ်စက်ခံရခြင်းမရှိ။ ပကတိ ကျန်းမာတော်မူသည်။

**သေမည့်နေ့အထိ စာဝါ ပို့ချ မေတ္တာပို့ မပျက်မကွက်**

အေဒီ ၁၉၆၈ သက္ကရာဇ် ၁၃၃၀ ပြည့်နှစ် နတ်တော်လဆန်း(၁၁)ရက်နေ့အထိ စာဝါပို့ချခြင်း၊ တရားဘာဝနာ ပွားခြင်းစသည့် ပရိယတ္တိ ပဋိပတ္တိကိစ္စ ပြုဖွယ်များပုံမှန်ပြုတော်မူ၍ နောက်တစ်နေ့ နတ်တော်လဆန်း (၁၂) ရက် အရုဏ်တက်ချိန်မှစတင်ကာ ဝေဒနာဖြင့် သတိလစ်ဟင်းကာ (၅) ရက်အကြာ နတ်တော်လပြည့်ကျော်(၁)ရက်နေ့ ညဥ့် (၁၁)နာရီတွင် ခန္ဓာဝန်ချတော်မူသည်။

**ရှေ့နတ်တော်ထွက် ဓမ္မစက်ကို အမြဲပူဇော်**

ဆရာတော်ဦးဘောဂ၊ ရဟန်း(၅)ဝါရကတည်းက နေ့ဝါ၊ ညဥ့်ဝါစာချပြီးတိုင်း ဓမ္မစက္ကပဝတ္တနသုတ်၊ အနတ္တ လက္ခဏသုတ်၊ မဟာသတိပဋ္ဌာနသုတ်၊ မဟာသမယသုတ်နဲ့ ပဋ္ဌာန်းပါဠိတော်တွေကို ရွတ်ဖတ် သရဇ္ဈာယ်ပါတယ်။ တစ်ခါတလေ ပင်ပန်းပြီး သတိမေ့လျော့ ကျိန်းစက်မိရင်

http://www.dhammadownload.com



ချက်ချင်း ပြန်နိုးလာတယ်။ ဒါတွေ ကျန်ပါသေးလားလို့ သတိရပြီး ရွတ်ဖတ်ပူဇော်ပြီးမှ ကျိန်းလို့ ပျော်တယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၈

**နတ်တွေ အမြဲ လာပြီးပြော၊ အမြဲ တရားနာတာ လူမသိ**

အဲဒီတုန်းက ဘုန်းကြီးက သာမဏေဘ၀နဲ့ ဆရာတော်ကြီးရဲ့ ဝေယျာဝစ္စတွေ ဆောင်ရွက်ပေးရတယ်။ ငယ်သေးတဲ့ သာမဏေအရွယ်မို့ တရားရွတ်ဖတ်သံကို အလေးအနက်မပြုမိတာလဲ ရှိမှာပေါ့။ အဲဒီအခါ ဆရာတော်ကြီးက မင်းတို့သာ မနာတယ်။ နတ်တွေက အမြဲတမ်း လာပြီး နာကြတယ်လို့ မကြာမကြာပြောလေ့ရှိတယ်။

**ကျိန်းတယ်ဆိုတာမရှိ၊**

ကျိန်းတယ်ဆိုတာလဲ ဟုတ်တိပတ်တိ မရှိပါဘူး။ ခဏတဖြုတ်လျောင်းနေပြီး ည(၁၁)နာရီလောက်ကစပြီး မနက်သုံးနာရီအထိ ဖိုထိုးနေတော့တာပါ။ ညဥ့်ဘက်မှာသာ ထိုးတယ်။ နေ့ဘက်မှာ ဖိုရုံဘက်ခြေဦးတောင် မလှည့်ဘူး။

ဆရာတော်ကြီး ပျံလွန်တော်မူတဲ့အထိ ဘာအဖျားအနာ ဝေဒနာမှမရှိဘူး။ နှာစေး၊ ချောင်းဆိုး၊ ချေဆတ်တာ တောင်မတွေ့ဖူးပါဘူး။ ကျန်းမာရေးကောင်းတယ်။

ဆရာတော်ကြီးဓာတ်ထိုးရင် ရွှေပြာကျတယ်။ ဓာတ်လုံးပြာနဲ့ စတုမဓူရောပြီး နေ့တိုင်းကျွပ်ကကပ်ပေးရတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၈

**နေ့တိုင်း ပုတီးစိပ်၊ ဝိပဿနာ ကမ္မဋ္ဌာန်းအားထုတ်**

ဝိပဿနာ ကမ္မဋ္ဌာန်းအားထုတ်သလို သမထကမ္မဋ္ဌာန်းကိုလဲကြိုးစားပါတယ်။ နေ့တိုင်း ပုတီးစိပ်လေ့ရှိတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၈

**မပုပ်မသိုး၍ ခြင်ထောင်ချ၍ ပူဇော်ကြ၏**

ပျံလွန်တော်မူတော့ အရည်မထွက်၊ မပုပ်မသိုးပါဘူး။ အဲဒီတုန်းက ဒကာရင်းဖြစ်တဲ့ ဒေါက်တာတင်လှက သေသေချာချာစမ်းသပ်ပြီး ပုံမှန်တွေ့ရလေ့ရှိတဲ့ မျက်လုံး၊ ပါးစပ်၊ နှာခေါင်းစတာတွေက အရည်ထွက်ကျတာလဲမရှိဘူး၊ ထူးခြားတယ်ဆိုပြီး ရုပ်ကလာပ်တော်ကိုခြင်ထောင်ချပူဇော်စေတယ်။

**မင်းကွန်းဆရာတော် သပိတ်အိုင် သီတဂူဆရာတော်တို့ကို ရှိခိုးသော်**

လက်ရှိဆရာတော်က ကျောင်းကြီးတိုက်မှာ အာဂန္တုအဖြစ်လာရောက် သီတင်းသုံးသွားကြတဲ့ ဆရာတော်ကြီးတွေရဲ့ မှတ်တမ်းပုံတွေပြပေးတယ်။ ကျောင်းခန်းနံရံအပေါ်ပိုင်းမှာ ချိတ်ထားတာပါ။ မင်းကွန်းဆရာတော် ဦးဝိစိတ္တသာရာဘိဝံသ၊ သပိတ်အိုင် သီတဂူဆရာတော် ဦးဉာဏိဿရ စတာတွေ သတိထားမိတယ်။

**ဝေဘူဆရာတော် မကြာမကြာ ကြွလာ၏**

ဆရာတော်ဦးဘောဂရှိစဉ်ကတော့ ရွှေဘိုမြို့ အင်ကြင်းပင်တောရမှာ သီတင်းသုံးတဲ့ ဝေဘူဆရာတော်ကြီး မကြာခဏကြွလာကြောင်း သိရှိရပါသည်။

ကျမ်းကိုး၊ ဇီးကုန်းမြို့ ကျောင်းကြီးတိုက်မှ နှစ်ပေါင်း ၄၀ ကြာ မပျက်မစီးသောရုပ်ကလာပ်တော်၊ စောသိုင်းလ၊နကတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ်-၂၆၃၊ ၂၀၀၈ ခု၊ ဇွန်လ၊ စာ-၁၁၃

http://www.dhammadownload.com



ဇီးကုန်းမြို့၏ အချက်အချာ လူစည်ကားရာနေရာ တစ်ခုဖြစ်သော ဘူတာဝန်းကျင်တွင် ရွာနီးစပ်ချုပ်မှ ကားများ၊ လှည်းများ၊ ခရီးသွားများဖြင့် စည်ကားနေသကဲ့သို့ ဘူတာမှာလည်း ကျယ်ပြန့်လှပါသည်။ သို့သော် ဘူတာ အမည်ကမ္ပည်းတွင် 'ထန်းတပင်ဘူတာ' ဟူ၍သာ မြင်တွေ့ရသည်။ ထို့ကြောင့်ပင် ထန်းတပင်-ဇီးကုန်းဟူ၍ တွဲဖက်ခေါ်ဝေါ်ခြင်း ဖြစ်ပေမည်။ ရှေးအခါက ထန်းတပင်မြို့၊ ဇီးကုန်းမြို့ဟူ၍ သီးခြားရပ်တည်ခဲ့သော်လည်း ယခုအခါ ထန်းတပင်မှာ ဇီးကုန်းမြို့ အရှေ့ဘက်လေးမိုင်ခန့်ရှိ ရွာငယ်ကလေးအဖြစ်သာ တွေ့ရတော့သည်။ (၁၀)မိနစ်ခန့် လျှောက်ပြီးနောက် အနောက် ကျောင်း (ခေါ်) ကျောင်းကြီးတိုက်သို့ ရောက်၏ဟု မှတ်တမ်းတင်ထားသည်ကို ဖတ်ရှုရပါသည်။

ကျမ်းကိုး။ စောသိုင်းလ၊ အမှတ် ၂၆၃၊ ဇွန် ၂၀၀၈၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း။ စာ-၁၁၃

❁ ❁ ❁

http://www.dhammadownload.com



## ဆွမ်းဘောဇဉ်ကို သစ်ရွက်မျှသာ ၃ နှစ် စား၍ တရားကျင့်ခဲ့သော ထားဝယ်မြို့ ဇေယျဝတီကျောင်းတိုက်

# ရဟန္တာဆရာတော် ဦးနန္ဒိယ

## (၁၈၉၀ - ၁၉၆၅)

တောင်ပွားဆရာတော် အကြောင်းကို ဦးစွာ သိရှိရသည်မှာ မြိတ်မြို့ ဇေယျဝတီကျောင်းတိုက် သမိုင်းအစ ဖတ်ခြင်းမှ ဖြစ်ပေသည်။

ကျမ်းကိုး။ မြိတ်မြို့၊ ဇေယျဝတီကျောင်းတိုက်သမိုင်း၊ ၁၃၃၀ ခုနှစ် သုဓမ္မဝတီ ပုံနှိပ်တိုက်ထုတ် စာအုပ်ကိုကြည့်ပါ။

တောင်ပွားဆရာတော်သည် မြိတ်မြို့ ဇေယျဝတီတိုက် ဦးသီလကျောင်းတိုက်တွင် မူလပထမ တိုက်အုပ်အဖြစ် ဆောင်ရွက်တော်မူ၏။ ဦးသီလလက်ထက်က တိုက်အုပ်တောင်ပွား ဆရာတော်ဟု လူသိများ၏။

ကျမ်းကိုး။ ရတနာ ထားဝယ်၊ ထားဝယ်ရေးရာ မှတ်တမ်းပဒေသာ၊ ၁၉၉၇၊ ပထမအကြိမ်၊ စာ ၂၃၃ ကို ကြည့်ပါ။

တောင်ပွားဆရာတော် အမွေအနှစ်အဖြစ် တရားတိပ်ခွေ ၄ ခွေကျန်ခဲ့ကြောင်း သိရှိရပါသည်။ နှစ်ပေါင်း ၁၀၀ ကျော် ကြာခဲ့သည်ဖြစ်ပါသည်။

ကျမ်းကိုး။ ယင်းစာအုပ်ကို ကြည့်ပါ။

တောင်ပွားဆရာတော်နှင့် တရားကျင့်ဖက်မှာ မြိတ်မြို့ ဦးနန္ဒိယ ဖြစ်၏။ ဦးနန္ဒိယသည် ဈာန်အဘိညာဉ်ရတော်မူ၏။ ထိုအကြောင်းကို ဇေယျဝတီမြို့မ ဆရာတော် ဦးသီလကိုယ်တော် တိုင် ဖော်ထုတ်ခဲ့၏။

ကျမ်းကိုး။ ယင်းစာအုပ်ကို ကြည့်ပါ။

ဘုန်းတော်ကြီး ဦးသီလမဟုတ်သော အခြားတစ်ပါးဖြစ်သည့် ထားဝယ် ဇေယျဝတီကျောင်း တိုက် ဆရာတော် ဦးသီလနှင့် ဘုန်းတော်ကြီး ဦးဗိုက်နှင့် ဘုန်းတော်ကြီး ဦးစီပိုတို့ ၃ ပါးဆိုင်၍ ရေးမြို့ ရန်ကင်းတောင်တွင် တရား အားထုတ်ရာ တစ်တောင်လုံး လင်းနေသည်ကို အနီးအနား ရွာများမှ မြင်ရ၏။

ကျမ်းကိုး။ ရေးမြို့ ရန်ကင်းတောင် အောင်မြေများ၊ နဂ္ဂတ္တရောင်ခြည် မဂ္ဂဇင်းကိုကြည့်။

ထူးခြားမှု အထွေထွေရှိသော ခေတ်ပြိုင်မှတ်တမ်းများ၌ ရှာဖွေတွေ့ရှိရသော တရားထူး တရားမြတ်ရတော်မူသည့် မြိတ် ဦးနန္ဒိယအကြောင်းကို ကျွန်ုပ်၏မှတ်စုကတ်တလောက်တွင် အောက်ပါအတိုင်းတွေ့ရှိရပါသည်။

အေဒီ ၁၉၁၄ — ဆရာတော် ဦးနန္ဒိယသည် မြိတ်မြို့နယ်၊ သမုတ်ရွာ၊ ကျောင်းကြီး ဆရာတော်ထံ၌ ခရစ်နှစ် ၁၉၁၄-ခုနှစ်တွင် ရဟန်းပြုလေသည်။

http://www.dhammadownload.com



**စာသင်ကြားခြင်း**

အေဒီ ၁၉၁၈ ဦးနန္ဒိယသည် ခရစ်နှစ် ၁၉၁၈-ပြည့်နှစ် ရဟန်းသိက္ခာ ၄-ဝါအရတွင် ထားဝယ်မြို့ ဓမ္မာဝတီကျောင်းတိုက်ဆရာတော် ဦးသီလထံ လောကုတ္တရာ ပိဋကတ်အခြေခံ သဒ္ဒါ၊ သင်္ဂြိုဟ်၊ ကစ္စီ၊ ဋီကာ စသောကျမ်းများကို သင်ကြားအားထုတ်တော်မူလေသည်။

**ဆရာတော်ကြီးအားလျှောက်ထားခြင်း**

ဦးနန္ဒိယသည် ဓမ္မာဝတီကျောင်းတိုက်တွင် စာသင်နေစဉ် စာကြိုးစားအားထုတ်တိုင်း ဉာဏ်ကမပါသောကြောင့် စာသင်ရာတွင်စိတ်ပျက်ပြီး သာသနာ့ဘောင်တွင် မပျော်မွေ့တော့ပါပြီ။ လူထွက်ပါတော့မည်ဟု အတိအလင်း ဓမ္မာဝတီဆရာတော်အား လျှောက်ထားလေသော် ဓမ္မာဝတီဆရာတော်က လူမထွက်ရန်တားမြစ်ပြီး မင်းရပ်တောကျောင်း၌ ကိုယ်တွေ့တရား အားထုတ်ရန် ညွှန်ကြား ဩဝါဒပေးလေသည်။

**ကိုယ်တွေ့တရား အားထုတ်ခြင်း**

ဘုန်းကြီးဦးနန္ဒိယသည် ဓမ္မာဝတီဆရာတော် ညွှန်ကြားချက်အရ တောကျောင်းတွင် ဝိပဿနာတရားကို မရမနေ သေသေကြေကြေ ကြိုးစားအားထုတ်လေရာ မကြာမီ ကိုယ်တွေ့တရား ရရှိလေသည်။ ဓမ္မာဝတီဆရာတော်ကလည်း ဦးနန္ဒိယ ရရှိသော ကိုယ်တွေ့တရားများကို ဘုရားဟောကျမ်းဂန်နှင့် ညီသောကြောင့် ရှေ့ကိုသာကြိုးစား အားထုတ်ရန် တိုက်တွန်းခဲ့လေသည်။

**ဆွမ်းဘောဇဉ်ကို ဖြတ်၍ မသုံးဆောင်ဘဲ အားထုတ်ခြင်း**

ဘုန်းတော်ကြီး ဦးနန္ဒိယသည် ဆွမ်းဘောဇဉ်များကို သစ်ရွက်မျှကိုသာ သုံးဆောင်စားသောက်၍ ၃-နှစ် တရား အားထုတ်ခဲ့သော ပုဂ္ဂိုလ်ထူး ဖြစ်လေသည်။

**ဓုတင်အမြဲဆောင်ခြင်း**

ဘုန်းတော်ကြီး ဦးနန္ဒိယသည် ကောသနိက် ပတ္တပိဏ် ဓုတင်ဆောင်ခြင်း၊ အိမ်စဉ်ရပ် ပိဏ္ဍပါတ် ဓုတင်ဆောင်ခြင်းများကို ကျင့်ကြံအားထုတ်လေ့ရှိသည့်အပြင် သမထနှင့် ဝိပဿနာ နှစ်မျိုးလုံး အားထုတ်ခဲ့၍ မိမိ၌ ရရှိသောကိုယ်တွေ့တရားများကို ဓမ္မာဝတီဆရာတော်ကြီးမှတစ်ပါး မည်သူ့ကိုမျှ အသိပေးလေ့မရှိသော ပုဂ္ဂိုလ်ဖြစ်လေသည်။

ဘုန်းတော်ကြီး ဦးနန္ဒိယသည်ဓမ္မာဝတီဆရာတော်ကြီးနှင့် တောင်ပွားဆရာတော်တို့ ဓမ္မာဝတီကျောင်းတိုက်သို့ ပြောင်းရွှေ့သွားသောအခါ၌ ဝိပဿနာနည်းပြဆရာတော်အဖြစ် ဆက်လက်တာဝန်ယူပြီး နည်းပေးညွှန်ကြား ဟောပြောပြသလျက် သီတင်းသုံးနေတော်မူလေသည်။

အေဒီ ၁၉၅၅ ဘုန်းတော်ကြီး ဦးနန္ဒိယအား ခရစ်နှစ် ၁၉၅၅-ခုနှစ် တပေါင်းလ ဓမ္မာဝတီ ဓမ္မာရုံကြီး၌ ထားဝယ်ခရိုင် ဂဏဝိမုတ် ကူးတို့ ဂိုဏ်းလုံးကျွတ် သံဃအစည်းအဝေးတွင် နာယက ဆရာတော် အဖြစ် တင်မြှောက်ခံရတော်မူလေသည်။

အေဒီ ၁၉၆၁ ဆရာတော်ဦးနန္ဒိယသည် မင်းရပ်တောကျောင်းတွင် ၄၃ နှစ်တိုင်အောင်သီတင်းသုံး နေထိုင်တော်မူပြီး၍ ခရစ်နှစ် ၁၉၆၁-ခုနှစ်၌ "ဉာတကာနဋ္ဌ သင်္ဂဟော" ဆိုသည့်အတိုင်း မွေးဖွားရာ ဇာတိဖြစ်သော သမုတ်ရွာ၊ ဆွေမျိုးဉာတိ၊ တကာတကာမများ အလွန်တရာတွေ့ခဲ့ ကြုံကြိုက်ခဲ့သော ဝိပဿနာတရားများကို အားထုတ်စေခြင်းငှာ ပြောင်းရွှေ့တော်မူ၍ သမုတ် ကျောင်းတော်ကြီးတွင် တရားအားထုတ်ရန် ကမ္မဋ္ဌာန်းကျောင်းများကို တည်ထောင်တော်မူလေသည်။

http://www.dhammadownload.com



**မြိတ်၊ သမုတ်ရွာ တကာတကာမများအား ကျေးဇူးဆပ်ခဲ့ခြင်း။**

အေဒီ ၁၉၆၅ ဆရာတော်ဦးနန္ဒိယသည် သမုတ်ရွာ ကျောင်းကြီးအာရာမ်တွင်း၌ တကာတကာမများအား ဝိပဿနာတရားများကို နည်းပေးဟောပြော အားထုတ်စေလျက် သီတင်းသုံး နေထိုင်တော်မူရာတွင် ခရစ်နှစ် ၁၉၆၅-ခုနှစ် တပေါင်းလဆုတ် ၈-ရက်၊ ညနေ ၅-နာရီအချိန်၌ တကာတကာမများအား သခ်ီရဓမ္မရုပ်နာမ်တရားများကို ဟောပြော ဆုံးမတော်မူလျက်ပင် ခဏာ ဿျောင်းစက်ရာမှ ဒုက္ခဝေဒနာကို မခံစားရဘဲ ဘဝတစ်ပါးသို့ စံမြန်းကြွမြန်းတော်မူလေသည်။

အေဒီ ၁၉၆၅ သက်တော် ၇၅-နှစ် သိက္ခာတော် ၅၁ ဝါအရတွင် ဘဝနတ်ထံ စံမြန်းရလေတော့သည်။

http://www.dhammadownload.com



အကနိဋ္ဌဘုံသို့ သွားရန် နတ်ရထားစောင့်နေပါသည်ဟု လျှောက်ထားပြီး ပြန်၍အိပ်ချလေသည်နှင့်တစ်ပြိုင်နက် ခန္ဓာဝန်ချတော်မူသော ထားဝယ်ရဟန္တာ

# ဘုန်းကြီး စိပို ဦးပညာဝံသ

## (၁၈၉၀ - ၁၉၆၅)

ဘုန်းကြီးစိပို၏ ထူးခြားချက်မှာ မင်းရပ်တောကျောင်းတွင် ရှေးဦးစွာ တရားထူးရသော ပုဂ္ဂိုလ်ဖြစ်ခြင်း ဖြစ်ပေသည်။

ကျမ်းကိုး။ ထားဝယ်မြို့၊ ဇေယျဝတီကျောင်းသမိုင်း၊ ၁၃၃၀ ခု၊ သုဓမ္မဝတီ ပုံနှိပ်တိုက်၊ ခရီးသွားရာ၌ မီးရထား မီးသင်္ဘောများတွင် ဆွမ်းခံစားလေ့ရှိသော ရဟန်းထူးဖြစ်ကြောင်း မှတ်တမ်းရှိပါသည်။ ခေတ်ပြိုင် မှတ်တမ်းဖြစ်၏။

ကျမ်းကိုး။ ထားဝယ်မြို့၊ ဇေယျဝတီကျောင်းသမိုင်း၊ ၁၃၃၀ ခု၊ သုဓမ္မဝတီ ပုံနှိပ်တိုက်၊ ဘုန်းကြီး စိပို မြို့တွင်းကြွသောအခါ မြို့သူ မြို့သားအပေါင်းတို့သည် ကောင်းကင်ကို ကြည့်၍ သာ ဖူးကြရ၏။ ဤကား ထူးခြားချက်ဖြစ်၏။ ဤကိစ္စ ထားဝယ်တွင် အလွန်ကျော်စော၏။

ကျမ်းကိုး။ ထားဝယ်မြို့၊ ဇေယျဝတီကျောင်းသမိုင်း၊ ၁၃၃၀ ခု၊ သုဓမ္မဝတီ ပုံနှိပ်တိုက်၊ ဘုန်းကြီး စိပိုခေါ် ဦးပညာဝံသသည် ထားဝယ်ခရိုင်၊ လောင်းလုံမြို့နယ်၊ မင်းရပ်ကြီးရွာမှာ မွေးဖွားရာဇာတိ ဖြစ်၍ လူတို့၏ ဓလေ့ထုံးစံအတိုင်း ပရိယေသနအတွက် လယ်ယာလုပ်ကိုင် စားသောက်နေထိုင်သော ပုဂ္ဂိုလ်ဖြစ်လေသည်။

ဦးစိပိုသည် သတိသံဝေဂ ရလာသော ပုဂ္ဂိုလ်ဖြစ်သည့်အတွက်ကြောင့် အရိုးကြေကြေ အရေပွပွ သေပေစေဆိုသည့်သဘောဖြင့် မင်းရပ်တောကျောင်း မူလကမ္မဋ္ဌာန်းဆရာ ဦးဝိဇယထံတွင် ဝိပဿနာ ထွက်သက် ဝင်သက်တရားကို အားထုတ်လေရာ များမကြာမီ ကိုယ်တွေ့တရား ထင်မြင်လေတော့သည်။

ဇေယျဝတီ ဆရာတော်ကလည်း ဘုရားဟောကျမ်းဂန်နှင့်ညီ၊ မညီ မေးမြန်းစိစစ်ပြီး ရှေ့သို့သာ အစဉ်အတိုင်း အားထုတ်ခိုင်းလေသည်။ ဦးစိပိုသည် မင်းရပ်တောကျောင်းတွင် ရှေးဦးစွာ ကိုယ်တွေ့ တရားများ ထင်မြင်သော ပုဂ္ဂိုလ်ထူး ဖြစ်လေသည်။

ဦးစိပိုသည် ဇနီးနှင့် သားသမီးများကို "မင်းတို့သဘောအတိုင်း နေထိုင် စားသောက်ပေ တော့" ဟု မုတ္တစာဂီ မငဲ့မကွက် မတွယ်မတာ လက်လွတ် စွန့်လွှတ်ပြီးလျှင် မင်းရပ်တောကျောင်း ဇေယျဝတီဆရာတော် ဦးသီလထံတွင် တောထွက်ရဟန်းပြုလေတော့သည်။

**စာတင်များကျင့်ခြင်း**

ဘုန်းကြီး ဦးစိပိုခေါ် ဦးပညာဝံသသည် ဧကာသနိက် ပတ္တပိုဏ်ဓုတင်ကို ကျင့်ခြင်း၊ အိမ်စဉ်ရပ် ဆွမ်းခံပိဏ္ဍပါတ်ဓုတင်ကိုဆောင်တည်ခြင်း၊ သက်န်းသုံးထည် တိစီဝရိက်ဓုတင်ကို အမြဲတမ်း ဆောက်တည်ခြင်းများကို ကျင့်လေ့ရှိသည်။ ခရီးသွားလာရာ၌လည်း မီးရထား၊ မီးသင်္ဘော

http://www.dhammadownload.com



များတွင် ဆွမ်းခံပြီး စားလေ့ရှိသော ပုဂ္ဂိုလ်ဖြစ်လေသည်။

ထိုစဉ်အခါ အထက်က ဖော်ပြခဲ့သည့်အတိုင်း ဘုန်းကြီးစီပို မြို့အတွင်းသို့ ကြွသွားလာသော အခါ၌ မြို့သူမြို့သား နယ်သူနယ်သားများသည် ကောင်းကင်ကိုသာ မော်ကြည့်လေ့ရှိကြသည်။ အချို့သော တကာ တကာမများသည် မြေကြီး၌ ခြေဖြင့်သွား၊ မသွား ကျောင်းတိုက်တွင် လာရောက်မေးမြန်း လျှောက်ထားကြလေသည်။

**တရားဟောခြင်း**

ဘုန်းကြီးစီပိုခေါ် ဦးပညာဝံသသည် တရားဟောသောအခါ ပိဋကတ် ကျမ်းစာသင်ဖူးသော ကျမ်းဂန်တတ်ပုဂ္ဂိုလ်ကဲ့သို့ ပါဠိအနက် အကိုးအကားဖြင့် ဟောလေ့ရှိသည့်အတွက်ကြောင့် "အရှင်ဘုရား ဘယ်တုန်းက စာသင်ဖူးပါသလဲ" ဟု မေးမြန်းလျှောက်ထားသောအခါ "ငါ ဘာစာသင်ဖူးမလဲ၊ စာတစ်ခေါက်ကြည့်ပေါ့" ဟု ဖြေဆိုလေသည်။

**ပျံလွန်တော်မူခါနီးထူးခြားချက်**

ဘုန်းကြီးစီပိုခေါ် ဦးပညာဝံသသည် လူကြီးရောဂါဖြင့် မင်းရပ်တောကျောင်းမှာပင် ပျံလွန်တော်မူခါနီး ဆဲဆဲတွင် ဇေယျဝတီ ဆရာတော်ကြီးနှင့် တပည့်ကြီးများ ခြံရံလျက် စောင့်ကြည့်နေကြသောအခါ၌ ဘုန်းကြီးစီပိုသည် အလိုအလျောက် တစ်ပါးတည်း စကားပြောလျက် " ခဏဆိုင်းပါဦး၊ ခဏဆိုင်းပါဦး" ဟု ပြောဆိုနေသောအခါ ဇေယျဝတီဆရာတော်ကြီးက "ဦးပဥ္စင်းစီပို ဘာများရောင်ရမ်း ပြောဆိုနေသလဲ၊ သတိတရား ကောင်းကောင်းထားပါ" ဟု အမိန့်ရှိသော် ဘုန်းကြီး စီပိုက "တပည့်တော်ကို နတ်များက ပျံလွန်တော်မမူမီ သီလ ပေးပါဟု တောင်းပန်နေသောကြောင့် သီလပေးရမည်" ဆို၍ ထထိုင်ပြီး လူကောင်းကဲ့သို့ ရှစ်ပါးသီလ ပေးလေတော့သည်။

သီလပေးပြီးသော် "တပည့်တော်အတွက် ဘာမျှ မစိုးရိမ်ပါနှင့်ဘုရား စိတ်ချတော်မူပါ။ ယခု တပည့်တော်အား အကနိဋ္ဌဘုံသို့သွားရန် နတ်ရထားစောင့်နေပါသည်" ဟု လျှောက်ထားပြီး ပြန်၍အိပ်ချလေသည်နှင့် တစ်ပြိုင်နက် အသက်ပျောက်၍ ဘဝတစ်ပါးသို့ ကြွမြန်းလေတော့သည်။

ကြွင်းကျန်သော ရုပ်အလောင်းတော်ကို တောကျောင်းအထက် ရွှေမိုးညိုတောင်ပေါ်တွင် မြေဂူသွင်းနှံထားလေတော့သည်။

ဘုန်းကြီး စီပိုသည် ထားဝယ်မြို့ ဇေယျဝတီကျောင်းတိုက် ရဟန္တာ ဦးသီလနှင့် ခေတ်ပြိုင်ဖြစ်၍ တစ်ပြိုင်တည်း တရားထူးရ၍ ပေါက်မြောက်အောင်မြင်ကြသော ရဟန္တာကြီးများ ဖြစ်ကြလေသည်။

ကျမ်းကိုး။ ထားဝယ်မြို့၊ ဇေယျဝတီကျောင်းသမိုင်း၊ ၁၃၃၀ ခု၊ သုဓမ္မဝတီ ပုံနှိပ်တိုက်၊

http://www.dhammadownload.com



သရဏဂုံဖြင့် ပေါက်မြောက်အောင်မြင်တော်မူ၍ ရုပ်ကလာပ်တော် ကြွင်းကျန်ပြီး ခြေသည်း လက်သည်းများပင် ရှည်ထွက်လာသော ထူးခြားသည့် သက်တော်ရာပြည့်

# ပေါင်းတည်မြို့ ဘုရားသုံးဆူ ကိုရင်ကြီး ရှင်ဓမ္မသာမိ

## (၁၈၉၅ – ၁၉၉၅)

ရုပ်ကလာပ်တော် ကြွင်းကျန်တော်မူသည်ကို ဖူးရ၏။ ဘယ်နေ့ ဘယ်ရက်က ပျံလွန်တော်မူသည်ကို အတိအကျမသိရ။ သို့သော် ခြေသည်း၊ လက်သည်းများ ရှည်ထွက်နေသည်ကို တအံ့တသြ ဖူးမြော်ကြရ၏။ ထိုအခါမှာ အားလုံး သိကြရတော့၏။

> ကျမ်းကိုး။ မဟာသဒ္ဓမ္မဇောတိကဓဇ၊ အဂ္ဂမဟာ သဒ္ဓမ္မဇောတိကဓဇ ဘဒ္ဒန္တဝေပုလ္လ၊ ပြည်မြို့ မင်းကြီးတောင်၊ သစ္စာအဓိဋ္ဌာန်ပညာအကျင့်လမ်းစာအုပ်ကြီးကို အသေအချာ ကြည့်တော်မူကြပါ။

ထူးခြားချက်မှာ မိမိကိုယ်တိုင် ဆွမ်းမခံဘဲ အနီးအနားတွင် အရုဏ်ဆွမ်း၊ နေ့ဆွမ်းတို့ အလိုအလျောက် ရောက်ရှိနေခြင်းဖြစ်သည်။

> ကျမ်းကိုး။ မဟာသဒ္ဓမ္မဇောတိကဓဇ၊ အဂ္ဂမဟာ သဒ္ဓမ္မဇောတိကဓဇ ဘဒ္ဒန္တဝေပုလ္လ၊ ပြည်မြို့ မင်းကြီးတောင်၊ သစ္စာအဓိဋ္ဌာန်ပညာအကျင့်လမ်း၊ စာအုပ်ကြီးကို အသေအချာ ကြည့်တော်မူကြပါ။

ဝတ္ထု ငွေကြေး လိုအပ်လျှင် ခေါင်းအုံးအောက်တွင် ဖြစ်စေ၊ အနီးအနားတွင် ဖြစ်စေ အလိုလို ရောက်ရှိနေခြင်း ဖြစ်သည်။

> ကျမ်းကိုး။ မဟာသဒ္ဓမ္မဇောတိကဓဇ၊ အဂ္ဂမဟာ သဒ္ဓမ္မဇောတိကဓဇ ဘဒ္ဒန္တဝေပုလ္လ၊ ပြည်မြို့ မင်းကြီးတောင်၊ သစ္စာအဓိဋ္ဌာန်ပညာအကျင့်လမ်း၊ စာအုပ်ကြီးကို အသေအချာ ကြည့်တော်မူကြပါ။

တောင်ညို တောင်တန်းနှင့် ပေါင်းတည်မြို့သည် မိုင် ၃၀ ကျော်ဝေးသော်လည်း မြင်းလှည်း မစီး ကားမစီးဘဲ တစ်မနက်ခရီးဖြင့် အသွားအပြန် ရောက်ရှိခြင်း ဖြစ်၏။ ဤမျှ ဤမျှ ထူးခြား ၏။

> ကျမ်းကိုး။ မဟာသဒ္ဓမ္မဇောတိကဓဇ၊ အဂ္ဂမဟာ သဒ္ဓမ္မဇောတိကဓဇ ဘဒ္ဒန္တဝေပုလ္လ၊ ပြည်မြို့ မင်းကြီးတောင်၊ သစ္စာအဓိဋ္ဌာန်ပညာအကျင့်လမ်း၊ စာအုပ်ကြီးကို အသေအချာ ကြည့်တော်မူကြပါ။

အထက်ပါ အချက်အလက်များကို ကျွန်ုပ်၏ ကိုယ်တွေ့နှင့် မဟာသရဏဂုံတော်ဟူသော ခေါင်းစဉ်ဖြင့် သစ္စာအဓိဋ္ဌာန် ပညာအကျင့်လမ်းတွင် ဆရာတော်ကြီး ဘဒ္ဒန္တဝေပုလ္လကိုယ်တော်တိုင် ပြန်လည်မိန့်ကြားရေးသားသည်ကို ဖတ်ရှုရသဖြင့် အံ့သြကြည်ညိုရပါသည်။ ဆရာတော်ကြီး၏ မိန့်ဆိုချက်ကို ကျွန်ုပ်၏ မှတ်စုကတ်တလောက်တွင် အောက်ပါအတိုင်း မှတ်တမ်းတင်ထားပါ၏။ သာသနာတော်အတွက် ဖြစ်ပါ၏။ ကျေးဇူးကြီးပါ၏။

http://www.dhammadownload.com



အေဒီ ၁၉၇၀ ကုန်လွန်ခဲ့ပြီးသော ခရစ်နှစ် ၁၉၇၀ ပြည့်နှစ် ကာလအခါ၌ ပေါင်းတည်မြို့ ဘုရားသုံးဆူဘက်တွင် သီတင်းသုံးနေတော်မူသော ကိုရင်ကြီးတစ်ပါးကို အကျွန်ုပ် တွေ့ခဲ့ဖူး၏။ ကိုရင်ကြီးသည် သက်တော်အားဖြင့် (၇၅) နှစ်ခန့် ရှိနေပြီ ဖြစ်သည်။

အေဒီ ၁၉၅၀ ကိုရင်ကြီးဝတ်ဖြင့် နှစ်ပေါင်း ၂၀ ခန့်ရှိပြီ ဖြစ်ကြောင်း အကျွန်ုပ်အား လျှောက်ထားလာခဲ့ပါသည်။ အကျွန်ုပ်ထံသို့ ထိုကိုရင်ကြီး ရောက်လာရခြင်းမှာ မဟာသရဏဂုံတော်ကျင့်စဉ်ရှေ့တက်လမ်းကို အကျွန်ုပ်ထံသို့ လာရောက် လျှောက်ထားခြင်းဖြစ်ပါသည်။ ဘွဲ့မည်မှာ ရှင်ဓမ္မသာမိဟု ဘွဲ့မည်တွင်ထားပါသည်။ အကျွန်ုပ်လည်း ထိုကိုရင်ကြီးအား မဟာသရဏဂုံတော်၏ ရှေ့ကျင့်ကြံပွားများအားထုတ်ရမည့် ရှေ့တက်လမ်းကျင့်စဉ်များအား လမ်းညွှန်ကြားပြီးနောက် ထိုကိုရင် ကြီးအား မဟာသရဏဂုံတော်အကျင့်နှင့်ပတ်သက်၍ အဖြစ်အပျက် အတွေ့အကြုံများကို မေးမြန်းခဲ့ပါသည်။ ထိုအခါ ကိုရင်ကြီး ရှင်ဓမ္မသာမိက အောက်ပါအတိုင်း သူ့အတွေ့အကြုံများကို အကျွန်ုပ်အား အပြည့်အစုံ လျှောက်ထားလာခဲ့ပါသည်။

ကျမ်းကိုး၊ ဘဒ္ဒန္တဝေပုလ္လ၊ သစ္စာအဓိဋ္ဌာန်ပညာအကျင့်လမ်း ၊ စာမျက်နှာ - ၆၆

အေဒီ ၁၉၇၀ မဟာသရဏဂုံတော်များကို တပည့်တော် အားထုတ်လာခဲ့သည်မှာ ကိုရင်ကြီးဝတ် တစ်သက်ပါပဲဘုရား။ အခုဆိုရင် နှစ်ပေါင်း ၂၀ ခန့်ရှိလာခဲ့ပါပြီဘုရား။

စတင်ပြီး ပထမဦးဆုံး အားထုတ် ခဲ့တာကတော့ ပေါင်းတည်အရှေ့ဘက် တောင်ညိုတောင်၏ တောတွင်းတစ်နေရာမှာဖြစ်ပါသည်။ ရက်ပေါင်း ၃၀ တစ်လ အဓိဋ္ဌာန်သစ္စာပြု၍ အသက်သတ်လွတ်စားကာ စတင်၍ မဟာသရဏဂုံတော်များကို အထပ်ထပ်ပွားများ အားထုတ်ခဲ့ပါသည်။ နေ့ဘက်ရောက်လျှင် မေတ္တာပို့ အမျှဝေပြီးအနားယူအိပ်စက်ခဲ့ပါသည်ဘုရား။ ဤအတိုင်း ကျင့်ဆောင်ပွားများသောနည်းအတိုင်း အားထုတ်လာခဲ့ပါသည်။ ယခုဆိုလျှင် သစ်ပင် ၁၂ ပင် ရုက္ခမူအကျင့်များ၊ တော ၁၂ တော၊ တောင် ၁၂ တောင် အကျင့်များ၊ အားလုံး ကျင့်ကြံပွားများ အားထုတ်ပြီးစီးခဲ့ပြီ ဖြစ်ပါသည်ဘုရား။

ယခုလက်ရှိ အားထုတ်နေသည်မှာ ပေါင်းတည်မြို့နှင့် မိုင် ၃၀ ခန့် ဝေးကွာသည့် တောင်ညိုတောင်၏ တောင်စောင်းတစ်နေရာတွင် ယောကျ်ားငါးယောက်ခန့် ဖက်၍ရသော ကြီးမားလှသော သစ်ပင်ကြီးတစ်ပင် ရှိပါသည်။ ထိုကြီးမားသော သစ်ပင်ကြီးကို မှီ၍ တစ်ပါးစာနေ၍ သီတင်းသုံး၍ ရနိုင်သော ကမ္မဋ္ဌာန်း ဝါးကျောင်းလေးတစ်လုံး ဆောက်၍ နေထိုင်သီတင်းသုံးပါသည် ဘုရား။

ယခုလည်း တပည့်တော် မဟာသရဏဂုံတော်ကို လက်မလွတ်ပါဘုရား၊ နေ့ဘက်ကို အနားယူ၊ ညဘက်ဆိုလျှင် တစ်ညလုံး အရုဏ်တက်ချိန်အထိ မဟာသရဏဂုံတော်များကို အဆက်မပြတ် အသံမစဲ သရဇ္ဈာယ်လျက် ရှိနေပါသေးသည်ဘုရား။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၇

"ကိုရင်ကြီး တောထဲတောင်ထဲမှာ တစ်ပါးတည်းကျင့်ကြံ အားထုတ်နေတော့ အရုဏ်ဆွမ်း၊ နေ့ဆွမ်းကျတော့ ဘယ်လို စီမံပါသလဲ၊ ပြည့်စုံအောင် ဘယ်လို ဆောင်ရွက်ထားပါသလဲ၊ တောထဲမှာ တစ်ပါးတည်း သီတင်းသုံးနေရတော့ ဆွမ်းကွမ်းအတွက်က အတော်ခက်ခက်ခဲခဲ ရှိမယ်နှင့် တူတယ်" ဟု အကျွန်ုပ်က မေးလိုက်ပါသည်။

ထိုအခါ ကိုရင်ကြီးက -

http://www.dhammadownload.com



"အစ ပထမတော့ ခက်ခက်ခဲခဲ ရှိတာပေါ့ဘုရား။ ခုနစ်ရက် တစ်ပတ်စာ ဒါမှမဟုတ် တစ်လစာ လောက်ကို မှန်းပြီး ပေါင်းတည်မြို့မှာ ဝယ်ထားပြီး ကိုယ့်ဟာကိုယ်ချက်ပြုတ်စားရတာပါပဲ ဘုရား။ ဒီလိုနှင့် သစ်ပင်ကြီး ၁၂ ပင်စေ့အောင် မဟာသရဏဂုံတော်ကို အထပ်ထပ် အဓိဋ္ဌာန်မပျက်ရအောင် ရွတ်ဖတ် သရဇ္ဈာယ်ခဲ့ပါသည်ဘုရား၊ သစ်ပင်ကြီး ၁၂ ပင် အဓိဋ္ဌာန် လည်း စေ့တဲ့အခါ အရုဏ်ဆွမ်း၊ နေ့ဆွမ်း အစရှိတဲ့ ဆွမ်းကွမ်းကိစ္စ မပူရတော့ပါဘူး ဘုရား။ ယနေ့အထိပဲ ပြောကြပါစို့ဘုရား" ဟု ကိုရင်ကြီးက လျှောက်ထား၏။

ကိုရင်ကြီး မဟာ သရဏဂုံတော်များကို အဓိဋ္ဌာန် ခဏခဏ အောင်မြင်နေလို့ ဒကာ၊ ဒကာမ တွေ အကြည်ညိုများပြီး စားစရာ၊ သောက်စရာ ဆွမ်းကွမ်းတွေ အပြည့်အစုံ လာရောက်ပို့ကြ၊ လှူဒါန်းကြလို့ ဆွမ်းကွမ်းအတွက် မပူမပင်ရတာဖြစ်မှာပဲဟု တွေးထင်ရင်းနှင့် အကျွန်ုပ်က အနားတွင်ရှိနေသော ကိုရင်ကြီးအား -

"မဟာသရဏဂုံတော်ကို ပွားများအားထုတ်တော့လည်း ဆွမ်းဒကာ၊ ဆွမ်းအမ လှူသူတန်းသူ တွေ ပေါများနေတော့ ဆွမ်းကွမ်းအတွက် မပူရတော့ဘူးပေါ့ ကိုရင်ကြီး မဟုတ်လား" ဟု အကျွန်ုပ်က မိမိထင်မြင်မိရာကို ကိုရင်ကြီးအား ပြောလိုက်ပါသည်။

ထိုအခါ အနားရှိ ကိုရင်ကြီးက လက်အုပ်ချီထားကာ -

"မဟာသရဏဂုံတော်များကို ရွတ်ဖတ်သရဇ္ဈာယ်ပြီး အဓိဋ္ဌာန် ခဏခဏ အောင်မြင်နေလို့ အရုဏ်ဆွမ်း၊ နေ့ဆွမ်းအတွက် မပူမပင်ရဘဲ အစစအရာရာ ပြည့်စုံတာ မှန်ပါတယ် ဘုရား၊ ဒါပေမဲ့ ဒကာ၊ ဒကာမ လှူသူ တန်းသူ ပေါများပြီး ဒီဒကာ၊ဒကာမများက ဆွမ်း၊ ကွမ်းများကို လာရောက် လှူဒါန်းတာတော့ မဟုတ်ရပါဘူးဘုရား" ဟုအကျွန်ုပ်အား ပြန်လည်၍ လျှောက် ထား ပါတော့၏။

ထိုအခါ အကျွန်ုပ်က အံ့အားသင့်၊ အံ့ဩသော ကိစ္စဖြစ်နေပါ၍ ချက်ချင်းပင် ကိုရင်ကြီးအား ပြန်လည် ပြောကြားလိုက်ပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၈

"ဟ . . . ကိုရင်ကြီး၊ အရုဏ်ဆွမ်း၊ နေ့ဆွမ်းများက ဒီဒကာ၊ ဒကာမတွေက လာမလှူလို့ ဘယ်သူတွေက လှူမှာလဲဟ၊ ကိုရင်ကြီးကိစ္စက အဆန်းသားပဲ၊ အရုဏ်ဆွမ်းကိစ္စ၊ နေ့ဆွမ်း ကိစ္စတွေက ကြည်ညိုတဲ့သူရှိကြလို့ ဒီဒကာ၊ ဒကာမတွေက ဆွမ်းတွေချက်ပြုတ်ပြီး ကိုရင်ကြီး ဆီကို လာရောက်ဆက်ကပ် လှူဒါန်းတာ မဟုတ်ဘူးလား၊ သေသေချာချာ ရှင်းလင်းစမ်းပါဦး ကွာ" ဟု အကျွန်ုပ်က အံ့အားသင့်အံ့ဩစွာဖြင့် မေးလိုက်မိပါသည်။

ထိုအခါ ကိုရင်ကြီးကပင် ဆက်လက်၍ လျှောက်ထားနေသည်မှာ "အစ ပထမသာ ဆွမ်း၊ ကွမ်းကိစ္စအတွက် စိတ်ပူပြီး လုံးပမ်း အာရုံစိုက်ခဲ့ရတာသာ ဖြစ်ကြောင်း၊ ယခုမူ သစ်ပင်ကြီး ၁၂ ပင် အကျင့် ဖြစ်သည့် မဟာသရဏဂုံတော်များကို ကြိုးစားကျင့်ဆောင်၍ အဓိဋ္ဌာန်အကျင့် အောင်မြင် ပြီးစီးခဲ့ပြီးသည့်နောက်တွင်ကား မိမိသီတင်းသုံးနေရာ ကမ္မဋ္ဌာန်းကျောင်းထဲတွင်ပင် စားစရာ၊ သောက်စရာ၊ ဆွမ်း၊ ကွမ်းများ အလိုလို ရောက်ရှိနေလျက် ရှိပါကြောင်း၊ ရံဖန်ရံခါ များတွင် မိမိအိပ်ရာဘေးတွင် မုန့်အမျိုးမျိုးများ၊ သစ်သီးအမျိုးမျိုးများ အလိုလို ရောက်ရှိနေ သည့်အတွက် အရုဏ်ဆွမ်း၊ နေ့ဆွမ်းအတွက် မပူမပင် မတောင့်မတရဘဲ အလိုလို ပြည့်စုံ လျက် ရှိနေပါကြောင်း၊ ဝတ္ထုငွေကြေး လိုအပ်နေလျှင်လည်း အိပ်ရာဘေးတွင် ဖြစ်စေ၊ ခေါင်းအုံး

http://www.dhammadownload.com



ဘေးတွင်ဖြစ်စေ အလိုလိုရှိနေပြီသား ဖြစ်ကြောင်း၊ သုံးစရာကို ယူသုံးရုံပင်ဖြစ်ပါသည် ဘုရား" ဟု လျှောက်ထားနေပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၀

ထို့ပြင် တောထဲတောင်ထဲမှာ တစ်ပါးတည်း ကမ္မဋ္ဌာန်းကျောင်းလေးဖြင့် သီတင်းသုံး နေရလင့် ကစား တစ်ခါတစ်ရံ အလွန်ကြီးမားသော မြွေကြီးများ အပါအဝင် သားရဲတိရစ္ဆာန်များ၊ ကမ္မဋ္ဌာန်း ကျောင်းနားသို့ ရောက်လာတတ်ပါကြောင်း၊

ထိုအခါ မိမိပင် မသိလိုက်ရဘဲ တစ်စုံတစ်ဦးက မောင်းထုတ်နေသလို ရုတ်တရက် ထိုသားရဲ တိရစ္ဆာန်များ၊ မြွေကြီးများသည် လျင်မြန်စွာပဲ ရုတ်တရက် အဝေးသို့ ပြေးလွှား ထွက်ခွာသွားကြ ကုန်သည်ကိုလည်း မြင်တွေ့နေရပါသည်။

ထို့ကြောင့် တပည့်တော်သည် တောထဲ တောင်ထဲတွင် တစ်ပါးတည်း နေရလင့်ကစား ဘေးမရှိ ရန်မရှိ၊ အန္တရာယ်မရှိ၊ ရောဂါမရှိ စိတ်ချမ်းသာ၊ ကိုယ်ချမ်းသာ နေထိုင် သီတင်းသုံးနိုင်တော့ သည်သာ ဖြစ်ပါသည်ဘုရား။

သက်န်းများ ဟောင်းနွမ်း၍ သက်န်းမရှိခဲ့ပါလျှင် မိမိအိပ်ရာဘေးတွင် သက်န်းအသစ်များ ရောက်ရှိနေတတ်ပါသည်ဘုရား။ ကျန်းမာရေး နေထိုင်မကောင်းလျှင်လည်း မကြာမီ မိမိအိပ်ရာ ဘေးတွင် ပျောက်ကင်းမည့် ဆေးဝါးများ ရောက်ရှိနေသည်များကို တွေ့ရတတ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၀

ကိုရင်ကြီးသည် မိမိ၏ မဟာသရဏဂုံတော်အကျင့် အတွေ့အကြုံများကို အားပါးတရ လျှောက် ထားခဲ့ပါသည်။

ထို့ပြင် အကျွန်ုပ်သိရှိခဲ့သည်မှာ ကိုရင်ကြီး ရှင်ဓမ္မသာမိသည် တောင်ညို တောတန်းနှင့် ပေါင်းတည်မြို့သည် ခရီးမိုင်အားဖြင့် မိုင် ၃၀ ကျော်ခန့် ရှိသည်ကို မြင်းလှည်းမစီး၊ ကားမစီးဘဲ၊ မမောမပန်းဘဲ တစ်မနက်ခရီးဖြင့် ကြွလာနိုင်သည်ကို တွေ့ရှိ ရပါသည်။ ဥတုဒဏ်၊ ရာသီဒဏ်၊ နေဒဏ်၊ မိုးဒဏ်၊ အအေးဒဏ်တို့ကို ခံနိုင်စွမ်းရှိပြီး အမြဲတမ်း ကျန်းမာနေကြောင်း တွေ့မြင် ခဲ့ရပါသည်။

အံ့သြစရာကောင်းလှသော မဟာသရဏဂုံတော် အကျင့်ဟုပင် အားပါးတရ မှတ်တမ်းတင် မိပါတော့၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၁

ရှင်ဓမ္မသာမိ ကိုရင်ကြီးသည် သက်တော် (၇၅) နှစ်ခန့်တွင် အကျွန်ုပ်နှင့် တစ်ကြိမ် တွေ့ခဲ့ရပြီး နောက် သူ့အကြောင်းကို နောက်ထပ်မကြားရတော့ပါ။ သူ့သတင်းကို နောက်ထပ် နားစွင့်နေ သော်လည်း အတော်ကြာအောင် သူ့အကြောင်း မကြားရတော့ပေ။

တစ်နေ့၌ မမျှော်လင့်ဘဲ သတင်းတစ်ခု ကြားခဲ့ရပါသည်။ ထိုသတင်းက တောင်ညို တောင်ခြေ အောက်ရှိ ရွာများမှ ဖြစ်ပါသည်။

အေဒီ ၁၉၉၅ — အချိန်ကား ခရစ်နှစ် ၁၉၉၅ ခုနှစ်၌ ဖြစ်သည်။ ကိုရင်ကြီး ရှင်ဓမ္မသာမိသည် သက်တော် (၁၀၀) တွင် သူ့ကမ္မဋ္ဌာန်းကျောင်းမှာပင် ပျံလွန်တော်မူသွားပြီ ဖြစ်ကြောင်း ကြားသိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၁

http://www.dhammadownload.com



မည်သည့်နှစ်၊ မည်သည့်လ၊ မည်သည့်ရက်တွင် ပျံလွန်တော်မူသည်ဟု တိတိကျကျ မသိရသော်လည်း ကိုရင်ကြီးအသွားအလာ မမြင်တာကြာ၍ တောင်ညိုတောင်ကို တက်ကြည့်သောအခါမှ သူ့ကမ္မဋ္ဌာန်းကျောင်းထဲတွင် ပျံလွန်တော်မူနေသည်ကို အနံ့မထွက်၊ မပုပ်မသိုး၊ ဆံပင်ရှည်လျက်၊ ခြေသည်းလက်သည်း ရှည်လျက်၊ ခန္ဓာကိုယ်မှ ချွေးစများ ထွက်လျက်ရှိနေသည်ကို ရွာသူရွာသားများ ဖူးမြင်ခဲ့ရသည်ဟု ဆိုကြ ပြောကြသည်ကို အကျွန်ုပ်ကြားသိခဲ့ရပါသည်။ ဤကား မဟာသရဏဂုံတော်၏ အကျင့်နှင့် ပတ်သက်၍ အံ့ဖွယ်တစ်ရပ်ဟု သိမှတ်ကြရာ၏။

ကျမ်းကိုး၊ ဘဒ္ဒန္တဝေပုလ္လ၊ သစ္စာအဓိဋ္ဌာန်ပညာအကျင့်လမ်း ၊ စာမျက်နှာ - ၇၂

http://www.dhammadownload.com



ဓာတ်တော်ကျတော်မူသော ရဟန္တာ ဘိုးဒေဝိန္ဒကိုယ်တော်ကြီး၏တပည့်ရင်း

# စစ်ကိုင်းတောင်ရိုး တောင်ဗိလာဆရာတော် ဦးဝိလာသ

(၁၈၉၆ - ၁၉၈၇)



http://www.dhammadownload.com



စစ်ကိုင်းတောင် တောင်ဇီလာဆရာတော်ဘုရားဟု အမည်ကျော်သော်လည်း ဘွဲ့တော်မှာ ဦးဝိလာသ ဖြစ်၏။ ထိုရဟန်းထူး၏ မေတ္တာခံယူခြင်း နည်းပညာသဘောတရားကို လေ့လာ ထားသော ပညာရှင်များလည်း ရှိပါ၏။ ထို့ကြောင့် သိရှိရပါ၏။

ကျမ်းကိုး။ လေးစိုး(မုံရွာ)၊ ဝိဇ္ဇာရသစုံမဂ္ဂဇင်း၊ ၂၀၀၇ ခု ဇွန်လ စာ ၁၁၇ ကိုကြည့်ပါ။

တောင်ဇီလာဆရာတော်ဘုရားလက်ထက်က သုံးစွဲတော်မူခဲ့သော ကြေးစည်ကိုလည်း တမြတ် တနိုးတရိုသေ ကိုးကွယ်ထားသူများလည်း ရှိပေသေး၏။ ရှေးဟောင်းရှုထောင့်မှကြည့်လျှင် လည်း တန်ဖိုးကြီး၏။ သာသနာ့အမွေ ရှုထောင့်မှကြည့်လျှင်လည်း တန်ခိုးကြီး၏။

ကျမ်းကိုး။ မင်းက္ကဒိ ထူးခြားသော တောင်ဇီလာကြေးစည် နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ စာ ၈၆။

စစ်ကိုင်းတောင်ဇီလာဆရာတော်ဘုရားကြီး၏ မဟာသရဏဂုံကျင့်စဉ်သည်လည်း သာသနာ အတွက်အကျိုးကြီးကြောင်း လေ့လာတင်ပြသော သုတေသီများလည်း ရှိပေ၏။

ကျမ်းကိုး။ လေးစိုး(မုံရွာ)၊ လောကပါလဂမ္ဘီရ သုတ၊ စာစုံမဂ္ဂဇင်း၊ ၂၀၀၇ ခု၊ ဒီဇင်ဘာ အမှတ် ၁၁။

စစ်ကိုင်းတောင် ရောက်လျှင် တောင်ဇီလာချောင်သို့ တစ်ခေါက်လောက် မရောက်ရောက် အောင်သွားသူများလည်း ရှိ၏။ စစ်ကိုင်းတောင်ဇီလာဆိုသည်မှာ ပထမတောင်ဇီလာ ဆရာ တော်ဘုရားကြီး လက်ထက်ကတည်းက ဓားမရေကူးသည်ဟု ကျော်စောတော်မူသော ဟိတ် သည် ယခုထက်တိုင်ကြီးမားဆဲဖြစ်၏။ ထို့ကြောင့် တောင်ဇီလာချောင် ခရီးသွားမှတ်တမ်း များသည် နာမည်ကြီး၏။ လေ့လာသူများ၏။

ကျမ်းကိုး။ ဦးသန်းဖေမြင့်၊ သာသနာ့သမိုင်းဝင် စစ်ကိုင်းတောင်ရိုးမှ တောင်ဇီလာချောင် သို့ တစ်ခေါက်၊ ပါရမီမဂ္ဂဇင်း၊ ၁၉၉၅ ခု၊ စက်တင်ဘာလ၊ စာ ၂၁ ကိုကြည့်ပါ။

တောင်ဇီလာဆရာတော်ဘုရား၏ ဘဝဖြစ်စဉ်တွင် ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်းသည်လည်း အလွန် အရေးပါ၏။ ထိုအချက်ကို သီးခြားတင်ပြသော ပညာရှင်များလည်း ရှိ၏။

ကျမ်းကိုး။ လေးစိုး(မုံရွာ)၊ တောင်ဇီလာဆရာတော်ဘုရား ဦးဝိလာသ၏ ဗုဒ္ဓါနုဿတိ ကမ္မဋ္ဌာန်း၊ ဝိဇ္ဇာရသစုံမဂ္ဂဇင်း ၂၀၀၈ ခုနှစ် နိုဝင်ဘာ စာ ၁၉၆ ကိုကြည့်ပါ။

တောင်ဇီလာဆရာတော်ဘုရားကြီး၏ ပီတိရှင်းတမ်း ဗုဒ္ဓါနုဿတိကျမ်းမှာလည်း နောင်လာ နောက်သားများအတွက် ကျင့်စဉ်စခန်း ပညာအမွေလမ်း၊ ဖြစ်ပေ၏။

ကျမ်းကိုး။ တောင်ဇီလာဆရာတော်ဘုရားကြီး ဦးဝိလာသ၊ ၁၃၄၃ ခု၊ နတ်တော်လပြည့်၊ ၁၉၈၁ ခု၊ ဒီဇင်ဘာလ ၁၁၊ ပီတိရှင်းတမ်း ဗုဒ္ဓါနုဿတိကျမ်းကို ကြည့်တော်မူကြပါ။

တောင်ဇီလာ ဆရာတော်ဘုရားကြီး၏ ဒုက္ခသစ္စာကို ဖြေရှင်းခြင်း ပြဿနာတွင် မေတ္တာ လက်နက်ကို အသုံးပြုတော်မူကြောင်း သီးခြားလေ့လာတင်ပြသော ပညာရှင်များလည်း ရှိပေ၏။

ကျမ်းကိုး၊ လေးစိုး(မုံရွာ)၊ စစ်ကိုင်းတောင် တောင်ဇီလာဆရာတော်ဘုရားကြီးဦးဝိလာသ ၏ မေတ္တာနှင့် ဒုက္ခသစ္စာဖြေရှင်းခြင်း ဝိဇ္ဇာရသစုံမဂ္ဂဇင်း၊

သစ္စာသည် စည်းဖြစ်၏။ မေတ္တာသည် ခရီးဖြစ်၏ဟူ၍ မိတ္ထီလာခရိုင် မလှိုင်မြို့နယ် စေတော်ဝင် ရွှေပေါ်ကျွန်းဆရာတော်က မိန့်တော်မူဖူးပါ၏။ စစ်ကိုင်းတောင်ဇီလာ ဆရာတော်ဘုရားကြီး၏ မေတ္တာသစ္စာ အဖွင့်ကျမ်းသည် အရေးပါလှ၏။ အသေအချာ ရှာဖွေကြည့်သင့်ပါသည်။

http://www.dhammadownload.com



ကျမ်းကိုး။ တောင်ဗိလာ ဦးဝိလာသ၊ သစ္စာမေတ္တာသိဒ္ဓိကျမ်း။ ၁၃၄၆ ခု၊ နတ်တော်လ ထုတ် စာအုပ်ကို ကြည့်ကြပါ။

တောင်ဗိလာဆရာတော်ဘုရားကြီးသည် တပည့်များကို လောကီအကျိုးအတွက်လည်းကောင်း၊ လောကုတ္တရာအကျိုးအတွက် ပညာအမွေများ ပေးသနားတော်မူခဲ့၏။ ထိုအထဲတွင် ဆရာတော်ကြီးချီးမြှင့်သော ၇ ရက်သားသမီးများအတွက် လိုရာသုံး ဂါထာတော်များလည်း ပါဝင်သည်။ ထိုအချက်ကို တင်ပြသော ပညာရှင်များလည်း ရှိပါသည်။

ကျမ်းကိုး။ ဝင်းမေ ရန်ကင်း မုံရွာ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် - ၁၈၈၊ ၂၀၀၂ ခု မတ်လ၊ စာ ၃၂ ကိုကြည့်ပါ။

တောင်ဗိလာဆရာတော် ဦးဝိလာသ ပွင့်ပေါ်သည်မှာ ယခု မျက်မှောက်ခေတ်တွင်ဖြစ်သော်လည်း မှတ်တမ်းမသေချာသဖြင့် ဇဝေဇဝါအချက်အလက်များ ရှိတတ်ကြောင်း တွေ့ရပေသည်။ ဆရာတော်ကြီး၏ အောင်မြေစကြာနှင့် စပ်လျဉ်း၍ ဖြေရှင်းထားသော သုတေသနဆန်သည့် ဆောင်းပါးများလည်း တွေ့ရှိရပါသည်။

ကျမ်းကိုး၊ အောင်တံခွန် ထွန်းထွန်းအောင်၊ အောင်မြေစကြာ တောင်ဗိလာ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း စာ ၆၈၊

ဤသို့အားဖြင့် ထွေထွေလာလာသော သောင်းပြောင်းထွေလာ စာများစွာကို လေ့လာဖတ်ရှုပြီးနောက် ကျွန်ုပ်၏ သာသနာ့ကတ်တလောက်တွင် မှတ်စုများထုတ်၍ ထားရှိခဲ့ရာ စစ်ကိုင်းတောင်ဗိလာ ဦးဝိလာသကိုယ်တော်ကြီးအကြောင်းကို အောက်ပါအတိုင်း တွေ့ရှိရပါသည်။

အေဒီ ၁၈၉၆ — ဆရာတော်ကြီးရဲ့ဇာတိက စစ်ကိုင်းတိုင်း အရာတော် မြို့နယ်၊ မုံရွာသာစည်လေးရွာပါ။ ခမည်းတော်၊ မယ်တော်များကတော့ ဦးထင်ပေါ်-ဒေါ်မယ်တော်ပါ။ ဆရာတော်ရဲ့မွေးသက္ကရာဇ်က ၁၂၅၈ ခု၊ နတ်တော်လပြည့်ကျော် ၄ ရက်၊ ဗုဒ္ဓဟူးနေ့ပါပဲ။

အေဒီ ၁၉၁၅ — မြန်မာသက္ကရာဇ် ၁၂၇၇ ခု၊ နယုန်လပြည့်နေ့မှာ ရဟန်းဖြစ်ခဲ့တယ်။ ပထမဆုံး သီတင်းသုံးခဲ့တဲ့ကျောင်းကတော့ သုံးကိုဏ်းချုပ် ဆရာတော်ကြီး ဦးစန္ဒိမာကျောင်းမှာပါ။

အေဒီ ၁၉၂၀ — နောက်တော့ မန္တလေး ရဟိုင်း သုသာန်မှာ ၁၅ နှစ်လုံးလုံး တရားအားထုတ်ခဲ့တယ်။

ကျမ်းကိုး၊ သာသနာ့သမိုင်းဝင် စစ်ကိုင်းတောင်ရိုးမှ နာမည်ကြီး တောင်ဗိလာချောင်သို့ တစ်ခေါက်၊ ဦးသန်းဖေမြင့်၊ ပါရမီမဂ္ဂဇင်း၊ ၁၉၉၅ ခုနှစ်၊ စက်တင်ဘာလ၊ စာ-၂၁။

သုသာန်ထဲအားထုတ်တုန်းက အတွေ့အကြုံကိုလည်း ဘုန်းကြီးကိုပြောပြတယ်။ တရားအားထုတ်နေတုန်း ကျွတ်မယ့်မကောင်းဆိုးဝါးတွေက နောက်ကနေပြီးလက်အုပ်ချီနေကြတယ်။ မကျွတ်နိုင်သေးတဲ့ မကောင်းဆိုးဝါးတွေကတော့ ဆရာတော်ကြီးကို လှောင်ပြောင်ကြဆိုပဲ။

**ဆရာတော်ကြီးနှင့်မေတ္တာကမ္မဋ္ဌာန်း**

ဆရာတော်ကြီးဟာ မန္တလေးဝွေးချိုတိုက်မှာ သီတင်းသုံးသေးတယ်။ အဲဒီမှာ မေတ္တာကမ္မဋ္ဌာန်းကို အထူးကြိုးစားအားထုတ်နေတယ်။ ဒါကိုသိလို့ တပည့်တစ်ဦးဖြစ်တဲ့ ကုလားမောင်အေးဆိုသူက မန္တလေးသိမ်တိုက်ဆရာတော်ကြီးဘိုးဒေဝိန္ဒဆီကို လမ်းညွှန်တယ်။ ဆရာတော်ဟာ ဆရာတော်ကြီး ဘိုးဒေဝိန္ဒဆီမှာတပည့်ခံခဲ့တယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃၊ ၂၄

http://www.dhammadownload.com



**မြွေဘနေသူငါးဦးကို ကယ်ခဲ့ဖူးသည်။**

ဆရာတော်ကြီး ဦးဝိလာသရဟိုင်းသုသာန်ထဲ တရားအားထုတ်ခဲ့တုန်းက ဖြစ်ရပ်ထူးတစ်ခုကို ပြောပြဖို့ ကျန်သွားတယ်။ ဆရာတော်ကြီးဟာ သုသာန်ထဲ (၁၅) နှစ်လောက်ကြာခဲ့တဲ့ အချိန်အတွင်းသေပြီဆိုပြီးလာမြှုပ်သွားတဲ့ လူငါးယောက်ကို အသက်ကယ်ပြီး အိမ်ကိုပြန်ပို့ ခဲ့ဖူးတယ်။ အမှန်က မြွေဘနေကြတာပါ။ မြွေဘနေရာက သတိရတော့ ညည်းသံပေးပြီး အခေါင်းကိုထုသတဲ့။ ဆရာတော်ကြီးဟာ ညဘက်မှာ တောင်ဗိလာတောင်ပေါ်ကို တက်ခဲ့ ပြီး မဟာသရဏဂုံကို ရွတ်ပွားတော်မူတယ်လို့သိရတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၄

**ဆရာတော်ကြီး၏ နိဂုံးခရီး**

မြတ်စွာဘုရားကို ရှိခိုးပူဇော်တဲ့အခါ ဘုရားရှင်ကို မိမိကိုယ်တိုင်အပြင်မှာ ဖူးတွေ့ရသလို ဖြစ်ပေါ်ခံစားအောင်သင်ကြားပေးနိုင်စွမ်းရှိတယ်လို့ ကျော်ကြားတော်မူတယ်။

အေဒီ ၁၉၈၇ ဆရာတော်ကြီး ဦးဝိလာသဟာ မြန်မာသက္ကရာဇ် ၁၃၄၉ ခု၊ တန်ဆောင်မုန်းလဆန်း ၂ ရက်၊ သက်တော် ၉၂ နှစ်မှာ ဘဝနတ်ထံပျံလွန်တော်မူခဲ့ပါတယ်။ ရုပ်ကလာပ်တော်ကို မူရင်းအတိုင်း တစ်လကြာတဲ့အထိ ပူဇော်ခံထားခဲ့တာဟာ အနံ့အသက်ပင်မရကြဘူးလို့ သိရပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၄

နောက်တော့ အောင်စကြာကျောင်းတိုက်အဝင်ဝနဲ့ မနီးမဝေးကုန်းမြင့်ပေါ်မှာ ဆရာတော် ကြီးတည်ခဲ့တဲ့ ဗုဒ္ဓဂယာစေတီတော်ကြီးမှာ ရုပ်ကလာပ်တော်ကို ဌာပနာခဲ့ကြောင်းသိရပါ တယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၄

> ကျမ်းကိုး၊ ၂၀၀၃ ခုနှစ်၊ စက်တင်ဘာလ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်းရဲ့ အောင်မြေ ရောင်ခြည်ကဏ္ဍမှာ အောင်ရွှေမြတ်(စစ်ကိုင်းတောင်)က စစ်ကိုင်းအောင်မြေ (၉)ဌာနေ။
> ကျမ်းကိုး၊ အောင်မြေစကြာတောင်ဗိလာ၊ အောင်တံခွန်ထွန်းထွန်းအောင်၊ နက္ခတ္တ ရောင်ခြည်မဂ္ဂဇင်း၊ စာ-၆၈

ယခု တောင်ဗိလာ ဦးဝိလာသ ဆရာတော်အပြင် အခြား တောင်ဗိလာ ဆရာတော်ရှိ သေး၏။ အရှင်ဇာဂရဟု မှတ်တမ်းရှိ၏။ ဆရာတော် အရှင်ဇာဂရ ကိုယ်တော်ကြီးက လက်ဦးကျ၏။

ကျမ်းကိုး၊ ရွှေကျင်နိကာယကျမ်းကို ကြည့်ပါ။

ပထမတောင်ဗိလာအကျော် ဆရာတော်ရဲ့နောက် ဒုတိယတောင်ဗိလာဆရာတော် ရှင်ဇာဂရ တို့သီတင်းသုံးသွားတော်မူခဲ့ကြတယ်လို့ သိရပါတယ်။ အရှင်ပဏ္ဍဝံသဟာ တောင်ဗိလာ ဣစ္ဆာသယချောင် ဓမ္မပါလတောရတိုက်၌ သီတင်းသုံးတော်မူလျက်လို့ ဖော်ပြထားပါတယ်။

> ကျမ်းကိုး။ တောင်ဗိလာဆရာတော် ဦးဝိလာသရဲ့ သစ္စာမေတ္တာ သိဒ္ဓိကျမ်း အရှင် ကေလာသရေးသားပြုစုတော်မူတဲ့ စစ်ကိုင်းသာသနာဝင်မှာ ဖော်ပြထားတဲ့ အရှင် ပဏ္ဍဝံသ ဖြစ်ပါတယ်။

ဆရာတော်အရှင်ပဏ္ဍဝံသ(၁၂၂၃-၁၃၀၃) ကိုလည်း စတုတ္ထ တောင်ဗိလာ ဆရာတော်ဟု ပင် ခေါ်ဆိုကြပါသည်။ တောင်ဗိလာ မဟာတောရနေရာမှာ ဆရာတော် ဦးပဏ္ဍဝံ အရင် သီတင်းသုံးခဲ့ဖူးသော ဆရာတော်ရှိခဲ့ဖူးပါသည်ဟု ဆရာတော်ဦးဝိလာသက မိန့်တော်မူဖူးပါ

http://www.dhammadownload.com



သည်။ တောင်ဖီလာတောရကို ဆရာတော် အရှင်ပဏ္ဍဝံသကပဲ ပထမဆုံး သီတင်းသုံး သွားတော်မူသည်။

တောင်ဖီလာ ဆရာတော် ဦးဝိလာသရဲ့ မနောမယသိဒ္ဓိကျမ်း စတုတ္ထ အကြိမ်ပုံနှိပ် ၁၃၂၄ခု မှာတော့ တောင်ဖီလာမဟာတောရမှာ ဆရာတော် အရှင်ပဏ္ဍဝံသ သီတင်း သုံးသွားတဲ့ နေရာလို့ ဖော်ပြထားပါတယ်။

အေဒီ ၁၉၄၁ ဆရာတော် ဦးပဏ္ဍဝံသ ပျံလွန်တော်မူတာ သက္ကရာဇ် ၁၃၀၃ ခုနှစ်ဖြစ်သည်။

အေဒီ ၁၉၄၆ တောင်ဖီလာဆရာတော် ဦးဝိလာသက သက္ကရာဇ် ၁၃၀၈ ခုနှစ်မှာမှ ရောက်ရှိသီတင်းသုံး ခဲ့ခြင်းဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၈

**စစ်ကိုင်းတောင်ဖီလာ**

အေဒီ ၁၉၄၆ သက္ကရာဇ် ၁၃၀၈ ခု၊ ဝါဆိုလဆန်း (၈)ရက်နေ့စစ်ကိုင်း မဟာစေတီလှ ဆရာတော်ကြီး မန္တလေး ရတနာမဥ္ဇူသိမ်တိုက် ဘိုးဒေဝိန္ဒဆရာတော်ကြီးများနှင့် ဆရာတော်ဦးဝိလာသ ဆရာတပည့် တောင်ဖီလာမဟာတောရသို့ တောထွက်တော်မူလာကြလေသည်။

ကျမ်းကိုး တောင်ဖီလာနဲ့ပတ်သက်ပြီး တောင်ဖီလာ ဆရာတော် ဦးဝိလာသရဲ့ ဘုရား အစစ်အမှန်တွေ့ရန် ဗုဒ္ဓါနုဿတိလမ်းစဉ်၊ မနောမယသိဒ္ဓိကျမ်း စတုတ္ထအကြိမ်မှာကြည့်။

ရှေးက ရွှေကျင်နိကာယ ရတ္တညူ မဟာတ္တမဟာနာယကဆရာတော်ကြီး ဦးပဏ္ဍဝံသ ဒုတိယရှင်မဟာကဿပဟု ဝိသုဒ္ဓါရုံဆရာတော်ကြီးက ခေါ်ဆိုမှုခံခဲ့ရသော ဆားဟင်းအမြဲ ဘုဉ်းပေးတော်မူသော ဆရာတော်ကြီး သီတင်းသုံးရာဌာန ဖြစ်ပေသည်။

တောင်ဖီလာ ဣစ္ဆာသယသိမ်ဟူသောစကားကို ဖော်ပြထားသည်ကိုလည်း တွေ့ဖူးပါသည်။

ကျမ်းကိုး။ နောက်"တောင်ဖီလာ" ဆိုတဲ့ အသုံးအနှုန်းကို ဦးမောင်မောင် (ဟံသာဝတီ) ရဲ့ ဒိပဲယင်း ဆရာတော်ကြီး (အရှင်ဉာဏာဝရ) ၏ မနောဒိဠ္ဌဝန္တနာဘုရားရှိခိုးစာအုပ် တွင် ဒိပဲယင်းဆရာတော်ကြီးကိုယ်တိုင် ကြီးမှူးလျက်သမုတ်ခဲ့သော သိမ်တော်များစာရင်း ၌ အမှတ်စဉ် (၁၆)၊ ၁၂၈၇ ခုနှစ်)

ဒီတော့ပထမ တောင်ဖီလာအကျော် ဆရာတော် အရှင်မုနိန္ဒယောသ သီတင်းသုံးတော်မူ သွားတဲ့ တိရိယပဗ္ဗတတောရဆိုတဲ့ တောင်ဖီလာတောရကို တောင်ဖီလာရယ်လို့ ဘယ်သူ ကမှ မခေါ်ကြ၊ မရေးကြပါဘူးဟု သိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၈

ဒါပေမယ့် တောင်ဖီလာဣစ္ဆာသယတောရကိုတော့ တောင်ဖီလာလို့ ခေါ်ကြတာတွေ့ရပါ တယ်။ ဒါကြောင့် ဆရာတော်ကြီးဦးပဏ္ဍဝံသကိုပဲ တောင်ဖီလာဆရာတော်လို့ ခေါ်သလို တောင်ဖီလာဆရာတော်လို့လဲ ခေါ်ကြပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၈

ဆရာတော်ကြီး ဦးပဏ္ဍဝံသ နောက်မှာသီတင်းသုံးတော်မူတဲ့ တောင်ဖီလာဆရာတော် ဦးဝိလာသကိုလဲ (ယခုအချိန်အထိ) တောင်ဖီလာဆရာတော်လို့ ပြောနေ၊ ခေါ်နေ၊ ရေးနေကြတုန်းပါပဲ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၈

တောင်ဖီလာမဟာတောရဟာ တောင်ဖီလာတောရရဲ့ အရှေ့ဘက်မှာပါ။ တောင်ကြီးကို

http://www.dhammadownload.com



ဖောက်ထားတဲ့ တောင်ကြားကြီးကနေ ဆင်းသွားရပါတယ်။ တောင်တွေဝန်းရံထားတဲ့ ချိုင့်ကြီးထဲမှာရှိပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၈

အေဒီ ၁၈၉၆ တောင်ဗိလာ ဆရာတော် ဦးဝိလာသကို (မုံရွာ) သာစည်မှာ မြန်မာသက္ကရာဇ် ၁၂၅၈ခု၊ နတ်တော်လ ပြည့်ကျော် (၄)ရက်၊ ဗုဒ္ဓဟူးနေ့မှာဖွားမြင်တော်မူခဲ့ပါတယ်။ အဖ ဦးတင်ပေါ်၊ အမိ ဒေါ်မယ်တော်တို့ဖြစ်ပါတယ်။ ဒုတိယသားပါ။ နာမည်က မောင်ဘမောင်။ အစ်ကိုကြီးက ဦးဘစိန် ဖြစ်ပါတယ်။

ဆရာတော်ဟာ ငယ်စဉ်ကတည်းက ဘုရားကို အတော်ကြည်ညိုလေ့ရှိတယ်လို့ဆိုပါတယ်။ သာမဏေဘဝမှာ သုံးဂိုဏ်းချုပ်ဆရာတော်ကြီးနဲ့သချိုင်းသုသာန်ကို လိုက်ခဲ့ရသလို ဆရာတော်ကြီး တောထွက်တော့လဲ သာမဏေဘဝနဲ့ ဖိုဝင်တောင်ကိုလိုက်ရပါတယ်။

အေဒီ ၁၉၁၅ သက္ကရာဇ် ၁၂၇၇ ခုနှစ်၊ ဝါဆိုလဆန်း (၈)ရက်နေ့မှာ မြင့်မြတ်သော ရဟန်းဘောင်ကို တက်ရောက်ခဲ့ပါတယ်။

ဒီနောက် ပခုက္ကူမှာစာပေ ပရိယတ္တိသွားရောက်သင်ယူကြောင်း မန္တလေး မိုးကောင်းတိုက်၊ နောက်ငွေးချိုတိုက်၊ ရွှေပြည်အုဉ်ကျောင်းမှာ သီတင်းသုံးပြီး ပဋိပတ္တိကိုအားထုတ်ပါတယ်။ ငွေးချိုတိုက် ရွှေပြည်အုဉ်ကျောင်းမှာ သီတင်းသုံးနေစဉ်မှာပဲ မန္တလေးမင်းတဲအီကင်း ရတနာမဥ္ဇူသိမ်တိုက် ဆရာတော်ကြီး ဘိုးဒေဝိန္ဒထံရောက်ရှိပြီး ဂုဏ်တော်ပုတီးစိပ်နည်းတွေနဲ့ ပုတီးစိပ်ပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၈

နောက် ဘိုးဒေဝိန္ဒ ဆရာတော်ကြီးက ဇင်းဗျိုးတောရ (တောင်တွင်းကြီး) ဆရာတော်ကြီး ဦးဥက္ကံသထံ စေလွှတ်ပြီး ပညာများ ဆက်လက်ခံယူစေပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၈

အေဒီ ၁၉၂၇ ဆရာတော်ဟာ ဦးဥက္ကံသ ဆရာတော်ကြီးထံမှောက် ရောက်ရှိပြီး ပညာရင်နို့သောက်စို့ရပါတယ်။ နောက်မန္တလေး ရွှာဟိုင်းသုသာန်မှာ တရားအားထုတ်ပါတယ်။

နောက် စစ်ကိုင်းချင်းစုရပ် (မန္တလေးမြို့ ဆိုင်းတန်းရပ် ဦးထွန်း၊ ဒေါ်သင်ပိုင်တဲ့) ခြံထဲမှာ သီတင်းသုံးပါတယ်။

အေဒီ ၁၉၄၂ သက္ကရာဇ် ၁၃၀၄ ခုနှစ်မှာ ကပ္ပိယဦးသိန်းမောင်နဲ့အတူ ဆရာတော်ကြီး အရှင်မုနန္ဒိယောသ သီတင်းသုံးခဲ့တဲ့ တောင်ဗီလာတောရသို့ တောထွက်တော်မူခဲ့ပါတယ်။

ဒီအချိန်မှာပဲ စစ်ဖြစ်လာလို့ မိုးကုတ်မှ တပည့်တွေရဲ့ ပင့်ဆောင်ချက်အရ မိုးကုတ်မြို့ လိမ္မော်ခြံကျောင်းနဲ့ ကျောက်နဂါးဂူတို့မှာ သီတင်းသုံးခဲ့ပါတယ်။ စစ်အတွင်းကာလ ဖြစ်ပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၈

အေဒီ ၁၉၄၂ သက္ကရာဇ် ၁၃၀၄ ခုနှစ်၊ ဝါတွင်းတစ်တွင်းလုံး တောင်ဗိလာတောရမှာ သီတင်းသုံးနေထိုင်ပြီး မဟာသရဏဂုံကျင့်စဉ်ကိုလဲ ကျင့်ကြံအားထုတ်ခဲ့တယ်လို့ မှတ်တမ်းအရ သိရှိရပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၈

http://www.dhammadownload.com



**ဆရာတော် ဦးဝိလာသနဲ့ တောင်ဗီလာ**

အေဒီ ၁၉၄၆ သက္ကရာဇ် ၁၃၀၈ ခုနှစ်မှာ စစ်ကြီးပြီးပြီဖြစ်လို့ ဘိုးဒေဝိန္ဒဆရာတော်ကြီးရဲ့ ဒေါ်ယုချက် အရ မိုးကုတ်ကနေ မန္တလေးနဲ့ စစ်ကိုင်းကို ပြန်ကြွလာပါတယ်။

အေဒီ ၁၉၄၆ သက္ကရာဇ် ၁၃၀၈ခုနှစ် ဝါဆိုလဆန်း (၈)ရက်နေ့မှာ စစ်ကိုင်းတောင်ဗီလာ ဣစ္ဆာသယ ဓမ္မပါလတောရ (အရှင်ပဏ္ဍာဝံသဆရာတော်ကြီး သီတင်းသုံးတော်မူသွားတဲ့) နေရာကို မဟာစေတီလှု။

အေဒီ ၁၉၈၇ ဆရာတော်ကြီး ဘိုးဒေဝိန္ဒ ဆရာတော်ကြီး(၂)ပါးနဲ့အတူ တောထွက်တော်မူခဲ့ပါတယ်။ ဆရာတော်ဟာတောထွက်တော်မူခဲ့တဲ့ ၁၃၀၈ ခု ဝါဆိုလဆန်း(၈)ရက်ကနေ ခန္ဓာဝန် ချတော်မူတဲ့ ၁၃၄၉ ခုတန်ဆောင်မုန်းလဆန်း (၂)ရက်နေ့အထိ နှစ်ပေါင်း (၄၀) ကျော် တောင်ဗီလာမဟာတောရမှာပဲ သီတင်းသုံးနေထိုင်သွားတော်မူခဲ့ပါတယ်ဟု အတိအကျ သိရ ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၈

ဆရာတော်ဟာ တောင်ဗီလာမဟာတောရမှာ သီတင်းသုံးနေထိုင်တော်မူသော်လည်း တောင်ဖီလာစေတီတော်၊ စက်တော်ရာ၊ တောင်ဗီလာတောရရဲ့ ကျောင်းပရိဝုဏ်တွေကို ပြင်ဆင်မွမ်းမံ ထိန်းသိမ်းမှုတွေ အမြဲမပြတ် ဂရုတစိုက်ဆောင်ရွက်တော်မူခဲ့ပါတယ်ဟု ဖတ်ရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၈

တောင်ဖီလာဆရာတော်လို့ သုံးနှုန်းခြင်း၊ ဘွဲ့အမည်ခံခြင်း မပြုပါ။ တောင်ဗီလာ ဆရာ တော် ဦးဝိလာသလို့ပဲ သုံးနှုန်းပါတယ်ဟု တွေ့ရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၈

**အောင်မြေစကြာတောင်ဗီလာ**

အောင်မြေစကြာ၊ စကြာအောင်မြေဆိုတာ တောင်ဗီလာဆရာတော်ကြီးဦးဝိလာသ စံကျောင်း တော်ရဲ့ အရှေ့မြောက်ဘက်ကပ်လျက်ဖြစ်ပါတယ်ဟု တပည့်ရင်းများက ဆိုကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၁

အေဒီ ၁၉၅၆ ဆရာတော် တောင်ဗီလာကိုရောက်စက နှစ်ထပ်ဝါးကျောင်းပါ။ ဝါးကြမ်းခင်း ကပ်မိုးပါ။ သက္ကရာဇ် ၁၃၁၈ခုနှစ်မှာ မန္တလေးမြို့က တပည့်ကြီးဦးတက်တိုး၊ ဒေါ်လွန်းဇင်တို့က နှစ်ထပ်တိုက် အောင်စကြာကျောင်းတိုက် ဆောက်လုပ်လှူဒါန်းပါတယ်။

အေဒီ ၁၉၆၆ သက္ကရာဇ် ၁၃၂၈ ခုနှစ်မှာ မိုးကုတ်မြို့က တပည့်ကြီး ဦးအောင်သိန်း၊ ဒေါ်သန်းခင်နဲ့ သားသမီးတွေက မူလဝါးကျောင်းနေရာမှာ အောင်သိဒ္ဓိကျောင်းတော်ကို ဆောက်လုပ် လှူဒါန်းပါတယ်။ ခန္ဓာဝန်ချတဲ့အထိ ဒီစံကျောင်းတော်မှာ သီတင်းသုံးနေထိုင်သွားတော် မူပါတယ်။ ဒီအောင်သိဒ္ဓိစံကျောင်းတော်ရဲ့ အရှေ့မြောက်ဘက် ကပ်လျက်မှာပဲ စကြာ တောင်ရှိပါတယ်။

အေဒီ ၁၉၇၅ စကြာတောင်ရဲ့ထိပ်မှာ ဆရာတော် ဦးဝိလာသဟာ ဇောဓိပင်ကိုစိုက်ခဲ့ပါတယ်။ ဒီဇောဓိပင် ဟာ သက္ကရာဇ် ၁၂၉၇ ခုနှစ်က ဆရာတော် ဗုဒ္ဓဃောသို့ ပထမအကြိမ်ကြွရောက်စဉ်က ပင့်ဆောင်လာတဲ့ ဇောဓိပင်ပျိုးဆူမှ ဖြစ်ပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၁

http://www.dhammadownload.com



အေဒီ ၁၉၄၆ သက္ကရာဇ် ၁၃၀၈ ခုနှစ်၊ တော်သလင်းလဆန်း (၉)ရက်နေ့မှာ စိုက်ပျိုးပါတယ်။ သစ္စာအဓိဋ္ဌာန်နဲ့စိုက်တာပါ။
ဒီဗောဓိပင်ကြီးသို့ရောက်ရှိသူတိုင်းဘုရားအစစ်နှင့်တွေ့ကြပါစေသတည်း။ ဆိုပြီးစိုက်တာပါ။
ဗောဓိပင်မှတ်တမ်းကျောက်စာလဲ ဗောဓိပင်ကြီးရဲ့ တနင်္ဂနွေထောင့်မှာ ရေးထိုးထားတာရှိပါတယ်။
အောင်မြေစကြာဆိုတာ တောင်ဗိလာမဟာတောရရဲ့ အရှေ့ဘက်တောင်ကြားကြီးထဲကိုဖြတ်ဆင်းသွားရတဲ့ တောင်ဗိလာမဟာတောရမှာ ရှိပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၁

အေဒီ ၁၉၄၆ တောင်ဗိလာ ဆရာတော်ဦးဝိလာသရဲ့အောင်သိဒ္ဓိစံကျောင်းတော်ရဲ့ အရှေ့မြောက်ဘက်ကပ်လျက် စင်္ကြာတောင်ထိပ်မှာ သက္ကရာဇ် ၁၃၀၈ ခုနှစ်၊ တောင်သလင်းလဆန်း(၉)ရက်နေ့ကစိုက်ခဲ့တဲ့ ဗောဓိပင် (အောင်စင်္ကြာမဟာဗောဓိပင်ကြီး)ရဲ့အဝန်းအဝိုင်းဟာ အောင်မြေစင်္ကြာ ဖြစ်တယ်။
၁။ တောင်ဗိလာဆရာတော် ဦးဝိလာသဟာ ဒီဗောဓိပင်ကြီးအောက်ရောက်သူတိုင်း ဘုရားအစစ်နဲ့ တွေ့ကြပါစေဆိုပြီး သစ္စာအဓိဋ္ဌာန်နဲ့စိုက်ပျိုးတော်မူခဲ့တာဖြစ်လို့ ဘုရားအစစ်နဲ့အမှန်တွေ့နိုင်တဲ့ အောင်မြေ။
၂။ ဆရာတော်ကြီးမိန့်ကြားဖူးတာက လောကီရော၊ လောကုတ္တရာရော ဘာလိုချင် လိုချင်၊ လိုချင်တာ အကုန်ရနိုင်တာ ဗောဓိပင်နဲ့ ရွှေပလ္လင်ပဲ။

> ကျမ်းကိုး။ ဘုရားအစစ်အမှန်တွေ့တယ်ဆိုရင်ပဲ လောကီ၊ လောကုတ္တရာ ဘာတွေဖြစ်သွားနိုင်တယ်။ ဘာတွေ ပြီးစီးအောင်မြင်သွားနိုင်တယ်ဆိုတာ အလင်္ကာကျော်စွာဆရာရွှေပြည်အေး ရေးသားစပ်ဆိုပူဇော်သွားတဲ့ ဘဂဝါမွေသခင်မနောမယ တေးသီချင်း ဂီတ (အေဝမ်းတင်တင်လှ အသံနဲ့ပူဇော်ပါတယ်)ထဲကအတိုင်းပြောရမယ်ဆိုရင် "ပြောမယ့် တကယ်ကြုံဖူးမှ ထူးက ထူးသနဲ့" ဆိုသလိုကိုယ်တိုင် ကြုံဖူးမှသိလိမ့်မယ်ထူးတဲ့အောင်မြေဟု ဖတ်ရှုရပါသည်။ ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၁။

အောင်စင်္ကြာ ဆုတောင်းအနက်သုံးခေါက်ရွက်ဆိုဆုတောင်း၍ နေထဲမှ မြတ်စွာဘုရားရှင်ကိုယ်တော်မြတ်ကြီးသည် သင်္ကန်းတော်ကြီးရုံတော်မူပြီး ကြွလာတော်မူသည်ဟု မှတ်ထင်စွဲလမ်း၍ စိတ်ဖြင့် နေကိုကြည့်ကာ ဇယစက္ကောဆုတောင်းဂါထာ ပါဠိ (ဇယ = အောင်၊ စက္က = စက်၊ စင်္ကြာ = အောင်စင်္ကြာ) ဆုတောင်းကို ပုတီးကိုးပတ်စိပ်ပါ။ (ဇယစက္ကောမှ ဇယုတ္တရော အဆုံးတစ်ပုဒ်လုံးပြီးမှ တစ်လုံးချ) ဘယ်ကိုပဲကြည့်ကြည့် နေနှင့် ဘုရားနှင့်အမြဲတမ်းမြင်က ကြံတိုင်းအောင်၍ လောကီလောကုတ္တရာ နှစ်ဖြာသောအကျိုး အောင်မြင်နိုင်သည်။
ရှေးဆရာကြီးများသည် တနင်္ဂနွေ တစ်လုံးပိုင်က လိုရာဆန္ဒအမှန်ရ၍ သိဒ္ဓိစခန်း အမြန်ပေါက်ရောက်နိုင်သည်ဟု မှာကြားထားခဲ့ကြလေသည်။

ကျမ်းကိုး။ ယင်းကျမ်း၊ စာ-၇၁

ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်း သို့မဟုတ် ဗုဒ္ဓါနုဿတိဘာဝနာအတွက်တူပင်ဖြစ်ပါသည်။ မြတ်စွာဘုရားရှင်ကိုယ်တော်မြတ်ကြီး၏ ဂုဏ်တော်ကျေးဇူးတော်တွေကို အာရုံပြုပွားများခြင်းသည် ဗုဒ္ဓါနုဿတိ ကမ္မဋ္ဌာန်းဖြစ်ပါသည်။ ဘုရား ဘုရားဟုလည်းကောင်း၊ ဗုဒ္ဓေါ ဗုဒ္ဓေါဟုလည်းကောင်း

http://www.dhammadownload.com



ရွှတ်ဆိုနေသည်မှာလည်း ဗုဒ္ဓါနုဿတိဘာဝနာပွားများနေခြင်းဖြစ်ပါသည်။ မြတ်စွာဘုရားရှင် ကိုယ်တော်မြတ်ကြီး၏ ဂုဏ်တော်ကျေးဇူးတော်တွေကို အာရုံပြု၍ဆွမ်း၊ ပန်း၊ ရေချမ်း၊ ဆီမီး ကပ်လှူပူဇော်ခြင်းသည်လည်း ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်း ဖြစ်ပါသည်။ အရဟံ အရဟံဟူ၍ စိတ်ပုတီးစိပ်သည်မှာလည်း ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်း ဖြစ်ပါသည်။ ဤမျှ ကျင့်ကြံလျှင်ပင် ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်းပွားများအားထုတ်ရသည့်ကုသိုလ်တို့သည်များလှသည်။ ဗုဒ္ဓါနုဿတိ ကမ္မဋ္ဌာန်းသည် လောကီ၊ လောကုတ္တရာနှစ်ဖြာစီးပွားအကျိုးများခြင်း၊ ထက်မြက် ခြင်း၊ ဘုန်းကံ ကြီးမားခြင်းတို့ ဖြစ်ပါသည်။ မေတ္တာကမ္မဋ္ဌာန်း၊ အသုဘကမ္မဋ္ဌာန်းနှင့် တွဲဖက်၍ ကျင့်ကြံ အားထုတ်ရပါသည်။

ပီတိအဟုန်ကိုယ်လုံးထုံ၍ အာရုံနှစ်သက် မရဏာသက်လျှင် ထိုပုဂ္ဂိုလ်မှာ ဘုရားအာရုံမှ လွဲ၍ ပတ်ဝန်းကျင်အာရုံတစ်ခွင်ကို အလျဉ်းပင်သတိမစောဘဲ ဒလဟောမိန်းမော၍ ဝင်သွား တတ်လေသည်။ "အသေဓာတ်"ဟုလည်းခေါ်၏။ "သုညတဓာတ်" ဟုလည်းခေါ်၏။ လောဘ၊ ဒေါသ၊ မောဟ၊ တဏှာ၊ မာနတည်းဟူသော ရန်သူတွေသေသွားပါသည်။ ခေတ္တ ခဏ အချိန်ကလေးကင်းပြတ်လျှင် စကြာမင်းစည်းစိမ်နှင့်မလဲနိုင်ပါ။

ကျမ်းကိုး၊ တောင်ဗိလာဆရာတော်ဘုရားကြီး ဦးဝိလာသ၏ ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်း၊ လေးစိုး (မုံရွာ)၊ ဝိဇ္ဇာမဂ္ဂဇင်း၊ နိုဝင်ဘာ ၂၀၀၈၊ စာ-၁၉၇

(မှတ်ချက်) တောင်ဗိလာဆရာတော်ဘုရားကြီး ဦးဝိလာသ၏၁၃၄၃ခု၊ နတ်တော်လပြည့် (၁၁. ၁၂. ၈၁) သောကြာနေ့ "ပီတိရှင်းတမ်း ဗုဒ္ဓါနုဿတိကျမ်း" မှ ထုတ်နုတ်တင်ပြအပ် ပါသည်။ လေးစိုး (မုံရွာ) ၏ စာ ၁၉၇ ကိုကြည့်ပါ။ အသေအချာသိပါလိမ့်မည်။
ကျမ်းကိုး၊ စစ်ကိုင်းတောင်ရိုး တောင်ဗိလာဆရာတော်ဘုရားကြီး ဦးဝိလာသ၏ မေတ္တာနှင့် ဒုက္ခသစ္စာ ဖြေရှင်းခြင်း၊ လေးစိုး(မုံရွာ) ဝိဇ္ဇာမဂ္ဂဇင်း၊ ဧပြီလ အတွဲ ၁/၇၊ စာ-၄၃
၁၃၄၆ ခုနှစ်၊ နတ်တော်လ၊ တောင်ဗိလာဆရာတော်ဘုရားကြီး ဦးဝိလာသ၏သစ္စာမေတ္တာ သိဒ္ဓိကျမ်းမှ ကောက်နုတ်တင်ပြအပ်ပါသည်။
ကျမ်းကိုး။ သာသနာ့သမိုင်းဝင် စစ်ကိုင်းတောင်ရိုးမှ နာမည်ကြီးဆောင်ဗီလာချောင်သို့ တစ်ခေါက်။ ဦးသန်းဖေမြင့်၊ ပါရမီမဂ္ဂဇင်း၊ (၁၉၉၅) ခုနှစ်၊ စက်တင်ဘာလ၊ စာ -၂၁။

http://www.dhammadownload.com



ယနေ့တိုင် ရုပ်ကလာပ်ရှိသော ကလေးဝဦးသီရိ၏ တူအရင်း
ယနေ့တိုင် ရုပ်ကလာပ်ရှိသော ဘုန်းကြီးဘီဆန်းတူအရင်း
ရေပေါ်လမ်းလျှောက် ထွက်ရပ်ပေါက်တော်မူသော ဆရာတော် ဦးဇောတ၏တပည့်
ဆိုင်းဘာဘာနှင့် တရားကျင့်ဖက် သက်တော်ရှည် ရသေ့ ဘိုးသစ္စာက စောင့်မျှော်ခဲ့ရသော
ဆုထူးပန် ဦးအောင်ချမ်းသာ လက်ထက်က ကျော်ကြားတော်မူသော

# ပထမ နာဂလိုဏ်ဂူ ကလေးဝ ဆရာတော် ဦးသာဂရ

(၁၈၉၆ – ၁၉၈၆)



http://www.dhammadownload.com



အေဒီ ၁၈၉၆ ခုနှစ်တွင် ကလေးဝနာဂလိုဏ်ဂူ ဆရာတော်ဘုရားကြီးကို ဖွားတော်မူခဲ့သည်။ ထို ၁၈၉၆ ခုနှစ်၊ ခေတ်ပြိုင် သာသနာမှတ်တမ်းတွင် အောက်ပါအတိုင်း တွေ့ရှိရသည်။ ၁၈၉၆ ခုနှစ်တွင် မွေးဖွားတော်မူသော အလွန်လူသိနည်းသည့် ဆရာတော်တစ်ပါးရှိသေး၏။ တောကြားတောင်ကြားတွင် လူမသိ သူမသိ နေခဲ့သော်လည်း ယခုဘဝတွင် တရားထူးရမည့် ပုဂ္ဂိုလ်များသည် အလွန်ထူးခြား၏။

မြန်အောင်မြို့နယ် လဟာပေါက်အုပ်စု နွှေကုန်းကျေးရွာ ဟူ၍ရှိ၏။ ထိုနွှေကုန်းဆရာတော် ဦးသီရိန္ဒိရသည် ခန္ဓာဝန် ချတော်မူသောအခါ ဓာတ်မှန်ရိုက်ကြည့်ရာ အရိုးများ ချိတ်ဆက်ဖြစ်နေသည်ကို ထူးထူးခြားခြား သိရ၏။ အလွန်အံ့သြဖွယ်ရာ ဖြစ်၏။ ရုပ်ကလာပ်တော်ကြီး ယနေ့တိုင် ရှိသေး၏။

ကျမ်းကိုး။ မောင်ပန်းမွေး၊ ရဟန္တာနှင့် ရဟန်းထူးများ တော်ဝင်မြို့မ စာအုပ်တိုက်၊ ၂၀၀၈ ခုနှစ်၊ အောက်တိုဘာလ စာ ၆၂၉ ကိုကြည့်ပါ။

၁၈၉၆ ခုနှစ်တွင် ဝေဘူဆရာတော်ဘုရားကြီးကို ဖွားမြင်တော်မူခဲ့ပါသည်။ ဇမ္ဗူမှာ တစ်ဆူဟု ကျော်ကြားတော်မူသည့် ရဟန္တာအရှင်မြတ်ကြီး ဝေဘူဆရာတော်ဘုရားနှင့် နာဂလိုဏ်ဂူဆရာတော်တို့သည် တစ်နှစ်တည်း မွေးဖွားတော်မူပါသည်။ သို့သော် ဝေဘူဆရာတော်က ၁၉၇၇ ခုနှစ်တွင် ခန္ဓာဝန် ချတော်မူပါသည်။ ကလေးဝ ဆရာတော်ဘုရားကြီးက ၁၀ နှစ်ပို၍ အသက်ရှည်တော်မူပါသည်။

ကျမ်းကိုး။ မောင်ပန်းမွေး၊ ရဟန္တာနှင့် ရဟန်းထူးများ တော်ဝင်မြို့မ စာအုပ်တိုက်၊ ၂၀၀၈ ခုနှစ်၊ အောက်တိုဘာလ စာ ၅၉၉ ကိုကြည့်ပါ။

ကလေးဝ ဆရာတော်ဘုရားကို မွေးဖွားတော်မူသော နှစ်မှာ တောင်ပုလုတောရ ကမ္ဘာအေး ဆရာတော်ဘုရားကြီးကိုလည်း တစ်နှစ်တည်းမှာပင် မွေးဖွားတော်မူခဲ့ပါသည်။ တောင်ပုလု ဆရာတော်ဘုရားသည် ရဟန္တာဟုကျော်ကြားတော်မူ၏။ ကမ္ဘာ့သာသနာပြု ပုဂ္ဂိုလ်ကျော်ဖြစ်၏။

ကျမ်းကိုး။ မောင်ပန်းမွေး၊ ရဟန္တာနှင့် ရဟန်းထူးများ တော်ဝင်မြို့မ စာအုပ်တိုက်၊ ၂၀၀၈ ခုနှစ်၊ အောက်တိုဘာလ စာ ၅၉၉ ကိုကြည့်ပါ။

ထူးဆန်းသော တိုက်ဆိုင်မှုတစ်ခုမှာ ကလေးဝ ဆရာတော်ဘုရားကြီးသည် ၁၉၈၆ ခုနှစ်တွင် ခန္ဓာဝန် ချတော်မူ၏။ ထိုအတူပင် ထူးဆန်းတိုက်ဆိုင်စွာ တောင်ပုလု ကမ္ဘာအေး ဆရာတော်ဘုရားကြီးသည်လည်း ထိုနှစ်မှာပင် ခန္ဓာဝန် ချတော်မူ၏။ မြန်မာနိုင်ငံ ရဟန္တာနှင့် ရဟန်းထူးများ သမိုင်းတွင် ထူးခြားသော သမိုင်းဝင်ပင်ဖြစ်၏။

ကျမ်းကိုး။ မောင်ပန်းမွေး၊ ရဟန္တာနှင့် ရဟန်းထူးများ တော်ဝင်မြို့မ စာအုပ်တိုက်၊ ၂၀၀၈ ခုနှစ်၊ အောက်တိုဘာလ စာ ၆၀၈ ကိုကြည့်ပါ။

ကလေးဝဆရာတော် ဖွားတော်မူသောနှစ်မှာပင် ဆရာတော် ဦးနန္ဒိယကို ဖွားတော်မူ၏။ ထိုဆရာတော်သည် ကလေးဝဆရာတော်ထက် ၄ နှစ်စော၍ ခန္ဓာဝန်ချတော်မူ၏။ မင်းဘူးမြို့နယ် နန်းတော်ကုန်းရွာတွင် ယခုထက်တိုင် ရုပ်ကလာပ်တော်ရှိ၏။

ကျမ်းကိုး။ မောင်ပန်းမွေး၊ ရဟန္တာနှင့် ရဟန်းထူးများ တော်ဝင်မြို့မ စာအုပ်တိုက်၊ ၂၀၀၈ ခုနှစ်၊ အောက်တိုဘာလ စာ ၆၀၈ ကိုကြည့်ပါ။

ထို ၁၈၉၆ ခုနှစ်သည်ပင် ရဟန္တာနှင့် ရဟန်းထူးများ ထူးထူးခြားခြား မွေးဖွားတော်မူသောနှစ် ဟူ၍ မှတ်တမ်းတင်ရမည်လား မသိပါ။ ဂူထဲတွင် လူမသိ သူမသိ နှစ် ၅၀ ကျော် သီတင်း

http://www.dhammadownload.com



သုံးတော်မူပြီးနောက် ခန္ဓာဝန် ချတော်မူသောအခါမှာ ဓာတ်တော်များ တဖွားဖွားကျတော်မူသဖြင့် ရှေးအခါက ရဟန္တာမှန်း မသိခဲ့ကြရ၊ နောက်ကျစွာ ကြည်ညိုခဲ့ကြရသော ဂူအောင်းဆရာတော် ကျပ်ကန်ဆရာတော်ကြီးသည်လည်း ထို၁၈၉၆ ခုနှစ်တွင်ပင် ဖွားတော်မူခဲ့ပါသည်။ သို့သော် ဂူအောင်း ကျပ်ကန်ဆရာတော်ကြီးက တစ်နှစ်နောက်ကျ၍ ခန္ဓာဝန်ချတော်မူပါသည်။ ဓာတ်တော်များ ကျတော်မူပါသည်။

> ကျမ်းကိုး။ မောင်ပန်းမွေး၊ ရဟန္တာနှင့် ရဟန်းထူးများ တော်ဝင်မြို့မ စာအုပ်တိုက်၊ ၂၀၀၈ ခုနှစ်၊ အောက်တိုဘာလ စာ ၆၀၈ ကိုကြည့်ပါ။

ကလေးဝဆရာတော်ကို အဘိုးဆရာတော်ဟု တပည့်ရင်းများက ခေါ်ဆိုကြ၏။ ကလေးဝဆရာတော်ဘုရားထံမှ ပညာအမွေရရှိသော ဂါထာတော်များကိုလည်း သိမ်းသူတို့က ဖော်ထုတ်ခဲ့သော ဆောင်းပါး စာများကိုလည်း လေ့လာတွေ့ရှိရပါသည်။

> ကျမ်းကိုး။ တင်ထွန်းအေး အဝေးသင်တက္ကသိုလ် ဗားမဲ့ဆရာတော်မှ ကလေးဝ အဘိုးဆရာတော်သို့ ချီးမြှင့်ခဲ့သောဂါထာ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း အမှတ် ၁၇၈၊ ၂၀၀၁ ခု၊ မေလ၊ စာ ၆၁ ကိုကြည့်ပါ။

**ယနေ့တိုင် ကလေးဝမြို့တွင် မပုပ်မသိုးတည်ရှိသော အဘိုး ဦးဂုဏ**

ကလေးဝဆရာတော်နှင့် စပ်လျဉ်း၍ ဆရာစဉ်ဆက်တို့မှာ အလွန်အရေးပါသည်။ ဦးဂုဏ၏ ရုပ်ကလာပ်တော်လည်း ယနေ့တိုင် မပုပ်မသိုးဘဲ ရှိပါသည်။ အဘိုးဆရာတော်၏ ဆရာလည်း ဖြစ်၏။ ဘကြီးလည်း တော်၏။

> ကျမ်းကိုး။ ဂမ္ဘီရစောရန်နိုင်၊ ကလေးဝ ထူးဆန်းတောရ ကလေးဝ၊ ဂမ္ဘီရ မဂ္ဂဇင်း၊ အမှတ် ၂၉၊ စာ ၃၀ ကိုကြည့်ပါ။

**ယနေ့တိုင် ကလေးဝမြို့တွင် မပုပ်မသိုးတည်ရှိသော ဦးရိုးတော်ဘိဆန်းဆရာတော်**

ကလေးဝဆရာတော်၏ အဘိုးဦးဂုဏသည် ယနေ့တိုင် မပုပ်မသိုးသော ရုပ်ကလာပ်တော်တည်ရှိနေကြောင်း ဖော်ပြခဲ့ပြီး ဖြစ်၏၊ ထို့ထက် ပို၍အံ့ဩစရာ တစ်ချက်မှာ ထိုအဘိုးသာမက ထိုအဘိုး၏ညီတော်ဘိဆန်းဆရာတော်သည်လည်း ယနေ့တိုင် မပုပ်မသိုးသော ရုပ်ကလာပ်တော်ရှိ၏။ ထိုရုပ်ကလာပ်တော်နှစ်ပါးကို ယနေ့တိုင် မပုပ်မသိုး တည်ရှိသည်ကို ကလေးဝမြို့တွင် ဖူးမြော်နိုင်ပါသည်။

> ကျမ်းကိုး။ ဂမ္ဘီရစောရန်နိုင်၊ ကလေးဝ ထူးဆန်းတောရ ကလေးဝ၊ ဂမ္ဘီရ မဂ္ဂဇင်း၊ အမှတ် ၂၉၊ စာ ၃၀ ကိုကြည့်ပါ။

**ရေပေါ်လမ်းလျှောက်လျက် ထွက်တော်မူသော ဦးဇောတ**

ကလေးဝဆရာတော်၏ ဆရာတစ်ဆူဖြစ်သော ဦးဇောတသည်လည်း အင်းတော်ကြီး ရေပြင်ကို ကျော်ဖြတ်လျက် ရွှေသမင်တောင်ခါးပန်းတွင် သက်န်းစကို ဓာတ်လုံးဖြင့် ဇောတလောက ထွက်ပြီဟု စာတမ်းတင်ကာ ရေပြင်ကိုလမ်းလျှောက်လျက် ထွက်တော်မူပါသည်။

> ကျမ်းကိုး။ ဂမ္ဘီရစောရန်နိုင်၊ ကလေးဝ ထူးဆန်းတောရ ကလေးဝ၊ ဂမ္ဘီရ မဂ္ဂဇင်း၊ အမှတ် ၂၉၊ စာ ၃၀ ကိုကြည့်ပါ။

**ပထမလယ်တီဆရာတော်ဘုရား၏ တပည့်များ ဖြစ်ကြ**

ဤသို့ ထူးခြားဆန်းကြယ်သော အစဉ်အလာကောင်းရှိသော ကလေးဝ နာဂလိုဏ်ဂူဆရာတော်ကြီး ဖြစ်ပါသည်။ နောင်သောအခါ ဆရာတော် ညီတော် နောင်တော်နှစ်ပါးဖြစ်သော

http://www.dhammadownload.com



ဦးဇာယမေမွှနှင့် ဆရာရင်းဖြစ်သော ဘိုးသိရိတို့သည် မုံရွာမြို့ ပထမလယ်တီဆရာတော် ဘုရားထံ ပညာသင်ခဲ့ပြီးမှ အညာဒေသသို့ ကြွခဲ့ပြီး ကလေးဝမြို့နယ် ဆင်ခေါင်းကျေးရွာတွင် ဝါကပ်တော်မူခဲ့၏။ ပထမ လယ်တီဆရာတော်ဘုရားနှင့်လည်း အဆက်အစပ်ရှိပါ၏။

ကျမ်းကိုး။ ဂမ္ဘီရစောရန်နိုင်၊ ကလေးဝ ထူးဆန်းတောရ ကလေးဝ၊ ဂမ္ဘီရ မဂ္ဂဇင်း၊ အမှတ် ၂၉၊ စာ ၃၀ ကိုကြည့်ပါ။

**ဘီဆန်းဆရာတော်**

ဘီဆန်းဆရာတော်ဟု ကျော်စောတော်မူသော ဆရာတော်မှာလည်း အခြားမဟုတ် ဦးသိရိပင် ဖြစ်ပါသည်။

ကျမ်းကိုး။ ဂမ္ဘီရစောရန်နိုင်၊ ကလေးဝ ထူးဆန်းတောရ ကလေးဝ၊ ဂမ္ဘီရ မဂ္ဂဇင်း၊ အမှတ် ၂၉၊ စာ ၃၀ ကိုကြည့်ပါ။

နာဂလိုဏ်ဂူ ဆရာတော်ဘုရားကြီး အစဉ် ချီးမြှင့်တော်မူသော ဝိသေသ ဂါထာတော်မှာ သုဝဏ္ဏသာမစရိယ ဂါထာတော် ဧကရာဇစရိယ ဂါထာတော်ဖြစ်ကြောင်း ပညာအမွေ သိရှိရပါသည်။

ကျမ်းကိုး။ ဦးအောင်မွန်၊ နာဂလိုဏ်ဂူ ကလေးဝဆရာတော်ဘုရားကြီး၊ ရတနာမွန်မဂ္ဂဇင်း၊ စာ ၈ ကိုကြည့်။

အထက်ပါ ကလေးဝနာဂလိုဏ်ဂူဆရာတော်ဘုရားကြီးကို ဤကျမ်းပြုသူသည် ကိုယ်တိုင် အနီးကပ် ဖူးမြော်ခွင့် ဆည်းကပ်ခွင့် ရခဲ့ဖူးပါသည်။ အလွန်လည်း ကြည်ညိုစရာကောင်းပါ သည်။ ထို့ကြောင့်လည်း ခေတ်ပြိုင် သာသနာ မှတ်တမ်းများကို ကျွန်ုပ်သည် ကြိုးကြိုးစားစား လေ့လေ့လာလာ ရှာဖွေစုဆောင်းခဲ့ပါ၏။ အောက်တွင် ကျွန်ုပ် စုဆောင်းထားသော မှတ်တမ်း ကတ်တလောက်များကို ခေတ်ပြိုင်မှတ်တမ်းအဖြစ် ဖော်ပြပါ၏။ နောင်လာ နောက်သားတို့ ဆွတ်ချူယူငင် သုံးစွဲတော်မူကြပါကုန်လော့။

**အေဝမ်းဦးတင်မောင်၏ အဆိုအမိန့်**

ဒီနာဂလိုဏ်ဂူဘုရား ကုန်းမြေဟာ လွန်ခဲ့တဲ့နှစ်ပေါင်း (၆၀)ခန့်က အစိုးရနဲ့ ပြည်သူ ဘယ်သူမှ မသုံးသေးတဲ့ ချုံနွယ်ပိတ်ပေါင်းတွေနဲ့ ဖုံးလွှမ်းပြီး ကုန်းကျင်း ချိုင့်ဝှမ်းတို့နဲ့ မညီမညွတ် တဲ့တောရိုင်းမြေပါ။

ကျမ်းကိုး၊ အေဝမ်းမိသားစုနှင့် နာဂလိုဏ်ဂူစေတီတော်ကြီး၊ မောင်မောင်ဝင်း၊ ဂမ္ဘီရမဂ္ဂဇင်း၊ အမှတ်(၂၉) စာ - ၂၄။

**အေဝမ်းခြံ**

အေဒီ ၁၉၃၇

ခရစ်နှစ် ၁၉၃၇ -၃၈လောက်က ကျွန်တော့် ဖခင်ကြီး မြန်မာအဆွေ သူဌေးကြီး ဦးဘညွန့်၊ မိခင်ကြီး ဒေါ်ငြိမ်းရှင်နဲ့ ကျွန်တော်တို့မိသားစုက ဒီနာဂ လိုဏ်ဂူတော် ဘုရားကုန်းမြေအနီး အေဝမ်းခြံမှာ နေထိုင်ခဲ့ကြပါတယ်၊

ကျမ်းကိုး၊ အေဝမ်းမိသားစုနှင့် နာဂလိုဏ်ဂူစေတီတော်ကြီး၊ မောင်မောင်ဝင်း၊ ဂမ္ဘီရမဂ္ဂဇင်း၊ အမှတ်(၂၉) စာ - ၂၄။

**ဦးအောင်ချမ်းသာ**

အဖေကြီး ဦးအောင်ချမ်းသာလည်း အေဝမ်းခြံနားမှာနေပါတယ်။ ကျွန်တော့်မိခင်ကြီး နေမကောင်းလို့ အဖေကြီး ဦးအောင်ချမ်းသာက ဆေးကုပေးရင်း ဘုရားတည်မယ်လို့ကုသိုလ် ပြုခိုင်း ပါတယ်။ ဒီအချိန်မှာ အဖေကြီးဦးအောင်ချမ်းသာက နာဂလိုဏ်ဂူစေတီတော်မြတ်

http://www.dhammadownload.com



ကြီး တည်ထားမယ့်နေရာကုန်းမြေ ချုံနွယ်ပိတ်ပေါင်းကြားမှ ရောင်ခြည်တော်များကွန့်မြူးနေတာကို တွေ့မြင်ခဲ့ပြီးဖြစ်လို့ ဒီနေရာမှာ ဘုရားတည်ရမယ်လို့ အဖေကြီးဦးအောင်ချမ်းသာက ညွှန်ပြခဲ့ပါတယ်။ ကျွန်တော်တို့ သားသမီးတစ်တွေနဲ့ တပည့်တပန်းတွေ ဒီကုန်းမြေက ချုံနွယ်ပိတ်ပေါင်းတွေကို ရှင်းကြ၊ လင်းကြတော့စေတီဟောင်းတစ်ဆူတွေ့ခဲ့ရတယ်။ ဒီအချိန်က ရန်ကုန်တိုင်းရယ်လို့ သတ်မှတ်ချက်မရှိသေးပါဘူး။

**ရှေးရှေးက ဘူရီခတ် နဂါးမင်း ဥပဒ်စောင့်ခဲ့သော နေရာဟောင်း**
**နာဂလိုဏ်ဂူကုန်းတော် ရှာဖွေတွေ့ရှိခြင်း**

ဒီနာဂလိုဏ်ဂူကုန်းမြေဟာ ပဲခူးတိုင်းအတွင်း မှာ ဆိုင်မယ်ထင်ပါတယ်။ ဒါ့ကြောင့် ကျွန်တော့်ဖခင် မြန်မာအဆွေသူဌေးကြီးက ပဲခူးတိုင်းမင်းကြီး "ဆွတ်သင်ဘင့်"ထံက ခွင့်ပြုချက် ရယူခဲ့ပါတယ်။ တောရိုင်းမြေကို ညီညွတ်ပြေပြစ်အောင် ညှိ၊ ချုံနွယ်ပိတ်ပေါင်းတွေ ရှင်းလင်းခုတ်ထွင်ပြုပြင်မှုတွေပြုလုပ်ပြီး ဒါကျွန်တော်တို့ မိသားစု ဓားမဦးချမြေအဖြစ် ရယူထားခဲ့တဲ့မြေပါ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၅

ကိုယ်ကြိုက်သလောက် ခုတ်ထွင်ချဲ့ယူလို့ရပါတယ်။ တောရိုင်းမြေကြီးပဲဟာ ဒါပေမယ့် တိတိကျကျလုပ်ခဲ့ပါတယ်။ တိုင်းထွာမှုအရပြောရရင်တော့ (၃၄. ၂၂၂)ဧကရှိပါတယ်။"

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၅

**ရှေးဟောင်းသုတေသန အဆို့အမိန့်**

အေဒီ ၁၉၃၇ ခရစ်နှစ် ၁၉၃၈ ခုနှစ်ခန့်လောက်ကပေါ့။ မြန်မာသက္ကရာဇ် ၁၃၀၀ ပြည့်နှစ်၊ ရှေးဟောင်းစေတီကြီး တည်ရှိခဲ့တဲ့နေရာ ဘုရားတည်ဖို့ကြိုးစားနေတုန်းမှာပဲ ဒုတိယကမ္ဘာစစ်ကြီးနဲ့ရင်ဆိုင်လာလို့ မအောင်မြင်ခဲ့ပါဘူး။ များမကြာခင်မှာပဲ ဘုရားမတည်နိုင်ဘဲ ကျွန်တော့်ဖခင်ကြီးနဲ့မိခင်ကြီးတို့ ကွယ်လွန်ခဲ့ကြပါတယ်"

"ဒုတိယကမ္ဘာစစ်ကြီးပြီး မြန်မာနိုင်ငံလွတ်လပ်ရေးရပြီး ကျွန်တော်၊ အေဝမ်းဦးမောင်မောင်စိုး၊ အေဝမ်းဦးညီပု၊ ဒေါ်ခင်ခင်တို့မိသားစု၊ အဖေကြီး ဦးအောင်ချမ်းသာတို့နဲ့ တိုင်ပင်ကြပြီး အဖေကြီးဦးအောင်ချမ်းသာဦးဆောင်ပြီး နာဂလိုဏ်ဂူ ဘုရားကြီးတည်ခဲ့ရာ ပလ္လင်သာ ပြီးစီးချိန်မှာ အကြမ်းဖက်သောင်းကျန်းသူများ ဆူပူလုပ်ရှားကြလို့ ဘုရားတည်တဲ့ကိစ္စရပ်ခဲ့ရပြန်ပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၆

အေဒီ ၁၉၃၈ ၁၉၃၇ - ၃၈ ခုနှစ်ကပေါ့၊ ရှေးဟောင်းဘုရားစေတီဟောင်းနေရာမှာ တူးဖော်ကြည့်ခဲ့ကြတယ်။ လူကြီးတွေတော်တော်များများ စိတ်ဝင်စားခဲ့ကြပါတယ်။ မှတ်မိသလောက်ကျွန်တော့်ဖခင်ကြီး အေဝမ်းရုပ်ရှင် ကုမ္ပဏီပိုင်ရှင် မြန်မာအဆွေသူဌေးကြီးနဲ့ ကျွန်တော်တို့မိသားစုက ဦးဆောင်ခဲ့ပါတယ်။ ကျွန်တော့်အစ်ကိုကြီး အေဝမ်းဦးညီပု၊ တာဝန်ရှိတဲ့ လူကြီးပိုင်းက ပဲခူးတိုင်းမင်းကြီး ဆွတ်သင်ဘင့်၊ ကျောက်စာဝန်ဟောင်း အန်ဒူရောင်ဆမ်း၊ တက္ကသိုလ်ပါမောက္ခ လုစ်ပန်း၊ ကြီးပွားရေးအရာရှိ ဦးဘစိန်တို့ပါ ပါတယ်။

နာဂလိုဏ်ဂူကကလေးဝတောရကျောင်း ကလေးဝ အဘိုးဆရာတော်ကြီးရဲ့ တပည့်သာဝကကြီး လယ်တီ ပဏ္ဍိတ မပျံလွန်ခင်က ကျွန်တော့်ကိုခေါ်ပြီး သူ့မှတ်တမ်းမှတ်ရာစာတွေပေးခဲ့ပါတယ်။ နောင်တစ်ချိန် အသုံးဝင်လိမ့်မယ်လို့ ပြောပြီးပေးခဲ့ပါတယ်။

**အေဒီ(၅)ရာစု လက်ရာများ ရှာဖွေတွေ့ရှိ**

ဒီလယ်တီပဏ္ဍိတရဲ့မှတ်တမ်းထဲမှာ သိပ္ပနည်းကျကျတူးဖော်ကြည့်တဲ့အခါ ရှေးခေတ် ၅ ရာစုမှ ၁၂ ရာစုခေတ်အတွင်းဆိုင်ရာ ရှေးဟောင်းပစ္စည်းတွေ တွေ့ခဲ့ကြောင်းလည်း တွေ့ရပါတယ်။

http://www.dhammadownload.com



ဥက္ကဋ္ဌကြီးပြောခဲ့တဲ့ ပုဂ္ဂိုလ်များနဲ့တက္ကသိုလ် ကျောင်းအုပ်ကြီး ဦးဖေမောင်တင် သူကြီးဂေဇက် အယ်ဒီတာ ဦးခင်မောင်၊ အင်ဂျင်နီယာ ဦးကျော်စိန် စတဲ့ပုဂ္ဂိုလ်တွေရဲ့ အကူအညီနဲ့လေ့လာ စူးစမ်းမှုတွေလုပ်ခဲ့ကြတယ်လို့ ဆိုပါတယ်"

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၆

**ရှေးရှေးက အုတ်ခွက်ဘုရား**

သေသေချာချာ မှတ်မိတာကတော့ တူးဖော်ရာမှာ ကျွန်တော့်ဖခင်ကြီးရတဲ့ အုတ်ခွက်ဘုရား တစ်ဆူမှာ ခေါင်ကိုးပါးဆင့်မိုးထားတဲ့ကျောင်းဆောင်အတွင်း ဝဇီရာသနပလ္လင်ထက်မှာ ထက်ဝယ်ဖွဲ့ခွေထိုင်နေတော်မူပုံရှိပြီး ကျောဘက်မှာပါဠိဘာသာနဲ့ "ဤရုပ်ပွားတော်အား နာဂ လိုဏ်ဂူအတွင်းဝယ် သံသရာမှ လွတ်မြောက်စိမ့်သောငှာ ရည်စူး၍ပြုလုပ် လှူဒါန်းခဲ့ပါသည်"လို့ ရေးထားပါတယ်။ အောက်ဘက်မှာ ထေရ်ဗီလာလို့ လက်မှတ်ရေးထိုးထားပါတယ်။

"ဒါကြောင့် ဒီဘုရားစေတီဟောင်းဟာ နာဂလိုဏ်ဂူဘုရားလို့၊ ဒီကုန်းမြေဟာနာဂလိုဏ်ဂူ ဘုရားကုန်းမြေလို့ တိတိပပခေါ်ဆိုကြတာပေါ့နော်" ကျောက်စာဌာနက ဒီအုတ်ခွက် ဘုရားကို အနော်ရထာခေတ်၊ ဒါမှမဟုတ် အေဒီ (၁၂)ရာစုခေတ်လို့ ခန့်မှန်းခဲ့ပါတယ်။ အစီရင်ခံစာမှာ ဖော်ပြခဲ့ပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၇

**သက်တမ်း (၁၅၀၀)ကျော်ခဲ့သော နာဂလိုဏ်ဂူစေရာဟောင်း**

ရှေးယခင် နှစ်ပေါင်း (၁၅၀၀) ကျော်အချိန်လောက်ကတည်းက နာဂလိုဏ် ဂူဆိုတဲ့ အမည်ရှိခဲ့ တယ်လို့ အဲ့ဒီလူကြီးတွေ ဆုံးဖြတ်၊ ညှိနှိုင်းရခဲ့ကြပါတယ်။ ဒါ့ကြောင့် ဒီကုန်းမြေကို နာဂလိုဏ်ဂူ ဘုရားကုန်းမြေလို့ အမည်ခေါ်တွင်လာခဲ့တာပါ။

လယ်တီ ပဏ္ဍိတပေးခဲ့တဲ့စာထဲမှာ လေ့လာစူးစမ်းမှုနဲ့တူးဖော်ကြတဲ့အခါ အုတ်ခွက်ဘုရားများ ထူထဲတဲ့ ကြေးဝါကလပ်ကြီးတစ်ခု၊ ကြေးဝါမှန်ကြီးတစ်ချပ်၊ ရွှေပြားပါးပါးကွပ်ထားတဲ့ ငွေလက်စွပ် ကြီးသုံးကွင်း၊ ကြေးဝါဖလားကြီးတစ်လုံး ကြေးဝါလင်ပန်းကြီးနဲ့ လူသုံးပစ္စည်းတွေ တွေ့ရှိခဲ့ကြတယ်လို့ဖတ်ရပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၇

ဥက္ကဋ္ဌကြီး ဦးတင်မောင်ထက် အစ်ကိုကြီးဦးညိုပုနဲ့ မောင်မောင်စိုးတို့က ဘုရားကိစ္စပိုပြီး စိတ်ဝင် စားကြတယ်။ မောင်မောင်စိုးကတော့ လူငယ်လည်းဖြစ်၊ ဝါသနာကလည်းပါတော့ သူကတူးကြ၊ ဖော်ကြတော့ကိုယ်တိုင်ပါတယ်။ ယခုစေတီတော်ကြီးရဲ့ စနေထောင့်မှာ မူလအုတ်မြစ်ကျန်ခဲ့ တယ်။ အကုန်မငုံမိဘူးလို့ပြောဖူးတယ်။ တူးဖော်ကြည့်တော့ အုတ်ခွက် ဘုရားတွေများစွာ တွေ့ရတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၇

အုတ်ခွက်ဘုရားတွေကတော့တော်တော်များများရကြလို့ ကလေးဝကျောင်းမှာလည်း ရှိနိုင် ပါတယ်။ တချို့ပုဂ္ဂိုလ်တွေထံမှာလည်း ရှိနိုင်ပါတယ်။ တခြားပစ္စည်းတွေကတော့ ရှေးဟောင်း သုတေသနကျောက်စာဌာနတို့ကိုပေးပြီး စူးစမ်းခိုင်းခဲ့တာပဲ။ ဖခင်ကြီးပြန်ရလား၊ မရလားတော့ ကောင်းကောင်းမမှတ်မိတော့ပါဘူး။ ရှာဖွေကြည့်ရဦးမယ်"

**ထိုအချိန်အထိ ကလေးဝ ဆရာတော် ရောက်မလာသေး**

ကလေးဝ အဘိုးဆရာတော် အဲဒီအချိန်က မရောက်သေးဘူး။ အဖေကြီး ဦးအောင်ချမ်းသာပဲ ဦးစီးဆောင်ရွက်နေတာ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၇

http://www.dhammadownload.com



**သစ္စာဝါဒီ ဘိုးဘိုးကြီး**

အေဒီ ၁၉၅၃ (၁၉၅၃) ခုနှစ်လောက်မှာ မင်းရွာဇာတိ သစ္စာဝါဒီ ဘိုးဘိုးကြီးရောက်လာတယ်။ မကြာခင်မှာ အဖေကြီး ဦးအောင်ချမ်းသာထွက်ရပ်လမ်းမြန်းခဲ့ပါတယ်။ သစ္စာဝါဒီဘိုးဘိုးကြီးက နာဂလိုဏ်ဂူတော်ဘုရား ဆက်တည်ပါတယ်။ မပြီးမြောက်ခဲ့ပါဘူး။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၇

အေဒီ ၁၉၅၅ သစ္စာဝါဒီဘိုးဘိုးကြီး ဆောင်ရွက်နေတုန်း (၁၉၅၅) ခုနှစ်လောက်မှာ ကလေးဝအဘိုးဆရာတော် ရောက်လာပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၇

**သက်တော် (၆၀)မှာ နာဂလိုဏ်ဂူသို့ ရောက်ရှိခဲ့**

အေဒီ ၁၉၅၅ ကျွန်တော်ကလေးဝ အဘိုး ဆရာတော်ကို လျှောက်ဖူးပါတယ်။ သက်တော် (၆၀)၊ ဝါတော် (၄၀)၊ မြန်မာသက္ကရာဇ် (၁၃၁၇) ခုနှစ်၊ တန်ဆောင်မုန်းလဆန်း(၁၄)ရက် ၂၈-၁၁-၁၉၅၅နေ့မှာ နာဂလိုဏ်ဂူကုန်းမြေကိုရောက်ခဲ့တယ်လို့ မိန့်တာကိုမှတ်သားထားပါတယ်"

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၇

**ဦးအောင်ချမ်းသာ အဆိုအမိန့်**

အဖေကြီး ဦးအောင်ချမ်းသာက "ဒီဘုရားငါတည်လို့ပြီးမှာမဟုတ်ဘူး။ အရှေ့မြောက်အရပ်က ကုလားအဆက်ရှိတဲ့ ဘုန်းကြီးလာလိမ့်မယ်။ သူတည်မှ ပြီးလိမ့်မယ်" လို့ပြောခဲ့တယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၈

အစကတော့ ကလေးဝအဘိုးဆရာတော်ကြီးဟာ ခေတ္တသီတင်းသုံးဖို့ ရောက်လာတာပါ။ သစ္စာဝါဒီဘိုးဘိုးကြီးနဲ့ အေဝမ်းမိသားစုတွေက အမြဲသီတင်းသုံးဖို့ လျှောက်ထားတော့ ကလေးဝအဘိုးဆရာတော်ကလက်ခံခဲ့ပါတယ်။

အေဒီ ၁၉၅၅ သစ္စာဝါဒီဘိုးဘိုးကြီးဟာ မြန်မာသက္ကရာဇ် (၁၃၁၇) ခုနှစ်၊ ဝါဆိုလပြည့်ကျော် (၂)ရက်နေ့ ၁၅-၈-၁၉၅၅ မှာ ထွက်ရပ်လမ်းကို မြန်းခဲ့တယ်လို့ မှတ်သားမိပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၈

အေဝမ်းဦးတင်မောင် - ဟုတ်ပါလိမ့်မယ်။ သစ္စာဝါဒီဘိုးဘိုးကြီးလည်း ဘုရားမပြီးခဲ့ပါဘူး။ အဖေကြီးဦးအောင်ချမ်းသာ ပြောတဲ့အရှေ့ မြောက်အရပ်က ကုလားအဆက်ရှိတဲ့ ဘုန်းကြီးဟာ ကလေးဝအဘိုးဆရာတော်ပဲ ဖြစ်မှာပဲဆိုပြီး အေဝမ်းမိသားစုတွေအားလုံး တိုင်ပင်ခဲ့ကြပြီး အဘိုး ဆရာတော်ကိုလည်း အားလုံးရေစက်ချလှူဒါန်းပြီး ဘုရားကြီးပြီးမြောက်အောင်တည်ပေးဖို့ လျှောက်ထားအပ်နှံခဲ့ကြပါတယ်။ အေဝမ်းဦးတင်မောင် - ကလေးဝ အဘိုးဆရာတော်ကြီး နာဂလိုဏ်ဂူဘုရားကုန်းမြေရောက်ရှိခဲ့ပြီး တစ်နှစ်ကြာ သီတင်းသုံးပြီး သစ္စာဝါဒီဘိုးဘိုးကြီးက ထွက်ရပ်လမ်းကိုမြန်းပြီးနောက်လှူတာပါ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၈

**မဟာမြိုင်ဆရာတော် ဦးဝါယမ**

အေဒီ ၁၉၅၆ ရေစက်ချလှူဒါန်းစဉ်က မဟာမြိုင်ဆရာတော်ကြီး ဦးဝါယမနဲ့ အေဝမ်းမိသားစုတွေပါဝင်ပါတယ်။ မြန်မာသက္ကရာဇ် (၁၃၁၈) ခုနှစ်၊ သီတင်းကျွတ်လဆန်း (၈) ရက်၊ ခရစ်နှစ် (၁၉၅၆)၊ အောက်တိုဘာလ ၁၂ ရက် သောကြာ နေ့နံနက် (၉)နာရီလို့ မှတ်မိပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၈

http://www.dhammadownload.com



မိဘလက်ထက်ကစပြီး ပိုင်ဆိုင်ခဲ့တဲ့ ပွဲခင်းအုတ်တိုင်အမှတ်အသားနဲ့ နာဂလိုဏ်ဂူတော် ဝတ္ထက မြေ (၃၄. ၂၂၂) ကေရှိတဲ့ အလားအလာ ဦးတင်မြင့်ဆိုတဲ့ ပုဂ္ဂိုလ်တစ်ဦးက ကလေးဝ အဘိုး ဆရာတော်ကို တိုင်ကြားခဲ့လို့ အနုဝါဒါ အဓိကရုဏ်းမှုခင်းဖြစ်ခဲ့တာ မှတ်မိပါတယ်။ နိုင်ငံတော် သံဃဝိနိစ္ဆယအဖွဲ့အမှတ်(၃၂)က နာဂလိုဏ်ဂူတော်ဘုရားကုန်းမြေကို အေဝမ်းမိသားစုက လှူဒါန်းခွင့်ရှိ၍ အလှူဒါနမြောက်ကြောင်း ဆုံးဖြတ်ချက်ကို ကျွန်တော် ဖတ်ဖူးပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၉

## ကလေးဝမြို့ရှိ နေရာဟောင်း

ကလေးဝမြို့ရှိ ကလေးဝတောရကျောင်းသည် ယခု အဘိုးဆရာတော်ဘုရားကြီး ဖြစ်တော်မူသော ရန်ကုန်မြို့၊ နာဂလိုဏ်ဂူ ကလေးဝတောရဆရာတော် အဘိုး ဦးသာဂရ၏ ယခင်က ရန်ကုန်သို့ မရောက်မီ ဘွဲ့မိနက်သံ စံမြန်း သီတင်းသုံးတော်မူခဲ့သောကျောင်း ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၉

ရန်ကုန် နာဂလိုဏ်ဂူတော်ကျောင်းသို့ ရွှေ့ပြောင်း ကျောင်းထိုင်တော်မမူခင် သီတင်းသုံး၍ သမထအကျင့်၊ ယောဂ အကျင့်၊ ဗေဒင်ကျမ်း၊ နက္ခတ်နှင့် လက္ခဏာကျမ်းများ ဆေးအင်း ဂါထာ မန္တရားများတို့ကို ကျင့်ကြံအားထုတ်တော်မူခဲ့သော နေရာကျောင်းပင်ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၉

## ကလေးဝမြို့ရှိ ရှပ်ကလာပ်တော် ကြွင်းကျန်သော ရုပ်ကြွင်းတော်များ

ကလေးဝမြို့ရှိ ကလေးဝတောရ ကျောင်းကြီးတွင် အဘိုးဆရာတော်ကြီး အပြင် ကျောင်းထိုင်၍ သာသနာပြုခဲ့ကြတော်မူသော ဆရာတော်ကြီးများဖြစ်တော်မူသော ဦးဇောတ၊ ဦးဂုဏ၊ ဦးဏာယမေ့ဆရာတော်ဘုရားကြီးများသည် ထူးဆန်းလှသော ဂုဏ်သတင်းရှိတော်မူသော ပုဂ္ဂိုလ်ထူးဆရာတော်ဘုရားကြီးများဖြစ်တော်မူကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၉

ဟိုယခင်အခါက ကလေးမြို့ရှိ ကလေးဝ တောရကျောင်းတည်နေရာသည် ကလေးမြို့ဦးနှင့် မိုင်ဝက်ခန့် ဝေးကွာသော မြို့မြောက်ဘက်၌ တောကြီးအထိတည်ရှိခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၉

## တရားထူးရသော ဦးဇောတ

တရားထူးရသော ထွက်ရပ်ပေါက်ဆရာတော် ဆရာတော်ဦးဇောတအရှင်မြတ်မှစ၍ ကျောင်း ထိုင်တော်မူခဲ့ပါသည်။ တောရဆောက်တည်၍ ကလေးမြို့ရှိ ယခုကျောင်းဝင်း၏ မြောက်ဘက် ကပ်လျက်နေရာတွင် သီတင်းသုံးနေထိုင်တော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၉

ကျောင်းဝင်းနေရာမှန်သည်ကား နောင်တွင် အလို အလျောက်ကန်တော်ပေါ်ထွန်း၍ ဦးစွာပေါ် ပေါက်ခဲ့မှုကြောင့် "ကန်ဦး" ဟူ၍ ခေါ်တွင် သမုတ်ခဲ့ကြလေသည်။

ကျမ်းကိုး၊ ဂမ္ဘီရစာရေနိုင် (ကလေးဝ)၊ ထူးဆန်းတောရကလေးဝ၊ ဂမ္ဘီရမဂ္ဂဇင်း၊ အမှတ် (၂၉)၊ စာ - ၃၀

## ရေပေါ် လမ်းလျှောက်၍ ထွက်သွားသော ဦးဇောတ

ထေရုပ္ပတ္တိအတိအကျ ရှာဖွေမရရှိသော ထွက်ရပ်ပေါက် ဆရာတော်ကြီး ဦးဇောတ ဆရာတော်ကြီးသည် ဤကျောင်းတွင် တရားမေ့များကိုကျင့်ကြံအားထုတ်ကာ လောကီသိဒ္ဓိ ထူးများ ထွန်းတောက်ကာ ကလေးဝမြို့ရဲ့ ရွှေသမင်တောင်ခါးပန်းတွင် သက်နဲ့စကို ခတ်လုံး

http://www.dhammadownload.com



ဖြင့် စာတန်းကာ "ဇောတ"လောက, ကထွက်ပြီဟု စာတန်းတင်ကာဖြင့် အထက်ထွက်ရပ်လမ်းကို မြန်းတော်မူခဲ့ပါသည်။

**ထေရုပ္ပတ္တိအတိအကျ ရှာဖွေမရရှိသော ထွက်ရပ်ပေါက် ဆရာတော်ကြီး ဦးဂုဏ**

ထို့နောက်ဆရာတော်ဦးဂုဏ ဆက်လက်ကျောင်းထိုင်ဆရာတော်အဖြစ် သီတင်းသုံးနေထိုင်တော်မူပြီးနောက် ဤကျောင်းမှပင် အထက်ထွက်ရပ်လမ်း၊ မြန်းကြွတော်မူခဲ့ပါသည်။

**ယနေ့တိုင် ရုပ်ကလာပ်တော် ထားရှိသော ညီတော် နောင်တော် ၂ ပါး**

နောင်တွင် ဆရာတော်ညီတော်၊ နောင်တော် ၂ ပါးဖြစ်တော်မူသော ဦးဉာဏမေ္ဓနှင့် နာဂလိုဏ်ဂူအဘိုးဆရာတော်၏ ဆရာရင်းဖြစ်တော်မူသော ဘိုးသီရိတို့သည် မုံရွာမြို့ လယ်တီ ဆရာတော်ဘုရားကြီး၏ကျောင်းတွင် စာပေ ပရိယတ္တိများ သင်ကြားခဲ့ပါသည်။

၎င်းနောက် အထက်ချင်းတွင်း အညာဒေသသို့ ကြွမြန်းခဲ့ပြီး ကလေးဝမြို့နယ်၊ ဆင်ခေါင်းကျေးရွာတွင် တစ်ဝါကပ်၍ သီတင်းသုံးတော်မူခဲ့ကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ - ၃၁

ဤအချိန်တွင် ကလေးဝမြို့ရှိ ကျောင်းဒါယကာများဖြစ်ကြသော ဦးယွန်း၊ ဦးကျောက်ခဲနှင့် ဦးကျောက်လုံးတို့မှ ထူးဆန်းလှသော အိပ်မက်ကို မြင်မက်ခဲ့ကြလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၀

အိပ်မက်အရဒါယကာတို့ မနက်ဖြန်နံနက်တွင်မြစ်ကြောင်းမှ ရဟန္တာ(၂)ပါး ကြွမြန်းလာလိမ့်မည်။ ဆွမ်း၊ ကွမ်း၊ ကျောင်းသင်္ကန်းဒကာများအဖြစ်ပြုကြပါဟု အိပ်မက်ကိုမြင်မက်ကြရပါသည်။အိပ်မက်အရ နံနက်တွင် ဆွမ်း၊ ကွမ်းများဖြင့် မြစ်ပြင်တွင်စောင့်ဆိုင်းကြရာ လောင်းလှေဖြင့် စုန်ဆင်းတော်မူခဲ့ကြသော ဆရာတော်ကြီး(၂)ပါးကို ဖူးတွေ့ကြရ၍ ပင့်လျှောက်ကာ သီတင်းသုံးရန် ကျောင်းများအမြန်ဆောက်လုပ်လှူဒါန်းခဲ့ကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၀

ကျောင်းသီတင်းသုံးရန် ပင့်လျှောက်ထားချက်အရ ဒေါ်ယာမြင့်ဇရပ်တွင် ခေတ္တသီတင်းသုံး၍ ကျောင်းကို ဆက်ကပ်ခံယူတော်မူကာ ကလေးဝမြို့ဦးနှင့် မိုင်ဝက်ခန့်ဝေးကွာသော ကန်ဦးနှင့်ကပ်လျက်ရှိသော ကန်ဦးကျောင်း တွင်သီတင်းသုံးကာ ကလေးဝတောရကျောင်းဟူ၍ ဖြစ်ပေါ်လာခဲ့ပါသည်။ ဆရာတော်ကြီး (၂)ပါးသည် ကလေးဝတောရကျောင်းတွင် ဦးဉာဏမေ္ဓကျောင်းထိုင်တော်မူပြီး နောင်တော် ဦးသီရိသည်ကား ကလေးဝအနောက်ဘီးဆန်း ရပ်ကွက်မှဒကာ၊ ဒကာမများပင့်ဖိတ်မှုအရ သီရိဇေယျာကျောင်း ဟူ၍ဘွဲ့ပေးကာ ကျောင်းထိုင်တော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၀

ဆရာတော်ကြီးများ၏ သီလဂုဏ်၊ သမာဓိဂုဏ်တော်ကြောင့် မာဂဓစကားများကိုပင် တတ်သိနား လည်တော်မူကြပါသည်၊

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၀

အေဒီ ၁၉၀၈

မြန်မာသက္ကရာဇ် ၁၂၇၀ နှစ်ဦးပိုင်းတွင် ဆရာတော်(၂)ပါးသည် ကလေးဝတောရမှနေ၍ မြတ်စွာဘုရားပွင့်တော်မူရာ မဇ္ဈိမတိုက် မဟာဗောဓိပင်မင်း၏ ခြေတော်ရင်းတွင် သွားရောက်၍ တရားဓမ္မများကို ကျင့်ကြံတော်မူကြရာ (၇)ရက်ပြည့်မြောက်တွင် မဟာဗောဓိပင်မင်းမှ တောင်ကိုင်းတော်ချိုးချ ပေးတော်မူခဲ့၍ ပင့်ဆောင်ကာပြန်လည်ကြွမြန်းတော်မူပြီးမဟာဗောဓိတောင်ကိုင်းတော်ကို ဒက္ခိဏာသာခါဗုဒ္ဓရုပ်ပွားတော် (၂)ဆူ ထုလုပ်ပူဇော်၍ နတ်တော်

http://www.dhammadownload.com



လပြည့်နေ့တွင် ဒက္ခိဏာသာခါ ဗုဒ္ဓပူဇနိယဘုရားပွဲတော်ကြီးများအဖြစ် ကျင်းပပေးခဲ့သည်မှာ (၈၇)နှစ်မြောက်သို့တိုင်ရှိခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ - ၃၁

## ကလေးမြို့ရှိ ပဌမကလေးဝ ဆရာတော်

အေဒီ ၁၉၄၈

ကလေးမြို့ရှိ ကလေးဝကျောင်းတိုက် ပဌမဆရာတော် ဖြစ်သော ကလေးဝတောရ ဆရာတော်ကြီးသည် အများပြည်သူများတရားဓမ္မတော် ဖော်ညွှန်းပြကာဖြင့် တောရ ကျောင်းကြီးတွင် သာသနာအကျိုးကို သယ်ပိုးတော်မူပြီး သက္ကရာဇ် ၁၃၁၀ ခုနှစ်တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၂

ဆရာတော်ကြီးပျံလွန်တော်မူပြီးနောက် ထူးချွန်ပေါက်မြောက်တော်မူသော သာသနာ့အာဇာနည် လောင်းလျာဆရာတော် ဦးသာဂရ ယခု ရန်ကုန်နာဂလိုဏ်ဂူဆရာတော်သည် ဆင်ခေါင်းရွာ တစ်ဖက်ကမ်း ကျွဲကူးကျေးရွာ ကျောင်းတွင် သီတင်းသုံး၍ ဆရာတော်၏ ဩဝါဒါစရိယ အတိုင်းကျင့်ကြံအားထုတ်ခဲ့ရာ တစ်နေ့သောအချိန်ခါတွင် သင်္ကျိုင်း၌ အသုဘကမ္မဋ္ဌာန်း စီးဖြန်းနေစဉ် အဘိုးကြီး တစ်ပါးရောက်ရှိလာပြီး ကျွဲကူးရွာတစ်ဖက်ကမ်း ဆင်ခေါင်းရွာသို့ ပို့ပေးရန် လျှောက်ထားစဉ် ဆရာတော်သည် မေတ္တာ၊ ကရုဏာရှေ့ထား၍ ပို့ဆောင်ပေးခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၀

## ရေပေါ်တွင် လမ်းလျှောက်လျက် ပျောက်သွားသော ရဟန်းတော်

လှေငယ်ဖြင့်ပို့ဆောင်ပေးစဉ် မြစ်လယ်သို့ရောက်ရှိခိုက် အဘိုးအိုမှ "အရှင်ဘုရားသည် နောင်တစ်ချိန်တွင် သာသနာပြု အကျော်ဖြစ်လိမ့်မည်" ဟုပြောကြားပြီး သူ့ထံတွင်ပါလာသော ပြဒါးပြာအားဆက်ကပ်၍ လှေငယ်ထက်မှ ရေပြင်တွင်ဆင်းလျှောက်ပျောက်ကွယ်သွားသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ - ၃၂

ဆရာတော်လည်း ကျွဲကူးကျောင်းမှနေ၍ ဆရာတော်၏ အမိန့်အရ ကလေးဝတောရကျောင်းသို့ ရွှေ့ပြောင်း ကျောင်းထိုင်ခဲ့ပါသည်။ ကလေးဝတောရကျောင်းတွင် ကျောင်းထိုင် သာသနာပြုနေစဉ် အင်္ဂလိပ်အစိုးရမှ သာသနာပိုင်အဖြစ် ဘွဲ့တံဆိပ်တော်ဆက်ကပ်ခြင်းကို ခံယူတော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၂

## နာဂလိုဏ်ဂူဆရာတော် ဖြစ်လာခြင်း

ဆရာတော်သည် ရန်ကုန်မြို့သို့ကြွမြန်းပြီးသာသနာပြုခဲ့ရာ နာဂလိုဏ်ဂူဆရာတော်အဖြစ် နိုင်ငံနှင့်အဝန်း ထင်ရှားတော်မူပါသည်။

ဆရာတော်သည် မိမိသာသနာ့ကျောင်း အမည်ခံ၍ နာဂလိုဏ်ဂူကလေးဝတောရ ဆရာတော်ဘွဲ့ခံယူတော်မူပြီးနောက် နိုင်ငံတွင်းနှင့် နိုင်ငံရပ်ခြားတိုင်းပြည်များ၊ မြတ်စွာဘုရားပွင့်တော်မူရာ အနောက်မဇ္ဈိမဒေသများသို့ကြွရောက်ကာ သာသနာပြုတော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၂

ဆရာတော်သည် သာသနာအကျိုးပြုနေစဉ် ကလေးဝ တောရကျောင်းတွင် တူတပည့်ဖြစ်သော ဦးတိက္ခမှ ဆက်လက်ကျောင်းထိုင်ခဲ့ပြီး ကလေးဝတောရကျောင်း သာသနာကိုထမ်းရွက်ခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၂

http://www.dhammadownload.com



**လောင်းလှေကြီး (၃)စင်း**

နာဂလိုဏ်ဂူအဘိုးဆရာတော်နှင့် သာသနာ ပြုဆရာတော်ကြီးများ၏ သီလဂုဏ်၊ သမာဓိဂုဏ် များကြောင့် တောတွင်းရှိ ကျွန်းပင်ပွား သုံးပင်သည် ဖိုခနောက်ဆိုင်ပေါက်ရောက်ပြီး ထူးဆန်း သောအသွင်ရှိ ကျွန်းပင်ကြီးသုံးပင်ကို လောင်းလှေကြီး ညီနောင်(၃) စင်းအဖြစ် ထွင်းလုပ်ပြီးစီး တော်မူခဲ့ကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၂

**ကလေးဝဆရာတော် စီးခဲ့သော စိန်မိုးလောင်းလှေကြီး**

ကလေးဝတစ်ဖက်ကမ်း ကိုင်းကျေးရွာတွင် ရွှေမိုးလောင်းလှေတော်ကြီးနှင့် ကလေးဝတောရ အဘိုး ဆရာတော်စီးသော စိန်မိုးလောင်းနှင့် အဘိုးဆရာတော်စတင်သီတင်းသုံးခဲ့သော ကျွဲကူးရွာတွင် မြမိုးဟူသော လောင်းလှေညီနောင်သုံးစင်းလည်း ဖြစ်ပေါ် လာခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၂

**ထူးခြားသော ဆင်ခေါင်းဆရာတော် ဦးတိက္ခ**

ဦးတိက္ခ (ဆင်ခေါင်း) ဆရာတော် ၏နောက်တွင် ဦးဝါယမ ဆရာတော် ကျောင်းထိုင် သာသနာ ပြုခဲ့ပြီး ယခုအခါတွင် ပညာဒီပ (ဓမ္မာစရိယ) ဆရာတော်သည် နာဂလိုဏ်ဂူအဘိုးဆရာတော် ၏အမိန့်ဖြင့် ကျောင်းထိုင်စေကာ ကလေးဝတောရ တွင် နှစ်စဉ်မိုးကုတ်ဝိပဿနာစခန်းပွဲများ၊ ဝါတွင်းညစဉ်တရားလိုလားကြသော ယောဂီအပေါင်းအား ဝိပဿနာတရားပွဲများနှင့် စုပေါင်း ဒုလ္လဘရဟန်းခံရှင်ပြုပွဲများကို ကျင်းပ၍သာသနာ့ဘောင် သွတ်သွင်းကာ တရားဓမ္မ ချီးမြှင့်ပေး နေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၂

**အောင်ချမ်းသာ ရပ်ကွက်**

အဘိုးဆရာတော်သည် ကလေးဝတောရ ကျောင်းဝင်းကြီး ရံတောင်များတွင် စေတီငယ် (၇) ဆူရံ၍ သာသနာ့ အောင်လံထူထားသည်ကို ကလေးဝ-မုံရွာကားလမ်းနှင့် ရေလမ်းများမှ မြို့အဝင်မြင်တွေ့နိုင်ပါသည်။ ကလေးဝတောရ ကျောင်းတည် အောင်ချမ်းသာ ရပ်ကွက်အမည် ကိုယူ၍ နာဂလိုဏ်ဂူ ကျောင်းတည်ရပ်ကွက်ကို ပင် အောင်ချမ်းသာရပ်ကွက် ဟူ၍ အမည်နာမ ပေးတော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ - ၃၂

မင်္ဂလာဒုံဥယျာဉ်မြို့တော်တွင် ဇေကမ္ဘာရုံးချုပ် အဆောက်အဦကြီး၏ ရှေ့မျက်နှာစာ တည့် တည့်တွင် ပူဇော်ထားသော ဗမ္မာ့ဦးသျှောင် မြတ်ဘုန်းခေါင်ဓာတ်ပေါင်းစုံ စေတီတော်မြတ်ကြီး ကို ဖူးမြော်ပြီးနောက် ခပ်လှမ်းလှမ်းသို့ ဆက်၍ လျှောက်လိုက်သောအခါ နာဂလိုဏ်ဂူ ကလေးဝ တောကျောင်းဆရာတော် ဘုရားကို ပူဇော်ထားသော အဆောက်အဦများကို အံ့စဖွယ် တွေ့ရှိ ရပါသည်။

ကလေးဝနာဂလိုဏ်ဂူသို့ တစ်ခါ တစ်ခေါက် ရောက်စဉ်ကတည်းက ဖူးမြော်ခဲ့ရသော ကလေးဝ ဆရာတော်ဘုရားကြီး၏ လူတစ်ရပ်မကမြင့်သောဓာတ်ပုံကြီးကို မျက်စိထဲ မမေ့ပျောက်နိုင်ခဲ့ပါ။ နာဂလိုဏ်ဂူ စေတီတော်သို့အရောက် စေတီတော်ကြီးမှာ အောင်ချမ်းသာ စေတီတော်ဟု ခေါ် ဆိုကြကြောင်း သိရပါသည်။

အောင်ချမ်းသာဆိုသည်မှာ အများသိပြီး ဖြစ်သော ဆုထူးပန် ဦးအောင်ချမ်းသာ ဖြစ်ကြောင်း သိရှိရပါသည်။ ထိုဆုထူးပန် ဦးအောင်ချမ်းသာအကြောင်းနှင့်စပ်လျဉ်း၍ ရန်ကုန် မင်္ဂလာဒုံတွင်

http://www.dhammadownload.com



လည်း ကြီးကျယ်လှစွာသော အဆောက်အဦများနှင့်တကွ သာသနာ့နယ်မြေကြီး ကို တအံ့တသြတွေ့ခဲ့ဖူးပါသည်။

ထို့နောက်တစ်ဖန် နာဂလိုဏ်ဂူတွင်လည်း ရသေ့ကြီး ဘိုးသစ္စာ၏ ထူးခြားလှသော အုတ်ဂူကို လည်းကောင်း၊ ထိုပရိဝုဏ်အတွင်းရှိ ထူးခြားလှသော ဦးအောင်ချမ်းသာ၏ ဓာတ်နန်း တစ်နေရာကို လည်းကောင်း၊ နာဂလိုဏ်ဂူ ကလေးဝဆရာတော်၏ သာသနာပြုစခန်းကြီးကို လည်းကောင်း ဆန်းဆန်းကြယ်ကြယ် အံ့အံ့သြသြ တွေ့ခဲ့ဖူးကြောင်း အမှတ်ရမိပါသည်။

အနည်းငယ်မျှသာ ကျွန်တော်ကြားဖူးနားဝရှိသော နာဂလိုဏ်ဂူကလေးဝဆရာတော် အကြောင်းကို ဖတ်မငြီး အောင် ပြောပြသောဦးစန်းမောင်မှာ နာမည်ကျော်စာရေးဆရာကြီး မဟုတ်သော်လည်း လက်က မချချင်လောက်အောင် ပြန်ပြောနိုင်စွမ်းရှိသောကြောင့် အမှတ်မထင် လက်ဆောင်ရခဲ့သော ဓမ္မဒါနစာအုပ်ကလေးမှာ စာမျက်နှာ ၄၈ မျက်နှာသာ ရှိသော်လည်း အမှတ်ထင်ထင် တရိုတသေ သိမ်းဆည်းခြင်းခံရသော စာအုပ်စင်၏ စင်တော်ကောက် လက်ရွေး စင်စာအုပ် တစ်အုပ်အဖြစ် ရပ်တည်ခဲ့သဖြင့် ပြုစုသူ ဦးစန်းမောင်၏ ကျေးဇူးကို မေ့လျော့ခြင်း မရှိခဲ့ပါ။

**ပထမလယ်တီဆရာတော်ကို**

**အတောင်ခြောက်ဆယ် စကြံကျောင်း လှူခဲ့သော ဒကာကြီး**

ဦးစန်းမောင်၏ အဘိုးမှာ ဦးလူနိုင် ဖြစ်ကြောင်း သိရပါသည်။ ဦးလူနိုင်မှာ လယ်တီ ဆရာတော်ဘုရားကြီး၏ ကျမ်းစာများတွင် မကြာခဏ အရေးတယူ ဖော်ပြခြင်းခံရသော ဘုရားဒါယကာ တစ်ဦးဖြစ်ကြောင်း သတိထားမိပါသည်။

ဤကျမ်းစာကို ဦးလူနိုင် လှူဒါန်းအပ်သော အတောင် ခြောက်ဆယ် စကြံကျောင်းတွင် ပြုစုသည် ဟူသောစာသားကလေးကို ကျွန်တော် မှတ်မိပါသည်။ ထိုအတောင်ခြောက်ဆယ် စကြံကျောင်းမှာ မုံရွာမြို့ လယ်တီတိုက်ကြီး၏ ရှေးဦးသမိုင်း အစကတည်းက အရေးပါခဲ့သော စကြံကျောင်း ဖြစ်ပါသည်။

လယ်တီတိုက်ကြီး တည်ထောင်စကတည်းက စကြံကျောင်းကြီးသည် အတူတကွ မွေးဖွားဖက် ဖြစ်ပါသည်။

ဦးလူနိုင်၏ သမီးမှာ ဒေါ်မေမေစိုး ဖြစ်၏၊ မုံရွာမှာ နေ၏၊ ထိုမုံရွာနေ ဒေါ်မေမေစိုး၏ ဖခင် ဦးလူနိုင်သည် ဦးစန်းမောင်၏ အဘိုးတော်စပ်လေသည်။ ထိုစကြံကျောင်းမှာ ဒုတိယကမ္ဘာစစ် အတွင်းက မီးလောင်ပျက်စီးသွားခဲ့ပါသည်။

ထိုအခါ ကလေးဝတောကျောင်းဆရာတော်ဘုရားကြီးကိုယ်တိုင် ဦးစီး၍ ပြန်လည်တည်ဆောက်ခဲ့ပြန်လေသည်။ အဓိကအလှူရှင်တို့မှာ မုံရွာ ဒေါ်မေမေစိုးနှင့် ဦးစန်းမောင်တို့ ဖြစ်လေသည်။ ထို့ကြောင့်ပင်လျှင် ဦးစန်းမောင်သည် နာဂလိုဏ်ဂူကလေးဝ တောကျောင်းဆရာတော် အကြောင်း ပြန်ပြောရာတွင် အလွန်ကလောင်သွက်လေသည်။ ထိုစကြံ ကျောင်းကြီးပေါ်တွင် ကျေးဇူးရှင် ပထမ လယ်တီဆရာတော်ဘုရားကြီးသည် ကျမ်းပေါင်း ၁၃၇ ကျမ်းကို ပြုစုခဲ့ကြောင်း သိရပါသည်။ ယခုအခါ ထိုစကြံကျောင်းကြီးသည် ပြတိုက်ကြီးဖြစ်၍ နေလေသည်။

**ကလေးဝဆရာတော် ရုပ်ကလာပ်တော် ကိုယ်တွေ့**

အောင်သိဒ္ဓိစေတီတော်အောက်ရှိ ဂူအတွင်းသို့ ကလေးဝ ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို သွတ်သွင်းသောအခါ ဦးစန်းမောင်သည် ဆရာတော်ဘုရားကြီးကိုယ်တိုင် ယုံကြည်စိတ်ချစွာ လွှဲအပ်ခြင်းခံရသော ပုဂ္ဂိုလ်ဖြစ်လေသည်။

http://www.dhammadownload.com



**အပြောကောင်းသော ဦးစန်းမောင်**

ထို့ကြောင့်ပင်လျှင် ကလေးဝဆရာတော်ဘုရားကြီး၏အကြောင်းကို နားထောင်၍ မငြီးနိုင်လောက်အောင် အပြောကောင်း အရေးကောင်းလှသော ဦးစန်းမောင် ကိုယ်တိုင် ပြန်လည်ပြောပြမှသာလျှင် ပြည့်ပြည့်စုံစုံ သိနိုင်မည်ဖြစ်သဖြင့် ကျွန်တော်က ဤနေရာတွင် ခေတ္တ ရပ်တန့်၍ ဆရာကြီး ဦးစန်းမောင်၏ စကားများကို အောက်ပါအတိုင်း တဆိတ်ကလေး ဖတ်ရှုကြည့်စေချင်ပါသည်။ ဖတ်ရှု၍ ထူးခြားဆန်းကြယ်သော ကုသိုလ်များရရှိနိုင်ပါသည်။ ဖတ်ကြည့်ပါ။

**ဇာတိ**

ချင်းတွင်းမြစ်ပေါ်ရှိ ကင်းရွာတွင် မွေးဖွားသည်။ ကင်းရွာမှာ ကနီမြို့နယ်အပိုင် ဖြစ်သည်။ ဘိုးဘွားများမှာ ဦးပေါက်ပေါက်၊ ဒေါ်အိမ်စိုးတို့ ဖြစ်ကြရာ ကုန်းဘောင်မင်းဆက်၊ ဒသမမြောက် မင်းတုန်းမင်းကြီး လက်ထက်တွင် မင်းမှုထမ်းများ ဖြစ်ခဲ့ကြသော်လည်း နောင်တွင် အရပ်ဘက် ကုန်သည်ဘဝသို့ ကူးပြောင်းကြသည်။

**မိခင်၊ ဖခင်**

ဦးပေါက်ပေါက်၊ ဒေါ်အိမ်စိုးတို့မှ သားနှစ်ဦး၊ သမီးတစ်ဦး ဖွားမြင်ရာ သမီးငယ် ဒေါ်မူမှာ ကလေးဝတောကျောင်းဆရာတော်၏ မယ်တော် ဖြစ်သည်။

**ဦးရိုးတော် ဦးသီရိ**

ဦးရိုးတော်စပ်သော သားနှစ်ဦးမှာ လူ့ဘဝတွင် မမွေ့လျော်၍ ရဟန်းဘောင်ဝင်ကြလျက် ပထမ ဦးရိုးတော်မှာ လယ်တီ ဦးသီရိ ဟူသော ဘွဲ့အဖြစ် ထင်ရှားသော နောင်အခါတွင် ကလေးဝမြို့ ဘီဆန်း ဆရာတော်ဘုရားကြီးဟု ကျော်စောတိက္ကမ ဖြစ်ခဲ့သည်။

**ပထမ ကလေးဝဆရာတော် ဦးနေယျ**

ဦးရိုးတော် အငယ်မှာ ပထမ ကလေးဝ တောကျောင်း ဆရာတော် ဦးနေယျဖြစ်ပြီး ယော (၅) မြို့ ဂိုဏ်းချုပ် ကင်းတောရ မဟာဗောဓိ ဆရာတော်ကြီးနှင့် မုံရွာမြို့ မဟာလယ်တီ ဆရာတော် ဘုရားကြီးတို့၏ တပည့်ရင်း ဖြစ်သည်။ ကင်းမဟာဗောဓိဆရာတော်ဘုရားကြီးမှာ မင်းတုန်းမင်း လက်ထက်က "အထွဋ်ရွှေချ၊ ကမ္ဗဝါစာတော် ဖတ်၊ တယ်လုံးရွှေချ၊ စာတော်ချ၊ ယောငါးမြို့ ဂိုဏ်းချုပ်" ဟူသော ဘွဲ့တံဆိပ်တော် အထူးကပ်လှူခံရသော ပုဂ္ဂိုလ်ထူးကြီး ဖြစ်ပါသည်။

**ကလေးဝမြို့တွင် ရုပ်ကလပ်တော်များ**

**ယနေ့တိုင် ပုပ်မြော်နိုင်သေးသော ဦးရိုးတော် (၂)ပါး**

စကားချပ် - ထိုဦးရိုးတော်နှစ်ပါးမှာ ကလေးဝတွင် ပျံလွန်တော်မူကြပြီး ရုပ်ကလာပ်များကို မှန်ခေါင်းဖြင့် ထည့်သွင်းပြီး တလားကြီး နှစ်ခုပေါ်တွင် တင်ထားရာ ရုပ်ကလာပ်များ ပကတိ မပျက်မစီး ယခုတိုင် ရှိကြ၍ စာရေးသူ ကိုယ်တိုင် ဖူးတွေ့ခဲ့ရပါသည်။

**ကလေးဝဆရာတော် ဆွေမျိုးစာရင်း**

ကင်းရွာဇာတိ ဖြစ်ကြသည် ခမည်းတော် ဦးငယ်နှင့် မယ်တော်ကြီး ဒေါ်မူတို့၏ မွေးချင်း (၅) ဦးတွင် ကလေးဝ တောကျောင်းဆရာတော်မှာ တတိယမြောက် သားကြီးရတနာ ဖြစ်သည်။ ဆရာတော်၏ အထက်၌ အစ်မ (၂) ဦး ရှိပြီး၊ အောက်၌ ညီနှင့် ညီမငယ်တို့ ရှိကြ၏၊

http://www.dhammadownload.com



ကျေးဇူးရှင် မိဘနှစ်ပါးသည် ကလေးဝ တောကျောင်းဆရာတော် ငယ်စဉ်ကပင် ကွယ်လွန်ခဲ့ကြသဖြင့် ဦးရီး တော် ဘီဆန်း ဆရာတော်ကြီးထံပါး၌ နေခဲ့ရလေသည်။ ထိုကျောင်း၌ပင် ကိုရင်ဝတ်၍ သဒ္ဒါ သင်္ဂြိုဟ်စသော အခြေခံ ပရိယတ္တိစာပေသင်ကြားခဲ့သည်။

**လယ်တီထွက် စာတတ်**

ဦးရီးတော်နှစ်ပါးမှာ မဟာလယ်တီထွက် စာတတ်ပေတတ်များ ဖြစ်ကြသည့်အလျောက် မိမိတို့၏ တူကိုလည်း ပရိယတ္တိ အခြေခံစာများ နှံ့စပ်အောင် သင်တော်မူကြသည်။

ထူးခြားချက် တစ်ရပ်မှာ အရွယ်ရောက်၍ ပဉ္စင်းတက်ချိန် ရောက်သောအခါ မြန်မာလူမျိုးထဲမှ ဒါယကာ မဟုတ်ဘဲ ထိုခေတ်အခါက ကန်ထရိုက်တာအလုပ်ဖြင့် ကြီးပွားချမ်းသာသော ဂေါ်ရခါးလူမျိုး ဗုဒ္ဓဘာသာဝင်ကို ရဟန်း ဒါယကာအဖြစ် ခံယူစေခဲ့သည်။ ကံများ၏ အလှည့်သည် ဆန်းကြယ်ပါဘိသည်။

**နီပေါသို့ သွားကျင့်ခဲ့**

နောင်တွင် နီပေါနိုင်ငံ၊ ဂေါတမမြတ်စွာဘုရား မွေးဖွားတော်မူရာအရပ်ရှိ ပဉ္စင်း ဒါယကာထံသို့ သွားရောက်ခဲ့ပြီး ထိုဒေသမှ တစ်ဆင့် ဂေါတမမြတ်စွာဘုရား၏ သာသနာထွန်း ကားရာဒေသ အသီးသီးသို့ လှည့်လည်၍ သမထယာနိက၊ ကမ္မဋ္ဌာန်း နည်းနာနိဿယများကို ဟိန္ဒူဆာဒူး၊ ဂုရု ပဏ္ဍိတ်ကြီးများထံမှ လက်တွေ့ကျင့်စဉ်များကို ပေါက်မြောက်အောင် ကျင့်ကြံနိုင်ခဲ့ပါသည်။

**ဒိဗ္ဗစက္ခုရှင်ရသေ့**

ဒိဗ္ဗစက္ခုရှင်ရသေ့ကြီးသည် ရှေးအခါကကလေးဝမြို့ (ကလေးမြို့) အနောက်တောင်အရပ်၌ တည်ရှိသော ဝေဘူလ၊ ဝေဘူလတောတောင်အရပ်၌ မှီတင်းနေထိုင်သော ရသေ့ကြီးဖြစ်သည်။ ကလေးဝ တောကျောင်းဆရာတော် ကိုရင်ဘဝတွင် ထိုရသေ့ကြီး တစ်ဖန်ပေါ် ပေါက်လာပြန်သည်။

ထိုရသေ့ကြီးထံတွင် နာမဝိဇ္ဇာကျမ်းဟု အမည်တွင်သော လောကီအတတ် ပညာဗေဒင် ကိန်းခန်းကဲ့သို့ အထွေအထွေ အရပ်ရပ်ကို သိနိုင်မြင်နိုင်သော ဗျည်းကိုက်၊ သရကိုက် ကျမ်းရှိသည်။ ၎င်းရသေ့ကြီးက ထိုကျမ်းကို ဟောကြားလေ့ရှိသည်။

ထိုဒေသတစ်ဝိုက်တွင် ၎င်းကျမ်းပျံ့နှံ့နေရာ ဆရာတော်ကြီး အဆက်ဆက် နာမဝိဇ္ဇာကျမ်းအစုံစုံ ရရှိကြသည်။ ဦးရီးတော် ပထမကလေးဝ တောကျောင်း ဆရာတော်နှင့် ဒုတိယ ကလေးဝ ဆရာတော်အလောင်း၊ ကိုရင်ဘဝကပင် ထိုကျမ်းကိုရကြသည်။

ရန်ကုန်မြို့ နာဂလိုဏ်ဂူကျောင်းတွင် ကလေးဝ ဆရာတော် သီတင်းသုံးနေစဉ်အတွင်း လောကီရေးရာနှင့် ပတ်သက်၍ ဒါယကာ၊ ဒါယိကာမများ လျှောက်ထားချက်ကို ဖြေကြားရာ၌ တစ်ခါတရံ မိန့်ကြားသည်မှာ -

"ဒိဗ္ဗစက္ခုရှင်ရသေ့ကိန်း လွဲနိုင်ပါ့မလားဗျာ၊ ကျုပ်ပြောတာ ပုဏ္ဏားရဲ့ ဗေဒင်မှ မဟုတ်ပဲ"၊ အနှီခေတ်အခါက ဒိဗ္ဗစက္ခုရှင် ရသေ့ကြီးသည် နေမြင် လမြင် ပုဂ္ဂိုလ်ထူးကြီး ဟူ၍ ကျော်စောသတင်းရှိခဲ့သည်။ ထိုရသေ့ကြီးသည် ကလေးဝ ဆရာတော် ပြောပြချက်အရ ကုလားလူမျိုးနွယ်ဖြစ်သည်။

**ပထမ ကလေးဝ တောရဆရာတော် ဦးနေယျ**

မဟာလယ်တီဆရာတော်ဘုရားကြီး၏ တပည့်ရင်းများဖြစ်ကြသော သေဏ္ဍာတောင် ဦးတိလောက၊ လယ်တီပဏ္ဍိတဦးမောင်ကြီးစသည့် တပည့်ရင်းများတွင် ဦးနေယျသည် ဝါတော်အကြီးဆုံးဖြစ်သည်။

http://www.dhammadownload.com



**အာဂ ဦးနေယျ**

အေဒီ ၁၈၉၅ သက္ကရာဇ် ၁၂၅၇ ခုနှစ်တွင် မဟာလယ်တီ ဆရာတော်ကြီးအား မန္တလေးမြို့မဒေသ မဟာဗောဓိနှင့် ဘုရားပွင့်တော်မူရာ ဌာနများအပြင် သီဟိုဠ်ကျွန်းသို့လည်း ပင့်သွားတော်မူသည်။

**တစ်ခေါက်ကြားရုံဖြင့် အလွတ်ရ**

အေဒီ ၁၈၉၅ ၎င်းသက္ကရာဇ် တပို့တွဲလပြည့်ကျော် (၃) ရက် မန္တလေးမြို့မှ ရန်ကုန်ထွက် မီးရထားပေါ်တွင် ပဋိစ္စသမုပ္ပါဒ် အကျဉ်းလင်္ကာ (၁၃)ပုဒ်ကို လယ်တီဆရာတော်ကြီး အပြီးရေးသားတော်မူသည်။ တစ်ရွက်ရေးပြီးတိုင်း ဦးနေယျအားပြရာ တစ်ခေါက်ဖတ်ရုံဖြင့် အလွတ် ပြန်ပြနိုင်သည်။

**လယ်တီ ကိုယ်တွေ့**

ဤတွင် လယ်တီဆရာတော်ကြီးက 'ရေးတဲ့လူကလဲ ရေးနိုင်ပါ့ကွာ၊ ကျက်တဲ့လူကလဲ ကျက်နိုင်ပါ့ကွာ' ဟူ၍ အမိန့်တော်ရှိသတတ်။

**သိဒ္ဓိပေါက် ဦးနေယျ**

ဦးနေယျမှာ ပရိယတ္တိစာများတတ်သည်သာမက လောကီဘက် ဆိုင်ရာမှာလည်း သိဒ္ဓိပေါက် နေသော ပုဂ္ဂိုလ်ထူးကြီးတစ်ပါး ဖြစ်သည်။

ကလေးဝ တောကျောင်း ဆရာတော်က တစ်ခါတရံ စကားစပ်မိသောအခါ စာပြုသူအား ပြောပြသည်မှာ -

"ဒကာကြီး၊ ကျုပ် ဦးနိုးတော်ဟာ ယခုလို ရန်ကုန်မြို့ကဲ့သို့ မြို့တော်ကြီးတွင် လာရောက် ကျောင်းမထိုင်ရတာ ကျုပ်အသည်းနာလွန်းလို့၊ ကျောင်းသာ ကျုပ်လို လာရောက် ထိုင်ရလျှင် တစ်ပြည်လုံး ဟိုးလေးတကျော် ဖြစ်မယ့် ပုဂ္ဂိုလ်ထူးကြီးဗျ၊ လောကအရေးနှင့် ပတ် သက်လျှင် သူမသိတာ မရှိသလောက်ပါပဲ၊ ကျုပ်ဖြင့် နာကြည်းလွန်းလို့"

**သီဟိုဠ်မှာ ဘီအေ အောင်ခဲ့သေး**

သီဟိုဠ်၌ သီတင်းသုံးနေစဉ် အင်္ဂလိပ်စာသင်လိုသော စိတ်ကူးပေါ်လာ၍ စာမေးပွဲဝင်ဖြေရာ ဘီအေဘွဲ့ရပါသည်။

ကလေးဝမြို့သို့ ပြန်လည်ကြွရောက်လာပြီးနောက် ဘီအေဘွဲ့ပေးသော အာဏာပိုင်အဖွဲ့ ဘုရင်ခံမှ အောင်လက်မှတ်ကပ်လို၍ ဆက်သွယ်ရာ 'ဘာလုပ်ဖို့တုံး၊ ငါမလိုပေါင်' ဟု အမိန့်ရှိ ဖူးလေသည်။

**မန္တန်ဝိဇ္ဇာ ဦးဇောတ**

ထိုရဟန်း ဦးဇောတအား ကလေးဝတစ်ဝိုက်၊ ကျော်ဇင်ရွာ လယ်လုပ်သူများ စတင်တွေ့ကြ သည်။ ကျော်ဇင်ရွာအနီးရှိ ဘီလူးမတောင်၊ ၎င်းနှင့် စပ်လျက်ရှိသော သမင်တောင်ထိပ်မှ တောင်အောက်သို့ တည့်တည့်မတ်မတ်ကြီး တန်ခိုးနှင့်ဆင်းလာကြောင်း တွေ့ကြရသည်။ ပါးစပ်တော်ထဲတွင် ပြဒါးရှင်လုံးငုံထားပြီး ဆင်းလာစဉ် နှာခေါင်းတစ်တောင်ခန့်ရှိ မိန်းမကြီး သဏ္ဌာန်တူသောပုဂ္ဂိုလ်က ဦးဇောတနှင့် ထွေးလုံးရစ်ပတ်ပြီး တောင်အောက်သို့ ဆင်းလာရာ ထိုပြဒါးရှင်လုံးကို လုယူဟန်ဖြစ်သည်ဟု လယ်လုပ်သူများက ယူဆကြသည်။ တောင်အောက် သို့ ရောက်သောအခါ နှစ်ဦးစလုံး ကွယ်ပျောက်သွားကြသည်။

ရဟန်းဦးဇောတသည် မကြာ မကြာ ထိုဒေသတစ်ဝိုက်၌ ပေါ်လာတတ်ရာ တောကိုလည်း လမ်းမရှိဘဲ ဖြတ်နိုင်သည်။ တောင်ကိုလည်း ဖောက်နိုင်သည်။ ရေပေါ်ကိုလည်း လမ်းလျှောက် သွားနိုင်သည်။

http://www.dhammadownload.com



လမ်းခရီးအကြား မာတုဂါမများနှင့် ဆုံစည်းလျှင် လမ်းဘေးသို့ ခြေစုံရပ်ပြီး ရှောင်တိမ်းပေးသည်။ မာတုဂါမအုပ်ကြီးနှင့် တွေ့လျှင် လမ်းဘေး ရှောင်တိမ်းပေးပြီး တောက်ခေါက်နေသည်။

**မန္တန်ဝိဇ္ဇာ ဦးဇောတ**

ကလေးဝ တောကျောင်းဆရာတော် ငယ်စဉ်က ဘီဆန်းဆရာတော်ဘုရားကြီးထံနေသောအချိန်၊ အနီ ရဟန်း ဦးဇောတ လာလေ့ရှိပြီး ကိုရင်ငယ်၏ ဘေးတွင် ကျိန်းစက်လေ့ရှိသည်။ နှုတ်မှ အမြဲတမ်း မန္တန်များ ရွတ်နေသည်။ ထိုသိဒ္ဓိပေါက် မန္တန်များကို ကလေးဝတောကျောင်းဆရာတော် ငယ်စဉ် ဘဝကပင် ရလိုက်သည်။

ဖျင်ဖြူစတစ်တောင်ခန့် ဦးဇောတ အမြဲသုံးသော မျက်နှာသုတ်ပဝါကို ကလေးဝတောကျောင်းဆရာတော်အား လှူဒါန်းခဲ့သည်။

**အင်းတော်ကြီးမှ ထွက်သွားခဲ့**

ရဟန်း ၁၀ ဝါအထိ ထိုပုဂ္ဂိုလ်ထူးကြီး ကလေးဝတောကျောင်း ဆရာတော်ထံ မကြာမကြာလာလေ့ရှိသည်။ စာပြုသူသည် တစ်ကြိမ်က ထိုမန္တန်ဝိဇ္ဇာကြီး ယခုရှိပါသေးသလားဟု မေးမြန်းဖူးရာ "ကျုပ်နဲ့ မတွေ့တာလဲ ကြာပြီ၊ အင်းတော်ကြီးဘက် ထွက်သွားသည်ဟု သတင်းစကားဖြစ်နေသည်" ဟု မိန့်ဖူးသည်။

**အလံမှာ စာတန်းထိုးခဲ့**

အထက်ချင်းတွင်း အင်းတော်ကြီးလား၊ ကချင်ပြည်နယ် အင်းတော်ကြီးလား၊ ကျုပ် အတပ်မပြောနိုင်ပါ။ ထူးခြားချက်က ထိုပုဂ္ဂိုလ်ကြီးထွက်သွားစဉ်က သင်းပိုင်တစ်ထည်ကို အလံထိုး၍ ၎င်းအလံတွင် ဇောတတဲ့၊ လောကမှာ ပြောကြတော့ဟု ရေးသားသွားကြောင်း ကျုပ် သိရသည်ဟု အမိန့်ရှိဖူးပါသည်။

**တောင်ခွင်သာသနာပိုင်နှင့် ကလေးဝတောကျောင်းဆရာတော်**

ကုန်းဘောင်ဆက် နောက်ဆုံးမင်း ဖြစ်တော်မူသော သီပေါမင်း လက်ထက်နှင့် အင်္ဂလိပ်မင်းလက်ထက်တွင် နောက်ဆုံး သာသနာပိုင်မှာ တောင်ခွင်သာသနာပိုင် ဖြစ်သည်။

**တောင်ခွင်ဆရာတော် တပည့်ဖြစ်ခဲ့**

အေဒီ ၁၈၇၆ — ပထမကလေးဝဆရာတော် ဦးနေယျသည် မိမိ၏ တူအရင်း ကလေးဝ တောကျောင်းဆရာတော် (၃) ဝါ အရတွင် မန္တလေးမြို့ သာသနာပိုင်ထံသို့ အပ်နှံပေးလေသည်။

တောင်ခွင်တိုက် စည်းကမ်းအရ ၎င်းတိုက်၌ နေမည့် မည်သည့်ရဟန်းမဆို ဝိနည်းငယ်လေးစောင်နှင့် ပရိဝါ ပါဠိတော်ကို နှုတ်လွတ် အာဂုံ ပြန်ရသည်။ ထိုကဲ့သို့ ပြန်နိုင်ပါမှ တောင်ခွင် တိုက်က လက်ခံသည်။ ရဟန်းငယ် ဦးသာဂရသည် အောင်မြင်စွာ ပြန်ဆိုနိုင်ခဲ့၍ လက်ခံလိုက် သည်။

**မြန်မာပညာရှိ ဦးဖေနှင့် ဦးမေအောင်**

ထိုကျောင်းတိုက်၌ နေစဉ် သာသနာပိုင်၏ ဩဝါဒကထာများ သာမက သုဓမ္မာဂိုဏ်းချုပ်ဆရာတော်ကြီးများ၊ လက်ကိုင်ဆရာတော်ကြီးများ၊ မြန်မာ့ပညာရှိ ဦးဖေ၊ ဦးမေအောင်တို့ထံမှလည်း ဗဟုသုတအမျိုးမျိုး ရရှိခဲ့သည်။

**သာသနာပိုင်ထံမှာ (၁၃)နှစ်**

အေဒီ ၁၈၇၉ — သာသနာပိုင် ဆရာတော်ထံတွင် (၁၃) နှစ်တိုင်တိုင် ပရိယတ်၊ ပဋိပတ်၊ လောကုတ္တရာပညာများ သာမက မဟာဝင်၊ ရာဇဝင် စသော ဝင် (၉)ဝင် ကျမ်းများကိုလည်း ကောင်းမွန်စွာ

http://www.dhammadownload.com



တတ်မြောက်ခဲ့သည်။ တောင်ခွင် သာသနာပိုင်ထံမှ ဦးရီးတော် ဦးနေယျ ပြန်ခေါ်သဖြင့် ကလေးဝသို့ ပြန်ကြွတော်မူခဲ့သည်။

ဦးရီးတော်က ကျွဲကူးရွာ အောက်ကျောင်း လွှဲအပ်တော်မူ၍ ကျောင်းထိုင်စခဲ့သည်၊ ကျွဲကူးရွာ၊ ဆင်ခေါင်း ရွာ စသည်တို့တွင် ရဟန်းတော်များနှင့် သီလရှင်တို့ကို စာပေ ပို့ချတော်မူခဲ့သည်။

အေဒီ ၁၈၉၈ ရဟန်းဝါ (၁၆) ဝါ အရတွင် သာသနာပိုင်၏ အထူးဘွဲ့ တံဆိပ်တော် နှစ်ထပ် ချီးမြှင့်ခြင်း ခံရသည်။

**ဘွဲ့တံဆိပ်တော် ဝိသုဒ္ဓသီလဝရစာရ သီရိပဝရဓမ္မသေနာပတိ၊**
**မဟာသံဃရာဇာ သာသနာပိုင်ဆရာတော် အမိန့်တော်**

အေဒီ ၁၈၉၈ အထက်မြန်မာပြည်၊ စစ်ကိုင်းတိုင်း၊ မော်လိုက် ဒိစတြိတ်၊ ကလေးဝမြို့နယ်၊ ကလေးမြို့အပိုင်၊ ကျွဲကူးရွာ အောက်ကျောင်းနေ အသက် (၃၆) နှစ်၊ သိက္ခာ (၁၆) ဝါ ရရှိ၍ လဇ္ဇီပေသလ၊ သိက္ခာကာမ သာသနာတော် စည်ပင်ပြန့်ပွား ထွန်းလင်းတောက်ပစေခြင်း အကျိုးမျှော်ကိုး တောင့်တ ရည်သန်တော်မူ၍ စစ်ကိုင်းခရိုင် မော်လိုက်ဒိစကြိတ် ကလေးဝ "ခ" (၄) မြို့၊ ကလေးဝ "ခ" (၄) မြို့နယ်အတွင်း သီတင်းသုံး နေထိုင်ကြကုန်သော ရဟန်းသံဃာတို့ အပေါ်၌ ဝိနည်း တရားတော်နှင့်အညီ ကမ္မာကမ္မ ဝိနိစ္ဆယ ပြုလုပ်၍ ဆုံးမသြဝါဒပေးရန်။ "ကလေး၊ တိန်ညင်၊ ရာဇဂြိုဟ်၊ ဘန်းလက်၊ ကလေးဝ" ငါးမြို့နယ်အတွင်း ဝိနယဓရေ ဓမ္မကထိက၊ သာသနာပြု ပုဂ္ဂိုလ်ကျော် ( ပထမတံဆိပ်တော် )

မြန်မာတိရဋ္ဌ၊ ဝိနယဓရေ ဓမ္မကထိက၊ သာသနာပြုပုဂ္ဂိုလ်ကျော် (ဒုတိယတံဆိပ်တော်)

၎င်းတံဆိပ်တော် နှစ်ခုကို ချိပ်အိတ်တံဆိပ်ပြု၍ အသိအမှတ် ပြုတော်မူလိုက်သည်။

မဟာသံဃသာသနာပိုင် ဆရာတော်။

သာသနာတော် ၁၄၇၇ ခု၊

၁၂၉၅ ခု၊ ကဆုန်လဆုတ် ၁ ရက်နေ့၊

၁၉၃၄ ခု၊ မေလ ၉ ရက်နေ့၊

**နာဂလိုဏ်ဂူကလေးဝတောကျောင်းဆရာတော်နှင့် ဟိန္ဒူဆာဒူးကြီး**

ရဟန်းငယ်ဘဝနှင့် မဇ္ဈိမဒေသအတွင်း ခရီးလှည့်လည်စဉ် တစ်နေ့သောအခါ ဟိန္ဒူ ဆာဒူးကြီး တစ်ပါးနှင့် ဆုံမိကြရာ ဆရာတော်က -

" ကျုပ်လေ သက်တော် ၆၅ နှစ်မှာ ပျံလွန်တော်မူချင်တယ်"

ကျုပ်လူ့ပြည်မှာ နေတာထက်၊ နတ်ပြည် ရောက်ပြီး ကျုပ် ကျင့်ကြံလျှင် မဂ်လမ်း ဖိုလ်လမ်းအထိ ပေါက်မယ်လို့ ကျုပ်ယုံကြည်တယ်။ ကျုပ်ကို ကြည့်ပေးစမ်းပါ။

ဆာဒူးကြီးက "ပျံလွန်တော် မမူနဲ့ဦး။ မြန်မာပြည်မှာ ဘုန်းကြီးလုပ်စရာတွေ အများကြီးရှိတယ်" "ဗုဒ္ဓသာသနာ ထွန်းကားမယ့် အရပ် (၁၃) ခု ရှိတယ်" မှန်ပါသည်။ ဂေါတမမြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူပြီးသည့်နောက် မဇ္ဈိမဒေသတွင် ဂေါတမသာသနာတော် တဖြည်းဖြည်း မှေးမှိန်လာခဲ့သည်။ ဒါကြောင့် ရှေ့ကြိုတင်မြင်စွမ်းနိုင်သော ဆာဒူးကြီးက ကလေးဝတော ကျောင်းဆရာတော်အား ထိုသာသနာထွန်းကားမည့် (၁၃) နေရာကို ပြောကြားခြင်း ဖြစ်သည်။

**သာသနာတော် ထွန်းကားမည့် နေရာ (၁၃)နေရာ**

သီ-သံ-သ-ပု-အ-ဥ-မ-မြေ-သက်ရှည် - မန္တ - ကောင်း - ကောင်း - င

(၁) သီ-သီဟိုဠ် (၂) သံ-သံတွဲ (၃)သ-သထုံ (၄)ပု-ပုဂံ (၅)အ-အင်းဝ (၆)ဥ-ဥဿာ ပဲခူး (၇)

http://www.dhammadownload.com



မ - မူး မန္တလေး (၈) မြေ-မြေပုံသာ (၉)သက်ရှည်-သက်သာ ပန်းတောင်း (၁၀)မန္တ-မန္တလေး (၁၁) ကောင်း-ကောင်းတုံ (၁၂) ကောင်း - ကောင်းစင် (၁၃) င - ငဆောင်ချမ်း။

အဲဒီဟောကိန်း မမှန်ဘူးလား။ မှန်လိုက်တာမှ သွေးထွက်တာထက် မှန်သေးတယ်။ စာပြုသူ ကိုယ်တိုင် (၁၃) နေရာ စလုံးရှိ အချို့ဒေသမှ လွဲ၍ ကျန်ဒေသများတွင် ကိုယ်တိုင်ကိုယ်ကျ လိုက်လံ၍ လူအား ငွေအားဖြင့် ကူညီခဲ့သည်။

ယခု ၁၃၅၂ ခုနှစ်တိုင်လုပ်ရန် ကျန်ရှိနေသော သာသနာ့ လုပ်ငန်းများကို မိမိစွမ်းအား ရှိသ၍ အဓိဋ္ဌာန်ပြုပြီး ဆောင်ရွက်ပါမည်။

**ကလေးဝတောကျောင်းဆရာတော်နှင့် သမထယာနိကအကျင့်**

ဦးရီးတော် ပထမလေးဝ တောကျောင်းဆရာတော် ဦးနေယျထံတွင် ခေတ္တခဲ့အခါ ရဟန်းပရိသတ် လူထု ပရိသတ်များနှင့် အနေများ၍ ဦးရီးတော်က -

" နင်ပရိသတ်များနဲ့သာ မမွေ့လျော်နဲ့၊ ဂန္ထဓူရချည်းလည်း မလိုက်နဲ့" ဟု ဆုံးမတော်မူဖူးရာ ဆရာတော်က -

" တပည့်တော်က ဈာန်ပျံချင်တာဘုရား"ဟု ပြန်ပြောရာ

"ဒါဆို နင် မဇ္ဈိမဒေသကိုသွား အဲဒီမှာ သမထ ယာနိက ကျင့်ကြံ ပေါက်မြောက်နေသော ဆာဒူး၊ ဂုရု၊ ပဏ္ဍိတ်ကြီးများရှိတယ်"

ရှေ့အခန်းတွင် ဖော်ပြခဲ့သော ဟိမဝန္တာတောင်ခြေ ပဉ္စင်းဒကာရှိရာ နီပေါနိုင်ငံသို့ ထိုကြောင့် စတင် သွားရောက်ခဲ့ခြင်း ဖြစ်သည်။

**ထူးဆန်းသော ဆာဒူးကြီး**

ဟိမဝန္တာ တောတောင် အရပ်ရပ်၌ လှည့်လည်၍ ဆာဒူးကြီးများ ကျင့်ကြံသော နေရာ ဌာန အသီးအသီး၌ သွားရောက်၍ ကျင့်ကြံခဲ့စဉ် ဂူကြီးတစ်ဂူ ဌာနတစ်ခုတည်းမှာ ဆာဒူးကြီး တစ်ပါး နှင့် ဆုံစည်းခဲ့ဖူးသည်။ ဂူပေါက်ဝမှာ သာမန်လူတစ်ကိုယ် မဝင်လောက်ပါ။

ကျင့်ကြံ၍ မိမိကိုယ်ကို သေးငယ်အောင် ဖန်တီးနိုင်မှ ဝင်နိုင်ပါသည်။ ထိုဆာဒူးကြီးသည် ဂူပေါက်ဝသို့ လာလိုက်၊ ကိုယ်နှင့် ချိန်ကြည့်လိုက်၊ အကျင့်လိုသေးလျှင် ပြန်သွားလိုက်နှင့် အကြိမ်ကြိမ် လာရောက် စမ်းသပ်ပါသည်။ ဆရာတော်နှင့် နောက်ဆုံးအကြိမ် တွေ့သောအခါ လိုအပ်သော သိဒ္ဓိပေါက်သွားပြီ ဖြစ်၍ ရှောရှောရှူရှူ ဝင်နိုင်သွားပါတော့သည်။

ဂူကြီး၏ အောက်ပိုင်းတွင် ထာဝစဉ် မီးပူဇော်ထားသော မီးတောက်ရှိသည်။ ထိုမီးတောက်၏ ဘေးတွင် ကျင့်ကြံနေဆဲ ဆာဒူးများနှင့် အရိုးစုများကို ဆရာတော်မြင်ရသည်။

၎င်းဂူပေါက်ထဲ ဝင်မိ၍ မီးကို မပြတ်လုပ်ကျွေးရလျှင် မအို၊ မနာ၊ မသေသော ပြဟ္မာ ပြည်သို့ ရောက်နိုင်သည် ဆိုသော အယူဝါဒ ရှိဟန်တူပါသည်။ ၎င်းဆာဒူးသည် မည်သည့်အခါမှ ပြန်မထွက်တော့ပါ။ ထွက်ရန်လည်း သာမန်အားဖြင့် မဖြစ်နိုင်တော့ပါ။

ဆရာတော်သည် သမာဓိ လုပ်ငန်းနှင့် ပတ်သက်၍ ၎င်းဆာဒူးကြီးများ၏ ကျင့်ကြံပုံကို လက်တွေ့ ရရှိခဲ့သည်။ ၎င်းဆာဒူးကြီးများ အဓိဋ္ဌာန်ဝင်၍ ကျင့်ကြံနေလျှင် စားမှုသောက်မှု နေမှုထိုင်မှုဟု ဆိုအပ်သော ကာယိက ဒုက္ခများ အေးငြိမ်းနေကြောင်း တွေ့ခဲ့ရသည်။

ထို့ကြောင့် ဆရာတော်သည် ရဟန်းငယ်ဘဝကပင် ထိုလမ်းစဉ်နှင့် ပတ်သက်၍ ပေါက်ရောက် ခဲ့ကြောင်းကို ဆာဒူးကြီးတစ်ဦး၏ မှတ်ချက်မှာ -

'ဒီဘုန်းကြီး သမာဓိကောင်းသည်" ဟု ချီးကျူးကြ၏။

http://www.dhammadownload.com



**သုဝဏ္ဏသာမသုတ်နှင့် ဧကရာဇသုတ်**

ကလေးဝ တောကျောင်းဆရာတော်သည် မဇ္ဈိမဒေသ အရပ်ရပ်သို့ လှည့်လည်၍ ဗဟုသုတ ရှာမှီးသောအချိန် တစ်နေ့တွင် ဗာရာဏသီပြည်သို့ ရောက်ခဲ့သည်။ ဗာရာဏသီပြည်ရှိ မြန်မာ ဘုန်းတော်ကြီးတစ်ပါးက -

"ဦးပဉ္ဇင်း၊ ဒီသုတ်နှစ်သုတ်ကို ရွတ်စမ်းပါ။ ရွတ်လို့ အလွန်ကောင်းတယ်၊ နောင်တော့ အကျိုးသိ လိမ့်မယ်" ဟု ပြောကြားပြီး သုတ္တပိဋက ခုဒ္ဒက နိကာယ်၊ စရိယာ ပိဋကလာ၊ သုဝဏ္ဏသာမ စရိယ (၃) ဂါထာနှင့် ဧကရာဇ စရိယ (၅) ဂါထာကို ပေးတော်မူ၏။

ထိုနှစ်သုတ်မှာ သစ္စာကို မဏ္ဍိုင်ပြု၍ အမှန်ကို ပြောသောစကားများဖြစ်ခြင်းကြောင့် ထိုနှစ်သုတ် ၏အကျိုးအာနိသင်မှာ မှန်ကန်သော သစ္စာစကားကြောင့် ပြီးစီးအောင်မြင်ခြင်းသို့ ရောက်နိုင်ပါ သည်။ သုဝဏ္ဏသာမသုတ်တွင် ဒုကုလနှင့် ပါရိကတို့၏ မှန်သောသစ္စာစကားကြောင့် သား ရွှေအိုး ထမ်းလာသည်ကို မြင်ရသည်။

ဧကရာဇသုတ်၌လည်း မင်းကျင့်တရား (၁၀) ပါး၊ သင်္ဂဟတရား (၄)ပါးတို့နှင့် ကျင့်ကြံနေသော ဧကရာဇဘုရင်ကြီးအား မတရားနန်းကို လုလိုသော ဒဗ္ဗသေန၏ အကြံအစည် ဟူသရွေ့သည် စစ်မှန်သော မေတ္တာ ပို့၍ သစ္စာဆိုသော စကားကြောင့် ဒဗ္ဗသေနမှာ မရှုမလှ ပျက်စီးရသည်။ ထို့ကြောင့်ပင်လျှင် ဆရာတော်သည် ဤမျှအရေးကြီးသော သုတ်နှစ်သုတ်ကို အရေးကြုံက ဒကာ ဒကာမများ ကျရောက်နေသော ဒုက္ခအမျိုးမျိုးမှ လွတ်ကင်းရန် ပရိတ်ကြီး သုတ်များနှင့် တွဲဖက်၍ ရွတ်ဖတ်သရဇ္ဈာယ်ခဲ့ရာ စာပြုသူကိုယ်တိုင် ဒိဋ္ဌမေ့ ဘေးအန္တရာယ်မှ လွတ်ဖူးကြောင်း ကြုံတွေ့ခဲ့သော အဖြစ်အပျက်များ ရှိခဲ့သည်။

**နာဂလိုဏ်ဂူနှင့် ကလေးဝတောကျောင်းဆရာတော်**

နာဂလိုဏ်ဂူ ဘယ်အရပ်မှာ တည်ရှိသည်ကို ပထမ ပြောကြဦးစို့၊ (၈) မိုင် တံတားကလေးရွာ အနီး ကုန်းမြင့်တစ်ခုပေါ်တွင်တည်ရှိသည်။ နာဂလိုဏ်ဂူဘုရား ဖြစ်ပေါ်လာပုံအကျဉ်းမှာ - မြန်မာအဆွေ သူဌေးကြီး ဦးဘညွန့်၏ (၉) မိုင်၊ အေဝမ်းခြံတွင် နေထိုင်သော လူသူတော် သိဒ္ဓိရှင်ကြီး အဖေကြီး ဦးအောင်ချမ်းသာသည် ထိုကုန်းမှ အလင်းရောင်ကွန်မြူးသကဲ့သို့ (၇) ရက်တိုင်တိုင် မြင်ရရာ သူဌေးကြီးအား ပြသပြောဆိုလေသည်။

သူဌေးကြီးသည် ထိုကုန်းကို ရှင်းလင်းသောအခါ သစ်ပင်ချုံနွယ်တွေ ပိတ်ဖုံးနေသော ရှေးဘုရား ပျက်ကြီးကို တွေ့ကြလေသည်။ တူးဖော်ကြည့်ရာ ရှေးဟောင်းအုတ်ခွက်ရုပ်ပွားတော်များ၊ ကြေးသတ္တုဖြင့် ပြုလုပ်ထားသော ရှေးပစ္စည်းအမျိုးမျိုး၊ ဂဝံကျောက်နှင့် ပြုလုပ်ထားသော ရုပ်ပွား ဆင်းတုတော်များ တွေ့ကြရသည်။

ရှေးဟောင်းသုတေသနဌာန၊ ကျောက်စာဝန်၊ ကောလိပ်ကျောင်း အရှေ့တိုင်း ရာဇဝင် ပါမောက္ခ များ၊ ပဲခူးတိုင်းမင်းကြီး၊ အင်ဂျင်နီယာများနှင့် တိုင်ပင်ဆွေးနွေးကြပြီး ပုဂံခေတ်ထက် နောက်မကျ သော စေတီဖြစ်ကြောင်း တညီတညွတ်တည်း ယူဆကြသောကြောင့် ဦးအောင်ချမ်းသာနှင့် သူဌေးကြီးတို့ ဘုရားတည်ရန် လိုအပ်သော အုတ်၊ သဲ၊ ကျောက် စသည်တို့ စတင်ချကြသည်။ ဒုတိယကမ္ဘာစစ်ကြီး မြန်မာပြည်သို့ ကူးစက်လာ၍ ထိုအကြံအစည်များမအောင်ခဲ့ချေ။ ဦးအောင် ချမ်းသာ၏ နိမိတ်ဖတ်သော စကားများမှာ -

"ဒီဘုရားတို့ တည်ဖို့မဟုတ်ဘူး၊ တည်လဲ ပြီးမှာမဟုတ်ဘူး၊ အရှေ့မြောက်အရပ်က ကုလားသော် လည်းကောင်း၊ က၊ လ အက္ခရာပါတဲ့ ဘုန်းတော်ကြီးသော်လည်းကောင်း၊ ရသေ့သော်

http://www.dhammadownload.com



လည်းကောင်း၊ လူသော်လည်းကောင်း လာလိမ့်မယ်။ အဲဒီပုဂ္ဂိုလ်တည်လျှင် ဘုရားပြီးလိမ့်မယ်၊ ဘုရားတည်ပြီးရင် ဘုရားထီးရိပ်အောက်မှာ မြို့ကြီးဖြစ်လိမ့်မယ်'

**မင်းရွာမှ သစ္စာဝါဒီ ရသေ့ကြီး**

အဲဒီအချိန်အတောအတွင်း အေဝမ်းမိသားစုများက ပဲခူးခရိုင်၊ မင်းရွာမှ သစ္စာဝါဒီ ရသေ့ကြီးအား ပင့်ဖိတ်၍ ထိုကုန်းတစ်နေရာတွင်ထားပြီး ဆည်းကပ် ကိုးကွယ်ခဲ့သည်။ ဘုရားတည်ရန် အုတ်ချပ် ရေ (၃) သိန်းကျော်ပင် ထပ်မံချထားသည်။

ထိုအချိန်အခါလောက်တွင် ကလေးဝတောကျောင်းဆရာတော်သည် အိန္ဒိယပြည်မှ မြန်မာနိုင်ငံသို့ ပြန်ကြွလာသောအချိန်ဖြစ်သည်။ ကျန်းမာရေးမပြည့်စုံသဖြင့် မရဝါရီ ဘာဘူကြီး တစ်ဦးဖြစ်သူ (၂၉)လမ်းနေ ဘာဘူက သူ၏ (၃)ထပ်တိုက်ကြီးကို အလှူခံ၍ နေထိုင်ရန် ပေးအပ်လေသည်။

**သစ္စာဝါဒီ ရသေ့ကြီးနှင့်တွေ့ရှိခြင်း**

မြို့ရွာထဲတွင် ကြာရှည်စွာ သီတင်းသုံးလိုစိတ် မရှိသောကြောင့် သင့်တော်မည့် ဆိတ်ငြိမ်ရာအရပ်ကို ရှာဖွေရင်း နာဂလိုဏ်ဂူကုန်းသို့ ရောက်ရှိရန် အဆက်အသွယ်ရရှိခဲ့သည်။

တူတော်သူ ဦးပဏ္ဍိတနှင့် ထိုကုန်းသို့ လာရောက် သီတင်းသုံးနေရာ သစ္စာဝါဒီ ရသေ့ကြီးထံသို့ သွားရောက် တွေ့ဆုံရန် ဆရာတော်ညွှန်ကြားသောကြောင့် သွားရောက်တွေ့ဆုံသည်။

ရသေ့ကြီးက "အရှင်ဘုရားများ ဘယ်ကကြွလာပါသလဲ" ဟု မေးရာ "ကျုပ်တို့ ကလေးဝမှ ကြွလာကြောင်း" ပြောရာ "သိပ် နိမိတ်ကောင်းတယ်၊ ကျုပ်ကျောင်းပေါ်တော့ တောကျီးတစ်ကောင် 'ကဝ--ကဝ' အော်မြည်၍ နံနက် အရုဏ်တက်ချိန် အရှေ့အရပ်မှ ပျံသွားတယ်၊ ဒါ နိမိတ်ပဲ၊ မှန်ပြီ၊ အရှင်ဘုရားများ သီတင်းသုံးပေတော့"

**ထူးဆန်းသော အမျိုးသမီး (၇)ဖော်**

သည်လိုနဲ့ ယာယီ တဲကျောင်းကလေး ဆောက်ပြီး မြယာပင်ကလေးများ အောက်တွင် ကမ္မဋ္ဌာန်းရှုမှတ်နေသော တစ်ချိန်ဝယ် အမျိုးသမီး (၇) ဖော် ဆရာတော်ဆီသို့ လာရောက်ကြသည်။

ဒီကုန်းတွင် မည်သည့် လူမှ မရှိသဖြင့် ဆရာတော်၏ စိတ်တွင် စနိုးစနောင့်ကြီး ဖြစ်သွားသည်။

"အရှင်ဘုရား ဘုရားတည်လျှင် ဤအချောင်းကလေးများဖြင့် ပန္နက်ရိုက်ပေးပါဘုရား၊ မနက်ဖြန်ခါ တပည့်တော်တို့၏ အဘိုးလာပါလိမ့်မယ် ဘုရား"

နောက်တစ်နေ့တွင် အဘိုးကြီးတစ်ယောက် လာရောက်ဖူးမြော်ရင်း ယမန်နေ့က ၎င်း၏ သမီးများ ဘုရားပန္နက်ရိုက်ရန် ပစ္စည်းများ အလှူခိုင်းလိုက်ကြောင်း၊ ထိုပစ္စည်းများနှင့် ပန္နက်ရိုက်ပြီးသောအခါ ၎င်းတို့အား အမျှပေးဝေရန် လျှောက်ထားသွားပါသည်။

ရွှံ့များပေကျံနေသော ပစ္စည်းများကို ဆရာတော်ဆေးကြောပြီး ကြည့်ရာ ဖဲထီးသံချောင်းအရွယ်ကလေး တစ်မိုက်ခန့်လောက် ရွှေ (၃၂) ချောင်းနှင့် ငွေ (၃၂) ချောင်း ဖြစ်၍ ချိန်တွယ်ကြည့်ရာ ရွှေချိန် (၁၃)ကျပ် (၃) မူး ရှိသည်။

၁၉၅၆ သက္ကရာဇ် ၁၃၁၈ ခု၊ တန်ဆောင်မုန်းလပြည့်၊ စနေနေ့ (ခရစ်နှစ် ၁၉၅၆ ခု၊ နိုဝင်ဘာလ ၁၇ ရက်) ညဦး ၁၁ နာရီ ၄၀ မိနစ်တွင် အောင်မြင်စွာ ပန္နက်ချပြီး (၃) လအတွင်း အပြီးတည်သည်။

ထိုနှစ် တပေါင်းလတွင် ထီးတော်တင်မင်္ဂလာပွဲသဘင် ဆင်ယင်ကျင်းပပေးလိုက်သည်။ ထို့ကြောင့်ပင် ဒုတိယကလေးဝ တောကျောင်းဆရာတော်အား နာဂလိုဏ်ဂူ ကလေးဝ

http://www.dhammadownload.com



တောကျောင်းဆရာတော်ဟု အမည်နာမပညတ်ပြီး ခေါ်ဝေါ်ကြလျက် တစ်စတစ်စ ကျော်ကြားလာပါတော့သည်။

**ဟံသာဝတီ ပဲခူး အနောက်တော သာသနာ**

နာဂလိုဏ်ဂူဘုရား အောင်မြင်ပြီးသည့်နောက် အောက်ပါစကားများ ထိုဒေသတစ်ဝိုက်တွင် ပေါ်ပေါက်နေသည်။

"ရွှေလောင်းကို စီးပါလို့ ငွေလောင်းကို စီးပါလို့ မြို့ကြီးတဲ့ရောက်လို့လာ၊ အထက်ဗန်းမော် ကျေလေသေးရဲ့၊ အောက်ပြည် ရန်ကုန် စုန်လေသေးရဲ့"

ထိုနိမိတ်စကားများမှာ ဆရာတော်အား ရည်ရွယ်၍ ပေါ်ပေါက်လာသော စကားများဖြစ်ကြောင်း တွေ့ရပေလိမ့်မည်။

ရန်ကုန်မြို့တွင် နာဂလိုဏ်ဂူဘုရား အောင်မြင်စွာတည်ထားပြီးသည့်နောက် တစ်စတစ်စ ကလေးဝတောကျောင်းဆရာတော်၏ သတင်းမှာ တဖြည်းဖြည်း ပျံ့နှံ့လာ လေသည်။ မြန်မာတစ်ပြည်လုံးသို့လည်း လှည့်လည်၍ ဘုရားပုထိုး၊ အုတ်ရိုးဂူကျောင်း၊ မုခ်ဝင်ပြာသာဒ် သာသနာ့အဆောက်အအုံများ ဆောက်လုပ်မည့် ရှေ့ပြေးစကားများ ဖြစ်လေသည်။

ပုဂံသာသနာ ထွန်းကားပြီးသည့်နောက် တစ်ပြည်လုံးတွင် ဟံသာဝတီသာသနာသည် အကြီးကျယ်ဆုံး ထွန်းကားသော သာသနာ ဖြစ်သည်။

**အကျွတ်အလွတ်ဘုရားများ**

ထိုနိမိတ်စကားများသည် ဆရာတော် သာသနာပိုင် ဆရာတော်ကြီးထံနေစဉ် နိမိတ်ဖတ် သွားသော စကားများ ဖြစ်သည်။ ဆရာတော်၏ အာရုံထဲတွင် ဟံသာဝတီ ပဲခူးအနောက်တောတွင် ထိုနိမိတ်စကားများ တွေ့ရှိလိမ့်မည်ဟု မျှော်လင့်သည်။

တစ်နေ့သောအခါတွင် တူတော် ဦးပဏ္ဍိတအား ပဲခူးဘက်သို့ လွှတ်၍ စုံစမ်းရှာဖွေခိုင်းရာ မဟာကြီးတောရ ကျောင်း ဦးပဥ္စင်း၏ အကူအညီဖြင့် ပေပုရပိုက်ထဲမှ မွန်ဘုရင် ရာဇာဓိရာဇ်သားကြီးဗညားဓမ္မရာဇာ တည်ထားသွားသော ကျွတ်မုဌေ၊ လွတ်မုဌေ၊ ပြိုကျပျက်စီးနေသော ဘုရားနှစ်ဆူကို တွေ့ရှိသည်။

၁၉၆၇ ထိုစေတီနှစ်ဆူကို ခရစ်နှစ် (၁၉၆၀) ခုနှစ်လောက်ဆီမှစတင်၍ လူအား၊ ငွေအားဖြင့် တည်ဆောက်လာရာ မြန်မာသက္ကရာဇ် ၁၃၂၈ ခု၊ ပြာသိုလဆန်း ၁၅ ရက်၊ ခရစ်နှစ် ၁၉၆၇ ခု၊ ဇန်နဝါရီလ ၂၅ ရက်၊ ဗုဒ္ဓဟူးနေ့တွင် ထီးတော်တင် မင်္ဂလာပွဲကို လူပရိသတ် တစ်သိန်းကျော်ဖြင့် မကြုံစဖူး ထူးကဲစွာ ထီးတော်တင်နိုင်ခဲ့သည်။

**မဟာကြီးစေတီ တည်တော်မူ**

အကျွတ်အလွတ် ထီးတင်ပြီးသည့်နောက် ဗညားဓမ္မရာဇာနှင့် မဟာမျိုးမဟာနွယ်များ စုပေါင်းတည်ထားခဲ့သော မဟာကြီးစေတီပျက်ကြီးကိုလည်း ရဟန်းပရိသတ်၊ လူပရိသတ် တိုက်တွန်းချက်အရ ထပ်မံ၍ တည်ထားပြန်သည်။

**ဗားမဲ့ဆရာတော်ဘုရားကြီး၏**

**ကြေးပုရပိုက်နှင့် သက်န်းတော်**

အကျွတ်အလွတ်ဘုရားများတည်နေစဉ်အတွင်း ထွက်ရပ်ပေါက်အကျော် ဗားမဲ့ဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် ကြွရောက်ပြီးလျှင် ကြေးပုရပိုက်ကြီး ချပေးတော်မူသည်။

စာပြုသူသည် တစ်နေ့သောအခါ ထိုဘုရားကျောင်း၌ရှိနေစဉ် ကျွန်ုပ်၏ ခေါင်းပေါ်သို့ ကြေးပုရပိုက်ကြီးတင်၍ ဆရာတော်က အပ္ပဇော်ခိုင်းသည်။

http://www.dhammadownload.com



နောက်တစ်ကြိမ် ဗားမဲ့ဆရာတော်ကြီး၏ သက်န်းဟောင်းအစကလေးများကို ပရိသတ်များအား လက်သန်းတစ်ဆစ်လောက်ဖြတ်၍ ဝေငှပေးသည်။

"အန္တရာယ်ကင်း၊ ဘေးရှင်းတယ်၊ ဒါယကာကြီးတို့ အဲဒီသက်န်းစကလေးတွေ ဆောင်ထားကြ" ဟု မိန့်ကြားပြီး ပေးတော်မူသည်။

မဟာကြီးဘုရား တည်ထားရာ၌လည်း ဗားမဲ့ဆရာတော်ဘုရားကြီး နိမိတ်စကားဖြင့် တည်ထားခြင်းဖြစ်သည်။

"စေတီ တစ်သောင်း၊ မုခ်ပေါင်း တစ်ထောင်၊ လိုဏ်မြောင်တစ်ရာ၊ ဗုဒ္ဓဆယ်ဆူ ပွင့်တော်မူမည့် မဟာကြီး ဘုရား" မဟာကြီးဘုရား ထီးတော်တင်ပြီးသည့်နောက် စေတီရံများ ဆက်လက်တည်ရာ သက်တော်ထင်ရှားရှိသည့် ကာလအတွင်းတွင် စေတီရံ (၅၃၁) ပြီးမြောက် သွားပါသည်။ စေတီတစ်သောင်းပြည့်ရန် (၁၀၀၀၀ - ၅၃၁ = ၉၄၆၉) လိုနေရာ စာပြုသူသည် ဒကာရင်းဖြစ်သည့်အလျောက် မဟာကြီးဆရာတော် ဦးဝရနှင့် ဦးစီးပြီးလျှင် ရန်ကုန်-ပဲခူး ပရိသတ်များ၏ အကူအညီဖြင့် စေတီတစ်သောင်းပြည့်အောင် ဆောင်ရွက်ပေးပါသည်။

အေဒီ ၁၉၈၈ ၁၃၄၉ ခု၊ တပို့တွဲလပြည့်ကျော် ၁၀ ရက်၊ သောကြာနေ့၊ ၁၂-၂-၈၈ ဆရာတော်ကြီး ခန္ဓာဝန်ချပြီးသည့် တစ်နှစ်ပြည့်မြောက်သောနေ့တွင် မဟာသံဃနာယကအဖွဲ့ ဥက္ကဋ္ဌ ဖြစ်တော်မူသော အဘိဓဇမဟာရဋ္ဌဂုရု ပဲခူးမြို့မဆရာတော်ဘုရားကြီး အမှူးထားလျက် ပင့်သံဃာတော်များနှင့် အနေကဇာတင် ရေစက်ချပွဲသဘင်ကို အောင်မြင်စွာ ကျွန်ုပ်ကျင်းပ ပေးလိုက်ပါသည်။

ထိုအနောက်တောတစ်ဝိုက်တွင် ဆရာတော် ဦးစီးပြီး ပြုပြင်ပေးခဲ့သော စေတီတို့မှာ ဗောင်းတော်ချ၊ အောင်စည်ယွန်း၊ လောကမာရဇိန်၊ ဒေဝမာရဇိန်၊ သက္ကမာရဇိန်၊ ဗြဟ္မာမာရဇိန်၊ ရာဇဓာတုကလျာ၏ မျှော်တော်ရောင်စေတီ၊ ရွှေကူလေးစေတီ၊ မြို့တွင်းရှိ ရှင်စောပုစေတီ တို့ဖြစ်သည်။ အနောက်တော သာသနာပွင့်လင်းပြီး သည့်နှင့် တစ်ပြိုင်နက် နာဂလိုဏ်ဂူ ကလေးဝတောကျောင်းဆရာတော်၏ ဂုဏ်သတင်းသည် မြန်မာတစ်ပြည်လုံး လွှမ်းမိုးသွားခဲ့သည်။

**မုံရွာမြို့သာသနာနှင့်**
**ကလေးဝတောကျောင်းဆရာတော်**

ဤတွင် ဆရာကြီးဦးစန်းမောင်၏ ပြောပြချက်ထဲတွင် အလွန် အလွန်မှ အောက်မေ့တသမိဖွယ်ကောင်းသော စာပိုဒ်ကလေးတစ်ပိုဒ် ရှိပါသည်။ ထိုစာပိုဒ်ကလေးကို ဖတ်ရှုရင်း ကျွန်တော်၏ ပီတိသည် သူ့စာမှ တစ်ဆင့် ဆရာကြီး ဦးစန်းမောင်၏ ရုပ်ပုံလွှာကို မြင်ယောင်တသသည်နှင့် အမျှ ကလေးဝ ဆရာတော်ဘုရားကြီးကိုလည်း ကြည်ညိုတသ မိပါသည်။ ထိလှ မိလှသော ဦးစန်းမောင်၏ အရေးအသားကို အောက်တွင် ဖတ်ကြည့်ပါ။

**ရုပ်ကလာပ်တော်ကို အောင်သိဒ္ဓိစေတီတော်အောက်ရှိ**
**ဂူအတွင်း သွတ်သွင်းခြင်း**

ကျွန်ုပ်သည် ၁၃၄၈ ခု၊ တပို့တွဲလပြည့်ကျော် (၁) ရက်၊ စနေနေ့၊ (၁၄-၂-၈၇) နံနက် ၉ နာရီ ၁၅ မိနစ် အချိန်တွင် ဂူသွင်းရန် စီမံခဲ့သည်။ ကျွန်ုပ်၏ ဘုရားခန်းတွင် ထိုနေ့အရုဏ်၌ အောက်ပါ အဓိဋ္ဌာန်ကို ပြုပါသည်။

အေဒီ ၁၉၈၇ "ငါသည် အဘိုးဘုရား ပြီးမြောက်အောင်မြင်မည့် ဂူအတွင်းသို့ မည်သည့် အနှောင့်အယှက် အဖျက်အဆီးမဆို ကျော်လွှား၍ ရုပ်ကလာပ်တော် သွင်းနိုင်ပါစေသား။ အကယ်၍များ အဖျက်အဆီး ပေါ်ခဲ့သော် အသက်နှင့်လဲ၍ ပြီးမြောက်အောင် သွင်းနိုင်ပါစေသား။ သမ္မာဒေဝ

http://www.dhammadownload.com



နတ်ကောင်းနတ်မြတ်များ အပေါင်းနှင့် ဗားမဲ့ဆရာတော် ဘုရားကြီးနှင့် ဝိဇ္ဇာမိုရ်အပေါင်း ကြည့်ရှု စောင်မကြပါစေသား"

အေဒီ ၁၉၆၂ ပြီးလျှင် လွန်ခဲ့သော (၂၅) နှစ်ခန့်က ဝတ်ဖြူစင်ကြယ်အစုံကို ဝတ်ပြီးလျှင် နံနက် (၇) နာရီတွင် ချိန်းဆိုထားသော ပန်းရံ ကိုဖော်ဝင်းတို့အဖွဲ့အား ယာယီ ပိတ်ထားသော ဂူပေါက်ကို အဖွင့်ခိုင်း ပါသည်။

မန္တလေး ဒဂုံဆရာတော် ဦးပဏ္ဍိတ၊ မဟာကြီး ဆရာတော် ဦးဝရ၊ ရွှေဂူလေး ဆရာတော် ဦးဂန္ဓ၊ တိုက်အုပ်ဆရာတော် ဦးဇာဂရတို့နှင့် ဒကာ၊ ဒကာမ အရင်းများ ရောက်လာကြသည်။ ကျောင်းပေါ်တွင် နံနက် (၈) နာရီကျော်မှ စ၍ ကျောင်းရှိ သံဃာတော်များက နောက်ဆုံး အနေနှင့် ပစ္ဆိမဝန္ဒနာ ပူဇော်ကြသည်။

ထို့နောက် ဒုတိယမဟာသံဃနာယက ဆရာတော်ကြီးနှင့် အဖွဲ့ဝင်များ၊ ဗုဒ္ဓ တက္ကသိုလ် နာယက နှင့် တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာတော် ဘုရားကြီးကျောင်းမှ သံဃာတော် (၁၅)ပါး ကြွတော်မူ ကြသည်။

**ဇောင်ကြမ်းပင် ဆရာတော်**

မုံရွာ ဇောင်ကြမ်းပင် ကျောင်းဆရာတော်က ကလေးဝတောကျောင်း ဆရာတော်၏ အမှတ် စာတမ်းမှ စာပိုဒ်အချို့ကို ပရိသတ်အား ဖတ်ပြပြီးလျှင် "အသက်မပျောက်ပါ" ဆိုသောအပိုဒ် ကို လေးလေးနက်နက် ထပ်မံဖတ်ပြသည်။

ကျွန်ုပ်က ဝိဇ္ဇာရှစ်သောင်း ရသေ့အပေါင်းအား ပင့်ဖိတ်သည်။ ဓမ္မာစရိယဦးကျော်လွင်က ဣရှစ်ချက်ဂါထာနှင့် အခြားအောင်ဂါထာများဖြင့် ရွတ်ဆို ပူဇော်သည်။

ကိုးနာရီထိုးကာနီးတွင် ရုပ်ကလာပ်တော်ကြီးကို စံကျောင်းတော်မှ ရတနာ့ရွှေဂူ အောင်သိဒ္ဓိ ဘုရားသို့ သံဃာတော်များ ပခုံးပေါ်တွင်ထမ်း၍ ပင့်ဆောင်ကြသည်။

ကျွန်ုပ်က ဆရာတော်ကြီး နှစ်သက်သော ရွှေသပိတ်ကြီးကို ရွှေကလာပ်ခံ၍ ရှေ့ဆုံးမှ ဆရာ တော်ကြီး နှစ်သက်တော်မူသော မန္တန်များဖြင့် ရွတ်ဆိုပူဇော်သည်။

၉ နာရီ ၁၀ မိနစ်တွင် ဦးကျော်လွင်က အောင်ဂါထာများကို ပရိသတ်များ ရွတ်ဆိုရန် ချပေးသည်။ ၉ နာရီ ၁၅ မိနစ်တိတိ အချိန်တွင် ရုပ်ကလာပ်ခေါင်းကို ဂူအတွင်းသို့သွင်းပြီး ပန်းရံအဖွဲ့က အုတ်အင်္ဂတေအထပ်ထပ်ဖြင့် ခိုင်လုံစွာပိတ်ကြသည်။

စိတ်မထိန်းနိုင်သော ဒကာ၊ ဒကာမများက နောက်ဆုံး ငိုပွဲကြီး ဆင်ကြသည်။ ကျွန်ုပ်အနေနှင့် "ဆရာတော်ကြီး ခိုင်းစေခဲ့သော ကိစ္စအဝဝ အောင်မြင်စွာပြီးဆုံး၍ ငါ၏ အဓိဋ္ဌာန်အောင် သွားပြီ"ဟု (ဟင်း) တစ်ချက်ချပြီးလျှင် ဂူပေါက်ဝကို နောက်ဆုံးကြည့်ခြင်းဖြင့် ပူဇော်ကန်တော့ ပြီးလျှင် မည်သူ့အားမှ နှုတ်ခွန်းဆက်ခြင်း မပြုဘဲ ကျောင်းဝင်းမှ ထွက်ခွာသွားပါတော့သည်။

အထက်ပါ အကြောင်းအရာများမှာ ကိုယ်တွေ့ကြုံခဲ့ရသော ဆရာဦးစန်းမောင်၏ အတွေ့အကြုံ များ ဖြစ်ပါသည်။ ပြန်ဖတ်ရသည်မှာပင် လွမ်းစရာကောင်းလှပါသည်။ ကိုယ်တွေ့ ကြုံခဲ့သူ အဖို့ကား ပြောစကားရှိမည် မထင်တော့ပါ။

ကျမ်းကိုး၊ အေဝမ်းမိသားစုနှင့်နာဂလိုဏ်ဂူစေတီတော်ကြီး၊ မောင်မောင်ဝင်း၊ ဂမ္ဘီရမဂ္ဂဇင်း၊ အမှတ်(၂၉) စာ - ၂၄။

ကျမ်းကိုး၊ ဂမ္ဘီရစောရန်နိုင် (ကလေးဝ)၊ ထူးဆန်းတောရကလေးဝ၊ ဂမ္ဘီရမဂ္ဂဇင်း၊ အမှတ် (၂၉)၊ စာ - ၃၀။

ကျမ်းကိုး၊ အနည်းငယ်မျှသာ ကျွန်တော် ကြားဖူးနားဝရှိသော နာဂလိုဏ်ဂူကလေးဝဆရာ

http://www.dhammadownload.com



တော်အကြောင်းကို ဖတ်မငြီးအောင် ပြောပြသောဦးစန်းမောင်မှာ နာမည်ကျော်စာရေးဆရာကြီးမဟုတ်သော်လည်း လက်က မချချင်လောက်အောင် ပြန်ပြောနိုင် စွမ်းရှိသောကြောင့် အမှတ်မထင် လက်ဆောင်ရခဲ့သော ဓမ္မဒါနစာအုပ်ကလေးမှာ စာမျက်နှာ ၄၈ မျက်နှာသာရှိသော်လည်း အမှတ်ထင်ထင် တရိုတသေ သိမ်းဆည်းခြင်းခံရသော စာအုပ်စင်၏ စင်တော်ကောက် လက်ရွေးစင်စာအုပ် တစ်အုပ်အဖြစ် ရပ်တည်ခဲ့သဖြင့် ပြုစုသူ ဦးစန်းမောင်၏ ကျေးဇူးကို မေ့လျော့ခြင်း မရှိခဲ့ပါ။

ကျမ်းကိုး။ ဦးအောင်မွန်၊ နာဂလိုဏ်ဂူ ကလေးဝဆရာတော်ဘုရားကြီး၊ ရတနာမွန်မဂ္ဂဇင်း၊ စာ ၈ ကိုကြည့်။

ကျမ်းကိုး။ တင်ထွန်းအေး အဝေးသင်တက္ကသိုလ် ဗားမဲ့ဆရာတော်မှ ကလေးဝ အဘိုးဆရာတော်သို့ ချီးမြှင့်ခဲ့သော ဂါထာ ၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း အမှတ် ၁၇၈၊ ၂၀၀၁ ခု၊ မေလ၊ စာ ၆၁ ကိုကြည့်ပါ။

ကျမ်းကိုး။ မောင်ပန်းမွှေး၊ ရဟန္တာနှင့် ရဟန်းထူးများ တော်ဝင်မြို့မ စာအုပ်တိုက်၊ ၂၀၀၈ ခုနှစ်၊ အောက်တိုဘာလ စာ ၆၂၄ ကိုကြည့်ပါ။

သက်တော် ၉၇ နှစ်တွင် ပျံလွန်တော်မူပြီးနောက်
မျက်နှာတော်ကျောက်သားကဲ့သို့ ဖြစ်လာပြီး
ရုပ်ကလာပ်တော် ယနေ့တိုင် မပုပ်မသိုး တည်တံ့တော်မူသော
ရွှေကျင်မြို့နယ် ဆိပ်ကလေးရွာ

# ကျောက်ဖြစ် ဦးစန္ဒိမာ

(၁၈၉၈ – ၁၉၉၅)



http://www.dhammadownload.com



တောစဉ် တောင်စဉ် လူမသိ သူမသိ ကျင့်ကြံနေသော ရဟန္တာနှင့် ရဟန်းထူးများ၏ မဟာ ထေရုပ္ပတ္တိတော်ကြီးများသည် ခေတ်သစ် ခေတ်သစ်ဟု တစာစာ အော်နေကြသော လူများ အကြားတွင် အလျှိုအလျှို လူမသိ သူမသိ ပျောက်ကွယ်မှာ စိုးကြောက်လှပါသည်။

**မီးရှို့ခံခဲ့ရသော စာပေအထောက်အထားများ**

အေဒီ ၁၈၉၈ သာသနာ ၂၅၀၀ တစ်ဝက် ၅၀၀၀သို့ ဆက်သည့်ခရီးတွင် နောင်သောအခါ မှတ်တမ်းမှတ်စုများ ပျောက်ဆုံးသွားမှာ စိုးရိမ်လှပါသည်။ အင်္ဂလိပ်နယ်ချဲ့ခေတ် သီပေါမင်း ပါတော်မူစကလည်း တစ်ကြိမ် ပေတွေ ပုရပိုက်တွေ မီးပုံရှို့ခြင်းခံခဲ့ရသဖြင့် စာပေအထောက်အထားများ ဆုံးရှုံးခဲ့ရသည်မှာ တွေးလေလေ ရင်နာလေလေ ဖြစ်ပါသည်။

**ခေတ်ပြိုင် မှတ်တမ်းများ**

ခေတ်ပြိုင်မှတ်တမ်းဟု တစာစာ အော်နေသူများကလည်း မှန်လှပါ၏။ ခေတ်ပြိုင်မှတ်တမ်းသည်သာ သုတေသီများအတွက် အားကိုးအားထားကြီး ဖြစ်မှန်းသိပါ၏။ ထို့ကြောင့် နောင်သောအခါ ခေတ်ပြိုင်မှတ်တမ်း တစာစာ အော်သူတွေ ပေါ်လာပေလိမ့်ဦးမည်။ ထို့ကြောင့် ကျွန်ုပ်သည် ယနေ့ မြန်မာနိုင်ငံပဋိပတ္တိသာသနာတော်ကြီး ခေတ်ပြိုင်မှတ်တမ်းကို ရရှိစေခြင်း အကျိုးငှာ၊ အပင်ပန်းခံ၍ မှတ်စုမှတ်ရာ ကတ်တလောက်များ တတ်အားသမျှ ပြုစုခဲ့ပါ၏။ စာပြုထက် စာစု ခက်လှပါ၏။

**ခေတ်ပြိုင် ဆရာတော်၊ ပြည်မြို့ ပထမနန္ဒဝန်**

အေဒီ ၁၈၉၈ ၁၈၉၈ ခုနှစ်ဖွား ဦးစန္ဒိမာ ကိုယ်တော်ကြီးနှင့် တစ်နှစ်တည်း မွေးဖွားသူမှာ အလွန်နာမည်ကျော်ကြား လူသိများလှသော ပြည်မြို့ ပထမ နန္ဒဝန်ဆရာတော်ဘုရားကြီးဖြစ်၏။

> ကျမ်းကိုး၊ မောင်ပန်းမွေး၊ ရဟန္တာနှင့် ရဟန်းထူးများ တော်ဝင်မြို့မစာအုပ်တိုက်၊ ၂၀၀၈ ခု အောက်တိုဘာလ၊ စာ ၆၃၃ ကိုကြည့်။

ထိုနန္ဒဝန် ဆရာတော်ဘုရားကြီးမှာ ရုပ်ကလာပ်တော် ယနေ့တိုင် ရှိ၏။ နန္ဒဝန် ဆရာတော်ဘုရားကြီး၏ အထူးခြားဆုံးအချက်မှာ ရှေးအခါ ဗုဒ္ဓခေတ်က လူတိုင်းသိသော ဝိသာခါ ကျောင်းအမကြီး၏မြေး ဧကန်စင်စစ်ဖြစ်ခဲ့၏။ ဘုရားကိုလည်း မီခဲ့၏။ ထိုအချက်ကို ဆရာတော်ကြီးကိုယ်တိုင် ဝန်ခံခဲ့၏။ ကျောက်စာ မှတ်တမ်းတင်ခဲ့၏။ ရဟန်းထူး ဖြစ်၏။

> ကျမ်းကိုး၊ ယင်းကျမ်း၊ ၆၃၃ ကိုကြည့်။

အေဒီ ၁၈၉၈ ထိုအလွန်ထူးသည့် နန္ဒဝန်ဆရာတော်ကြီးသည် ဟိုးဟိုးကျော်သော်လည်း ယခုဖော်ပြလတ္တံ့သော ဆိပ်ကလေးရွာက သက်တော် ၉၈ နှစ်ရှိသည့် ဦးစန္ဒိမာ ကိုယ်တော်ကြီးကား ဆန့်ကျင်ဖက် ဖြစ်၏။ ဆိပ်ကလေးရွာဟု ပြောလျှင် အလွန်လူသိနည်းပေလိမ့်မည်။

**ရဟန္တာ ဦးသီလ ကျင့်ကြံခဲ့သော နေရာဟောင်း**

အေဒီ ၁၈၉၈ ထိုနန္ဒဝန် ဆရာတော်ကြီးနှင့် တစ်နှစ်တည်း မွေးဖွားခဲ့သူ ဖြစ်၏။ ဆရာတော် ခန္ဓာဝန်ချသောအခါ ကျွန်ုပ်တို့ မျက်မှောက်ခေတ်တွင်ပင် ဖြစ်၏။ ၁၉၉၅ ခုနှစ် ဖြစ်၏။ သို့သော်လည်း အရောက်နည်းသဖြင့် အရေးနည်း၍ လူသိလည်း နည်းလှ၏။ ကျွန်ုပ်သာ ကံကောင်းထောက်မသဖြင့် အောက်ပါမှတ်စုများကို ရရှိခဲ့ပါသည်။ ထိုဆိပ်ကလေးရွာမှာ ရှေးအခါက ရဟန္တာ ဦးသီလ သီတင်းသုံးတော်မူသော နေရာဖြစ်၏။

> ကျမ်းကိုး။ မောင်ပန်းမွေး၊ ရဟန္တာနှင့် ရဟန်းထူးများ တော်ဝင်မြို့မ စာအုပ်တိုက်၊ ၂၀၀၈ ခုနှစ်၊ အောက်တိုဘာလ စာ ၁၆၂ ကိုကြည့်ပါ။

http://www.dhammadownload.com



ကိုယ်တွေ့မျက်မြင်တွေ့ရှိခဲ့သူ၏ အောက်ပါ ခေတ်ပြိုင် စာသားများသည် အရေးပါလှပါ၏။ အသေအချာ ကြည့်တော်မူကြပါ။

**ကိုယ်တွေ့ ခေတ်ပြိုင်မှတ်တမ်း**

ခရီးစဉ်အနေဖြင့် ရွှေကျင်မြို့မှ နံနက်စောစော ရွှေကျင်ချောင်းကို ခြေလျင်ဖြတ်ကျော်ရပါသည်။ ကျယ်ပြန့်သောသဲပြင်နှင့် ဖူးလောက်နက်သောရေပြင်တွင် ခြေလျင်သွားရသည်မှာ ပျော်စရာ ကောင်းလှ၏။ ရွှေကျင်တောင်ဘက်ရွာမှ မြေနီလမ်းကြီးအတိုင်း (၇)မိုင်ခန့် လျှောက်သွားကြရ၏။

ကျမ်းကိုး၊ ဆူးတောရွာခြေတော်ရာနှင့်ဖြစ်ရပ်ဆန်းများ၊ မင်းကွန္တိ(ဂမ္ဘီရတောင်တန်း)၊ ပါရမီ မဂ္ဂဇင်း၊ အမှတ်(၄၇)၊ ၁၉၉၆ ခုနှစ်၊ ဩဂုတ်လ၊ စာ-၂၁။

**ရွှေ ထွက်သော သုဝဏ္ဏဘူမိ**

လမ်းတစ်လျှောက်၌ ရွှေကျင်၊ ရွှေတူးနေကြသူများစွာကိုတွေ့ရှိရပါသည်။ နိုင်ငံတော်ပိုင်ရွှေ သတ္တုတူးဖော်ရေးလုပ်ငန်းခွင်လည်းရှိသည်။ ပုဂ္ဂလိကမှ ဖက်စပ်တူးဖော်နေကြသူများ လည်း ရေစုပ်ပိုက်ကြီးများနှင့် တောင်ကိုဖြို၍ အကြီးအကျယ် ရွှေတူးဖော်ကျင်ယူလျက်ရှိကြလေသည်။ ဤဒေသကားရွှေထွက်ရာ သုဝဏ္ဏဘူမိပေတည်း။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၁

တောင်ကုန်းမှာ ပေ(၂၀၀)မျှသာမြင့်သည်။ တောင်စောင်းတစ်နေရာ၌ ကျောက်တုံးများစုပုံထားသော စေတီဟောင်းနေရာတစ်ခု တွေ့ရသည်။ တောင်ထိပ်၌ကား စေတီတော်(၁)ဆူကို ဖူးတွေ့ရပါသည်။ ခြေတော်ရာတောင်ထိပ်ရှိ ရွှေထွန်းပွင့်စေတီ ဖြစ်၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၁

(၁)မိုင်ကျော်ဝေးသောဆိပ်ကလေးရွာသို့ ခြေလျင်ခရီးဆက်ကြရပြန်၏။ လမ်းတစ်လျှောက်လုံး မြေပဲခင်းများကိုဖြတ်ကျော်ရသည်။ မြေပဲနှင့်အတူ အခြားသောပဲမျိုးစုံလည်း ဤဒေသ၌ စိုက်ပျိုး ဖြစ်ထွန်းနေပေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၁

**ကြွင်းကျန်ခဲ့သော ရုပ်ကလာပ်တော်**

ဆိပ်ကလေးရွာသို့ ရောက်သည်နှင့် ဘုန်းတော်ကြီးကျောင်း အဝင်ဝ၌ ဆရာတော် ဘဒ္ဒန္တစန္ဒိမာ၏ရုပ်ကလာပ်တော်ကိုလာရောက်ဖူးမြော်ကြသူတွေလည်း ရှိကြတယ်ဟု သက်ဆိုင်ရာမှ ရှင်းပြပါ၏။ ဆိပ်ကလေးရွာသို့ ရောက်သည်နှင့် ဘုန်းတော်ကြီးကျောင်းအဝင်ဝ၌ ဆရာတော် ဘဒ္ဒန္တစန္ဒိမာ၏ ရုပ်ကလာပ်တော်ကိုဖူးတွေ့ရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၁

**ထူးဆန်းသော ခြေတော်ရာ**

အေဒီ ၁၉၂၅ လွန်ခဲ့တဲ့ နှစ်ပေါင်း(၉၀)ကျော်က ဆိပ်ကလေးရွာဖျားက ဦးညိုဆိုတဲ့လူကြက်တည်သွားတော့ တောင်ကုန်းပေါ်မှာ ခြေတော်ရာကို ပထမဆုံးဖူးတွေ့ရတယ်။ ရွာကို အမြန်ပြန်လာပြီး သူ့အစ်မတွေ၊ အမျိုးတွေကိုပြောပြတယ်။ ရွာကလူကြီးတွေနဲ့ သွားပြန်ရှာကြတော့ မတွေ့တော့ဘူး။နောက်တစ်လလောက် ကြာတော့အဲဒီနေရာမှာ ကြက်သွားတည်ရင်း ခြေတော်ရာကို ထပ်တွေ့တယ်။ ဦးညိုဟာ ပါလာတဲ့တောကြက်၊ အိမ်ကြက်တွေကို လွှတ်ပစ်လိုက်ပြီး ခြေတော်ရာဝန်းကျင်မှာ သစ်ပင်ချုံနွယ်တွေခုတ်ထွင်ရှင်းလင်းလိုက်တယ်။ တောင်ပေါ်တောင်

http://www.dhammadownload.com



အောက် လမ်းတစ်လျှောက်လုံးကို သစ်ပင်ခုတ်ပြီးလမ်းရှင်းလိုက်တယ်။ ပြီးတော့မှရွာပြန်ပြီး လူကြီးတွေနဲ့တစ်ခေါက်သွားတော့ခြေတော်ရာကိုအားလုံးဖူးတွေ့ကြရတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၂

ထူးခြားတာကတော့ခြေတော်ရာရဲ့ အရှေ့ဘက်ကို အမျိုးသမီးတွေ တက်မိသွားရင်ခြေတော်ရာ ကျောက်တုံးကြီးအောက်ကဟီလာတယ်။ ဟီသံဟာကြောက်ဖို့သိပ်ကောင်းတယ်။

**ဘုန်းတော်ကြီး ဦးသီလ သီတင်းသုံးခဲ့သော ဆိပ်ကလေးကျောင်း**

နောက်ပိုင်းမှာ ဆိပ်ကလေးရွာက ဘုန်းတော်ကြီးကျောင်းတစ်ကျောင်း ဆောက်လုပ်လှူဒါန်းပြီး ညောင်လေးပင်ဒေသက ဦးပဥ္စင်းတစ်ပါး သီတင်းသုံးပါတယ်။အဲဒီ နောက်ပိုင်းမှာမှ ပုဂ္ဂိုလ်ထူး လို့ကျော်ကြားတဲ့ ဘုန်းတော်ကြီး ဦးသီလဟာ ဆိပ်ကလေးကျောင်း တောရကိုရောက်ရှိ သီတင်းသုံးခဲ့ဘာပါ။

ခြေတော်ရာတောင်ကုန်းပေါ်မှာ ရွာသားတွေ စုပေါင်းပြီး သဲပုံစေတီတော်(၃)ဆူ တည်ထား ကိုးကွယ်ခဲ့ကြပါတယ်။

**ဂျပန်ခေတ် အခြေအနေ**

အေဒီ ၁၉၄၃ ဂျပန်ခေတ်ရောက်တော့ ကျောင်းတွေ၊ ဘုရားတွေပျက်စီးခဲ့ပါတယ်။ လူတွေလည်း တခြား မြို့ရွာကို ပြေးကြရတယ်။ ဒီနေရာလည်း တိမ်မြုပ်သွားပါတယ်။

**ခြေတော်ရာ တန်ခိုးပြ**

အေဒီ ၁၉၅၉ သက္ကရာဇ် ၁၃၂၁ခုနှစ်လောက်မှာ တံခွန်တိုင်ရွာကဆရာတော်ဦးကုသလနဲ့ တပည့်ဒကာတွေ၊ တံခွန်တိုင် ရွာကျောင်းဝင်းမှာ အများကိုးကွယ်နိုင်အောင်ထားရှိဖို့ဆိုပြီး ခြေတော်ရာကို လာတူးကြပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၂

ကောင်းကင်မှာ ချက်ချင်းမိုးတွေအုံ့ဆိုင်းလာပြီး ခြေတော်ရာကျောက်တုံးကြီးကလည်း ဟီသံကြီး တွေထွက်လာခဲ့တယ်။ ဆရာတော်ကဆက်မတူးကြနဲ့တော့လို့ မိန့်ကြားတားမြစ်ပြီးပြန်သွားကြ ပါတယ်။

အေဒီ ၁၉၈၇ သက္ကရာဇ် ၁၃၄၉ ခုနှစ်မှာ တောင်ထိပ်ပေါ်မှာ စေတီတော်တည်ကြတယ်။ ရွှေတူးရွှေကျင် သူများ အလှူငွေထည့်ဝင်ကြတာမို့ ရွှေထွန်းပွင့်စေတီလို့ ဘွဲ့အမည်ပေးကြတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃

အေဒီ ၁၉၉၄ လွန်ခဲ့တဲ့တစ်နှစ်ကျော်ကစပြီး ဆရာတော်ဘုရားရဲ့ထူးခြားတဲ့သတင်းကိုကြားရသူတွေ တဖွဲဖွဲ ရောက်လာခဲ့ကြတယ်။ ပုဂ္ဂိုလ်ထူး လို့ကျော်ကြားခဲ့ပါတယ်။ ကျောင်းမှာ ပရိသတ် သုံးလေးရာ နေ့စဉ်မပြတ်ဘူး။

**သက်တော် (၉၈)မှာ ပျံလွန်တော်မူ**

အေဒီ ၁၉၉၅ ဆရာတော်ဘုရားပျံလွန်ချိန်မှာ သက်တော်(၉၈)နှစ်ရှိနေပြီ။ မှန်ခေါင်းသွင်းပြီးစံကျောင်းငယ် မှာထားကြသည်။

**မျက်နှာတော် ကျောက်သားဖြစ်**

မျက်နှာတော်ဟာ ကျောက်သားလိုဖြစ်လာသည်။ အိပ်မက်အရရုပ်ကလာပ်တော်ကို လာရောက် ဖူးမြော်ကြသူတွေလည်း ရှိကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၁

http://www.dhammadownload.com



အဒေီ ၁၉၉၅ ဆိပ်ကလေးရွာ သာသနာ့ပါလကျောင်းဆရာတော် ဘဒ္ဒန္တစန္ဒိမာဟာ မြန်မာသက္ကရာဇ် ၁၃၅၇ခုနှစ်၊ တန်ဆောင်မုန်းလမှာပျံလွန်တော်မူသွားပါသည်ဟု သိရပါသည်။ ထို့ထက် ပို၍ မသိရပါ။ သိသူများ ဆက်လက်ရှာဖွေကြပါ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၁

ကျမ်းကိုး၊ ဆူးတောရွာခြေတော်ရာနှင့်ဖြစ်ရပ်ဆန်းများ၊ မင်းက္ကဒ္ဓိ(ဂမ္ဘီရတောင်တန်း)၊ ပါရမီ မဂ္ဂဇင်း၊ အမှတ်(၄၇)၊ ၁၉၉၆ ခုနှစ်၊ ဩဂုတ်လ၊ စာ-၂၁။

http://www.dhammadownload.com



ရုပ်ကလာပ်တော် ယနေ့တိုင် ရှိတော်မူသော

# ရေးမြို့ တောရကျောင်းဆရာတော် ဦးသုရိယ

(၁၈၉၉ - ၁၉၈၉)



http://www.dhammadownload.com



အေဒီ ၁၈၉၉ ၁၈၉၉ ခုဖွား ရဟန္တာနှင့်ရဟန်းထူးများကို ရှာဖွေသုတေသနပြုခဲ့ရာတွင် ဦးစွာပထမ ရွှေဘိုကျောက်ဖြစ်ဆရာတော်ကို တွေ့ရှိရ၏။

**ခေတ်ပြိုင်ဆရာတော်များ**

ထိုဆရာတော်မှာ တောင်တန်းပရိတ်ရေဆူဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် တရားပွဲများတွင် ထည့်၍ထည့်၍ဟောသဖြင့် အလွန်လူသိများ ကျော်စောခဲ့ပါသည်။ ခန္ဓာဝန်ချပြီးနောက် မပုပ်မသိုးတည်နေခဲ့၏။ ၎င်းနောက် ယခုအခါ ကျောက်အတိ ကေန်စင်စစ်ဖြစ်သွားခဲ့လေသည်။ ဆရာတော် ကျောက်ဖြစ်သွားသောအခါ အနီးအနားက အုန်းငုတ်တိုကြီးလည်း ကျောက်သားစင်စစ် ဖြစ်သွား၏။ အင်ကြင်း ငုတ်တိုကြီးလည်း ကျောက်သားစင်စစ် ဖြစ်သွား၏။ ထိုဆရာတော်၏ အမည်တော်မှာ ရွှေဘို ကျောက်ဖြစ်ရဟန္တာ အရှင်နရိန္ဒာဘိ ကိုယ်တော်မြတ်ကြီးဖြစ်ပေသည်။ ခရစ်နှစ် ၁၈၉၉မှာ ဖွား၏။ ခရစ်နှစ် ၁၉၆၃ ခုမှာ ခန္ဓာဝန်ချတော်မူ၏။

ကျမ်းကိုး။ မောင်ပန်းမွေး၊ ရဟန္တာနှင့်ရဟန်းထူးများ၊ တော်ဝင်မြို့မစာအုပ်တိုက်၊ ၂၀၀၈ ခုနှစ် အောက်တို ဘာလ၊ စာ ၆၄၃ ကိုကြည့်ပါ။

အေဒီ ၁၈၉၉ အခြား ခရစ်နှစ် ၁၈၉၉ ခုနှစ်ဖွား ဆရာတော်တစ်ပါးမှာ ကျွန်ုပ်ပြောလိုက်လျှင် လူတိုင်းသိပါသည်။ မိုးကုတ်ဆရာတော်ဘုရားကြီးဖြစ်ပါသည်။

**ခေတ်ပြိုင် ရဟန္တာ ကိုယ်တော်မြတ်**

ထိုဆရာတော်မှာ မျက်လုံးတော်အစုံနှင့်တကွ ဓာတ်တော်များ ကြွင်းကျန်တော်မူသည့် ရဟန္တာအရှင်မြတ်ကြီး ဖြစ်ပါသည်။ အလွန်မှတ်သား ကြည်ညိုဖွယ်ရာ ဖြစ်ပါ၏။ ခရစ်နှစ် ၁၈၉၉မှ ခေတ်ပြိုင် ဖွားတော်မူပါ၏။

ကျမ်းကိုး။ မောင်ပန်းမွေး၊ ရဟန္တာနှင့်ရဟန်းထူးများ၊ တော်ဝင်မြို့မစာအုပ်တိုက်၊ ၂၀၀၈ ခုနှစ် အောက်တို ဘာလ၊ စာ ၆၃၇ ကိုကြည့်ပါ။

အေဒီ ၁၈၉၉ အခြား ခရစ်နှစ် ၁၈၉၉ ခုနှစ်ဖွား ရဟန်းထူးတစ်ပါးမှာ ယနေ့တိုင် ရုပ်ကလာပ်တော် ကြွင်းကျန်တော်မူသော ပြည်မြို့ မုဋ္ဌောဆရာတော်ဘုရားကြီး ဦးဉာဏဝံသ ဖြစ်ပါ၏။

**ခေတ်ပြိုင် ရုပ်ကလပ်တော်**

ထိုဆရာတော်ကြီးသည် ခရစ်နှစ် ၁၈၉၉မှာ ဖွား၏။ ခရစ်နှစ် ၁၉၈၇ ခုနှစ်တွင် ခန္ဓာဝန်ချတော်မူ၏။ မပုပ်မသိုးသော ရုပ်ကလာပ်တော်ကို ယနေ့တိုင် ပြည်မြို့တွင် ဖူးမြော်နိုင်ပါ၏။

ကျမ်းကိုး။ မောင်ပန်းမွေး၊ ရဟန္တာနှင့်ရဟန်းထူးများ၊ တော်ဝင်မြို့မစာအုပ်တိုက်၊ ၂၀၀၈ ခုနှစ် အောက်တိုဘာလ၊ စာ ၆၄၇ ကိုကြည့်ပါ။

ကျမ်းကိုး။ ဦးကျော်နိုင်ကြီး၊ ပါရမီမဂ္ဂဇင်း၊ ၂၀၀၁ခုနှစ်၊ ဩဂုတ်လ၊ စာ ၁၀၁ကိုကြည့်။

အထက်ပါ ကျောက်ဖြစ်ရုပ်ကြွင်းဆရာတော်နှင့် ခေတ်ပြိုင်၊ မိုးကုတ်ရဟန္တာ အရှင်မြတ်ကြီး မိုးကုတ် ဦးဝိမလ အရှင်မြတ်ကြီးနှင့်ခေတ်ပြိုင်၊ ပြည်မြို့ မုဋ္ဌော ဆရာတော်ဘုရားကြီးနှင့် ခေတ်ပြိုင် ဖြစ်တော်မူသော ဖွားတော်မူသော ယခုဖော်ပြမည့် ဆရာတော်မှာ ရေးမြို့ တောရကျောင်းဆရာတော်ကြီး ဦးသူရိယပင်ဖြစ်ပါသည်။

**ခေတ်ပြိုင် ဦးသူရိယ**

ရေးမြို့ တောရကျောင်းဘုန်းတော်ကြီး ဦးသူရိယဆိုသည်မှာ ရုတ်တရက် ကျွန်ုပ်တို့မသိပါ။ သို့သော်လည်း တစ်နေ့တွင် ကံကောင်းထောက်မသဖြင့် ကျွန်ုပ်သည် သာသနာပြု ဓမ္မမိတ်

http://www.dhammadownload.com



ဆွေတစ်ဦး၏ စာကို ဖတ်မိရာမှ တအံ့တသြ ဖြစ်ရပါသည်။

ကျမ်းကိုး။ မောင်ရွှန်းသစ်၊ ရေးမြို့ တောရကျောင်းဘုန်းတော်ကြီး ဦးသူရိယ၏ မဂ္ဂဖလ နိဗ္ဗာနဒီပကကျမ်း၊ မြတ်မင်္ဂလာစာစောင်၊ အတွဲ ၁၆၊ အမှတ် ၈၊ ၂၀၀၁ ခုနှစ်၊ ဖေဖော်ဝါရီလ ၄၉ ကိုကြည့်။

### မှီထိုးခဲ့သော ဆရာတော် ပြစ်ခဲ့

ထိုဘုန်းတော်ကြီး ဦးသူရိယသည် ဘာဝနာသည်ဟု အများပြောသည့်အတိုင်း ပြောရမည် ဖြစ်ပါသည်။ ဥဒကသိဒ္ဓိ၊ အာဟာရသိဒ္ဓိတို့ ပေါက်လျှင် ကောင်းမည်ဟု ဦးစွာ ပထမဖိုထိုး သည်ဟု ဆိုပါသည်။

ကျမ်းကိုး။ ယင်းစာ ၅၀

### မှီကို စွန့်ခဲ့

မီးသွေးဖိုး လုံဖိုး တော်တော်ကုန်ပြီးမှ စွန့်ပစ်လိုက်၏ဟု မိမိဘာသာ မိမိ ဝန်ခံစကား ဆိုထား၏။ ထို့နောက် ဝိပဿနာဘက်သို့ ကူးလေသည်ဟု ဆိုပါ၏။

ကျမ်းကိုး။ ယင်းစာ ၅၀

ဆရာတော်၏ ဒွိဟိတ်နှင့် တိဟိတ်အကြောင်းတို့ကို ရှင်းပြပုံတို့မှာ မိမိကိုယ်တွေ့ လောကီ လမ်းစွန့်ခွာပုံမှစ၍ ပွင့်ပွင့်လင်းလင်း ရေးထား၏ဟုသိရှိရပါသည်။ ထိုကျမ်းသည် ထိုတရား ပေါက်သော ရေးမြို့ တောရကျောင်းဆရာတော်ကိုယ်တော်တိုင် ရေးထားသော ကိုယ်တွေ့ တရားပေါက်ကျမ်းစာဖြစ်၏။ အမည်တော်ကား မဂ္ဂဖလ နိဗ္ဗာနဒီပကကျမ်းဖြစ်၏။

ကျမ်းကိုး။ ယင်းစာ ၅၀

### ဆရာတော် ပြုစုခဲ့သော ကျမ်းတစ်စောင်

အေဒီ ၁၉၄၈ ဆရာတော်သည် ထိုကျမ်းစာကို မြန်မာသက္ကရာဇ် ၁၃၁၀ပြည့် ဝါခေါင်လပြည့်ကျော် ၁၁ ရက်၊ တနင်္လာနေ့တွင် ပြုစုပြီးစီးကြောင်းသိရှိရပါသည်။ ထိုစာအုပ်ကို မြန်မာ့ဂုဏ်ရည် စာအုပ်တိုက် ကန်တော်ကလေး၊ ရန်ကုန်မြို့တွင်ပုံနှိပ်ပြီး မြန်မာသက္ကရာဇ် ၁၃၁၀ ပြည့်၊ ဝါခေါင်လပြည့်ကျော်၊ ၁၁ ရက်၊ တနင်္လာနေ့တွင် ပြီးစီးအောင်မြင်လေသည်။

ကျမ်းကိုး။ ရေးမြို့တောရကျောင်း ဘုန်းတော်ကြီးဦးသူရိယ၏ မဂ္ဂဖလနိဗ္ဗာနဒီပကကျမ်း၊ မောင်ရွှန်းသစ်၊ မြတ်မင်္ဂလာစာစောင်၊ အတွဲ ၁၆၊ အမှတ် ၈၊ ၂၀၀၁ ခုနှစ်၊ ဖေဖော်ဝါရီလ၊ စာ-၄၉။

ကျမ်းပြုဆရာတော် ဦးသူရိယသည် လောကီလောကုတ္တရာနှစ်ဖြာလုံး နှံ့စပ်ကျွမ်းကျင်ဟန် ရှိတော်မူသည်။ ဆရာတော်သည် သူ၏ဘဝတစ်စွန်းတစ်စကို စာအုပ်တွင် အောက်ပါ အတိုင်း ဖော်ပြထားသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၉

### ဆရာတော် ပေးခဲ့သော ဩဝါဒများ

အများသူတို့သတိရကြစေရန် မိမိကိုယ်တိုင်တွေ့ခဲ့ရသော အခက်အခဲတို့ကို အနည်းငယ် ပြလိုက်ပါဦးအံ့။ မိမိသည် ဝိနည်းကျမ်းဂန်တို့ကို သင်ပြီး၍အဘိဓမ္မာဒေသနာတော်၏ နက်နဲသိမ်မွေ့ပုံတို့ကို သုတမယဉာဏ်ဖြင့်သိ၍ ဘာဝနာမယဉာဏ်ဖြင့် အားထုတ်လိုသော အခါ မိမိနှင့်သဟဇာတဖြစ်သော ဆရာသမားတို့ကိုတိုင်ပင်သော်လည်း ဘုန်းတော်ကြီး

http://www.dhammadownload.com



တစ်ပါးက "အေး-ငါလဲ ဤကဲ့သို့ အကြံရှိ၍ တောရဆောက်တည်သောအခါမှာ သောက်ရန် ၃၁ ဘုံ တက်စီရင်သော အင်းနည်းရှိ၏။ ဤအင်းနည်းကိုယူသွား မီးရှို့၍လည်း သောက်၊ စက္ကူအတိုင်းလည်း မျို" ဟူ၍ အင်းချနည်းပါသင်ပေးလိုက်၏။ ဤအတိုင်းကိုပြုခဲ့ရတာက တစ်ကြိမ်၊ ၎င်းနောက် တောရဆောက်တည်၍ အတန်ကြာသောအခါ မိတ်သင်္ဂဟဖြစ်ကုန် သောရဟန်းတော်တို့က "အရှင်ဘုရား၊ တောရဆောက်တည်တယ်ဆိုတာ လူတို့နှင့်ရောပြွမ်း နေလျှင် သမာဓိမဖြစ်နိုင်၊ အဂ္ဂိရတ်ထိုး၍ ရေမငတ်ဆွမ်းမဆာသော ဥဒကသိဒ္ဓိ အာဟာရ သိဒ္ဓိတို့လောက်ပေါက်ရောက်ခဲ့လျှင် တောကြီးတောင်ကြီးတို့၌နေနိုင်ပါပြီ။ သို့ဖြစ်၍ အဂ္ဂိရတ် ထိုးရန်သင့်လျော်ပါ၏ဟုဆိုလိုက်သောစကားမှာ နှစ်သက်သကဲ့သို့ ပျားရည်လောင်းချလိုက် သလို ထင်မှတ်မိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၀

## အဂ္ဂိရတ်ကို အာကြောင်စွန့်ခဲ့

ထင်မှတ်သည့်အတိုင်း စိတ်အားထက်သန်စွာနှင့် အဂ္ဂိရတ်ဖို-လုံ-မီးသွေးဓာတ်ချော်တို့ကို ရှာဖွေပြီး ဖိုရုံ၌ အဂ္ဂိရတ်ထိုးလို့မီးသွေးမှာ တစ်ပြည်ခန့်လောက်မကုန်မီ လုံကလည်းပေါက်၊ ကျောင်း၌မွေးထားသောကြောင်တစ်ကောင်ကို ခွေးဝိုင်းကိုက်၍သေသောအခါ ကျောင်းသား တို့က ယူ၍ပြမှ စဉ်းစားသော်သတိရ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၀

ကြောင်သေကိုကြည့်ပြီး ငြော် အဂ္ဂိရတ်အောင်၍ ဝိဇ္ဇာဖြစ်ရမှာကေန်မဟုတ်သေး။ မိမိနှင့် အတူနေသောကြောင်သည် သေ၍မိမိနှင့်ကွဲရလေပြီ။ အကယ်၍ငါလဲ ဤသို့သေလျှင် တရားအားထုတ်ရန် အချိန်အခါရှိပါဦးမည်လော၊ အချိန်အခါမရှိတော့ပြီဟု သတိရသည်နှင့် တစ်ပြိုင်နက် လုံတို့ကိုလည်းရိုက်ခွဲ၊ အဂ္ဂိရတ်ဖိုကိုလည်းမီးရှို့၊ ဓာတ်တို့ မီးသွေးတို့ကိုလည်း အလိုရှိသောဘုန်းကြီးတို့ကိုပေးလိုက်၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၀

သို့ဖြစ်၍ နောင်လာနောက်သားတို့ကိုလည်း ငါကဲ့သို့ အနှောင့်အယှက်မျိုးတို့ကို မတွေ့ကြပါ စေနှင့်။ အကယ်၍တွေ့ခဲ့လျှင်လည်း အလျင်အမြန်စွန့်ရဲ ပယ်ရဲကြပါစေဟူသော စေတနာ မျိုးနှင့်လောကီကို ပစ်ပစ်ခတ်ခတ် ချိုးချိုးဖွဲ့ဖွဲ့နှိမ်နင်းပြီး လောကုတ္တရာဖြစ်သော မဂ်ဖိုလ် နိဗ္ဗာန်ကို မိမိတို့၏လက်နှင့်ကိုင်၍ ယူနိုင်လောက်အောင် အမြဲတမ်းအားထုတ် ဆုံးမဟော ပြောလျက်ရှိပါ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၀

ကျမ်းပြုဆရာတော်၏ "ဒွိဟိတ်နှင့်တိဟိတ်" အကြောင်းရှင်းလင်းချက်မှာ ပြတ်သား ထင်ရှား လွန်းလှသောကြောင့် ဝိပဿနာဘာဝနာအားထုတ်လိုကြသောပုဂ္ဂိုလ်များအတွက် ဝမ်းမြောက် အားတက်ဖွယ်ဖြစ်ကြောင်း ထပ်ဆင့်တင်ပြလိုက်ရပါသည်။

> ကျမ်းကိုး၊ ရေမြို့တောရကျောင်း ဘုန်းတော်ကြီးဦးသူရိယ၏ မဂ္ဂဖလနိဗ္ဗာနဒီပကကျမ်း၊ မောင်ရွှန်းသစ်၊ မြတ်မင်္ဂလာစာစောင်၊ အတွဲ ၁၆၊ အမှတ် ၈၊ ၂၀၀၁ ခုနှစ် ဖေဖော်ဝါရီလ၊ စာ-၄၉

## တည်နေရာ လမ်းညွှန်

ဆရာတော်ကြီးသီတင်းသုံးရာ တောရကျောင်းမှာ ရေးမြို့မှ မော်လမြိုင်သို့ အထွက်ကားလမ်း အနီး သုသာန်နှင့် မနီးမဝေးတွင် တည်ရှိ၍ မြို့နှင့်နှစ်မိုင်ကျော်သုံးမိုင်နီးပါး အလှမ်းဝေးသည်။

http://www.dhammadownload.com



ဆရာတော်ကြီးကား ရေမြို့သို့ ဂျပန်ခေတ်မတိုင်မီကပင် ရောက်ရှိသည်။ အထက်အညာဒေသတွင် စာဝါတက်ခဲ့သော စာတတ် ပေတတ် ပုဂ္ဂိုလ်တစ်ပါးဖြစ်၍ ဇာတိကား၊ သုံးခွမြို့နယ်ဇာတိဖြစ်ကြောင်းသိရပါသည်။ ဆရာတော်ကြီး၏ ဘွဲ့အမည်ကား ဘဒ္ဒန္တသူရိယအရှင်သူမြတ်" ဖြစ်ပါသည်။

ကျမ်းကိုး၊ တောရကျောင်းဆရာတော်ကြီးနှင့်ကျွန်ုပ်ကိုယ်တွေ့ဖြစ်စဉ်များ၊ သိပ္ပံစိုးတင့် (သုတေသီ)၊ ပါရမီမဂ္ဂဇင်း၊ အမှတ်(၃၅)၊ ၁၉၉၅ ခုနှစ်၊ ဩဂုတ်လ၊ စာ - ၁၃။

**ဓမ္မးဖွားရာဇာတိ**

အေဒီ ၁၈၉၈

ဆရာတော်ကြီးသည် မြန်မာသက္ကရာဇ် ၁၂၆၀ ပြည့်နှစ်၊ နတ်တော်လဆန်း ၆ ရက် သောကြာနေ့ နံနက် (၇)နာရီတိတိအချိန် သုံးခွမြို့နယ် သခွတ်ကုန်းကျေးရွာတွင် ဖွားသန့်စင်တော်မူကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၃

**ဘာမှမရှိလို့ ချမ်းသာတယ်**

ဆရာတော်ကြီးသီတင်းသုံးရာကျောင်းသခ်မ်းမှာ တစ်ပါးစံကျောင်းဖြစ်၍ စကြံလျှောက်ရန် အလျားလိုက် ဆောက်ထားသော ကျောင်းသခ်မ်းဖြစ်ပါသည်။ ကျောင်းဆောက်ထားသော သစ်ဝါးတို့ကား သချိုင်းမှစွန့်ပစ်ထားသော အသုဘအခေါင်းပျဉ်များ၊ အသုဘ ခုတင်အပျက်များ ဖြစ်ပါသည်။

**ကျောင်းဆောက်သည်ကို လက်ခံတော်မမူ**

နိုင်ငံရေးခေတ် ပထစအစိုးရလက်ထက်၌ ထားဝယ်သားဝန်ကြီး ဦးဗဆွေက ဆရာတော်ကြီးအား ကြည်ညိုသဖြင့် ကျောင်းဆောက်လှူဒါန်းရန် လျှောက်ထားကာ အုတ်၊ သဲ၊ ကျောက်၊ ဘိလပ်မြေ များလာရောက်လှူဒါန်းရာ ဆရာတော်ကြီးသည် တရားထိုင်ရန် စင်္ကြံဂူအရှည်နှင့် ကုဋီသာ ဆောက်လုပ်စေပါသည်။

**သပိတ်တစ်လုံး သင်္ကန်းသုံးထည်ကလွဲ၍ ဘာမှ မရှိ**

မိမိသီတင်းသုံးသော ကျောင်းအဖြစ် ဆောက်လုပ်ရန်ခွင့် မပြုခဲ့ပါ။ ဒကာ၊ ဒကာမများလှူဒါန်းသောပစ္စည်းများ အိုးခွက်၊ ပန်းကန်မှအစ ထွေးခံ၊ ဓာတ်ဘူး အဆုံးပစ္စည်းအားလုံး ဆွမ်းစားဇရပ်၌သာထားစေကာ ဆရာတော်ကြီးသီတင်းသုံးသောကျောင်းတွင် မည်သည့် အသုံးအဆောင်မျှမရှိ၊ သပိတ်တစ်လုံး၊ သင်္ကန်းသုံးထည်နှင့် ပရိက္ခရာရှစ်ပါး သာရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၄

ဆွမ်းဘုဉ်းချိန်တွင် ထိုကျောင်းသခ်မ်း၌ပင် သပိတ်နှင့် ဆွမ်းဘုဉ်းပါသည်။ မိမိဆွမ်းခံ၍ ရသမျှသာ ဘုဉ်းပါသည်။ ထို့ကြောင့် ဆရာတော်ကြီး၏ကျောင်းတွင် ပရိဘောဂအဆောင်အယောင်မရှိ၊ ပကတိဟာလာဟင်းလင်းကြီး ဖြစ်နေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၄

ဒကာမကြီးတစ်ဦးက ဆရာတော်ကြီးအား စေတနာသဒ္ဓါတရား ထက်သန်စွာဖြင့် ဆရာတော်ဘုရားအလိုရှိသော ပစ္စည်းမည်မျှတန်ဖိုးကြီးစေကာမူ လှူမည်ဟူသော ရည်ရွယ်ချက်ဖြင့် ဆရာတော်အား လျှောက်ထားပုံမှာ-

"ဆရာတော်ဘုရား ကျောင်းတွင်းသုံးရန်အတွက် ဘာများလိုအပ်တော်မူပါသလဲဘုရား။ အရှင်ဘုရားလိုအပ်သောပစ္စည်းများ တပည့်တော်မ လှူပါရစေဘုရား" ဟုလျှောက်တင်ရာ

http://www.dhammadownload.com



ဆရာတော်ကြီးက -

"ပြည့်စုံပါတယ် ဒကာမကြီး၊ ဘုန်းကြီးဘာမျှမလိုအပ်ပါဘူး"

ဟုဆိုရာ ဒကာမကြီးက -

"ဆရာတော်ကြီးကသာ ပြည့်စုံပါတယ်ပြောတယ်။ အရှင်ဘုရားကျောင်းမှာ ဘာမှလဲမရှိဘူး။ အားလုံးဟာလာ ဟင်းလင်းကြီးပါလားဘုရား"

ဟုဆိုသဖြင့် ဆရာတော်ကြီးက -

"ဒကာမကြီး ဘုန်းကြီးမှာဘာမှမရှိလို့ ချမ်းသာတယ်"

ဟုဆိုသဖြင့် လျှုချင်တန်းချင်နေသော ဒကာမကြီးက -

"ဆရာတော်ကြီးနှယ် ဘာမှမရှိတာကိုချမ်းသာရတယ်လို့"

ဟု မကျေမနပ်နှင့်ဆိုရာ ဆရာတော်ကြီးက -

"ဘုန်းကြီးမှာ လိုချင်တပ်မက်ခြင်းဆိုတာဘာမှမရှိတော့၊ ဘာမှမရှိတာကိုပဲ ချမ်းသာတာပါ"

ဟုဆိုလေသည်။

ဒကာမကြီးမှာဆိုလိုရင်းကို သဘောပေါက်ကာ ဆရာတော်ကြီးအား ကြည်ညိုသဒ္ဓါပီတိစိတ် အပြည့်ဖြင့် ဦးနှိမ်ချကာပြန်လေတော့သည်။

ဒကာမတစ်ဦးက -

"ဆရာတော်ဘုရားဦးဆောင်ပြီး ဘုရားဖူးခရီးသွားချင်ပါတယ်ဘုရား"

ဆရာတော်ကြီးက

"ဒကာမကြီးရဲ့ ဘုရားဖူးတာပဲ တခြားကိစ္စရှိတာမှတ်လို့၊ ဒီမှာလဲ ဘုရားတွေအများကြီးပဲ၊ ရေးမှာဘုရားတွေ စေတီပုထိုးတွေ ဘယ်လောက်များသလဲ"

ဟုဆိုရာ ထိုဒကာမ -

"မတူဘူးဘုရား အခုသွားမှာက နာမည်ကြီး တန်ခိုးကြီးဘုရားတွေဖူးရမှာ"

ဆရာတော်ကြီးကပြုံးတော်မူ၍ -

"ဒကာမကြီးပြောတာနဲ့ ကိုယ့်အနားက ဘုရားကတန်ခိုးမရှိသလိုဖြစ်နေပြီ။ ဝေဘူဆရာတော် ပြောသလိုပြောရရင် ဒကာမကြီးတို့ ဘုရားဖူးထွက်တဲ့အခါ အိမ်ကဘုရားမသိစေနဲ့လို့ ပြောရမလိုပဲ။

ဒါထက်နေစမ်းပါဦး ဒကာမကြီးရဲ့ ဒကာမကြီးတို့ အမြဲပြောပြောနေတဲ့ စိတ်သာရှင်စော၊ ဘုရားဟောဆို အိမ်ဘုရားကအနားမှာပဲရှိတယ်။ အဝေးကြီးအပင်ပန်းခံမနေနဲ့"ဟုဆိုကာ ဘုရားဖူးထွက်ရန် ငြင်းပယ်တော်မူလေသည်။

ထိုအခါမှ ဒကာ၊ ဒကာမတို့မှာ လက်လျှော့ကာ အိမ်ပြန်လေတော့သည်။

ဒကာတစ်ဦးက -

"ကံကောင်းချင်ပါတယ်ဘုရား"

ဟုဆိုရာဆရာတော်ကြီးက -

"အိမ်းကံကောင်းချင်ရင်တော့ ဘုန်းကြီးပြောသလိုသာလုပ်ပေတော့။ ကံမကောင်းမှာမပူနဲ့"

ဟုဆိုကာ ဆရာတော်ကြီးက -

"ကဲ . . . ဘုရားကိုအာရုံပြုပြီးလက်အုပ်ချီလိုက်ဆို"

ဟုဆို၍အောက်ပါအတိုင်း တိုင်ပေးပါသည်။

"ဘုရားတပည့်တော်သည် ကာယကံတည်းဟူသော ကိုယ်ဖြင့် ပြစ်မှားကျူးလွန်ခြင်းကို

http://www.dhammadownload.com



ရှောင်ကြဉ်ပါ၏ အရှင်ဘုရား။ ဝစီကံတည်းဟူသော နှုတ်ဖြင့် ပြစ်မှားကျူးလွန်ခြင်းကို ရှောင်ကြဉ်ပါ၏ အရှင်ဘုရား။ မနောကံတည်းဟူသော စိတ်ဖြင့်ပြစ်မှားကျူးလွန်းခြင်းကို ရှောင်ကြဉ်ပါ၏ အရှင်ဘုရား"

ဟုတိုင်ပေးကာ -

"ကဲ ဒကာကြီး ဒီကာယကံ၊ ဝစီကံ၊ မနောကံစတဲ့ ကံသုံးပါးကောင်းရင် ကံကောင်းတာပဲ။ အမြဲ ကံကောင်းဖို့က မိမိကိုယ်၌က ကြိုးစားပြီး စောင့်ထိန်းနိုင်ဖို့သာ အရေးကြီးတယ်။ စောင့်ထိန်းနိုင်တာနဲ့အမျှ ဒကာကြီးကံကောင်းနေလိမ့်မယ်" ဟုဆုံးမပါသည်။

> ကျမ်းကိုး၊ တောရကျောင်းဆရာတော်ကြီးနှင့်ကျွန်ုပ်ကိုယ်တွေ့ဖြစ်စဉ်များ၊ သိပ္ပံစိုးတင့် (သုတေသီ)၊ ပါရမီမဂ္ဂဇင်း၊ အမှတ်(၃၅)၊ ၁၉၉၅ ခုနှစ်၊ ဩဂုတ်လ၊ စာ - ၁၃
> ကျမ်းကိုး၊ ရေးမြို့တောရကျောင်း ဘုန်းတော်ကြီးဦးသူရိယ၏ မဂ္ဂဖလနိဗ္ဗာနဒီပကကျမ်း၊ မောင်ရွှန်းသစ်၊ မြတ်မင်္ဂလာစာစောင်၊ အတွဲ ၁၆၊ အမှတ် ၈၊ ၂၀၀၁ ခုနှစ် ဖေဖော်ဝါရီလ၊ စာ-၄၉။

## ပျံလွန်တော်မူသော နှစ်

ဆရာတော်ကြီးသည် သက်တော် ၉၆ နှစ် သိက္ခာတော် ၇၆ ဝါတွင် ပျံလွန်တော်မူပါသည်။

> ကျမ်းကိုး၊ အရှင်ပညာသာမိ ရွှေဘုံသာ၊ ထူးခြားအံ့ဖွယ်ကောင်းသည့် မညောင်၏ ရုပ်အလောင်း၊ ဂမ္ဘီရ မဂ္ဂဇင်း အမှတ် ၂၆၊ စာ ၇၂။

## ပြန်စွန့်

ဆရာတော်ကို မည်သည့်အကြောင်းကြောင့် လှူဒါန်းသည်ဖြစ်စေ အလှူရှင်များရှေ့တွင် လက်ခံ၏။ အလှူရှင် မမြင်တော့လျှင် ချက်ခြင်း ပြန်လှူ၏။ သင်္ကန်းလှူတော်မူသောအခါ ရှေ့တွင်ပင် လဲလှယ်ဝတ်ဆင်၏။ အပြန်လမ်းတွင် အသစ်ကို ပြန်စွန့်၏။ ရှေးက မူလအဟောင်းကိုပင် ပြန်ဝတ်၏။ သစ်ပင်ပေါ် တင်ထားခဲ့၏။ ကိုယ်တွေ့ ဖြစ်၏။

ကျမ်းကိုး၊ ယင်းစာ ၇၄

## ကုလားဆိုင်ပေါ်တွင် ထိုင်ရင်း ပျံလွန်တော်မူ

ဆရာတော်ကြီး ပျံလွန်တော်မူသည့်နေ့တွင် နံနက်ပိုင်း ဆွမ်းခံသေး၏။ ဆွမ်းခံပြီး အပြန် ကျောင်းသို့အရောက် ကုလားထိုင်ပေါ်တွင်ထိုင်ရင်း ပျံလွန်တော်မူခဲ့၏။

ကျမ်းကိုး၊ ယင်းစာ ၇၄

## ယနေ့တိုင် ရုပ်ကလာပ်တော် ဖူးမြော်နိုင်

ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်မှာ မပုပ်မသိုး တည်တော်မူသဖြင့် ယနေ့ထက်တိုင် ကျောင်းတွင် မှန်ခေါင်းဖြင့် ထည့်ထားသည်ကို ဖူးမြော်နိုင်ပါသေးသည်။

ကျမ်းကိုး၊ ယင်းစာ ၇၄

## နှစ်ပေါင်း (၂၀)ကျော်တိုင် မပုပ်မသိုး

ဆရာတော်ကြီး ခန္ဓာဝန်ချတော်မူသောနှစ်မှာ ခရစ်နှစ် ၁၉၈၉ ခုနှစ် ဖြစ်၏။ ယခု ကျမ်းပြုသော ခရစ်နှစ် ၂၀၀၉ ခုနှစ်တွင် နှစ်ပေါင်း ၂၀ တိတိ ကြာခဲ့သည်ဖြစ်သည်။

ကျမ်းကိုး၊ ယင်းစာ ၇၄

## အချိန်ပြည့် အသုဘ ကမ္မဋ္ဌာန်းရှု

ဆရာတော်ကြီး၏ အထူးခြားဆုံးအကြောင်းမှာ နေ့စဉ် အချိန်ပြည့် အသုဘကမ္မဋ္ဌာန်းရှုခြင်း ဖြစ်၏။ ရေးမြို့ သုသာန်၌လာရောက်မြှုပ်နှံသော လူသေအလောင်းများအား ကာယကံရှင်များ

http://www.dhammadownload.com



ထံမှ သဘောတူညီ ခွင့်ပြုချက်ကို ရယူကာ ကျောင်းရှိ ကိုရင်များ ကျောင်းသားများနှင့် ညတွင်းချင်း တူးဖော်ပြီး ကျောင်းအတွင်းသို့ ယူဆောင်၍ အလောင်းကောင်အား ရေနံသုတ်ကာ နေ ၂ ရက်လှန်းပြီး အသုဘကမ္မဋ္ဌာန်း ရှုတော့၏။

ကျမ်းကိုး၊ ယင်းစာ ၇၅

**ယနေ့တိုင် မပုပ်မသိုးသော**
**မညောင် အမည်ရှိသော အမျိုးသမီးရုပ်ကလာပ်**

ထိုဆရာတော်ကြီး ကမ္မဋ္ဌာန်းရှုတော်မူသော ရုပ်အလောင်းများအနက် မညောင်မည်သော အမျိုးသမီးတစ်ဦး၏ ရုပ်အလောင်းမှာ အမျိုးသမီးကိုယ်တိုင်က အလှူနှ်ထူး၏။ ယနေ့ထက်တိုင် နှစ်ပေါင်းများစွာ မပုပ်မသိုးရှိနေ၏။ ထိုမပုပ်မသိုးသော ရုပ်အလောင်းကို ရေးမြို့တွင် ယနေ့တိုင် တွေ့နိုင်ပါသည်။

ကျမ်းကိုး၊ ယင်းစာ ၇၆

**ယနေ့တိုင် မပုပ်မသိုးသော**
**မစန်းရီ အမည်ရှိသော အမျိုးသမီးရုပ်ကလာပ်**

ၡင်းအပြင် ယနေ့ထက်တိုင် မပုပ်မသိုးသော ရုပ်ကလာပ်တစ်ခု ရှိသေး၏။ ထိုရေးမြို့ တောရကျောင်းတွင်ပင် ဖြစ်၏။ ဟံဂံကျေးရွာ၊ ရေးမြို့က မစန်းရီ ဆိုသူ ဖြစ်၏။ ထိုရုပ်အလောင်းလည်း ဝိပဿနာ တန်ခိုးကြောင့် မပုပ်မသိုးသည်ကို ရှုမြင်နိုင်ပါသည်။

ကျမ်းကိုး၊ ယင်းစာ ၇၇

**ဆရာတော် ကမ္မဋ္ဌာန်းရှုခဲ့သော**
**အလောင်းတော်များ ယနေ့တိုင်ရှိ**

ထိုမညောင်နှင့် မစန်းရီတို့၏ ဆရာသခင်ဖြစ်သော ရေးမြို့ တောရကျောင်း ဆရာတော်ကြီး ဦးသူရိယ၏ ရုပ်အလောင်းသည်လည်း ယနေ့ထက်တိုင် နှစ်ပေါင်း ၂၀ ကျော် ကြာသည့်တိုင်အောင် တည်ရှိတော်မူ၏။

**မပုပ်မသိုးသော ဆရာတော်၏ တပည့်များ**

ဆရာတော်ကြီး၏ ရုပ်အလောင်းတော်နှင့်တကွ မညောင်၏ရုပ်အလောင်း၊ မစန်းရီ၏ ရုပ်အလောင်းအပါအဝင် ရုပ်အလောင်းများထားရာ ဂူကြီး ယခုတိုင် ရှိ၏။

အေဒီ ၁၉၈၉ — ဆရာတော်ကြီး ခန္ဓာဝန်ချတော်မူသောအခါ သက်တော် ၉၀ ရှိ၏။ ဝါတော် ၇၀ ရှိ၏။ ထိုနှစ်မှာ ခရစ်နှစ် ၁၉၈၉ ခုနှစ် ဖြစ်၏။

ကျမ်းကိုး။ သိပ္ပံ စိုးတင့်၊ သုတေသီ ပါရမီ မဂ္ဂဇင်း အမှတ် ၄၄၊ ၁၉၉၆ မေလ၊ စာ ၅၂။

ဆရာတော်ကြီးသည် မြန်မာသက္ကရာဇ် ၁၃၅၂ ခုနှစ် ဝါခေါင်လဆန်း ၉ ရက်နေ့ နံနက်ပိုင်းတွင် ဆွမ်းခံပြီးနောက် ဆွမ်းခံအပြန် တောရကျောင်းသို့ ရောက်သည်နှင့် မကြာမီပင် ပျံလွန်တော်မူ၏။

ကျမ်းကိုး။ သိပ္ပံ စိုးတင့်၊ သုတေသီ ပါရမီ မဂ္ဂဇင်း အမှတ် ၄၄၊ ၁၉၉၆ မေလ၊ စာ ၅၃။

http://www.dhammadownload.com



ရပ်ကလာပ်တော် မပုပ်မသိုး ကြွင်းကျန်တော်မူသော

မကွေးတိုင်း၊ မင်းဘူးမြို့နယ်၊

# ကျောက်စံကျေးရွာ ဆရာတော်ကြီး ဦးပဏ္ဍိစ္စ

(၁၉၀၀ - ၁၉၉၀)



http://www.dhammadownload.com



အေဒီ ၁၉၀၀ ခရစ်နှစ် ၁၉၀၀ ပြည့်နှစ်သည်ကား ခေတ်ဟောင်းနှင့် ခေတ်သစ် အကူးအပြောင်းကာလ ဖြစ်ပေသည်။ သီပေါမင်း ပါတော်မူသည်မှာလည်း ၁၅ နှစ်ကြာခဲ့လေပြီ ဖြစ်သည်။ မြန်မာပြည် တစ်ပြည်လုံးလည်း နယ်ချဲ့ကို အကြောင်းအမျိုးမျိုးဖြင့် ဟိုတစ်ထောင့် ဒီတစ်ထောင့် တော်လှန် ပုန်ကန်သူများတို့၏ ရန်ကလည်း အင်္ဂလိပ်တို့က မအုပ်နိုင်သေးချေ။ ထိုသို့ တိုင်းပြည် အခြေ အနေ မပိမပြား မငြိမ်မသက်သေးသောကာလတွင် သာသနာရေးအခြေအနေကို တစေ့တ စောင်း အကဲခတ်နိုင်ပေသည်။

**ခေတ်ပြိုင် ၁၉၀၀ ပြည့်ဖွား ဦးနန္ဒိယ**

အေဒီ ၁၉၀၀ ထိုအချိန်တွင် ဧရာဝတီတိုင်း၊ ဟင်္သာတမြို့နယ်၊ ဆိပ်သာ ကျေးရွာ၊ ခြင်ဖို့အုပ်စုတွင်လည်း ရှမ်းကျောင်းဆရာတော် ဦးနန္ဒိယကို ဖွားမြင်ခဲ့လေသည်။

ထိုရဟန်းထူးသည် ထူးမှန်းမွေးစက ဘယ်သူမှမသိနိုင်ချေ။ သိနိုင်သော အခွင့်အလမ်းလည်း မရှိနိုင်ချေ။ ထိုဆရာတော်ကြီး ခန္ဓာဝန် ချသောအခါ ထူးခြားသော ဆရာတော်ဖြစ်သဖြင့် သူခိုးတို့က လက်ကိုဖြတ်၍ ခိုးသွားကြသည်။ ထိုအခါမှ အံ့ဖွယ်သူရဲ အဖြစ်ဆန်းများ ပေါ်ပေါက် လာရလေသည်။

**အရိုးချိတ်ဆက်**

ထိုအလောင်းတော်၏ အရိုးမှာ အပေါက်ပါရုံသာမက ချိတ်ဖြင့် ချိတ်ထားသကဲ့သို့ ရှိနေကြောင်း အံ့ဩဖွယ်ရာ ဖူးမြော်ကြရပါတော့သည်။ ထိုဆရာတော်ကြီးကိုလည်း ခရစ်နှစ် ၁၉၀၀ ပြည့်နှစ်တွင် မွေးဖွားခဲ့ပါတော့သည်။

ကျမ်းကိုး။ အယ်ဒီတာ သန်းကြွယ်၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ ၂၀၀၂ ဇူလိုင်၊ စာ ၄၁ - ၄၂ ကိုကြည့်၊ မောင်ပန်းမွှေး ရဟန္တာနှင့် ရဟန်းထူးများ၊ ၂၀၀၈ ခု၊ စာ ၆၅၃ ကိုလည်းကြည့်။

**ခေတ်ပြိုင် ၁၉၀၀ ပြည့်ဖွား ဦးအောင်ပရမသိဒ္ဓိ**

အေဒီ ၁၉၀၀ ထို ၁၉၀၀ ပြည့်နှစ်တွင် မင်းဘူး ကျောက်စံ ဆရာတော် ဦးပဏ္ဍိစ ဆရာတော်နှင့်တစ်နှစ်တည်း ဖွားသော အခြားဆရာတော်တစ်ပါးမှာ ဦးအောင်ပရမသိဒ္ဓိ ဖြစ်၏။

ထိုဆရာတော်ကြီးကား ရုပ်ကလာပ်တော် ယနေ့တိုင် ကြွင်းကျန်သေး၏။ သက်တော် ၁၀၃ နှစ်အထိ ရှည်တော်မူ၏။ ၁၉၀၀ ပြည့်နှစ်ဖွား ထူးခြားချက် တစ်ခုဖြစ်၏။

ကျမ်းကိုး။ ဝိဇ္ဇာမဂ္ဂဇင်း ၂၀၀၇ ခုနှစ်၊ ဩဂုတ်လ၊ စာ ၄၃ ကိုကြည့်ပါ။

**ခေတ်ပြိုင် ၁၉၀၀ ပြည့်ဖွား ရွှေသမင်ဦးတေဇနိယ**

အေဒီ ၁၉၀၀ ထို ၁၉၀၀ ပြည့်နှစ်တွင်ပင် ဖွားတော်မူသော အခြားရဟန်းထူး တစ်ပါးမှာ တောင်တွင်းကြီးမြို့ ရွှေသမင်ဆရာတော် ဦးတေဇနိယ ဖြစ်ပေ၏။

**ခေတ်ပြိုင် ၁၉၀၀ ပြည့်ဖွား အရှင်တေဇစက္ကီ**

အေဒီ ၁၉၀၁ အရှင် တေဇစက္ကီ ဟူ၍လည်းကောင်း၊ အရှင်ဉာဏစာရီ ဟူ၍လည်းကောင်း၊ အလွန်နာမည် ကျော်တော်မူသော ဆရာတော်ကြီးကား ၁၉၀၁ ခုနှစ်မှ ဖွားတော်မူသဖြင့် တစ်နှစ်ငယ်ပေသည်။

ကျမ်းကိုး။ ဦးသိန်းထွန်း၊ တေဇစက္ကီဆရာတော်ကြီးနှင့် အံ့ဖွယ်စည်းချက်ထာတော်၊ မြတ်မင်္ဂလာ မဂ္ဂဇင်း ၁၉၉၀ ခု၊ ဇူလိုင်လ၊ အတွဲ ၆၊ စာ ၂၀ ကို ကြည့်ပါ။

**ခေတ်ပြိုင် ၁၉၀၀ ပြည့်ဖွား ပြည်ရွှေဥမှင်ဆရာတော်**

အေဒီ ၁၉၀၂ အလွန့်အလွန် ကျော်စောတော်မူသော ပြည်မြို့ ရွှေဥမှင်ဆရာတော်ကြီးတည်းဟူသော လေးကျွန်းပိုင် ဆရာတော်ကြီးကား ၁၉၀၂ ခုနှစ်မှ မွေးဖွားတော်မူခဲ့လေသည်။

http://www.dhammadownload.com



ကျမ်းကိုး။ ဦးဝေပုလ္လ၊ အဂ္ဂမဟာ သဒ္ဓမ္မဇောတိကဓဇ၊ သမ္မုဒ္ဒေဂါထာတော်အဖွင့်ကျမ်း စာ ၁၉ ကို ကြည့်ပါ။

**ခေတ်ပြိုင် ၁၉၀၀ ပြည့်ဖွား ကျောက်စံဆရာတော်**

ထို ၁၉၀၀ ပြည့်နှစ်တွင် ဖွားတော်မူသော ကျောက်စံဆရာတော်ကြီးကား ထူးခြားမှုန်း ခန္ဓာဝန် မချခင်ကတည်းက ကျော်စောပါ၏။ သို့သော် ခန္ဓာဝန် ချတော်မူပြီးနောက်မှာ ပို၍ ထူးခြားကြောင်း သိမြင်လာရသော ဆရာတော်ကြီး ဖြစ်လေသည်။

၆ လကြာမှ ဖွင့်ကြည့်ပါ။ ထူးခြားချက်များ တွေ့ရပါလိမ့်မည်ဟု ဆရာတော်ကြီးကိုယ်တိုင် မိန့်တော်မူခဲ့ကြောင်း မှတ်တမ်းရှိပါသည်။ ထို့ကြောင့် ဤကျမ်းပြုသူသည် မှတ်တမ်း ကတ်တလောက်များ ရှာဖွေစုဆောင်းထားသည်ဖြစ်ရာ အောက်ပါ ကတ်တလောက်များကို ကြည့်ပါက ကျောက်စံဆရာတော်၏ ဂုဏ်တော်များကို မြင်တွေ့ကြရပါလိမ့်မည်။

**မပုပ်မသိုးသော ရုပ်ကလာပ်တော်**

အေဒီ ၁၉၀၀

ဆရာတော်ဘုရားကြီး တပို့တွဲလထဲမှာ ခန္ဓာဝန် ချသွားပါပြီ။ ဆရာတော်ဘုရားကြီး ခန္ဓာဝန်ချပြီး ၉ ရက်တိုင်တိုင် အများပြည်သူ ကြည်ညို ပူဇော်ဖို့အပြင်မှာ ထားခဲ့ပါတယ်။ ဥတုဇရုပ်ဟာ ဘာမှ ဖောက်ပြန်ခြင်း မရှိ။ နဂိုအတိုင်း အသက်ရှင်စဉ်ကအတိုင်း ရှိခဲ့ပါတယ်။

ကျမ်းကိုး၊ ကြည်ညိုဖူးမြော်ကျောက်စံဆရာတော်၊ ဆရာကျော်(လှိုင်ကော်)၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ ၁၉၉၁ ဧပြီလ၊ အမှတ်(၅၇)၊ စာ-၅။

**၆ လကြာမှ ဖွင့်ပါ**

ဆရာတော်ဘုရားကြီးက မိန့်ခဲ့ပါတယ်။ ၉ ရက်ပြည့်လျှင် ဆရာတော်ဘုရားကြီး သီတင်းသုံးသော ဂန္ဓကုဋီထဲထည့်ပါ။ ဆရာတော်ဘုရားကြီး၏ အသုံးအဆောင်ပါထည့်၍ ပိတ်ထားပါ။ (၆)လ ကြာလျှင် ဖွင့်ပါ။ ထူးခြားချက်များကို တွေ့ရမည်ဟု မိန့်သွားပါသည်။

ကျမ်းကိုး၊ယင်းစာ ၅

**သက်တော် ၉၀ အထိ**

**မိနပ်မစီး ထီးမဆောင်း မျက်စိမမှုန်**

ဆရာတော်ဘုရားကြီးသည် မကွေးတိုင်း/မင်းဘူးမြို့နယ်၊ ကျောက်စံကျေးရွာ၌ သီတင်းသုံးခဲ့ပါသည်။ ဆရာတော်ဘုရားကြီးသည် သက်တော်(၉၀)နီးပြီဖြစ်သော်လည်း မျက်စိမှုန်သည်မှလွဲ၍ မကျန်းမမာခြင်း မဖြစ်ခဲ့ပါ။ မျက်စိမှုန်ရသည်မှာလည်း ဆရာတော်ဘုရားကြီး ကိုယ်တိုင်က ထီးမဆောင်း၊ ဖိနပ်မစီး၊ နွားလှည်း၊ မြင်းလှည်း မစီး၊ ခြေလျင်ခရီးသာ တွင်တွင် ကြွတော်မူလေ့ရှိသောကြောင့်ဟု ဆိုရပါမည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆

**အတူတူသွားရာ ရှေ့သို့ ဝါးနှစ်ပြန် သုံးပြန်လောက်**

**ရောက်နှင့်နေခြင်းအံ့ဖွယ်**

တစ်ခါက သက်တော်(၉၀)နီးပါးရှိသော ဆရာတော်ကြီးနှင့်အသက်(၃၀)ပတ်ဝန်းကျင်ရှိ လူငယ် ၂ ယောက်တို့ မန်းစက်တော်ဘုရားသို့ မင်းဘူးမှ တောလမ်းခရီးအတိုင်း ခြေလျင်ခရီးသွားကြရာ ဆရာတော်ကြီးကသာ ဦးဆောင်သွားပြီး ဝါးနှစ်ပြန်သုံးပြန်လောက်ထိကွာနေခဲ့၏။

**လူငယ်များက ပြေး၍လိုက်ရခြင်းအံ့ဖွယ်**

နောက်က လူငယ်တို့ကသာ အားနှင့်မာန်နှင့်အပြေးလိုက်နေရသော်လည်း ဆရာတော်ကြီးမှာ

http://www.dhammadownload.com



ဖြည်းဖြည်းသာကြွနေ၏။ လူငယ်တို့ မလိုက်နိုင်တော့၍ ဆရာတော်ဘုရားကြီးမှ စောင့်၍ ကြွပါရန် ၂ ခါတိုင်တိုင်လျှောက်ထားခဲ့ရ၏။

**ဖိနပ်စီးသူက ဆူးစူး၏။**

**ဖိနပ်မစီးသော ဆရာတော်က ဆူးမစူး**

နောက်ပါဒကာ ၂ ဦးတွင် ဖိနပ်ကိုယ်စီစီးထား သော်လည်း ဆူးခရောင်းတို့က ဖိနပ်နောက်စူး သဖြင့် ထော့နင်း၊ ထော့နင်းဖြစ်နေကြသော်လည်း ဖိနပ်မပါသော ဆရာတော်ကြီးတွင် ဆူးဟူ၍ မြူမှုန်အချွန်ကလေးပင် မစူးကြောင်း အံ့ဩစွာဖူးတွေ့ ရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆

**ဆွမ်းမစား**

ဆရာတော်ဘုရားကြီးသည် တရားအလုပ်စလုပ်ပြီဆိုကတည်းက မိုးနံ့တောတွင် တရား အားထုတ်ခဲ့၏။ ဆွမ်းဟူ၍ပင် မဘုဉ်းပေးတော့။ အကျင့်ထူးအကျင့်မြတ်ရှိသော ထေရ်ရဟန်း တို့ပီပီ၊ တရားအလုပ်ဖြင့် အသက်ကိုပဓာနမထားကျင့်ကြံ အားထုတ်ခဲ့ပါ၏။

**အဖောအရောင်ရောဂါကုသပုံ မေတ္တာရှင်**

တစ်နေ့တွင် တစ်ကိုယ်လုံးဖောရောင်နေသူတစ်ဦးဆရာတော်ဘုရားကြီးအား လာဖူးပါသည်။ ထို့နောက်၎င်းရောဂါ ကြီးအား ဆရာတော်ဘုရားကြီးအား လျှောက်ပါသည်။ ရဟန်းတို့မည်သည် ကပ်သူလောင်းသူလှူသူ ရှိပါက လက်ခံရမြဲမို့ ဆရာတော်ဘုရားကြီးက ကောင်းစွာ လက်ခံတော် မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆

မကြာလိုက်ပါ။ ၂ ရက်မျှအကြာတွင် ၎င်းဝေဒနာရှင်အဖောရောဂါသည်ကြီးသည် တဖြည်း ဖြည်း အဖောရောဂါသက်သာပျောက်ကင်းလာခဲ့ပါ၏။

သို့သော်၎င်းအဖောရောဂါကြီးသည် ဆရာတော်ကြီးတွင် စတင်ဝင်ရောက်လာကာ မူလ ရောဂါ သည်ကြီးအတိုင်းရောင်လာ၏။ အနားမှ ဒကာ ဒကာမအပေါင်း မျက်လုံးပြူး မျက်ဆံပြူး သွားကြသော်လည်း ဆရာတော်ဘုရားကြီးမှာကား အပြုံးမပျက်၊ ထို့နောက် ဆရာတော်ဘုရား ကြီးမှ နေပူပူမြေတလင်းတွင် စည်းဝိုင်းကာဝင်ထိုင်ပြီး သက်န်း ခေါင်းမြီးခြုံကာ တရားအားထုတ် ပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇

၂ ရက်မျှအကြာ ဆရာတော်ဘုရားတရား အားထုတ်ရာမှ ထတော်မူလျှင် ဖောရောင်နေခြင်း များ လုံးဝမတွေ့ရတော့ပါ။ ကြည်လင်ရွှင်ပျသော မျက်နှာ၊ သန့်စင်သော အသားအရေတော် ဖြင့် ထလာခြင်းအား နှစ်ထောင်းအားရစွာ ဖူးတွေ့လိုက်ကြရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇

**ကျင်ကြီးစွန့်သည်ကို မတွေ့ရခြင်း အံ့ဖွယ်**

ဆရာတော်ကြီး၏ ထူးခြားချက်တစ်ခုမှာ ကျင်ကြီးစွန့်သည်ကို မတွေ့ရခြင်းဖြစ်ပါသည်။ ကယားတပ်ရင်း ၁ မှ မိသားစုများ ဆရာတော်ဘုရားကြီးအား လာပင့်လျှင် တစ်လမှ နှစ်လ ထိကြာတတ်ပါသည်။ ထိုကာလအတွင်းတစ်ခါမှ ကျင်ကြီးစွန့်သည်ကို မတွေ့ရကြောင်း အံ့ဩ ဖွယ် ပြောကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇

http://www.dhammadownload.com



တစ်ရက်တွင် အနာကြီးရောဂါသည်တစ်ဦး ရောက်လာပြန်သည်။ လူအများမျက်လုံးပြူးကြပြန်သည်။

**အနာကြီးရောဂါ ကုသခြင်း အခုံပွယ်**

ထင်သည့်အတိုင်းပင် ၎င်း၏ရောဂါကို ဆရာတော်ကြီးအား လျှပြန်ပါသည်။ ဆရာတော်ကြီးမှလည်း ကြည်သာရွှင်ပြုံးစွာ လက်ခံလိုက်ပါသည်။ မကြာပါ။ ၎င်းရောဂါသည်မှာ တဖြည်းဖြည်းနှင့် သက်သာပျောက်ကင်းသွားပါတော့သည်။

ဆရာတော်ကြီး၏ ရင်ဘတ်တစ်ပြင်လုံးတွင်ကား အနာကြီးရောဂါကွက်ကြီးပြည်တစိုစိုနှင့် ပေါ်လာပါတော့သည်။ ထို့ကြောင့် ဆရာတော်ဘုရားကြီးသည် နေပူပူမြေတလင်းတွင် စည်းဝိုင်းတားကာ သက်န်းခေါင်းမြီးခြုံ၍ တရားရှုမှတ်ပါတော့သည်။

၂ ရက် ၃ ရက်နှင့်လည်း တရားမှမထ။ ထို့ကြောင့် ဒကာရင်းများက သစ်သီးဆွမ်းများစည်းဝိုင်းအတွင်းသို့ သွင်း၍ ကပ်ထားကြ၏။ သို့သော်ဘုဉ်းပေးသည်ကိုမတွေ့ရ။ ကျင်ကြီးကျင်ငယ်လည်း မစွန့်။

သို့ဖြင့် ၇ ရက်မျှအကြာတွင် ဆရာတော်ဘုရားကြီး တရားအားထုတ်ရာမှ ထတော်မူပါတော့သည်။ လူအပေါင်းက ဆရာတော်ကြီး၏ ရင်ဘတ်တော်သို့သာ အာရုံကျရောက်နေကြ၏။ ကြည်လင် ရွှင်ပျသော ဆရာတော်ကြီးမျက်နှာတော်၊ သန့်စင်သော ကိုယ်သားကိုယ်ရေတို့ကြောင့် ဆရာတော်ဘုရားတွင် ထိုရောဂါတို့မကပ်ရောက်နိုင်တော့ဟု ထင်လိုက်ကြပါသည်။ ဆရာတော်ဘုရားကြီးမှ သက်န်းလှစ်ပြလိုက်မှသာ နှလုံးစိတ်ဝမ်းအေးချမ်းသွားကြပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇

**ဝေဒနာပြင်းထန်ပါက တရားထိုင်ခြင်းအလေ့အထ အံ့ဖွယ်**

နောက်မကြာမီသောနှစ်တစ်နှစ်တွင် ဆရာတော်ဘုရားကြီး နေမကောင်းဖြစ်ပါသည်။ ဆရာတော်ဘုရားကြီး နေမကောင်း ထိုင်မသာဖြစ်လျှင် မည်သည့်ဆေးဝါးကိုမှ စားသုံးခြင်းမရှိပါ။ တရားဆေးဖြင့်သာ ကုသပါသည်။ တရားထိုင်လိုက်လျှင် အနာရောဂါတို့ကင်းပျောက်ရိုးထုံးစံဖြစ်နေပါသည်။ ဝေဒနာပြင်းထန်ပါက မထတမ်းတရားထိုင်ပါတော့သည်။ ထူးခြားသည်က ဆီးမစွန့်၊ ကျင်ကြီး မစွန့်ခြင်းပင်ဖြစ်တော့၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈

ဆရာတော်ဘုရားကြီးနေမကောင်းဟုဆို၍ လူအများလာကြပါသည်။ အမျိုးမျိုးသောဆေးဝါးတို့ကို ကပ်လှူကြပါသည်။ အားဖြစ်ဖွယ်သော အာဟာရ အဖုံဖုံတို့ကိုလည်း မျိုးစုံကပ်ကြပါ၏။ သို့သော် ဆရာတော်ဘုရားကြီးက မသုံးဆောင်တော့ဘဲ တရားဘာဝနာသာပွားများနေပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈

**ခန္ဓာဝန်ချတော်မူပါဟု ရွှေပန်းခိုင် ငွေပန်းခိုင်များပြင့် လာရောက်တောင်းပန်ခြင်း**

တစ်နေ့သောကာလတွင် လူတို့အပူမီးကပ်နေကြချိန် ဆရာတော်ဘုရားအနီးသို့ အမျိုးသမီးငယ်လေး ငါးဦးရောက်လာကြ၏။ လက်ထဲတွင်လည်း ရွှေပန်းခိုင်၊ ငွေပန်းခိုင်၊ ရွှေကလပ်၊ ငွေကလပ်များကိုင်ကာ ဆရာဘုရားကြီးအား ကန်တော့ကြရင်း "မှန်လှပါ၊ ကျေးဇူးတော်ရှင်ဆရာတော်ဘုရား-ယခုအချိန်ဟာ ဆရာတော်ဘုရားခန္ဓာဝန်ချရန်အချိန် ကျရောက်ပြီဖြစ်ပါ၍

http://www.dhammadownload.com



ခန္ဓာဝန်ချတော်မူပါရန် ရိုသေလေးစားစွာ လျှောက်ထားတောင်းပန်အပ်ပါသည်ဘုရား" ဟု လျှောက်နေစဉ်ဆရာတော်ဘုရားကြီး၏ တစ်ဖက်မှ ဆရာတော်ကြီးများကြွလာပြီး "ကိုယ်တော်၊ ခန္ဓာဝန်ချရန် အချိန်မဟုတ်သေး၊ ၃၆း၃ လီနေပြီး သာသနာပြုရဦးမည်" ဟု မိန့်မှ မိန်းကလေးများပျောက်ကွယ်သွားကြောင်း ဆရာတော်ဘုရားကြီးမှ နောက်တွင်ပြန်လည်မိန့်ကြားမှ ဒကာအပေါင်း မျက်လုံးပြူးကုန်ကြ၏။

အံ့ဖွယ်အလီလီရှိသော ဆရာတော်ကြီးသည် သက်တော် ၉၀ အထိ နေသွားပါသည်။ ၉၀ ပြည့်သောအခါမှ ခန္ဓာဝန်ချတော်မူပါသည်။ ဤသို့ဖြင့် သီပေါမင်းပါတော်မူပြီး ၁၅ နှစ်ခန့်က ဖွားတော်မူသော ဆရာတော်ကြီးကို ကျွန်ုပ်တို့သည် ခရစ်နှစ် ၁၉၉၀ ခုနှစ်အထိ ဖူးမြင်ခဲ့ကြရပါသေးသည်မှာ ကံကောင်းခြင်းတစ်မျိုးဖြစ်၏။

အေဒီ ၁၉၉၀ ဆရာတော်ဘုရားကြီးသည် ခရစ်နှစ် ၁၉၉၀ ခုနှစ် တပို့တွဲလတွင် ခန္ဓာဝန်ချတော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ကြည်ညိုဖူးမြော်ကျောက်စံဆရာတော်၊ ဆရာကျော်(လှိုင်ကော်)၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ ၁၉၉၁ ဧပြီလ၊ အမှတ်(၅၇)၊ စာ-၅။

http://www.dhammadownload.com



ရန်ကုန်မြို့ မရမ်းကုန်းမြို့နယ်၊ ပန်းပင်ကုန်း ၅ ရပ်ကွက်၊ သုသာန်ကျောင်း၌
ရုပ်ကလာပ်တော် ယနေ့တိုင် ဖူးတွေ့နိုင်သေးသော
သက်တော် (၁၀၃) နှစ်ရှိသည့် တောင်တန်းသာသနာပြုရဟန်းထူး

# ဦးအောင်ပရမသိဒ္ဓိ

(၁၉၀၀--၂၀၀၃)



http://www.dhammadownload.com



အေဒီ ၁၉၀၀ ထို ၁၉၀၀ ပြည့်နှစ်တွင် ဖွားမြင်တော်မူခဲ့သော ရဟန်းထူးတစ်ပါးမှာ ဦးအောင်ပရမသိဒ္ဓိ ဖြစ်၏။ ဆရာတော်နှင့်တစ်နှစ်တည်း ဖွားသော အခြားဆရာတော်တစ်ပါးမှာ မင်းဘူး ကျောက်စံ ဆရာတော် ဦးပဏ္ဍိစ္စ ဖြစ်၏။ ထိုဆရာတော်ကြီး ကား ရုပ်ကလာပ်တော် ယနေ့တိုင် ကြွင်းကျန် သေး၏။ သက်တော် (၁၀၃) နှစ်အထိ ရှည်တော်မူ၏။ ၁၉၀၀ ပြည့်နှစ်ဖွား ထူးခြားချက်တစ်ခု ဖြစ်၏။

ကျမ်းကိုး။ ဝိဇ္ဇာမဂ္ဂဇင်း ၂၀၀၇ ခုနှစ်၊ ဩဂုတ်လ၊ စာ ၄၃ ကိုကြည့်ပါ။

**ဓေတ်ပြိုင် ဦးအောင်ပရမသိဒ္ဓိ**

**မအူပင်မှာဖွား၏။ ရန်ကုန်မှာ ခန္ဓာဝန်ချ၏။**

အေဒီ ၁၉၀၀ ဧရာဝတီတိုင်း၊ မအူပင်မြို့နယ်၊ စမ်းချောင်း ကရင်ပိုင်းကျေးရွာ၊ (ခမည်းတော် ဦးရိုး၊ မယ်တော် ဒေါ်မယ်ညို) တို့မှ မွေးချင်း နှစ်ယောက်တွင် သားထွေးဖြစ်သော မောင်စိန် (ခေါ်) အရှင်ပညော ဘာသကို မြန်မာသက္ကရာဇ် ၁၂၆၂ တပေါင်းလဆန်း ၅ ရက် ကြာသပတေးနေ့တွင် ဖွားမြင်ခဲ့ ပါသည်။

ကျမ်းကိုး၊ အရှင်ဥက္ကဋ္ဌ ဓမ္မာစရိယ၊ ဘီအီးဒီ၊ သီလ ဝိသုဒ္ဓိကမ္မဋ္ဌာန်း ကျောင်းတိုက်၊
တောင်တန်း သာသနာပြုဘဒ္ဒန္တပညောဘာသ (ခ) ဦးအောင်ပရမသိဒ္ဓိ၏
ထေရုပ္ပတ္တိနှင့် အန္တရာယ်ကင်းဂါထာ မေတ္တာပွားနည်းများ၊ ဝိဇ္ဇာရသစုံမဂ္ဂဇင်း၊
၂၀၀၈ ခုနှစ်၊ ဩဂုတ်လ ၊ စာမျက်နှာ - ၄၃

**အိမ်ထောင်ပြုခဲ့ဖူးပါသည်**

အေဒီ ၁၉၅၈ အသက် (၅၈)နှစ်မှာ ရဟန်းဖြစ်ပါသည်။ လူ့ဘောင်လောက သဘာဝဓမ္မတာ အိမ်ထောင်ပြု၍ လူ့ဘဝဒုက္ခအမျိုးမျိုးတို့ကို တွေ့မြင် ခံစားစိုးကြောက် ထိတ်လန့်၍ လည်းကောင်း၊ ဇနီးမယား သည် မျက်စိအောက်တွင် ဆုံးပါးသွား၍ လူ့လောက၏ မရဏသဘောကို ကြောက်လန့်၍လည်း ကောင်း၊ သံဝေဂတရားများ တဖွားဖွား ဖြစ်ပေါ်လာကာ သားသမီးလေးယောက်တို့အား စွန့်ခွာ လျက် မြန်မာသက္ကရာဇ် ၁၃၂၀ ခုနှစ်၊ ကဆုန်လဆန်း ၅ ရက်နေ့တွင် ရန်ကုန်မြို့ ရဟန်း ဒါယကာ ဦးညွန့် + ရဟန်း ဒါယိကာမ ဒေါ်ရှယ်လီတို့၏ ပစ္စယာနုဂ္ဂဟကို ခံယူကာ သာသနာ့ ဘောင်အတွင်းသို့ ဝင်ရောက်၍ ရဟန်းတို့၏ ကျင့်ကြံပွားများ အားထုတ်အပ်သော ကမ္မဋ္ဌာန်း တရားတို့ကို နေ့ညမပြတ် ဇွဲလုံ့လစိုက်၍ အားထုတ်တော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၄

**သုသာန်စုတင်**

ရန်ကုန်တိုင်း မရမ်းကုန်းမြို့နယ် ပန်းပင်ကုန်း ၅ ရပ်ကွက် ရွှေယခင် သုသာန်ကျောင်းတွင် ဘဒ္ဒန္တပညာဆရာတော်ဘုရားကြီးနှင့်အတူ သုသာန်စုတင် အသုဘကမ္မဋ္ဌာန်းတရားများကို ဆရာ ကောင်းတပည့်ပမာ ထက်ကြပ်မကွာ ညွှန်ကြားဆုံးမဩဝါဒအတိုင်း ကျင့်ကြံပွားများ အားထုတ် တော်မူခဲ့ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၄)

အေဒီ ၁၉၆၃ ထိုအချိန်မှာ ဆရာတော်၏ သီလဂုဏ်၊ သမာဓိဂုဏ်၊ စရဏဂုဏ်၊ သိက္ခာဂုဏ် တို့ကို ကြည်ညို တရားရိုကြကုန်သော တပည့်ဒကာ၊ ဒကာမတို့သည် ရဟန်းဘဝ ၅ ဝါ အရတွင် ဧရာဝတီတိုင်း၊ မအူပင်မြို့နယ်၊ လေးအိမ်စုကျေးရွာ၊ ဒုတိယမြောက်ဖြစ်သော ရဟန်းဒါယကာ ဦးဘကျော်၊ ရဟန်းအမ ဒေါ်စိန်တို့၏ ပစ္စယာနုဂ္ဂဟကို ခံယူ၍ တပည့် ဒကာဒကာမတို့၏ ပင့်ဖိတ်လျှောက် ထားချက်ကို မေတ္တာ၊ ကရုဏာ သဒ္ဓါတရားတို့ကို ရှေ့ရှုပြီး ဇမ္ဗူအေးတောရ ကမ္မဋ္ဌာန်း ကျောင်း

http://www.dhammadownload.com



တိုက်သို့ ကြွရောက်သီတင်းသုံးတော်မူခဲ့ပါသည်။

**မေတ္တာဘာဝနာအစီက**

အေဒီ ၁၉၇၃ (၁၀) နှစ်တာကာလ တစ်လျှောက်လုံး သာသနာတော်၏အကျိုးနှင့် ဒကာ ဒကာမတို့၏ ကောင်းကျိုးချမ်းသာ အဖြာဖြာတို့ကို ရှေးရှု၍ မေတ္တာ ဘာဝနာတရားဒေသနာတို့ကို စွမ်းစွမ်းတမံ ကြိုးစားအားထုတ်ပြုလုပ်တော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၄

ထိုမှတစ်ဖန် ဆရာဖြစ်သော ဘဒ္ဒန္တပညာသည် ကျန်းမာရေးမကောင်းသဖြင့် ဘဝနတ်ထံ ပျံလွန်တော်မူ၍ ဆရာ၏ အရိုက်အရာကို ဆက်လက်ထိန်းသိမ်းစောင့်ရှောက်ခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၄

**သုသာန်စုတင်**

ဆရာတော်သည် ထိုအချိန်မှစ၍ သုသာန်စုတင်နှင့် မေတ္တာကမ္မဋ္ဌာန်းတရားတို့ကို ဆထက် ထမ်းပိုးတိုး၍ ဆရာ၏ နည်းနာနိဿယ ဩဝါဒအတိုင်း ကျင့်ကြံပွားများ အားထုတ် တော်မူခဲ့ပါ သည်။

**သုသာန်ကျောင်း**

ရှေးယခင်က သုသာန်ကျောင်းအမည်ကိုလည်း သီလဝိသုဒ္ဓိကမ္မဋ္ဌာန်း ကျောင်းအမည်ဖြင့် ပြောင်းလဲခဲ့ပါသည်။

ဆရာတော်သည် မေတ္တာကမ္မဋ္ဌာန်းတရားတို့ကို နေ့စဉ်နေ့တိုင်း ပွားများ စီးဖြန်းသောအချိန်တွင် ထူးခြားစွာ မေတ္တာဓာတ်၏ အရသာကို သိရှိခံစားရ၍ တပည့်ဒကာ ဒကာမတို့၏ ကောင်းကျိုး ချမ်းသာကို အစဉ်ရှေးရှုကာ မေတ္တာ တရား၏ အရသာဓာတ်ကို ပေးဝေ၍ တရားရေအေး အမြိုက်ဆေး တိုက်ကျွေးတော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၄

အေဒီ ၁၉၈၁ ခရစ်နှစ် ၁၉၈၁ ခုနှစ်တွင် အိန္ဒိယနိုင်ငံ ဗုဒ္ဓဂယာသို့ ကြွရောက်တော်မူခဲ့ပါသည်။

**ဇင်းကျိုက်မှာကျင်းစတော်မူခြင်း**

မွန်ပြည်နယ် ဇင်းကျိုက်တောင်ပေါ်တွင် သမိုင်းဝင်ဆံတော်ရှင် စေတီနှင့် ဒကာ ဒကာမတို့၏ အိမ်ဂေဟာ အသီးသီးတို့၌ နေ့စဉ်မျှပင် ပဋ္ဌာန်းဒေသနာတော်များ ရွတ်ဖတ်ပူဇော်ခြင်း မေတ္တာ ရေအေး အမြိုက်ဆေးကို တိုက်ကျွေးတော်မူခဲ့ပါသည်။

မွန်ပြည်နယ် မော်လမြိုင်မြို့နယ် တပည့် ဒါယကာ ဦးတင်စိန်(ဇာတ်အဖွဲ့)မှ ပင့်ဖိတ်ချက်အရ သားသမီး မြေးအစဉ်မပျက် နှစ်စဉ် ပဋ္ဌာန်းဒေသနာတော်များ ရွတ်ဖတ်ပူဇော်ခြင်း မေတ္တာ ရေအေး တရားဒေသနာကို ဟောကြားတော်မူခဲ့ပါသည်။

**သထုံမှာ ကျင့်တော်မူခြင်း**

မွန်ပြည်နယ်၊ သထုံမြို့နယ် တာယာစက်ရုံနှင့် ဝန်ထမ်းများအား လည်းကောင်း၊ ဘင်လှိုင် ရပ်ကွက် တပည့်ဒကာမတို့အား နှစ်စဉ်မပျက် ပဋ္ဌာန်းဒေသနာတော်များ ရွတ်ဖတ် ပူဇော်ခြင်း နှင့် မေတ္တာ တရားဒေသနာကို ဟောကြားတော်မူခဲ့ပါသည်။

**ပြင်ဦးလွင်မှာ ကျင့်တော်မူခြင်း**

မန္တလေးတိုင်း၊ ပြင်ဦးလွင်မြို့ အနီးစခန်းနားတွင် ရှေးယခင်တည်ထား ကိုးကွယ်ခဲ့သော မြစ်မိုးရှင်၊ စကြာရှင်၊ သိဒ္ဓိရှင်စသော စေတီဟောင်းများကို ပြုပြင်ခြင်း၊ ရွှေသက်န်းကပ်လှူခြင်း၊ ပဋ္ဌာန်း ဒေသနာတော်များ ပူဇော်ခြင်း၊ တပည့်ဒကာ ဒကာမတို့အား မေတ္တာ၊ ကရုဏာရွှေ

http://www.dhammadownload.com



ထားပြီး ဘုရား ဒေသနာတော်များ နှစ်စဉ်မပျက်ဟောကြားတော်မူခဲ့ပါသည်။

**ပုပ္ပါးတောင်ကလပ်အနီး ကျင့်တော်မူခြင်း**

မန္တလေးတိုင်း၊ ပုပ္ပား တောင်ကလပ်၏အနီး မင်းတိုင်ပင်ကုန်းမြေ၌ရှိ မင်းတိုင်ပင် စေတီတည်ထားခြင်း၊ သမိုင်းဝင် ကျောက်နွားသိုးကိုးကောင်အား စေတီတည်ထားခြင်း၊ နှစ်စဉ် ပဋ္ဌာန်း ဒေသနာတော်များ ပူဇော်ခြင်းစသော သာသနာအကျိုးကို ရှေးရှု၍ အစဉ်တစိုက် ပြုလုပ်တော်မူခဲ့ပါသည်။

**ပဋ္ဌာန်းခရီးစဉ်**

ရေဝတီတိုင်း၊ မအူပင်မြို့နယ် အသီးသီးရှိ ကျေးရွာတို့ကို ရေတစ်တန် ကုန်းတစ်တန် ခရီးစဉ်ဖြင့် တပည့် ဒကာ ဒကာမတို့၏ ကောင်းကျိုးချမ်းသာ တိုးပွားစေရန် နှစ်စဉ်နှစ်တိုင်း ပဋ္ဌာန်း ဒေသနာတော်များပူဇော်ခြင်း၊ မေတ္တာဘာဝနာတရားရေအေးကို နှစ်စဉ်မပျက် အစဉ်တစိုက် ဟောကြားတော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၄

**ကရင်ပြည်နယ် ခရီးစဉ်**

ကရင်ပြည်နယ် ဇာသပြင်ကျေးရွာ တပည့်ဖြစ်သော ဒါယကာ ဦးမောင်မောင်၊ ဒါယိကာမ ဒေါ်ရီရီချို မိသားစုတို့၏ ပင့်ဖိတ်ချက်ကို မေတ္တာ၊ ကရုဏာရှေးရှု၍ သုံးနှစ်တိုင်တိုင် ခန္ဓာဝန် ချခါနီးအထိ အသက်ကိုပင် ပဓာနမထားဘဲ သာသနာ အကျိုးကို ဦးတည်လျက် ကြွရောက်တော်မူကာ ပဋ္ဌာန်းဒေသနာတော်များ ပူဇော်ခြင်း၊ မေတ္တာဘာဝနာတရားတော်ကို ဟောကြားတော်မူခဲ့ပါသည်။အထက်ပါအတိုင်း သာသနာပြုခရီးစဉ်ကို နှစ်စဉ်မပျက် ကြွရောက်၍ မေတ္တာရေအေး အမြိုက်ဆေးကို တိုက်ကျွေးတော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၄

ဆရာတော်ဘုရားကြီးသည် အသက်အရွယ်နှင့် မမျှလောက်အောင် သာသနာတော်၏ အကျိုးကို ရှေးရှုပြီး စံနမူပြကာ လုပ်ဆောင်တော်မူခဲ့ပါသည်။ ဆရာတော်၏ မေတ္တာ ကရုဏာကြီးမားပုံနှင့် ကမ္မဋ္ဌာန်းတရား ကြိုးစားအားထုတ်မှုမှာ အချိန်ကာလမရွေး နေရာမရွေး နောင်လာ နောက်သား များ အတုယူဖွယ်ဖြစ်လောက်အောင် သက်သေပြခဲ့ပါသည်။

**ရာသက်ပန် သက်သတ်လွတ်**

ဆရာတော်ဘုရားကြီးသည် မေတ္တာ ကမ္မဋ္ဌာန်းတရားကို အမြဲမပြတ် ပွားများကျင့်ကြံအားထုတ်ခြင်း၊ ရာသက်ပန် သက်သတ်လွတ် ဘုဉ်းပေးခြင်းစသော သီလဂုဏ်၊ စရဏဂုဏ်တို့၏ အကျိုး အာနိသင်ထူးခြားမှုများစွာတို့ ကိုယ်တိုင် တွေ့မြင်ခံစားကြရသည်ကို သိရှိကြမှာပါ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၄

**ခန္ဓာဝန်ချတော်မူခြင်း**

အေဒီ ၂၀၀၃

ဆရာတော်ဘုရားကြီးသည် သာသနာတော်အကျိုးနှင့် တပည့်ဒကာ ဒကာမတို့၏ ကောင်းကျိုး ချမ်းသာတို့ကို အမြဲရှေးရှုကာ ခန္ဓာဝန်ချသည်အထိပင် ပြုလုပ်ဆောင်ရွက်ရင်း မြန်မာသက္ကရာဇ် ၁၃၆၅ ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော် ၁၁ ရက် (၁၉. ၁၁. ၂၀၀၃) ဗုဒ္ဓဟူးနေ့ ညနေ ၃ နာရီ ၁၅ မိနစ်တွင် မြတ်စွာဘုရားသော်မှ မလွတ်သာ မရှောင်သာသော မရဏာခရီးစဉ်သို့ ကြွရောက်ခါ ဘဝနတ်ထံ ပျံလွန်တော်မူခဲ့၍ နောက်ဆုံးအဖြစ် အားလုံးသော သတ္တဝါအပေါင်း အား သံဝေဂရစေရန် ပြသတော်မူခဲ့ပါသည်။

http://www.dhammadownload.com



**ရှပ်ကလာပ်တော် မပုပ်မသိုး ယနေ့တိုင် တည်ရှိခြင်းအံ့ဖွယ်**

ရှပ်ကလာပ်တော်ကို ရန်ကုန်တိုင်း မရမ်းကုန်းမြို့နယ်၊ ပန်းပင်ကုန်း (၅) ရပ်ကွက်၊ သုသာန်ကျောင်းတွင် ဖူးမြော်နိုင်ပါသည်။ အုတ်ဂူသွင်းထားသော်လည်း မှန်ပေါက်မှ ချောင်းကြည့်လျှင် ဖူးတွေ့နိုင်ပါသည်။ ကျွန်ုပ်တို့ကိုယ်တိုင် မျက်မြင် ဖူးတွေ့ခဲ့ရပါသည်။ ထိုအခါ ထိုကျောင်းရှိ ဓမ္မစရိယ ဘီအီးဒီဘွဲ့ရ ဆရာတော် ဖြစ်သော အရှင်ဥက္ကဋ္ဌ ကိုယ်တော်ထံမှ မှတ်တမ်းမှတ်ရာများ ဓာတ်ပုံများ ရရှိခဲ့ပါသည်။ သာသနာ့သမိုင်းအတွက် ကျေးဇူးကြီးလှပါ၏။

ကျမ်းကိုး၊ အရှင်ဥက္ကဋ္ဌ ဓမ္မာစရိယ၊ ဘီအီးဒီ၊ သီလ ဝိသုဒ္ဓိကမ္မဋ္ဌာန်း ကျောင်းတိုက်၊ တောင်တန်း သာသနာပြုဘဒ္ဒန္တပညောဘာသ (ခ) ဦးအောင်ပရမသိဒ္ဓိ၏ ထေရုပ္ပတ္တိနှင့် အန္တရာယ်ကင်းဂါထာ မေတ္တာပွားနည်းများ၊

http://www.dhammadownload.com



မကွေးတိုင်း၊ တောင်တွင်းကြီးမြို့ အရှေ့ဘက် ရွှေသမင်မြို့ဟောင်းမှ

# မပုပ်မသိုးသော ထုံးတောင်တောရဆရာတော် ဦးတေဇနိယ

## (၁၉၀၀ - ၁၉၅၉)

**တည်နေရာ**

ထုံးတောင်တောရကျောင်းသည် မကွေးတိုင်း၊ တောင်တွင်းကြီးမြို့ အရှေ့ဘက် ၆ မိုင်ခန့်အကွာ တွင်ရှိသော ရွှေသမင်မြို့ဟောင်းတည်ရှိရာ (ငမင် အုပ်စုရွာကြီး၏ အရှေ့ဘက်ငမင်ချောင်းကို ဖြတ်ကျော်ပြီး) ပဲခူးရိုးမတောင်စွယ်၊ တောင်ဆင်နှာမောင်းတစ်ခုပေါ်တွင် တည်ရှိသည်။ ထိုနေရာ သို့ငမင်အုပ်စုကြီးရွာ၏ အရှေ့ဘက် ငမင်ချောင်းကို ဖြတ်ကျော်သွားရသည်။

ကျမ်းကိုး၊ ရွှေသမင်မြို့ဟောင်းမှမပုပ်မသိုးသော ထုံးတောင်တောရဆရာတော်၊ ထုံးတောင် အရှင်ဓမ္မပီယ (မြောင်)၊ မြတ်မင်္ဂလာစာစောင်၊ အမှတ်(၂၃)၊ အမှတ်(၅)၊ ၂၀၀၇ ခုနှစ်၊ နိုဝင်ဘာလ၊ စာ - ၂၁။

ထိုထုံးတောင်ဆရာတော်နှင့် တစ်နှစ်တည်း ဖွားသော ဆရာတော်ကြီးများ၏ စာရင်းဇယား များကို အထက်အထက်က ပြဆိုခဲ့ပြီး ဖြစ်ပါသည်။ ဆက်စပ်မိအောင် ပြန်လည်ပြဆိုပါမည်။

**ခေတ်ပြိုင် ဆရာတော်များ**

အေဒီ ၁၉၀၀ — ထို ၁၉၀၀ ပြည့်နှစ်တွင် ဖွားမြင်ခဲ့သော ပုဂ္ဂိုလ်မှာ ဦးအောင်ပရမသိဒ္ဓိ ဖြစ်၏။ ဆရာတော်နှင့် တစ်နှစ်တည်း ဖွားသော အခြားဆရာတော်တစ်ပါးမှာ မင်းဘူး ကျောက်စံ ဆရာတော် ဦးပဏ္ဍိစ္စ ဖြစ်၏။ ထိုဆရာတော်ကြီး ကား ရုပ်ကလာပ်တော် ယနေ့တိုင် ကြွင်းကျန်သေး၏။ သက်တော် ၁၀၃ နှစ်အထိ ရှည်တော်မူ၏။ ၁၉၀၀ ပြည့်နှစ်ဖွား ထူးခြားချက် တစ်ခုဖြစ်၏။

ကျမ်းကိုး။ ဝိဇ္ဇာမဂ္ဂဇင်း ၂၀၀၇ ခုနှစ်၊ ဩဂုတ်လ၊ စာ ၄၃ ကိုကြည့်ပါ။

**ခေတ်ပြိုင် မှတ်တမ်းများ စုဆောင်းချက်**

၁၉၀၀ ပြည့်နှစ်တွင် ရွှေသမင် ဦးတေဇနိယ ဆရာတော်နှင့် တစ်နှစ်တည်းဖွားကြသော ရဟန်း ထူးများကို သိကြရပြီဖြစ်ပါသည်။ ဆရာတော် ဦးတေဇနိယ၏ မှတ်စု ကတ်တလောက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။ ခေတ်ပြိုင် သမိုင်းဝင် မှတ်တမ်းများ ဖြစ်၏။ အလွဲအချော် မရှိနိုင်ချေ။

**နတ်မောက်ဇာတိ**

အေဒီ ၁၉၀၀ — ဆရာတော် ဦးတေဇနိယကို မကွေးတိုင်း၊ နတ်မောက်မြို့နယ်၊ သီးကုန်းကျေးရွာ၊ အဖဦးဖိုးတင်၊ အမိဒေါ်မယ်တုတ်တို့က သက္ကရာဇ် ၁၂၆၂ ခုနှစ်တွင် ဖွားမြင်သည်။ စနေသား ဖြစ်၏။ မွေးချင်း ငါးယောက်ရှိရာ တတိယမြောက်သားဖြစ်သည်။

ကျမ်းကိုး၊ ရွှေသမင်မြို့ဟောင်းမှမပုပ်မသိုးသော ထုံးတောင်တောရဆရာတော်၊ ထုံးတောင် အရှင်ဓမ္မပီယ (မြောင်)၊ မြတ်မင်္ဂလာစာစောင်၊ အမှတ်(၂၃)၊ အမှတ်(၅)၊ ၂၀၀၇ ခုနှစ်၊ နိုဝင်ဘာလ၊ စာ - ၂၁။

http://www.dhammadownload.com



**ငယ်စဉ် ဘဝ**

အေဒီ ၁၉၁၂ ငယ်ရွယ်စဉ်ကစပြီး သီးကုန်းကျောင်းဆရာတော်ထံ၌ စာပေများသင်ကြား၍ အသက် ၁၂-နှစ် အရွယ်တွင် သီးကုန်းကျောင်းဆရာတော်ကိုပင် ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေဖြစ်တော်မူသည်။ သာမဏေဖြစ်ပြီးနောက် မကွေးမြို့ ချောင်းနက်တောရကျောင်းသို့ရောက်၍ ရှင်ငယ်ဘဝနှင့်ပင် သဒ္ဒါ၊ သင်္ဂြိုဟ်၊ အဘိဓာန်၊ အလင်္ကာ၊ ဆန်း၊ ပုဒ်စစ် စသည်များကို နှုတ်တက်ရအောင်ဆောင်၍သင်ကြားတော်မူသည်။

ကျမ်းကိုး၊ ယင်းစာ ၂၁

**ရဟန်း ဘဝ**

အေဒီ ၁၉၂၀ သက်တော် ၂၀ အရွယ်တွင် မိဘနှစ်ပါး၏ ပစ္စယာနုဂ္ဂဟဖြင့် သီးကုန်းကျောင်း ခဏ္ဍသိမ်၌ ရဟန်းအဖြစ်သို့ ရောက်တော်မူ၏။ ရဟန်းဖြစ်ပြီးနောက် မန္တလေးမြို့သို့ကြွရောက်ကာ ညောင်ကန်တိုက်တွင် သီတင်းသုံး၍အထက်တန်းစာပေများကို ဆက်လက်သင်ကြားသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၂

**စာသင်သား ဘဝ**

မန္တလေးမြို့တွင် စာပေပရိယတ္တိကိုစိတ်တိုင်းကျသင်ယူလေ့လာပြီးလျှင် ပခုက္ကူမြို့ မဟာဝိသုတာရာမကျောင်းတိုက်သို့ ကြွရောက်တော်မူကာ ကျမ်းကြီး၊ ကျမ်းအိပ်မှစ၍ ဘုရားဟောဒေသနာများကို ပေါက်မြောက်အောင် သင်ကြားတော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၂

**သပိတ်တစ်လုံး သင်္ကန်းသုံးထည်**

အေဒီ ၁၉၃၈ ရဟန်း ၁၈ ဝါအရတွင် သပိတ်တစ်လုံး သင်္ကန်းသုံးထည်တို့ဖြင့် ပခုက္ကူမြို့ မြစ်ကိုင်းရွာမြောက်ဘက်တွင်ရှိသော တောတန်းခင်ဌများတွင် အစီအရီရှိနေကြသည့် သဲပုံစေတီ တောရမြစိမ်းတောင်မှ မုန်စီတောင်တောရများသို့လှည့်လည်၍ ကြွရောက်သီတင်းသုံးသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၂

**ဂူမြို့ ဆရာတော်၏ တပည့်**
**ပခုက္ကူ ဦးကြည်၏တပည့်**

ဂူမြို့ ဆရာတော်၊ ဆရာတော်ဦးကြည်စသည့် ဆရာတော်ကြီးများ၏ နည်းနာနိဿယကိုယူရင်းတောရဓုတင်ကို စတင်တည်ဆောက်တော်မူသည်။ ကိုယ်တော်တိုင်လည်း တော၌သာ သီတင်းသုံးပျော်မွေ့တော်မူသည်။ တောရဓုတင် ဆောက်တည်သောပုဂ္ဂိုလ်များသာ ကျန်ဓုတင် ၁၂ ပါးကိုလွယ်ကူစွာ ဆောက်တည်တော်မူနိုင်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၂

**ဓုတင် ၁၂ ပါး ဆောင်၏။**

အေဒီ ၁၉၄၅ ဆရာတော်သည် သက္ကရာဇ် ၁၃၀၇ ခုနှစ်၊ တပေါင်းလဆန်း ၁၁ ရက်နေ့တွင် ပခုက္ကူမြို့မှ တောင်တွင်းကြီးမြို့ အရှေ့ဘက်တွင်ရှိသော နာမည်ကျော် နတ်မှီတောရမှတစ်ဆင့် ပဲခူးရိုးမတောင်ခြေသို့ ရောက်ရှိသီတင်းသုံးတော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၂

http://www.dhammadownload.com



### ဂျပန်စေတ်တွင်တောထဲမှာကျင့်

ဆရာတော်သီတင်းသုံးသည့်အချိန်သည် မြန်မာနိုင်ငံတွင် ဒုတိယကမ္ဘာစစ်ကြီးအတွင်းဖြစ်၍ အင်္ဂလိပ်တပ်၊ ဂျပန်တပ်များ လှုပ်ရှားနေသောအချိန်ဖြစ်သည်။ ထို့ပြင် စစ်ကြီးပြီး၍ လွတ်လပ်ရေး ရပြီးစအချိန် ရောင်စုံသောင်းကျန်းသူများ ပဲခူးရိုးမတစ်လျှောက် လှုပ်ရှားနေချိန် ဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၂

တောတောင်ထူထပ်၍ လူနေကျဲသည့်ကာလဖြစ်ရာ သားရဲတိရစ္ဆာန်များ၏ အန္တရာယ်ကလည်း မသေးလှပေ။

### ကျားများ မြွေများအကြား တရားထူးရှာ

ညအချိန်ဆိုလျှင် ကျားဟိန်းသံ၊ ဝံအော်သံများကစ၍ ကြားနေရသည်။ နံနက်တိုင်းတောရကျောင်းဝင်းအတွင်း၌ ကျားခြေရာ၊ ကျားသစ်ခြေရာများတွေ့နေရ၏။အဆိပ်ပြင်းမြွေပွေးများ၊ တောကြီးမြွေဟောက်များ ပေါများသည့်ဒေသဖြစ်၍ မကြာခဏတွေ့နေရသည်။ ညအခါများတွင် ရှောင်မလွတ်အောင် တွေ့ရတတ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၂

### သမင်ကလေးများ လာရောက်စား

ယုန်၊ သမင်၊ ချေ၊ ဆတ်၊ တောဝက်အစရှိသည့် သားကောင်များကလည်း ဆရာတော် သီတင်းသုံးရာ ကျောင်းသင်္ခမ်းဝအထိပင် ရောက်ရှိကျက်စားနေကြသည်။

ဆရာတော်သည် တောတောင်၏ တိတ်ဆိတ်ငြိမ်သက်ခြင်းကို အလွန်မြတ်နိုးတော်မူသည်။ ထုံးတောင်တောရသို့ စတင်ရောက်ရှိသည့်နှစ်မှစ၍ မည်သည့်နေရာကိုမျှ ကြာကြာနေတော်မမူ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃

### သာရေး နာရေး မကြွ

သာသနာရေးကိစ္စအတွက် မဖြစ်မနေ ကြွရန်ရှိသည်များကိုသာ ခေတ္တခဏမျှ ကြွရောက်တတ်၏။ ဆွမ်းစား မလိုက်။ သာရေး၊ နာရေးမလိုက်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃

### ငွေစက္ကူမမြင်ဖူး

တောရဆောက်တည်သည့်အချိန်မှစ၍ ငွေစက္ကူ မမြင်ဖူးတော့ချေ။ ဆရာတော်သည်စကားအလွန် နည်းသည်။ တစ်ပါးတည်းသာ နေလေ့ ရှိသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃

### သက်သတ်လွတ်ရာသက်ပန်

ဥပုသ်နေ့များမှလွဲ၍ ကျောင်းသို့လူများမလာစေရန် တားမြစ်ထားသည်။ တစ်နေရာ၌ အချိန်များစွာ နေလေ့ရှိသည်။ အစားအသောက်လည်း အလွန်ခြိုးခြံ၏။ သက်သတ်လွတ် အမြဲဘုဉ်းပေးသည်။ အချိန်ပြည့်တရားကိုသာ နှလုံးသွင်းနေလေ့ရှိသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃

http://www.dhammadownload.com



**စန္တိနှင့် မေတ္တာပဓာန**

ဆရာတော်သည် သူ၏ဆရာတစ်ဆူဖြစ်တော်မူသော ပခုက္ကူဆရာတော် ဦးကြည်၏ ဩဝါဒကထာအတိုင်း သီလအခြေခိုင်ရန်နှင့် ခန္တီမေတ္တာတရားကို အထူးဟောကြားတော်မူလေ့ရှိသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃

**အာနာပါနကမ္မဋ္ဌာန်း စွဲစွဲမြဲမြဲ**

ဆရာတော်သည် အာနာပါနကမ္မဋ္ဌာန်းကိုပင် စွဲမြဲစွာအားထုတ်တော်မူသည်။ အာနာပါနသမာဓိမှတစ်ဆင့် ဝိပဿနာတက်နည်းများထိ ညွှန်ပြတော်မူသည်။ ဆရာတော်သည် မည်မျှထိ တရားပေါက်ရောက်သည်ကိုမသိကြရပေ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃

**ခြေများလက်များ ကွေး၍ ဆန့်၍ရ၏။**

သို့သော်ပျံလွန်တော်မူ၍ တစ်ပတ်ကြာသည်အထိ အပုပ်နံ့မထွက်၊ လက်ခြေများကောင်းစွာကွေးဆန့်၍ရသည်။ အသားတော်များဝင်းဝါ၍ မျက်နှာတော်မှာ အိပ်ပျော်နေသကဲ့သို့ ကြည်လင်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၄

**သက်ရှိထင်ရှား ရှိစဉ်က ဓာတ်ပုံအရိုက်မခံဖူးချေ**

သက်တော်ထင်ရှားရှိစဉ်က ဓာတ်ပုံရိုက်ခံတော်မမူ။ ပျံလွန်တော်မူပြီး တစ်ပတ်ပြည့်မှ ထူးခြားသော အကြောင်းများကြောင့် တင်ပျဉ်ခွေထိုင်တော်မူပုံနှင့် တိုင်ကိုမှီကာ ဓာတ်ပုံရိုက်ယူကြရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၄

**ခန္ဓာဝန်ချ**

အေဒီ ၁၉၅၉

ဆရာတော်ဘုရားသည် ကိုယ်တိုင် နှစ်သက်မြတ်နိုးတော်မူသည့် တောရကျောင်းမှာပင် မြန်မာသက္ကရာဇ် ၁၃၂၁ ခုနှစ်၊ တပို့တွဲလကွယ်နေ့ နံနက် ၉ နာရီအချိန်၊ သက်တော် ၅၉ ၊ ဝါတော် ၃၉ ဝါအရတွင် စုတိကမ္မဇရုပ် ချုပ်တော်မူပေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၄

**နှစ်ပေါင်း ၅၀ ကြာ အပင်မပေါက်**

အေဒီ ၂၀၀၉

ဆရာတော်ရုပ်ကလာပ်ကို သဂြိုဟ်ရာ မြေနေရာမှာ နှစ်ပေါင်း ၅၀ နီးပါးကြာမြင့်သည့်တိုင်အောင် ပြောင်ရှင်းနေသည်။ ယခု အချိန်အထိ မည်သည့်သစ်ပင်ကြီးမှ မပေါက်တော့ကြောင်း အံ့ဩစွာ တွေ့နိုင်ပေသည်။

ကျမ်းကိုး၊ ရွှေသမင်မြို့ဟောင်းမှမပုပ်မသိုးသော ထုံးတောင်တောရဆရာတော်၊ ထုံးတောင်အရှင်ဓမ္မပီယ (မြောင်)၊ မြတ်မင်္ဂလာစာစောင်၊ အမှတ်(၂၃)၊ အမှတ်(၅)၊ ၂၀၀၇ ခုနှစ်၊ နိုဝင်ဘာလ၊ စာ - ၂၁

http://www.dhammadownload.com



ဓမ္မသိဒ္ဓိ လေးကျွန်းပိုင်

# ပြည် ရွှေဥမင်တောရ ဆရာတော် ဦးကုန္ဒြိယ (ခေါ်) ဦးအရိန္ဒမာ

(၁၉၀၂ - ၁၉၇၂)



http://www.dhammadownload.com



ရွှေဥမင် ဆရာတော်ဟု မျက်မှောက်ခေတ်တွင် တစ်ကျော့ပြန် ဟိုးလေးတကျော်ကျော်ဖြစ်ရသည်မှာ တပည့်ရင်းဖြစ်သူ တပည့်ကြီး ညာလက်ရုံး ပြည်မြို့ ဦးဝေပုလ္လ ကောင်းမှုကြောင့်ဖြစ်ပါသည်။ အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ ဘဒ္ဒန္တဝေပုလ္လကိုယ်တော်ကြီးသည် မိမိပေါက်မြောက်အောင်မြင်သောအခါတွင်လည်းကောင်း၊ နိုင်ငံတော်မှ သာသနာပြု ဘွဲ့တံဆိပ်တော်များ ဆက်ကပ်လှူဒါန်းသောအခါများတွင်လည်းကောင်း၊ မိမိကိုယ်တိုင် ကျမ်းကြီး ကျမ်းငယ်အသွယ်သွယ်ကို ပြုစုသောအခါများတွင်လည်းကောင်း မိမိဆရာရင်း၏ ကျေးဇူးကြောင့်သာဖြစ်ရပေသည်ဟူ၍ အလီလီအလာလာ အခါတစ်ရာမက အခါခါ မိန့်ကြားတော်မူလေသောကြောင့် ကျွန်ုပ်တို့ ပညာရှာ လူတစ်စုမှာ အကြားအမြင် ဗဟုသုတများ လက်တွေ့ကျကျ ရရှိကြရပါသည်ဟု ဝန်ခံလိုပါ၏။

**ခေတ်ပြိုင်မှတ်တမ်းအတိအကျ**

အေဒီ ၂၀၀၉ ရွှေဥမင်ဆရာတော်ကြီးအကြောင်းကို အသေးစိတ် ပိုမိုသိလိုသဖြင့် ခရစ်နှစ် ၂၀၀၉ ခုနှစ် နိုဝင်ဘာ ၁၈ ရက်နေ့တွင် စာရေးဆရာကြီး မြေလတ်မြတ်သူက မေးလျှောက်သောကြောင့် အရင်းကျကျ တပည့်ကြီးဖြစ်သူ ဆရာတော်ကြီး ဦးဝေပုလ္လကိုယ်တော်တိုင် မိန့်ကြားချက်များဖြစ်သဖြင့် လက်ရင်းမှုရင်း အထောက်အထားများဖြစ်ပါသည်။ ခေတ်ပြိုင်မှတ်တမ်းအဖြစ်လည်း အသေအချာမှတ်ယူနိုင်ပါသည်။

**သက်တော် ၇၀ မှာ ခန္ဓာဝန်ချ**

အေဒီ ၁၉၀၂ ဆရာတော်ကြီး၏ ခန္ဓာဝန်ချတော်မူသောနှစ်က သက်တော်ကို မေးလျှောက်သောအခါ "ကျုပ်သိတာက ဆရာတော်ကြီး ခန္ဓာဝန်ချသောအခါ သက်တော် ၇၀ ဟူ၍ အသေအချာမှတ်မိပါသည်" ဟုဖြေဆိုပါသည်။ ထို့ကြောင့် မွေးသက္ကရာဇ်မှာ ခရစ်နှစ် ၁၉၀၂ ခုဖြစ်ကြောင်း သိရှိရ ပါသည်။

> ကျမ်းကိုး။ ဦးဝေပုလ္လ၏ အဖြေ၊ မြေလတ်မြတ်သူ၏အမေး၊ ရန်ကုန်မြို့၊ လမ်း ၅၀၊ အမှတ်၁၉၉၊ အဲဘားဂရင်း ပုံနှိပ်တိုက်၊ ဦးသိန်းဦးနှင့် ပုံနှိပ်တိုက်လုပ်ငန်းပိုင်ရှင် ဦးမျိုးမြင့်ကျော်တို့ သက်သေရှိ၏။ ၁၈-၁၁-၂၀၀၉ ခုနှစ်။

**ဝါတော် ၄၈ ဝါ ရှိ၏**

ဝါတော်ကိုသိလို၍ ဆက်လက်လျှောက်ထားသောအခါ "ဝါတော် ၄၈ ဝါ"ဟု အတိအကျမိန့်ကြားတော်မူပါသည်။

ကျမ်းကိုး။ အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ၊ ဘဒ္ဒန္တဝေပုလ္လ မိန့်တော်မူချက်၊

**လူသိနည်းသော**
**ရဟန်းဘွဲ့တော်အတိအကျ**

ရဟန်းဘွဲ့တော်ကိုသိလို၍ ထပ်မံမေးလျှောက်သောအခါ "က။ ရဟန်းဘောင်ရောက် ရဟန်းဘွဲ့မှာဦးဣန္ဒြိယဖြစ်၏။ ခ။ သိဒ္ဓိပေါက်၍ပုဂ္ဂိုလ်ပေးဘွဲ့မှာ ဦးအရိန္ဒမာဖြစ်၏။ ဂ။ နောက်တိုးဘွဲ့မှာ နတ်များကိုယ်တိုင် ချီးမြှင့်သော ဘွဲ့ဖြစ်၍ ဓမ္မသိဒ္ဓိပါရဂူ လေးကျွန်းပိုင်ဖြစ်၏" ဟူ၍ ဆရာတော်ကြီး ဦးဝေပုလ္လကိုယ်တော်တိုင် မိန့်ကြားတော်မူပါသည်။

ကျမ်းကိုး။ အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ၊ ဘဒ္ဒန္တဝေပုလ္လ မိန့်တော်မူချက်၊

**ဇာတိအစစ်အမှန်**

ဖွားရာဇာတိကို မေးလျှောက်သောအခါ "ပြည်မြို့အနီး မိကျောင်းရဲရွာဇာတိ" ဟု မိန့်တော်မူပါသည်။

ကျမ်းကိုး။ အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ၊ ဘဒ္ဒန္တဝေပုလ္လ မိန့်တော်မူချက်၊

http://www.dhammadownload.com



**ယော်ဖြူမြစ်**

စာရေးဆရာကြီး မြေလတ်မြတ်သူ၏ လျှောက်ထားချက်အရ ရွှေဥမင်ဆရာတော်ကြီးသည် ယော်ဖြူ ဖြစ်ကြောင်း သိရ၏။ သက်တော် ၂၂ နှစ်မှ ပဉ္စင်းခံရ၏။ ဝါတော် ၄၈ ဝါရတော်မူ၏။ သက်တော် ၇၀ တွင် ခန္ဓာဝန် ချတော်မူ၏။

ကျမ်းကိုး။ အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ ဘဒ္ဒန္တဝေပုလ္လ မိန့်တော်မူချက်၊

**မြစ်တော် ဦးလာဘနှင့်**
**မိကျောင်းရဲရွာဇာတိအစစ်အမှန်**

ရွှေဥမင်ဆရာတော်ကြီး၏ မြစ်တော်သူ ဦးလာဘ အမည်ခံ စာရေးဆရာ ကျောင်းတော်ကြီး ဆန်းဝင်းက ဖြေကြားရာတွင် မိမိ၏ မိဘတို့မှာ ပြည်မြို့အနီး ရွှေတောင်မြို့နယ် ပုရပိုက် တန်းကျေးရွာဇာတိဖြစ်ကြောင်း ရွှေဥမင်ဆရာတော်ကြီးမှာ မိကျောင်းရဲရွာ ဇာတိဖြစ်ကြောင်း ဖြေကြားခဲ့ပါသည်။

ကျမ်းကိုး။ မြစ်အရင်းဖြစ်သူ ဦးလာဘ၏ ဖြေကြားချက်။

**ယော်မည်သိသူ အလွန်ရှား**

သိသူအလွန်ရှားသော အချက်တစ်ချက်ကို ထိုညက သိရှိခဲ့ရပါသည်။ ထိုအချက်မှာ အခြားမဟုတ်ရွှေဥမင်ဆရာတော်ကြီး၏ ငယ်မည်ဖြစ်၏။ ငယ်မည် ဦးအောင်ခ ဟူ၍ အတိအကျ သိရှိရပါသည်။ ဦးလာဘ၏ အမေက ရွှေဥမင်ဆရာတော်ကြီးအား အဘိုးဟု ခေါ်ကြောင်း သိရှိရပါသည်။

ကျမ်းကိုး။ မြစ်အရင်းဖြစ်သူ ဦးလာဘ၏ ဖြေကြားချက်။

**ခန္ဓာဝန်ချတော်မူသောနှစ် အတိအကျ**

အေဒီ ၁၉၇၂ — ရွှေဥမင်ဆရာတော်ကြီး ခန္ဓာဝန်ချတော်မူသောနှစ်မှာ မြန်မာသက္ကရာဇ် ၁၃၃၄ ခု၊ တန်ဆောင်မုန်းလဆန်း ၇ ရက်နေ့၊ ခရစ်နှစ် ၁၉၇၂ ခုနှစ် နိုဝင်ဘာလ ၁၂ ရက်၊ တနင်္ဂနွေနေ့ဖြစ်ကြောင်း ပြည်ဆရာတော်ဘုရားကြီး ဦးဝေပုလ္လကိုယ်တော်တိုင် ဖြေကြားတော်မူပါသည်။

ကျမ်းကိုး။ ယင်းအချက်ကို သမ္မုဒ္ဒေဂါထာတော်ကျမ်း၊ စာ ၃၆ တွင် အတိအကျပါရှိပါသည်။

**ခေတ်ပြိုင် ၁၉၀၂-ခု ဖွားများ**

အေဒီ ၁၉၀၂ — ခရစ်နှစ် ၁၉၀၂ ခုနှစ်ဖွား၊ ရဟန္တာနှင့် ရဟန်းထူးများကို လေ့လာသောအခါ အောက်ပါအတိုင်း တွေ့ရှိရပါသည်။

**ခေတ်ပြိုင် ၁၉၀၂-ခု ဖွား မြောက်ဂူကျောင်းဆရာတော်**

အေဒီ ၁၉၀၂ — ခရစ်နှစ် ၁၉၀၂ ခုနှစ်တွင် မြောက်ဂူကျောင်း ဆရာတော်ကြီး ဦးဉာဏုတ္တရကို ဖွားတော်မူပါသည်။ ထိုဆရာတော်ကြီးသည် သက်တော် ၈၇ နှစ် ရှည်တော်မူ၏။ ခရစ်နှစ် ၁၉၈၉ ခုနှစ်တွင် ခန္ဓာဝန်ချတော်မူ၏။ ဓာတ်တော်များ တဖွားဖွားကျတော်မူ၏။ ရဟန္တာကြီးဖြစ်၏။ အလောင်းတော်ကြီးကို ပူဇော်ထားစဉ်အခါက အနီးအနားဝန်းကျင် မီးထွန်းထားသကဲ့သို့ အရောင်များ လင်းနေ၏။

ကျမ်းကိုး။ အောင်တင်အေး ကျောက်ပန်းတောင်း၊ အံ့ဖွယ် ထူးခြားသော မြောက်ဂူကျောင်းဆရာတော်ကြီး၊ မြတ်မင်္ဂလာ၊ အတွဲ ၅၊ အမှတ် ၃၊ ၁၉၈၃ခုနှစ်၊ စက်တင်ဘာလ၊ စာ ၅၁ ကိုကြည့်ပါ။

http://www.dhammadownload.com



## ခေတ်မြိုင် ၁၉၀၂–ခုဖွား ဖားအောက် သစ်သီးဆရာတော်

အေဒီ ၁၉၀၁

၁၉၀၁ ခုနှစ်တွင် ဖားအောက်တောရ သစ်သီးဆရာတော်ဘုရားကြီးသည် မော်လမြိုင်မြို့တွင် ဖွားတော်မူ၏။ ထိုဆရာတော်ကြီးမှာ ပြည်မြို့ ရွှေဥမှင်ဆရာတော်ဘုရားကြီးထက် တစ်နှစ်ကြီး၏။

ကျမ်းကိုး။ ကျော်နန္ဒအောင်၊ ဝိပဿနာရှုနည်း ၉ နည်း၊ ပဥ္စမတွဲ၊ စာ ၁၉၉ ကိုကြည့်။

## ရွှေဥမှင်ဟူသော စကား

ရွှေဥမှင်ဟူသောစကားကို ကျွန်ုပ်တို့ကြားဖူးသဖြင့် ဟိုနေရာ ဒီနေရာ ဇဝေဇဝါဖြစ်ကောင်းဖြစ်နေပေလိမ့်မည်။ ယခု ရွှေဥမှင်ဆရာတော်ကား ပြည်မြို့ ရွှေဥမှင်ဆရာတော်ဖြစ်၏။ ယခင် ယခင်ကလည်း ရွှေဥမှင်ဆရာတော်ကြီးများ ရှိခဲ့ဖူး၏။ မဟာမြိုင်တောကြီးထဲတွင် ရှေးဟောင်း ရွှေဥမှင်ကျောင်းတော်ကြီး ဟူ၍ရှိသေး၏။

## မဟာမြိုင်ထဲက ရွှေဥမှင်ကျောင်း

အေဒီ ၁၉၂၄

ထိုမဟာမြိုင် ရွှေဥမင်ကျောင်းမှာ ရွှေဥမှင်ရွာတွင် ရှိ၏။ ထိုရွာကို ခရစ်နှစ် ၁၉၂၄ ခုနှစ်က တည်ထားခဲ့၏။ သို့သော် ခရစ်နှစ် ၁၉၂၉ ခုနှစ်တွင် ရွာကြီး ပျက်စီးသွား၏။ ထိုအခါ ကျောင်းတော်ကြီးသာ ကျန်ခဲ့၏။ ထိုကျောင်းတော်ကြီးကို မဟာမြိုင်ထဲက ရွှေဥမှင် ကျောင်းတော်ကြီးဟု ခေါ်ကြ၏။

ကျမ်းကိုး၊ ကလေးဝင်းသူ၊ ရှေးဟောင်း ရွှေဥမှင် ကျောင်းတော်ကြီး၊ ပါရမီမဂ္ဂဇင်း၊ အမှတ် ၁၂၈၊ ၂၀၀၃ ခုနှစ် မေလ၊ စာ ၅၃ ကိုကြည့်။

ထိုကျောင်းတော်ကြီးသည် ကလေးဝမြို့နယ်တွင် ရှိ၏။ ကျောင်းကြီး၏ အရှေ့ဘက်တွင် မဟာမြိုင်တောင်တန်းကြီး ရှိ၏။ အနောက်ဘက်တွင် ချင်းတွင်းမြစ်အနီး တောနက်ကြီးရှိ၏။ ထိုနှစ်ခုကြားက တောင်ကုန်းပေါ်တွင် ရွှေဥမှင်စေတီနှင့် ရွှေဥမှင်ကျောင်းကြီး ရှိ၏။

ကျမ်းကိုး။ ယင်းစာ ၅၃

## မဟာမြိုင်ကျောင်း ဆရာတော်များ ရှိသေး

ထိုရွှေဥမင်ကျောင်းကြီးတွင် ဆရာတော်ငါးပါး သီတင်းသုံးတော်မူခဲ့၏။ ထိုဆရာတော်များမှာ ၁။ ဦးသုဇာတ၊ ၂။ ဦးကလျာဏ၊ ၃။ ဦးစန္ဒိမာ၊ ၄။ ဦးဥတ္တမ၊ ၅။ ဦးသိရိန္ဒတတို့ ဖြစ်ကြ၏။

ကျမ်းကိုး။ ယင်းစာ ၅၃

## မဟာမြိုင်က ရဟန္တာ ဦးမေဓာ

အေဒီ ၁၉၁၉

အေဒီ ၁၉၁၉ ခုနှစ်က ထိုရွှေဥမှင်ကျောင်းတော်ကြီးတွင် ရဟန္တာဦးမေဓာ ဟူ၍ ပေါ်ခဲ့ဖူး၏။ အလွန်ထင်ရှားကျော်စော၏။ ဦးမေဓာသည် အေဒီ ၁၉၁၉ ခုနှစ်တွင် သာမဏေဝတ်၏။ ၁၉၂၄ ခုနှစ်တွင် ရဟန်းပြုခဲ့၏။ သက်သတ်လွတ်စား၏။ ၁၉၄၄ ခုနှစ်တွင် ခန္ဓာဝန်ချတော်မူ၏။ ၁၉၀၄ ခုနှစ်မှာ ဖွားခဲ့၏။ သက်တော် ၄၀ ရှည်တော်မူခဲ့၏။ ထိုရဟန္တာဦးမေဓာသည် ထိုမဟာမြိုင်တောကြီးထဲက ရွှေဥမှင်ကျောင်းတော်ကြီးတွင် နေတော်မူခဲ့၏။

ကျမ်းကိုး။ ယင်းစာ ၅၃

## ပြည် ရွှေဥမှင် ဇာတ်လမ်းအစ

ယခု တင်ပြမည့် ပြည်မြို့ ရွှေဥမှင်ဆရာတော်ကား ပြည်သမိုင်းဝင် သာသနာဝင် ဂန္ထဝင်ဖြစ်ပေ၏။

http://www.dhammadownload.com



**ဒွတ္တဘောင်လက်ထက်က ရွှေဥမင်**

၄၄၃ ဘီစီ ဒွတ္တဘောင်မင်းကြီးလက်ထက်က ကောင်းမှုတော်ဥမင် ၉ ခုရှိခဲ့၏။ ထိုဥမင်များမှာ - ၁။ ဂန္ဓမာဒနဥမင် ၂။ ဘုရားနီဥမင် ၃။ ဘွတ်တွင်းဥမင် ၄။ ခဲလူးဥမင် ၅။ အာနန္ဒာဥမင် ၆။ ပုဂံမျှော်ဥမင် ၇။ ကျောက်တံခါး ဥမင် ၈။ ရသေ့ ဥမင် ၉။ ရွှေဥမင်တို့ဖြစ်ပါ၏။

ကျမ်းကိုး။ ဝဋ္ဋာကျော်၊ ဂန္ဓာရီ ပြည်မြို့က ရွှေဥမင်၊ ပါရမီ မဂ္ဂဇင်း အမှတ် ၁၀၁၊ ၂၀၀၁ ခုနှစ်၊ ဒီဇင်ဘာ ၊ စာ ၅ ကိုကြည့်။

**ဗေဒါရီ လက်ထက်က ရွှေဥမင်**

ကျွန်ုပ်တို့ ယခုဖော်ပြသော ရွှေဥမင်ဆရာတော်မှာ ယခု ဒွတ္တဘောင်မင်းကြီး၏ ဥမင်ကိုးလုံးတွင် တစ်နေရာ အပါအဝင်ဖြစ်၏။ ထိုနေရာတွင် ရှေးအခါက ဗေဒါရီ၏ ဖခင်ဟုခေါ်ဆိုနိုင်သော ဈာန်ရ ရသေ့ကြီး နေခဲ့ဖူးသော နေရာဖြစ်၏။

**သာသနာ သက္ကရာဇ် ၁၀၀-ကျော်က ဇာတ်လမ်း**

၅၀၄ ဘီစီ ထိုရသေ့ကြီးသည် တကောင်းမှ လာခဲ့၏။ ဇာတ်လမ်းကား လူသိများပါသည်။ တကောင်းဘုရင်၏ ယောက်ဖတော်သည်။ ဝက်ကိုဖြို့ခွင်းမည်ဟု လိုက်တော်မူ၏။ ထိုနှစ်သည် သာသနာတော်သက္ကရာဇ် ၄၀ ဖြစ်၏။

၄၈၅ ဘီစီ ထိုနှစ်တွင် တကောင်းမင်း၏ မိဖုရားသည် မဟာသမ္ဘဝ၊ စူဠသမ္ဘဝ မျက်မမြင်ညီနောင်ကို အမြွာဖွားတော်မူ၏။ မင်းကြီး ရှက်တော်မူ၍ ရေတွင်မျှောခိုင်း၏။ ထိုနှစ်သည် သာသနာတော်သက္ကရာဇ် ၅၉ ခုနှစ် ဖြစ်၏။

၄၈၄ ဘီစီ ဖောင်နှင့်မျှောလာသော မျက်မမြင်ညီနောင်တို့သည် စန္ဒမုခိ အမည်ရှိသော ဘီလူးမ၏ ကျေးဇူးကြောင့် မျက်စိနှစ်ကွင်း အလင်းရ၏။ ထို့နောက် ထိုညီနောင်တို့ ပြည်မြို့ ကမ်းအနီး ရောက်လာ၏။ မင်းကြီးတောင်အနီး ဖြစ်၏။ ဗေဒါရီနှင့် တွေ့၏။ မဟာသမ္ဘဝ စုံဖက်တော်မူ၏။ ထိုနှစ်သည် သာသနာတော်သက္ကရာဇ် ၆၀ ပြည့်နှစ် ဖြစ်၏။

၄၇၈ ဘီစီ နောက်ထပ် ၆ နှစ်ကြာသောအခါ မဟာသမ္ဘဝ မင်းကြီး နတ်ရွာစံ၏။ နန်းစံ ၆ နှစ်ဖြစ်၏။ ထိုအခါ ညီတော် စူဠသမ္ဘဝ ကဆက်ခံ၏။ မရီးတော်ကို မိဖုရားမြှောက်၏။ ထိုနှစ်သည် သာသနာသက္ကရာဇ် ၆၆ ခုနှစ် ဖြစ်၏။

၄၄၃ ဘီစီ ထိုအခါ ဒွတ္တဘောင်မင်းကြီးကို ဖွား၏။ ဒွတ္တဘောင်မင်းကြီး နန်းတက်သောနှစ်သည် သာသနာ သက္ကရာဇ် (၁၀၁) နှစ် ဖြစ်၏။

**ရွှေဥမင် အောင်မြေ**

၄၄၄ ဘီစီ ထိုအချိန်တွင် သာသနာသက္ကရာဇ် (၁၀၀) ပြည့်၍ ဒုတိယ သင်္ဂါယနာတင်တော်မူသော ခေတ်ပြိုင်ဖြစ်၏။ ဘုရားသခင် ကိုယ်တော်မြတ်ကြီး ပရိနိဗ္ဗာန်ပြုတော်မူပြီးနောက် နှစ်ပေါင်း ၁၀၁ နှစ်ဖြစ်၏။ ထိုအခါကစ၍ မင်းကြီးတောင်သမိုင်း ရွှေဥမင်သမိုင်းစ၏။ အစဉ်အဆက် ပေါက်ဆရာအသီးသီးတို့ ကျင့်ကြံအားထုတ်ခဲ့ရာ အောင်မြေလည်း ဖြစ်ခဲ့၏။

**လေးကျွန်းပိုင် ဆရာတော် ပေါ်ပေါက်ခြင်း**

အေဒီ ၁၉၀၂ နောင်အခါ ထိုနေရာတွင် ရွှေဥမင်ဆရာတော်ဟူ၍ ပေါ်ပေါက်တော်မူခဲ့၏။ ထိုဆရာတော်ကြီးကား ကျွန်ုပ်တို့ ယခုဖော်ပြလတ္တံ့သော ဆရာတော်ကြီးဖြစ်၏။ ရွှေဥမင်တောရ လေးကျွန်းပိုင်ဆရာတော် ဦးကောဏ္ဍညဿ (ခေါ်) ဦးအရိန္ဒမာ (ခေါ်) မွေ့သိဒ္ဓိပါရဂူ လေးကျွန်းပိုင် ဆရာတော်ဘုရားကြီးအကြောင်းအရာ အချက်အလက်များကို ပြည်မြို့ ဦးဝေပုလ္လ

http://www.dhammadownload.com



အကျော်ဆရာတော်ဘုရားထံမှ အချက်အလက်များကို ကျွန်ုပ်၏ မှတ်စုကက်တလောက်တွင် ထည့်သွင်းထားသည်ဖြစ်ရာ အောက်တွင် ခေတ်ပြိုင်မှတ်တမ်းအဖြစ် အသေအချာဖော်ပြ အပ်ပါသည်။ နောင်အခါများတွင် ကျွန်ုပ်တို့ကဲ့သို့ လူပင်ပန်း စိတ်ပင်ပန်းခံကာ အချက် အလက်များ ရှာနေစရာ မလိုတော့ပါ။

**လေးကျွန်း ဆီမီး ကုန်းတော်**

ရွှေတောင်မြို့နှင့် ပြည်မြို့ကြားတွင် လေးကျွန်းဆီမီး ကုန်းတော်တစ်ခုရှိ၏။ ထိုလေးကျွန်း ဆီမီးကုန်းတော်တွင် သမထတရား ပဓာနလုပ်ငန်းများကို ကြိုးစားအားထုတ်ရင်း ထိုလေး ကျွန်း ဆီမီးကုန်းတော်တွင် လေးကျွန်းဆီမီးဆရာတော်ဟုလည်း ဘွဲ့တော်ရှိခဲ့ဖူး၏။

ကျမ်းကိုး။ ပြည်မြို့ မင်းကြီးတောင်၊ ဘဒ္ဒန္တဝေပုလ္လအရှင်သူမြတ်၏ သမ္ဗုဒ္ဓေဂါထာတော် စာ-၁၉။

**အာကြောင့် ရွှေဥမင်ဟု ခေါ်ကြ**

ရွှေဥမင်တောရ ဆရာတော်ဟု အမည်တွင်ခြင်းမှာ ပြည်မြို့အနီး စူဠာသမ္ဘဝမင်းသား ၂ပါး တို့၏ ဦးရိုးတော်ရသေ့ကြီး နေထိုင်သီတင်းသုံးနေထိုင်လှည့်လည်လျက်ရှိသော နေရာများ မှာ မင်းကြီးတောင်အစပြု၍ ရွှေဥမင်တောရချောင်စသည်တို့ ပါဝင်ပါသည်။ ယခုခေတ်တွင် ထိုရွှေဥမင်တောရချောင်တွင် နောက်ဆုံးသီတင်းသုံးတော်မူခဲ့ခြင်းကြောင့် ရွှေဥမင်တောရ ဆရာတော်ဟု ဘွဲ့တော်တစ်ခု အမည်တော်တွင်ခဲ့ပါသည်။

ကျမ်းကိုး စာ-၁၉

ရွှေဥမင်တောရချောင်ကား ပြည်မြို့အဝင်၌ မိချောင်းရဲရွာတစ်ခုရှိ၏။ ထိုရွာ၏အရှေ့ဘက် တစ်မိုင်ဝက်ခန့်တွင် တည်ရှိ၏။ ရှေးအခါ သရေခေတ္တရာကောင်းစားစဉ်ကာလက ဗေဒါရီ၏ ဘခင်ရသေ့ကြီး ကျင်လည်ကျက်စားခဲ့သော နေရာများတွင် ပါဝင်ခဲ့ပါသည်။

ကျမ်းကိုးစာ-၂၀

**လက်ရင်းကျကျ တပည့်ကြီးရှိ၍သာ သိခဲ့ရ**

ဤသို့အားဖြင့် ရွှေဥမင်ဆရာတော်ဟု ဟိုးဟိုးကျော်တော်မူခဲ့သော ဆရာတော်ကြီးအကြောင်း ကို စစ်စစ်ပေါက်ပေါက် လေ့လာဆန်းစစ်သောအခါ အစုံအလင်ဆုံးသော အချက်အလက် မှတ်တမ်းများကို ပြည်မြို့ အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ ဘဒ္ဒန္တဝေပုလ္လကိုယ်တော်မြတ်ကြီးထံမှ ရရှိပါသည်။ ဆရာတော်ကြီး၏ ကျမ်းဂန်များသည် တိကျသောအထောက်အထားများအဖြစ် တည်ရှိနေခဲ့ပါသည်။ ထို့ကြောင့်ပင်လျှင် မှတ်စုကတ်တလောက်များသည် ဆရာတော်ကြီး ဘဒ္ဒန္တဝေပုလ္လ၏ ကျမ်းစာများကို ဗဟိုမဏ္ဍိုင်ပြု၍ လှည့်လည်ရှာဖွေခဲ့ခြင်း ဖြစ်ပါသည်။ ကျွန်ုပ်၏ကတ်တလောက်များကို အောက်တွင် အပြည့်အစုံဖော်ပြထားပါသည်။ နောင်လာ နောက်သားများ အလွယ်တကူ မှတ်သားနိုင်ပါသည်။ သမိုင်းဝင်၏။ ဂန္ထဝင်ဖြစ်၏။

**မဟာမြိုင်တောကြီးထဲမှာ**

**၇ နှစ်တိုင်တိုင် ပြင်းပြင်းထန်ထန်ကျင့်ကြံခြင်း အံ့ဖွယ်**

ဤရွှေဥမင်တောရဆရာတော်ကြီး၏ အကြောင်းအရာတို့ကို ဤသမ္ဗုဒ္ဓေအဖွင့်ကျမ်းတွင် ထည့်သွင်းရေးသားရခြင်း၏အကြောင်းရင်းမှာ အိန္ဒိယနိုင်ငံနယ်စပ်နှင့် ချင်းတောင်နယ်စပ် တွင် တည်ရှိသော မဟာမြိုင်တောကြီးထဲတွင် ၇ နှစ်တိုင်တိုင်နေ့မအိပ်ညမကျိန်းဘဲ အရိုး ကြေကြေ အရေစုပ်စုပ် သေခဲ့လျှင်လည်းမြေကြီး ရှင်ခဲ့လျှင် တစ်နေ့တော့ ရွှေထီးဆောင်း ရမှာပဲဟူသော ဆောင်ပုဒ်နှင့်အညီ သမ္ဗုဒ္ဓေဂါထာတော်ကြီးအား တစ်ရက်တစ်ရက်လျှင်

http://www.dhammadownload.com



ဂါထာ ၅၀၀၀ရရှိအောင် အတိတိက္ခဥ္စုအကျင့်မြတ်ကို တောကြီးတောင်ကြီးထဲတွင် ကျားမ ကြောက် မြွေမလန့် ဆင်မခန့်ဘဲ ကျင့်ဆောင်အားထုတ်တော်မူခဲ့ပါသည်။

**သစ်ရွက် သစ်သီး စား၍ကျင့်ခဲ့**

တောတောင်ထဲတွင် နေထိုင်သီတင်းသုံးနေစဉ်အတွင်း စားကောင်းသော သစ်ရွက်သစ်သီး များ သစ်ဥများကို ဆားနှင့်ရောနယ်ဖတ်၍သာ စားသုံးခဲ့ပါသည်။ ဆားမှာ ဝါးရွက်များကို ဆားချက်ရသည်ဟု အမိန့်ရှိခဲ့ဖူး၏။

ကျမ်းကိုး။ စာ-၂၀

**နေ့စဉ် သမ္ဗုဒ္ဓေ (၅၀၀၀)**

နေ့စဉ် သမ္ဗုဒ္ဓေဂါထာတော်ကြီး ၅၀၀၀ မရမရအောင် ဥဋ္ဌါအကျင့်မြတ်ကို ကျင့်ဆောင်တော် မူခဲ့၏။

**သံသရာတစ်ကွေ့မှာ တပည့်ဖြစ်ခဲ့**

အေဒီ ၁၉၆၂ ဤရွှေဥမင်တောရဆရာတော်ကြီးသည် မဟာမြိုင်တောတောင်ကြီးထဲတွင် ၇နှစ်တိုင်တိုင် သမ္ဗုဒ္ဓေဂါထာတော်ကြီးအား သာသနာ ၅၀၀၀ နှင့်အညီ နေ့စဉ်ညစဉ်ဂါထာ ၅၀၀၀ မရရ အောင် ဥဋ္ဌါအကျင့်မြတ်ကို ကျင့်ဆောင်တော်မူခဲ့ပြီးနောက် အမှတ်မထင် ခရစ်နှစ် ၁၉၆၂ ခုနှစ်တွင် ကျွန်ုပ်စာရေးသူကျမ်းပြုသူနှင့် တွေ့ဆုံဖူးတွေ့ခွင့်ရခဲ့ပြီး ပညာနို့ရည်ကို သောက်စို့ ခွင့်ပါ ရရှိလာခဲ့ပါသည်။

ကျမ်းကိုး။ စာ-၂၁

**ဆရာတော်ကြီးထံမှာ ၁၀ နှစ် ပညာအမွေ ခံယူခြင်း**

ရင်းနောက် ထိုရွှေဥမင်တောရဆရာတော်ကြီးနှင့်ကျွန်ုပ်မှာ အတူတကွ ၁၀ နှစ်တိုင်တိုင် နေထိုင်ခဲ့ရပြီး ပညာရပ်အမျိုးမျိုးတို့ကို ထိုဆရာတော်ကြီးထံတွင် သင်ယူခွင့် သင်ကြားခွင့် ရရှိလာပါသည်။

ကျမ်းကိုး။ စာ-၂၁

**ဆရာတော်ကြီး၏ စရိုက်အလေ့အထ မျက်မြင်ကိုယ်တွေ့**

အေဒီ ၁၉၇၂ အနီးကပ်လည်းလေ့လာခွင့်မှတ်သားခွင့်များကိုပါ ရရှိခဲ့ပါသည်။ ဆရာတော်ကြီးကား သီလ သမာဓိပညာအရာတွင် အလွန်ခိုင်ခံ့ တည်ကြည်တော်မူ၏။ ထို့ပြင် တပည့်သားမြေးများ အား ဆိုဆုံးမရာ၌လည်း ပြတ်သားထိမိတော်မူ၏။ ဥပမာ ဥပမေယျသက်သေထုတ်၍ အနီးကပ်ဆုံး ဆုံးမသွန်သင်ရလျှင်လည်း ဗန်းမော်ဆရာတော်ကဲ့သို့ ထိထိမိမိ တစ်တစ်ခွခွ နားလည်သဘောပေါက်လွယ်အောင် ပွင့်ပွင့်လင်းလင်းကြီးပင် ဆိုဆုံးမတတ်ကြောင်းကို ကျွန်ုပ်ကျမ်းပြုသူကိုယ်တိုင် မျက်ဝါးထင်ထင် မြင်တွေ့လာခဲ့ရသည်။

ကျမ်းကိုး။ စာ-၂၁

**ဆရာတော်ကြီး၏ အသံ ဩဇာတော် အံ့ဖွယ်**

အပြစ်ရှိ၍အမှားလုပ်မိ၍ဆူပူကြိမ်းမောင်းလျှင်လည်း ကေသရာဇာခြင်္သေ့မင်း ဟိန်းဟောက် သကဲ့သို့ ရှိ၏။ (ဆရာတော်ကြီး ဟိန်းဟောက်အော်ငေါက်လျှင် ဆရာတော်၏ တစ်ပတ် လည် ကိုက် ၁၀၀ပတ်လည်ဝန်းကျင်တွင် ထမင်းစားသောက်နေကြဖြစ်သော ကျောင်းသား ယောဂီသီလရှင်တပည့်များပင် ထမင်းလုပ်ဆွမ်းလုပ် အမှတ်မဲ့ယောင်ယမ်းပြီး ပြုတ်ကျလာ သည်အထိ မြင်တွေ့ခဲ့ဖူး၏။ ဤမျှပင် ဩဇာအာဏာညောင်းသော ဆရာတော်ကြီးဖြစ်၏။

ကျမ်းကိုး။ စာ-၂၁

http://www.dhammadownload.com



**တစ်သက်မှာ တစ်ပါးသာ ကြုံရခြင်း**

ကျမ်းပြုသူတစ်သက်တာတွင် အသံ၏ စူးရှထက်မြက်မှု၊ အသံဩဇာအာဏာနှင့်ပြည့်စုံသော ဆရာတော်ကြီးကို ဤ တစ်ကြိမ်တစ်ခါသာ မြင်တွေ့ခဲ့ဖူး၏။

ကျမ်းကိုး။ စာ-၂၂

**မှိုးမှိုးကျော်သော ဆရာတော်ကြီး**

အေဒီ ၁၉၅၉

သမ္ဗုဒ္ဓေဂါထာတော်ကြီးအား အတိတိက္ခအကျင့်ဖြင့် လည်းကောင်း၊ ဥဋ္ဌအကျင့်ဖြင့် လည်းကောင်း၊ ခုနစ်နှစ်တိုင်တိုင်ကျင့်ဆောင်လာခဲ့ဖူးသော ရွှေဥမင်တောရ ဆရာတော်ကြီးသည် ခရစ်နှစ် ၁၉၅၉ ခုနှစ်မှစ၍ ၁၉၇၂ ခုနှစ်အထိ မြန်မာပြည် အလယ်ပိုင်းတွင် ထင်ရှားကျော်ကြားသော တန်ခိုးကြီးဆရာတော်တစ်ပါးဖြစ်ခဲ့၏။

**ဆရာတော်ကြီး၏ အံ့ဖွယ်များ**

ထိုဆရာတော်ကြီးသည် -

ပရစိတ္တ ဝိဇာနနဉာဏ်ကို ပေါက်မြောက်နေကြောင်းမြင်တွေ့ခဲ့ရ၏။

ဒိဗ္ဗစက္ခုဉာဏ်ရကြောင်းလည်း မျက်မြင်ကိုယ်တွေ့ကြုံခဲ့ရဖူး၏။

မနောမယသိဒ္ဓိပြီးကြောင်းကိုလည်း မျက်မြင်ကိုယ်တွေ့ကြုံခဲ့ရဖူး၏။

ကာယသိဒ္ဓိပြီးစီးကြောင်းကိုလည်း မျက်ဝါးထင်ထင်မြင်တွေ့ရဖူး၏။

ကျမ်းကိုး။ စာ-၂၂

**ဂျပန်ခေတ်တွင် ကျော်စောမှုဖြင့် ဆုငွေထုတ်ခဲ့**

အေဒီ ၁၉၄၅

မြန်မာနိုင်ငံမှ ဂျပန်တပ်များထွက်ပြေးစပြုချိန် လွတ်လပ်ရေးရခါနီးအခါ ၁၉၄၅ ခုနှစ်တွင် ရွှေတောင်မြို့နှင့်ပြည်မြို့အကြား လေးကျွန်းဆီမီးကုန်းတော်တွင် ရွှေဥမင်တောရ ဆရာတော်ကြီး သီတင်းသုံးရာမှ ကာယသိဒ္ဓိပြီးစီးကြောင်း နာမည်ကြီး၍ (ကျော်စောမှု)ဖြင့် ဆရာတော်ကြီးအား အင်္ဂလိပ်အစိုးရက ဖမ်းဆီးဖို့ ဆုငွေထုတ်ခဲ့သည်။

**သိဒ္ဓိဆိုသည်ကား အဘယ်နည်းဟု ကိုယ်တွေ့**

၎င်းနောက်အင်္ဂလိပ်က နွားမယ်ပရဗိုက်တန်းရွာများမှ ရွာသူရွာသားများကို မြှောက်ပေးပြီး ဆရာတော်ကြီးအား ဝိုင်းဝန်း၍ လုပ်ကြံဖမ်းဆီးခိုင်း၏။ အင်္ဂလိပ်အစိုးရက ဖမ်းမိလာလျှင် ဆုငွေ ၅၀၀၊ ဆုငွေ ၁၀၀၀ပေးမည်ဟု ကြေညာထားသောကြောင့်လည်း ဆုငွေလိုချင်၍ လုပ်မိလုပ်ရာလုပ်ကြသည်ဟူ၍လည်း ဆရာတော်ကြီးကိုယ်တိုင်ပင် အမိန့်ရှိခဲ့ဖူး၏။ လေးကျွန်းဆီမီးကုန်းတော်တွင် တရားအကျင့်စခန်းဝင်၍ သီတင်းသုံးတော်မူနေသော ရွှေဥမင်တောရ ဆရာတော်ကြီးအား ဝိုင်းဝန်း၍ တုတ်၊ ဓားအစုံဖြင့် ရိုက်နှက်ထုထောင်းကြ ဝိုင်းဖမ်းကြ၏။ ဆရာတော်ကြီးကား ဘာဆိုဘာမှမဖြစ်၊ ဘာဒဏ်ရာမှလည်းမရှိ မည်သည့်အန္တရာယ်မှလည်း မကျရောက်ဘဲ နောက်တစ်နေ့တွင် ပုတ္တန်း ပုရဗိုက်တန်းရွာများမှ ရွာသား ၄၀ ခန့်ဆေးရုံတွင် အတွင်းလူနာအဖြစ်တင်ခဲ့ရ၏။ ရွာထဲတွင် ၁၀ယောက်ခန့်သည် အပြင်လူနာအဖြစ် တစ်လခန့်အိမ်ထဲမှာ ရွာထဲမှာအောင်း၍ ဒဏ်ရာအနာတရများကို တောဆရာများဖြင့် ကြိတ်မှိတ်၍ ဆေးကုသမှုကိုခံခဲ့ရ၏။ အခင်းဖြစ်ပွားပြီးနောက်မနက်မှာပင် ဆရာတော်ကြီးမှာကား ဘာမှမဖြစ်သလို မည်သည့်ဒဏ်ရာမှ မခံစားရသလို ပကတိအကောင်းအတိုင်း ပြုံးပြုံးရယ်ရယ်ဖြင့် ဆွမ်းခံကြွနေကြောင်း ကာယသိဒ္ဓိဘက်တွင် အထူးဂုဏ်သတင်းကြီး၍ နောက်ပိုင်း အင်္ဂလိပ်အရေးပိုင်နယ်ပိုင်များက တရားကျင့်ကြံအားထုတ်နေသော သူတော်စင်ဖြစ်ကြောင်းအသိအမှတ်ပြုခွင့်လွှတ်ခဲ့ရဖူး၏။

စာ-၂၃

http://www.dhammadownload.com



**ကြုံမှ ယုံရ၏။**

ဤမျှပင် ဆရာတော်ကြီး၏ ကာယသိဒ္ဓိပြီးစီးမှုသည်လည်းကောင်း၊ ဘယာသိဒ္ဓိပြီးစီးမှုသည် လည်းကောင်း၊ အန္တရာယ်ကင်းရှင်းရေးတွင် အထူးအောင်မြင်ပြီးနေကြောင်းတွေ့ခဲ့ရ၏။ သမ္ဗုဒ္ဓေဂါထာတော်ကြီးအား အတိတိက္ခ ဥဋ္ဌါအကျင့်မြတ်ကြောင့် ဘေးရန်အန္တရာယ်များ ကင်းရှင်းပြီး ဘယာသိဒ္ဓိ၊ ကာယသိဒ္ဓိအထူးအောင်မြင်ပြီးစီးခြင်းဟုပင် မှတ်ချက်ချမိတော့၏။

စာ-၂၄

**မျက်မြင်ကိုယ်တွေ့ ပရစိတ္တဝိဇာနာနဉာဏ်**

ပရစိတ္တဝိဇာနာနဉာဏ် ဒိဗ္ဗစက္ခုဉာဏ်နှင့်ပတ်သက်၍လည်း မနက်ဖြန်မည်သည့်နာရီတွင် မည်သူရောက်လာလိမ့်မည်၊ မည်သည့်မြို့ မည်သည့်ဒေသကမည်၍ မည်မျှရောက်လာမည် တို့ကိုလည်းကောင်း ကြိုတင်၍ပြောဆို အမိန့်ရှိထားလျှင် ဤအတိုင်းမှန်ကန်စွာ ရောက်ရှိ လာသည်တို့ကိုလည်းကောင်း၊ သူတစ်ပါးစိတ်သည် ယခုလောလောဆယ်တွင် မည်သည့်ကိစ္စ အကြောင်းအရာကို စိတ်ရောက်နေသည်ကိုလည်းကောင်း၊ ကြိုတင်သိမြင်နေသည်ကို ကျွန်ုပ် ကျမ်းစာရေးသူကိုယ်တိုင်ပင် ခဏခဏကြုံတွေ့ခဲ့ရဖူး၏။

စာ-၂၄

**တရားအားထုတ်သူများအတွက် အားဆေး**

တစ်ချိန်က ကျွန်ုပ်ကျမ်းစာရေးသူ ကြုံတွေ့ခဲ့ရဖူးသည်မှာ ရွှေဥမင်တောရဆရာတော်ကြီး သည် သူ့တောရထဲမှာလာနေလျှင် ညဘက်ကို တရားအားထုတ်ခိုင်းလေ့ရှိ၏။ ဆရာတော် ကြီး ကိုယ်တိုင်ကိုယ်ကျပင် ကမ္မဋ္ဌာန်းကျောင်း ဇရပ်များကိုလှည့်လည်ပြီး တုတ်တောင်ဝှေး နှင့် ညဉ့်သန်းခေါင်အချိန်များတွင် လိုက်ရိုက်၍နှိုးခြင်း၊ တရားအားထုတ်ဖို့ အချိန်ရောက်ပြီ ဖြစ်ကြောင်း တုတ်၊ တောင်ဝှေးနှင့် လိုက်ပုတ်ပြီးနှိုးဆော်လေ့ရှိ၏။ အားလုံးနှိုးပြီး ဘုရားရှိခိုး သံကြားရပြီး မျက်နှာသစ်ကြပြီဆိုပါမှ သူ့ကျောင်းသို့ပြန်တက်သွားပြီး တရားလိုက်မှတ် နေကျဖြစ်၏။

ကျမ်းကိုး။ စာ-၂၄

**မျက်မြင်ကိုယ်တွေ့ အံ့ဖွယ်**

မနက်အရုဏ်ဆွမ်းစားပြီးနောက် အချိန်အားဖြင့်နံနက် (၇)နာရီခန့်တွင်မူ တစ်ဦးချင်း တစ်ပါး ချင်း တစ်ယောက်ချင်း ညက တရားအားထုတ်ရာအခြေအနေတို့ကို မေးမြန်းတတ်၏။ လိမ်၍မရ၊ ညာ၍မရ၊ ဖြီးဖြန်း၍ သံယောင်လိုက်၍လည်းမရ၊ ညကတရား တကယ်အမှန် အားထုတ်ခဲ့သည် မထုတ်ခဲ့သည်ကိုလည်းကောင်း၊ ညတည်းကပင် ကြိုတင်၍ သိရှိထားပြီး ဖြစ်သည့်အတွက် လိမ်ညာမိပါက လူပုံပရိသတ်အလယ်တွင် အော်ငေါက်ခံရတတ်ပြီး အရှက်ကွဲရတော့၏။ လိမ်ညာ၍လုံးဝမရ၊ ကြိုတင်၍သိသိကြီးနှင့် မသိချင်ယောင်ဆောင် ပြီး မေးမြန်းနေခြင်းသာဖြစ်ပါသည်။

ကျမ်းကိုး။ စာ-၂၄

**တပည့်များကို ပညာပေးခြင်းဆုံးမခြင်း အံ့ဖွယ်**

တစ်ခုသော တစ်နေ့၏ ညဘက်တွင်(အချိန်ကာလတော့မမှတ်မိတော့ပါ) ကျွန်ုပ်ကျမ်း စာရေးသူနှင့် ပေါင်းတည် ဝက်ပုတ်မြို့မှ ဦးဘိုးထင်ဆိုသူသည် ကမ္မဋ္ဌာန်းဇရပ်တစ်ခုထဲတွင် အတူတူရှိနေကြ၏။ ထုံးစံအတိုင်းပင် ညဉ့်သန်းခေါင်လောက်တွင် ဆရာတော်ကြီးသည် တောင်ဝှေးတစ်ချောင်းနှင့်ရိုက်ပုတ်၍ ကမ္မဋ္ဌာန်းကျောင်းဇရပ်မှန်သမျှတို့ကို လိုက်နှိုးနေ၏။

http://www.dhammadownload.com



ကျွန်ုပ်နှင့် ဝက်ပုတ်မြို့မှ ရောက်နေသော ဦးဘိုးထင်တို့အိပ်စက်နေသောကမ္မဋ္ဌာန်းဇရပ်ကို လည်းတောင်ဝှေးနှင့် ၅ ချက်ခန့်ရိုက်၍ "ဟေ့ ဟေ့ ထ ထ ဒီအချိန်မှ တရားမလုပ်လျှင် မင်းတို့ဘယ်အချိန်ကျမှ တရားအားထုတ်ကြမှာလဲကွ ထ ထ အိပ်မနေကြနှင့် ထိနမိဒ္ဓကို အနိုင်မပေးကြနှင့်ထပြီးတရားအားထုတ်ကြ" ဟုအသံကျယ်ကျယ်ဖြင့် ရိုက်နှိုးသွား၏။ ကျွန်ုပ်လည်း (ကပျာကသီ)ထ၍ မျက်နှာသစ်ပြီး ကမ္မဋ္ဌာန်းတရားကိုစတင် အားထုတ်တော့၏။ ဦးဘိုးထင်ကား အိပ်ရာထဲမှာပင် အိပ်မြဲအိပ်နေ၏။ ဆရာတော်ကြီး လာရောက်နှိုးစေကာမူ ဆရာတော်ကြီးလောက်အောင် အိပ်ရာထဲမှမထဘဲနှင့် အသံကျယ်ကျယ်နှင့် (ဩကာသ ဩကာသ ဩကာသ ကာယကံ ဝစီကံ မနောကံတည်းဟူသော ၃ ပါးသောကံတို့တွင်) သာ အသံတိမ်ဝင်သွားပြီး များမကြာမီ အိပ်မောကျ၍ ဟောက်သံများပင် ထွက်လာတော့၏။ အတော်ခပ်ဝေးဝေး ဇရပ်များကမ္မဋ္ဌာန်းကျောင်းများသို့ ဆရာတော်ကြီး လိုက်လံနှိုးဆော်နေသည်ကို ခပ်ဝေးဝေးမှ အသံသဲ့သဲ့သာ ကြားသိနေရပြီးနောက် ဆရာတော်ကြီးသူ့ကျောင်းပေါ်သို့ ပြန်တက်ကြွသွားတော့၏။

ကျမ်းကိုး။စာ-၂၄

## တုတ်စာကျွေးခြင်း အခန်းကဏ္ဍ
## ကရုဏာအခန်းကဏ္ဍ

ကျွန်ုပ်လည်း တရားအလုပ်ကိုဆက်လက်အားထုတ်နေတော့၏။ မကြာလိုက်ပါ။ မကြာဆိုမိနစ် ၃၀ နာရီဝက်ခန့်မျှပင် ရှိလိမ့်ဦးမည်ထင်ပါသည်။ ညမှောင်ကြီးမည်းကြီးထဲတွင် မမျှော်လင့်မထင်မှတ်ဘဲ ကမ္မဋ္ဌာန်းဇရပ်ပေါ်သို့ ဆရာတော်ကြီးတက်ရောက်လာကာ လက်ထဲမှာရှိသော တောင်ဝှေးဖြင့် ဦးဘိုးထင်အား(ကဲ အိပ်ဦးကွ ကဲ အိပ်ဦးကွ အိပ်ဦးကွာ အိပ်ဦးကွာ)ဆိုပြီး ၄ ချက်ခန့် ခပ်ပြင်းပြင်းရိုက်တော့၏။ ပြီးလျှင် ကမ္မဋ္ဌာန်းဇရပ်ပေါ်မှ ရုတ်တရက် ပြန်ကြွသွားတော့၏။

ကျမ်းကိုး။ စာ-၂၇

ကျွန်ုပ်လည်းအံ့အားသင့်လျက်ကျန်ရစ်ခဲ့ကာ အရိုက်ခံလိုက်ရသော ဦးဘိုးထင်မှာမူ (အောင်မလေးဗျ ဆရာတော်ကြီး တပည့်တော်မအိပ်တော့ပါဘုရား တပည့်တော် မအိပ်တော့ပါဘုရား မလိမ်တော့ပါဘုရား) နှင့်အော်ဟစ်ပြီး တကျွတ်ကျွတ်နှင့်ပါးစပ်မှ ညည်းညူပြီး ရှိနေတော့၏။

ကျမ်းကိုး။ စာ-၂၇

## ပညာအမွေပေးတော်မူခြင်း
## နည်းနာ နိဿယများအခန်းကဏ္ဍ

မနက်မိုးလင်း၍ အရုဏ်ဆွမ်းစားပြီးနောက် ပရိသတ်များအား ဆရာတော်ကြီးက ဦးဘိုးထင်နှင့် ပတ်သက်၍ အမိန့်ရှိလာတော့၏။ "ညကဝက်ပုက်က ဘိုးထင်ဆိုတဲ့အကောင် ငါ့ကို လိမ်တယ်ကွ၊ ငါကတော့အပင်ပန်းခံပြီး ဇရပ်တကာဇရပ် ကျောင်းတကာကျောင်း လှည့်လည်ပြီး တရားအားထုတ်ဖို့လိုက်နှိုးနေတာ၊ သူ့ဇရပ်ကျတော့ ငါ တောင်ဝှေးနှင့် တဘုံးဘုံး ရိုက်နှိုးလိုက်တော့ အိပ်ရာကထပြီး အသံကျယ်ကျယ်နဲ့ကွ၊ ဩကာသကနက်တော့ခန်းတွေ ဘာတွေဆိုလို့ဆိုတော့ ငါလည်း အဟုတ်အောက်မေ့တာပေါ့ကွာ။ ဪ ဘိုးထင်တော့နိုးပြီ ဒီကောင် ဘုရားရှိခိုးသံတောင် ကြားနေရပြီပေါ့ကွာဆိုပြီး ငါကျောင်းပေါ်ပြန်တက်ပြီး တရားဆင်ခြင်နေတာ၊ အတော်လေးကြာတော့ညှော်သည်ဖြစ်တဲ့ ဝက်ပုတ်က ဘိုးထင်တစ်ယောက်

http://www.dhammadownload.com



တရားထူးတရားမြတ်ရပါစေလို့ငါကစိတ်ညွတ်နေတာကွ၊ လားလား ဒီကောင်က ဘယ်ဟုတ်လို့လဲကွ၊ သက်သက်ငါ့ကိုညာနေတာ၊ အိပ်လိုက်တာမှ ဟောက်တောင် ဟောက်နေသေးတယ်၊ တော်တော်အသုံးမကျတဲ့အကောင်သေတာတောင် တရားရမဲ့ အကောင်မဟုတ်ဘူးကွ" ဆိုပြီး ဦးဘိုးထင်ကိုကြိမ်းမောင်းတော့၏။ ဦးဘိုးထင်လည်း နောက်တစ်နေ့မနက် ဝက်ပုတ်ကို ပြန်သွားတော့၏။ ကျောင်းမှာမနေရဲ မအိပ်ရဲတော့ပေ။ တရားမလုပ်နိုင် "အိပ်ရေးအပျက် မခံနိုင်သည့်အတူထူ အိမ်ပြန်တာပဲကောင်းမှာပါ" ဟု ညည်းညူပြီး ဦးဘိုးထင်တစ်ယောက် ဝက်ပုတ်သို့ ပြန်ပြေးတော့သည်။

ကျမ်းကိုး။ စာ-၂၈

### ဆရာတော်ကြီး၏ ဉာဏ်တော်အံ့ဖွယ်

ဆရာတော်ကြီး၏ ပရစိတ္တ ဝိဇာနနဉာဏ်၊ ဒိဗ္ဗစက္ခုဉာဏ်ရနေကြောင်းကို ကျွန်ုပ်စာရေးသူကိုယ်တိုင် မျက်ဝါးထင်ထင်သိမြင်တွေ့လာခဲ့ခြင်းဖြစ်၏။

ကျမ်းကိုး။ စာ-၂၈

### သမ္ဗုဒ္ဓေတန်ခိုးအံ့ဖွယ်

သမ္ဗုဒ္ဓေဂါထာတော်အား အတိတိကျကျဉ္စါအကျင့်စခန်းဖြင့် အောင်မြင်ထားမှု၏ ဒိဗ္ဗသက္ခုဉာဏ် ပရစိတ္တဝိဇာနနဉာဏ်မျိုးသည် အတော်အံ့ဩစရာ အတွင်းကျကျ နှိုက်နှိုက်ချွတ်ချွတ်ကိစ္စမျိုးကိုပင် သိမြင်တတ်ပါကလားဟု မှတ်ချက်ချ အောက်မေ့နေမိတော့၏။

ကျမ်းကိုး။ စာ-၂၈

### ဆရာတော်ကြီး၏ လျှို့ဝှက်ချက် ကျင့်စဉ်လျှို့ဝှက်ချက်

တစ်နေ့သောနေ့လယ်ပိုင်း၌ (အချိန်နေ့ရက်ကိုမှတ်သားမထား၍ တိကျစွာမပြနိုင်ပါ။) ကျွန်ုပ်စာရေးသူနှင့် ရွှေဥမင်တောရဆရာတော်ကြီး စကားထိုင်ပြောနေစဉ် ဒေါ်သုတ အမည်ရှိသော ယောဂီမတစ်ယောက် ရောက်ရှိလာပြီး ဆရာတော်ကြီးကိုကန်တော့လာ၏။ ကျွန်ုပ်လည်း အလိုက်သိစွာပင် ဘေးကိုခဏဖယ်နေလိုက်၏။ ဒေါ်သုတ လျှောက်စရာရှိသည်ကို ဆရာတော်ကြီးအား လျှောက်ပါစေဟူသော သဘောဖြင့်ဘေးကိုအသာဖယ်၍ နေလိုက်ခြင်းဖြစ်ပါသည်။ ဒေါ်သုတက ဆွမ်းစားကျောင်းတွင်အမြဲရှိနေတတ်ပြီး နေ့စဉ် သံဃာတော်များအား သက်သတ်လွတ်ချက်ပြုတ်၍ ဆွမ်းကပ်၊ ပရိသတ်များကို ကျွေးမွေး ဧည့်ခံနေသော အဖွဲ့၏ ခေါင်းဆောင်တစ်ဦး ဖြစ်ပါသည်။

ကျမ်းကိုး။ စာ-၂၉

ဒေါ်သုတအားဆရာတော်ကြီးက (ဟဲ့သုတ၊ နင်ဘာကိစ္စရှိလို့ ငါ့ဆီလာတာလဲ နင့်လာရင်းကိစ္စကို ငါ့ကို လျှောက်ဟဲ့) ဟု ဆရာတော်ကြီး၏ အမိန့်ရှိသံကို ဘေးမှကျွန်ုပ်ကောင်းစွာ သိရှိကြားနာနေရ၏။

ကျမ်းကိုး။ စာ-၂၉

### ဆန် ဆီ ဆေး ဆား လိုသောအခါ လုပ်ပုံလုပ်နည်း

ထိုအခါ ဒေါ်သုတက လက်အုပ်ချီ၍ (ဆရာတော်ကြီးဘုရား တပည့်တော်မတို့ ဆွမ်းစားကျောင်းဆွမ်းချက်ဆောင်မှာ ဆန်ရောဆီပါကုန်နေပါတယ်ဘုရား၊ တခြားရေတ်၊ ကြက်သွန်၊ ပဲလည်း မရှိတော့ပါဘုရား) ဟု လျှောက်ထားပါသည်။

ကျမ်းကိုး။ စာ-၂၉

ဤတွင် ဆရာတော်ကြီးက (မနက်ဖြန် ချက်ပြုတ်ဖို့ တစ်ရက်စာလောက်ရှိနေသေးလား)ဟု

http://www.dhammadownload.com



မေးလိုက်ပါသည်။ ဒေါ်သုတက (မနက်ဖြန်တစ်ရက်စာလောက်ကတော့ ကြံဖန်ခြစ်ချုပ်ပြီး ချက်ပြုတ်ကျွေးမွေးရင်တော့ ရနိုင်ပါသေးတယ်ဘုရား) ဟု လျှောက်ထားပါသည်။

ကျမ်းကိုး။ စာ-၂၉

ဤတွင် ဆရာတော်ကြီးက (အေးတစ်ရက်စာ မနက်ဖြန်အတွက်ကလေးရရင်ပြီးတာပဲ၊ အခုငါလာခဲ့မယ် နင်သွားတော့)ဟု ဒေါ်သုတကိုပြန်လွှတ်လိုက်ပြီး ဆရာတော်ကြီးက "ဟဲ့ ဝေပုလ္လ မင်းငါနဲ့ လိုက်ခဲ့ဦးကွာ" ဟု ခေါ်သဖြင့် ကျွန်ုပ်လည်း ဆရာတော်ကြီးနှင့်အတူ ဆွမ်းချက်ဆောင်ကိုလိုက်လာခဲ့၏။

ကျမ်းကိုး။ စာ-၂၉

## ရာဝင်အိုးကြီးများကို တောင်ဝှေးနှင့်လိုက်ရိုက်

ဆွမ်းချက်ဆောင်ထဲတွင် ဆန်ထည့်သော ရာဝင်အိုးကြီး ၁၀ လုံးရှိနေပါသည်။ ထို့ပြင်ဆီထည့်လှောင်သော ရာဝင်အိုးကြီးတစ်လုံးအပါအဝင် ငရုတ်၊ ကြက်သွန်၊ ကုလားပဲ အပါအဝင် တခြား ပဲမျိုးစုံထည့်စရာအားလုံး သူ့နေရာနှင့်သူရှိထားပြီးဖြစ်၏။ ဆရာတော်ကြီးသည် ကျွန်ုပ်၏ရှေ့မှာပင် တောင်ဝှေးကိုကိုင်၍ ရာဝင်အိုးကြီးများကို တောင်ဝှေးနှင့်လိုက်ရိုက်ပါသည်။ တခြား ပစ္စည်းပစ္စယ ချက်ပြုနေကျပစ္စည်းများကိုလည်းကောင်း၊ တောင်ဝှေးနှင့်လိုက်ရိုက်ပြီး (ငါ့ကျောင်းမှသံဃာတွေအတွက် ဆန်၊ ဆီ၊ ဆား၊ ငရုတ်၊ ကြက်သွန်၊ အားလူး၊ ပဲအမျိုးမျိုးတွေ လာခဲ့ကြဟေ့) ဟု နှုတ်မှ အမိန့်ရှိပြီး ဆရာတော်ကြီးသည် သီတင်းသုံးနေကျ ကျောင်းသို့ပြန်ကြွသွား၏။

ကျမ်းကိုး။စာ-၃၀

## သိပ္ပံနှင့် ဝိဇ္ဇာကွာခြားချက်

ထိုသို့ ဆရာတော်ပြန်ကြွသွားပြီးနောက် ကျွန်ုပ်မှာ သိပ္ပံနည်းကျကျတွေးခေါ် စဉ်းစားဝေဖန်မိ၏။ တောင်ဝှေးနှင့်လိုက်ရိုက်ပြီး နှုတ်ကလာခဲ့ကြဟေ့ဟုပြောရုံနှင့်မဖြစ်နိုင်။ ဘယ်ပုံဘယ်နည်းနှင့်မှ ယုတ္တိမရှိနိုင်ဟုစဉ်းစားမိ၏။ သို့ပေမယ့် ဆရာတော်ကြီးကိုယ်တိုင်ဆောင်ရွက်ပုံကို ကျွန်ုပ်ကိုယ်တိုင် မြင်တွေ့ခဲ့ရသောကြောင့် ဆင်ခြေမတက်ရဲပါ။ သတိထားပြီးသာစောင့်ကြည့်ရပါဦးမည်ဟုသာ တွေးနေမိတော့၏။

## နောက်တစ်နေ့ အံ့ဖွယ်ဖြစ်ရပ်ဆန်း

တစ်ညအိပ်ပြီး နံနက်အရုဏ်ဆွမ်းစားသောအခါဆရာတော်ကြီးက ဆွမ်းစားနေရင်းဖြင့်ပင် ဒေါ်သုတအား အသံခပ်ကျယ်ကျယ်ဖြင့် အမိန့်ရှိလာသည်ကိုကြားသိလိုက်ရ၏။ "ဟဲ့သုတ၊ ယနေ့နံနက် ၉ နာရီမှာ လှည်း ၆ စီး၊ ဆီပုံးက ၄ ပုံး၊ ကုလားပဲက ၂ အိတ်၊ အာလူးတွေက ၂ အိတ်၊ ကြက်သွန်တွေက ၂ အိတ်အပြင် တခြား ဖူးသီးတွေ၊ ဖရုံသီးတွေပါလာလိမ့်မယ်၊ ဒီတော့လှည်းသမား ၁၂ ယောက်စာအတွက်ပါ ပိုပြီး နင်ချက်ထားပါ။ ကြားလား" ဟု အမိန့်ရှိလာ၏။

ကျမ်းကိုး။ စာ-၃၁

ကျွန်ုပ်စာရေးသူသည် ကိုယ့်နားပင်ကိုယ်မယုံနိုင်သလိုဖြစ်နေမိ၏။ အတော်ပင် အံ့သြမိ၏။ ဘယ်နှယ့်လဲ ဘယ်လိုလဲ မြန်လှချည်လား၊ မနေ့ညနေကမှ တောင်ဝှေးတစ်ချောင်းနှင့် ရာဝင် အိုးတွေ လိုက်ခေါက်နေတာတွေ့တာပဲ တစ်ညပဲ နေရသေးတယ်။ ယနေ့မနက် ၉ နာရီ ကို ဒီမီးဖိုချောင်သုံးပစ္စည်းတွေ ရောက်လာမယ် ဆိုပါလား။

ကျမ်းကိုး။ စာ-၃၁

http://www.dhammadownload.com



### ဆရာတော်ကြီး၏ အောင်မြင်မှု အံ့ဖွယ်

စဉ်းစားတွေးနေမိရင်း ဆရာတော်ကြီး၏ မနောမယသိဒ္ဓိအောင်မြင်ပုံကို လေးစားကြည်ညို မိပါတော့သည်။

ကျမ်းကိုး။ စာ-၃၁

### ကြိုတင်သိနေခြင်းအံ့ဖွယ်

သို့နှင့်သတိထားပြီးစောင့်ကြည့်နေရင်း နံနက် ၈ နာရီခွဲလောက်ခန့်ရောက်သော် တောင်အောက်ဘက်မှ လှည်းမောင်းသံ နွားငေါက်သံတို့ကို ကြားလာရတော့၏။ နံနက် ၉ နာရီ ၁၀ မိနစ်ခန့်တွင်မူ လှည်း ၆ စီး မောင်းလာသူ ၁၂ ယောက်နှင့် ဆရာတော်ကြီး အရဏ်တက်ချိန်က မိန့်ကြားထားသည့်အတိုင်း ပဲအိတ်များ၊ ကြက်သွန် အိတ်များ၊ ဆန်များ၊ ဆီများ အပြည့်အစုံပါလာပြီး လှည်းပေါ်မှသယ်ချပြီး ဆွမ်းချက်ဆောင်အတွင်း နေရာချနေကြသည်ကို ကိုယ်တွေ့ကြုံလာခဲ့ရဖူး၏။ အံ့ဩစရာ အံ့အားသင့်စရာကောင်းလှပါဘိ၏။

ကျမ်းကိုး။ စာ-၃၁

### အံ့ဖွယ်ကို မနေနိုင်၍ စပ်စုခြင်း

ဤကိစ္စနှင့်ပတ်သက်၍ တစ်နေ့၌ဆွမ်းစားပြီး ဆရာတော်ကြီးနှင့် ကျွန်ုပ်စကားစမြီ ရှေ့ရေးနောက်ရေးကိစ္စ များပြောကြဆိုကြနေစဉ် စကားစပ်မိ၍ ရာဝင်အိုးကြီးများ တောင်ဝှေးနှင့်လိုက်ရိုက်ပြီး နှုတ်မှလာခဲ့ကြဟေ့ဟုခေါ်ရုံဖြင့် နောက်မနက်မှာ ဆန်တွေ၊ ဆီတွေ၊ ပဲတွေ ရောက်ရှိလာသည်ကိုမြင်တွေ့ရ၍ ဆရာတော်ကြီး၏ မနောမယသိဒ္ဓိပညာကို ချီးမွမ်းမိပါကြောင်း တပည့်တော်ဘဝမှာ တစ်ကြိမ်တစ်ခါမှ မမြင်တွေ့ဖူးကြောင်း လျှောက်ထားမိ၏။

ကျမ်းကိုး။ စာ-၃၂

### ဆရာတော်ကြီး ရယ်မောသံ

ဤတွင်ဆရာတော်ကြီးက ရယ်ရယ်မောမောဖြင့်ပင် "ဒါက ဘာဟုတ်သေးလို့လဲ ဝေပုလ္လရာ၊ ဒီကိစ္စလေးတွေက အလွယ်လေးအသေးဆုံးကိစ္စမျိုးတွေပါကွာ၊ ကျင့်ကြံအားထုတ်ရင် ရနိုင်တာပဲကွ"ဟုအမိန့်ရှိလာ၏။

ကျမ်းကိုး။ စာ-၃၂

### ကိုယ်တော်တိုင် ပြောပြချက် ပညာအမွေ

ပြီးတော့တစ်ဆက်တည်းပင်ဆရာတော်ကြီးကအမိန့်ရှိလာသည်မှာ "ငါက ချင်းတောင်နှင့် အိန္ဒိယနယ်စပ် တောကြီးတောင်ကြီးထဲမှာ ၇ နှစ်ကြာတယ်ကွ၊ အားထုတ်ရတာ။ ဒါက သမ္ဗုဒ္ဓေဂါထာတော်ကြီးကို နံနက်အရုဏ်တက် ၁ ကြိမ်၊ နေဝင် ၁ ကြိမ် သမ္ဗုဒ္ဓေအဖွင့်အနက်ကိုပါရွတ်ဆိုပြီး ဘုရားကန်တော့ရတယ်။ ပြီးလျှင် သမ္ဗုဒ္ဓေဂါထာတော်ကိုပင် သာသနာ ၅၀၀၀ကို ရည်စူး၍ နေ့စဉ်ဂါထာပေါင်း ၅၀၀၀ စေ့အောင် သရဇ္ဈာယ်ရတယ်ကွ။ ဒီအကျင့်ပဋိပတ် အတိတိကျ ဥဂ္ဂါအကျင့် ကျင့်ဆောင်ရမှ ဒီကိစ္စတွေကို အောင်မြင်ပြီးစီးနိုင်တယ်ကွဲ့၊ အဆင့်မြင့် သမ္ဗုဒ္ဓေကျင့်စဉ်လို့ ခေါ်တာပေါ့ကွာ။

ကျမ်းကိုး။ စာ-၃၂

### ၇ နှစ်တိုင်တိုင် အားထုတ်ခြင်းအံ့ဖွယ်

ဒီသမ္ဗုဒ္ဓေ ပဋိပတ် ဥဂ္ဂါအကျင့်လမ်းစဉ်အတိုင်း တောကြီးတောင်ကြီးထဲမှာ ၇ နှစ်တိတိကြာသည်အထိ အပင်ပန်းခံပြီးတော့ အောင်မြင်အောင်ကျင့်ရတယ်။ ငါအောင်မြင်ပြီဆိုတဲ့နေ့မှာ အံ့ဩစရာမင်းကို ငါပြောပြမယ်။

ကျမ်းကိုး။ စာ-၃၂

http://www.dhammadownload.com



### သပိတ်ရှိလျှင် ဆွမ်းရှိတယ်
### သစ်ပင်ရှိလျှင် ဆွမ်းရှိတယ်

အောင်မြင်ပြီဆိုတဲ့နေ့မှာပင် ငါသပိတ်ကိုဖွင့်ပြီး တောထဲမှာဆွမ်းခံတယ်ကွ၊ (လူမှမရှိတာ၊ ဒီတောကြီးထဲမှာ ဆရာတော်ဘယ်သွားပြီး ဆွမ်းခံပါသလဲဘုရား)ဟု ကျွန်ုပ်လျှောက်ထားသည့်အခါ ဆရာတော်ကြီးကဆက်လက်ပြီး အမိန့်ရှိလာသည်မှာ (သစ်ပင်တွေထံကို ဆွမ်းခံသွားတာပေါ့ကွ၊ သရက်ပင်အောက်ကိုသွားပြီးဆွမ်းခံရပ်လျှင် သရက်သီးချိန် မဟုတ်ပေမယ့် အပင်ပေါ်မှာ ဘာအသီးမှမရှိဘဲနှင့် သပိတ်ထဲကိုသရက်သီးအမှည့်တွေ ရောက်လာရတယ်ကွ။ ငှက်ပျောပင်အနားမှာ ဆွမ်းခံရပ်နေလျှင်လည်း ဘာအသီးတစ်လုံးမှမရှိသည့် ငှက်ပျောပင်က ငှက်ပျောအဖီးခိုင်ပင် မထွက်သေးသည့် ငှက်ပျောပင် ငှက်ပျော်သီးမှည့်တွေ သပိတ်ထဲ အလိုလိုရောက်လာတယ်ကွ။ ပိန္နဲသီးအမှည့်တွေ အမြွာလိုက် အမြွာလိုက် သပိတ်ထဲကို အလိုလိုကျရောက်လာတယ်ကွ။ အဆင်သင့်ဘုဉ်းပေးရုံပေါ့ကွာ။ ဒီလို အောင်မြင်ပြီးစီးတော့မှ ယခုပြည်မြို့အနီး ရွှေဥမင်တောရကို ငါကြွလာတာပေါ့ကွာ၊ မင်းလည်း ငါ့လိုဖြစ်ချင်ရင်၊ ငါ့လိုအောင်မြင်ချင်ရင် သမ္ဗုဒ္ဓေဂါထာကို လမ်းစဉ်အတိုင်း အတိတိက္ခဥဏ္ဏါအကျင့်လမ်းကို ကြိုးစားအားထုတ်ပေါ့ကွာ) ဟု အမိန့်ရှိဖူး၏။

ကျမ်းကိုး။ စာ-၃၂

### သိပ္ပံမျက်စိအတွက် အဆန်းအပြား

ကျွန်ုပ်လည်း ဆက်လက်ပြီး (သစ်ပင်တွေက ဆွမ်းလောင်းတယ်ဆိုတော့ ဆန်းတော့ ဆန်းကြယ်တာပဲဘုရား သစ်ပင်တွေက ဓာတ်သဘာဝ၏ ရုပ်ဝတ္ထုပစ္စည်းတွေပဲ၊ လူတွေလို အသက်ရှိတာမှ မဟုတ်တာ၊ ဒါတွေက ဆွမ်းလောင်းတယ်ဆိုတော့ တပည့်တော်ထင်ပါတယ်ဘုရား၊ ဆရာတော်ကြီး သမ္ဗုဒ္ဓေဂါထာ၏ အတိတိက္ခဥဏ္ဏါအကျင့်လမ်းကို အောင်မြင်တော်မူလို့ ရုက္ခစိုးနတ်များ၊ သစ်ပင်စောင့်နတ်များ၊ တောစောင့်နတ်များက ကြည်ညို၍ တန်ခိုး၊ ကမ္မဇိဒ္ဓိနှင့် ဆွမ်းလောင်းတာပဲဖြစ်နိုင်ပါတယ်လို့ တပည့်တော်ယူဆမိပါသည်ဘုရား) ဟုလျှောက်ထားလိုက်တော့ ရွှေဥမင်တောရဆရာတော်ကြီးမှာ ခပ်ပြုံးပြုံးနှင့် ခေါင်းတညိတ်ညိတ်နှင့် ရှိနေပါတော့သည်။

ကျမ်းကိုး။ စာ-၃၄

### ရှင်ဥတ္တမကျော်ကိုယ်တော်ကြီးကို ဖူးခဲ့ရ

အေဒီ ၁၉၆၈

တစ်ဆက်တည်းမှာပင် ကျွန်ုပ်ကျမ်းပြုစာရေးသူသည် ရှင်ဥတ္တမကျော် ပုဂ္ဂိုလ်ထူးတစ်ပါးနှင့်လည်း ခရစ်နှစ် ၁၉၆၈ ခုနှစ်ထဲမှာ ဖူးတွေ့ရဖူး၏။ ရွှေဥမင်တောရ ဆရာတော်ဘုရားကြီးထံသို့ ကြွရောက်လာရင်း ကျောင်းတိုက်တောရတွင် ခေတ္တခဏ တည်းခိုနေစဉ် ရွှေဥမင်တောရဆရာတော်ကြီး၏ အမိန့်ပေးခိုင်းစေမှုဖြင့် ကျွန်ုပ်လည်း ရှင်ဥတ္တမကျော်အား ဝတ်ကြီးဝတ်ငယ်အသွယ်သွယ်ကို ဝါတွင်း ၃ လတိတိ ပြုစုလာခဲ့ဖူး၏။

ကျမ်းကိုး။ စာ-၃၄

ရှင်ဥတ္တမကျော်နှင့်ပတ်သက်၍ ကျေးဇူးရှင်ရွှေဥမင်တောရဆရာတော်ကြီး အမိန့်ရှိဖူးသည်ကိုလည်းကောင်း၊ ရှင်ဥတ္တမကျော်ကိုယ်တော်တိုင် မိန့်ကြားမှုကိုလည်းကောင်း အောက်ပါအတိုင်း ရေးသားတင်ပြလိုက်ပါသည်။

ကျမ်းကိုး။ စာ-၃၄

http://www.dhammadownload.com



**ရှင်ဥတ္တမကျော်အကြောင်း လျှို့ဝှက်ချက်များ**

အေဒီ ၁၄၅၃

"မင်းတို့မသိကြလို့ကွ၊ ဒီရှင်ဥတ္တမကျော်၏ အသက်က ၇၀၀ လောက်ရှိပြီကွ" တစ်ကိုယ်လုံးမှာရှိသော လက်ကအမွေးအမျှင်များ ခြေထောက်က အမွေးအမျှင်များ ရင်ဘတ်က အမွေးအမျှင်များမှာ ၁ ပေခန့်ရှည်လျားစွာ ပေါက်နေတတ်၏။ အနောက်ရိုးမ၊ ရခိုင်ရိုးမဘက်များတွင် နေထိုင်သီတင်းသုံး၏။ ရှင်ဥတ္တမကျော်သည် ဒိဗ္ဗစက္ခု၊ ဒိဗ္ဗသောတ၊ မနောသိဒ္ဓိ ပြီးစီးနေသော ပုဂ္ဂိုလ်ဖြစ်၏။ ရှင်ဥတ္တမကျော်ဟာ သမ္ဗုဒ္ဓေဂါထာတော်အား အတိတိကျ လမ်းစဉ်မီအောင် နေ့စဉ်ဂါထာ ၃၀၀၀ ရအောင် ကျင့်ဆောင်၍ အောင်မြင်ပြီးစီးနေသောပုဂ္ဂိုလ်ထူးဖြစ်ကြောင်းကို ရွှေဥမင်တောရဆရာတော်ကြီးသည် ကျွန်ုပ်ကျမ်းပြု စာရေးသူအား အမိန့်ရှိဖူး၏။

**သမ္ဗုဒ္ဓေ ဂန္ထဝင်မှတ်တမ်း**

ရွှေဥမင်ဆရာတော်ကြီးကား သမ္ဗုဒ္ဓေဂါထာတော်အား အတိတိကျဥဿုံအကျင့်လမ်းဖြင့် အောင်မြင်ပြီးစီးခဲ့၏။ ရှင်ဥတ္တမကျော်ကား အတိတိကျလမ်းစဉ်ရိုးရိုးဖြင့်အောင်မြင်ပြီးစီးခဲ့၏ဟု မှတ်တမ်းအရသိရပါသည်။

ကျမ်းကိုး။ စာ-၃၄

**အကျင့်မြတ်ဖြစ်ကြောင်း သိသူဖော်စား မသိသူကျော်သွား**

သမ္ဗုဒ္ဓေဂါထာတော်ကြီးအား အတိတိကျအကျင့်မြတ်လမ်းစဉ်ကို အရိုးကျေကျေ အရေစုပ်စုပ် နောက်မဆုတ်တမ်း လပေါင်းနှစ်ပေါင်းများစွာ ကျင့်ဆောင်တော်မူ၍ တန်ခိုးအမျိုးမျိုး၊ အာဏာအမျိုးမျိုး၊ စွမ်းအားသတ္တိအမျိုးမျိုး၊ သိဒ္ဓိအမျိုးမျိုးတို့ကို ပိုင်ဆိုင်ပြီးစီးနေကြကြောင်းကို ကျွန်ုပ်ကျမ်းပြုစာရေးသူ ကိုယ်တိုင်ကိုယ်ကျ လက်တွေ့ ကိုယ်တွေ့ တွေ့မြင်ဖူးမြင်ခဲ့ရသော ဆရာတော်ကြီး ၂ ပါးပင် ဖြစ်ပါသည်။

ကျမ်းကိုး။ စာ-၃၅

**အကြောင်းအရင်း ဖွင့်ဟချက်**

ကျမ်းရေးသူ ကိုယ်တိုင်ပင် ဤဆရာတော်ကြီးမှာထံ နည်းနိဿယခံယူခဲ့ပြီး သမ္ဗုဒ္ဓေဂါထာတော်ကို မဏ္ဍိုအကျင့်ဖြင့် ခဏခဏ အောင်မြင်ခဲ့ဖူး၏။

အေဒီ ၁၉၇၂

၁၉၇၂ခုနှစ်မှစ၍ ၁၉၇၅ ခုနှစ်အထိ ၃ နှစ်တိုင်တိုင် သမ္ဗုဒ္ဓေဂါထာတော်ကို တိကျပဏီတ ကျင့်စဉ်အတိုင်း အောင်မြင်ပြီးစီးခဲ့ဖူး၏။

ကျမ်းကိုး။ စာ-၃၅

**တကယ်လုပ်လျှင် တကယ်ဖြစ်ပါသည်။**

တကယ် ကျင့်ဆောင်အားထုတ်နိုင်ပါလျှင် ပေါက်မြောက်မည်မှန်းလည်း သိနေသည်။

**ရွှေဥမင်ဆရာတော် ခန္ဓာဝန်ချသည်ကို ကိုယ်တွေ့ ဖြစ်ရပ်ဆန်း**

အေဒီ ၁၉၇၂

ဤသို့ဖြင့်ခရစ်နှစ် ၁၉၇၂ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၇ ရက်နေ့တွင်ဘုရား၊ ရဟန္တာ၊ ပစ္စေကဗုဒ္ဓါတို့ပင် မလွန်ဆန်နိုင်သော သဘာရသဘောတရားအတိုင်း ရွှေဥမင်တောရ ဆရာတော်ကြီးပျံလွန်တော်မူခဲ့၏။ ထိုဆရာတော်ကြီးပျံလွန်တော်မူသည့်အခါ ကျွန်ုပ်ကျမ်းပြု စာရေးသူလက်ထဲမှာပင် ပျံလွန်တော်မူခဲ့၏။

**မပုပ်မသိုးသော ရုပ်ကလာပ်တော်**

အလောင်းတော်အား ခေတ်မီ ဆေးဝါးထိုးခြင်း၊ မပုပ်မသိုးအောင်ဆောင်ရွက်ထားခြင်း လုံးဝ မရှိ၊ ဆရာဝန်ခေါ်၍ မပုပ်မနံအောင်ဆေးဝါးဖြင့် လုံးဝစီရင်ထားခြင်းမရှိ။ ၃ လတိတိ

http://www.dhammadownload.com



ဤအတိုင်း မူလမပျက်ထားရှိပါသည်။ ထို ၃ လအတွင်း ၃ လအထိမည်သည့်အနံ့မျှ မရှိမထွက် မပုပ်မသိုးပါဘဲလျက် အလောင်းတော် အနားကပ်သည့်အခါ နံ့သာရည်နံ့ကိုပင် မွှေးကြိုင်နေသည်ကို လူအများပရိသတ်အများ သံဃာအများပင် ဖူးတွေ့ရ၏။

**မပုပ်မသိုးသော ရုပ်ကလာပ်တော်နှင့်**
**အတူတကွ ၃ လတိုင်တိုင် ပူဇော်ခဲ့ခြင်း**

လာသမျှသော ပရိသတ်အများ ဆွမ်းသွတ်၊ သပိတ်သွတ်၊ တရားနာ ရေစက်ချသည်မှာ နေ့စဉ် လိုလို ရှိကြ၏။ ကျွန်ုပ်ကျမ်းပြုစာရေးသူသည် ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်နှင့် ကျွန်ုပ် ခန္ဓာကိုယ် ထိကပ်ထားလျက် ထိုင်၍ သီလပေးခဲ့ခြင်း ရေစက်ချပေးခဲ့သည်။ ၃ လတိုင်တိုင် ရုပ်ကလာပ်တော်နှင့် ကျွန်ုပ်ထိကပ်စွာလည်း နေထိုင်ဧည့်ခံလာခဲ့သည်။ အံ့ဩစရာကောင်း လှသည်မှာ မည်သည့်အနံ့ အသက်မှ မရှိဘဲ၊ အပုတ်ရည်လည်း တစ်စက်တလေမှ ထွက်ကျ လာခြင်း မရှိပါဘဲ၊ နံ့သာနံ့ မွှေးကြိုင်နေသည်ကို ကိုယ်တွေ့လက်တွေ့ တွေ့ကြုံခဲ့ရပါ၏။

ကျမ်းကိုး။ ဘဒ္ဒန္တဝေပုလ္လ၊ သမ္ဗုဒ္ဓေဂါထာတော်အဖွင့်ကျမ်း၊ စာ ၃၇။

သမ္ဗုဒ္ဓေဂါထာတော်၏ စွမ်းအားသတ္တိသည် သေတာတောင် မပုပ်မသိုးအောင်၊ အနံ့မထွက် အောင် အပုပ်ရည် တစ်စက်မှ မကျအောင်၊ နံ့သာရည် သင်းနေအောင် စွမ်းဆောင်နိုင်ပါက လားဟု မှတ်ချက်ချမိပါတော့သည်။

ကျမ်းကိုး။ ဘဒ္ဒန္တဝေပုလ္လ၊ သမ္ဗုဒ္ဓေဂါထာတော်အဖွင့်ကျမ်း၊ စာ ၃၇။

အထူးအံ့ဩစရာတစ်ချက်မှာ အလောင်းတော်ကို ၃ လတိတိထားရှိ အပူဇော်ခံနေစဉ် အတွင်း တောနေဆင်များ၊ မျောက်များ၊ ကျားသစ်ပေါက်များ၊ တောကြောင်များ၊ ခွေးအများ၊ သမင်များ၊ ယုန်များ၊ မြွေကြီးများသည် ဆရာတော်၏ ရုပ်ကလာပ်နားထိ ချဉ်းကပ် ပူဇော် ကြပုံကိုလည်း မျက်ဝါးထင်ထင် မြင်တွေ့ခဲ့ရ၏၊

ကျမ်းကိုး။ ဘဒ္ဒန္တဝေပုလ္လ၊ သမ္ဗုဒ္ဓေဂါထာတော်အဖွင့်ကျမ်း၊ စာ ၃၇။

(၃) လတိတိ အပူဇော်ခံထားပြီး၍ တနင်္ဂနွေနေ့ မွန်းတည့် ၁၂ နာရီတိတိ အချိန်တွင် မူလ ရုပ်မပျက် မူလပကတိအတိုင်း အုတ်ဂူသွင်း၍ အပေါ်မှ စေတီပေါက်ချ အပြီးပိုင် သင်္ဂြိုဟ်ပြီးစီး ခဲ့ပါသည်။

ကျမ်းကိုး။ ဘဒ္ဒန္တဝေပုလ္လ၊ သမ္ဗုဒ္ဓေဂါထာတော်အဖွင့်ကျမ်း၊ စာ ၃၈။

**အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ ဘဒ္ဒန္တဝေပုလ္လကိုယ်တွေ့ မိန့်ကြားချက်**

အကျွန်ုပ် ကျမ်းပြုအရှင်၏ ဆရာသခင်တစ်ပါး ဖြစ်တော်မူပေသော ဓမ္မသိဒ္ဓိပါရဂူ လေးကျွန်း ပိုင် ဆရာတော်ဘုရားကြီးသည် မင်းကင်း ကလေးမြို့အနီး မဟာမြိုင်တောကြီးထဲတွင် ခုနစ်နှစ် တိုင်တိုင် တရားအားထုတ်လာခဲ့သော အတွေ့အကြုံ အဖြစ်အပျက်တစ်ခုကို အကျွန်ုပ်အား ပြောပြ အမိန့်ရှိခဲ့ဖူးပါသည်။ ထိုအဖြစ်အပျက်တစ်ခုမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

ကျမ်းကိုး။ ဘဒ္ဒန္တဝေပုလ္လ၊ သမ္ဗုဒ္ဓေဂါထာတော်အဖွင့်ကျမ်း၊ စာ ၁၁၆။

**မဟာမြိုင်တောကြီးအတွေ့အကြုံ အံ့ဖွယ်အစစ်အမှန်**

အစ ပထမတော့ မဟာမြိုင်တောထဲ ရောက်လာတော့ အားထုတ်ဖို့နေရာကောင်းကောင်း၊ ရှာရတယ်ကွဲ့၊ သစ်ပင်ကြီးကြီး အောက်ခြေ သစ်အခေါင်းပါတာကို လိုက်ရှာရတယ်။ တွေ့တဲ့ အခါကျတော့ ထိုသစ်ခေါင်းအပေါက်ကို လူတစ်ကိုယ် နေစရာရအောင် ထွင်းရတာပေါ့ကွာ။ ပြီးတော့လည်း ကိုယ်က ဘာတစ်ခုမှ မပြီးသေး၊ မအောင်မြင်သေးတော့ မြွေလည်းကြောက်ရ၊ ကျားလည်း ကြောက်ရ ဆိုတော့ အထဲထဲကို လူဝင်နေရင် အပြင်ဘက် ဘယ်သူမှ ဝင်၍မရ

http://www.dhammadownload.com



အောင်၊ အထူးသဖြင့် ကျားတို့ ကျားသစ်တို့ ဝက်ဝံတို့ ဝင်၍ မရအောင် (ဝါးကပ်)ကို ယက်ပြီး ကာထားရတယ်ဟေ့။ ကာပြီးရင် အထဲက သစ်သားတစ်ချောင်းနှင့် အနေတော်လှမ်းပြီး ထောက်ထားရတာပေါ့ကွာ။ ဒါဆိုလျှင် အပြင်ဘက်က ကျားတို့ ဝက်ဝံတို့ ရုတ်တရက် မဝင်နိုင်တော့ဘူးပေါ့ကွာ။

ကျမ်းကိုး။ ဘဒ္ဒန္တဝေပုလ္လ၊ သမ္ဗုဒ္ဓေဂါထာတော်အဖွင့်ကျမ်း၊ စာ ၁၁၆။

**ရွှေဥမင်ဆရာတော်ကိုယ်တိုင် ပေးခဲ့သော**
**နည်းကောင်း နည်းမြတ်အစစ်အမှန်**

ဒါနဲ့ ငါ ဆရာတော်လည်း နေ့ခင်းဘက်ကို သမ္ဗုဒ္ဓေဂါထာများကို အစထားပြီး ဂါထာ (တစ်ထောင်) ရအောင် ရွတ်စိပ်တယ်ဟေ့။

**ညလုံးပေါက် မဟာသရဏဂုံ ၃၀**

ညဘက်ကို ရောက်ရင်တော့ မဟာသရဏဂုံ ၃၀ ကို ညလုံးပေါက် ရွတ်ဖတ်သရဇ္ဈာယ်ခဲ့ရတယ်ကွဲ့။ ဒီအတိုင်း နေ့စဉ် ညစဉ် အပင်ပန်းခံ ပြီး ရက်မပျက်ဘဲ ရွတ်ဖတ်သရဇ္ဈာယ် အားထုတ်ခဲ့ပါတယ်ကွာ။

**တောထဲ တောင်ထဲ အသက်သတ်လွတ်နှင့် သစ်ရွက်ကရသော ဆားများ**

တောထဲ တောင်ထဲဆိုတော့ အသက်သတ်လွတ် စားရတော့ပေါ့ကွာ။ အသက်သတ်လွတ် စားတယ်ဆိုတော့ မီးနဲ့ထင်းနဲ့ ဆီနဲ့ ချက်ပြုတ်မနေတော့ဘူး။ ဒီလိုအချိန်လည်း မရခဲ့ဘူး၊ ဒီတော့ စားကောင်းတဲ့ သစ်ရွက်တွေခူး၊ သစ်သီးတွေ ရှာကြံခူးပြီး ဆားနဲ့တို့ပြီး စားခဲ့ရတယ်ကွဲ့။ ဆားကတော့ ကိုယ့်ဟာကိုယ် ဝါးရွက်တွေကို ဆားချက်ထားရတာပေါ့ကွာ။ ဒါက အစောကြီးထဲက လုပ်ထားရတာပါပဲ။

**မဟာမြိုင်မှာ ၄ နှစ် ကျင့်သော်လည်း ဘာမျှမဖြစ်သော လျှို့ဝှက်ချက်**

ဒီလိုနဲ့ မဟာမြိုင်တောကြီးထဲမှာ တစ်ပါးတည်း အားထုတ်ပွားများလာရာမှာ နှစ်ပေါင်း ၄ နှစ်တိတိ ကြာသွားတဲ့အခါ ဘာမှမအောင်မြင်၊ ဘာမှလည်းမသိ၊ ဘာမှလည်းမမြင်၊ ဘာဝိဇ္ဇာအတတ်တစ်ခုကိုမှ မရ။ ရိုးရိုးသာမန်လူလိုပဲ၊ သာမန်ရဟန်းလိုပဲ ဖြစ်နေခဲ့တာ ကြာလာတော့ ငါလည်း စိတ်ပျက်စပြုလာခဲ့ပြီ။

**၄ နှစ်လုံးလုံး ကြာညောင်းခဲ့ခြင်း**

ဒီလောက် ၄ နှစ်သာကြာအောင် အားထုတ်သရဇ္ဈာယ်လာခဲ့တာ ဘာတစ်ခုမှ မဖြစ်လာကောင်းလားဟု စိတ်ထဲမှာ ရေရွတ်နေရင်းနဲ့ တော်ပြီ ငါရပ်တော့မယ်၊ ဒီလောက် ၄ နှစ်ကြာအောင် အားထုတ်လာခဲ့တာ ကိုယ်ဆင်းရဲ၊ စိတ်ဆင်းရဲ၊ အစားဆင်းရဲ၊ အနေဆင်းရဲတာပဲ အဖတ်တင်တယ်၊ ကံကောင်းလို့ ကျားစာမဖြစ်သေးတာ။

**မဟာမြိုင်တောမှ**
**ထွက်တော်မူ နန်းကခွာတယ်ဆိုသည့်အလား**

ဆရာတော်လည်း ငါမန္တလေး ပြန်ပြီးတော့ သံဃာတွေကို စာချနေတာပဲ ကောင်း တော့တယ်ဟု ဆိုပြီး အခုည တစ်ညအိပ်ပြီး မနက်ဖြန် မဟာမြိုင်တောကထွက်တော့မယ်။ မန္တလေးမြို့ဘက်ကို ငါပြန်ကြွတော့မယ်ဟု ဆုံးဖြတ်ပြီး သစ်ခေါင်းထဲမှာ ဘာမှမလုပ်တော့ဘဲ သက်န်းခြုံပြီး အိပ်စက်တော့တယ်ကွာ။

ကျမ်းကိုး။ ဘဒ္ဒန္တဝေပုလ္လ၊ သမ္ဗုဒ္ဓေဂါထာတော်အဖွင့်ကျမ်း၊ စာ ၁၁၆။

http://www.dhammadownload.com



**ထူးဆန်းသော အိပ်မက်**

မှေးခနဲ အိပ်အပျော် ထင်ထင်ရှားရှား အိပ်မက်တစ်ခု မြင်မက်တော့တယ်ပေ့ါ၊ အိပ်မက်ထဲမှာ အခု ငါအိပ်စက်နေတဲ့ သစ်ပင်ကြီးက စောင့်နေတဲ့ ရုက္ခစိုးနတ်က ငါ့ကိုလာပြီး ပြောပြနေတာပေါ့ -

**ရုက္ခစိုးပေးသော အိပ်မက်အံ့ဖွယ်**

ကိုယ်တော်က ဝီရိယလည်းကောင်းတယ်၊ အပင်ပန်းလည်း ခံနိုင်တယ်၊ ဇွဲလည်း ရှိတယ်၊ ဒါပေမဲ့ တစ်သက်လုံးကြာသွားအောင် ကိုယ်တော်အားထုတ်လည်း ဘာမှပြီးမှာ မဟုတ်ဘူး၊ ဘာမှလည်း ရမှာမဟုတ်ဘူး၊ ဘာတစ်ခုမှ အောင်မြင်မှာလည်း မဟုတ်ဘူးဟု အိပ်မက်ထဲမှာ ပြောဆိုလျှောက်ထားနေပါတော့တယ်။ ပြီးတော့ ရုက္ခစိုးနတ်က ဆက်ပြီး ငါ့ကို လျှောက်ထားသေးတယ်ပေါ့။

ကျမ်းကိုး။ ဘဒ္ဒန္တဝေပုလ္လ၊ သမ္ဗုဒ္ဓေဂါထာတော်အဖွင့်ကျမ်း၊ စာ ၁၁၉။

**လုပ်ထုံး လုပ်နည်း ပေါက်ပုံပေါက်နည်းဖြစ်ရပ်ဆန်း လျှို့ဝှက်ချက်**

ကိုယ်တော်က သမ္ဗုဒ္ဓေကို သရဏဂုံတို့ကို အားသာ အားထုတ်တာ၊ စုမှ မစုဆောင်းတတ်တာ၊ သိမ်းမှ မသိမ်းတတ်တာ၊ စုမှ မစုတတ်တာ၊ ဘယ်ပေါက်မြောက်နိုင်မှာလဲ၊ ဒီအတိုင်းသာ ကျင့်နေ၊ ကိုယ်တော်ပျံလွန်တော်မူတာတောင် ဘာတစ်ခုမှ အောင်မြင်မှာမဟုတ်ဘူး၊ အောင်မြင်ချင်ရင် ကိုယ်တော့်ကို နည်းတစ်ခုပေးရဦးမယ်။

**သစ္စာတရား လက်ကိုင်ထားဟု ရုက္ခစိုးက လျှောက်ထား**

မည်သည့်အကျင့်ကိုပဲ ကျင့်ကျင့်၊ ဂုဏ်တော်ကိုပဲ ကျင့်ကျင့်၊ သရဏဂုံကိုပဲ ကျင့်ကျင့်၊ ပရိတ်ပဲ ရွတ်ရွတ် သစ္စာအဓိဋ္ဌာန်ပြု၍ရွတ်၊ သစ္စာအဓိဋ္ဌာန်နှင့် ချုပ်၍ မိမိအကျင့်တွေကို စုစည်း၍ စုဆောင်း၍ မိမိ၏ ခန္ဓာငါးပါးမှာ သိမ်းဆည်းထားတတ်ပါစေ။ လိုရာဆုတောင်း လျှင်လည်း ပြုထားသည့် သစ္စာအတိုင်း၊ အဓိဋ္ဌာန်အတိုင်း၊ သစ္စာပြု အဓိဋ္ဌာန်ပြု၍ ဆုတောင်းတတ်ပါစေ။ ဒီလိုသာ ကိုယ်တော် အားထုတ်သွားလျှင် မကြာခင်မှာပဲ သိဒ္ဓိမှန်သမျှ၊ တန်ခိုးမှန်သမျှ ပညာစခန်းပါ ကိုယ်တော် အောင်မြင်ပြီးစီးပါလိမ့်မယ်။ မန္တလေးကို ပြန်မကြွပါနှင့်ဦး။ အခု တပည့်တော် လျှောက်ထားတဲ့အတိုင်း ကိုယ်တော် အားထုတ် သရဏ္ဍာယ်ကြည့်ပါဦးဟု ရုက္ခစိုးနတ်က အိပ်မက်ထဲမှာ လျှောက်ထားပြီး ပျောက်ကွယ်သွားပါတော့၏။

ကျမ်းကိုး။ ဘဒ္ဒန္တဝေပုလ္လ၊ သမ္ဗုဒ္ဓေဂါထာတော်အဖွင့်ကျမ်း၊ စာ ၁၂၀။

**နောက်ထပ် ၃ နှစ်**

ဒါနဲ့ ဆရာတော်လည်း မဟာမြိုင်တောကြီးထဲမှာ နောက်ထပ် ၃ နှစ်ဆက်တိုက် အားထုတ်သရဏ္ဍာယ်ခဲ့တယ်ပေါ့။ ဒီတော့မှ ငါလည်း လောကီပညာစခန်းများ၊ ဝိဇ္ဇာဉာဏ်တန်ခိုးများ အောင်မြင်ပြီးစီးခဲ့တော့တယ်ကွဲ့။

ဆက်လက်ပြီး ဓမ္မသိဒ္ဓိ ပါရဂူ လေးကျွန်းပိုင် ဆရာတော်ကြီးသည် ဆက်လက် အမိန့်ရှိခဲ့သည်မှာ -

ရုက္ခစိုးနတ် အိပ်မက်ထဲမှာ လျှောက်ထားသည့်အတိုင်း ၃ နှစ်တိတိ နေ့စဉ်ရက်ဆက် ပွားများအားထုတ်လာတော့မှ သိဒ္ဓိပညာ၊ မဟိဒ္ဓိပညာများ၊ ရုက္ခစိုး၊ ဘုမ္မစိုးနတ်များ၏ ပညာများ၊ အသိအမြင်ပညာများ အောင်မြင်ပြီးစီးလာရတော့တယ်ကွဲ့။ ဒီတော့မှ ညဘက်အမျှအတန်းပေးဝေလျှင် မဟာမြိုင်တောကြီးထဲမှာ လူတစ်ယောက်မှ မရှိပါဘဲနှင့် တစ်တောလုံး သာဓုခေါ်သံများ ကျယ်လောင်စွာ ကြားလာရတော့တယ်။ တောထဲမှာ တစ်ပါးတည်း ဆွမ်းခံကြွခဲ့

http://www.dhammadownload.com



လျှင်လည်း လူသူ ပရိသတ် မရှိဘဲနှင့် သစ်ပင်အနီးမှာ ဆွမ်းခံလျှင် သပိတ်ထဲသို့ သစ်သီးများ အလိုလိုရောက်ရှိပြီး ရုက္ခစိုးနတ်များက သစ်သီး ဆွမ်းများ ဆက်ကပ်ကြောင်း သိလာရတော့ တယ်။

ကျမ်းကိုး။ ဘဒ္ဒန္တဝေပုလ္လ၊ သမ္ဗုဒ္ဓေဂါထာတော်အဖွင့်ကျမ်း၊ စာ ၁၂၁။

**လူမရှိဘဲ သာဓုခေါ်သံ တောလုံး ညံ**

သုံးနှစ်တိတိ အားထုတ်ရွတ်ဖတ် သရဇ္ဈာယ်ပြီးနောက် ညဘက်များတွင် အမျှပေးဝေရာ၌ လူသူလေးပါး တစ်ဦးတစ်ယောက်မှ မရှိဘဲ၊ မမြင်ရဘဲနှင့် တစ်တောလုံး၊ တစ်တောင်လုံး အသံကျယ်လောင်စွာဖြင့် သာဓုခေါ်သံများ ကြားသိခဲ့ရပြီးနောက် တစ်တောလုံး တစ်တောင် လုံး အသံကျယ်လောင်စွာဖြင့် ဓမ္မသိဒ္ဓိ ပါရဂူ လေးကျွန်းပိုင်ဆရာတော်ဟု ယနေ့ကစ၍ ဘွဲ့အမည်တွင်ပါစေဟု အော်ဟစ် ကြွေးလာကြရတာကို ကြားသိလာခဲ့တယ်။

**သစ္စာတန်ခိုး မိုးထိထိုး**

ဒီအချိန်က စ၍ ငါလည်း အကျင့်စခန်း၊ သစ္စာအဓိဋ္ဌာန် အကျင့်လမ်းဟာလည်း အောင်မြင် ပြီးစီးလာရတော့တယ်ဟောဟု

အေဒီ ၁၉၆၄ ၁၉၆၄ ခုနှစ်ထဲတွင် ဓမ္မသိဒ္ဓိ ပါရဂူ လေးကျွန်းပိုင် ဆရာတော်ကြီးက အကျွန်ုပ် ကျမ်းပြုအရှင်အား အမိန့်ရှိခဲ့ဖူးသော မဟာမြိုင်တောတွင်း အကျင့်စခန်းနှင့် ပတ်သက်၍ အဖြစ်အပျက်တစ်ခုအဖြစ် မှတ်တမ်းတင်မိပါသည်။

ကျမ်းကိုး။ ဘဒ္ဒန္တဝေပုလ္လ၊ သမ္ဗုဒ္ဓေဂါထာတော်အဖွင့်ကျမ်း၊ စာ ၁၂၁။

ရွှေဥမင်ဆရာတော်ဟူ၍ ရန်ကုန်မှာလည်း ရှိသေး၏။ ၎င်းအပြင် မဟာမြိုင်တောကြီးအနီးတွင် လည်း ရွှေဥမှင်တောရွာဟူ၍လည်း ရှိသေး၏။ ၎င်းအပြင် မန္တလေးအနီး စစ်ကိုင်းတောင်တော် ကြီးတွင်လည်း တောင်ဖီလာ ဆရာတော်ကြီးနှင့် ခေတ်ပြိုင် ရွှေဥမှင် ဟူ၍လည်း ရှိသေး၏။ ယခုရွှေဥမှင်ဆရာတော်ကား အမည်တူသော်လည်း သီးခြားဂုဏ်ထူးရှိ၏။ မူလက ရွှေဥမှင်ဟု လူသိများသော်လည်း -

**နတ်များ ပေးသောဘွဲ့**

ဤဓမ္မသိဒ္ဓိပါရဂူ လေးကျွန်းပိုင်ဆရာတော်ကြီး၏ ဘွဲ့တော်မှာ မဟာမြိုင်တောကြီးထဲတွင် တရားအားထုတ်ပြီးနောက် မဟာမြိုင်တောကြီးထဲမှာ နတ်များက အသံကျယ်လောင်စွာဖြင့် ပေးအပ်ခဲ့သော၊ နတ်များက သမုတ်ပေးလိုက်သော ဘွဲ့တော်ဖြစ်သည်ဟု သိမှတ်ကြရာ၏။

ကျမ်းကိုး။ ဘဒ္ဒန္တဝေပုလ္လ၊ သမ္ဗုဒ္ဓေဂါထာတော်အဖွင့်ကျမ်း၊ စာ ၁၂၁။

**ခန္ဓာဝန်ချတော်မူခြင်းမှတ်တမ်း**

အေဒီ ၁၉၇၂ ရွှေဥမှင်ဆရာတော်ဘုရားကြီးသည် ခရစ်နှစ်၁၉၇၂ ခုနှစ် နိုဝင်ဘာလ ၁၂ ရက်နေ့ တနင်္ဂနွေ နေ့ နံနက် ၆ နာရီတိတိတွင် ခန္ဓာဝန်ချတော်မူကြောင်း မှတ်တမ်းရှိပါသည်။

ဓာတ်တော်တဖွားဖွားကျတော်မူသော ရဟန္တာကြီး

# ဘိုးဒေဝိန္ဒ

– ၁၉၅၆



http://www.dhammadownload.com



ဘိုးဒေဝိန္ဒ ဆရာတော်ဘုရားကြီးသည် ရတနာမဥ္ဇူသိမ်တိုက်တွင် သီတင်းသုံးတော်မူပါသည်။ ၎င်းဆရာတော်ဘုရားကြီး၏ ဆရာမှာ ဒုတိယ ရက်ကန်းစင်တောင်ဆရာတော်ဘုရားကြီး ဇင်းဗျိုးဦးဥက္ကံသ ဆရာတော်ဘုရားကြီးထံမှ ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်း၊ မေတ္တာကမ္မဋ္ဌာန်း၊ အသုဘကမ္မဋ္ဌာန်းတရားများကို သင်ယူကြိုးစားပွားများ အားထုတ်တော်မူပါသည်။

ကျမ်းကိုး။ ဝိဇ္ဇာ ၊ ၂၀၀၈၊ နိုဝင်ဘာလ- စာမျက်နှာ - ၇၅

တောင်ဗိလာဆရာတော်ဘုရားကြီး ဦးဝိလာသ၏ ဆရာရင်း ဘိုးဒေဝိန္ဒဆရာတော် ဘုရားကြီး ဖြစ်ပါသည်။

တောင်ဗိလာဆရာတော် ဦးဝိလာသသည် ရဟန်းဘဝရောက်ပြီး မန္တလေးမြို့ အနောက်ပြင် ပထမဆုံး ခင်မကန်တိုက်ကျောင်းနှင့် ဒုတိယဝွေးချိုတိုက် ရွှေပြည်အုဋ်ကျောင်းတွင် သီတင်းသုံးနေစဉ် တစ်ညသ၌ ကျောက်ဆင်းတု ရုပ်ပွားတော်ကြီး တစ်ဆူက မြောက်အရပ်သို့ လက်ညှိုးညွှန်ပြသည်ကို အိပ်မက်မက်ပါသည်။

ကျမ်းကိုး၊ ယင်းစာ ၇၅

အိပ်မက်မက်ပြီး (၂) ရက် (၃) ရက်အကြာတွင် ဝွေးချိုတိုက် အရှေ့ဘက်နေ ကုလားကပြား မောင်အေးဆိုသူ ဒကာတစ်ဦးထံမှ သတင်းထူးကြားရပါသည်။ ထိုသတင်းအံရ ဘိုးဒေဝိန္ဒ ကိုယ်တော်ကြီးနှင့် တောင်ဗိလာဆရာတော်တို့ တွေ့ဆုံရခြင်း ဖြစ်ကြောင်း သိရပါသည်။

"ဦးပဥ္စင်း ပုတီးစိပ်ဝါသနာပါရင် ပုတီးစိပ်နည်းပြတဲ့ ဆရာရှိပါသည်။ ဦးဒေဝိန္ဒဟု ခေါ်၍ တပည့်တော် လိုက်ပို့ပါမည်။ ဆရာတော် ဦးဒေဝိန္ဒက ဂုဏ်တော်ပုတီးစိပ်နည်း၊ မေတ္တာပို့ပုံ ပို့နည်းများ အကုန်သင်ကြားပြသပေးပါသည်" ဟု လျှောက်ထားသဖြင့် ဝမ်းသာအားရနှင့် "ကိုင်း အခုသွားရ အောင်" ပြောလိုက်သောအခါ "နေဦး . . ဝွေးချိုဆရာတော်ကြီးလည်း ခေါ်ချင်သေးတယ်" ဆိုပြီး ဝွေးချိုတိုက်အုပ်ဆရာတော်ကြီး ဦးဝိဇယနှင့်အတူ သိမ်တိုက်ဆရာတော်ကြီး ဦးဒေဝိန္ဒထံ သွားရောက်ကြပါသည်။

ကျမ်းကိုး၊ ယင်းစာ-၇၅

ဆိုင်းတန်း၊ သင်္ဘောတန်းမြောက်ဘက်၊ ကုလားသချိုင်း၊ ပုဏ္ဏားသချိုင်းတို့ကို ဖြတ်ပြီး ပုဏ္ဏားဈေး ကျောက်လမ်း မြောက်ဘက်သို့ သွားရပါသည်။

ထိုစဉ်က ဘိုးဒေဝိန္ဒဆရာတော်ကြီးမှာ ထိုဆိုင်းတန်းတွင်ပင်နေကြောင်း အထင်အရှား သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ ၇၅

မင်းတဲအီကင်း၊ ရွှေပြည်ရပ်၊ ရတနာ မဥ္ဇူတိုက်ဆရာတော်ကြီး ဦးဒေဝိန္ဒထံ ဤအရှင်နှင့် ဝွေးချိုတိုက်အုပ် ဆရာတော်ကြီး ဦးဝိဇယတို့ ရောက်သွားသောအခါ ဝမ်းမြောက်လှိုက်လှဲစွာနှင့် ညွှန်ကြားပြသကြောင်း တောင်ဗိလာဆရာတော် ဦးဝိလာသ ကိုယ်တော်တိုင် ဖွင့်ဟဝန်ခံခဲ့ပါသည်။

ဂုဏ်တော်ပွားများပုံ၊ ပုတီးစိပ်နည်း၊ ဗုဒ္ဓါနုဿတိ ကမ္မဋ္ဌာန်းပွားများ အားထုတ်ပုံ၊ မေတ္တာပို့နည်းများကို ဟောပြောပြသတော်မူပါသည်။ ညနေပိုင်း (၃) နာရီမှ ည ၁၂ နာရီတိုင်အောင် ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၅

http://www.dhammadownload.com



## ဘိုးဒေဝိန္ဒ၏ပညာအမွေကို တောင်ဗီလာ ဦးဝိလာသ ဆက်ခံခြင်း

ဆရာတော်ကြီး ဦးဒေဝိန္ဒထံသို့ နေ့စဉ် တစ်ခါတစ်ရံ တစ်ရက်ခြား သွားရောက်၍ ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်း၊ မေတ္တာကမ္မဋ္ဌာန်းများ လျှောက်ထားမေးမြန်း၍ နည်းနာခံယူ ဆည်းပူးသင်ကြားခြင်း ပြုလုပ်ရပါသည်ဟု တောင်ဗီလာ ဆရာတော် ဦးဝိလာသက မိမိ၏ ဆရာအမည်ကို ဝန်ခံတော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းစာ ၇၅

နေ့စဉ် သွားရောက်ဆည်းပူး၍ ရက်၊ လ အတန်ကြာသည့်အခါတွင် တစ်နေ့၌ ဆရာတော်ကြီး ဦးဒေဝိန္ဒက မိမိ၏ တပည့်ဖြစ်သူ တောင်ဗီလာဆရာတော် ဦးဝိလာသကို ပညာအရာတွင် ကျေနပ်နှစ်သက်တော်မူသဖြင့် အောက်ပါအတိုင်း အမိန့်ရှိပါသည်။

"ငါ့ဆီမှာတင် တင်းတိမ်မနေနဲ့၊ ငါတို့ ဆရာတော်ကြီး ဦးဥက္ကံသရှိတယ်။ ဆရာတော်ကြီး ဦးဥက္ကံသထံ သွားရောက်ပညာယူရမည်။ သွားဖြစ်အောင် သွားရမယ်"

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၆

## နက္ခတ်ပိုင်ဆရာတော် ဇင်းမျိုး ဦးဥက္ကံသနှင့်တော်ပြုင်ပြစ်ခြင်း

ဦးဥက္ကံသ ဆရာတော်ကြီးမှာ နက္ခတ်ပိုင်ဆရာတော်ဟု အကျော်တစော ရှိတော်မူသော ပုဂ္ဂိုလ်ကျော် ဖြစ်ပါသည်။

> ကျမ်းကိုး၊ နက္ခတ်ပိုင် ဇင်းမျိုး ဆရာတော်ဘုရား ဟူသော စာသားကို တောင်ဗီလာ ဆရာတော် ဦးဝိလာသ သက်ရှိထင်ရှားရှိစဉ်က ဆရာတော် ဦးဝိလာသ ကိုယ်တော်တိုင် လက်ညှိုးထိုး၍ ပြသခဲ့သောကြောင့် သိခွင့်ရခြင်း ဖြစ်ပါသည်။ ထိုဓာတ်ပုံကို တောင်ဗီလာဆရာတော်၏ ကျောင်းတော်အောက်ထပ်တွင် တွေ့ရှိရပါသည်။ ထိုစဉ်က တောင်ဗီလာဆရာတော်ကြီးသည် ချီးမြှင့်သင့်သည်ကို ချီးမြှင့်ခဲ့ပါသည်။ ပြောသင့်ပြောထိုက်သည်တို့ကို အတွင်းကျကျ ပြောဆိုခဲ့ပါသည်။ မောင်ပန်းမွှေး။

## တပည့်အရင်းဖြစ်သူ တောင်ဗီလာဆရာတော်သည် သုသာန်၌တင် ၁၂ နှစ်အားထုတ် အောင်မြင်ခြင်း

ဇင်းမျိုး ဦးဥက္ကံသ ဆရာတော်ဘုရားကြီးထံသို့ နှစ်စဉ် တစ်နှစ်တစ်ခေါက် သွားရောက်၍ ပညာများဆည်းပူးပြီး မန္တလေးသို့ ပြန်ကြွလာလိုက်၊ ဦးဒေဝိန္ဒဆရာတော်ကြီးအား အနီးကပ် ပူဇော်သမ္မာပြုလိုက်၊ ရွာဟိုင်းသုသာန်သို့သွား၍ (၁၂) နှစ်တိုင်တိုင် တရားအားထုတ်တော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၆

ဘိုးဒေဝိန္ဒဆရာတော်ဘုရားကြီးသည် ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်း၊ မေတ္တာကမ္မဋ္ဌာန်းနှင့် အသုဘကမ္မဋ္ဌာန်းတရားတို့ကို အစဉ်ပွားများ အားထုတ်တော်မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၆

## တောင်ဗီလာ ဦးဝိလာသ တောထွက်ခြင်း အရင်းအမြစ်

အေဒီ ၁၉၄၆ မြန်မာသက္ကရာဇ် ၁၃၀၈ ခုနှစ်တွင် ဝါဆိုလဆန်း (၈) ရက်နေ့၌ ဦးဒေဝိန္ဒ ဆရာတော်ဘုရားကြီးနှင့် စစ်ကိုင်းစေတီလှ ဆရာတော်ဘုရားကြီး ဦးသုမနတို့က တောင်ဗီလာဆရာတော်လောင်းလျာ ဦးဝိလာသကို တောင်ဗီလာမဟာတောရသို့ စတင်၍ တောထွက်တော်မူစေခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၆

http://www.dhammadownload.com



အေဒီ ၁၉၄၆ သက္ကရာဇ် ၁၃၁၈ ခု၊ နတ်တော်လတွင် ဘိုးဒေဝိန္ဒဆရာတော်ဘုရားကြီး ကျန်းမာရေး မကောင်းဘူး၊ တော်တော်နေမကောင်း ဖြစ်နေပြီ သတင်းကြားရ၍ သွားရောက်ကာ ကန်တော့ကြပါသည်။ ကျောင်းလှေကားဘ တက်လိုက်ကတည်းက -

"ဒီကိုလာကြ၊ နင်တို့ဆရာတော်ကို (တောင်ဖိလာဆရာတော် ဦးဝိလာသ) လျှောက်လိုက်၊ ငါနေကောင်းပြီ၊ ငါကျိန်းနေကျနေရာလေး ရှင်းထားလိုက်၊ ငါလာနေမှာလို့ မှာထား" ဟု မိန့်တော်မူကြောင်း မှတ်တမ်းရှိပါသည်။

ကျမ်းကိုး။ ယင်းကျမ်း။ စာ-၇၆

## တောင်ဖိလာတောရတွင် ခန္ဓာဝန်ချတော်မူခြင်း

အေဒီ ၁၉၅၇ ဘိုးဒေဝိန္ဒဆရာတော်ဘုရားကြီးသည် တောင်ဖိလာမဟာတောရသို့ ကြွရောက် သီတင်းသုံးလျက် မြန်မာသက္ကရာဇ် ၁၃၁၈ခု၊ နတ်တော်လပြည့်ကျော် (၈) ရက်နေ့တွင် ဘဝနတ်ထံ ပျံလွန်တော်မူပါသည်။

ကျမ်းကိုး။ ယင်းကျမ်း။ စာ-၇၆

## မီးမကူးခြင်း

ဘိုးဒေဝိန္ဒဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်ကို လျှပ်စစ်မီးနဲ့ သဂြိုဟ်တာ မီးမကူးတဲ့အတွက် နေဝင်ခါနီးကျမှ မီးနဲ့ပူဇော်ပြီး သဂြိုဟ်မှ ရုပ်ကလာပ်တော်ပြာကျတာ၊ ကြွင်းကျန်တဲ့ပြာတွေ၊ အရိုးတွေကို သပိတ်နဲ့ထည့်ပြီး၊ ပူဇော်ထားတာဟု သိရပါသည်။

ကျမ်းကိုး။ ယင်းကျမ်း။ စာ-၇၆

## ဓာတ်တော်များ အပြွက်လိုက်အခဲလိုက်ကျတော်မူခြင်း

ဘိုးနဒေဝိန္ဒဆရာတော်ဘုရားကြီး၏ ပြာတွေ အရိုးတော်တွေက ဓာတ်တော်တွေ အပြွတ်လိုက် အခဲလိုက်ကျလာတဲ့အတွက် ဓာတ်တော်တိုက် စေတီကို တောင်ဖိလာမဟာတောရရှိ စကြာ တောင်ထိပ် မဟာဗောဓိပင်အနီးတွင် တည်ထားပူဇော်ပါသည်။

ကျမ်းကိုး။ တောင်ဖိလာဆရာတော်ဦးဝိလာသ၏ မဟာသရဏဂုံပုတီးစိပ်နည်းကျမ်း။
ကျမ်းကိုး။ ဝိဇ္ဇာမဂ္ဂဇင်း ၊ လေးစိုး (မုံရွာ) ၂၀၀၈၊ နိုဝင်ဘာလ- စာမျက်နှာ - ၇၅။
ကျမ်းကိုး။ အရှင်ကေနွောစာရ၊ တောင်ဖိလာချောင်၏ "မြတ်သောအဖေဆရာ" စာတမ်း။

အနာဂါမ်ဆရာသက်ကြီး စာအုပ်ဖတ်၍ နည်းရပြီးလျှင်
၁၀ မိနစ်အတွင်း တရားထူး ရတော်မူသော၊ ဓာတ်တော် ကြွင်းကျန်တော်မူသော
ဉာဏစာရီ ဆရာတော်ဟု ကျော်ကြားတော်မူသည့်

# တေဇ စက္ကူဆရာတော်ကြီး ဘဒ္ဒန္တတေဇာလင်္ကာရ

(၁၉၀၁ – ၁၉၉၁)



http://www.dhammadownload.com



**ခေတ်ပြိုင် စလင်းဆရာတော်**

အေဒီ ၁၉၀၁ တေဇစက္ကီဆရာတော်ဘုရားကြီးမှာ ခရစ်နှစ် ၁၉၀၁ ခုနှစ်ဖွား ဖြစ်သဖြင့် ခေတ်ပြိုင် ရဟန္တာနှင့် ရဟန်းထူးများကို ရှာဖွေသောအခါ စလင်းကန်လယ် ဆရာတော်ဘုရားကြီးကို လေ့လာတွေ့ရှိရပါသည်။ ထိုဆရာတော်ဘုရားကြီးမှာ ၁၉၀၁ ခုမှာ ဖွား၏။ ၁၉၉၁ တွင် ပရိနိဗ္ဗာန်ပြုတော်မူ၏။ သက်တော် ၈၇ နှစ်၊ သိက္ခာတော် ၆၇ ဝါ ဖြစ်၏။

ကျမ်းကိုး။ မောင်ပန်းမွှေး၊ ရဟန္တာနှင့် ရဟန်းထူးများ။ ၂၀၀၈ ခု၊ အောက်တိုဘာလ၊ တော်ဝင်မြို့မစာအုပ်တိုက်၊ စာ ၆၅၆ ကိုကြည့်။

အေဒီ ၁၉၀၁ ထို၁၉၀၁ ခုဖွား ခေတ်ပြိုင် စလင်းကန်လယ် ဆရာတော်ဘုရားကြီး၏ ဓာတ်တော်များကို မိတ္ထီလာဓာတ်တော်တိုက်တွင် ယနေ့တိုင် ဖူးနိုင်ပါသည်။

ကျမ်းကိုး။ တစ်ဘဝ သာသနာပြုဆရာတော် ဦးဃောသိတနှင့်ဓမ္မာစရိယ ဦးဌေးလှိုင်တို့ တည်းဖြတ်သော မိတ္ထီလာ ဝမ်းတော်ပြည့် ဓာတ်တော်တိုက်သမိုင်းကိုကြည့်။

**ဓာတ်တော်ကျတော်မူခြင်း အရိုးတော်ချိတ်ဆက်ဖြစ်ခြင်း**

အေဒီ ၁၉၀၁ ၁၉၀၁ ခုဖွား ခေတ်ပြိုင် စလင်းဆရာတော်သည် အရိုးမှာ ချိတ်ဆက်ဖြစ်သလို ဓာတ်တော်များလည်း တဖွားဖွားကျတော်မူပါသည်။

ကျမ်းကိုး။ ဦးစန္ဒိမာ (စလင်း)၊ အပ္ပမာဒ ၂၀၀၂ ခုနှစ်၊ ဇန်နဝါရီလ၊ အတွဲ ၃၊ အမှတ် ၁၊ စာမျက်နှာ ၄၆ တွင်ကြည့်။

**အရိုးတော်၊ ဓာတ်တော်များ ဖူးတွေ့ရခြင်း**

အေဒီ ၁၉၉၂ ထူးဆန်းသော တိုက်ဆိုင်မှုမှာ ၁၉၀၁ ခုဖွား စလင်းကန်လယ်ဆရာတော်သည် သက်တော် ၉၀ နေတော်မူရ၏။ ယခု ၁၉၀၁ ခုဖွား တေဇစက္ကီဆရာတော်ဘုရားကြီးလည်း သက်တော် ၉၁ နှစ်နေတော်မူရ၏။ ၁၉၉၂ ခုနှစ် ကျွန်ုပ်တို့ မျက်မှောက်ခေတ်တွင်ပင် ခန္ဓာဝန်ချတော်မူ၏။ ခန္ဓာဝန်ချတော်မူသောအခါ အရိုးတော် ဓာတ်တော်များ ဖူးမြော်ရပါသည်။

ကျမ်းကိုး။ မောင်ရွှန်းသစ်၊ မြတ်မင်္ဂလာ၊ အတွဲ ၂၃၊ အမှတ် ၁၁၊ ၂၀၀၈ ခုနှစ် မေလ၊ စာ ၂၃ကို ကြည့်ပါ။

တေဇစက္ကီဆရာတော်ဘုရားမှာ တဘောင်နှင့်ပေါ်လာသော ဆရာတော်ကြီးဖြစ်သည်။ တဘောင်မှာ အောက်ပါအတိုင်းဖြစ်သည်။

ကျမ်းကိုး။ ဉာဏစာရီထေရုပ္ပတ္တိ၊ စာ ၂၄၃

**အင်းခန်းလို့ လယ်ပေါ်**
**ငှက်တော်နှင့် ကြောင်မြအင်း။**
**သစ်ခိုင် စေတီမိုးငယ်နှင့်**
**မင်းစွန်း စာဂီကိုးရတယ်တွယ် မျိုးသကျလင်း။**

အထက်ပါ တဘောင်အရ -

(အင်းခမ်း)မှာ အင်းခမ်းတိုက် ဆရာတော် မဟာဝိသုဒ္ဓါရာမ ဆရာတော်ကို ဆိုလိုသည်။
(လယ်)မှာ လယ်တီဆရာတော်ဘုရားကြီး၏ တရားဌာနများကို ဆိုလိုသည်။
(ငှက်)မှာ ငှက်တွင်းဆရာတော်၏ တရားဌာနများကို ဆိုလိုသည်။
(ကြောင်)မှာ ကြောင်ပန်းဆရာတော်၏ တရားဌာနများကို ဆိုလိုသည်။
(မြ) မှာ မြဝတီဆရာတော်၏ တရားဌာနများကို ဆိုလိုသည်။

http://www.dhammadownload.com



(အင်း)မှာ အင်းမဆရာတော်ဘုရားကြီး၏ တရားဌာနများကို ဆိုလိုသည်။
(သစ်)မှာ သေက္ခတောင် ဆရာတော်၏ တရားဌာနများကို ဆိုလိုသည်။
(ခိုင်)မှာ ရခိုင်ဆရာတော် ဦးတိက္ခိန္ဒြိယ၏ တရားဌာနများကို ဆိုလိုသည်။
(စေတီ)မှာ ဓမ္မစေတီဆရာတော်၏ တရားဌာနများကို ဆိုလိုသည်။
(မိုး)မှာ မိုးညှင်းဆရာတော်၏ တရားဌာနများကို ဆိုလိုသည်။
(မင်း)မှာ မင်းကွန်းဆရာတော် သထုံ ဇေတဝန်ဆရာတော်၏ တရားဌာနများကို ဆိုလိုသည်။
(စွန်း)မှာ မြင်းခြံမြို့ စွန်းလွန်းဆရာတော်ဘုရားကြီး၏ တရားဌာနများကို ဆိုလိုသည်။
(စာဂီ)မှာ ဉာဏစာဂီဆရာတော်၏ တရားဌာနများကို ဆိုလိုသည်။

ကျမ်းကိုး။ ဉာဏစာဂီထေရုပ္ပတ္တိ၊ စာ ၂၄၃

**တပည့် (၆)သိန်းကျော် ရှိ**

တေဇစက္က ဆရာတော်ဘုရားကြီးမှာ ဝိပဿနာတရားကို မြန်မာတစ်နိုင်ငံလုံးအနှံ့ နှစ်ပေါင်း ငါးဆယ်ကျော် ပြသခဲ့သော ပုဂ္ဂိုလ်ထူးဖြစ်ပြီး ဆရာတော်ကြီး တရားပြသခဲ့သော ယောဂီ ဦးရေ စုစုပေါင်းမှာ ၆ သိန်းကျော်ရှိသည်ဟု မှတ်တမ်းတင်ထားပါသည်။

ကျမ်းကိုး။ မောင်ရွှန်းသစ်၊ မြတ်မင်္ဂလာ၊ အတွဲ ၂၃၊ အမှတ် ၁၁၊ ၂၀၀၈ ခုနှစ် မေလ၊ စာ ၂၂

**နှစ်ပေါင်း (၂၀)အားထုတ်ခဲ့**

ပဋိပတ္တိ အလုပ်ကို မအူလေးရွာ သရက်မြို့ စမ်းအိုင်ရွာ သာရဝေါ၊ ဟင်္သာတ မအူပင်၊ ပေါင်မြို့၊ မော်လမြိုင် ဘီလူးကျွန်း ကွမ်သဲရွာတို့၌ စုစုပေါင်း ဝါ ၂၀ အထိ ကြိုးစား အားထုတ်ခဲ့ သည်ဟု သိရသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၉

**နှစ်ပေါင်း (၅၀)ကျော် သာသနာပြုခဲ့**

ဆရာတော်ကြီးသည် ဝိပဿနာ တရားကို ပျံလွန်တော်မူသည်အထိ နှစ်ပေါင်း ၅၀ ကျော် မြို့ ရွာအနှံ့ တစ်ပြည်လုံးသို့ လှည့်လည်ပြသ ပို့ချခဲ့၏။ ရန်ကုန်မြို့ ၈ မိုင်၊ စစ်ကိုင်း၊ ဘီလူးကျွန်း ကွမ်သဲနှင့် သရက်မြို့တို့၌ တေဇစက္က ကမ္မဋ္ဌာန်းကျောင်းတိုက်ကြီး ၄ တိုက်ကို ဖွင့်လှစ် တည်ထောင်ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၉

**အနာဂါမ် ဆရာသက်ကြီး ကျေးဇူး**

**ဆရာတော်ကြီး ဝန်ခံချက်**

ဆရာတော်ကြီးသည် ရန်ကုန်မြို့ အရှေ့ပိုင်း တရားပွဲတစ်ခုတွင် "အခုမှ ပြန်စဉ်းစားလိုက် တော့ ငါတော်တာတွေက မတော်တာတွေချည်း ဖြစ်နေပါကောလား၊ ဒလ ပျော်ဘွယ်ကြီးရွာက ကိုဖိုးသက်ကြီးသာ မပေါ်ပေါက်ရင် မလွယ်ဘူးဟေ့၊ တို့မလွယ်ဘူး၊ သေရင် တစ္ဆေဖြစ်ပြီး တစ္ဆေတောင် အကြီးစားထဲကနေမှာ တကယ်ကျေးဇူးကြီးတဲ့ ဆရာကြီး ဒီဆရာကြီးကြောင့် ကနေ့တို့ ဒကာ ဒကာမတွေကို ဆင်းရဲနဲ့ ငရဲလွတ်အောင်ပြောပြနိုင်တာနော်၊ စာတွေ တတ်လွန်း လို့ ခုလို ဟောနိုင်တယ်များ မထင်လိုက်ကြနဲ့" ဟူ၍ အနာဂါမ် ဆရာသက်ကြီး၏ ကျေးဇူးကို ထည့်သွင်း မိန့်ကြားတော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၄

http://www.dhammadownload.com



### ဆရာတော်ကြီး ဆုံးမစကား

တေဇောက္ကိဆရာတော်ဘုရားကြီး ဦးတေဇာလင်္ကာရ၏ ဩဝါဒကထာမှာ - "သာသနာပြုလျှင် မိမိရဲ့ မာနကို ခွေးအောက် အတောင်တစ်ရာ နှိမ့်ချထားပါ။ အရွဲ့မတိုက်ချင်နှင့် မိမိသာ နစ်မွန်း လိမ့်မည်။ ဘာမျှ မတုံ့ပြန်နှင့် အလုပ်နှင့်သာ လက်တွေ့ ပြပါ။ ကေန်အောင်မြင်ရမည်" ဟူ၍ ဆိုဆုံးမလေ့ရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၄

### နှစ် (၅၀) ကြိုးပမ်းခဲ့

ဆရာတော်ကြီးသည် ပရိယတ္တိစာပေပို့ချမှု နှစ်ပေါင်း နှစ်ဆယ်၊ ပဋိပတ္တိ ဝိပဿနာကမ္မဋ္ဌာန်းများ ပြသမှု နှစ်ပေါင်း ငါးဆယ်ကျော် မနားမနေ ကြိုးပမ်းအားထုတ်တော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၄

### တစ်သက်မှာ (၂၁)ရက်သာ နားခဲ့

နာမကျန်းဖြစ်ချိန်မှ လွဲ၍ နေ့စဉ် တရားဟော တရားပြခဲ့ရာ စတင်ပြသသော ကာလမှ ပျံလွန်တော်မူချိန်အထိ ဆရာတော်ကြီး တရားပြသခြင်းမပြုသော ရက်ပေါင်း ၂၁ ရက်သာ ရှိကြောင်း တပည့်များက မှတ်တမ်းပြုစုခဲ့ကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၄

### မွေးသက္ကရာဇ်

မွေးသက္ကရာဇ်မှာ ၁၂၆၂ ခုနှစ် ပြာသိုလဆုတ် ၉ ရက် စနေနေ့ နံနက် ၄ နာရီ မိနစ် ၂၀ အချိန် ဖြစ်သည်။ အဖကား ဦးဖိုးထောင်တည်း။ အမိကား ဒေါ်ရွှေပွင့်တည်း ဟူ၍ တွေ့ရ၏။

ကျမ်းကိုး၊ ဉာဏစာရီထေရုပ္ပတ္တိ၊ စာ ၁၅၀

### ဇာတာတော်

ဇေယျတုသက္ကရာဇ် ၁၂၆၂ ခု၊ ကလိယုဂ် ၅၀၀၁ ၊ ဒီယနှစ်ကြွင်း ၇၀၊ မုဋ္ဌ ဓနုရာသီ ဝေါဟာရမာသ၊ ပြာသိုလပြည့်ကျော် ၉ ရက် စနေနေ့၊

ကျမ်းကိုး၊ ဉာဏစာရီထေရုပ္ပတ္တိ၊ စာ ၁၄၉။

### လွှတ်လပ်ရေးနေ့နှင့် တိုက်ဆိုင်နေ

မြန်မာပြည်ကြီး လွတ်လပ်ရေးရတာနဲ့ ဉာဏစာရီမွေးနေ့ ကြုံခဲ့တာ ပြာသို - ပြာသိုချင်းထပ်၏။ စနေ - စနေချင်း ထပ်၏။ နံနက် - နံနက်ချင်း ထပ်၏။ ၄ နာရီ ၄နာရီချင်း ထပ်၏။ ၂၀ မိနစ် ၂၀ မိနစ်ချင်း ထပ်၏။ ဤသို့ ထူးခြား၏။

ကျမ်းကိုး၊ ဉာဏစာရီထေရုပ္ပတ္တိ၊ စာ ၂၅၃

### တရားထူး ရသောနေ့

ဉာဏစာရီမထေရ်သည် ၁၃၀၀ ပြည့်၊ တော်သလင်းလပြည့်၊ နံနက် ၉ နာရီတွင် ဝိပဿနာ ပရမတ္ထတရားကို ကိုယ်တွေ့နှင့် ရရှိသည်ဟု အတိအကျ သိရ၏။

ကျမ်းကိုး၊ ဉာဏစာရီထေရုပ္ပတ္တိ၊ စာ ၂၅၆

### ခန္ဓာဝန် ချတော်မူသောနေ့

အေဒီ ၁၉၀၂

ဆရာတော်ကြီးသည် ပျံလွန်တော်မူသောအခါ တရားဟော၊ တရားပြသနေခဲ့သည်။ သက်တော် ၉၂ နှစ် သိက္ခာတော် ၇၃ ဝါအရောက် ၁၃၅၃ ခုနှစ် တပေါင်းလဆုတ် ၆ ရက်နေ့တွင် စုတိကမ္မဇ ရုပ်ချုပ်ငြိမ်းတော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၄

http://www.dhammadownload.com



အောက်ပါစာသားသည် တရားထူးရတော်မူသော ဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် မိန့်တော်မူခဲ့သော စည်းချနည်း ဖြစ်သည်။ တရားအားထုတ်သူများအတွက် အထူးအကျိုး ရှိသည် ဟု ဆရာတော်ကြီးက သိစေလိုသော ဆန္ဒရှိတော်မူသည်။ ထို့ကြောင့် ဖြန့်ဝေခြင်း ပြုပါသည်။ ဤသို့ တိုင်တည်ရ၏။ သစ္စာပြုရ၏ဟု ဆိုလိုပါ၏။

**ဆရာတော်ကြီး သစ္စာပြုပုံ ပြုနည်း**

မဟာနိဗ္ဗာန်သို့ ဝင်စံတော်မူကြကုန်သော ဘုရားရှင်အနန္တ၊ တရားတော်အနန္တ၊ သံဃာတော် အနန္တ၊ ပစ္စေက ဗုဒ္ဓါအနန္တ၊ ဓာတ်တော်မွေတော် အနန္တ၊ စေတီတော် ပုထိုးတော် အနန္တ၊ ကုဋေ ကိုးထောင်ကျော်သော သိက္ခာပုဒ်တော် အားလုံး၊ ပိဋကတ်သုံးပုံ၊ နိကာယ်ငါးဖြာ၊ အင်္ဂါ ကိုးတန်၊ ဓမ္မခန္ဓာပေါင်း ရှစ်သောင်းလေးထောင်အားဖြင့် တစ်ဆယ့်သုံးဌာန အားလုံးတို့သည် တပည့်တော်၏ ခန္ဓာကိုယ်၌ ယနေ့ကစပြီး နိဗ္ဗာန်သို့ ဝင်သည့်တိုင်အောင် ကြွရောက်တည် နေတော်မူ ကြကုန်၍ အရှင်ဘုရားတို့၏ တန်ခိုးတေဇော် အာနုဘော်တော်ကြောင့် ဝင်ဝင်သမျှ၊ လာလာသမျှသော အကုသိုလ်နှင့် ကိလေသာတို့ကို ကုန်ခန်းချုပ်ငြိမ်းကင်းဝေးစေ၍ မြတ်စွာ ဘုရားစသော တစ်ဆယ့်သုံးဌာန အားလုံးတို့ဖြင့် ယနေ့ကစ၍ နိဗ္ဗာန်အထိ တံတိုင်းကြီး၊ စည်းရိုး ကြီး၊ သိတာ (၇) တန်၊ တောင်စဉ်(၇)ထပ်၊ အသင်္ချေစီ၊ အနန္တစီ၊ ကာဆီး၍ စည်းချပါ၏။ ဤ စည်းများအတွင်းသို့ ဘုရားမကြိုက်၊ တရားမကြိုက်၊ သံဃာမကြိုက်၊ မဂ်မကြိုက်၊ ဖိုလ်မကြိုက်၊ နိဗ္ဗာန်မကြိုက်သော အကုသိုလ်ကိလေသာ ဝိပါက်မှန်သမျှ အနန္တတို့သည် ဝင်ခွင့်မရ၊ လာခွင့် မရ၊ သီခွင့်မရ၊ နှိပ်စက်ခွင့် မရကြဘဲ ရှိသမျှတို့ပါ ချာပန ပြာကျပါစေသတည်း။ ရုပ်နာမ်ဓမ္မ သင်္ခါရတို့ကို ဘုရားရှင်တိုင်းမြင်သလို မြင်ရပါစေသတည်း။ အရိယာတိုင်း မျက်မှောက်ပြု ရပါစေသတည်း။ ပစ္စေကဗုဒ္ဓါတိုင်း မြင်သလို မြင်ရပါစေသတည်း။ တွေ့ရပါစေသတည်း။ မျက်မှောက်ပြုရပါစေသတည်း အရှင်မြတ်ကြီးတို့ ဘုရား။

ကျမ်းကိုး၊ ဦးသိန်းထွန်း၊ မြတ်မင်္ဂလာ၊ စာ-၁၉

**အလိုလိုရရှိသော သိဒ္ဓိမြောက်စည်းချနည်း**

အထက်ပါ စည်းချဂါထာတော်ကြီးကို တေဇကုတ္တိ (ယခင် ဉာဏစာဂီ)ဆရာတော်ဘုရားကြီးသည် ရှေးယခင်ကရေး၍ မထားဖူးပါ။ ရလည်းမရဖူးပါ။ အလိုလို ရလာခြင်း ဖြစ်သည်ဟု ဆိုပါသည်။

အေဒီ ၁၉၃၈ — ၁၃၀၀ ပြည့်နှစ်၊ တော်သလင်းလပြည့်နေ့၊ နံနက် (၉)နာရီအချိန်၌ တရားထူးစတင်တွေ့ပြီး တရားပြသ၍ တစ်နှစ်ခန့်အကြာတွင် ကံအားလျော်စွာ အရေးကြုံ၍ တွေးတောပြီး စည်းချခဲ့ခြင်း ဖြစ်သည်။ ယနေ့အထိ လက်သုံးပြုတော်မူနေပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

**မာရ်နတ်သည် လူအင်အား ၃၀၀၀နှင့် ရောက်လာခြင်း**

ထိုစဉ်က ဘီလူးကျွန်း၊ ကွမ်သဲရွာကြီးတွင် ဆရာတော် တရားပြသနေသည်ကို မလိုလားသော ပုဂ္ဂိုလ်တစ်ဦးက ရွာသူတစ်ယောက်ကို ပူးကပ်စေပြီး၊ 'ဉာဏစာဂီကို ငါဆုံးမပြမယ်၊ လာကြည့် ကြ'ဟု ရွာရိုးလှည့် လူခေါ်ပြီး လူသုံးထောင်ခန့်နှင့်အတူ ဆရာတော်ထံ ရောက်လာသည်။ ဆရာတော်ရှေ့ သုံးတောင်ခန့်အကွာ တင်းမာစွာ ရပ်လျက်နေခဲ့သည်။ ဆရာတော် မေးသည်ကို လည်း မဖြေဘဲနေသည်။

**အာရွတ်ရွတ် မာရ်နတ်က မပြေး**

ဆရာတော်မှာ ကြိရာမရ၊ ပါဠိတော်များရွတ်လည်း မသွားဘဲ ပေကတ်ကတ်လုပ်နေပါသည်။

http://www.dhammadownload.com



နောက်ဆုံး၌ အကြံရပြီး အထက်ပါစည်းချဂါထာတော်ကြီးကို စဉ်းစားရင်း ဖြည်းဖြည်းချင်း ရွတ်ဆို ၍ ရေမန်းသောက်ခိုင်းမှ ပြန်လှည့်သွားပါတော့သည်။

**၃ ဗိသာလေးသော ဂဝံကျောက်တုံးများဖြင့် ပစ်ခတ်ခြင်း**

ထိုနည်းအတိုင်း သုံးရက်သုံးကြိမ်လာပြီး ပြန်သွားသောညတွင် ကျောင်းပေါ်သို့ သုံးဗိသာမျှ လေးသော ဂဝံကျောက်တုံးလေးလုံး အရပ်လေးမျက်နှာမှ ကျလာသည်။ ကျောင်းခေါင်မိုးဖောက် ၍ ကြမ်းပေါ်ကျလာ၏။

ထိုညတွင် ပူးကပ်စေသော အာဂန္တုပုဂ္ဂိုလ် ဝမ်းရောဂါဖြင့် လွန်ရှာသည်။ (ထိုပုဂ္ဂိုလ်မှာ အသက် ၅၃ နှစ်အရွယ်၊ အရပ် ၇ ပေမြင့်၏။ ဖြူဖြူတုတ်တုတ်ခိုင်ခိုင်၊ ထမင်းစားလျှင် ကြက်၊ ဘဲတစ်ကောင်ချက်ကုန်သော ဟူ၏)

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉၊၂၀

ထိုအချိန်မှစ၍ ဆရာတော်ကြီးက ကမ္မဋ္ဌာန်းတရား အားမထုတ်မိ ယောဂီပုဂ္ဂိုလ်တိုင်း အထက်ပါ စည်းချဂါထာတော်ကို ရွတ်ဆိုစည်းချစေတော်မူပါသည်။

စည်းချဂါထာတော်ကြီးကျေးဇူးကြောင့် အန္တရာယ်အမျိုးမျိုးမှ လွတ်ကင်းခဲ့ရသူများ အကြောင်း ကို ဆရာတော်ဘုရားကိုယ်တိုင် ဉာဏစာရီ၏ သာသနာ့ဝင် ကျောက်တိုင်ကြီးသမိုင်းစာအုပ်တွင် မှတ်တမ်းတင်ထားတော်မူခဲ့သည်။ အံ့ဖွယ် ဖြစ်ရပ်များပါပေ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၀

**ဘာကြောင့် ဉာဏစာရီဟုခေါ်ခဲ့**

ဆရာတော်သည် ဉာဏစာရီအမည် တွင်ခဲ့ရသည်မှာ တရားစတင်ပြသခဲ့ရာကျောင်းတိုက် အမည်အရ အမည်တွင်ခဲ့ရခြင်း ဖြစ်ပါသည်။

အေဒီ ၁၉၀၁

တေဇစက္ကီဆရာတော်၏ ဘွဲ့အမည်ရင်းမှာ ဦးတေဇာ လက်ာရဖြစ်ပါ၏။ သက္ကရာဇ် ၁၂၆၂ ခု၊ ပြာသိုလပြည့်ကျော် ၉ ရက် (၁၂-၁-၁၉၀၁)၊ စနေနေ့၊ နံနက် (၄)နာရီ မိနစ်(၂၀)တွင် သရက်ခရိုင်၊ စမ်းအိုင်ရွာနေ အဘ ဦးဘိုးထောင်၊ အမိ ဒေါ်ရွှေပွင့်တို့မှ ဖွားမြင်တော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

**ဆရာဖြေ၏ မြေး**

အဂ္ဂမဟာပဏ္ဍိတ၊ ပါဠိဆရာကြီး ဦးဖြေ၏ မြေးတော်အရင်း ဖြစ်၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

ဆရာတော် ငယ်စဉ်က အဘိုးဆရာကြီး ဦးဖြေ၏ ဆုံးမဩဝါဒပေးပုံမှာ မှတ်သားဖွယ် ကောင်း လှသည်။

"ကိုရင် စာတတ်အောင်သင်ပါ။ စာမေးပွဲအောင်အောင် မသင်ပါနဲ့၊ စာသင်သားဘဝမှာ ပွဲလမ်း တွေ သွားသွားပြီး မကြည့်ပါနဲ့၊ ဟိုသွား ဒီသွား မပြုပါနဲ့၊ လမ်းများတတ်သောသူတို့နှင့် မပေါင်းပါနဲ့၊ ရိုးရိုးကလေး နေပါ၊ သိပ်သိပ်သည်းသည်းနေပါ၊ မမော်နဲ့၊ မကြွားနဲ့၊ ကုပ်နိုင်သမျှ ခပ်ကုပ်ကုပ်နေပါ၊ သူ့အချိန်ကျတော့ အရှိန်တကြွကြွနဲ့ ထထလာပါလိမ့်မယ်၊ အောက်က လူတွေဟာ အထက်သို့ ပါပါလာပါစေ' ဟူသတည်း။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

**မူလ ပထမ အုတ်ဖို ဆရာတော်ဘုရားကြီး၏ တပည့်ဖြစ်ခြင်း**

ဆရာတော်သည် ပထမအုတ်ဖိုဆရာတော်ကြီး ဦးဥက္ကံသမာလာ၏ တပည့်ရင်းဖြစ်သည်။

http://www.dhammadownload.com



တရားထူးရပုံမှာလည်း ထူးခြားလှသည်။ စာသင်သားဘ၀၊ စာချပုဂ္ဂိုလ်ဘ၀တွင် ရနိုင်သမျှ ဝိပဿနာစာအုပ်များကို ဆည်းပူးလေ့လာခဲ့သည်။

**အနာဂါမ်ဆရာသက်ကြီးထံမှ နည်းကောင်းရခြင်း**

အေဒီ ၁၉၃၈ ၁၃၀၀ ပြည့် တော်သလင်းလပြည့်နေ့နံနက်တွင် ကျောင်းဒကာကြီး ဦးဘိုးလုံး ယူဆောင်လာသော အနာဂါမ်ဆရာသက်ကြီး၏ ဝိပဿနာ အားထုတ်နည်းစာအုပ်ကို တောင်းယူကြည့်ရာမှ 'ဒါဟာ စာသိမဟုတ်ဘူး၊ ကိုယ်တိုင်သိပဲ၊ အားထုတ်ကြည့်မည်' ဟု အကြံရသွားသည်။

**၁၀ မိနစ်အတွင်း တရားထူးရရှိတော်မူခြင်း**

ဗီရိုထဲက တရားစာပေများကို ရှိခိုးပြီး ချက်ချင်းပင် ငယ်ထိပ်၌ သတိကပ်အားထုတ် တော်မူပါသည်။ ခန္ဓာကိုယ်ထဲမှ တလှုပ်လှုပ်၊ တရွရွ၊ တမွမွ၊ တကြွကြွ၊ တရှိန်းရှိန်း၊ ဖြိုးဖြိုးဖျဉ်းဖျဉ်းဖြင့် ဖောက်ပြန်နေသော ရုပ်များကို နာမ်က သိသိလာ၍ ဉာဏ်စဉ်တက်လာသည်။ နာမရူပ ပရိစ္ဆေဒ အခြေခံဉာဏ်ကို ၁၀ မိနစ်အတွင်း ရတော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

ရသည်နှင့် ချက်ချင်း ကုလားတက် ခေါက်၍ စာသင်သားအားလုံးကို ၇ ရက်တိတိ ကမ္မဋ္ဌာန်းပြခဲ့သည်။ ၇ ရက်ပြည့်မှ နေ့စာသင်၊ ညတရား အားထုတ်စေခဲ့ရာ ယနေ့ သက်တော် ၈၉ နှစ်အရွယ်အထိ ကမ္မဋ္ဌာန်းတရားပြနေတော်မူဆဲဖြစ်၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

**သထုံ မင်းကွန်းဆရာတော်ထံ သွားလျှောက်ခဲ့**

မိမိတွေ့ရသော တရားကို ရဟန္တာဟု ကျော်စောသော မင်းကွန်း ဇေတဝန်ဆရာတော်ဘုရားကြီးထံ သွားရောက် လျှောက်ထားခဲ့ကြောင်း သိရှိရပါသည်။ တွေ့ခဲ့သော တရားကို သထုံမြို့ ဇေတဝန် မင်းကွန်း ဆရာတော်ကြီးထံသို့ ကြွသွားပြီး အလုံးစုံ လျှောက်ထားခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

**မိုးညှင်း ဆရာတော်ဘုရားထံ သွားလျှောက်ခဲ့**

ထိုစဉ်က အလွန်ကျော်ကြားတော်မူသော မိုးညှင်း သမ္ဗုဒ္ဓေဆရာတော်ဘုရားကြီးထံသို့လည်း သွားရောက်၍အစစ် အဆေးခံသည်ဟု သိရှိရပါသည်။

ထို့နောက် ရန်ကုန်မြို့ ရွှေတိဂုံစေတီတော် အလယ်ပစ္စယံ၌ သီတင်းသုံးနေတော်မူသော မိုးညှင်းဆရာတော်ကြီးထံသို့ သွား၍အားထုတ်ပုံ၊ တွေ့ရပုံများကို လျှောက်ထား တော်မူခဲ့ပြန်သည်။

ကျမ်းကိုး၊ ဦးသိန်းထွန်း၊ မြတ်မင်္ဂလာ၊ စာ-၁၉

ဤသို့ ထူးသော ဉာဏစာရီ မဟာထေရ်ဆရာတော် ဖြစ်သည်။

**တရားထူးရသောနေ့**

အေဒီ ၁၉၃၈ ဆရာတော်ကြီးက ၁၃၀၀ ပြည့်နှစ် တော်သလင်းလပြည့်နေ့ နံနက် ၉ နာရီ အချိန်မှာ ဒလ ဖျော်ဘွယ်ကြီးက ကမ္မဋ္ဌာန်းဆရာသက်ကြီးရဲ့ စာအုပ်ကိုတွေ့ပြီး စမ်းသပ်အားထုတ်ရာမှ တရားအသိထူးရရှိခဲ့ပါသည်။

**တရားထူးကို ချက်ခြင်းဖြန့်ဝေခြင်း**

ထိုအချိန်မှ စ၍ တရားစခန်းတိုက်ကြီးကို ထူထောင်ကာ တရားကို ပြသနိုင်တော်မူခဲ့ပါသည်။ မြန်မာပြည်အရပ်ရပ် သွားရောက်ပြီး တရား အသိရရှိစေရန် အကျိုးငှာ တရား စခန်းပေါင်း

http://www.dhammadownload.com



များစွာကို ဖွင့်လှစ်ခဲ့ပါသည်။ ဆရာတော်ကြီးသည် တရားပေးခြင်း၊ စာရေးခြင်း၊ စာကြည့်ခြင်းကို အမြဲနှစ်သက်မြတ်နိုးတော်မူပါသည်။

ကျမ်းကိုး။ ယောနကဘိုးထောင်၊ ၂၀၀၀ပြည့်နှစ်၊ အောက်တိုဘာလ၊ အမှတ် (၉၇)၊ ပါရမီမဂ္ဂဇင်း

**ခန္ဓာဝန်ချသောနေ့**

မရမ်းကုန်းမြို့နယ်၊ ရွှစ်မိုင်၊ တေဇစက္ကိ ဆရာတော်ကြီးရဲ့ ကမ္မဋ္ဌာန်းကျောင်းတိုက်ကြီး၌ တေဇစက္ကိ ဆရာတော်ကြီးကတော့ မရှိတော့ပါပေ။ သက်တော် ၉၂ နှစ်၊ ဝါတော် ၇၃ ဝါ၌ ဘဝနတ်ထံ ပျံလွန်တော်မူခဲ့ပါသည်။

ကျမ်းကိုး၊ တေဇစက္ကိဆရာတော်ကြီး၊ ပါရမီမဂ္ဂဇင်း ၊ စာအမှတ် ၁၁။

**အရိုးတော်ဓာတ် ကြွင်းကျန်**

ဆရာတော်ကြီး၏ အရိုးဓာတ်တော်ကို ယနေ့တိုင် ဖူးတွေ့နိုင်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၉

http://www.dhammadownload.com



မျက်စိနှစ်ကွင်းအလင်းမရသည့်အပြင် ပေါင်ကျိုးနေသော်လည်း တရားထူးရတော်မူသောကြောင့်
ပရိနိဗ္ဗာန်ပြုတော်မူသောအခါမှာလည်း ဓာတ်တော်များကျသည့်အပြင်
ရုပ်ကလာပ်တော်မှ အလင်းရောင်များ ဖြာထွက်သော
ကျောက်ပန်းတောင်းမြို့နယ်၊ အရှေ့မြောက်၊ တံခါးကြီးကျေးရွာက အံ့ဖွယ်ထူးခြား

# မြောက်ဂူကျောင်း ဆရာတော်ကြီး အရှင်ဉာဏုတ္တရ

(၁၉၀၂ – ၁၉၈၉)



http://www.dhammadownload.com



ပျံလွန်တော်မူသော်လည်း အသားအရေမှာ ပျော့ပျောင်းနေသည်။ ဆံတော်များ တစ်နေ့တခြားရှည်ထွက်လာသည်။ ညစဉ် မီးငြိမ်းထားသော်လည်း အလင်းရောင်များ လင်းထိန်နေသည်ဟု အုတ်အော်သောင်းတင်းဖြစ်တော်မူသည့်အပြင် မီးသင်္ဂြိုဟ်သောအခါမှာလည်း ဓာတ်တော်များ တဖွားဖွားကျတော်မူသောကြောင့် အံ့ဖွယ်ထူးခြားသောဆရာတော်ကြီးဖြစ်သည်။

**တည်နေရာ**

ကျောက်ပန်းတောင်းမြို့နယ်အတွင်းရှိ ကျောက်ပန်းတောင်း ညောင်ဦးသွားသော ကားလမ်း၏ အရှေ့မြောက်ဘက်တွင် တံခါးကြီးကျေးရွာ ကပ်လျက်တည်ရှိသည်။ ထိုတံခါးကြီးကျေးရွာ၏ မြောက်ဘက်တစ်မိုင်ခွဲခန့်အကွာတွင် မြောက်ဂူကျောင်း တည်ရှိသည်။

**မြောက်ဂူကျောင်းရဟန္တာဟုကျော်စောခြင်း**

မြောက်ဂူကျောင်း ဆရာတော်အရှင်ဉာဏုတ္တရသည် ပျံလွန်တော်မမူမီ ဆယ်နှစ်ကျော်ကပင် ရဟန္တာဟု ကျော်ကြားခဲ့သည်။

**မပျံလွန်မီကပင်လျှင် ညအခါ**

**တစ်ကျောင်းလုံးလင်းထိန်နေသည်ကိုမြင်ရခြင်း အံ့ဖွယ်**

ပျံလွန်တော်မမူမီ လအနည်းငယ်အတွင်း၌ ဆရာတော်သီတင်းသုံးသော မြောက်ဂူကျောင်းမှာ ညအခါတွင် လင်းထိန်နေသည်ကို ကားလမ်းမှ လှမ်း၍မြင်ရသည်။

ဆရာတော်ကြီး ပျံလွန်တော်မူ၍ မီးထွန်းထားခြင်းဖြစ်သလောဟုသွားရောက်ကြည့်ရှုကြသည်။ မြောက်ဂူကျောင်းမှာ ဆီမီးထွန်းထားခြင်းပင်မရှိပေ။

> ကျမ်းကိုး။ အံ့ဖွယ်ထူးခြားသောမြောက်ဂူကျောင်းဆရာတော်ကြီး၊ အောင်တင်အေး၊ (ကျောက်ပန်းတောင်း)၊ မြတ်မင်္ဂလာ၊ အတွဲ(၄) အမှတ်(၃)၊ ၁၉၈၉ ခု၊ စက်တင်ဘာလ၊ စာ-၅၁။

**လူမရှိဘဲ တရားဟောခြင်း၏ လျှို့ဝှက်ချက်**

တစ်ခါတစ်ရံတွင် ဆရာတော်သည် နံနက်စောစောကြီးတွင် တရားနာသူမရှိဘဲ တရားဟောနေသည်ကို တွေ့ရတတ်သည်။

ဤအခါတွင် ကပ္ပိယဦးသာဆွေက ဆရာတော်ကြီးမှာ မျက်စိမမြင်သောကြောင့်သာ လင်းမှန်း၊ မှောင်မှန်းမသိ၊ တရားနာသူရှိမှန်းမရှိမှန်းမသိဘဲ မှန်းဆပြီး တရားဟောနေသည်ဟု ထင်မိသည်။

**မျက်စိမမြင်သော်လည်းနတ်များက တရားလာ၍နာကြခြင်း**

"အရှင်ဘုရား မိုးမလင်းသေးဘူး ဘုရား တရားနာမည့်သူလည်းမရှိဘူး။ တရားဟောမနေပါနှင့်ဘုရား" ဟု လျှောက်ထားသည်။

ဆရာတော်ကြီးက "ဟ သာဆွေရ မင်းကသာမမြင်တာ၊ ငါ့မှာတရားနာမယ့်သူတွေ တစ်ပုံကြီးကွ။ သူတို့က တရားဟောရန်တောင်းပန်လို့ ငါတရားဟောနေတာ" ဟု မိန့်တော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၁

**တောတိရစ္ဆာန်များက လူလာပူးခြင်း**

ဆရာတော်ကြီး၏ ထူးခြားသောအချက်တစ်ရပ်မှာ ဆရာတော်အား တောတိရစ္ဆာန်များ လာရောက်၍ ပူဇော်ကြခြင်းဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၁

http://www.dhammadownload.com



**ဆရာတော်ကြီးအား ရှဉ့်၊ မြွေ၊ ကျီးငှက်၊**
**ချိုးငှက်၊ ခါငှက်တို့ လာရောက်ပူဇော်ခြင်း**

ဆရာတော်ကြီးအား ရှဉ့်၊ မြွေစသော တောသတ္တဝါများ၊ စာကလေး၊ ကျီး၊ ချိုး၊ ခါစသော ကျေးငှက်များ လာရောက်ချဉ်းကပ်ပူဇော်ကြသည်ကို ကိုယ်တိုင်တွေ့မြင်ခဲ့ကြသောသူများစွာ ပင် ရှိခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၁

**စန္ဒာဝန်မချခင် ဖားစည်ကြီးကို တီးခိုင်းခြင်းအစီပွါယ်**

အေဒီ ၁၉၈၉ ဆရာတော်ကြီး ပျံလွန်တော်မူမည့် ၁၃၅၀ ပြည့်နှစ်၊ ပြာသိုလပြည့်ကျော် ၁၂ ရက်၊ (၂ ၂-၈၉) ကြာသပတေးနေ့၊ နံနက် ၆-နာရီခန့်တွင် ကပ္ပိယဒကာကြီးအား "ငါ့ခန္ဓာကို စွန့်လွှတ်တော့မယ် ဖားစည်ကိုတီးလော့" ဟုပျံလွန်တော်မမူမီ ၄ နာရီခန့် ကြိုတင်၍ အမိန့်ရှိခဲ့ပါသည်။

**ဇာတိ ရပ်ရွာ**

အေဒီ ၁၉၀၂ ဆရာတော်အရှင် ဉာဏုတ္တရသည် ကျောက်ပန်းတောင်းမြို့မှ နှစ်မိုင်ခန့်ဝေးသည့်တံခါးကြီး ကျေးရွာတွင် နေထိုင်သောအဖ ဦးစော၊ အမိဒေါ်ဖြူကောင်းတို့မှ ၁၂၆၄ ခုနှစ် တော်သလင်းလပြည့်ကျော် ၃-ရက်၊ အင်္ဂါနေ့နံနက်တွင် ဖွားမြင်တော်မူခဲ့သည်။ သားသမီးလေး ယောက်အနက် ဒုတိယမြောက်သားရတနာဖြစ်သည်။ ငယ်မည်မှာ မောင်လှတင် ဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၁

အေဒီ ၁၉၀၇ မောင်လှတင်သည် ၅-နှစ်သားအရွယ်တွင် ကျောက်ပန်းတောင်းမြို့နယ် ရွာတန်းရှည် ကျေးရွာရှပ်စုံကျောင်း ဘုန်းတော်ကြီး ဦးနန္ဒထံတွင် ပညာသင်ကြားခဲ့သည်။

အေဒီ ၁၉၁၂ အသက်(၁၀)နှစ်သားအရွယ်တွင် ဦးနန္ဒထံတွင် သာမဏေဘောင်သို့တက်ခဲ့သည်။ ဘွဲ့ အမည်မှာ "ရှင်စန္ဒိမာ"ဖြစ်သည်။

အေဒီ ၁၉၁၈ အသက် ၁၆ နှစ်သားအရွယ်တွင် ရွာတန်းရှည်တိုက်သစ်ကျောင်း၌ ပြောင်းရွှေ့နေထိုင်ပြီး ဘုန်းတော်ကြီး ဦးပဏ္ဍိစ္စထံတွင် အခြေခံ ပရိယတ္တိစာပေများကို သင်ကြားခဲ့သည်။ ရှင်စန္ဒိမာ၌ ထူးခြားသော ဉာဏ်ပညာရှိသည်ကို သိမြင်သဖြင့် ဘုန်းတော်ကြီး ဦးပဏ္ဍိစ္စက ဆရာတော် လောင်းလျာ ရှင်သာမဏေအား "ရှင်ဉာဏုတ္တရ"ဟု ဘွဲ့အမည်ကို ပြောင်းပေး ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၁

**ရဟန်းဖြစ်တော်မူခြင်း**

အေဒီ ၁၉၂၁ ၁၂၈၃ ခုနှစ်တွင် သက်တော် ၂၀ ပြည့်သဖြင့် ရှင်ဉာဏုတ္တရသည် ကျောက်ပန်းတောင်း ဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍ရဟန်းပြုတော်မူခဲ့သည်။

**ပထမကြီးအောင်**

ညောင်ဦးမြို့၊ ကျောက်ပန်းတောင်းစာသင်တိုက်၊ ညောင်တုန်းမြို့၊ ကျောက်ပန်းတောင်းတိုက် ကျောက်တန်းမြို့ မဟာဝိသုဒ္ဓါရာမတိုက်၌ ပညာကို ဆက်လက်ဆည်းပူးတော်မူခဲ့သည်။ ထိုနှစ်တွင် ပထမကြီးတန်းကိုအောင်မြင်သည်။

**သကျသီဟမွှာစရိယဘွဲ့တော်ရရှိတော်မူခြင်း**

အေဒီ ၁၉၃၃ ၁၂၉၅ ခုနှစ်တွင် သကျသီဟမွှာစရိယ စာမေးပွဲကို အောင်မြင်တော်မူခဲ့သည်။

http://www.dhammadownload.com



ထို့နောက်ရန်ကုန်မြို့ သရက်တောတိုက် ကျောက်ပန်းတောင်းကျောင်း၌ ကျောင်းထိုင်အဖြစ် လက်ခံတော်မူသည်။ စာသင်သားသံဃာတော် (၄၀) ကျော်တို့အား အနှစ် (၂၀) တိတိ စာချပေးတော်မူခဲ့သည်။

**ဆဋ္ဌသင်္ဂါယနာတင်တော်မူရာတွင် ဆဋ္ဌသင်္ဂီတိကာရပုဂ္ဂိုလ်ဖြစ်ခဲ့**

ဆဋ္ဌသင်္ဂါယနာတင်ပွဲ၌ ဆဋ္ဌသင်္ဂီတိကာရပုဂ္ဂိုလ်အဖြစ်လည်းကောင်း၊ တိပိဋကရေစာမေးပွဲတွင် စာထောက် စာမပုဂ္ဂိုလ်အဖြစ်လည်းကောင်း၊ တာဝန်ထမ်းဆောင်တော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၂

**တောထွက်တော်မူ**

အေဒီ ၁၉၅၅ ဆရာတော်ဦးဉာဏုတ္တရသည် သက်တော် ၅၃ နှစ်၊ ဝါတော် ၃၃ ဝါ အရတွင် သံတဲခါး ဖလေးတောရကျောင်းသို့ ဦးလက္ခဏ ဦးဝါယမတို့နှင့်အတူ ကြွရောက်၍တောရ ဆောက်တည်လျက်၊ ဝိပဿနာတရားကို ပွားများအားထုတ်တော်မူသည်။

ထိုနှစ်သီတင်းကျွတ်သောအခါ ပခုက္ကူမြို့ရေစကြိုတောရကျောင်းသို့ ပြောင်းရွှေ့၍ ဆရာတော်ဦးဝါယမနှင့်အတူပင် တောရဆောက်တည်တော်မူခဲ့သည်။

**မြောက်ဂူကျောင်းသို့ ရောက်တော်မူ**

ထိုအချိန်တွင် သားချင်းများ၏ လာရောက်ပင့်လျှောက်ချက်အရ ဆရာတော်အရှင်ဦးဉာဏုတ္တရသည် မိမိ၏ဇာတိမြေဖြစ်သော ကျောက်ပန်းတောင်းမြို့နယ်၊ တံခါးကြီးကျေးရွာ၏ အနီးရှိမြောက်ဂူကျောင်းသို့ဆရာတော် ဦးဝါယမနှင့်အတူ ကြွရောက်သီတင်းသုံးသည်။ တောရဆောက်တည်သည်။ ဝိပဿနာဓုရကို ပွားများအားထုတ်တော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၃

**မျက်စိကွယ်တော်မူသော်လည်း**

မျက်စိကွယ်တော်မူခြင်းမှာလည်း အလွန်ထူးဆန်းသည်။ မျက်စိမမြင်ပါလျက်နှင့် တရားထူးရအောင် ကျင့်ကြံအားထုတ်ပေါက်မြောက်တော်မူသဖြင့် ဝီရိယအရာတွင် စံနမူနာတင်ရပေသည်။

အေဒီ ၁၉၄၇ ၁၃၁၉ ခုနှစ်၊ သက်တော် ၅၆ နှစ်၊ ဝါတော် ၃၆-ဝါအရတွင် ဆရာတော်ကြီးသည် မျက်စိနှစ်ကွင်းကွယ်ခဲ့သည်။

**ချော်လဲ၍ပေါင်ကျိုးတော်မူသော်လည်း**

မျက်စိနှစ်ကွင်း အလင်းမရသည့်အပြင် ချော်လဲသဖြင့် ပေါင်ထပ်၍ကျိုးသေးသည်။ တကယ် ဒုက္ခဖြစ်၏။

အေဒီ ၁၉၈၆ ၁၃၄၈ ခုနှစ်၊ နတ်တော်လဆန်း ၇ ရက်နေ့ သက်တော် ၈၄-နှစ်အရွယ်တွင် ကြေးစည်တီးသောတုတ်ကို နင်းမိကာ ချော်လဲသွားသည်။ ညာဘက်ပေါင် ကျိုးသွားသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၃

**ဝဋ်ကြွေးဆပ်တော်မူ**

ထိုအခါ ဒကာ ဒကာမများကစုပေါင်းလျက်၊ ဆရာတော်ကြီးအား ဆေးရုံတက်၍ကုသစေလိုကြောင်း လျှောက်ထားကြသည်။ သို့ရာတွင် ဆရာတော်ကြီးကလက်ခံတော်မမူ။ ဆေးကုသခြင်းကိုလည်း ခွင့်မပြုပေ။

ဆရာတော်ကြီးက "ငါ့ဝဋ်ကြွေးရှိသမျှကျေအောင်ချေမယ်" ဟုမိန့်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၃)

http://www.dhammadownload.com



ဆရာတော်ကြီးသည် ထိုအချိန်မှစ၍ အိပ်ရာထဲတွင် လဲလျောင်းလျက်၊ ဝေဒနာကို ကျော်အောင် ရှုတော်မူသည်။ ထိုသို့ခန္ဓာ၏အပြစ်မမြဲပုံ၊ ဖောက်ပြန်ပျက်စီးပုံကို ရှုတော်မူရင်း၊ ဟောကြားတော်မူရင်း ပရိနိဗ္ဗာန်ပြုတော်မူ၏။

**ပရိနိဗ္ဗာန်ပြုတော်မူ**

အေဒီ ၁၉၈၉ သက်တော် ၈၇ နှစ်၊ သိက္ခာတော် ၆၇ ဝါအရ ၁၃၅၀ ပြည့်နှစ်၊ ပြာသိုလပြည့်ကျော် ၁၂ ရက် ၂-၂-၈၉ ကြာသပတေးနေ့ နံနက် ၁၀ နာရီအချိန်တွင် ပျံလွန်တော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၃

**ဆံပင်များ ရှည်ထွက်တော်မူ**

၎င်းတို့က ဆရာတော်ဘုရားကြီးပျံတော်မူသည့်နေ့တွင် ဆံတော်ရိတ်ခဲ့သော်လည်း နောက်ရက်များတွင် တစ်နေ့ထက်တစ်နေ့ ဆံတော်ရှည်လာကြောင်း ပြောပြကြသည်။

၈ ရက် မြောက်နေ့တွင်လည်း ဆရာတော်ကြီး၏ဆံပင်များမှာ အမှန်ပင်ရှည်နေပါသည်။ ဆံတော်တို့၏အရှည်မှာ တစ်လက်မ၏ လေးပုံတစ်ပုံခန့်ရှိနေပါသည်။

**အသားများ ပျော့ပျော့ပျောင်းပျောင်းရှိတော်မူ**

ထိုနေ့တွင် ဆရာတော်ကြီး၏ အသားများသည် ပိန်ကပ်သွားသည်။ နှာခေါင်း၊ ပါးစပ်၊ နားရွက်တော်တို့မှာ ပုံမပျက်ပေ။ ဆရာတော်ကြီး ရုပ်ကလာပ်တော်ကိုကိုင်ကြည့်သောအခါ အသားအရေများမှာ အသက်ရှင်စဉ်ကကဲ့သို့ ပျော့ပျောင်းနေကြောင်း တွေ့ရှိရသည်။

**လက်တော်များ ကွေး၍ဆန့်၍ရ**

နေ့စဉ်ကိုင်ကြည့်ကြောင်း လက်ချောင်းခြေချောင်းများကို ကွေးလိုက် ဆန့်လိုက်ပြုလုပ်ကြည့်ရာ သက်ရှိကဲ့သို့ ပျော့ပျောင်းလက်ကွေးဆန့်၍ရကြောင်း သိရပါ သည်။

**ညအခါ မီးငြိမ်းထားသော်လည်း**

ဤထူးခြားချက်ကိုသာမက ညစဉ် ညတိုင်းမီးငြိမ်းထားသော်လည်း ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်နှင့် အနီးပတ်ဝန်းကျင်တို့မှာ အလင်းရောင်များဖြင့် ဝင်းထိန်နေသည်ကို တွေ့မြင်ရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၄

**မိမိခန္ဓာကို ငှက်စာကျွေးရန် လှူဒါန်းခဲ့ခြင်း အံ့ဖွယ်**

မိမိခန္ဓာကို ကျေးစာ၊ ငှက်စာကျွေးရန် လှူဒါန်းတော်မူခဲ့သည်မှာ အလွန်အံ့ဖွယ် ဖြစ်၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၄

အေဒီ ၁၉၈၉ ဆရာတော်ကြီးက ၎င်း၏ကိုယ်ခန္ဓာကိုပျံလွန်တော်မူပြီး ၅ ရက်အကြာတွင် ကျောင်း၏မြောက်ဘက်ကုန်းပေါ်တွင် မှောက်လျက်ထားပြီး ခေါင်းရင်းနှင့်ခြေရင်းမှာ ရေအိုးတစ်လုံးစီထားကာ ကျေးငှက်တိရစ္ဆာန်များအား ကျွေးရန်မှာတော်မူခဲ့သည်။ သို့သော် ဒကာ ဒကာမများက ဤကဲ့သို့ကျေးစာ၊ ငှက်စာမကျွေးရက်ကြသဖြင့် မီးသင်္ဂြိုဟ် ပူဇော်ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၄

တပည့်များက မိမိဆရာအရင်းခေါက်ခေါက်ကြီးကို ကျေးစာ ငှက်စာကျွေးရမည်ကို အလွန်တုန်လှုပ်ချောက်ချားတော်မူသဖြင့် မီးသင်္ဂြိုဟ်တော်မူခဲ့သည်။ ထိုအခါ ဓာတ်တော်များ တဖွားဖွားကျတော်မူသည်။

ဆရာတော်ဘုရားကြီး၏ရုပ်ကလာပ်တော်ကို ဆေးထိုးခြင်း၊ ပြုပြင်ခြင်းမရှိဘဲ ၈ ရက်တိုင်တိုင် အပူဇော်ခံ၍ထားသည်။ ရုပ်ကလာပ်တော်မှာပုပ်ခြင်း၊ ယောင်ခြင်း မရှိပေ။

http://www.dhammadownload.com



**ဓာတ်တော်များ တဖွားဖွားကျတော်မူခြင်း**

အေဒီ ၁၉၈၉

၁၃၅၀ ပြည့်နှစ်၊ တပို့တွဲလဆန်း ၅ ရက်နေ့ အေဒီ (၁-၁၀-၁၉၈၉)တွင် ဆရာတော်ဘုရားကြီး၏ သာဓုကိုင္ဂနွ အဂ္ဂိဈာပနပြုလုပ်ရာတွင် ဓာတ်တော်များကျတော်မူခဲ့လေသည်။ ပူဇော်ထိုက်သော ဒကာ ဒကာမများသည် ဓာတ်တော်များ ရရှိကြသည်။ ဓာတ်တော်မဖြစ်သေးသော အရိုးတော်များကိုလည်း ပူဇော်ကိုးကွယ်ရန် လူအများက ယူကြသည်။ အချို့မှာ ပြာကိုပင် ကျုံးယူသွားကြလေသည်။

**တရားဟောပုံ အလွန်ဆန်း**

ဆရာတော်ဘုရားကြီး သက်တော်ထင်ရှားရှိစဉ်က "အိုနာကျိုးကန်းဆိုတာ တခြား မကြည့်နဲ့ ငါ့ကြည့် အိုနာကျိုးကန်းဆိုတာ ငါမှအစစ်ပဲ"ဟု မိမိကိုယ်ကို စံနမူနာထား၍ ဟောတော်မူသည်။

ကျမ်းကိုး၊ အံ့ဖွယ်ထူးခြားသောမြောက်ဂူကျောင်းဆရာတော်ကြီး၊ အောင်တင်အေး (ကျောက်ပန်းတောင်း)၊ မြတ်မင်္ဂလာ၊ အတွဲ(၄) အမှတ်(၃)၊ ၁၉၈၉ ခု၊ စက်တင်ဘာလ၊ စာ-၅၁ - ၅၄

http://www.dhammadownload.com



# ဖားအောက်တောရ သစ်သီးဆရာတော်

၁၉၀၁ – ၁၉၇၃



http://www.dhammadownload.com



၁၉၀၁ - ၁၉၀၂ ခုနှစ်များသည် ရဟန္တာနှင့် ရဟန်းထူးများသမိုင်းတွင် ထူးခြားမှု ရှိပေသည်။

**စေတ်ပြောင် ရဟန္တာ**

၁၉၀၁ ခုနှစ်ဖွား ကိုယ်တော်များကို လေ့လာသောအခါ စလင်းကန်လယ်ဆရာတော်ဘုရားကြီး ကို တွေ့ရှိရပေသည်။ စလင်းကန်လယ်ဆရာတော်ဘုရားကြီးမှာ ၁၉၀၁ ခုဖွား ဖြစ်၏။ ၁၉၉၁ ခုနှစ်တွင် ပရိနိဗ္ဗာန်ပြုတော်မူ၏။ အရိုးတော် ကွင်းဆက်ဖြစ်၏။ ဓာတ်တော်တဖွားဖွား ကျတော်မူ၏။

> ကျမ်းကိုး။ မောင်ပန်းမွှေး၊ စလင်းကန်လယ်ဆရာတော်ဘုရားကြီး၊ ရဟန္တာနှင့် ရဟန်းထူးများ ပထမတွဲ၊ စာ ၆၇၀ကိုကြည့်။ ဦးစန္ဒိမာ စလင်း၊ အပ္ပမာဒမဂ္ဂဇင်း၊ ၂၀၀၂ -ခု ဇန်နဝါရီလ၊ အတွဲ ၃ ၊ အမှတ် ၁၊ စာ ၄၆ ကိုကြည့်။

ထို ၁၉၀၁ - ၁၉၀၂ ကာလ ပတ်ဝန်းကျင်တွင် ပဋိပတ္တိသာသနာဝင်သမိုင်းတွင် ထူးခြားသော ဖြစ်ရပ်များ မြန်မာပြည်တစ်ဝန်း ဖြစ်ပေါ်လျက်ရှိကြောင်း လေ့လာတွေ့ရှိရပါသည်။

**စေတ်ပြောင် ပထမ လယ်တီ ဆရာတော်**

၁၉၀၀ ပြည့်နှစ်တွင် မဟာမြိုင်တောကြီးထဲ၌ ပထမ လယ်တီဆရာတော်ဘုရားကြီးသည် ဝါကပ် တော်မူလျက် ရှိနေပေသည်။ တစ်ညလုံး မအိပ်ဘဲ မိုးလင်း၍ ကုလားတက်ကြီးခေါက်မှ နံရံကို မှီ၍ မတ်တပ်ရပ်ဖြင့် အတန်ငယ် မှိန်းမှိုသော အိပ်ခြင်းဖြင့် အိပ်ပြီးလျှင် ဆွမ်းခံတော်မူသော ကာလကြီးဖြစ်ပေသည်။ ဤကဲ့သို့ နေ့ ရော ညပါ မအိပ်ဘဲ တစ်ဝါတွင်းလုံး အပင်ပန်းခံကာ အားထုတ်တော်မူသော ကာလဖြစ်သည်။

> ကျမ်းကိုး။ လယ်တီ ဝဏ္ဏိတ နယ်လှည့်ဓမ္မကထိက၊ နိုင်ငံခြား ဗုဒ္ဓသာသနာပြု ဒုတိယ လယ်တီစံကျောင်း၊ မန္တလေးမြို့ ၁၂၈၈ ခု တပို့တွဲလ လယ်တီမဟာထေရုပ္ပတ္တိကထာ၊ ဟံသာဝတီပုံနှိပ်တိုက်၊ စာ ၄၄ ကိုကြည့်ပါ။

၁၉၀၁ ခုနှစ်တွင် လယ်တီဆရာတော်ဘုရားသည် အလုံမြို့အနောက် သလ္လာဝတီမြစ်၏ အနောက်ဘက် ကမ်းနဖူးတွင်ရှိသော ရွှေတောင်ဦးကျောက်ဂူ၌ ဝါကပ်တော်မူသောအချိန် ဖြစ်၏။ အာဟာရဒီပနီ၊ အနတ္တဒီပနီကျမ်းတို့ကို ပြုစုတော်မူသည့်အချိန်လည်းဖြစ်၏။

> ကျမ်းကိုး။ လယ်တီ ဝဏ္ဏိတ နယ်လှည့်ဓမ္မကထိက၊ နိုင်ငံခြား ဗုဒ္ဓသာသနာပြု ဒုတိယ လယ်တီစံ ကျောင်း၊ မန္တလေးမြို့ ၁၂၈၈ ခု တပို့တွဲလ လယ်တီမဟာထေရုပ္ပတ္တိကထာ၊ ဟံသာဝတီပုံနှိပ်တိုက်၊ စာ ၄၄ ကိုကြည့်ပါ။

**စေတ်ပြောင် ကြောင်ပန်းဆရာတော်**

၁၉၀၀ ပြည့်နှစ် မေလ ပူပြင်းသော ကဆုန်လတွင် ကြောင်ပန်းဆရာတော် ဦးက္ကန္ဒကကိုယ်တော် မြတ်ကြီးသည် ဆင်ရိုင်းကြီးများ သစ်ကျားများ အလွန်ထူထပ်သော ဝက်ရဲ (ဝရဲ)ရွာအနီး ကြောင်ပန်းတောရုံကြီးများတွင် တရားအားထုတ်တော်မူသောအချိန်လည်း ဖြစ်ပေသည်။

> ကျမ်းကိုး။ လယ်တီ ဦးလှပိုင်၊ လယ်တီ ဂန္ထဝင် ၁၉၆၇ ခု၊ ဩဂုတ်လ၊ ပထမအကြိမ် ပုံနှိပ်ခြင်း စာ ၂၈၁ ကိုကြည့်ပါ။

**စေတ်ပြောင် ဖားအောက်ဆရာတော်**

ထိုအချိန်တွင် ဖားအောက်ဆရာတော်ဘုရားကို မွေးဖွားတော်မူသောအချိန်လည်း ဖြစ်၏။ အရှင်တေဇဝန္တ အရှင်မြတ်ကြီးကို မွေးဖွားတော်မူသောအချိန်လည်း ဖြစ်၏။

> ကျမ်းကိုး။ အရှင်တေဇဝန္တ ကိုယ်တော်တိုင် ရေးသားပြုစုချက်၊ ဉာဏစာရီမဟာ ထေရ်ထေရုပ္ပတ္တိ၊ စိန်ရတုသဘင်ကျင်းပရေး ကော်မတီ၊ ၂၄-၁-၁၉၇၆ ခု၊ စာ အမှာစာကိုကြည့်။

http://www.dhammadownload.com



**စေတ်ပြိုင် ပြည်ရွှေဥမှင်ဆရာတော်**

ပြည်မြို့ ရွှေဥမှင် ဆရာတော်ဟု ကျော်စောတော်မူသော လေးကျွန်းပိုင်ဆရာတော် ဘုရားကြီး မွေးဖွားတော်မူသော အချိန်လည်း ဖြစ်၏။

ကျမ်းကိုး။ ဘဒ္ဒန္တဝေပုလ္လ အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ၊ သမ္ဗုဒ္ဓေဂါထာတော်ကျမ်း။ စာ၁၉ ကိုကြည့်၊

**စေတ်ပြိုင် မြောက်ဂူ ရဟန္တာ**

စာတတ်တော်များကျတော်မူသော မြောက်ဂူကျောင်း ဆရာတော် ဦးဉာဏုတ္တရ ရဟန္တာ အရှင်မြတ်ကြီး မွေးဖွားတော်မူသောအချိန်လည်း ဖြစ်၏။

ကျမ်းကိုး။ အောင်တင်အေး၊ ကျောက်ပန်းတောင်း၊ အံ့ဖွယ်ထူးခြားသော မြောက်ဂူကျောင်း ဆရာတော်ဘုရားကြီး၊ မြတ်မင်္ဂလာ၊ အတွဲ ၅ ၊ အမှတ် ၃၊ ၁၉၈၃ ခု စက်တင်ဘာလ စာ ၅၁ ကိုကြည့်ပါ။

ထိုသို့သောအချိန်တွင် ဖားအောက်ဆရာတော်ဟု ကျော်စောတော်မူသော သစ်သီး ဆရာတော် ဘုရားကြီးကို မွေးဖွားတော်မူခဲ့ပါသည်။ ဖားအောက်ဆရာတော်ဘုရားကြီး၏ မှတ်စု မှတ်ရာများကို ဤကျမ်းပြုစုသူ ရှာဖွေစုဆောင်းခဲ့သူမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

**ဇာတိ**

အေဒီ ၁၉၀၁ — ဆရာတော်လောင်းလျာကို သက္ကရာဇ် ၁၂၆၃ ခုနှစ်၊ ကဆုန်လဆန်း ၅ ရက်၊ တနင်္လာနေ့ နံနက်အရုဏ်တက်အချိန်တွင် မော်လမြိုင်မြို့နယ် ဖားအောက်ရွာနေ ဦးရာ-ဒေါ်ငြိမ်းဒွေတို့မှ ဖွားမြင်တော်မူပါသည်။ မောင်ကံထူးဟု အမည်မှည့်ပါသည်။

ကျမ်းကိုး၊ ဝိပဿနာရှုနည်း ၉ နည်း ပဥ္စမတွဲ ၊ စာမျက်နှာ -၁၉၉၊ မှတ်ချက်၊ ၁၂၆၃ ခု ကဆုန်လဆန်း၊ ၅ ရက်သည် တနင်္လာနေ့ မဟုတ်ပါ။ တနင်္ဂနွေနေ့ဖြစ်ပါသည်။ ၁၉၀၁ ခု၊ ဧပြီလ ၂၁ ရက်၊ တနင်္ဂနွေနေ့ ဖြစ်၏။

**မောင်နှမ (၈)ယောက်ရှိ**

မွေးချင်းမောင်နှမ ရှစ်ဦး ရှိသည်။ ၎င်းတို့မှာ ဆရာတော်လောင်းလျာ မောင်ကံထူး၏ အောက်တွင် မတုပ်၊ မောင်ခန့်၊ မတင်၊ မောင်တီး၊ မောင်လှိုင်၊ မောင်ဘိုးမျှင်၊ မခင်နု၊ မောင်ဆားဟင်းတို့ ဖြစ်ကြသည်၊

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉၉

**ငယ်စဉ် ဘဝ**

အေဒီ ၁၉၁၆ — ၁၄ နှစ်သားအရွယ်တွင် အဘိုးအဘွားနှင့် မိဘနှစ်ပါးတို့က ဘုန်းတော်ကြီး ဦးမြင် ထံတွင်ပင် သာသနာ့အမွေခံယူစေလျက် ရှင်အဖြစ်သို့ ရောက်တော်မူလေသည်။ ဘွဲ့တော်မှာ ရှင်ခေမာဝန္တ ဖြစ်သည်။ ကတိုးကော့နှပ်ရွာ တိုက်ကျောင်း ဆရာတော် ဘုရားကြီးက ရှင်ခေမာဝန္တကို သူ့ထံတွင် ပညာသင်ကြားရန် ခေါ်ဆောင်သွားခဲ့ပေသည်။ ရှင်ခေမာဝန္တသည် ကတိုးကော့နှပ် ကျောင်း၌ပင် ၁၄ နှစ်သားမှ ၁၉ နှစ်သားအရွယ်အထိ သဒ္ဒါ၊ သင်္ဂြိုဟ်၊ ဆန်း၊ အဘိဓာန်၊ အလင်္ကာ၊ ညဝါမှစ၍ အခြေခံစာပေများကို သင်ကြား တတ်မြောက်ခဲ့ရုံမျှမက ကစ္စီ ဝိတရဏီ အဌကထာနှင့် ဝိနည်းပါဠိတော်ကြီးများကိုပင် ရဟန်းတော်များနှင့်တွဲ၍ တက်ရောက်သင်ကြား နိုင်ခဲ့ပေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၀၀

http://www.dhammadownload.com



**ရဟန်းအဖြစ် ရောက်ရှိတော်မူ**

အေဒီ ၁၉၂၀ ၁၂၈၂ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၈ရက်နေ့တွင် အဘိုးအဘွားနှင့် မိဘနှစ်ပါးတို့၏ ပစ္စယာနုဂ္ဂဟကို ခံယူ၍ ဖားအောက်ရွာ တိုက်ကျောင်း ဆရာတော် ဦးသီလကို ဥပဇ္ဈာယ်ပြု၍ မြင့်မြတ်သော ရဟန်းအဖြစ်သို့ ရောက်ရှိခဲ့လေသည်။

**စစ်ကိုင်းတောင်တွင် စာပေအမွေရရှိတော်မူ**

အေဒီ ၁၉၂၂ ရဟန်း၂ဝါအရ၌ ပညာသင်ကြားရန် အတွက် သက္ကရာဇ်၁၂၈၄ ခုနှစ်တွင် စစ်ကိုင်းတောင် မဟာဂန္ဓာရုံ ချောင်သို့ ကြွရောက် သီတင်းသုံးကာ စာပေပရိယတ္တိကို သင်ယူခဲ့သည်။ အရှင်ခေမာဝန္တ မဟာဂန္ဓာရုံသို့ ရောက်သောအခါတွင် မဟာဂန္ဓာရုံဆရာတော်ကြီး မရှိတော့ပြီ။ သို့သော် ဆရာတော်ကြီး၏ လက်ရင်းတပည့်ကြီးဖြစ်သူ မဟာသုခ ချမ်းအေးဆရာတော်ကြီးထံတွင် ပရိယတ်၊ ပဋိပတ်ကို လက်ရင်းကျကျ တပည့်အဖြစ် ချီးမြှောက်ခြင်းကို ခံယူရရှိတော်မူခဲ့လေသည်။

**စံကင်းဆရာတော်ဘုရား မြောင်းမြဆရာတော်ဘုရားကြီးတို့၏ တပည့်**

ထို့ပြင် စံကင်းဆရာတော် ဘုရားကြီးနှင့် မြောင်းမြဆရာတော် ဘုရားကြီးထံတွင်လည်း ပရိယတ်၊ ပဋိပတ်တို့ကို သင်ယူတော်မူခဲ့သေးသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၀၀

**လေနာရောဂါကြောင့် ပဋိပတ္တိလုပ်ငန်းခွင်သို့ ကူးပြောင်း**

အရှင်ခေမာဝန္တသည် မဟာဂန္ဓာရုံချောင်သို့ ရောက်ပြီး ပထမတစ်နှစ်တွင် ပရိယတ္တိကို သင်ယူသည်။ သို့သော် စွဲကပ်လာသော လေရောဂါကြောင့် ပရိယတ္တိသင်ကြားမှုကို လျှော့ပေါ့၍ ပဋိပတ္တိလုပ်ငန်းခွင်သို့ ကူးပြောင်းခဲ့လေသည်။

**မဟာဂန္ဓာရုံ ဩဝါဒ အသားဟင်းကို လုံးဝရှောင်**

ထိုအချိန်မှစ၍ မဟာဂန္ဓာရုံ ဆရာတော်ကြီး၏ ဩဝါဒ အတိုင်း အသားဟင်းတို့ကို လုံးဝ ရှောင်ကြဉ်လိုက်လေသည်။ သဗ္ဗမံသံ ပရိဝဇ္ဇေမိ' ဟူသောအဓိဋ္ဌာန်ကို သန်သန်ကြီး ဆောက်တည်ရာမှ နောင်တွင် သစ်သီးဆွမ်းကို ဘုဉ်းပေးသည်အထိ တိုးတက်အား ထုတ်ခဲ့ ပေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၀၁

**သစ်သီးဆွမ်းစား၍ ကေစာရီ တောရဆောက်တည်**

အေဒီ ၁၉၂၅ ၁၂၈၇ ခုနှစ်တွင် စစ်ကိုင်းတောင်မှ ဖားအောက်ရွာသို့ ပြန်လည်ကြွခဲ့သည်။ ဖားအောက်ရွာနှင့် အလှမ်းမဝေးသော တောင်ခြေတွင် ကေစာရီ တစ်ပါးတည်း တောရ ဆောက်တည်ခဲ့သည်။

**ဓုတင် ၁၃ ပါးဆောင်**

တောရဆောက်တည်ချိန်မှ စ၍ ဓုတင် ၁၃ ပါးကို ရနိုင်သမျှ စွဲစွဲမြဲမြဲ အားထုတ်တော်မူခဲ့ပေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၀၁

**ဘာမှ မရှိ**

သက်န်းဆိုလျှင် သုံးဆောင်တော်မူမြဲ တိစီဝရိက်မှတစ်ပါး အပို မထားချေ။

**ဆားဟင်းမှ စ၍ သစ်သီး သစ်ဥ စိမ်း ကျက် မရွေး**

အေဒီ ၁၉၂၄ ဤသို့လျှင် စစ်ကိုင်းတောင်ရိုး မဟာဂန္ဓာရုံချောင်တွင် ကမ္မဋ္ဌာန်းတရားကို အားထုတ် ကျင့်သုံးတော်မူသော ရဟန်း ၄ ဝါ၊ သက်တော် ၂၄ နှစ်ကစပြီး သက်သတ်လွတ်ဆားဟင်းမှ အစပြု၍ သစ်သီး၊ သစ်ဥ၊ သစ်ဖု၊ သစ်ရွက် စိမ်းကျက်မရွေး အသက်မွေးလွယ်ကူ၍ သုံးဆောင်တော်မူ၏။

http://www.dhammadownload.com



## ၄၈ နှစ်တိုင်တိုင် သက်သတ်လွတ်

အေဒီ ၁၉၇၂ ၄၈ နှစ်တိုင်တိုင် သက်သတ်လွတ်ကို ဘုဉ်းပေးတော်မူခဲ့သည်။

အေဒီ ၁၉၇၂ သစ်သီးဆရာတော်ဘုရားကြီး ဦးခေမာဝန္တသည် သက္ကရာဇ် ၁၃၃၄ ခုနှစ် တပေါင်းလဆန်း ၉ ရက် ညနေ ၃ နာရီ အချိန်တွင် စုတိကမ္မဇရုပ် ချုပ်ငြိမ်းတော်မူခဲ့လေသည်။

ကျမ်းကိုး၊ ဝိပဿနာရှုနည်း ၉ နည်း ပဥ္စမတွဲ ၊ စာမျက်နှာ -၁၉၉

ဖားအောက်တောရသစ်သီးဆရာတော်ဘုရားကြီး၏ ဝိပဿနာရှုနည်းမှာ မဟာဂန္ဓာရုံနည်း ဖြစ်ကြောင်း တွေ့ရှိရပါသည်။

ဖော်ပြပါ သစ်သီးဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအရ သစ်သီး ဆရာတော်ကြီးသည် ပထမ မဟာဂန္ဓာရုံ ဆရာတော်ကြီးကို မမီလိုက်သော်လည်း ပထမ မဟာဂန္ဓာရုံဆရာတော် ဘုရားကြီး ၏ နိဿရည်းအတိုင်းပင် ဗုဒ္ဓါနုဿတိ ဘာဝနာကို အားထုတ်ခဲ့ပါသည်။ တပည့်များကိုလည်း ထိုဘာဝနာကိုပင် ပွားများစေလျက် ကိုယ်တိုင်လည်း ကျင့်ကြံအားထုတ်ခဲ့ပါသည်။

ကျမ်းကိုး၊ ကျော်နန္ဒအောင်၊ ဝိပဿနာရှုနည်း ၉ နည်း ပဥ္စမတွဲ ၊ စာမျက်နှာ -၁၉၉

## ဖားအောက် ရိပ်သာများ တိုးပွားခဲ့

မြန်မာနိုင်ငံ တစ်ဝန်းလုံးတွင် အပြည်ပြည်ဆိုင်ရာ ဖားအောက်တောရ ဗုဒ္ဓသာသနာ ရိပ်သာ ကြီး ၇ ခု ရှိကြောင်း သိရှိရပါသည်။ ဖားအောက်ရိပ်သာ အမည်ခံသောရိပ်သာများကို ခရစ်နှစ် ၁၉၈၃ ခုနှစ်တွင် မော်လမြိုင် ပင်မဖားအောက်ရိပ်သာမှ စတင်ခဲ့ကြောင်း လေ့လာတွေ့ရှိရပါ သည်။

ကျမ်းကိုး၊ စန္ဒရကန္တရှိန်၊ ရွှင်လန်းချမ်းမြေ့ တရားတွေ့၊ ထူးပေ့ ဖားအောက်စခန်း၊
ဝိဇ္ဇာမဂ္ဂဇင်း အတွဲ ၁၊ အမှတ် ၆၊ ၂၀၀၈ ခုနှစ်၊ မတ်လ၊ စာ ၆၄။

## ဖားအောက်ရိပ်သာများ –

ပင်မ မော်လမြိုင်ဖားအောက်ရိပ်သာ၊ မွန်ပြည်နယ် ဖားအောက်ရိပ်သာ၊ သန်လျင်မြို့ ဖားအောက် ရိပ်သာ၊ မှော်ဘီမြို့ ဖားအောက်ရိပ်သာ၊ ပဲခူးမြို့ ဖားအောက်ရိပ်သာ၊ ထားဝယ်မြို့ ဖားအောက် ရိပ်သာ၊ မန္တလေးမြို့ ဖားအောက်ရိပ်သာ စသည်တို့ ဖြစ်ကြောင်းလေ့လာတွေ့ရှိရ ပါသည်။

ကျမ်းကိုး၊ ယင်းစာ၊ ၆၈

## ကမ္ဘာသို့ ကြေငြာချက်စာတမ်း

ခရစ်နှစ် ၂၀၀၄ ခု၊ ဒီဇင်ဘာလ၊ ၉ - ၁၀ - ၁၁ နေ့များတွင် မြန်မာနိုင်ငံ ရန်ကုန်မြို့ ကမ္ဘာအေးကုန်းမြေမဟာပါသာဏလိုဏ်ဂူ၌ ကျင်းပခဲ့သော ကမ္ဘာ့ဗုဒ္ဓဘာသာ ထိပ်သီးညီလာခံ ကြီးတွင် ဖားအောက်တောရ သာသနာ့ရိပ်သာမှ စာတမ်းနှစ်ခုကို အတိအလင်း ကြေညာ တင်သွင်းခဲ့ပါသည်။ ယင်းစာတမ်းနှစ်ခုမှာ ၁ ။ သမထ ဘာဝနာအားထုတ်ပေါက်မြောက်ခြင်း၊ ၂ ။ ဝိပဿနာ ဘာဝနာ အားထုတ်ပေါက်မြောက်ခြင်း ဟူ၍ ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းစာ၊ ၆၈

http://www.dhammadownload.com



ကျောက်ဖြစ်နေသော ရုပ်ကလာပ်တော်မှ ဆံပင်မွေးနကလေးများ
အသေအချာပေါက်နေသောကြောင့် အလွန့်အလွန် ထူးခြားတော်မူသော

# ဟန်လင်း ကျောက်ဖြစ်ဆရာတော် ဦးနန္ဒ

၁၉၀၄ – ၁၉၉၆



http://www.dhammadownload.com



ရှာဖွေတွေ့ရှိသမျှ အထောက်အထားများအရ မပုပ်မသိုးသော ရုပ်ကလာပ်တော်ကြီးမှာ ကျောက်သား စင်စစ်ကေန်ဖြစ်သွားသော ကျောက်ဖြစ်ရဟန္တာများကို လေ့လာရာတွင် ၃ ပါး တိတိ လေ့လာတွေ့ရှိရပါသည်။

**ရွှေဘိုကျောက်ဖြစ် ဆရာတော်**

ကျောက်သားပကတိဖြစ်သွားသော ဆရာတော်တစ်ပါးမှာ ရွှေဘိုမြို့တွင် ယခုတိုင် ရှိပါသည်။ ဘွဲ့တော်မှာ အရှင်နရိန္ဒာဘိ အရှင်မြတ်ကြီးဖြစ်ပါသည်။ ထိုအရှင်မြတ်ကြီးသည် ခန္ဓာဝန်ချ တော်မူသောအခါ ရေမျှောနှင့် မီးမသဂြိုဟ်နှင့် ဂူသွင်းဟု မှာတော်မူခဲ့သည်။

ကျမ်းကိုး။ မောင်ပန်းမွှေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မ စာအုပ်တိုက်၊ ၂၀၀၈ ခု၊ အောက်တိုဘာ၊ စာ ၆၄၃ ကိုကြည့်ပါ။

**တောင်တန်း ပရိတ်ရေဆူ ဆရာတော်ကြီးက ညွှန်ပြခဲ့**

ရွှေဘိုတွင် ကျောက်ဖြစ်ရုပ်ကြွင်း ရုပ်ကလာပ်တော်ကြီး ရှိကြောင်း သွားဖူးကြပါဟု ဦးစွာ ညွှန်ကြား သူမှာ တောင်တန်းသာသနာပြု ပရိတ်ရေဆူ ဆရာတော်ကြီးဦးဥတ္တမသာရ ကိုယ်တော်တိုင် ဖြစ်ပါသည်။

ကျမ်းကိုး၊ ကျောက်ဖြစ်ဆရာတော် မဟာထေရုပ္ပတ္တိနှင့် ကျင့်စဉ်ကို မန္တလေးမြို့ သကျသီဟ ဘုရားအနီး ခင်မကန်တိုက်တွင် စုံစမ်းနိုင်ပါသည်။

ရွှေဘိုကျောက်ဖြစ်ဆရာတော်သည် ခရစ်နှစ် ၁၉၆၃ ခု မေပြီ ၃ ရက် ဗုဒ္ဓဟူးနေ့ သက်တော် ၆၄၊ ဝါတော် ၄၅ တွင် ခန္ဓာဝန်ချတော်မူပါသည်။ ၎င်းနောက် ၂၅ နှစ်တိတိကြာသောအခါ ၁၉၈၈ ခုမှစ၍ ကျောက်သားပကတိ ဖြစ်သွားပါသည်။

ကျမ်းကိုး။ မောင်ပန်းမွှေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မ စာအုပ်တိုက်၊ ၂၀၀၈ ခု၊ အောက်တိုဘာ၊ စာ ၆၄၅ ကိုကြည့်ပါ။

**စေတ်ပြိုင် ဇလွန် မဒေးဆရာတော်**

ထိုကျောက်ဖြစ်ဆရာတော်ကြီး ဖွားတော်မူသောနှစ်တွင် ထူးထူးခြားခြား ထိုနှစ်တွင် ဖွားတော်မူ သော အခြားဆရာတော်တစ်ပါးမှာ သံတွဲမြို့နယ် ဇလွန်မဒေး ဆရာတော် ဦးသုဇာတ မထေရ် မြတ်ဖြစ်ပါသည်။ ထိုဆရာတော်၏ ရုပ်ကလာပ်တော်သည် ယခုတိုင် ဇလွန်မဒေး၌ တည်တော်မူ သေး၏။ သွားရောက်ဖူးမြော်နိုင်ပါသည်၊ ထိုဆရာတော်သည် ၁၉၀၄ တွင် ဖွား၏။ ၁၉၈၄ တွင် ခန္ဓာဝန် ချတော်မူ၏။ ယနေ့တိုင် ရုပ်ကလာပ်တော် မပုပ်မသိုး ရှိ၏။

ကျမ်းကိုး။ သံတွဲမြို့ မြို့မဝေဠုဝန် ပဝါရဏာအုပ်စုကြီး၏ ဂဏဦးသျှောင်ဖြစ်တော် မူသော ဇလွန်မဒေး၊ ဆရာတော် အရှင်သုဇာတ မဟာထေရ်မြတ်၏ ထေရုပ္ပတ္တိ ကထာကို ပြုစုသူ ကျမ်းပြု ဆရာ အရှင်ရေဝတ ဆရာတော်က ရေးသားပူဇော်ခဲ့ ပါသည်။

ကျမ်းကိုး။ သံတွဲမြို့ မြို့မဝေဠုဝန် ပဝါရဏာအုပ်စုကြီး၏ ဂဏဦးသျှောင်ဖြစ်တော် မူသော ဇလွန် မဒေး၊ ဆရာတော် အရှင်သုဇာတ မဟာထေရ်မြတ်အားရည်မှန်း ပူဇော်လာကြသည် ၂၅ နှစ်ပြည့် အထူးပြု ပဋ္ဌာန်းပါ ပတ္တာနမောဒနအလှူပွဲ ငွေရတုသဘင် အခမ်းအနားအစီအစဉ် မှတ်တမ်း၊ ၂၀၀၉ ခု၊ အောက်တိုဘာလ၊ ၁၉ရက်၊

**ခေတ်ပြိုင် ပွင့်ဖြူ ဂူဖြူ ဆရာတော်**

၁၉၀၄ ခုနှစ်ဖွား အခြားဆရာတော်တစ်ပါးမှာ မကွေးတိုင်း၊ ပွင့်ဖြူမြို့နယ်၊ ဂူဖြူရွာ ဆရာတော်

http://www.dhammadownload.com



ဘုရားကြီး ဦးသုစိတ္တဖြစ်၏။ ယနေ့တိုင် ရုပ်ကလာပ်တော် ဖူးမြော်နိုင်သေး၏။ ထိုဆရာတော်ကြီးလည်း ၁၉၀၄ ခုနှစ်မှ ဖွား၏။ ၁၉၉၅ ခုနှစ်မှာ ခန္ဓာဝန်ချတော်မူ၏။ ယနေ့တိုင် မပုပ်မသိုးဘဲ ရှိတော်မူ၏။

ကျမ်းကိုး၊ ကျော်ဇောလင်း၊ မကွေး၊ မပုပ်မသိုး အနံ့မထွက်သည့် ဂူဖြူဆရာတော်ကြီး၏ ရုပ်ကလာပ်တော် ဂမ္ဘီရ ၁၉၉၆ ခု၊ အမှတ် ၁၁၊ စာ ၉၉ - ၁၀၀။ မောင်ပန်းမွေး ရဟန္တာနှင့် ရဟန်းထူးများ တော်ဝင်မြို့မ စာအုပ်တိုက် ၂၀၀၈ ခု အောက်တိုဘာ စာ ၆၈၅ ကိုကြည့်။

**စေတ်ပြိုင် မဟာစည် ဆရာတော်**

၁၉၀၄ ခုဖွား အခြားဆရာတော်တစ်ပါးမှာ ပြောလိုက်လျှင် လူတိုင်း သိပါသည်။ ထိုဆရာတော်ကြီးကား မဟာစည်ဆရာတော် ဘဒ္ဒန္တသောဘနကိုယ်တော်မြတ်ကြီးဖြစ်၏။ ဓာတ်တော်များကို ယနေ့တိုင် ဖူးမြော်နိုင်ပါသည်။ ထိုဆရာတော်လည်း ၁၉၀၄ ခုတွင် ဖွားတော်မူ၏။ ၁၉၈၃ ခုနှစ် တွင် ပရိနိဗ္ဗာန်ပြုတော်မူ၏။ ပရိနိဗ္ဗာန်ပြုသည်ဟူသော စကားကို ဆားတောင်ဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် မိန့်တော်မူသော စကားဖြစ်၏။

ကျမ်းကိုး။ စာရေးဆရာ မောင်ချမ်းမြေ့၊ ဆားတောင်ဆရာတော်ဘုရားကြီးအကြောင်း၊ စာအုပ်အမှတ် ၂ လောကကို လွတ်မြောက်ခြင်း။ စာမျက်နှာ ၂၂ - ၂၇။

**စေတ်ပြိုင် ဟန်လင်း ကျောက်ဖြစ်ဆရာတော်**

ယခု ဖော်ပြလတ္တံ့သော ဟန်လင်းမြို့ ကျောက်ဖြစ်ရဟန္တာကိုယ်တော်မြတ်ကြီးကား ဦးနန္ဒန၊ ဘွဲ့တော်ရှိသော မဟာထေရ်ကြီး ဖြစ်၏။ ဟန်လင်း ဆိုသည်မှာ ရှေးဟောင်း မြို့တော်ဟောင်း ဟန်လင်းမြို့ကို ဆိုလိုပါသည်။

**ကျောက်ဖြစ်နေသော ရုပ်ကလာပ်တော်တွင် ဆံပင်မွေးနုကလေးများထွက်ရှိခြင်း အံ့ဖွယ်**

ထူးခြားစွာ ကျောက်ဖြစ်နေသော ဆရာတော် ဦးနန္ဒန၏ ရုပ်ကလာပ်တော်အတွင်း၌ ကြွေပြားကပ် ပလ္လင်ထက်တွင် မှန်ခေါင်းဖြင့် ပူဇော်ထားသော ရုပ်ကလာပ်တော်ကို တွေ့ရသည်။ ရုပ် ကလာပ်တစ်ခုလုံး ကျောက်သားပကတိဖြစ်နေသော်လည်း ဦးခေါင်းတော်ရှိ ဆံပင်မွေးနုကလေးများကို ထင်ရှားစွာ ဖူးရသဖြင့် ဆရာတော်၏ သီလ၊ သမာဓိနှင့် ကျင့်ကြံမှုတို့ကို လွန်စွာကြည်ညို မိရလေသည်။

ကျမ်းကိုး။ ဟူကျင်းဗီ၊ အမှတ် (၂၄၅) ဒီဇင်ဘာ၊ ၂၀၀၆၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ စာ-၁၀၁

**ဇာတိ ဟန်လင်းကျေးရွာ**

အေဒီ ၁၉၀၄ ဆရာတော်ကို သက္ကရာဇ် ၁၂၆၆ ခု၊ ဒုတိယဝါဆိုလဆန်း (၅)ရက်၊ စနေနေ့တွင် ဟန်လင်းကျေးရွာ၊ ကုန်းကျောင်းရပ်နေ ခမည်းတော် ဦးတင်၊ မယ်တော် ဒေါ်ချစ်တို့မှ ဒုတိယသားရတနာအဖြစ် မွေးဖွားခဲ့သည်။ မွေးချင်းသုံးဦး ရှိသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၀၁

**စစ်ကိုင်းတောင်တွင် ရဟန်းပြု**

အေဒီ ၁၉၂၃ သက္ကရာဇ် ၁၂၈၅ ခုနှစ်တွင် စစ်ကိုင်းတောင်ရိုး၊ ရတနာဓမ္မဝံချောင် ခဏ္ဍာသိမ်တွင် ရွှေကျင်ခုနစ်တိုက် ပဓာနနာယကဆရာတော် ဦးနန္ဒဝံသကို ဥပဇ္ဈာယ်ပြုလျက် ရဟန်းဘဝ ရောက်ရှိသည်။

http://www.dhammadownload.com



**သက်တော် ၉၃ တွင် ပျံလွန်တော်မူ**

အေဒီ ၁၉၉၆ သက္ကရာဇ် ၁၃၅၈ခုနှစ် သက်တော် (၉၃)ခုနှစ်၊ ဝါတော် (၇၃)ဝါအရတွင် မန္တလေးမြို့ အဘယာရာမ ရွှေဂူကျောင်းတိုက်၌ ပျံလွန်တော်မူသည်ဟု ကမ္ပည်းတင်ထားသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၀၁

**ရှေးဟောင်း ဟန်လင်းကျောင်းတော်ကြီး**

အေဒီ ၁၈၅၉ ဤကျောင်းတော်ကြီးကို မန္တလေးမြို့တည်နှစ်ဖြစ်သော သက္ကရာဇ် ၁၂၂၁ ခုနှစ် ကဆုန်လ၌ ဟန်လင်းရွာ၊ တောင်ငူရပ်နေ ဆားတော်အုပ် ဦးထွန်းအောင်၊ ဒေါ်မယ်သိန်းတို့က ဆောက်လုပ်လှူဒါန်းခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၀၁

**ဟန်လင်း ဆရာတော်များ**

ဤကျောင်းတော်ကြီးအား ဆရာတော် ငါးဆက် တာဝန်ယူသီတင်းသုံးခဲ့သည်။ (၁) ဆရာတော် ဦးဖော်၊ (၂) ဆရာတော် ဦးမြတ်ကြီး၊ (၃) ဆရာတော် ဦးနန္ဒိမ၊ (၄)ဆရာတော် ဦးနန္ဒနနှင့် လက်ရှိဆရာတော် ဦးပညာသာမိက ပဉ္စမမြောက် တာဝန်ယူတော်မူကြသည်။ စတုတ္ထဆရာတော် ဦးနန္ဒနမှာ ကျောက်ဖြစ်ဆရာတော်ကြီးပင်ဖြစ်သည်။

ကျမ်းကိုး၊ ဟူဂျင်းဇီ အမှတ် (၂၄၅) ဒီဇင်ဘာ၊ ၂၀၀၆၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ စာ-၁၀၁

**ကျောက်ဖြစ် ဆရာတော်**

ကျောက်ဖြစ်ဆရာတော်ကြီးနှင့် စပ်လျဉ်း၍ စာတွေ့ ငါတွေ့ မှတ်စု မှတ်တမ်းကက်တလောက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

**တည်နေရာ**

ဟံလင်းမြို့ဟောင်းမှာ ရွှေဘိုခရိုင် ဝက်လက်မြို့နယ်တွင်ရှိပြီး ယခုအခါ ရွာကြီးတစ်ရွာအဆင့်သာရှိတော့သည်။ သွားရလာရသည်မှာ သိပ်အဆင်မချောသဖြင့် တကူးတကန့် သွားရောက်လိုသူများမှအပ အသွားအလာ နည်းလှသည်ဟု ရောက်ဖူးသူတို့က ဆိုပါသည်။

ကျမ်းကိုး၊ မောင်မိုးအောင်၊ ဆားလင်းကြီး၊ သုခပြည့်စုံမဂ္ဂဇင်း၊ အမှတ် ၂ ဧပြီလ ၂၀၀၇၊ စာ ၂၄။

**လမ်းစရီး လမ်းညွှန်**

ကားလမ်းမှ သွားလျှင် မန္တလေး ရွှေဘို လမ်းမိုင်တိုင်ကွေ့မှာ ဆင်းရသည်။ ထိုနေရာမှ ဟံလင်းသို့ သွားသည့် (၉) မိုင်အရှည် လမ်းခွဲတစ်ခု ရှိသည်။ ရထားလမ်းမှလာလျှင် မန္တလေးမြစ်ကြီးနား ရထားစီးရသည်။ မုဆိုးခြံဘူတာမှာ ဆင်းရသည်။ ဟံလင်းသို့ ခြေလျင်ခရီး နှင်ရသည်။

ကျမ်းကိုး၊ မောင်မိုးအောင်၊ ဆားလင်းကြီး၊ သုခပြည့်စုံမဂ္ဂဇင်း၊ အမှတ် ၂ ဧပြီလ ၂၀၀၇၊ စာ ၂၄။

တည်နေရာအရပ်ကိုလည်း အောက်ပါအတိုင်း ရည်ညွှန်းထားသည်ကို တွေ့ရှိရပါသည်။ လမ်းညွှန်ချက်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

**နှစ်ပေါင်း ရာကျော် ကျောင်းတော်ကြီး**

ပြာသာဒ်ကျောင်းမှာ ဟံလင်းကျောက်စာတိုက်၏ တောင်ဘက်ကုန်းကျောင်းရပ်တွင် ရှိသည်။ ကျောင်းဝင်းအတွင်းသို့ဝင်ခဲ့ရာ ရှေးဟောင်းကျောင်းကြီးတစ်ဆောင်ကို ထီးထီးမားမား တွေ့ရ

http://www.dhammadownload.com



သည်။ ဟန်လင်းကျောင်း၏ ရာဇဝင်သမိုင်းသည် ရှည်လျားလှပါသည်။ ယခုမှပေါ်သည့် ကျောင်းမဟုတ်။ မန္တလေးခေတ်ကတည်းက ပေါ်ကြောင်း သိရှိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၅

**စာဆိုတော်ကြီး ပလိပ်စား ဦးဖျော်၏ကောင်းမှုကျောင်းတော်ကြီး**

အေဒီ ၁၈၄၉ ဒီကျောင်းကြီးက မန္တလေးမြို့တည်တဲ့နှစ်မှာ ဆောက်ခဲ့တာ။ သက္ကရာဇ် ၁၂၁၁ ခုနှစ်ပေါ့။ ပလိပ်စား ဦးဖျော်ရဲ့ ကောင်းမှုဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၅

**ဆေးထိုးထားခြင်းမရှိ**

ရုပ်ကလာပ်တော်မှာ ဆေးထိုးထားခြင်းလည်း မရှိ။ ပြုပြင်ထားခြင်းလည်း မရှိ။ သီလ၊ သမာဓိ၊ ပညာကြောင့် ကြာရှည်စွာ တည်တံ့ခိုင်မြဲကြောင်း အများက ယုံကြည်ကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၅

**စေတ်ပြိုင် မှတ်တမ်းများ ရှာဖွေရ**

ထိုအခါ ထိုဆရာတော်ကြီး၏ ထေရုပ္ပတ္တိကိုလည်း သိလိုသဖြင့် ရှာဖွေရာ အောက်ပါအတိုင်း တွေ့ရပါသည်။

**ဇာတိ**

၁၉၀၄ ဆရာတော်ကြီးမှာ ဟံလင်းကျေးရွာ ကုန်းကျောင်းရပ် ဇာတိ ဖြစ်သည်။ ခမည်းတော် ဦးတင်၊ မယ်တော် ဒေါ်ချစ်တို့မှ သက္ကရာဇ် ၁၂၆၆ ခုနှစ် ဝါခေါင်လဆန်း ၅ ရက် စနေနေ့တွင် ဖွားမြင်ခဲ့သည်။

**ရဟန်းဖြစ်**

၁၉၂၃ သက္ကရာဇ် ၁၂၈၅ ခု တန်ဆောင်မုန်းလဆန်း ၁၂ ရက် တနင်္လာနေ့တွင် စစ်ကိုင်းတောင်ရိုး ရတနာ ဓူဝံခဏ္ဍသိမ်၌ စစ်ကိုင်းတောင်ရိုး ရွှေကျင်ရဟန်းတို့၏ အကြီးအကဲဖြစ်တော်မူသော ဆရာတော် ဦးနန္ဒဝံသကို ဥပဇ္ဈာယ်ပြု၍ အရှေ့မှန် ကျောင်းဆရာတော် ဦးပဏ္ဍဝံသကို အနုသာသနာပြု ကာ ကာရကသံဃာအပါး (၂၀)တို့က ဝိုင်းဝန်းချီးမြှင့်သဖြင့် မြင့်မြတ်သော ရဟန်းအဖြစ်သို့ ရောက်ရှိခဲ့သည်။

**ကမ္မဝါဆရာတော်များ**

ကမ္မဝါဆရာတော်များအဖြစ် ဓူဝံဆရာတော်၊ မဟာသိဝံ ဆရာတော်၊ ရွှေပြည်ကျောင်း ဆရာတော်၊ လေးကျောင်းဆရာတော်၊ အထက်ဇေတဝန် ဆရာတော်၊ အောက်ဇေတဝန် ဆရာတော်၊ ဓူဝံချောင် ဦးနာယက၊ ဦးသုတ၊ လှိုင်းတက်ကျောင်း ဦးဝိသုဒ္ဓဆရာတော်ကြီးများက ချီးမြှောက်ကြသည်။

**မွေးချင်းများ**

ဆရာတော် ဘဒ္ဒန္တနန္ဒန၏ မွေးချင်းများမှာ (၁) ဦးအောင်ဘ၊ (၂) ဦးအောင်လှ (ဆရာတော်ကြီး) (၃) ဦးအောင်မြ (ဦးပဏ္ဍိတ၊ ရွှေဂူဆရာတော်)၊ (၄) ဦးပေါက်စ တို့ဖြစ်သည်။ ဟံလင်းမြို့ ပြသာဒ်ကျောင်းတိုက်တွင် ဆရာတော်ကြီး သီတင်းသုံးခဲ့သည်။

**ခန္ဓာဝန်ချတော်မူခြင်း**

အေဒီ ၁၉၉၆ မြန်မာသက္ကရာဇ် ၁၃၅၈ ခုနှစ် နတ်တော်လပြည့်ကျော် (၄) ရက်၊ တနင်္ဂနွေ နေ့ ၁၂ နာရီ ၄၅ မိနစ်တွင် ဘဝနတ်ထံ ပျံလွန်တော်မူသည်။ ပျံလွန်တော်မူချိန်၌ သက်တော် ၉၃ နှစ် ဝါတော် ၇၃ ဝါရှိပြီ ဖြစ်သည်။

http://www.dhammadownload.com



**ကျောက်ပေါ်မှာ ဦးခေါင်းက အမွေးတွေပေါက်နေခြင်း အံ့ဖွယ်ကို သွားဖူးကြပါ**

ရုပ်ကလာပ်တော်မှာ အရိုးပေါ် အရေတင်ဟုပင် မဆိုနိုင်သေးပေ။ ဆံပင်ဖြူများတွေ့ရပြီး အသား အရေမှာ ပကတိအတိုင်း လတ်ဆတ်စိုပြည်နေဆဲဖြစ်သည်ဟု ကိုယ်တွေ့ မှတ်တမ်း ရှိ၏။

ကျမ်းကိုး၊ မောင်မိုးအောင်၊ ဆားလင်းကြီး၊ သုခပြည့်စုံမဂ္ဂဇင်း၊ အမှတ် ၂ ဧပြီလ ၂၀၀၇၊ စာ ၂၄။

ကျမ်းကိုး၊ ဟူကျင်းဇီ အမှတ် (၂၄၅) ဒီဇင်ဘာ၊ ၂၀၀၆၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ စာ-၁၀၁

ကျမ်းကိုး။ စာရေးဆရာ မောင်ချမ်းမြေ့၊ ဆားတောင်ဆရာတော်ဘုရားကြီး အကြောင်း စာအုပ် အမှတ် ၂ လောကကို လွတ်မြောက်ခြင်း၊ စာမျက်နှာ ၂၂ - ၂၇ ။

ကျမ်းကိုး၊ သံတွဲမြို့ မြို့မဝေဠုဝန် ပဝါရဏာအုပ်စုကြီး၏ ဂဏဦးသျှောင်ဖြစ်တော်မူသော ဇလွန်မဒေး၊ ဆရာတော် အရှင်သုဇာတ မဟာထေရ်မြတ်၏ ထေရုပ္ပတ္တိကထာကိုပြုစုသူ ကျမ်းပြုဆရာအရှင်ရေဝတ ဆရာတော်က ရေးသားပူဇော်ခဲ့ပါသည်။

ကျမ်းကိုး၊ သံတွဲမြို့ မြို့မဝေဠုဝန် ပဝါရဏာအုပ်စုကြီး၏ ဂဏဦးသျှောင်ဖြစ်တော်မူသော ဇလွန်မဒေး၊ ဆရာတော်အရှင်သုဇာတ မဟာထေရ်မြတ်အား ရည်မှန်း ပူဇော်လာကြသည့် ၂၅ နှစ်ပြည့် အထူးပြု ပတ္တိဒါန ပတ္တာနုမောဒန အလှူပွဲ ငွေရတုသဘင် အခမ်းအနားအစီအစဉ် မှတ်တမ်း၊ ၂၀၀၉ ခု၊ အောက်တိုဘာ ၁၉ ရက်၊

ကျမ်းကိုး၊ ကျော်ဇောလင်း၊ မကွေး၊ မပုပ်မသိုး အနံ့မထွက်သည့် ဂူဖြူဆရာတော်ကြီး၏ ရုပ်ကလာပ်တော် ဂမ္ဘီရ ၁၉၉၆ ခု၊ အမှတ် ၁၁၊ စာ ၉၉ - ၁၀၁။

မောင်ပန်းမွှေး၊ ရဟန္တာနှင့် ရဟန်းထူးများ တော်ဝင်မြို့မစာအုပ်တိုက် ၂၀၀၈ ခု အောက်တိုဘာ စာ ၆၈၅ ကိုကြည့်။

ကျမ်းကိုး၊ ကျောက်ဖြစ်ဆရာတော် မဟာထေရုပ္ပတ္တိနှင့် ကျင့်စဉ်ကို မန္တလေးမြို့ သကျသီဟဘုရားအနီး ခင်မကန်တိုက်တွင် စုံစမ်းနိုင်ပါသည်။

http://www.dhammadownload.com



ဓာတ်တော်များ ရက်ခြား ရက်ခြား ထူးဆန်းစွာ ကျတော်မူသော

သဲတောမြို့ ရွှေဘုံသာတောရကျောင်းမှ

# သဲတော ဦးနန္ဒဝံသ

၁၉၀၄ – ၁၉၉၀



http://www.dhammadownload.com



၁၉၀၄ ခုနှစ်ဖွား ဓာတ်တော်များကျတော်မူသော သဲတောဆရာတော်ကြီး ဖြစ်ပါသည်။ လူသိနည်းသော်လည်း ဖူးခွင့်ရသူအများအပြား ရှိပါသည်။

၁၉၀၄ ခုဖွား ဆရာတော်များကို လေ့လာရာတွင် အောက်ပါအတိုင်းတွေ့ရှိရပါသည်။

**၁၉၀၄ ခုဖွားရွှေဘိုကျောက်ဖြစ်ဆရာတော်**

ကျောက်သားပကတိဖြစ်သွားသော ဆရာတော်တစ်ပါးမှာ ရွှေဘိုမြို့တွင် ယခုတိုင် ရှိပါသည်။ ဘွဲ့တော်မှာ အရှင်နရိန္ဒာဘိ အရှင်မြတ်ကြီးဖြစ်ပါသည်။ ထိုအရှင်မြတ်ကြီးသည် ခန္ဓာဝန်ချတော် မူသောအခါ ရေမျှော်နှင့် မီးမသင်္ဂြိုဟ်နှင့် ဂူသွင်းဟု မှာတော်မူခဲ့သည်။

> ကျမ်းကိုး၊ မောင်ပန်းမွေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မ စာအုပ်တိုက်၊ ၂၀၀၈ ခု၊ အောက်တိုဘာ၊ စာ ၆၄၃ ကိုကြည့်ပါ။

ရွှေဘိုတွင် ကျောက်ဖြစ်ရုပ်ကြွင်း ရုပ်ကလာပ်တော်ကြီး ရှိကြောင်း သွားဖူးကြဟု ဦးစွာ ညွှန်ကြားသူမှာ တောင်တန်းသာသနာပြု ပရိတ်ရေဆူ ဆရာတော်ကြီးဦးဥတ္တမသာရ ကိုယ်တော်တိုင် ဖြစ်ပါသည်။

> ကျမ်းကိုး၊ ကျောက်ဖြစ်ဆရာတော် မဟာထေရုပ္ပတ္တိနှင့် ကျင့်စဉ်ကို မန္တလေးမြို့ သကျသီဟ ဘုရားအနီး ခင်မကန်တိုက်တွင် စုံစမ်းနိုင်ပါသည်။

ရွှေဘိုကျောက်ဖြစ်ဆရာတော်သည် ခရစ်နှစ် ၁၉၆၃ ခု ဧပြီ ၃ ရက် ဗုဒ္ဓဟူးနေ့ သက်တော် ၆၄၊ ဝါတော် ၄၅ တွင် ခန္ဓာဝန်ချတော်မူပါသည်။ ၎င်းနောက် ၂၅ နှစ်တိတိကြာသောအခါ ၁၉၈၈ ခုမှ စ၍ ကျောက်သားပကတိ ဖြစ်သွားပါသည်။

> ကျမ်းကိုး၊ မောင်ပန်းမွေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မ စာအုပ်တိုက်၊ ၂၀၀၈ ခု၊ အောက်တိုဘာ၊ စာ ၆၄၅ ကိုကြည့်ပါ။

**ခေတ်ပြိုင်**

**၁၉၀၄ ခုဖွား၊ ယခုတိုင် ရုပ်ကလာပ်တော်ရှိသေးသော သံတွဲမြို့နယ်၊ ဇလွန်မဒေး ဆရာတော်**

ထိုကျောက်ဖြစ်ဆရာတော်ကြီး ဖွားတော်မူသောနှစ်တွင် ထူးထူးခြားခြား ထိုနှစ်တွင် ဖွားတော်မူသော အခြား ဆရာတော်တစ်ပါးမှာ သံတွဲမြို့နယ် ဇလွန်မဒေး ဆရာတော် ဦးသုဇာတ မထေရ်မြတ်ဖြစ်ပါသည်။ ထိုဆရာတော်၏ ရုပ်ကလာပ်တော်သည်လည်း ယခုတိုင် ဇလွန်မဒေး၌ တည်တော်မူ သေး၏။ သွားရောက်ဖူးမြော်နိုင်ပါသည်။ ထိုဆရာတော်သည် ခရစ်နှစ် ၁၉၀၄ တွင် ဖွား၏။ ခရစ်နှစ် ၁၉၈၄ တွင် ခန္ဓာဝန်ချတော်မူ၏။ ယနေ့တိုင် ရုပ်ကလာပ်တော် မပုပ်မသိုးရှိ၏။

> ကျမ်းကိုး၊ သံတွဲမြို့ မြို့မဝေဠုဝန် ပဝါရဏာအုပ်စုကြီး၏ ဂဏဥသျှောင်ဖြစ်တော်မူ သော ဇလွန် မဒေး၊ ဆရာတော် အရှင်သုဇာတ မဟာထေရ်မြတ်၏ ထေရုပ္ပတ္တိကထာကို ပြုစုသူ ကျမ်းပြုဆရာ အရှင်ရေဝတ ဆရာတော်က ရေးသားပူဇော်ခဲ့ပါသည်။
>
> ကျမ်းကိုး၊ သံတွဲမြို့ မြို့မဝေဠုဝန် ပဝါရဏာအုပ်စုကြီး၏ ဂဏဥသျှောင်ဖြစ်တော်မူသော ဇလွန် မဒေး၊ ဆရာတော် အရှင်သုဇာတ မဟာထေရ်မြတ်အား ရည်မှန်းပူဇော်လာကြသည် ၂၅ နှစ်ပြည့် အထူးပြု ပတ္တိဒါန ပတ္တာနမောဒန အလှူပွဲ ငွေရတုသဘင် အခမ်းအနား အစီအစဉ် မှတ်တမ်း၊ ၂၀၀၉ ခု၊ အောက်တိုဘာ ၁၉ ရက်၊

http://www.dhammadownload.com



**စေတ်ပြိုင်**

**၁၉၀၄ ခုဖွား ယနေ့တိုင် ရုပ်ကလာပ်တော် ဖူးနိုင်သေးသော ပွင့်ဖြူမြို့နယ် ဂူဖြူ ဆရာတော်**

၁၉၀၄ ခုနှစ်ဖွား အခြားဆရာတော်တစ်ပါးမှာ မကွေးတိုင်း ပွင့်ဖြူ မြို့နယ် ဂူဖြူရွာ ဆရာတော် ဘုရားကြီး ဦးသုစိတ္တ ဖြစ်၏။ ယနေ့တိုင် ရုပ်ကလာပ်တော် ဖူးမြော်နိုင်သေး၏။ ထိုဆရာတော်ကြီးလည်း ၁၉၀၄ ခုနှစ်၌ ဖွား၏။ ၁၉၉၅ ခုနှစ်၌ ခန္ဓာဝန်ချတော်မူ၏။ ယနေ့တိုင် မပုပ်မသိုးပဲ ရှိတော်မူ၏။

ကျမ်းကိုး၊ ကျော်ဇော်လင်း၊ မကွေး၊ မပုပ်မသိုး အနံ့မထွက်သည့် ဂူဖြူဆရာတော်ကြီး၏ ရုပ်ကလာပ်တော် ဝတ္ထိရ ၁၉၉၆ ခု၊ အမှတ် ၁၁၊ စာ ၉၉ - ၁၀၁။
မောင်ပန်းမွေး၊ ရဟန္တာနှင့် ရဟန်းထူးများ တော်ဝင်မြို့မ စာအုပ်တိုက် ၂၀၀၈ ခု၊ အောက်တိုဘာ၊ စာ ၆၈၅ ကိုကြည့်။

**စေတ်ပြိုင်၁၉၀၄ ခုဖွား မဟာစည်ဆရာတော်**

၁၉၀၄ ခုဖွား အခြားဆရာတော်တစ်ပါးမှာ ပြောလိုက်လျှင် လူတိုင်း သိပါသည်။ ထိုဆရာတော်ကြီးကား မဟာစည်ဆရာတော် ဘဒ္ဒန္တသောဘနကိုယ်တော်မြတ်ကြီးဖြစ်၏။ ဓာတ်တော်များကို ယနေ့တိုင် ဖူးမြော်နိုင်ပါသည်။ ထိုဆရာတော်လည်း ၁၉၀၄ ခုတွင် ဖွားတော်မူ၏။ ၁၉၈၃ ခုနှစ် တွင် ပရိနိဗ္ဗာန်ပြုတော် မူ၏။ ပရိနိဗ္ဗာန်ပြုသည်ဟူသော စကားကို ဆားတောင်ဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် မိန့်တော်မူသော စကားဖြစ်၏။

ကျမ်းကိုး။ စာရေးဆရာ မောင်ချမ်းမြေ့၊ ဆားတောင်ဆရာတော်ဘုရားကြီး အကြောင်းစာအုပ် အမှတ် ၂ လောဘကို လွှတ်မြောက်ခြင်း၊ စာမျက်နှာ ၂၂ - ၂၇ ။

**စေတ်ပြိုင် သဲတောဆရာတော်**

ဓာတ်တော်များကျတော်မူသော သဲတောဆရာတော်ဘုရားကြီး ဦးနန္ဒဝံသနှင့်တစ်နှစ်တည်း ဖွားသော အထက်ပါ ဆရာတော်များမှာ အလွန်စိတ်ဝင်စားဖွယ် ကောင်းပါသည်။

**ဓာတ်တော်များ တဖွားဖွားကျတော်မူ**

ခန္ဓာဝန်စွန့် ပျံလွန်တော်မူပြီးမှ ဓာတ်တော်ကျလို့ ရဟန္တာမှန်း သိရတယ်၊ အဲဒီ ကျောင်းကလေးဟာ ဆရာတော်ကြီးအားထုတ်ခဲ့တဲ့ ကျောင်းကလေးပေါ့။

သို့သော်ဆရာတော်ကြီး၏ ကြွင်းကျန်ရစ်သော ဓာတ်တော်များကိုဓာတ်ပုံတွင် ထင်ရှားစွာ ဖူးမြင်ရသောအခါ ပို၍ ကြည်ညိုခဲ့ရပါသည်။ သာသနာ့မော်ကွန်းတွင် အရိယာဆရာတော်ကြီးတစ်ပါးကို မှတ်တမ်းသစ်ရေးထိုးနိုင်ပြီဖြစ်၍ များစွာဝမ်းမြောက်ရပါသည်။

**ဇာတိရပ်ရွာ**

အေဒီ ၁၉၀၄

သဲတောမြို့နယ် ခင်ကြီးရွာဟာ ဆရာတော်ကြီး ဖွားရာဇာတိပါ။ ခမည်းတော် ဦးပေါ်+ မယ်တော် ဒေါ်မယ်အုံတို့မှ မြန်မာသက္ကရာဇ် ၁၂၆၆ ခု ပထမ ဝါဆိုလဆန်း (၇)ရက်၊ စနေနေ့၊ နံနက် ၁ နာရီမှာ ဖွားမြင်တော်မူခဲ့ပါသည်။

ကျမ်းကိုး၊ သဲတောမြို့ရွှေဘုံသာတောရကျောင်းမှ ဓာတ်တော်ကျသော ဆရာတော်ကြီး ဦးနန္ဒဝံသ၏ဘဝနှင့်ဓမ္မဂုဏ်ရည်၊ မောင်သွေးချွန်၊ ဝိဇ္ဇာမဂ္ဂဇင်း၊ ၂၀၀၈ခုနှစ်၊ စက်တင်ဘာလ၊ စာ-၁၇၃

http://www.dhammadownload.com



**မွေးဖော်မွေးဖက်**

ဆရာတော်လောင်းလျာဟာမွေးချင်း ၄ ယောက်မှာ ဒုတိယသားဖြစ်ပြီးအစ်ကိုကြီးမောင်စံဘ၊ ဆရာတော်ရဲ့ငယ်နာမည်က မောင်စံဝ၊ ညီကမောင်အောင်စိန်၊ အငယ်ဆုံးနှမထွေးလေးကား မငွေခင် ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၇၅

**ရဟန်းဖြစ်တော်မူခြင်း**

အေဒီ ၁၉၂၅ ကျေးဇူးရှင်တောရဆရာတော်ဘုရားကြီးဟာ မိဘများရဲ့ပစ္စယာနုဂ္ဂဟနဲ့ သက္ကရာဇ် ၁၂၈၇ခုနှစ် တပေါင်း လဆန်း ၁၃-ရက်မှာ ဝမ်းတွင်းမြို့နယ်၊ ခင်ကြီးကျေးရွာ၊ အရှေ့တောင်ကျောင်း ဆရာတော် ဦးဉာဏိန္ဒအား ဥပဇ္ဈာယ်ပြုပြီး ခင်ကြီးကျေးရွာ ငါးပဥ္စင်းကျောင်း ခဏ္ဍသိမ်မှာ မြင့်မြတ်သော ရဟန်းဘဝရောက်ရှိခဲ့ပါသည်။ ရဟန်းဖြစ်ချိန် သက်တော် ၂၁ နှစ်ခွဲ၊ ဘွဲ့တော် အရှင်နန္ဒဝံသ ဖြစ်ပါတယ်။

**မန္တလေးသို့ ရောက်ခဲ့**

ဆရာတော်လောင်းလျာဟာ မန္တလေးတောင်ပြင် ထီးလင်းတိုက် မင်္ဂလာစံကျောင်းဆရာတော် ထံမှာ စာဝါများကို မနေမနားကြိုးစားသင်ယူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၇၆

**ဆားနဲ့သာဘုဉ်းပေး**

ဒီလိုစာဝါလိုက်နေစဉ် လေးငါးဆယ်နှစ်ပတ်လုံး ဇာတိရွာသို့တစ်ခေါက်မျှမပြန်ပါ။ ကျောင်း တိုက်မှာ မိမိတစ်ပါးတည်းကျန်လည်း တစ်ပါးတည်းစာဝါလိုက်နေခဲ့ပါသည်။ စာချဆရာတော် ကြီးက 'ဘာလို့မပြန်တာလဲ'လို့မေးယူရတဲ့အထိပါပဲ။ ဆရာတော်လောင်းလျာဟာ နေ့စဉ် ဆွမ်းခံဝတ်ကို မပျက်စေရတဲ့အပြင် သပိတ်ထဲမှာသားငါးဟင်းလျာတွေပါလာရင် အဲဒီသားငါး တွေကို တခြားသောသံဃာတော်များအား လှူဒါန်းပြီး မိမိကတော့ပဲပြုတ် သို့မဟုတ် ဆားနဲ့သာ ဘုဉ်းပေးလေ့ရှိပါသည်။

**နေ့မှာ စာသင် ညမှာသုသာန်**

နေ့မှာစာသင်ပြီး ညအခါကျောင်းမှာ မအိပ်ဘဲ မန္တလေးအနီးက အုန်းတောတောကျောင်းနဲ့ ကပ်နေတဲ့ သုသာန်ဇရပ်မှာ တရားသွားကျင့်လေ့ရှိပါသည်။

**ဝိနည်းငါးကျမ်း သုတ် ၃ ကျမ်း အဘိဓမ္မာ ၇ ကျမ်း**

ဆရာတော်ဟာ မန္တလေးမှာ ၁၄ ဝါတိုင်တိုင် ပညာသင်ကြားခဲ့ရာ ဝိနည်း ၅ -ကျမ်း၊ သုတ် ၃ ကျမ်း၊ အဘိဓမ္မာ ၇ ကျမ်းတို့ကို သင်ရိုးကုန်တတ်မြောက်ခဲ့ပါတယ်။

**သဲတောသို့ ရောက်တော်မူ**

အေဒီ ၁၉၄၁ သဲတောမြို့ ရွှေဘုံသာတောရကျောင်းသို့ သက္ကရာဇ် ၁၃၀၃ ခုနှစ် တပို့တွဲလဆန်း (၈) ရက်နေ့မှာ စတင်ရောက်ရှိခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၇၆

**တောရကျောင်းကလေး**

ထိုတောရကျောင်းဟာ ဦးရေအေးနဲ့ဦးစိမ္မွေးတို့ တည်ထောင်ခဲ့တဲ့တောကျောင်းပါ။ တော ကျောင်းဆိုပေမယ့် မွေ့လျော်ဖွယ်မကောင်းလှပါ။ သာသာယာယာမရှိပါ။ မြေကမညီမညာ၊ အမှိုက်ဆွေးတွေက ဟိုတစ်ပုံသည်တစ်ပုံ၊ ကျင်းချိုင့်တွေကအပြည့်၊ ဆူးတဖောင်းပင်တွေက ခပ်ကျဲကျဲ၊ တမာပင်လေးနှစ်ပင်မျှသာရှိတဲ့ ကျပ်တီးကုန်းကလေးဖြစ်လို့သာမောဖွယ်မရှိပါဘူး။

http://www.dhammadownload.com



**ကိုယ်တိုင်အမှိုက်လှည်းသောဆရာတော်**

ဆွမ်းခံ မသွားမီ အမှိုက်များကိုမိမိတစ်ပါးတည်း သိမ်းဆည်းလှည်းကျင်းပြီး ဆွမ်းခံကအပြန်မှာ အမှိုက်ပုံ တစ်ပုံမကျန်အောင် သန့်ရှင်းပြီးဖြစ်စေပါတယ်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၇၇)

**နေ့စဉ် ၄၈ နှစ်တိုင်တိုင် ကျင့်ဝတ်**

အေဒီ ၁၉၇၇ ဒီလိုဆောင်ရွက်ခဲ့တာ ပျံလွန်တော်မူကာနီး ၅ လအလိုထိ ၄၈ နှစ်ကျော်ကြာအောင်နေ့စဉ် ဝတ်မပျက်အောင်ဆောင်ရွက်ခဲ့ခြင်းဖြစ်ပါသည်။

**သုသာန်ဓုတင် ၃ ဝါက စ**

အေဒီ ၁၉၂၈ ဆရာတော်ကြီးဟာ ရဟန်းသိက္ခာနှစ်ဝါ သုံးဝါကတည်းက သုသာန်ဓုတင်ဆောင်ခဲ့လေရာ ရွှေဘုံသာတောရသို့ပြောင်းရွှေ့လာပြီး နောက်ပိုင်းမှာလည်း ညအခါ သုသာန်သချိုင်းများသို့ သွား၍တရားအား ထုတ်လေ့ရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၇၇

**မျက်စိမကောင်း**

အဲ့ဒီကတပည့်ဒကာတွေတိုင်ပင်ပြီး သဲတောသို့ ပြန်ပင့်ခဲ့ရပါတော့သည်။ သို့သော်ဆရာတော်ကြီးရဲ့ မျက်စိအခြေအနေမှာ ဆိုးဝါးလာလို့ တပည့်ဒကာတွေ မန္တလေးသို့လာကြရပြန်ပါသည်။

**မန္တလေးဆေးရုံဝင်းထဲ ကျောင်းငယ်လေး ဆောက်ခွင့်ရ**

ဆေးရုံဝင်းကြီးထဲမှာ ဆရာတော်တစ်ပါးစာ ယာယီစံကျောင်းကလေးဆောက်ခွင့်ပြုရန် ဆေးရုံအုပ်ချုပ်ရေးအဖွဲ့ထံ မေတ္တာရပ်ခံကြပါသည်။ ဒီလိုနဲ့ သုံးထပ်သားနဲ့ကာရံထားတဲ့ နှစ်ထပ်ပျဉ်ထောင်ကျောင်းငယ်လေး ဆောက်ခွင့်ရခဲ့ပါသည်။

သူနာပြုတာဝန်ကိုတော့ မျက်စိကျွမ်းကျင် ဆရာတစ်ဦးက ဆောင်ရွက်ပေးပါသည်။ ဆရာတော်ကြီးသည် ဆေးကုသမှုခံယူနေစဉ်မှာလည်း သပိတ်ဖြင့်သာ ဆွမ်းဘုဉ်းပေးပါသည်။ ဓုတင်ကို ဆောင်နိုင်သမျှ ဆောင်ပါသည်။

ဆေးရုံသတင်း ကြားရရုံမျှနှင့်ပင် ဘာသာခြားလူမျိုးခြားများပါ ဆရာတော်ကြီးကိုလာရောက်ကြည်ညိုဖူးမြော်လှူဒါန်းကြတာ ဝက်ဝက်ကွဲပဲဟုသိရပါသည်။

**ဆွေမျိုးမရှိ**

ဆရာတော် ကျန်းမာရေးဆိုးဝါးနေစဉ် ညီဖြစ်သူ ဦးအောင်စိန်လာရောက်ပြုစုရာ "အဲဒါ ဆရာ တော်ကြီးရဲ့ညီအရင်းပေါ့" ဟုပရိသတ်အကြား ပြောဆိုနေကြရာ ဆရာတော်ကြီးက "ဘုန်းကြီး မှာ ဆွေမျိုးမရှိတော့ဘူး။ လူတုန်းကသာ ညီအစ်ကိုမောင်နှမရယ်လို့ ဆွေမျိုးရှိတာ" လို့ ဆိုပါသည်။

**မိဘကျေးဇူးဆပ်**

အေဒီ ၁၉၅၂ ဝါတော်(၁၀)လောက်တုန်းကတော့ ဆရာတော်ကြီးရဲ့ခမည်းတော်ကြီးနေမကောင်းလို့လာပင့်တဲ့ အခါ လိုက်သွားပြီး ခမည်းတော်ဒကာကြီးကိုပြုစုရင်း တရားနှလုံးသွင်းခိုင်းပါတယ်။ ဆယ်ရက်တိုင်တိုင် တရားဖြင့် ကျေးဇူးဆပ်ပြုစုခဲ့ပြီး ခမည်းတော်ကြီးဟာ ဆရာတော်ရဲ့ လက်ပေါ်မှာပဲ ကွယ်လွန်သွားရှာပါသည်။

**ကုလားထိုင်ပေါ် ထိုင်လျက် ခန္ဓာဝန်စွန့်တော်မူ**

အေဒီ ၁၉၉၀ ဆရာတော်ကြီးဟာ သက်တော် ၈၇ ဝါတော် ၆၅ ဝါအရ မြန်မာသက္ကရာဇ် ၁၃၅၂

http://www.dhammadownload.com



တပေါင်းလဆန်း ၃ ရက် သောကြာနေ့ နံနက် ၇ နာရီ ၁၅ မိနစ်မှာ သဲတောမြို့ ရွှေဘုံသာတောရကျောင်းမှာ ကုလားထိုင်ပေါ်ထိုင်လျက် ခန္ဓာဝန်စွန့်ပျံလွန်တော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၇၉

**ဓာတ်တော်ကျခြင်း**

အေဒီ ၁၉၉၁ ဆရာတော်၏ရုပ်အလောင်းတော်ကို (၁၇-၂-၁၉၉၁) သက္ကရာဇ် ၁၃၅၂ ခု တပေါင်းလဆန်း ၅ ရက် တနင်္ဂနွေနေ့ ညနေ ၃ နာရီမှာ နံ့သာမွှေးတိုင်များ၊ သနပ်ခါးတုံးများနဲ့ မီးသဂြိုဟ် ပူဇော်ခဲ့ကြပါသည်။ ဓာတ်တော်က ချက်ချင်းကျခဲ့ခြင်း မဟုတ်ပါ။

**ပထမ ၅ ဆူ**

အေဒီ ၁၉၉၁ မီးသဂြိုဟ်ပြီး ၁၇ ရက်အကြာ (၅-၃-၁၉၉၁) တပေါင်းလဆုတ် ၂ ရက်နေ့၊ အင်္ဂါနေ့မှာ ဓာတ်တော် ၅ ဆူ၊

**ဒုတိယ ၅ ဆူ**

အေဒီ ၁၉၉၁ (၇-၃-၁၉၉၁) ခုနှစ်၊ တပေါင်း လဆုတ် ၈ ရက်နေ့ ကြာသပတေးနေ့မှာ ၅ ဆူ၊ ဓာတ်တော် မြတ် ၁၂ ဆူ ကြွင်းကျန်ရစ်သည်ကို ယခုတိုင် ပူဇော်ထားရှိပါသည်။

ကျမ်းကိုး၊ ဝိဇ္ဇာ၊ ရသစုံမဂ္ဂဇင်း၊ ၂၀၀၈ ခုနှစ်၊ စက်တင်ဘာလ ၊ စာမျက်နှာ - ၂၇၄

ကျမ်းကိုး။ ဦးနန္ဒဝံသ၏ ဘဝရုပ်ပုံလွှာ နိုင်ငံတော် သံဃမဟာနာယကအဖွဲ့၊ ဒုတိယ ဥက္ကဋ္ဌ ဆရာတော် အဂ္ဂမဟာပဏ္ဍိတဘဒ္ဒန္တဉာဏာဘိဝံသ ကိုယ်တိုင် နိဒါန်းရေးမိတ်ဆက်ပေးထားပါသည်။ ဒုတိယ ဥက္ကဋ္ဌဆရာတော်မှာ မန္တလေးမြို့ တောင်ထီးလင်းတိုက် မင်္ဂလာစံကျောင်းမှာ ပညာသင်ယူစဉ်က သဲတော ဆရာတော်ကြီး၏ သဒ္ဒိဝိဟာရိက တပည့်အဖြစ်နှင့် ငါးနှစ်တိုင် အတူနေခဲ့ဖူးပါသည်။

ကျမ်းကိုး၊ သဲတောမြို့ ရွှေဘုံသာတောရကျောင်းမှ ဓာတ်တော်ကျသော ဆရာတော်ကြီး ဦးနန္ဒဝံသ၏ ဘဝနှင့်ဓမ္မဂုဏ်ရည်၊ မောင်သွေးချွန်၊ ဝိဇ္ဇာမဂ္ဂဇင်း၊ ၂၀၀၈ခုနှစ်၊ စက်တင်ဘာလ၊ စာ-၁၇၃

http://www.dhammadownload.com



# ဇာလီတောင် ဆရာတော်
# အရှင်သုမင်္ဂလသာမိ

၁၉၀၄ – ၁၉၈၇



http://www.dhammadownload.com



၁၉၀၄ ခုဖွား ဇာလီတောင်ဆရာတော်ဘုရားကြီး၏ အကြောင်းအရာများမှာ အံ့မခန်းလောက်အောင်စိတ်ဝင်စားဖွယ် ကောင်းလှပါသည်။

**ထိုနှစ်တွင် မန်လည်ဆရာတော်ဘုရားကြီး မဃဒေဝ လင်္ကာကြီး အချောသတ်နေ**

**၁၉၀၄ ခုတွင် မန်လည်ဆရာတော်ကြီး မဃဒေဝလင်္ကာကြီးကို ရေးနေ၏။** ဇာလီတောင်ဆရာတော်ဘုရားကြီး ဖွားတော်မူစဉ် အထက်မန်လည်၌ မန်လည်ဆရာတော်ဘုရား ဟူ၍ ရှိပါသည်။ ထိုဆရာတော်ဘုရားကြီးသည် မဃဒေဝ လင်္ကာသစ်ကြီးကို ရဟန်း ၁၀ ဝါက စ၍ ရေးခဲ့ရာ ၁၉၀၄ ခု - ၁၉၀၅၌ ပြီးတော်မူပါသည်။ ၁၉၀၅ ခုနှစ်တွင် ရေးလက်စကို အချောသတ်တော်မူနေသောအချိန်နှင့် တိုက်ဆိုင်လျက်ရှိပါသည်။

ကျမ်းကိုး။ ပါရဂူ၊ မန်လည်ဆရာတော်မိုးဂျာနယ်၊ ဇွန်လ ၂၀၀၃ ခု၊ စာ ၁၉ကို ကြည့်။ မောင်ပန်းမွေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မ၊ ၂၀၀၈ ခု အောက်တိုဘာလ၊ စာ ၂၂၂ ကိုကြည့်။

**ထိုနှစ်တွင် လယ်တီဆရာတော်ကြီး မြင်းခြံသို့ ရောက်**

**၁၉၀၄ခုနှစ်တွင် လယ်တီဆရာတော်ကြီး မြင်းခြံမှာရှိ၏။** ဇာလီတောင်ဆရာတော်ဘုရားကြီး ဖွားတော်မူသောအချိန်တွင် လယ်တီဆရာတော်ဘုရားကြီးသည် မြင်းခြံမြို့ ရေကန်ကြီးအနီး၌ သီတင်းသုံးတော်မူလျက်ရှိပါသည်။

**ထိုနှစ်တွင် လယ်တီဆရာတော်ကြီး လက်ပံတောင်းတောင်မှာ ညမအိပ်ဘဲ အားထုတ်**

**၁၉၀၄ ခုတွင် လယ်တီဆရာတော်ကြီး လက်ပံတောင်းတောင်တွင် ရှိ၏။** လယ်တီဆရာတော် ဘုရား ဖွားတော်မူသောနှစ်တွင် လယ်တီဆရာတော်ဘုရားကြီးသည် လက်ပန်တောင်းတောင် အတောင် ၆၀ ရှိသော စင်္ကြံကျောင်းကြီးတွင် ဝါကပ်နေထိုင်တော်မူပါသည်။ ထိုတောင်တွင်ပင် သမ္မာဒိဋ္ဌိဒီပနီ၊ စတုသစ္စာဒီပနီ၊ ကမ္မဋ္ဌာနဒီပနီကျမ်းတို့ကို ပြုစုနေသော အချိန်နှင့် တိုက်ဆိုင်နေပါသည်။

ကျမ်းကိုး။ လယ်တီ ဦးဝဏ္ဏိတနယ်လှည့် ဓမ္မကထိက၊ နိုင်ငံခြား ဗုဒ္ဓသာသနာပြု ဒုတိယ လယ်တီစံကျောင်း မန္တလေးမြို့၊ ၁၂၈၈ ခု တပို့တွဲလ၊ မဟာလယ်တီ ထေရုပ္ပတ္တိကထာ ဟံသာဝတီ ပုံနှိပ်တိုက်၊ စာ ၄၈ ကိုကြည့်။

**ထိုနှစ်တွင် လယ်တီဆရာတော်ကို ဝိဇ္ဇာမိုရ်ကြ ပြာဆက်သ**

**၁၉၀၄ ခုတွင် လယ်တီဆရာတော်ကို ဝိဇ္ဇာမိုရ်ကြ သက်ရှည်ပြာ ဆက်သ၏။** ထို ၁၉၀၄ ခုနှစ်တွင်ပင် လယ်တီဆရာတော်ကို လူဝိဇ္ဇာမိုရ်ကြ အသက်ရှည်ပြာ ဆက်သသည်ကို လယ်တီဆရာတော်ဘုရားက လက်ခံတော်မမူချေ။ ထိုအခါ သလ္လာဝတီမြစ်ရေပြင်သို့ ခုန်ချ လိုက်ရာ ရေပြင်ပေါ်တွင် ပေါလောပေါ်လျက် လေညာသို့ ဆက်တက်သွားသောနှစ်ဖြစ်ပေသည်။

ကျမ်းကိုး။ ယင်းကျမ်း၊ စာ ၄၈။

**ထိုနှစ်တွင် ကင်းဝန်မင်းကြီးကို လယ်တီဆရာတော် တရားဟောနေ**

**၁၉၀၄ ခုတွင် ကင်းဝန်မင်းကြီးဦးကောင်းအိမ်မှာ လယ်တီဆရာတော် တရားဟောတော်မူ၏။**

ထို ၁၉၀၄ ခုနှစ်တွင်ပင် လယ်တီဆရာတော်ဘုရားကြီးသည် မန္တလေးမြို့သို့ ကြွ၍ ကင်းဝန်မင်းကြီး ဦးကောင်း၏ အိမ်ဦးတွင် တရားသဘင် ကျင်းပနေသော အချိန်ပင်ဖြစ်ပေသည်။ ထိုနှစ်တွင်ပင် အာနာပါနဒီပနီကျမ်းကို ကင်းဝန်မင်းကြီး အိမ်ဦးခန်းတွင်ပင် ရေးသားတော်မူသောအချိန် ဖြစ်လေသည်။

ကျမ်းကိုး။ ယင်းကျမ်း၊ စာ ၄၉။

http://www.dhammadownload.com



**ထိုနှစ်တွင် ကြောင်ပန်းဆရာတော် ကြောင်ပန်းချုံကြီးထဲ တရားအားထုတ်နေ**

**၁၉၀၄ ခုတွင် ကြောင်ပန်းဆရာတော်ကြီး အပြင်းအထန် အားထုတ်နေချိန်ဖြစ်၏။** ထို ၁၉၀၄ ခုနှစ်တွင်ပင် ရဟန္တာဟု ကျော်စောတော်မူသော ကြောင်ပန်းဆရာတော်ကြီးသည် ကူတော ရွာမွန်၏ အရှေ့ဘက် ကြောင်ပန်းတောကြီးတွင် ကြောင်ပန်းချုံကြီးကို အမှီပြု၍ အရိုးကြေကြေ အရေခမ်းခမ်း ဖွဲနပဲနှင့် တရားအားထုတ်နေသောအချိန်ဖြစ်ပေသည်။

ကျမ်းကိုး။ လယ်တီ ဦးလှပိုင်၊ လယ်တီ ဂန္တဝင် ၁၉၆၇ ခု၊ ဩဂုတ်လ၊ပထမအကြိမ်၊ စာ ၂၉၁ ကိုကြည့်။

**ထိုနှစ်တွင် ဝေဘူဆရာတော် (၉)နှစ်သား ရောက်ပြီ**

**၁၉၀၄ ခုတွင် ဝေဘူဆရာတော် ၉ နှစ်သားအရွယ်ရောက်ပြီ။** ထို ၁၉၀၄ ခုနှစ်တွင်ပင် ရဟန္တာဟု ကမ္ဘာမသိ ဟိုးဟိုးကျော်တော်မူသော ဝေဘူဆရာတော်ဘုရား ဖြစ်လာမည့် ပုဂ္ဂိုလ်သည် သက်တော် ၉ နှစ်အရွယ်ရောက်ပြီ ဖြစ်လေသည်။ ဝေဘူဆရာတော်သည် ၁၈၉၆ ခုဖွား ဖြစ်၏။ ၁၉၇၇ ခုနှစ်တွင် ခန္ဓာဝန်ချ၏။

ကျမ်းကိုး။ မောင်ပန်းမွေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မစာအုပ်တိုက်၊ ၂၀၀၈ ခု၊ စာ ၆၀၀ ကိုကြည့်။

**ခေတ်ပြိုင် မှတ်တမ်းများ**

ထိုသို့သော ထူးဆန်းမှုအထွေထွေ ရှိပေသော ၁၉၀၄ ခုနှစ်ကြီးတွင် ဇာလီတောင်ဆရာတော် ဘုရားကြီးကို ဖွားတော်မူပေသည်။ ဇာလီတောင်ဆရာတော်နှင့် စပ်လျဉ်း၍ ဤကျမ်းပြုသူ ထုတ်နုတ်ထားသော မှတ်တမ်းကတ်တလောက်များကို အောက်တွင် ဖော်ပြထားပါသည်။ သမိုင်းဝင် ခေတ်ပြိုင်မှတ်တမ်းများဖြစ်ကြပါ၏။

**မွေးသက္ကရာဇ်**

အေဒီ ၁၉၀၄ — ဇာလီတောင်ဆရာတော်ဘုရားကြီးသည် မြန်မာသက္ကရာဇ် ၁၂၆၆ ခုနှစ်၊ ပြာသိုလပြည့်၊ သောကြာနေ့တွင် ရောဝတီတိုင်း၊ ငါးသိုင်းချောင်းမြို့၊ မင်းပိုင်းရပ်နေ ခမည်းတော် သစ်ဝါးကုန်သည်ကြီး ဦးဘိုးစိမ်း၊ မယ်တော် ဒေါ်မင်းရင်တို့မှ ဖွားမြင်သည့် တစ်ဦးတည်းသော သားရတနာ ဖြစ်ပါသည်။ ငယ်နာမည်မှာ မောင်ထင် ဖြစ်ပါသည်။

ကျမ်းကိုး။ မင်းသစ္စာ၊ စာ-၁၂ မြတ်မင်္ဂလာ၊ အတွဲ ၇/၇

**စစ်ကိုင်းမှာ ကိုရင်ဝတ်**

**စစ်ကိုင်း တောင်ဗိလာ ဣစ္ဆာသယချောင် ဦးပဏ္ဍိဝံသထံ သာမဏေပြု**

အေဒီ ၁၉၁၇ — မောင်ထင်သည် အသက် ၁၃ နှစ်အရွယ်တွင် စစ်ကိုင်းမြို့၊ တောင်ဗိလာဣစ္ဆာသယချောင် ဆရာတော် ဦးပဏ္ဍိဝံသကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေ ဖြစ်ခဲ့သည်။

**တောင်ဗိလာဆရာတော် ပေးခဲ့သော ဘွဲ့**

**သောကြာနေ့သားဖြစ်သော်လည်း မိမိဘွဲ့တူ ရှင်ပဏ္ဍိဝံသဟု ပေးခဲ့သောအံ့ဖွယ်**

တောင်ဗိလာဆရာတော်က မောင်ထင်၏ ဥပနိသမ္ပတ္တိကို ကြည့်၍ သောကြာသားနေ့သင့် နံသင့် ဘွဲ့အမည်မပေးဘဲ မိမိနှင့်ဘွဲ့တူ ရှင်ပဏ္ဍိဝံသဟု ဘွဲ့ပေးတော်မူခဲ့သည်။

**တောင်ဗိလာ အရှင်ပဏ္ဍိဝံသထံ ပညာသင်ခဲ့**

အေဒီ ၁၉၂၀ — ရှင်ပဏ္ဍိဝံသသည် တောင်ဗိလာ ဆရာတော်ကြီးထံတော်၌ ၃ နှစ် ဝိနည်းနှင့် သဒ္ဒါကျမ်းများကိုလည်းကောင်း၊ ပိဋက ပါဠိတော်များကို လည်းကောင်း၊ သာမဏေဘဝဖြင့် သင်ယူခဲ့သည်။

ကျမ်းကိုး။ ယင်းကျမ်း

http://www.dhammadownload.com



**ရဟန်းဖြစ်သောအခါ အရှင်သုမင်္ဂလသာမိဟုခေါ်စေ**

ခုအေဒီ ၁၉၂၃

မြန်မာသက္ကရာဇ် ၁၂၈၅ ခုနှစ်၊ ခရစ်နှစ် ၁၉၂၃ ခုနှစ်၊ တန်ဆောင်မုန်းလပြည့်နေ့တွင် ဥပသမ္ပဒရဟန်းအဖြစ်သို့ ရောက်တော်မူခဲ့သည်။ ရဟန်းဖြစ်လာသောအခါ ဥပဇ္ဈာယ်ဆရာတော်၏ ဘွဲ့အမည်နှင့် မိမိ၏ ဘွဲ့အမည်မှာ တူနေသောကြောင့်လည်းကောင်း၊ အခြားသောသာမဏေရှင်ရဟန်းတို့ကဲ့သို့ နေသင့် နံသင့်ဘွဲ့ဖြစ်စေလိုသောကြောင့်လည်းကောင်း၊ ရဟန်းဘွဲ့အမည်ကို အရှင်သုမင်္ဂလသာမိဟု ပြောင်းလဲမှည့်ခေါ်ခဲ့သည်။

**မန္တလေးမှာ စာသင်ခဲ့**

အေဒီ ၁၉၃၁

အရှင်သည် မန္တလေးမြို့ အနောက်ဝိသုဒ္ဓါရုံကျောင်းတွင် ၈ ဝါနေထိုင်၍ ပိဋကတ်စာပေများကို သင်ကြားခဲ့သည်။

**အရှိုးချိတ်ဆက် ဓာတ်တော်ကျ ရဟန္တာ စလင်းဆရာတော်နှင့် အတူတူကျင့်ခဲ့**

နောင်တွင် စလင်းကန်လယ် ဆရာတော်အဖြစ် ကျော်ကြားမည့် ဦးဝဇီရာဝုဓနှင့် မင်းဘူးကျောက်မဲတောင်ဆရာတော်အဖြစ် ကျော်ကြားမည့် ဦးပဏ္ဍိတတို့နှင့် အထူးရင်းနှီးခင်မင်ခဲ့သည်။

**စာသင်ဖက်များ**

**ညောင်တုန်းဆရာတော် အနီးစခန်းဆရာတော် ဗာရာဏသီဆရာတော်တို့နှင့်စာသင်ဖက် ကျောင်းနေဖက်။**

ညောင်တုန်းရွှေဟင်္သာဆရာတော် (ရွှေကျင် သာသနာပိုင်)၊ မြောင်းမြဆရာတော်၊ ပြည်မြို့အဘိဓဇ မဟာရဋ္ဌဂုရု ဗာရာဏသီ ဆရာတော်၊ စစ်ကိုင်းမှ အဂ္ဂမဟာပဏ္ဍိတ အနီးစခန်းဆရာတော်တို့သည် ဆရာတော်နှင့် စာသင်ဖက်များ ဖြစ်ခဲ့သည်။

**ဇာလီတောင်ဆရာတော်၏ ဆရာအရင်း**

အဘယာရာမ ဆရာတော် ဦးအဂ္ဂဓမ္မသည် ဇာလီတောင် ဆရာတော်၏ ဆရာရင်း ဖြစ်ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း

**တောထွက်၍ ကေစာရီကျင့်**

အေဒီ ၁၉၂၈

ဆရာတော်သည် မြန်မာသက္ကရာဇ် ၁၂၉၀ ပြည့်နှစ် ခရစ်နှစ် (၁၉၂၈)ခုနှစ်၊ ရဟန်းဝါ (၅)ဝါအရတွင် တောထွက်တော်မူကာ တစ်ပါးတည်း ဧကစာရီ ကျင့်တော်မူခဲ့သည်။

**မဟာမြိုင်တောကြီးမှာ ကျင့်ခဲ့**

ဆရာတော်သည် တောထွက်စတွင် ရွှေစက်တော်တော၏ ပတ်ဝန်းကျင်ကို ဗဟိုပြုကာ မဟာမြိုင် တောကြီးအတွင်း၌ တောရဆောက်တည် ကျင့်တော်မူသည်။

**ရဟန္တာကုန်းမှာ ကျင့်ခဲ့**

ရေနံချောင်းမြို့အနီး ဥသျှစ်ကုန်းနှင့် နတ်မောက်အရှေ့ဘက် ၅ မိုင် ၆ မိုင်ခန့်အကွာရှိ ကုန်းတော် (ခေါ်) ရဟန္တာကုန်း၌ တောရဆောက်တည် သီတင်းသုံးခဲ့သည်။

**တောစဉ် တောင်စဉ် တရားဝင်ခဲ့**

ထို့နောက် ပုပ္ပါးတောင် ပတ်လည်ရှိ ဂူများ၊ အထက်မြစ်ကြီးနား၊ ကသာနှင့် အောက်မြန်မာပြည် ပဲခူး၊ သထုံ၊ မော်လမြိုင်၊ မြိတ်၊ ထားဝယ်နှင့် ရခိုင်ပြည်နယ်၊ ရှမ်းပြည်နယ်တို့တွင် လှည့်လည်၍ တောရဆောက်တည်သီတင်းသုံး ကျင့်ကြံအားထုတ်တော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း

http://www.dhammadownload.com



**ဂျပန်ခေတ်တွင် ရွှေစက်တော်မှာ ရှိ**

အေဒီ ၁၉၃၈ — ၁၃၀၀ ပြည့်နှစ် (၁၉၃၈) ခုနှစ်တွင် ဆရာတော်သည် သရက်မြို့ မြောက်ဘက် ၄ မိုင်ခန့်အကွာ ၁၃၀၂ ခုနှစ် (၁၉၃၉-၄၀)တွင် မြန်မာပြည်တွင်းသို့ ဂျပန်များ မဝင်မီ ဆရာတော်သည် ဇာလီ တောင်မှ ရွှေစက်တော်သို့ ပြောင်းရွှေ့သီတင်းသုံးတော်မူခဲ့သည်။

**မဏိစည်သူမင်း တည်ခဲ့သည့်နေရာသည် အောင်မြေပြစ်ခဲ့**

အေဒီ ၁၉၃၉ — ၁၃၀၂ - ၁၃၁၂ ခုနှစ် (၁၉၃၉-၁၉၅၁) များအတွင်း ရွှေစက်တော်၊ ကျိုင်းတောင်၊ လွန်းတောင်နှင့် ပွင့်ဖြူမြို့နယ်ရှိ ပန်းဆေးကန်၊ ရွှေဂူကြီးလယ်ကိုင်းကျောင်း ကျောင်းတော်ရာ အနောက်ရှိ နတ်ရေကန်၊ ကျောက်ကုန်း၊ စကုမြို့နယ်အတွင်းရှိ တောင်ပြည့်ဘုရားကုန်း၊ ဂူကြီး ဂူကလေးခေါ် စံပယ်ရုံ၊ ဘုရားသုံးဆူ၊ အထူးသဖြင့် မဏိစည်သူမင်းကြီး တည်ထားခဲ့သည့် ဘုရားပုထိုး နေရာဟောင်း၊ ဂူကျောင်းများ၌ သီတင်းသုံး တရားအားထုတ်တော်မူခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း)

**သရက် ဇာလီတောင်သို့ ပြန်လည်ရောက်ရှိ**

အေဒီ ၁၉၅၂ — ၁၃၁၄ ခု (၁၉၅၂) ခုနှစ်မှစ၍ လွန်းငုတောင်မှ သရက်မြို့ ဇာလီတောင်သို့ ဒုတိယအကြိမ် ပြန်လည် ကြွရောက်သီတင်းသုံးတော်မူခဲ့သည်မှာ ပျံလွန်တော်မူသည်အထိ ဖြစ်ပါသည်။

**၂၄ နှစ်တိုင်တိုင် တောကျင့် တောင်ကျင့်**

အေဒီ ၁၉၂၈ — ဆရာတော်သည် ၁၂၉၀ ပြည့်နှစ်မှ ၁၃၁၄ ခု၊ (၁၉၂၈-၁၉၅၂) အထိ ၂၄ နှစ်တိုင်တိုင် တောတောင်အနှံ့ လှည့်လည်သီတင်းသုံးတော်မူခဲ့သည်။

**ဇာလီတောင်မှ အခြေချ**

အေဒီ ၁၉၅၂ — ၁၃၁၄ ခုနှစ်တွင်မှ ဇာလီတောင်၌ အခြေချ သီတင်းသုံးတော်မူခဲ့သည်။

**ရန်ကုန် ဇာလီ သာသနာ့ဗိမာန် စေတီတော်**

အေဒီ ၁၉၆၃ — ရန်ကုန်မြို့ တောင်ဥက္ကလာပမြို့တွင် ဝေဇယန္တာကျောင်းတိုက်ကြီးနှင့် ဇာလီ သာသနာ့ဗိမာန် စေတီတော်ကြီးကို ဦးဆောင်တည်ထားတော်မူခဲ့သည်မှာ ၁၉၆၃ ခုနှစ်မှ ၁၉၆၈ ခုနှစ်ကာလ အတွင်း ဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း)

**ပရိတ်တော်များ စွဲစွဲမြဲမြဲ ရွတ်ပတ် မေတ္တာဝေ**

အေဒီ ၁၉၃၄ — ဆရာတော်သည် သက်တော် ၃၀၊ ဝါတော် ၁၀ ဝါရချိန်မှ စ၍ ပရိတ်တော်များကို စွဲမြဲစွာရွတ် တော်မူလာခဲ့သည်။

**ပရိတ်တန်ခိုး မှိုးအထိထိုး**

အေဒီ ၁၉၆၄ — သက်တော် (၆၀)အရွယ်တွင်မှ ပရိတ်တန်ခိုး (သို့မဟုတ်) ပရိတ်အကျိုး အာနိသင်ကို ရရှိသည်ဟု ဆရာတော်ကြီးက မကြာခဏ မိန့်ကြားတော်မူလေ့ရှိသည်။ ပါရမီစခန်း၌ သုံးနိုင်ရန် သစ္စာဓိဋ္ဌာန်ပြုနိုင်ရန် ပရိတ်တော်ကို ရွတ်လာခဲ့သည်။

**ပရိတ်ဆီ လူပေါင်း ခြောက်သိန်း တိုက်ခဲ့**

အေဒီ ၁၉၇၀ — ပရိတ်စည်းကမ်းများကို ချမှတ်ကာ လိုက်နာကျင့်သုံးပါမည်ဟု သစ္စာဆိုသူတို့အား ပြန်တမ်း ထုတ်ပြန်ကာ ပရိတ်ဆီ တိုက်ခဲ့သည်။ ၉-၁၀-၁၉၇၀ နေ့အထိ လူပေါင်း (၆)သိန်း ရှိခဲ့သည်။

**ရဟန္တာဖြစ်နေပြီဟု ထင်ကြေးပေးကြ**

ဆရာတော်ဘုရားကြီးသည် အရညဝါသီ တောရပ်မှီ၍ ကျင့်တော်မူသောကြောင့် အချို့ ဒါယကာ၊ ဒါယိကာမ တပည့်တို့က ဆရာတော်ကြီးအား ရဟန္တာဖြစ်နေပြီဟု ထင်မှတ်ကြသည်။

http://www.dhammadownload.com



**ရဟန္တာမဟုတ် ဆုကြီးပန်**

ဆရာတော်ကြီးက "တို့က ရဟန္တာလမ်းစဉ်မဟုတ်ဘူး၊ ဆုကြီးပန်" ဟု မိန့်တော်မူခဲ့သည်။ ဆရာတော်သည် ၁၆ သင်္ချေနှင့် ကမ္ဘာတစ်သိန်း ပါရမီဖြည့်ရသော ဝီရိယာဓိက ဘုရားဆုပန် ပုဂ္ဂိုလ်ကြီး ဖြစ်ပါသည်။

(ကျမ်းကိုး၊ ယင်းကျမ်း)

**စန္ဒာဝန်ချတော်မူ**

အေဒီ ၁၉၈၇ ၁၃၄၉ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း (၃)ရက်နေ့၊ ၁၉၈၇ ခု၊ အောက်တိုဘာလ (၂၄)ရက် စနေနေ့တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့ပါသည်။

ကျမ်းကိုး၊ မင်းသစ္စာ၊ စာ-၁၂ မြတ်မင်္ဂလာ၊ အတွဲ ၇/၇

**အလောင်းစည်သူ၏ ဂူကြီးကျောင်း**

အေဒီ ၁၉၃၅ ဇာလီတောင်ဆရာတော်ဘုရားသည် ၁၉၃၅ ခုနှစ်တွင် လယ်ကိုင်း ကျောင်းတော်ရာစေတီ အတွင်း အလောင်းစည်သူမင်းကြီး တည်ထားခဲ့သော ဂူကြီးဘုရား၌ သီတင်းသုံးတော်မူခဲ့သည်။ ထိုဂူကြီး သည် လယ်ကိုင်းမြို့အနောက်မြောက် ထန်းတောအတွင်း၌ တည်ရှိ၏။

ကျမ်းကိုး၊ နတ်မောက်ဘုန်းကျော်၊ နတ်မောက်အနီချို၊ ၁၃၇၀ခုနှစ်၊ သီတင်းကျွတ် လဆုတ် ၃၊ နေလ ဂမ္ဘီရဂျာနယ် စာကို ၅ ကြည့်။

**ကပ္ပိယ ရသေ့ ဦးစိန္တာ**

ထိုစခန်းကို ဂူကြီးစခန်းဟု ဇာလီတောင်ဆရာတော်က ခေါ်တွင်စေခဲ့သည်။ ထိုစဉ်က ကပ္ပိယ မှာ ရသေ့ ဦးစိန္တာ ဖြစ်၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅

**ဟိမဝန္တာသို့ မကြာခဏ ကြွလေ့ရှိ**

ထိုစဉ်က ဇာလီတောင်ဆရာတော်သည် ဝါဆို ဝါကပ်ချိန်တွင်သာ ကျောင်း၌မြဲ၏။ ဝါကျွတ် ကာလများတွင် ပုပ္ပါးသို့ မကြာခဏ ကြွလေ့ရှိ၏။ ဟိမဝန္တာသို့လည်း မကြာခဏ ကြွမြန်းပုံရ သည်ဟု ဆေးဆရာ ဦးရွှေတုတ်၏ အတွေ့အကြုံအရ အသေအချာ သိရ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅

**ပုပ္ပါး ဘိုးတော်အောင်မင်းခေါင်**

ထိုစဉ်က ပုပ္ပါး၌ အလွန်ထင်ရှားသော ပုဂ္ဂိုလ်ထူးကြီး သာသနာပြုနေ၏။ ထိုပုဂ္ဂိုလ်ကြီးမှာ ဘိုးတော်ကြီး အောင်မင်းခေါင် ဖြစ်၏။ ထိုဘိုးတော်ကြီးနှင့်လည်း အဆက်အစပ်ရှိ၏။ ထို့ကြောင့် ပုဂ္ဂိုလ်အကြောင်းကို သေချာစွာ မလေ့လာဘဲ ဝေဖန်ခြင်းမပြုရန် ဆုံးမခဲ့၏ဟု မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅

**ရခိုင်ရိုးမကို ဖြတ်ကျော်ခြင်း မဟာဂန္ဓာရီ**

အေဒီ ၁၉၃၅ ဇာလီတောင်ဆရာတော်သည် အသက် ၃၁ နှစ်အရွယ်တွင် ရခိုင်ရိုးမကို သပိတ်တစ်လုံး တောင်ဝှေးတစ်ချောင်း သားရေထည်တစ်ချပ်နှင့် ဖြတ်ခဲ့ရ၏။ တစ်နေ့လုံးလုံး နံနက်မိုးသောက် မှ စ၍ ည ၁၀ နာရီလောက်အထိ မိုင် ၇၀ လောက် ခရီးပေါက်အောင် မရပ်မနား လျှောက်ခဲ့ ရ၏။ အသားစားကျားများ သောင်းကျန်းသော ရိုးမတောင်ကို ကျော်ဖြတ်သောအခါ အကျင့် သိက္ခာကိုပဲ အားကိုးရပါသည်ဟု မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅

http://www.dhammadownload.com



### ကိုယ်တော်တိုင်မိန့်ကြားချက်

အေဒီ ၁၉၆၄ ထိုအချက်ကို ၁၉၆၄ ခုနှစ် နိုဝင်ဘာလ ၁၈ ရက်နေ့ညတွင် ဇာလီတောင်ဆရာတော်ဘုရား ကိုယ်တော်တိုင် အမိန့်ရှိတော်မူ၏ဟု မှတ်တမ်းတွေ့ရ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅

### လယ်ကိုင်းကျောင်းတော်ရာနှင့် မဟာမြိုင်တောကြီး ရခိုင်ရိုးမတောင်တန်းကြီးတို့မှာ ကျင့်ခဲ့

အေဒီ ၁၉၃၆ ဇာလီတောင်ဆရာတော်၏ ၁၉၃၆ ခုနှစ်မှ စ၍ ၁၉၃၈ ခုနှစ်အထိ မဟာဂန္ဓာရီ ခရီးစဉ်လှေ့လာ လျှင် လယ်ကိုင်းကျောင်းတော်ရာလည်း ပါ၏။ ရခိုင်လည်း ပါ၏။ နာမည်ကျော် မဟာမြိုင်တော ကြီးလည်း ပါ၏။

ကျမ်းကိုး၊ နတ်မောက်ဘုန်းကျော်၊ နတ်မောက်အနီချို၊ ၁၃၇၀ ခုနှစ်၊သီတင်းကျွတ် လဆုတ် ၃၊ နေလ ဂမ္ဘီရဂျာနယ် စာကို ၄ ကြည့်။

### ဓာတ်တော်ကျသော ရဟန္တာ စလင်း ကန်လယ်ဆရာတော်နှင့်အတူတူ

ဇာလီတောင်ဆရာတော် လောင်းလျာ ဦးသုမင်္ဂလာသည် စလင်းကန်လယ်ဆရာတော်လောင်း လျာ ဦးဝဇီရဝုဓနှင့်လည်းကောင်း၊ မင်းဘူးကျောက်မဲတောင်ဆရာတော် လောင်းလျာ ဦးပဏ္ဍိတ နှင့်လည်းကောင်း ရွှေစက်တော်ကို ဦးတိုက်၍ တရားရှာခဲ့ကြ၏။ ရွှေစက်တော် ပွဲတော်ချိန်တွင် မပျက်မကွက် အချိန်းအချက်ပြု တွေ့ဆုံလေ့ရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄

### တောစဉ် တောင်စဉ် အရညကင်

အခြားအချိန်များတွင် မင်းဘူးခရိုင် မကွေးတိုင်းအတွင်းရှိ တောတောင် ဂူကျောင်းများတွင် အရညကင် မှီ၍ လှည့်လည် သီတင်းသုံးတော်မူကြ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅

### ကျင့်ဖော် ကျင့်ဖက် ရဟန္တာနှင့် ရဟန်းထူးများ

ဆရာတော် ၃ ပါးစလုံး ငွေကြေးဝတ္ထုအလှူမခံ ခြေလျင်ခရီး ကြွလေ့ရှိ၏။ ရွှေစက်တော် စကု စလင်း လယ်ကိုင်း ကျောင်းတော်ရာတို့မှာ ဆရာတော်တို့ သပိတ်တစ်လုံး သင်္ကန်း ၃ထည် ယပ်တစ်ချောင်းဖြင့် ထောင်းထောင်းကြေအောင် ခြေလျင်ကြွနေကျ လမ်းများဖြစ်၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅

### ဇာလီတောင်မှာ တိုက်အသစ်တည်

အေဒီ ၁၉၃၉ ခရစ်နှစ် ၁၉၃၉ ခုနှစ် ဇန်နဝါရီလ ၄ ဗုဒ္ဓဟူးနေ့ မြန်မာသက္ကရာဇ် ၁၃၀၀ ပြည့်နှစ် ပြာသိုလပြည့်နေ့ မှတ်တမ်းအရ သိရှိရချက်မှာ ၁၉၅၇ ခုနှစ် နွေကာလတွင် ဇာလီတောင်ပေါ်၌ အုတ်တိုက်အပျက်ပေါ် ဆင့်ထားသော အုတ်တိုက်ဟောင်းနှင့်ကပ်လျက် အုတ်တိုက်အသစ် တည်ခဲ့၏။

ကျမ်းကိုး၊ နတ်မောက်ဘုန်းကျော်၊ နတ်မောက်အနီချို၊ ၁၃၇၀ ခုနှစ်၊သီတင်းကျွတ် လဆုတ် ၈၊ နေလ ဂမ္ဘီရဂျာနယ် စာကို ၅ ကြည့်။

### စေတီဟောင်းကြီးပြုပြင် ဓာတ်တော်များတွေ့

အေဒီ ၁၉၅၇ ၎င်းအပြင် ထို ၁၉၅၇ ခုနှစ်တွင်ပင် တောင်ဦးရှိ စေတီဟောင်း ပြိုပျက်ချို့ယွင်းသည်ကို ပြုပြင် တော်မူ၏။ ဆရာတော်ကြီးက ဓာတ်တော်အလုံးအကြီးအသေး ရွှေရောင် ငွေရောင်

http://www.dhammadownload.com



အညိုရောင် တို့ကို ပြကာ ဘုရားကုန်းမြေတစ်လျှောက် မြက် သဲ ကျောက်ခဲများကို ယက်ဖယ်၍ ဓာတ်တော်များ ကို ရှာဖွေစေလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅

### ရွှေရည် ငွေရည်

ဓာတ်တော်များကို ရွေးချယ် သန့်စင်ဆေးကြောပြီး ရွှေရည် ငွေရည် နံ့သာရည် စိမ်ရ၏။ မြက် သစ်ပင်အမြစ်ကြားမှ ထွက်လာသော ဓာတ်တော်များလည်းရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅

### သုမင်္ဂလာအောင်စေတီ ပန္နက်တင်

အေဒီ ၁၉၃၉ — သုမင်္ဂလာအောင်စေတီဟု ဇာလီတောင် ဆရာတော်ကြီးကိုယ်တိုင် ဘွဲ့အမည်တပ်ထားသော စေတီကို ခရစ်နှစ် ၁၉၃၉ ခုနှစ် ဇန်နဝါရီလ ၄ ရက်၊ ဗုဒ္ဓဟူးနေ့ မြန်မာသက္ကရာဇ် ၁၃၀၀ ပြည့်နှစ်၊ ပြာသိုလပြည့်နေ့တွင် စတင် ပန္နက်ရိုက်တော်မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅

### နောက်တစ်ကြိမ် ပြန်၍ပြုပြင်

အေဒီ ၁၉၅၇ — ခရစ်နှစ် ၁၉၅၇ ခုနှစ်တွင် ၄က်ပျောဖူးအပိုင်း ပြိုကျတော်မူ၍ ဓာတ်တော်များ မြေပြင်၌ ပြန့်ကျဲနေသော အခါမှာလည်း ဆရာတော်ကြီးကပင် ပြန်လည် ပြုပြင်ခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅ ၊

### တရားထူး ရတော်မူခြင်းအောင်မြေ အောင်စေတီ

အေဒီ ၁၉၃၈ — ခရစ်နှစ် ၁၉၃၈ ခုနှစ် မြန်မာသက္ကရာဇ် ၁၃၀၀ ပြည့်နှစ်တွင် ဆရာတော်ကြီးသည် ဇာလီ တောင်သို့ စတင်ရောက်ရှိတော် မူခဲ့ခြင်းဖြစ်၏။ ထိုအခါတွင် သက်တော် ၃၄ နှစ်ရှိ၏။ ဝါတော် ၁၄ ဝါ ရှိ၏။ ထိုနှစ် လပြည့် နေ့တွင် တောင်ဦးရှိ စေတီဟောင်း ၄ နေရာ၌ စေတီတည်ရာ အောင်စေတီအမည်တွင်၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅

### သုမင်္ဂလာ အောင်စေတီ

ထူးခြားချက်တစ်ခုမှာ ထိုစေတီတော် နေရာမှာပင် ဇာလီတောင် ဆရာတော်ဘုရားကြီးသည် မိမိ ဆည်းပူးအားထုတ်အပ်သော တရားထူး တရားမြတ် ရရှိသည့်အထိမ်းအမှတ်အနေဖြင့် သုမင်္ဂလာ အောင်စေတီဟု ဘွဲ့တော် ဆက်ကပ်လှူဒါန်း၍ စေတီတည်ထားကိုးကွယ်ခြင်းဖြစ် သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅

### ဒုတိယ ကမ္ဘာစစ်အတွင်း

ဒုတိယ ကမ္ဘာစစ် ကာလတွင် ဆရာတော်ကြီးသည် မင်းဘူး စကုနယ်သို့ ပြောင်းရွှေ့ သီတင်း သုံးတော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅

### စကု မင်းဘူး ဂန္ဓာရီ ခရီး

အေဒီ ၁၉၅၃ — ခရစ်နှစ် ၁၉၅၃ ခု ဇူလိုင်လ မြန်မာသက္ကရာဇ် ၁၃၁၅ ခု ဒုတိယ ဝါဆိုလဆန်းတွင် ဆရာတော် သည် စကုထောင်ပြည့်ဂူမှ မင်းဘူး စက္ကိန်းတဲသို့ ကြွ၏။ ထိုမှတစ်ဆင့် သရက်သို့ ပြန်လည်ကြွ တော်မူလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၅

http://www.dhammadownload.com



**တောရဆောက်တည်ရာ နေရာများ**

အေဒီ ၁၉၃၃

အေဒီ ၁၉၃၃ ခုနှစ်၊ မြန်မာသက္ကရာဇ် ၁၂၉၅ ခုနှစ်တွင် ဇာလီတောင်ဆရာတော်သည် ရေနံချောင်းမြို့ မြောက်ဘက် ဥသျှစ်ကုန်းရွာအနီး တောရ ဆောက်တည်နေရာမှာ မကွေးမြို့ တောင်ဘက် မြင်ကွန်းရွာအရှေ့ဘက် တောင်တန်းသို့ ရွှေ့ပြောင်းလာပြီး သီတင်းသုံး တောရ ဆောက်တည်တော်မူ၏။

ကျမ်းကိုး၊ အညတရ ဘိက္ခု၊ စက္ကုအလင်းသံခိပ်ကျဉ်းနှင့် စလင်းကန်လယ် ဆရာတော်ကြီး၏ ထေရုပ္ပတ္တိ ၁၉၈၅ ခု စက်တင်ဘာလ ပဌမအကြိမ် ရေးသူ ဦးထွန်းအောင်၊ ဒိုက်ဦး၊ တည်းဖြတ်သူ ဦးခင်မောင်ဆန်း၊ စာ ၁၂၀ ကို ကြည့်။

**အင်္ဂလိပ်သူလျှိုဟု စွပ်စွဲခံရ**

အေဒီ ၁၉၄၃

၁၉၄၃ ခု၊ ၁၃၀၅ ခု ဝါကျွတ်အပြီးတွင် လွန်တောင်၌ သီတင်းသုံးနေတော်မူသော ဇာလီတောင်ဆရာတော်အား ဂျပန်ကင်ပေတိုင်များက အင်္ဂလိပ် သူလျှိုဟု စွပ်စွဲကာ ဖမ်းဆီးခဲ့ကြပါသည်။ ထိုအခါ စလင်းကန်လယ် ဆရာတော်ကြီးသည် ဇာလီတောင်ဆရာတော် လွတ်မြောက်ရေးအတွက် ဆောင်ရွက်ရန် ရန်ကုန်သို့ ကြွတော်မူရသည်။

ကျမ်းကိုး၊ အညတရ ဘိက္ခု၊ စက္ကုအလင်းသံခိပ်ကျဉ်းနှင့် စလင်းကန်လယ် ဆရာတော်ကြီး၏ ထေရုပ္ပတ္တိ ၁၉၈၅ ခု စက်တင်ဘာလ ပဌမအကြိမ် ရေးသူ ဦးထွန်းအောင်၊ ဒိုက်ဦး၊ တည်းဖြတ်သူ ဦးခင်မောင်ဆန်း၊ စာ ၁၂၃ ကို ကြည့်။

**ဗန္ဓုလ ဦးစိန်၏အကူအညီ**

ထိုစဉ်ကအခါက ဂျပန်ခေတ် သာသနာရေးဝန်ကြီးမှာ ဗန္ဓုလ ဦးစိန်ဖြစ်၏။ ဦးစိန်၏ အကူအညီ ယူပြီးလျှင် သက်ဆိုင်ရာတို့နှင့်ဆောင်ရွက်ပေးမှုကြောင့် ဇာလီတောင်ဆရာတော်မှာ လွတ်မြောက်ရလေ၏ဟု မှတ်တမ်းရှိလေသည်။

ကျမ်းကိုး၊ အညတရ ဘိက္ခု၊ စက္ကုအလင်းသံခိပ်ကျဉ်းနှင့် စလင်းကန်လယ် ဆရာတော်ကြီး၏ ထေရုပ္ပတ္တိ ၁၉၈၅ ခု စက်တင်ဘာလ ပဌမအကြိမ် ရေးသူ ဦးထွန်းအောင်၊ ဒိုက်ဦး၊ တည်းဖြတ်သူ ဦးခင်မောင်ဆန်း၊ စာ ၁၂၃ ကို ကြည့်။

**ရဟန္တာစလင်း ကန်လယ်ဆရာတော်၏ ကူညီမှု**

စလင်းကန်လယ် ဆရာတော်သည် ကိစ္စများဆောင်ရွက်ပြီးနောက် ရန်ကုန်မြို့မှ ပြန်ကြွခဲ့၏။ ဒုတိယ ကမ္ဘာစစ်ကြီး ပြီးဆုံးသည်အထိ မင်းဘူးမြို့၌ သီတင်းသုံးတော်မူ၏။ စစ်ကြီးပြီးဆုံးသော အခါ စလင်း ကန်လယ်ဆရာတော်နှင့် ဇာလီတောင်ဆရာတော်တို့သည် ကျောက်မဲ ဦးပဏ္ဍိတ ကိုယ်တော်နှင့် ရွှေစက်တော်တွင် ပြန်လည် ဆုံတွေ့ကြပြန်၏။ စလင်းဆရာတော်နှင့် ဦးပဏ္ဍိတ တို့သည် ဇာလီတောင် ဆရာတော်အား ဇာလီတောင်သို့ ပြန်လည် ပို့ဆောင်ပေးခဲ့၏။ ကျောက်မဲ ဦးပဏ္ဍိတမှာ ခန္ဓာဝန်ချသည်အထိ ကျောက်မဲတောင်တွင် သီတင်းသုံးတော်မူခဲ့၏။

ကျမ်းကိုး၊ အညတရ ဘိက္ခု၊ စက္ကုအလင်းသံခိပ်ကျဉ်းနှင့် စလင်းကန်လယ် ဆရာတော်ကြီး၏ ထေရုပ္ပတ္တိ ၁၉၈၅ ခု စက်တင်ဘာလ ပဌမအကြိမ် ရေးသူ ဦးထွန်းအောင်၊ ဒိုက်ဦး၊ တည်းဖြတ်သူ ဦးခင်မောင်ဆန်း၊ စာ ၁၂၄ ကို ကြည့်။

**ဗြဟ္မာဝိဟာရတရား၌ ပေါက်မြောက်တော်မူခြင်း**

အေဒီ ၁၉၅၆

၁၉၅၆ ခုနှစ်တွင် ဇာလီတောင်ဆရာတော်သည် အရညဝါသီ မှီ၍ ဗြဟ္မာဝိဟာရ တရား၌ ပေါက်မြောက်တော်မူကြောင်း သိရပါသည်။

ကျမ်းကိုး၊ နတ်မောက်ဘုန်းကျော်၊ နတ်မောက်အနီချို၊ ၁၃၇၀ ခုနှစ်၊ ကဆုန် လဆန်း၊ ၁၂ ရက်၊ နေလ ဂမ္ဘီရဂျာနယ် စာကို ၄ ကြည့်။

http://www.dhammadownload.com



**ကြိုတင်၍သိတော်မူခြင်း**

ထိုအချိန်တွင် ထူးခြားချက်များ ရှိ၏။ ဒုလ္လဘဦးပဥ္စင်းတွေ လာလိမ့်မယ်။ ၁၁ ပါးစာ ဆွမ်းချက်ထားဟု နံနက်စောစောကတည်းက အမိန့်တော်ရှိ၍ ဆွမ်း ကြိုတင်ချက်ထားရ၏။ နံနက် ၁၀ နာရီ ၃၀ တွင် ဧည့်သည်ဒုလ္လဘရဟန်း ၁၁ ပါးတို့ ရောက်ရှိတော်မူကြ၏ဟု သိရ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄

**ပရစိတ္တဝိဇာနာန အဘိညာဉ်**

မနောဖြင့် မိဋ္ဌာန်၍ ဆုတောင်းသည်ကို အလိုလို သိရှိတော်မူ၏။ သာမန်ပုဂ္ဂိုလ်ကြီးမဟုတ် တကယ့် အဘိညာဉ်ရှင် ပုဂ္ဂိုလ်ကြီးဖြစ်၏။ သူတစ်ပါး စိတ်အကြံကို သိနိုင်သော ပရစိတ္တဝိဇာနာန အဘိညာဉ်ကိုပင် ကောင်းစွာ ပိုင်နိုင်လျက်ရှိ၏ဟု မှတ်တမ်းတွေ့ရ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄

**ငါးပါးသီလနှင့် သရဏဂုံ**

အေဒီ ၁၉၅၆

ငါးပါးသီလသည် မူလလောကပါလ တရားဖြစ်ကြောင်း သရဏဂုံသည် အတည်ဓာတ်ဖြစ်ကြောင်း ထို့ကြောင့် ငါးပါးသီလနှင့် သရဏဂုံတည်ရန် စွဲမြဲရန် အရေးကြီးကြောင်းကို ၁၉၅၆ ခုနှစ်တွင် မိန့်ကြားတော်မူဖူး၏ဟု မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ နတ်မောက် ဘုန်းကျော်၊ နတ်မောက်အနီချို၊ ၂၀၀၈ ခုနှစ် မေလ ၃၀၊ ၁၃၇၀ ခုနှစ်၊ ကဆုန်လဆုတ် ၁၀၊ နေလ ဂမ္ဘီရဂျာနယ် စာကို ၄ ကြည့်။

**တပည့်များ၏လိုက်နာမှု**

ထိုအချိန်က စ၍ သရဏဂုံ တစ်ထောင်ကို အဓိဋ္ဌာန်ပြု၍ စိပ်ခဲ့ကြောင်း၊ ဆရာတော်ကြီး၏ တပည့်အရင်းတစ်ဦးက ဆိုခဲ့ဖူး၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄

**တပည့်များအား ပညာအမွေ ပေးတော်မူခြင်း**

အေဒီ ၁၉၅၆

လောကတွင် ဘူးလုံးနားမထွင်း တောင်မရောက် တောမရောက်များသည် ဓာတ်စကားအလွန်ပြောကြောင်း၊ ထိုသူများ ပြောသည်ကို ခွဲခြားသိပြီး နားမယောင်ရန်လိုကြောင်း၊ Radio Station ကြီးက သူ့အချိန်နှင့် သူ မှန်မှန် အသံလွှင့်သော်လည်း အိမ်တိုင်း လူတိုင်းကြားရ သည်မဟုတ်၊ Receiver ခေါ် ရေဒီယိုတပ်ဆင်ပြီးရှိမှသာ ကြားရကြောင်း၊ ဒါတောင် သူ့အချိန် သူ့မီတာကို ဖမ်းယူတတ်မှ ကြားရခြင်းဖြစ်ကြောင်း၊ ဒီလိုပဲ မင်းတို့မှာ ကိုယ်ခံဓာတ်မရှိဘဲ သူ့အချိန်နှင့် သူ့မီတာကို ဖမ်းမယူတတ်ဘဲ ဓာတ်စကားပြောနေလဲ မောရုံသာ ရှိမည်ဖြစ်ကြောင်း၊ ပုဂ္ဂိုလ်ကြီးတွေ သူတော်ကောင်းကြီးတွေကတော့ သူတို့ရဲ့ မေတ္တာတွေဓာတ်တွေကို အခုန ပြောခဲ့တဲ့ Radio Station အသံလွှင့်ရုံကြီးကို သူ့မီတာနဲ့ သူ့အချိန်နဲ့ မှန်မှန်လွှင့်ပေးနေကြသားပဲ အဲဒါတွေ ကို ဖမ်းယူ ခံယူတတ်ဖို့ အရေးကြီးတယ်။ Receiver ရှိထားဖို့ လိုတယ်။ ဒါကြောင့် ကိုယ်ခံဓာတ် ယခုထက် ပိုကောင်းလာအောင် သမာဓိတရား ကြီးမား ကျစ်လျစ်လာအောင် ကျင့်ကြံအားထုတ် ရမည်ဟူ၍ ၁၉၅၆ ခုနှစ်က မိန့်တော်မူဖူးကြောင်း ဖတ်ရှုရပါသည်။

ကျမ်းကိုး၊ နတ်မောက် ဘုန်းကျော်၊ နတ်မောက်အနီချို၊ ၂၀၀၈ ခုနှစ် မေလ ၃၀၊ ၁၃၇၀ ခုနှစ်၊ ကဆုန်လဆုတ် ၁၀၊ နေလ ဂမ္ဘီရဂျာနယ် စာကို ၄ ကြည့်။

**သိသူဖော်စား မသိသူကျော်သွားကြပေတော့**

ဇလီတောင်ဆရာတော်ဘုရားကြီး၏ တပည့်အဖြစ် ရပ်တည်မိသည်နှင့် တော်ရုံလူညာဏ်မမီသော ထူးဆန်းထွေလာ ကိစ္စရပ်များစွာကို လက်တွေ့သမား ပီသစွာ မျက်မြင်ကိုယ်တွေ့

http://www.dhammadownload.com



ကြုံ ကြိုက်ရလေတော့သည်ဟူ၍ စာတွေ့ ငါတွေ့ ပညာရှင်တို့က ဆိုခဲ့ကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၄

**ခန္ဓာဝန်ချတော်မူခြင်း**

အေဒီ ၁၉၈၇ မြန်မာသက္ကရာဇ် ၁၃၄၉ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း (၃)ရက်နေ့၊ ခရစ်နှစ် ၁၉၈၇ ခု၊ အောက်တိုဘာလ၊ (၂၄)ရက်၊ စနေနေ့တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့ပါသည်။

ကျမ်းကိုး၊ မင်းသစ္စာ၊ စာ-၁၂၊ မြတ်မင်္ဂလာ၊ အတွဲ ၇/၇

ကျမ်းကိုး၊ နတ်မောက် ဘုန်းကျော်၊ နတ်မောက်အနီချို၊ ၂၀၀၈ ခုနှစ် မေလ ၃၀၊၁၃၇၀ ခုနှစ်၊ ကဆုန်လဆုတ် ၁၀၊ နေလ ဂမ္ဘီရဂျာနယ် စာကို ၄ ကြည့်။

ကျမ်းကိုး၊ အညတရ ဘိက္ခု၊ စက္ကူအလင်းသံခိပ်ကျဉ်းနှင့် စလင်းကန်လယ် ဆရာတော်ကြီး၏ ထေရုပ္ပတ္တိ ၁၉၈၅ ခု စက်တင်ဘာလ ပဉ္စမအကြိမ် ရေးသူ ဦးထွန်းအောင်၊ ဒိုက်ဦး၊ တည်းဖြတ်သူ ဦးခင်မောင်ဆန်း၊ စာ ၁၂၄ ကို ကြည့်။

ကျမ်းကိုး၊ နတ်မောက် ဘုန်းကျော်၊ နတ်မောက်အနီချို၊ ၂၀၀၈ ခုနှစ် မေလ ၃၀၊ ၁၃၇၀ ခုနှစ်၊ ကဆုန်လဆုတ် ၁၀၊ နေလ ဂမ္ဘီရဂျာနယ် စာကို ၄ ကြည့်။

ကျမ်းကိုး၊ နတ်မောက်ဘုန်းကျော်၊ နတ်မောက်အနီချို၊ ၁၃၇၀ ခုနှစ်၊သီတင်းကျွတ် လဆုတ် ၈၊ နေလ ဂမ္ဘီရဂျာနယ် စာကို ၅ ကြည့်။

ကျမ်းကိုး၊ နတ်မောက်ဘုန်းကျော်၊ နတ်မောက်အနီချို၊ ၁၃၇၀ ခုနှစ်၊သီတင်းကျွတ် လဆုတ် ၃၊ နေလ ဂမ္ဘီရဂျာနယ် စာကို ၄ ကြည့်။

ကျမ်းကိုး၊ ပါရဂူ၊ မန်လည်ဆရာတော်မိုးဂျာနယ်၊ ဇွန်လ ၂၀၀၃ ခု၊ စာ ၁၉ကို ကြည့်။

ကျမ်းကိုး၊ မောင်ပန်းမွှေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မစာအုပ်တိုက်၊ ၂၀၀၈ ခု၊ အောက်တိုဘာလ၊ စာ ၂၂၂ ကိုကြည့်။

ကျမ်းကိုး။ လယ်တီ ဦးဝဏ္ဏိတနယ်လှည့် ဓမ္မကထိက၊ နိုင်ငံခြား ဗုဒ္ဓသာသနာပြု ဒုတိယ လယ်တီစံကျောင်း မန္တလေးမြို့၊ ၁၂၈၈ ခု တပို့တွဲလ၊ မဟာလယ်တီ ထေရုပ္ပတ္တိကထာ ဟံသာဝတီ ပုံနှိပ်တိုက်၊ စာ ၄၈ ကိုကြည့်။

ကျမ်းကိုး။ လယ်တီ ဦးလှပိုင်၊ လယ်တီ ဂန္ထဝင် ၁၉၆၇ ခု၊ ဩဂုတ်လ၊ ပထမ အကြိမ်၊ စာ ၂၉၁ ကိုကြည့်။

ကျမ်းကိုး။ မောင်ပန်းမွှေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊တော်ဝင်မြို့မစာအုပ်တိုက်။ စာ - ၆၀၀ကိုကြည့်။

ကျမ်းကိုး။ မခင်မြမူ၊ ပဲခူး၊ ဇာလီတောင်ဆရာတော် ချီးမြှင့်သော ဘုရားရှိခိုး ဆုတောင်း၊

http://www.dhammadownload.com



သာမညဆရာတော်က အလွန်ထူးသည် သွားဖူးကြဟု မိန့်တော်မူခဲ့သော
ထားဝယ် ရဟန္တာ ဦးသီလ၏ တပည့်ထူး၊ တောင်ပွားဆရာတော်၏ တပည့်ထူး
မြိတ်ဆရာတော် ဦးနန္ဒိယ၏ တပည့်ထူး၊ ဘုန်းကြီး စီပို ခေါ် ဦးပညာဝံသ၏ တပည့်ထူး
တနင်္သာရီတိုင်း၊ လောင်းလုံမြို့နယ်

# ရန်ကင်းတောင် ဦးပညာဇောတ

(၁၉၀၄ - ၁၉၉၉)



http://www.dhammadownload.com



တနင်္သာရီတိုင်း၊ လောင်းလုံမြို့နယ်တွင် ရန်ကင်းတောင် ဟူ၍ ရှိ၏။ ထိုရန်ကင်းတောင်ကို အကြောင်းပြု၍ ရဟန်းထူး ရဟန်းမြတ် တရားထူးရသော ပုဂ္ဂိုလ်ထူးများ များစွာ ရှိသည်ကို အမှတ်မထင် ရှာဖွေတွေ့ရှိရသည် ဖြစ်သောကြောင့် ကျွန်ုပ်တို့မှာ ထိုရန်ကင်းတောင် တစ်တောင်တည်း၌ပင် အိပ်မပျော် စားမဝင် အံ့သြကြည်ညို ဝမ်းသာရသည်မှာ နေ့စဉ် ရက်ဆက် ဖြစ်ပါသည်။

**မြင်ကွန်း မြင်းခုန်တိုင် အရေးတော်ပုံနှင့် အတူ**

**တရားထူးရသူ ဦးဇာဂရ**

ဆရာတော် ဦးဇာဂရက ဇာတ်လမ်းစမှသာ ရဟန္တာ မဆိတ်သုဉ်းသော မြန်မာပြည်ကြီး၏ ပဋိပတ္တိ သာသနာ သမိုင်းကြီး ပိုမိုပေါ်လွင်မည် ဖြစ်ပါသည်။

**မြင်ကွန်းမင်းသားကြီး ခိုလှုံခဲ့သော ရန်ကင်းတောင်**

အေဒီ ၁၈၆၈

အေဒီ ၁၈၆၈ ခုနှစ်က မန္တလေး ရတနာပုံနေပြည်တော်တွင် မြင်ကွန်း မြင်းခုန်တိုင် အရေးတော်ပုံကြီး ပေါ်ပေါက်သည်ကို အများ ပရိသတ်တို့ ကြားဖူးကြပေသည်။ ထိုအခါ အရေးနိမ့်သော မင်းသား နှစ်ပါးတို့ ထွက်ပြေးကြသည့် ဇာတ်လမ်းလည်း ရှိနေပါသည်။ ထိုဇာတ်လမ်းကို ဖြတ်၍ ပြောလျှင် ထိုမင်းသားနှစ်ပါးကို မန္တလေး ဇာတိ ဦးဇာဂရ ဆိုသော ရဟန်းကြီးက ရန်ကင်းအောင် ခေါ်ဆောင်၍ ယခု လောင်းလုံမြို့နယ် တောင်ပေါ်တွင် ခိုလှုံနေစေပါသည်။

**ရန်ကင်းတောင် သမိုင်းအစ**

ထိုအချက်ကို အကြောင်းပြု၍ ရန်ကင်းတောင်ဟု ခေါ်ဆိုကြောင်း သိရပါသည်။ ဆရာတော် ဦးဇာဂရသည် မင်းသားငယ် နှစ်ပါးကို သရက်မြို့အထိ ဘေးကင်းစွာ ပြန်လည်ပို့ဆောင်နိုင်ခဲ့ပါသည်။ ထို့နောက်ကား မင်းသားတို့နှင့် မပတ်သက်တော့ပါ။ ဆရာတော် ဦးဇာဂရသည် ထိုလောင်းလုံမြို့နယ် ရန်ကင်းတောင်သို့ပင် ပြန်လည် တောထွက်ခဲ့ပါသည်။

**ဦးဇာဂရ အောင်မြင်ပေါက်မြောက်ခဲ့ခြင်းကြောင့်**

ထိုတောင်တွင် ဂူအောင်း တရားအားထုတ်ခဲ့ရာ ခရီးရောက်ပြီးမြောက် အောင်မြင်ခဲ့ပါသည်။ ဆရာတော်၏ လိုဏ်ဂူရှိရာတောင်ကို ယခုတိုင် ဂူအောင်းတောင်ဟု ခေါ်ပါသည်။

**ဦးဇာဂရ၏ သင်္ကန်းတော်နှင့် ပေပုရပိုက်များ ရန်ကင်းတောင်မှာ မြှုပ်ခဲ့**

ဆရာတော်ဦးဇာဂရသည် လောကီပညာ တစ်ဖက်ကမ်းခတ် တတ်မြောက်ခဲ့၏။ ဆရာတော်ကြီး၏ ပေ ပုရပိုက်များနှင့် သင်္ကန်းတစ်စုံကို ဆရာတော်မှာကြားသည့်အတိုင်း တွင်းတူး မြှုပ်နှံထားသော နေရာလည်း ယခုတိုင် မြင်နိုင်ပါသေးသည်။

**ဦးဇာဂရ၏အဓိဋ္ဌာန်သရက်ပင်ကြီးသည် အောင်မြေနေရာဖြစ်**

ဆရာတော် ဦးဇာဂရ ဘုဉ်းပေးပြီး စွန့်ပစ်ခဲ့သည့် သရက်စေ့က ပေါက်နေသော သရက်ပင်ကြီး တစ်ပင်ကို ယခုထက်တိုင် အမှတ်တရမြင်နိုင်ပါသေးသည်။ ဤသည်ကား ရန်ကင်းတောင်တွင် ပထမဦးစွာ တရားထူး တရားမြတ်ရခဲ့သော ဆရာတော် ဦးဇာဂရ အကြောင်းဖြစ်ပါသည်။

**ရန်ကင်းတောင်တွင် တရားထူး တရားမြတ်ရခဲ့သော ဆရာတော် ၃ ပါး**

၎င်းတို့မှာ ထားဝယ်မြို့ ဇေယျဝတီ စာသင်တိုက် ပထမဆရာတော်သည် ဦးစွာပထမ ဖြစ်ပါသည်။ ထိုဆရာတော်သည် ရန်ကင်းတောင်တွင် တောရကျောင်းတစ်ကျောင်း တည်ဆောက်ခဲ့ပါသည်။ ထိုတောရကျောင်းကို ကလျာဏ မိတ်ဆွေ ဘုန်းကြီးဒိုက် အမည်ရသော ရဟန်းထူး အား လွှဲအပ်ခဲ့ပါသည်။ ဤကား တစ်ပါးဖြစ်၏။

http://www.dhammadownload.com



**ရန်ကင်းတောင်တွင် အကျင့်စခန်းအောင်မြင်တော်မူသော ရဟန်းထူး ဘုန်းကြီးဒိုက်**

ရန်ကင်းတောင်တွင် ဘုန်းကြီးဒိုက်သည် တရားအားထုတ် ပေါက်မြောက်အောင်မြင်ခဲ့ပါသည်။ အကျင့်စခန်း ပြီးမြောက်တော်မူခဲ့ပါသည်။ ဤကား တစ်ပါးဖြစ်၏။

**ရန်ကင်းတောင်တွင် တရားထူးရတော်မူသော ထားဝယ်မြို့ ဇေယျဝတီမြို့မစာသင်တိုက် ဆရာတော် ဦးသီလ**

ပထမ ဇေယျဝတီ ဆရာတော်ကြီးသည် ပေါက်မြောက်အောင်မြင်တော်မူပြီးကြောင်း အများသိပြီး ဖြစ်၏။ ဆရာတော်ကောင်းတပည့် ပီပီ ဆရာတော်ကြီး၏ တပည့်သုံးဦးတို့လည်း ဆရာတော်နည်းတူ ပေါက်မြောက် အောင်မြင်ခဲ့ကြ၏။ တရားထူး တရားမြတ် ရခဲ့ကြ၏။ ထိုဆရာတော်ကြီး သုံးပါးမှာ အောက်ပါအတိုင်း ဖြစ်၏။

**ရန်ကင်းတောင်တွင် တရားထူးရခဲ့သော တောင်ပွားဆရာတော်**

၁။ တောင်ပွားဆရာတော် ထားဝယ်မြို့ ဇေယျဝတီတိုက်ကြီး၏ တိုက်အုပ်ဆရာတော်အဖြစ် ဆောင်ရွက်ခဲ့၏။ ထို့ကြောင့် တိုက်အုပ်တောင်ပွား ဆရာတော်ဟု ခေါ်၏။ နောင်သောအခါ ရဟန္တာဟု ဟိုးဟိုးကျော်၏။

**ရန်ကင်းတောင်တွင် တရားထူး ရခဲ့သော မြိတ်ဦးနန္ဒိယ ဆရာတော်**

၂။ မြိတ်ဆရာတော် ဦးနန္ဒိယ ဟူ၍ ရှိသေး၏။ ထိုဆရာတော်ကြီးသည် ထားဝယ်မြို့ ဇေယျဝတီတိုက်ကြီး၏ စာချ ဆရာတော်ဖြစ်၏။ ထိုဆရာတော်သည်လည်း တရားထူး တရား မြတ်ရတော်မူခဲ့၏။ မြိတ် ဦးနန္ဒိယဟု အလွန်ကျော်စော၏။

**ရန်ကင်းတောင်တွင် တရားထူး ရခဲ့သော ဘုန်းကြီး စီပို့**

၃။ ဘုန်းကြီး စီပို့ခေါ် ဦးပညာဝံသ ဟူ၍လည်း ရှိသေး၏။ ထိုဆရာတော် ဘုန်းကြီး စီပို့နှင့် အထက်ပါ ဆရာတော်နှစ်ပါးတို့မှာ သူငယ်ချင်းများ ဖြစ်ကြ၏။ ဘုန်းကြီး စီပို့က ဦးစွာ ပထမ တရားထူးရသော ရဟန်းဖြစ်ခဲ့လေသည်။

**ဆရာတပည့် သုံးပါး တရားထိုင်သောအခါ တောင်ကြီးတစ်ခုလုံး လင်းနေကြောင်း မျက်မြင် သက်သေများရှိ**

အထက်ပါ ဆရာတော် သုံးပါးတို့သည် ကူးတို့ဂိုဏ်း ထားဝယ် မြို့မ ဇေယျဝတီကျောင်းတိုက် ဆရာတော်ကြီး၏ တပည့်သုံးပါးတို့ ဖြစ်ကြသည်။ ထိုသုံးပါးတို့သည် ရန်ကင်းတောင်တွင် တရားရှုမှတ် ပွားများနေကြ၏။ တစ်ခုသော ညနေတွင် ရန်ကင်းတောင်ကြီး တစ်တောင်လုံး နီရဲလင်းထိန်နေ၏။ အလင်းရောင်ကြီးကိုပတ်ပတ်လည် မြင်ရ၏။ အမှန်မှာ ထိုသုံးပါးတို့ အတူတကွဆုံ၍ တရားထိုင်နေသောကြောင့် တောင်ကြီးတစ်ခုလုံး ဆလိုက်မီးများ ထိုးထားသကဲ့သို့ အနီးအဝေး လင်းနေခြင်း ဖြစ်၏။ ဤရွေ့ ဤမျှ ထူးသော ဆရာတော်ကြီးများဖြစ်ကြပါသည်။ ထိုနည်းတူ ရန်ကင်းတောင်သည်လည်း အလွန်ထူးပါသည်။

**တပည့်ဖြစ်သော ဦးပညာဇောတကို ရန်ကင်းတောင်ကြီးအား တာဝန်ပေးခြင်း**

ရန်ကင်းတောင်တောရကို ထိန်းသိမ်းစောင့်ရှောက်ရန် မြို့မ ဇေယျဝတီဆရာတော်ကြီးသည် ပခွင်းငယ် ဦးပညာဇောတကို အပ်နှံခဲ့လေသည်။

**ဇာတိ**

အေဒီ ၁၉၀၄

ဦးပညာဇောတသည် သိမ်ရွာ ဇာတိဖြစ်၏။ ခမည်းတော် ဦးရွှေပြား မယ်တော် ဒေါ်အေးသူတို့မှ မြန်မာသက္ကရာဇ် ၁၂၆၆ ခုနှစ် တန်ဆောင်မုန်းလဆုတ် ၁၀ ရက်နေ့တွင် မွေးဖွားခဲ့သည်။

http://www.dhammadownload.com



**ဖခင်အမည် ဦးပေတိုး**

ဦးပညာဇောတ၏ တပည့်အရင်းဖြစ်သူ ဦးဝဏ္ဏိတ ဆရာတော်ကြီး၏ အဆိုအမိန့်အရ ဆရာတော် ဦးပညာဇောတသည် သက္ကရာဇ် ၁၂၆၆ ခုနှစ်တွင် ကဒက်ကြီးရွာနေ ဦးပေတိုး ဖွားအေးသူမှမွေးဖွား၍ ကဒက်ကြီး ရန်ကင်းတောင်ရိပ်သာတွင် ရှိသည်ဟုလည်း အတိအကျ ဆိုပါသည်။

ကျမ်းကိုး။ လောကမာန်အောင် သာသနာ့ဗိမာန်ဆရာတော်၊ သာသနာ့ ဝပုဏကျမ်း။ ဆရာတော် ဦးဝဏ္ဏိတ၊ ၁၉၉၂ ခု မတ်လ၊ ပထမအကြိမ်၊ စာ ၁။

မှတ်ချက်။ ဖခင်အမည် နှစ်မျိုးကွဲပြားနေပါသည်။ တစ်မျိုးမှ ဦးရွှေပြားဖြစ်၏။ တစ်မျိုးမှာ ဦးပေတိုး ဖြစ်၏။

အေဒီ ၁၉၁၄ — အသက် ၁၀ နှစ်တွင် ရှင်သာမဏေ ဖြစ်ခဲ့သည်။ ထိုအခါ ကဒက်ကြီးရွာလယ်ကျောင်း မြခါးပါတ် ကျောင်း၊ ဇေယျဝတီတိုက်၊ အမရပူရမြို့၊ မန္တလေးမြို့တို့တွင် ပရိယတ္တိစာပေ သင်ကြားခဲ့ပါသည်။

**ပိဋကတ်သုံးပုံ သုံးခေါက်ပြန်ခဲ့၏၊**

နိကာယ်ကြီး ငါးရပ်နှင့် ပိဋကတ်သုံးပုံကို သုံးခေါက် ကြေကြေညက်ညက် တတ်မြောက်ခဲ့ပါသည်။ ဆရာတော်သည် သဂြိုဟ်ဟောရိုးကျမ်းကို ရေးခဲ့ပါသည်။

**နှစ် ၄၀ စာပို့ချခဲ့**

နှစ်ပေါင်း ၄၀ ကျော် စာပို့ချခဲ့ပါသည်။

**ရန်ကင်းတောင်မှာ နှစ် ၄၀ ကျင့်ခဲ့**

အေဒီ ၁၉၅၄ — သက္ကရာဇ် ၁၃၁၅ ခုနှစ်တွင် ရန်ကင်းတောင်သို့ ကြွရောက်သီတင်းသုံးခဲ့ပါသည်။ တောထွက်ခဲ့ပါသည်။ အရညဝါသီ ကျင့်ကြံခဲ့ရာ ရန်ကင်းတောင်တွင် နှစ်ပေါင်း ၄၀ ကြာခဲ့သည် ဖြစ်သည်။

**ဂဏာဝိမုတ်ကူးတို့ဂိုဏ်း**

ဆရာတော်သည် ဂဏာဝိမုတ် ကူးတို့ဂိုဏ်း၏ အာဇာနည်တစ်ပါးအဖြစ် အသိအမှတ် ပြုကြပါသည်။ ဆရာတော်သည် ရန်ကင်းတောင်တို့ ရောက်သည့်အချိန်မှ စပြီး အာနာပါန ကမ္မဋ္ဌာန်း မေတ္တာကမ္မဋ္ဌာန်းနှင့် ဗုဒ္ဓါနုဿတိ ကမ္မဋ္ဌာန်းတို့ကို အထူးပွားများခဲ့ပါသည်။

**အံ့ဖွယ်ကျင့်ကြံအားထုတ်ပုံများ မှတ်တမ်း**

အစာရေစာပြတ်ပြီး ရက်တော်တော်ကြာမေ့မြောသည်မှာ ၃-၄ကြိမ် ဖြစ်ဖူးသည်အထိ ကျင့်ကြံ အားထုတ်ခဲ့ဖူးကြောင်း မှတ်တမ်းများ ရှိပါသည်။ ဆရာတော်၏ ထူးခြားချက်များကို အောက်ပါ အတိုင်း မှတ်သားခဲ့ရပါသည်။

က။ ချဉ်ပေါင်ရွက်ဟင်း သက်သက် ၁ နှစ်၊

ခ။ ဒန်ကျွဲရွက် ဟင်း သက်သက် ၁ နှစ်၊

ဂ။ မန်ကျည်းရွက်ဟင်း သက်သက် ၁ နှစ်၊

ဃ။ ထောပတ်ဆွမ်းသက်သက် ၁ နှစ်၊

င။ ကောက်ညှင်းပေါင်းဆွမ်းသက်သက် ၁ နှစ်၊

စ။ မုန့်တီဆွမ်းသက်သက် ၁ နှစ်၊

**နွားနို့တစ်ခွက်သာ သက်တော် ၉၂ နှစ်မှာ ဘုဉ်းပေး**

အေဒီ ၁၉၉၆ — ဤသို့ဖြင့် နှစ်ပေါင်း ၃၀ ကျော် ကျင့်ကြံ အားထုတ်ခဲ့ပါသည်။ သက်တော် ၉၂ နှစ်ရောက်တော်

http://www.dhammadownload.com



မှုသောအခါ နွားနို့ တစ်ခွက်မှာ သကြားလှိုင်လှိုင်ထည့်ပြီး ဘုဉ်းပေးလေ့ရှိကြောင်း သိရသည်။

**အသံကြည်စာကောင်းအောင်လုပ်နည်း**

ဆရာတော်သည် မူလက အသံသေးငယ်သည် ဖြစ်သည်ဟု ဆိုသည်။ နောက်ပိုင်းတွင် အသံအောင်မြင်လာသည်။ တရားဟောကောင်းသည် စာချကောင်းသည်ဟု ကျော်စောသည်။ "သိန္ဓော၊ နွယ်ချို၊ စယို၊ ပတဲကော၊ အသံရွှေဥကြတဲ့ အဲဒီဆေးလေးမယ် အလေးချိန်တူ အမှုန့်ပြုပြီး မှိုဝဲခဲ့လို့ အသံ အောင်မြင် ပွင့်လင်းလာရသည်" ဟု မိန့်ကြားတော်မူပါသည်။

**သဲပုံစေတီနှင့် အဓိဋ္ဌာန် ၂၄ ပစ္စည်း**

ဆရာတော်သည် သဲပုံစေတီတော်ကို ပြန်လည် ပြုပြင်တည်ထားသော ဉာဏ်တော် ၁၈တောင်ခန့် စေတီတော်ကို တည်ထားကိုးကွယ်ပါသည်။ ပုညာသီရိခေမာဟု ဘွဲ့တော်အမည်ရှိပါသည်။ ဘုရား ပလ္လင်တစ်မျက်နှာမှာ ဖယောင်းတိုင် မီးထွန်းဖို့ အုတ်ဂူငယ် ၆ လုံး ထားပါသည်။ လေးမျက်နှာဖြစ်၍ အုတ်ဂူငယ် ၂၄ လုံး ရှိပါသည်။ ပဋ္ဌာန်း ၂၄ ပစ္စည်းကို ရည်ညွှန်းခြင်းဖြစ်ပါသည်။

**ဓာတ်တော်များ အလိုလိုကြွ**

ဆရာတော်၏အဓိဋ္ဌာန်ကြောင့် ဓာတ်တော် မွေတော်များသည် သူ့အလိုအလျောက် တလက်လက် တဝင်းဝင်း ကြွရောက်တော်မူလာသည်ကို အားလုံးဖူးမြော်ကြရပါသည်။ ဤရွေ့ ဤမျှ ထူးသော ဆရာတော် ဦးဇောတိက ဖြစ်ပါသည်။

**ရန်ကင်းတောင်တွင် တရားပေါက်တော်မူခြင်း**

ဦးပညာဇောတသည် ထားဝယ် မြို့မဆရာတော် ဦးသီလ၏ အမိန့်တော်ဖြင့် ရန်ကင်းတောင်ကို သာသနာ့ တာဝန်ပေးအပ်ခြင်းခံရသော ရဟန်းထူး ဖြစ်သည်။ ဆရာ့ ဆရာများ တရားထူးရခဲ့သော ရေးမြို့ ရန်ကင်းတောင်တွင်ပင် ဦးပညာဇောတသည်လည်း တရားထူး တရားမြတ်ရတော်မူခဲ့သည်။ ပေါက်မြောက်အောင်မြင်တော်မူခဲ့သည်။

**ထားဝယ်မြို့ ဇေယျဝတီ ဦးသီလ၏ တပည့်ဖြစ်ခဲ့**

ပထမ မူလဇေယျဝတီဆရာတော်ဘုရားကြီး၏တပည့်အရင်း ပိဋကတ်သုံးပုံ နိကာယ်ငါးရပ် တတ်ကျွမ်းလိမ္မာသော မဇ္ဈိမထိကအကျော် ဆရာတော်ဖြစ်သည်ဟုလည်း သိရသည်။

> ကျမ်းကိုး။ လောကမာန်အောင် သာသနာ့ဗိမာန်ဆရာတော်၊ သာသနာ့ ဝပုဏ္ဏကျမ်း၊ ဆရာတော် ဦးဝဏ္ဏိတ၊ ၁၉၉၂ ခု မတ်လ၊ ပထမအကြိမ်၊ စာ ၁။

**သာမညတောင် ဆရာတော်ဘုရားကြီး၏မိန့်မှာချက်ကြောင့်လူသိများလာ**

ထိုအချက်ကို ရည်စူး၍ သာမည ဆရာတော်ကြီးထံ အဖူးမြော်လာရောက်သူများကို သာမည ဆရာတော်ကြီးက "ငါ့ဆီမလာနဲ့ ဝေးတယ်၊ မင်းတို့ ရန်ကင်းတောင်က လူတွေ ဦးပညာဇောတကို ဖူးဖြစ်အောင် ဖူးကြ အလွန်ထူးတယ်" ဟု မိန့်တော်မူခြင်း ဖြစ်တန်ရာ၏။

**ခန္ဓာဝန်ချတော်မူခြင်း**

၁၉၉၉ ဦးပညာဇောတသည် ၁၉၉၉ ခုနှစ်တွင် ခန္ဓာဝန်ချတော်မူပါသည်။

> ကျမ်းကိုး။ အောင်ဇေ L L B ထုတ်ဝေသော ရန်ကင်းတောင် ပါရမီမဂ္ဂဇင်း ၁၉၉၆ခုနှစ်၊ ဩဂုတ်လ၊ အမှတ် ၄၇၊ စာ ၄ကို ကြည့်ပါ။
>
> ကျမ်းကိုး။ လောကမာန်အောင် သာသနာ့ဗိမာန်ဆရာတော်၊ သာသနာ့ ဝပုဏ္ဏကျမ်း၊ ဆရာတော် ဦးဝဏ္ဏိတ၊ ၁၉၉၂ ခု မတ်လ၊ ပထမအကြိမ်၊ စာ ၁။

http://www.dhammadownload.com



သာမညဆရာတော်က ငါနဲ့အတူတူပဲ သွားဖူးကြပါ မိန့်တော်မူသော
ယနေ့တိုင် ရုပ်ကလာပ်ရှိသော ထူးခြားသည့်
စဉ့်ကိုင်မြို့နယ်၊ ပလိပ်ကျေးရွာ

# စလေ ဦးကောသလ္လ

(၁၉၀၅ – ၂၀၀၀)



http://www.dhammadownload.com



စာပေလောကသားများအနေဖြင့် ကိုလိုနီခေတ် စာပေသမိုင်းကြီးသည် ၁၉၀၅ ခုနှစ်တွင် ထူးခြားသော နှစ်တစ်နှစ်ဖြစ်ပေသည်။ အဘယ်ကြောင့်ဆိုသော် ထိုနှစ်တွင် စာပေ ရေစီးကြောင်း အပြောင်းအလဲများ ဖြစ်နေသောကြောင့် ဖြစ်ပါသည်။

**ထိုအချိန်က မောင်ရင်မောင် မမယ်မ ဝတ္ထုပေါ်နေ**

လွန်ခဲ့သည့် ၁၉၀၄ ခုနှစ်တွင်ကား မြန်မာစာပေသမိုင်းတွင် အသစ် အသစ် တီထွင်ပေါ်ထွက်လာသော ဝတ္ထုကြီးတစ်ပုဒ်သည် ခေတ်သစ်စာပေသမိုင်းတွင် မော်ကွန်း ထိုးခဲ့ရသောကြောင့် ဖြစ်ပါသည်။ အဘယ်ကြောင့်ဆိုသော် ထို ၁၉၀၄ ခုနှစ်က စာရေးဆရာကြီး ဂျိမ်းစ်လှကျော်ဆိုသူသည် မောင်ရင်မောင် မမယ်မ ဝတ္ထုကြီးကို ထုတ်ဝေလိုက်သောကြောင့် ဖြစ်ပါသည်။ ထိုဝတ္ထုကို မြန်မာ့ ပထမ ကာလပေါ်ဝတ္ထုဟု ကင်ပွန်းတပ်ကြပါသည်။

> ကျမ်းကိုး။ ၁၉၀၄ ခုနှစ်၊ ဂျိမ်းစ်လှကျော်၊ မောင်ရင်မောင် မမယ်မ ဝတ္ထု၊ မဟာဆွေ ပုံနှိပ်တိုက်၊ မြန်မာဝတ္ထုရှည် နှစ်တစ်ရာ အုပ်တစ်ထောင် ပြပွဲအထိမ်းအမှတ်၊ စာ၁၃ ကိုကြည့်။

**ထိုအချိန်က ဝန်စာရေး ဦးကြီးပေါ်နေ**

၁၉၀၅ ခုနှစ်တွင်ကား မောင်ရင်မောင် မမယ်မ ကျော်စောသည်ကို အကြောင်းပြု၍ ဝန်စာရေး ဦးကြီးဆိုသူက စိန်ကလေးဝတ္ထုကို ရေးလိုက်သော နှစ်ဖြစ်ပေသည်။

> ကျမ်းကိုး။ ၁၉၀၅ ခု၊ ဝန်စာရေး ဦးကြီး၊ စိန်ကလေး ဝတ္ထု၊ ရန်ကုန်မြို့ ဇမ္ဗူကျက်သရေပုံနှိပ်တိုက်၊

**ထိုအချိန်က ဝတ္ထုရေးဆရာ ကိုကာစင် ပေါ်နေ**

ထို ၁၉၀၅ ခုနှစ်တွင်ပင် ကိုကာစင်နှင့် မောင်လှဒင်တို့သည် မောင်မင်းကျော်ဝတ္ထု ပထမတွဲကို ထုတ်ဝေလိုက်ပြန်လေသည်။ ပထမတွဲ စာမျက်နှာ ၁၈၅ မျက်နှာ ရှိ၏။ ဒုတိယတွဲ ၂၆၆ မျက်နှာရှိ၏။

> ကျမ်းကိုး။ ၁၉၀၅ ကိုကာစင်နှင့် မောင်လှဒင်၊ မောင်မင်းကျော် ဝတ္ထု၊ မန္တလေး တမ္ပဒီပတိုက်၊

**ခေတ်ပြိုင် အခြေအနေများ**

ကျွန်ုပ်တို့သည် စာပေလောကကို စူးစူးစိုက်စိုက် လေ့လာနေရာမှ သာသနာတော်ဘက်သို့ လှည့်လိုက်သောအခါ အလွန်အံ့ဖွယ်ကောင်းသော ရဟန်းထူးကြီးတစ်ပါး မွေးဖွားသည်နှင့် ကြုံကြိုက်နေခဲ့ပါသည်။

**ထိုနှစ်က မြန်အောင် နန္ဒဝန်ဆရာတော်ကြီးလည်း မွေးဖွား**

ထို ၁၉၀၅ ခုနှစ်တွင် မြန်အောင်မြို့ နန္ဒဝန်တိုက်ကျောင်းဆရာတော်ကြီး ဦးသာသန မွေးဖွားတော်မူခဲ့သောကြောင့်ဖြစ်ပါသည်။ ထိုဆရာတော်ကြီးသည် မီးသဂြိုဟ်တော်မူသောအခါ ဓာတ်တော်များ တဖွားဖွား ကျတော်မူပါသည်။ ရုပ်ကလာပ်တော်ကြီးကို ဆေးထိုးသောအခါ သွေးများ ပန်းထွက်ပါသည်။ ဤမျှ ဤမျှ ထူးသော ဆရာတော်ကြီးကို ထို၁၉၀၅ ခုနှစ်တွင်ပင် တိုက်တိုက်ဆိုင်ဆိုင် မွေးဖွားတော်မူခဲ့ပါသည်။ ထိုဆရာတော်ကြီးသည် ၁၉၀၅ ခုတွင် ဖွားတော်မူ၏။ ၁၉၉၂ ခုတွင် ပရိနိဗ္ဗာန်ပြုတော်မူ၏။ ဧရာဝတီတိုင်း မြန်အောင်မြို့ ဗဒလင်ရပ်တွင် နန္ဒဝန်ဝိပဿနာကျောင်း တည်ရှိပါ၏။ ကြုံလျှင် ဖူးတွေ့နိုင်ပါသည်။

> ကျမ်းကိုး။ ချစ်ကိုကို ( ရှစ်မိုင်) ဓာတ်တော်ကျသည့် မြန်အောင် နန္ဒဝန်ဆရာတော်ကြီး ပါရမီမဂ္ဂဇင်း၊ ၂၀၀၁ ခု အောက်တိုဘာလ၊ အမှတ် ၁၀၉၊ စာ ၆၉ - ၇၀။
> မောင်ပန်းမွေး ရဟန္တာနှင့် ရဟန်းထူးများ တော်ဝင်မြို့မစာအုပ်တိုက်၊ ၂၀၀၈ ခုနှစ်၊ အောက်တိုဘာလ၊ စာ ၆၇၁ ကိုကြည့်။

http://www.dhammadownload.com



**ထိုနှစ်မှာပင် စလေ ဦးကောသလ္လမွေးဖွား**

ထိုသို့သော ထူးခြားတိုက်ဆိုင်မှုများနှင့်အတူ စလေ ဆရာတော်ကြီး ဦးကောသလ္လကို ထို၁၉၀၅ ခုနှစ်တွင်ပင် ဖွားမြင်တော်မူပါသည်။ သက်တော် ၉၅နှစ် ရှည်တော်မူပါသည်။ ၂၀၀၀ ပြည့်နှစ်တွင် ခန္ဓာဝန်ချတော်မူပါသည်။ ဦးကောသလ္လ၏ ရုပ်ကလာပ်တော်အား ယနေ့တိုင် ပူဇော်နိုင်ပါသေးသည်။

မှတ်ချက်။ သက်တော် ၁၀၀ ပြည့်နှစ်တွင် ဘဝနတ်ထံပျံလွန်သည်ဟုလည်းတွေ့ရပါသည်။

ကျမ်းကိုး၊ စလေကျောင်း သာသနာ့နယ်မြေဆီသို့၊ စံထွန်းသာ၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ အမှတ် (၁၉၅)၊ ၂၀၀၂ ခု၊ အောက်တိုဘာလ၊ စာ-၉၊ ကြောင်းရေ ၆ ကို ကြည့်ပါ။

**မွေးသက္ကရာဇ်၊ မျိုးရိုးဇာတိ**

အေဒီ ၁၉၀၄

မြန်မာသက္ကရာဇ် ၁၂၆၆ ခုနှစ်၊ တပို့တွဲလဆန်း(၃)ရက် (၆-၂-၁၉၀၅)တနင်္လာနေ့ မွန်းလွဲ(၃)နာရီ အချိန်တွင် ခမည်းတော် ဦးထွန်းသာ၊ မယ်တော်ဒေါ်ဆင့်မှ မွေးဖွားသည်။ အမည်ရင်းမှာ မောင်ထွန်းအောင်ကျော်ဇောလှိုင်ဟု တွင်သည်။

ကျမ်းကိုး၊ စလေကျောင်း သာသနာ့နယ်မြေဆီသို့၊ စံထွန်းသာ၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ အမှတ် (၁၉၅)၊ ၂၀၀၂ ခု၊ အောက်တိုဘာလ၊ စာ-၉။

**ထေရ်ကြီးတန်ဆောင်း**

ဗောဓိညောင်ပင်၏ အနောက်မြောက်ဘက်တွင် စလေကျောင်းထိုင် ဆရာတော် အစဉ်အဆက် ရုပ်ပွားတော်များအား ပူဇော်ထားသော ထေရ်ကြီးတန်ဆောင်းဗိမာန် ရှိပေသည်။ တန်ဆောင်းအတွင်းတွင် ဆရာတော်တစ်ပါးစီ၏ ဘွဲ့မည်၊ ရုပ်တုများအား သွန်းလုပ်ပူဇော်ထားကာ အနောက်ဘက်နံရံတွင် ဇာတ်တော်များအား သရုပ်ဖော်ပန်းချီ ရေးဆွဲထားသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၂

**ပထမ ကျောင်းထိုင်ဆရာတော်**

အေဒီ ၁၉၃၂

မြန်မာသက္ကရာဇ် ၁၂၉၄ ခုနှစ်တွင် တပေါင်းလဆန်း ၈ ရက်နေ့တွင် စလေဆရာတော် ဦးဇဝနက စတင်တည်ထောင်သောကျောင်းဖြစ်၏။ ထို့ကြောင့် စလေကျောင်းဟု တွင်၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၂

**ဒုတိယ ကျောင်းထိုင်ဆရာတော်**

အေဒီ ၁၉၃၅

၁၂၉၆ ခုနှစ်တွင် ကော့ကရိတ်မြို့နယ် နဘူးခြံရွာ ဇာတိ အရှင်ဇဝနက ကျောင်းထိုင်ဆရာတော်အဖြစ် ဆက်ခံ၏။ ပထမ ဆရာတော်နှင့် အမည်ချင်း တူ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ ၁၂

**တတိယကျောင်းထိုင်ဆရာတော်**

အေဒီ ၁၉၅၁

၁၃၁၃ ခုနှစ်၌ ထိုဆရာတော် ပျံလွန်တော်မူရာ မြင်းခြံမြို့နယ် ဆီမီးခုံရွာအုပ်စုဂင့်ဂဲရွာဇာတိ အရှင်ကောသလ္လက တတိယစလေ ကျောင်းထိုင် ဆရာတော်အဖြစ် ဆက်ခံသည်။

ကျမ်းကိုး။ စလေကျောင်း သာသနာ့နယ်မြေဆီသို့၊ စံထွန်းသာ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် (၁၉၅)၊ ၂၀၀၂ ခု၊ အောက်တိုဘာလ၊ စာ-၉။

**တစ်ပင်တည်းမှာ သရက်သီးနှစ်မျိုး သီးသောအံ့ဖွယ်**

ထေရ်ကြီးတန်ဆောင်းအနီးတွင် သရက်ပင်ပျိုတစ်ပင်ရှိရာ အသီး,သီးချိန်တန်သောအခါ မတူညီ သော သရက်သီးနှစ်မျိုး သီးလေ့ရှိကြောင်း သိရ၏။

ကျမ်းကိုး။ ပလိပ်ရွာသူ မပပအောင်ကပြောပြသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ - ၁၃။

http://www.dhammadownload.com



**စလေ ဦးကောသလ္လလက်ထက် အံ့ဖွယ် သက်သေ**

အရှေ့ဘက်အကိုင်းမှ ရင်ကွဲ သရက်ကဲ့သို့ ရှည်၍ပြားသော သရက်သီး,သီး၍ အနောက်ဘက် အကိုင်းတွင်မူ လုံးဝန်းသောသရက်သီးများ သီးကြောင်းသိရသည်။ ဆရာတော်ဦးကောသလ္လ လက်ထက်တွင် ပေါ်ပေါက်ခဲ့သော သရက်ပင် ဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၃

**ဦးကောသလ္လတရားကျင့်ခဲ့ရာ မန်ကျည်းပင်အကြောင်း**

ထူးခြားနိမိတ် ပေါ်ထွန်းသည့် မန်ကျည်းပင်ဖြစ်၏။ သရက်ပင်၏ အနောက်တောင်ဘက်တွင် နှစ်ပေါင်းရာကျော် သက်တမ်းရှိ မန်ကျည်းပင်ကြီးတစ်ပင်ရှိရာ ဆရာတော်ဦးကောသလ္လသည် ယင်းအပင်အောက်တွင် တရားကျင့်ကြံလေ့ရှိခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၃

**အံ့ဖွယ်သူရဲကျော်စောခဲ့သော သရက်ပင်ကြီးနှင့် စလေဦးကောသလ္လ**

တစ်ကြိမ်တွင် ဆရာတော်နှင့် မန်ကျည်းပင်အား ယှဉ်တွဲ၍ မှတ်တမ်းဓာတ်ပုံရိုက်ကူးရာ မန်ကျည်း ပင်တွင် ဗုဒ္ဓ၊ ရဟန္တာ၊ သူတော်စင်၊ ဗောဓိသတ္တ၊ ဘုရားစေတီစသည်ပုံစံများ ဖြစ်ပေါ်နေသည်ကို တွေ့မြင်ရသဖြင့် မိတ္တူများစွာ ပွားကူးပူဇော်ခဲ့ကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၃

**စမ ပေါ်သည့် သရက်ပင်ကြီး၏အံ့ဖွယ်**

စမ,ပေါ်သည့်သရက်ပင်အဖြစ် ထိုမှ ကျောင်းအနောက် မုခ်ဝအနီးတွင် သစ်ချောင်းငယ်များဖြင့် ခြံခတ်ထားသော သရက်ပင်တစ်ပင်အားတွေ့ရသည်။ လွန်ခဲ့သော လေးနှစ်ခန့်က စတင်၍ ပင်စည်တွင် စမ,စာလုံးများထင်ရှားစွာ ဖြစ်ပေါ်ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၃

**စ မ ဗ ဝ သရက်ပင်ကြီး**

**တစ်စေ့တည်းက နှစ်ပင်ပေါက် နှစ်သီး သီး**

သက်တော်ရှည် စလေ ဆရာတော်ဘုရားကြီး၏ ကျောင်းပေါက်ဝက သရက်ပင်ကြီးသည် စ မ ဗ ဝ စမများ ထင်ထင်ရှားရှား ပေါ်နေခဲ့ပါသည်။ ထိုသရက်ပင်ကြီးမှာ သရက်စေ့ တစ်စေ့ တည်းကို စိုက်ခြင်းဖြစ်၏။ တစ်စေ့တည်းက နှစ်ပင်ပေါက်ပြီး သရက်ပင် သရက်ကိုင်း သရက် ရွက် သရက်သီး နှစ်မျိုးနှစ်စား ကွဲပြားနေကြောင်းတွေ့ရ၏။

ကျမ်းကိုး။ ဖိုးဒေါင်းသား သက်တော်ရှည်၊ စလေ ဆရာတော်ကြီး၊ ဂမ္ဘီရမဂ္ဂဇင်း အမှတ်၅၀၊ ၁၉၉၉ ခု၊ စက်တင်ဘာ လ ၊ စာ ၂၄၊

**ပင်စည်မရှိဘဲ ပေါက်တဲ့အပင်**

စလေဆရာတော်ကြီးကျောင်းတွင် အံ့ဖွယ်များစွာရှိ၏။ ပင်စည်မရှိဘဲ ပေါက်နေသည့် ညောင် ပင်ကြီးတစ်ပင်လည်း ရှိ၏။

ကျမ်းကိုး။ ယင်းစာ ၂၄။

**လူလို ကိုင်းညွတ်ပူဇော်တော်မူသော တရုတ်စကားပင်ကြီး**

စလေဆရာတော်ဘုရားကြီး ရှိစဉ်က ကျောင်းနားက တရုတ်စကားပင်ကြီးသည် ဆရာတော်ကြီး သီတင်းသုံးသော ကျောင်းသို့ အလိုလို ဦးညွတ်လာသည်ကို တွေ့ကြရသည်။

ကျမ်းကိုး။ ယင်းစာ ၂၄။

http://www.dhammadownload.com



**တစ်စတစ်စ ကျော်ကြားလာ**

အေဒီ ၁၉၅၈ စလေဆရာတော်ကြီးသည် ၁၉၅၈ ခုမှ စ၍ တစ်စတစ်စ ကျော်ကြားတော်မူလာခဲ့သည်။ ထိုအခါ သက်တော် ၅၃ နှစ်ရှိပြီဖြစ်ပါသည်။

ကျမ်းကိုး။ ယင်းစာ ၂၅။

**ည ၁ ချက်တီးတွင် မင်္ဂလသုတ်၊ ည ၂ ချက်တီးတွင် အာဋာနာဋိယသုတ်**

စလေဆရာတော်ဘုရားကြီး၏ ဝလေ့မှာ သန်းခေါင်ကျော် ညဥ့်တစ်ချက်ထိုးတိုင်း သိကြားမင်းသည် ဘုရားရှင်ထံ၌ မင်္ဂလသုတ်တရားတော်ကို နာယူချိန်ဖြစ်သဖြင့် ထိုအထိမ်းအမှတ်အဖြစ် မင်္ဂလသုတ်ကို ရွတ်ဖတ်ပူဇော်လေ့ရှိ၏။ ညတိုင်း ညတိုင်း ညဥ့် ၂ ချက်တီးအချိန်တွင်လည်း အာဋာနာဋိယသုတ်ကို ရွတ်ဖတ်ပူဇော်လေ့ရှိ၏။

ကျမ်းကိုး။ ယင်းစာ ၂၅။

**ထွက်ရပ်ပေါက် ဘိုးမှတ်ဆိတ်**

စလေဆရာတော်ကြီးထံ ဝိဇ္ဇာလမ်းစဉ် ကျင့်စဉ်အားထုတ်နေကြသော ရဟန်းပုဂ္ဂိုလ် လူပုဂ္ဂိုလ်တို့လည်း အမြဲလာလေ့ရှိ၏။ ကူညီလေ့ရှိ၏။ ဆည်းကပ်လေ့ရှိ၏။ ဩဝါဒ ခံယူလေ့ရှိ၏။ ထွက်ရပ်လမ်း မြန်းတော်မူသည့် အင်းဝမြို့မကျောင်းဆရာတော် ဘိုးမှတ်ဆိတ်သည် မထွက်မီက အမြဲမပြတ် လာရောက်၍ ဩဝါဒခံယူလေ့ရှိ၏။

ကျမ်းကိုး။ ယင်းစာ ၂၅။

**ဆုတောင်းပြည့်စေတီတော် တည်ထားကိုးကွယ်ခြင်း**

အေဒီ ၁၉၉၄ စလေဆရာတော်ဘုရားကြီးသည် ဉာဏ်တော် ၃၆ တောင်ရှိ သုံးလောကသရဖူ ငါးမာန်အောင် ဇမ္ဗူလင်း ဆုတောင်းပြည့်စေတီတော်ကို တည်ထားကိုးကွယ်တော်မူပြီး သက္ကရာဇ် ၁၃၅၆ ခုနှစ်၊ ကဆုန်လပြည့်၊ ခရစ်နှစ် ၁၉၉၄ ခုနှစ်တွင် ထီးတော်တင်လှူပူဇော်ခဲ့သည်။

**ထူးခြားသော ဓာတ်ပုံတစ်ပုံ**

အေဒီ ၁၉၅၈ ၁၉၅၈ ခုနှစ်မှစ၍ တစ်စတစ်စ ကျော်ကြားတော်မူသော ဆရာတော်ဘုရားကြီးသည် ၁၉၉၂ ခုနှစ်တွင် ထူးခြားသော ဓာတ်ပုံတစ်ပုံကြောင့် ပိုမို လူသိများလာခဲ့ပေသည်။

**အိမ်သုံးကင်မရာနှင့်ရိုက်သောပုံတွင် နဂါးပုံ၊ ဆင်ပုံနှင့် ဗုဒ္ဓရုပ်ပွားတော်ကြီးပေါ်ပေါက်လာခြင်းအံ့ဖွယ်**

အေဒီ ၁၉၉၆ မြန်မာသက္ကရာဇ် ၁၃၅၄ ခု ဝါခေါင်လဆန်း ၁၃ ရက်နေ့ ညနေ ၃ နာရီတွင် စလေဆရာတော်ဘုရားကြီးကို ကံထပ်မင်္ဂလာ ပြုလုပ်ခဲ့ပါသည်။ ထိုအခါ သိမ်ကအထွက် မန်ကျည်းပင်ကြီးအောကမှာ ဆရာ တော်ကြီး မတ်တပ်ရပ်တော်မူပုံကို အိမ်သုံးကင်မရာလေးနှင့် ဓာတ်ပုံရိုက်ကူးခဲ့ပါသည်။ ထိုဓာတ်ပုံတွင် မန်ကျည်းပင် ပင်စည်အကိုင်းအခက် အရွက်တွေနှင့် နောက်ခံ မိုးကောင်းကင်ရောစပ်ပြီး ထင်ရှားသောပုံရိပ်များ အံ့စဖွယ် ပေါ်ပေါက်ခဲ့ပါသည်။ ဆရာတော်ကြီး ဦးခေါင်းတည့်တည့်တွင် တင်ပျဉ်ခွေ ဗုဒ္ဓရုပ်ပွားတော်တစ်ဆူကို တွေ့ခဲ့ရသည်။ ညာဘက်တွင် နဂါးခေါင်းပုံရိပ်နှင့် ဘယ်ဘက်တွင် ခြသေ့်ပုံရိပ်ကို တွေ့ရသည်။ အပေါ်ဘက်နားတွင် ဆင်နှာမောင်းကြီးကို တွေ့ရသည်ဟု ထူးဆန်းထွေလာ ဖြစ်ပွားခဲ့ပါသည်။ ထိုဓာတ်ပုံကို လူအများ ကူးယူကိုးကွယ်ကြပါသည်။

ကျမ်းကိုး။ ယင်းစာ ၂၆ကိုလည်း ကြည့်ပါ။

http://www.dhammadownload.com



**ပလိပ်ရွာ စလေမြွေဘုရားနားက စလေဆရာတော်ကြီး သွားဖူးကြ တို့နဲ့အတူတူပဲဟု သာမညဆရာတော်ဘုရား မိန့်တော်မူ**

ဆရာတော်ကြီး အထူးကျော်ကြားတော်မူသည်မှာ ခရစ်နှစ် ၁၉၉၃ ခုနှစ်က စပါသည်။ ၁၉၉၃ ခုနှစ်တွင် မန္တလေးနှင့် မြန်မာပြည်အထက်ပိုင်းမှ ဘုရားဖူး ခရီးသည်များ သာမညဆရာတော်ဘုရားကြီးကို လာရောက်ဖူးမြော်ကြပါသည်။ ထိုအခါ သာမည ဆရာတော်ဘုရားကြီးက - "ဒီလောက် ခရီးအဝေးကြီး အပင်ပန်းခံပြီး လာဖူးကြတဲ့ သဒ္ဓါတရားကိုတော့ ချီးကျူးပါတယ်။ အင်မတန် ပင်ပန်းကြမှာပဲ တကယ်က အဝေးကြီးလာမနေနဲ့ မင်းတို့ အနားမှာရှိတယ် ပလိပ်မြို့မှာ တို့လို ဘုန်းကြီးတစ်ပါးရှိတယ်။ မြွေဘုရားနားမှာ သီတင်းသုံးနေတဲ့ စလေဆရာတော်ကြီးကို သွားဖူးကြ တို့ကိုအဝေးကြီးလာဖူးတာနဲ့ အတူတူပဲ။ တို့နဲ့ အတူတူပဲ" ဟု မိန့်တော်မူခဲ့ပါသည်။

ကျမ်းကိုး။ ယင်းကျမ်း ၂၇ လည်း ကြည့်။

**ခေတ်ပြိုင် မှတ်စုများ**

**မွေးရက် မွေးလ**

အေဒီ ၁၉၀၅ — စလေ ဆရာတော်ဘုရားကြီးသည် မြန်မာသက္ကရာဇ် ၁၂၆၆ ခု တပို့တွဲလဆန်း ၃ ရက်၊ တနင်္လာနေ့တွင် မွေးဖွားခဲ့၏။

ကျမ်းကိုး။ ယင်းကျမ်း ၂၇ လည်း ကြည့်။

**ငယ်မည်**

အေဒီ ၁၉၁၁ — ငယ်မည် မောင်ထွန်းအောင် ကျော်ဇောလှိုင် ဖြစ်၏။ ၆ နှစ်သားက စ၍ စာသင်၏။

ကျမ်းကိုး။ ယင်းကျမ်း ၂၇ လည်း ကြည့်။

**သာမဏေဘွဲ့**

အေဒီ ၁၉၁၄ — ၉ နှစ်သားတွင် ရှင်သာမဏေ ဝတ်၏။ ဘွဲ့အမည်မှာ ရှင်ကောသလ္လ ဖြစ်ပါ၏။

**ရဟန်းဖြစ်**

အေဒီ ၁၉၂၆ — မြန်မာသက္ကရာဇ် ၁၂၈၇ ခုနှစ်တွင် စစ်ကိုင်းတောင်ရိုး၊ ရွှေကျင်သာသနာပိုင် ချမ်းအေးဆရာတော်ကြီး အရှင် သဒ္ဓမ္မကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဘဝသို့ ရောက်တော်မူ၏။

ကျမ်းကိုး။ ယင်းကျမ်း ၂၇ လည်း ကြည့်။

**ဆရာ့ ဆရာများ**

အေဒီ ၁၉၃၆ — ၁၀ နှစ်တိုင်တိုင် ပညာဆည်းပူးခဲ့၏။ ဆရာများမှာ ချမ်းအေးဆရာတော်ကြီး၊ မဟာသိမ်ဆရာတော်ကြီး၊ မန္တလေး ဇီးပင်ကျောင်း ဆရာတော်ကြီး ဦးနာရဒ၊ ရုက္ခမူဆရာတော် ဦးအာဒိစ္စ၊ တောင်မြို့ ဆရာတော် အရှင်ဇနကာဘိဝံသတို့ ဖြစ်ကြပါ၏။

**ဝိပဿနာ စတင်ကျင့်ကြံခြင်း**

အေဒီ ၁၉၄၆ — ဝါတော် ၂၀ ကစပြီး ဝိပဿနာ တရားကို ကျင့်ကြံအားထုတ်ခဲ့၏။

**ပြုစုခဲ့သော ပေါက်ကျမ်းများ**

အေဒီ ၁၉၄၈ — ၁၉၄၈ ခုနှစ်တွင် စဉ့်ကိုင်မြို့ ပလိပ် မဟာပရိတ္တာရုံ (စလေ)ကျောင်းတိုက်သို့ ပြောင်းရွှေ့သီတင်းသုံးတော်မူခဲ့၏။ ကျမ်းကြီး ၆ ကျမ်း ပြုစုတော်မူခဲ့၏။ နိဗ္ဗာန်ဉာဏ်ရောက် နိဗ္ဗာန်ပေါက်လမ်းစဉ်ကျမ်းကိုလည်းကောင်း၊ ဉာဏ်ဖြင့် နိဗ္ဗာန်အရောက်ပို့ ကျမ်းကိုလည်းကောင်း အနတ္တလက္ခဏ ဒိဋ္ဌေနိဗ္ဗာန်ပေါက် ကျမ်းကိုလည်းကောင်း ထူးထူးခြားခြား ပြုစုတော်မူခဲ့၏။

http://www.dhammadownload.com



**သာသနာပြုအဆင့်မြင့်ဘွဲ့တံဆိပ်တော်**

စလေဆရာတော်ကြီးကို နိုင်ငံတော်အစိုးရက အဘိဓဇအဂ္ဂမဟာသဒ္ဓမ္မဇောတိက ဘွဲ့တံဆိပ်တော် ဆက်ကပ်လှူဒါန်းတော်မူခဲ့၏။

**ဘဝနတ်ထံမျှလွှန်တော်မူခြင်း**

အေဒီ ၂၀၀၀ မြန်မာသက္ကရာဇ် ၁၃၆၂ ခုနှစ်တွင် ပင်စည်အနံ့ စမများ ပေါ်ပေါက်ခဲ့သောအပင်ကြီးသည် ဆရာတော် ဦးကောသလ္လ ဘဝနတ်ထံ ပျံလွန်ပြီးချိန်တွင် အနည်းငယ်မွှေးမှိန်သွားကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၃

**ရုပ်ကလာပ်တော်မပုပ်မသိုး**

ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်ကို ယနေ့တိုင် ဖူးမြော်နိုင်ပါသည်။

ကျမ်းကိုး၊ စလေကျောင်း သာသနာ့နယ်မြေဆီသို့၊ စံထွန်းသာ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် (၁၉၅)၊ ၂၀၀၂ ခု၊ အောက်တိုဘာလ၊ စာ-၉။

ကျမ်းကိုး။ ဖိုးဒေါင်းသား သက်တော်ရှည်၊ စလေ ဆရာတော်ကြီး၊ ဂမ္ဘီရမဂ္ဂဇင်း အမှတ် ၅၀၊ ၁၉၉၉ ခု၊ စက်တင်ဘာ လ ၊ စာ ၂၄၊

ကျမ်းကိုး။ ၁၉၀၄ ခုနှစ်၊ ကိုမ်းစ်လှကျော်၊ မောင်ရင်မောင် မမယ်မ ဝတ္ထု၊ မဟာဆွေ ပုံနှိပ်တိုက်၊ မြန်မာဝတ္ထုရှည် နှစ်တစ်ရာ အုပ်တစ်ထောင် ပြပွဲအထိမ်းအမှတ်၊ စာ ၁၃ ကိုကြည့်။

ကျမ်းကိုး။ ၁၉၀၅ ခု၊ ဝန်စာရေး ဦးကြီး၊ စိန်ကလေး ဝတ္ထု၊ ရန်ကုန်မြို့ ဇမ္ဗူကျက်သရေ ပုံနှိပ်တိုက်၊

ကျမ်းကိုး။ ၁၉၀၅ ကိုကာစင်နှင့် မောင်လှဒင်၊ မောင်မင်းကျော် ဝတ္ထု မန္တလေး တမ္ပဒီပတိုက်၊

ကျမ်းကိုး။ ချစ်ကိုကို ( ရွှစ်မိုင်) ဓာတ်တော်ကျသည့် မြန်အောင် နန္ဒဝန်ဆရာတော်ကြီး ပါရမီ မဂ္ဂဇင်း၊ ၂၀၀၁ ခု အောက်တိုဘာလ၊ အမှတ် ၁၀၉၊ စာ ၆၉ - ၇၀။

ကျမ်းကိုး။ မောင်ပန်းမွှေး ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မစာအုပ်တိုက်၊ ၂၀၀၈ ခုနှစ်၊ အောက်တိုဘာလ၊ စာ ၆၇၁ ကိုကြည့်။

http://www.dhammadownload.com



ရပ်ကလာပ်တော် ကြွင်းကျန်တော်မူသော သုံးဆယ်မြို့ အနောက်ပိုင်း၊ ညောင်ပိုင်းကျောင်း

# ညောင်ပိုင်း ဆရာတော် ဘဒ္ဒန္တဇိနာလင်္ကာရ

(၁၉၀၅ - ၁၉၈၉)



http://www.dhammadownload.com



## ဓာတ်တော်ကျတော်မူသော ခေတ်ပြိုင်ဆရာတော် ဦးအာစာရ သက်တော် (၁၀၀)

၁၉၀၅ ခုနှစ်ဖွား ခေတ်ပြိုင်ဆရာတော်များကို လေ့လာသောအခါ သက်တော် ၁၀၀ ရှိ ဆရာတော် ဦးအာစာရကို တွေ့ရှိရပါသည်။

ဆရာတော် ဦးအာစာရမှာ မကွေးတိုင်း ရေစကြိုမြို့နယ်၊ ပခန်းငယ်ကျေးရွာ၊ စိန်စီကျောင်း ဆရာတော်ကြီး ဖြစ်သည်။ ဓာတ်တော်များ ကျမှသာ ဖူးမြော်ရ၍ ရဟန္တာဟု သိတော်မူသော ကြောင့် နောက်လူများ စိတ်မကောင်းဖြစ်ကြရပါသည်။ ဆရာတော် ဦးအာစာရကိုလည်း ၁၉၀၅ ခုနှစ်၌ ဖွားပါသည်။ ၂၀၀၄ ခုနှစ်တွင် ခန္ဓာဝန်ချတော်မူပါသည်။ သက်တော် ၁၀၀ တိတိ ဖြစ်၏။ ထိုနှစ်တွင်ပင် ညောင်ဝိုင်းဆရာတော်ကို ဖွားတော်မူပါသည်။

ကျမ်းကိုး။ မိုးမြင့် တမာမြေ၊ စိန်စီကျောင်းမှ တရားပြကောင်းသော ဆရာတော်၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ စာ ၄၁ ကို ကြည့်ပါ။

## ထူးခြားသည့် ခေတ်ပြိုင် ဓာတ်တော်ဆရာတော်

၁၉၀၅ ခုနှစ်ဖွား အခြား ဆရာတော်များလည်း ရှိပါသေးသည်။ ယင်းတို့မှာ ဓာတ်တော်ဆရာ တော် ဦးဝါသဝကိုယ်တော်ကြီးဖြစ်ပါသည်။ ထိုကိုယ်တော်ကြီးသည် အရှင်မဟာ ကဿပ လိုဏ်ဂူတော်ကြီးအတွင်းသို့ ဝင်ရောက်ဖူးသော ပုဂ္ဂိုလ်ထူးလည်း ဖြစ်၏။ ၎င်းအပြင် အဓိဋ္ဌာန် ပြု၍ပင့်လိုက်လျှင် လိုအပ်သောဓာတ်တော်အဆူရေ လက်ထဲသို့ ကြွတော်မူလာအောင် သစ္စာ အဓိဋ္ဌာန်ကြီးသော ဆရာတော်ကြီးဖြစ်၏။ မိုးညှင်းသမ္ဗုဒ္ဓေဆရာတော်ကြီး အသိသက်သေ ဖြစ်၏။

ကျမ်းကိုး။ မောင်ပန်းမွှေး ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မစာအုပ်တိုက်၊ ၂၀၀၈ ခု အောက်တိုဘာ၊ စာ ၃၉၅ ကိုကြည့်။

## ထိုအချိန်က မိုးညှင်းဆရာတော် ၃၂ နှစ်ရှိပြီ

ညောင်ဝိုင်းဆရာတော်အား ဖွားတော်မူသောအချိန်တွင် မိုးညှင်းဆရာတော်ဘုရားကြီးသည် သက်တော် ၃၂ နှစ်ရှိပြီ ဖြစ်ပါသည်။

ကျမ်းကိုး။ မောင်ပန်းမွှေး၊ ယင်းကျမ်း ၃၉၄ ကြည့်

## ထူးခြားသည့်စလေ ဦးကောသလ္လနှင့် တစ်နှစ်တည်းဖွား

၁၉၀၅ ခုနှစ်တွင် ဖွားတော်မူသော အခြား ဆရာတော်တစ်ပါးမှာ သက်တော်ရှည် စလေ ကျောင်းဆရာတော် ဦးကောသလ္လ ဖြစ်၏။ ထိုဆရာတော်၏ ရုပ်ကလာပ်တော်သည် ယခုတိုင် တည်ရှိတော်မူပါသည်။

ကျမ်းကိုး။ ဖိုးဒေါင်းသား၊ သက်တော်ရှည်၊ စလေဆရာတော်ဘုရားကြီး၊ ဂန္ဓီရ မဂ္ဂဇင်း၊ အမှတ် ၅၀၊ ၁၉၉၉ ခု၊ စက်တင်ဘာလ၊ စာ၂၄ ကိုကြည့်။

## ခေတ်ပြိုင်ညောင်ဝိုင်းဆရာတော်

ထိုဆရာတော်များနှင့် ခေတ်ပြိုင် ၁၉၀၅ ခုနှစ်ဖွား ဆရာတော်မှာ ညောင်ဝိုင်းဆရာတော်ကြီး ဖြစ်၏။ ညောင်ဝိုင်းဆရာတော်အကြောင်း မှတ်စုကတ်တလောက်များမှာ စုမိသမျှ အောက်ပါ အတိုင်း ဖြစ်ပါ၏။

## တည်နေရာ လမ်းညွှန်

ဝိနည်းသိက္ခာကို အသက်မက စောင့်ထိန်း၍ သာသနာ့အကျိုးကို သယ်ပိုးဆောင်ရွက်ခဲ့သော ရဟန်းတော် တစ်ပါးဖြစ်၏။ ရန်ကုန်-ပြည်သွား ကားလမ်းမကြီးပေါ်ရှိ သာယာဝတီမြို့နယ်၊ သုံးဆယ်မြို့၏အနောက်ဘက် ညောင်ဝိုင်းကျေးရွာ၊ ညောင်ဝိုင်းကျောင်း၌ သီတင်းသုံးခဲ့တော်မူ ခဲ့၏။

http://www.dhammadownload.com



**ငယ်မည် မောင်စိန်**

ဆရာတော်ကြီး၏ ဘွဲ့အမည်ကား ဘဒ္ဒန္တဇိနာလင်္ကာရ ဖြစ်ပေသည်။ ဆရာတော်ကြီး၏ လူအမည်မှာ ဦးမောင်စိန် ဖြစ်၏။

> ကျမ်းကိုး။ စံသူမြတ် သုံးဆယ်၊ ဝိနည်းအရာ၌ စံနမူနာထားလောက်သော ရွှေဆယ်မြေ အနောက်ပိုင်းမှ ညောင်ဝိုင်း ဆရာတော်ကြီး။ ပါရမီမဂ္ဂဇင်း ၁၉၉၅ ခု စက်တင်ဘာလ၊ အမှတ် ၃၆၊ စာ ၂၉ ကိုကြည့်။

**၆ နှစ်သား**

အေဒီ ၁၉၁၁ — အသက်ခြောက်နှစ်အရွယ်၌ ဟင်္သာတမြို့ လယ်တီကွင်း အနောက်စုဆရာကြီး ဦးမြတ်စံ ကျောင်းတွင် ပညာသင်ကြားခဲ့လေသည်။

ကျမ်းကိုး။ ယင်းစာ ၂၉

**ဟင်္သာတရောက်**

အေဒီ ၁၉၁၅ — မြန်မာသက္ကရာဇ် ၁၂၇၇ ခုနှစ်တွင် ဟင်္သာတမြို့ ရေတံခွန်ကျောင်းတိုက်သို့ ရောက်ရှိလာ၏။

ကျမ်းကိုး။ ယင်းစာ ၂၉။

**ရေတံခွန်ကျောင်း**

အေဒီ ၁၉၁၈ — မြန်မာသက္ကရာဇ် ၁၂၈၀ ခုနှစ်၌ ရေတံခွန် ကျောင်းတိုက်၊ ဆရာတော်ဘဒ္ဒန္တတိလောကာသဘ အရှင်သူမြတ်ထံတွင် ရှင်သာမဏေ ပြုခဲ့သည်။

**စာသင်သားဘဝ**

ရှင်သာမဏေအဖြစ် ခံယူပြီးနောက် ဘဒ္ဒန္တစန္ဒဝံသာလင်္ကာရ တောရဆရာတော်ထံ၌ သဒ္ဒါ၊ သင်္ဂြိုဟ်၊ ရူပသိဒ္ဓိ၊ သဒ္ဒနီတိကျမ်းများ။ ထို့နောက် ဟင်္သာတမြို့ ရေတံခွန်ကျောင်းတိုက်၊ တိုက်အုပ် ဆရာတော်ဘဒ္ဒန္တ ကေလာဝံသဆရာတော်ထံတွင် ဋီကာကျော်ကျမ်း၊ ရေတံခွန်ကျောင်းတိုက်၊ တိုက်ကြပ် ဆရာတော်ဘဒ္ဒန္တစန္ဒသီရိအရှင်မြတ်ထံတွင် သုတ္တန်၊ ဝိနယ၊ ပိဋက၊ ပါဠိတော်များနှင့် ဆန်းကျမ်းကို သင်ယူခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၉

**မော်လမြိုင်ကျွန်းရောက်**

မော်လမြိုင်ကျွန်းညီမာရုံကျောင်းတိုက်၌ တစ်ဝါသီတင်းသုံးနေထိုင်၍ ရေတံခွန်ဆရာတော်ဘုရားကြီး ပြန်ခေါ်တော်မူသည့်အခါ ပြန်ကြွလာပြီး ရေတံခွန်ကျောင်းတိုက်၌ ပြန်လည်သီတင်းသုံးခဲ့သည်။

ကျမ်းကိုး။ ယင်းစာ ၂၉။

**ရဟန်းပြုစ်**

အေဒီ ၁၉၂၄ — မြန်မာသက္ကရာဇ် ၁၂၈၆ ခုနှစ်၊ တပို့တွဲလပြည့်နေ့၊ ဆရာတော်ကြီး ဆယ့်ကိုးနှစ်သားအရွယ်တွင် ဥပဇ္ဈာယ်ဆရာတော် ဘဒ္ဒန္တတိလောကာသဘထံ၌ ရဟန်းအဖြစ် ခံယူခဲ့သည်။

ကျမ်းကိုး။ ယင်းစာ ၂၉။

**မော်လမြိုင်ကျွန်းမှာ ၃ ဝါ**

မော်လမြိုင်ကျွန်း၊ ညီမာရုံ ကျောင်းတိုက်ဆရာတော်ဘဝနတ်ထံ ပျံလွန်တော်မူပြီးနောက် မော်လမြိုင်ကျွန်း၊ ညီမာရုံတိုက်အုပ်ဆရာတော် ဦးကေသဝနှင့် ဒါယကာ၊ ဒါယိကာမများ လာရောက်ပင့်ဆောင်ခဲ့သဖြင့် မော်လမြိုင်ကျွန်း၊ ညီမာရုံကျောင်းတိုက်၌ သုံးဝါသီတင်းသုံးခဲ့ပြန်သည်။

ကျမ်းကိုး။ ယင်းစာ ၂၉။

http://www.dhammadownload.com



**သုံးဆယ်သို့ ရောက်လာ**

အေဒီ ၁၉၁၄ သုံးဆယ်မြို့၊ ညောင်ဝိုင်းကျေးရွာ၊ ညောင်ဝိုင်းကျောင်းတိုက်၌ ကျောင်းထိုင်ဆရာတော် မရှိဖြစ်နေသဖြင့် ပထမအကြိမ် သွားရောက်ပင့်ဆောင်ရာတွင် ဆရာတော်မှ ချိုသာပျော့ပျောင်းသော စကားများဖြင့် ငြင်းပယ်ခြင်းကိုခံရလေသည်။

ကျမ်းကိုး။ ယင်းစာ ၃၀။

**ဒုတိယအကြိမ်မြောက် သုံးဆယ်ရောက်**

ဒုတိယအကြိမ် ထပ်မံပင့်ဆောင်သောအခါတွင်မူ ဆရာတော်မှ ငြင်းပယ်မှုမပြုတော့ဘဲ ညောင်ဝိုင်းကျောင်းတိုက်သို့ ကြွရောက် သီတင်းသုံးတော်မူခဲ့ရာမှ ညောင်ဝိုင်းဆရာတော်ဟု သုံးဆယ်နယ်သားများ၏ ပါးစပ်ဖျားမှာ ပြောစမှတ် တွင်ခဲ့လေသည်။

ကျမ်းကိုး။ ယင်းစာ ၃၀။

**ဖိနပ်မစီး ထီးမဆောင်း**

ဆရာတော်ကြီးသည် နေပူမိုးရွာမရှောင် ဖိနပ်မစီး၊ ထီးမဆောင်းဘဲ ပေရွက်ယပ်တောင်ကြီးကိုသာ သုံးစွဲခဲ့ပါသည်။

ကျမ်းကိုး။ ယင်းစာ ၃၀။

**ချက်ခြင်းပြန်လှူ**

ကတ္တိပါ ယပ်တောင်များကို ဒါယကာ၊ ဒါယိကာမများက ကပ်သောအခါတွင် လက်ခံတော်မူ၍ အခြားသံဃာများကို ပေးလှူသည်။

ကျမ်းကိုး။ ယင်းစာ ၃၀။

**ဝတ္ထုငွေမကိုင်တွယ်**

ဝတ္ထုငွေများကို ကိုင်တွယ်ခြင်း မပြုသည့်အပြင် ဝတ္ထုငွေကပ်ခြင်းကို လုံးဝလက်မခံခဲ့ပါ။ ဝတ္ထုငွေစိုက်ထားသော ကန်တော့ပွဲရှိသည့်အိမ်အတွင်းသို့ လုံးဝမဝင်ဘဲကျောင်းသို့ ပြန်ကြွသွားတတ်ပါသည်။

ကျမ်းကိုး။ ယင်းစာ ၃၀။

**လှူနှင်းသော ဆိုက်ကားမစီး**

လှူနှင်းသော ဆိုက်ကားများနှင့် တိရစ္ဆာန်ဆွဲသော မြင်းလှည်းနွားလှည်းတို့ကို စီးခြင်းမပြုဘဲ ကုန်းကြောင်း ကြွတတ်ပါသည်။ ဝေးလံသောအရပ်များ ကြွသောအခါမှ စက်တပ်ယာဉ်ကို စီးပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၀

**လက်မခံသောအလှူများ**

သုံးဆယ်မြို့၊ အမျိုးသမီးဓာတ်ပုံတိုက်မှ ဦးမြင့်က ဆရာတော်ကြီးအတွက် တန်ဖိုးအမြင့်မားဆုံး မျက်မှန်တစ်လက်ကိုလာရောက်လှူဒါန်းသောအခါတွင်လည်း "ဒကာကြီးရယ်၊ မြင်ရပါတယ်" ဟုဆို၍ လက်မခံသည်ကို ကြုံတွေ့ခဲ့ရပြီး ဦးမြင့်အကြိမ်ပေါင်းများစွာ လှူဒါန်းသော်လည်း ဆရာတော်ကြီး ငြင်းပယ်သဖြင့် ဦးမြင့် လက်လျှော့ခဲ့ရလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၀

**ခုတင်ဆောင်**

ဆရာတော်ကြီးသည် ကောသနိက်ခုတင်၊ ပတ္တပိုဏ်ခုတင်နှစ်ပါး အမြဲဆောက်တည်လျက် ခံဆွမ်း ဖြင့်သာသပိတ်ဖြင့် ဆွမ်းဘုဉ်းပေးပါသည်။

ကျမ်းကိုး။ ယင်းစာ ၃၀။

http://www.dhammadownload.com



**ကိုယ်တိုင်ချုပ်**

ဆရာတော်ကြီးသည် သက်န်းကိုခေါင်းအုံး၍ သက်န်းကို စောင်အဖြစ် အသုံးပြုလေသည်။ ဆရာတော်ကြီးသုံးစွဲသောသက်န်းမှာ ဝိနည်းနှင့်အညီ ကိုယ်တိုင် ဓားပြတ် လက်ချုပ် ချုပ်လုပ်ထားသော သက်န်းသာ ဖြစ်တော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၀

**ကိုယ်တိုင်သစ်ခေါက်ဆိုး**

ဎင်းသက်န်းကို ဆရာတော်ကြီး ငယ်ရွယ်စဉ်က ကိုယ်တိုင်သစ်ခေါက်ဆိုးခြင်း ပြုလုပ်ခဲ့သော်လည်း အသက်အရွယ်ထောက်၍ နာမကျန်းဖြစ်လာသောအချိန်တွင် ဒကာရင်းများက ကုသိုလ်ယူ၍ ပြုလုပ်ပေးကြလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၁

**ကြွေရည်သုတ်ပစ္စည်းကိုသာ သုံး**

ဆရာတော်ကြီးသည် စတီးဖြင့် ပြုလုပ်သော အသုံးအဆောင်ပစ္စည်းများ၊ ပလပ်စတစ်ဖြင့် ပြုလုပ်သော အသုံးအဆောင်ပစ္စည်းများကို ကိုင်တွယ်သုံးစွဲခြင်းမပြုပါ။ ကြွေဖြင့်ပြုလုပ်သော အသုံးအဆောင်များနှင့် ကြွေရည်သုတ်ပစ္စည်းကိုသာ သုံးစွဲခဲ့လေသည်။

**ကာဘော်လစ်ဆပ်ပြာကြိုက်**

ဆရာတော်ကြီးသည် မွှေးဆပ်ပြာများကို ဘုရားဆွမ်းတော်တင်ပန်းကန်နှင့် သောက်တော်ရေခွက်များ ဆေးကြောရာတွင် အသုံးပြုပြီး ကာဘော်လစ်ဆပ်ပြာသာ သူ့အတွက် အသုံးပြုခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၁

**မမေးလျှင်မပြော**

ဆရာတော်အား ကြည်ညို၍ လာရောက်ရာတွင်လည်းကောင်း၊ ကျောင်းသို့ လာရောက် ဥပုသ်သီတင်းစောင့်ရန်သော်လည်းကောင်း၊ ဆရာတော်ကြီးကိုတွေ့ဆုံကြသည့်အခါ ဒကာ၊ ဒကာမများက ဦးချရှိခိုးမှဆရာတော်ကြီးက လာရင်းကိစ္စနှင့် ပြုဖွယ်ရာများကို မေးလေ့ရှိသည်။ ဆရာတော်ကြီးကို ဦးချခြင်းမပြုလျှင် ဆရာတော်ကြီးသည် ငြိမ်သက်စွာပင် စကားမိန့်ဆိုခြင်းမပြုပေ။ ဆရာတော်ကြီးစကားပြောသောအခါနှင့် တရားဟောသောအခါများတွင် မျက်လွှာချ၍ ပြောတတ်သည်။ ဆရာတော်ကြီးသည် ဒါယိကာမများကို ဝေးဝေးကရှောင်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၁

**ဒကာမတွေ့လျှင် ရှောင်သွားတတ်**

ဆရာတော်ကြီးကျောင်းအတွင်း စင်္ကြံလျှောက်နေစဉ်ကျောင်းအပြင်ဘက်လမ်းမှ ဒကာမများကိုမြင်တွေ့ရပါက သူနေထိုင်ရာကျောင်းထဲသို့ ဝင်သွားတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၁

**ညတိုင်း ဆီမီးပူဇော်**

ညောင်ဝိုင်းကျောင်းအတွင်း၌ တည်ထားကိုးကွယ်သော မဟာအမိတလောကရံသီဘုရားကြီးကို ညစဉ်ညတိုင်း ဝတ်မပျက် ဆရာတော်ကြီးက ဆီမီးပူဇော်ခြင်း၊ အမွှေးတိုင် ပူဇော်ခြင်းများကို ပြုလုပ်လေသည်။

**သူ့ခိုးကို ဘာမှ မပြော**

ညောင်ဝိုင်း ကျောင်းတိုက်အတွင်း၌ တည်ထားကိုးကွယ်သော (မဟာအမိတလောကရံသီ)

http://www.dhammadownload.com



ဘုရားဆင်းတုမှ ရွှေသက်န်းများကို မသမာသူများက ရွှေကိုခွာ၍ ခိုးယူကြ၏။ ဘုရားအမိုး သွပ်များနှင့် ကျောင်းပေါ်ထပ်ရှိ ပစ္စည်းများထပ်မံခိုးယူလာကြပြန်သည်။ ဆရာတော်ကြီးမှာ ဤအချင်းအရာကို သိသော်လည်း တုံ့ကွဲဘာဝေ ဆိတ်ဆိတ်သာနေတော်မူ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၂

**စာဖတ်ဝေလေ့**

ဆရာတော်ကြီးသည် အနောက်ဘက် ကျောင်းဆောင်၌ တရားအားထုတ်တတ်ပြီး ကျန်အချိန် များတွင် စာပေကျမ်းဂန်များကို ဖတ်ရှုနေတတ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၂

**မျက်စိမမြင်သူကို တပည့်ခန့်**

ဆရာတော်ကြီး၏ကျောင်း၌ ဘုန်းကြီးကျောင်းသားတစ်ဦးရှိခဲ့၏။ ထိုဘုန်းကြီးကျောင်းသား အမည်မှာ ကိုငွေးဖြစ်ပြီး မွေးရာပါမျက်စိမမြင်ခဲ့ပေ။ ကိုရင်ဝတ်ရင်းနှင့် ဆရာတော်ကြီး၏ ထံပါး၌ တစ်ဦးတည်းသောကျောင်းသားဖြစ်ခဲ့သည်။ တစ်နေ့၌ ဆရာတော်ကြီးကို အရုဏ်ဆွမ်း ဆက်ကပ် ရန်အတွက် ဆရာတော်ကြီးကိုသွားလျှောက်ရာ ဆရာတော်ကြီးက ဘာမှမိန့်ကြားခြင်း မပြုဘဲ ငြိမ်သက်နေသည်ကိုတွေ့ရသဖြင့် ကိုငွေးသည် ဆွမ်းစားပွဲမှ စောင့်နေလေသည်။ အတန်ကြာမှ ဆရာတော်ကြီးခုတင်ပေါ်မှ ဆင်းလာ၍ဆွမ်းကပ်ရန် ပြင်ဆင်သောအခါ ဆရာ တော်ကြီးမှ "မောင်ငွေး မင်းကလဲ ဘယ်သူဘာလုပ်နေတယ်ဆိုတာ မသိတော့လဲ ခက် တယ် တပည့်ရဲ့" ဟု မိန့်ပါသည်။ ဤအချက်ကိုသိရှိခြင်းဖြင့် ဆရာတော်ကြီးသည် ဝိပဿနာ ဘာဝနာ ကို အမြဲစီးဖြန်းနေကြောင်း သိနိုင်ပေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၃

**တစ်ညလုံး တရားအားထုတ်**

ညဘက်ဘုရားဝတ်တက်ပြီး နောက်ပိုင်း၌ တရားအားထုတ်ရာ တစ်ခါတစ်ရံတွင် လင်းကြက် တွန်သည့် အချိန်ထိပင်ဖြစ်လေသည်။

**တစ္ဆေ အကြောင်း**

ကိုငွေးက သူ့ကို ဘုန်းကြီးကျောင်းဝင်းအတွင်း၌ တစ္ဆေ အခြောက်ခံရကြောင်း ဆရာတော်ကြီး အားလျှောက်ရာ ဆရာတော်ကြီးက"အဲ့ဒီတစ္ဆေက မင်းနဲ့သိက္ခာမ်းခင်မင်ခဲ့တဲ့သူဖြစ်တယ်။ အမျှအတန်း ပေးဝေပါ။ သူမင်းဆီမလာတော့ပါဘူး" လို့မိန့်ကြားသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၃

**ခေါ်သံကြား၍ ကြောက်သောသူ**

ဘုန်းကြီးကျောင်းဝင်းအတွင်း၌ အဝီစိတွင်းမရှိခင်က ရေတွင်းမှ ရေကိုငင်ပြီး ကျောင်းထဲရှိ ကန်ထဲသို့ ဖြည့်ပေးရသည်။ ဘုန်းကြီးချိုးသောကန် ဖြစ်သော်လည်း ကိုငွေးသည် ညဘက် ထိုကန် မှာ ရေချိုးလေ့ရှိသည်။ တစ်နေ့၌ ရေချိုးနေစဉ် သူ့ညီခေါ်သံကြားရသည်။ ကိုငွေးက အဝတ်အစားလဲပြီး" ငါ့ညီလေးနေထိုင်မကောင်းဘူး ဘာဖြစ်ပြီလဲမသိဘူး" ဟု အိမ်ပြန်ရန် အတွက် ဆရာတော်ကြီးအားလျှောက်ရာ "မောင်ငွေး မင်းကို ဇရပ်ကနေ လှမ်းခေါ်တာ မင်းညီ မဟုတ်ဘူး။ နာနာဘာဝပဲ မင်းရေချိုးနေတော့ သူ မနေရဘူး။ ဒါကြောင့်မင်းညီအသံနဲ့ ခေါ်တာ။ မင်းညီဆီ မသွားနဲ့ ကျန်းမာတယ်" လို့မိန့်သဖြင့် ကိုငွေးအိမ်မပြန်ခဲ့ချေ။ မနက် မိုးလင်းသောအခါ အိမ်သို့သွားပြီး ညီ၏ကျန်းမာရေးကိုစုံစမ်းရာ နေထိုင်ကောင်းကြောင်း သိရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၃

http://www.dhammadownload.com



**ကြိုသိ**

"ဒီရက်ပိုင်းမှာ ခုံမြင့်ပေါ်မတက်နဲ့ခုံကျိုးပြီး ဒုက္ခတွေ့လိမ့်မယ်" ဟု ဆရာတော်ကြီးမိန့်ရာ သတိမေ့ ပြီး ခုံပေါ်တက်မိရာက ခုံကျိုးပြီး ကိုဌေး ဒဏ်ရာရဖူးခဲ့လေသည်။

**စိတ်ကူးသည်ကိုပင် သိ**

ဒကာရင်း ဦးသောင်းရွှေက ဖီးကြမ်းငှက်ပျောသီး သုံးလုံးကို ကျောင်းသို့ ယူဆောင်ခဲ့ပြီး လမ်း၌ စိတ်ကူးမိသည်မှာ ဘုရားကို တစ်လုံးကပ်မည်။ ဆရာတော်အား တစ်လုံးကပ်မည်။ ငါတစ်လုံး စားမည်ဟု ရည်ရွယ်ခဲ့၏။ ဘုရားကိုတစ်လုံးကပ်ပြီး ဆရာတော်ကြီးရှေ့သို့ရောက်၍ ငှက်ပျော သီးတစ်လုံးကပ်သောအခါ ဆရာတော်ကြီးက "ဒကာ ကိုသောင်းရွှေတစ်လုံး တည်းလား" ဟုမိန့်သဖြင့် ဦးသောင်းရွှေက ဆရာတော်ကို တစ်လုံးထပ်ကပ်လေသည်။ ဆရာတော်ကြီးက ထပ်ကပ်သော ငှက်ပျောသီးတစ်လုံးကို ဦးသောင်းရွှေသို့ ပြန်စွန့်လိုက်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၃

**နိုးတယ်ဆိုတာဘာလဲ**

ဦးသောင်းရွှေ၏ဇနီးသည် ကျောင်းသို့ ဥပုသ်စောင့်ရန်အသွား၌ လမ်းတွင် ငါပိုက်ဆံ ကောက်ရ လျှင်တော့ ကျောင်းကိုလှူလိုက်မည်ဟု လင်မယားနှစ်ယောက်ပြောဆိုလာခဲ့ကြ၏။ ကျောင်းသို့ ရောက်၍ ဆရာတော်ကြီးက သီလပေးပြီး တရားဟောသောအခါ "တစ်ပါးသူပစ္စည်းဆိုတာ ခိုးယူမှ အဒိန္နာဒါနာကံထိုက်တာမဟုတ်ဘူး ကောက်ရတဲ့ပစ္စည်းဆိုတာဟာလဲ ပိုင်ရှင်ရှိတဲ့ အတွက် မယူအပ်ဘူး၊ စိတ်နဲ့လည်းကောက်ရဖို့ မကြံစည်ထိုက်ဘူး" ဟု မိန့်ရာ ဦးသောင်းရွှေတို့ လင်မယားမှာ တစ်ဦးကိုတစ်ဦး အဓိပ္ပါယ်ပါပါ ကြည့်မိကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၄

တစ်ခါက ဦးသောင်းရွှေ၊ ဦးစီး၊ ဦးစံထွန်းတို့ဘုန်းကြီးကျောင်းမှာ နတ်လမ်းခင်းနေရာ ညနေ နေဝင်ချိန်ရောက်လုနီးပြီဖြစ်သဖြင့် "မနက်ဖြန်ဆက်လုပ်ပါမည်"ဟုဆရာတော်အား လျှောက် ရာ ဆရာတော်ကြီးက "ဒကာဦးသောင်းရွှေ စိတ်မပူပါနဲ့ ဒီနေ့ပြီးပါတယ်" ဟုမိန့်ဆိုသဖြင့် သုံးယောက်သား စိတ်ပျက်လက်ပျက်ဖြင့် အလုပ်ပြန်စမည်ပြုနေစဉ် ညောင်ဝိုင်းရွာထဲမှ ဦးသောင်းရွှေတို့နှင့် ခင်မင်သော အသိမိတ်ဆွေရောက်လာပြီး ဦးသောင်းရွှေတို့လုပ်ငန်းကို ကူညီရာမိုးမချုပ်ခင် နတ်လမ်းပြီးစီးသွားပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၄

**တရားဟောလျှင် ဆွမ်းမေ့**

ဆရာတော်ကြီးမှာ တရားဟောလျှင် ဆွမ်းဘုဉ်းပေးရန်ပင် မေ့လျော့နေတတ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၄

**စိတ်ကူးတာကို ကြိုတင်သိ**

ဒကာရင်းများဖြစ်သော ကိုမြင့်လွင်၊ ကိုကြည်လင်း၊ ကိုသိန်းဇော်တို့သည် ဆရာတော်ကြီး ဟောကြားတော်မူသော ဥစ္စာငါးမျိုးတရားကိုနာခဲ့ရသည်။ လပြည့်နေ့ ဥပုသ်ရက်တွင် ကိုမြင့်လွင် တို့သုံးဦးကျောင်းသို့ ဥပုသ်စောင့်လာရာ ကျောင်းနားမရောက်ခင် လယ်ကွင်းထဲမှာ "ဆရာတော်ကြီး ရှစ်ရက်ဥပုသ်နေ့တုန်းက ဟောသွားတဲ့ ဥစ္စာငါးမျိုးတရားကောင်းတယ်။ ထပ် ဟောရင် ကောင်းမှာပဲ" လို့ပြောလာကြသည်။ ကျောင်းသို့ရောက်ပြီး ဆရာတော်ကြီးတရားပေး သောအခါ ထိုဥစ္စာငါးမျိုးတရားကိုပင် ပြန်လည်ဟောပြောလေသည်။ ထို့ပြင် ကိုမြင့်လွင်တို့ ဇနီးမောင်နှံ ကျောင်းသို့ ဥပုသ်စောင့်လာရာ ဇနီးသည်မကျင်ကျင်ဌေးက ဆရာတော်ကြီး

http://www.dhammadownload.com



ဥစ္စာငါးမျိုး တရားမနာရကြောင်း အဲဒီတရားကို နာလိုကြောင်း လမ်း၌ပြောလာရာ ဆရာတော်ကြီးကျောင်း၌ တရားဟောသောအခါ ဥစ္စာငါးမျိုးတရားကိုပင် ဟောသွားခဲ့လေသည်။

ကျမ်းကိုး။ ယင်းကျမ်း၊ စာ-၃၄

### မြေမမြှုပ်နှင့် ရင်မခွဲနှင့် မီးမသင်္ဂြိုဟ်နှင့် မှာတမ်း

ဆရာတော်ကြီးသည် ခန္ဓာဝန်မချမီ သက်န်းကုန်းဆရာတော်အား "သူ့ကိုရင်မခွဲပါနှင့်၊ မြေမြှုပ်ခြင်း၊ မီးသင်္ဂြိုဟ်ခြင်းမပြုပါနှင့်" ဟု မှာကြားခဲ့လေသည်။

ကျမ်းကိုး။ ယင်းကျမ်း၊ စာ-၃၅

### ခန္ဓာဝန်ချတော်မူ

အေဒီ ၁၉၈၉

ဆရာတော်ကြီးသည် မြန်မာသက္ကရာဇ် ၁၃၅၁ခုနှစ်၊ ဝါဆို လဆုတ်ရှစ်ရက်၊ နေ့လယ် နှစ်နာရီ ဆယ့်ငါးမိနစ်အချိန်၌ ခန္ဓာဝန်စွန့်တော်မူခဲ့သည်။ ခန္ဓာဝန်စွန့်တော်မူသည့်အချိန်တွင် ဆရာတော်ကြီးသည် သက်တော် (၈၄)နှစ်၊ ဝါတော်(၆၅)ဝါ ရှိခဲ့ပါသည်။

ကျမ်းကိုး။ ယင်းကျမ်း၊ စာ-၃၅

### ရုပ်ကလာပ်တော် မပုပ်မသိုး ကြွင်းကျန်တော်မူ

အေဒီ ၁၉၉၀

ဆရာတော်ကြီး၏ ကြွင်းကျန်ရစ်သော ရုပ်ကလာပ်ကို မှန်ခေါင်း၌ထည့်၍ မြန်မာသက္ကရာဇ် ၁၃၅၁ ခုနှစ်၊ တပို့တွဲလပြည့်နေ့၊ ခရစ်နှစ် ၁၉၉၀ ခုနှစ်၊ ဖေဖော်ဝါရီလတွင် အဋ္ဌိမစျာပန သဘင်ပူဇော်ပွဲကျင်းပကာ ညောင်ပိုင်းကျောင်းအရှေ့ဘက်၌ ရုပ်ကလာပ်စေတီတည်ထားခဲ့ကြ၏။

ကျမ်းကိုး။ ယင်းကျမ်း၊ စာ-၃၅

### ရောင်ခြည်တော်ကွန့်မြူး

ဆရာတော်ကြီး ညောင်ပိုင်းကျောင်းသို့ ရောက်ရှိသီတင်းသုံးနေစဉ်ကာလအတွင်းမှာ ညောင်ပိုင်းကျောင်းတိုက်အတွင်း တည်ထားကိုးကွယ်ခဲ့သော (မဟာအမိတလောကရံသီဘုရားကြီး)မှ ရောင်ခြည်တော်များ ကွန့်မြူးခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၅

### ဆရာတော်ကြီး၏ ပိန္နဲခေါက်ဆိုး သင်္ကန်းတော် ဌာပနာ

ဆရာတော်ကြီးခန္ဓာဝန်မချမီ ကျော်စွာမြေပြဇာ စက်ရုံဝင်းနှင့် မလှမ်းမကမ်း၌ တည်ထားကိုးကွယ်သော စေတီတစ်ဆူ ဌာပနာရာတွင် ဆရာတော်ကြီး၏ ပိန္နဲခေါက်ဆိုး သင်္ကန်းကို ဌာပနာ စေတီတည်ခဲ့ရကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၅

ကျမ်းကိုး။ သုံးဆယ်မြို့၊ မောင်းထောင်ကျောင်းဆရာတော် ဦးနာဂဝံသ၊ လက်ရှိ ညောင်ပိုင်းဆရာတော် ဦးဣန္ဒမန္တ၊ သုံးဆယ်မြို့၊ အရှေ့လမ်းသစ်တန်းနေ ဦးသိန်းအောင်၊ အရှေ့လက်ပံခုန်ရပ်နေ ဦးမြင့်လွင်၊ သုံးဆယ်မြို့၊ စည်ပင်သာယာဈေးခေါင်း ဦးတင်အုန်း၊ ဦးသောင်းရွှေ ကိုဒွေးတို့နှင့် ဓာတ်ပုံဆရာ ကိုကျော်သက်၊ စံသူမြတ်သုံးဆယ်၊ ဝိနည်းအရာ၌ စံနမူထားလောက်သော ရွှေဆယ်မြေအနောက်ပိုင်းက ညောင်ပိုင်းဆရာတော်၊ ပါရမီမဂ္ဂဇင်း ၁၉၉၅ ခု၊ စက်တင်ဘာလ အမှတ် ၃၆၊ စာ ၂၉-၃၅၊

http://www.dhammadownload.com



အရှင်မဟာကဿပကိုယ်တော်မြတ်ကြီးကို မျက်မြင်ဖူးမြင်ခဲ့ရသည့်သာမက
သစ္စာပြု၍ အဓိဋ္ဌာန်လျှင် ဓာတ်တော်များ အလိုအလျောက် တစ်မုဟုတ်ခြင်း
လက်ဖဝါးတော်အပေါ် ပင့်ယူနိုင်သည့် ထူးခြားသည့်

# ဓာတ်တော်ဆရာတော် ဦးဝါသဝ

## (၁၉၀၅ – ၁၉၅၄)

ဓာတ်တော်များကို သစ္စာအဓိဋ္ဌာန်ပြုပင့်လျှင် အလိုလို ကြွတော်မူသောကြောင့် ဓာတ်တော်ဆရာတော်ဟု ခေါ်ဆိုခြင်း ဖြစ်သည်။ ထိုအချက်ကို မိုးညှင်းသမ္မုဒ္ဓေဆရာတော်ကြီးကိုယ်တော်တိုင် မျက်မြင်ကိုယ်တွေ့ ဖြစ်၏။ ထို့ကြောင့် အားလုံးက ကြည်ညိုကြ၏။

**ဇာတိ**

ဆရာတော် ဦးဝါသဝသည် ပဲခူးတိုင်း၊ နတ်တလင်းမြို့နယ်၊ ကွင်းသာကျေးရွာဇာတိ ဖြစ်၏။ ရဟန်းဘဝတွင် မည်သည့်နေရာတွင်မျှ အတည်တကျ သီတင်းသုံးနေထိုင်ခြင်း မရှိဘဲ မြန်မာပြည်အနှံ့ ကြွရောက် သီတင်းသုံးသည်။

**သုသာန်စုတင်ဆောင် သက်သတ်လွတ်ဆွမ်း**

ထီး၊ ဖိနပ်ကို မဆောင်၊ တောနေအကျင့် ကျင့်ကာ အထူးသဖြင့် သုသာန်စုတင်ဆောင်တော်မူသည်။ သက်သတ်လွတ်ဆွမ်း၊ သစ်သီးဆွမ်းကိုသာ ဘုဉ်းပေးတော်မူသည်။ ဆရာတော်၏ ထူးခြားချက်မှာ မည်သည့်ဘာသာရေး ကိစ္စမဆို သစ္စာအဓိဋ္ဌာန်ပြု၍ရခြင်းပင် ဖြစ်သည်။ ကိုယ်ကျင့်သီလနှင့် ပြည့်စုံသော ပုဂ္ဂိုလ်များမှ ဓာတ်တော်များ ပူဇော်လို၍ လျှောက်ထားလျှင် ရအောင် အဓိဋ္ဌာန်နိုင်၏။

ကျမ်းကိုး၊ သူရိန်ဝင်း(ဇီးကုန်း)၊ ပုဂ္ဂိုလ်ထူး သို့မဟုတ် ဓာတ်တော်ကိုယ်တော်၊
နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ အမှတ် ၂၄၃၊ အောက်တိုဘာ ၂၀၀၆ ၊ စာ-၁၁၇

**မိုးညှင်းဆရာတော်၏ အိပ်မက်**

အေဒီ ၁၉၅၀

၁၉၅၀ ပြည့်နှစ်က ဆရာတော် မုံရွာမြို့တွင် ရောက်ရှိနေခိုက်ဖြစ်သည်။ ထိုအချိန် မိုးညှင်းတောရဆရာတော်ကြီးဦးသုမနသည် တစ်ညတွင် ဆင်ဖြူတော်တစ်စီး ကျောင်းအတွင်းဝင်လာသည်ဟု အိပ်မက်မက်၏။ ဆရာတော်ကြီးလည်းဒကာများကို

"ငါ့ကျောင်းအတွင်း ဘုန်းကြီးဖြစ်စေ၊ လူဖြစ်စေလာလျှင် ငါ့ကိုအကြောင်းကြားပါ"

ဟုမှာထားရာ နှစ်ရက်အကြာတွင် ဆရာတော် ဦးဝါသဝကြွလာသည်။ မိုးညှင်းဆရာတော်ကြီးက "ကိုယ်တော် ဘာကိစ္စနဲ့ ကြွလာသလဲ" "ကိစ္စအထွေအထူးမရှိပါဘူးဘုရား။ အရှင်ဘုရားကို ဖူးမြော်လိုလို့လာခြင်းသာဖြစ်ပါတယ်ဘုရား" "အိပ်မက်အရဆိုရင်တော့ ကိုယ်တော်ဟာ ထူးခြားချက်ရှိရမယ်" "တင်ပါ့ဘုရား၊တပည့်တော်ကို ဓာတ်တော်ကိုယ်တော်လို့ ခေါ်ကြပါတယ် တပည့်တော် သစ္စာအဓိဋ္ဌာန်ပြီး ဓာတ်တော်ပင့်ရင်ရပါတယ်ဘုရား" "အင်း ဒီလိုဆို ဘုန်းကြီးကို ဗုဒ္ဓဓာတ်တော် ဆယ်ဆူလောက်ပင့်ပေးစမ်းပါ"

http://www.dhammadownload.com



**မိုးညှင်းဆရာတော်မျက်မြင်ကိုယ်တွေ့ဖြစ်ခဲ့**

မိုးညှင်းဆရာတော်ကြီး၏မိန့်ဟချက်ကို ဦးဝါသဝက မဆိုင်းမတွပင် ဘုရားခန်းသို့ကြွ၍ အာရုံပြုအဓိဋ္ဌာန်ပြုလိုက်ရာ ခဏအကြာလက်ပေါ်တွင် ဗုဒ္ဓဓာတ်တော်ဆယ်ဆူရောက်ရှိနေသည်ကို ဖူးတွေ့ရသည်။ မိုးညှင်းဆရာတော်ကြီးမှာ ဝမ်းသာအားရဖြစ်ကာ ချီးမွမ်းစကားဆိုရသည်။ ဘေးမှဒကာများလည်း အံ့သြကြရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၃၈

အေဒီ ၁၉၅၄ ၁၉၅၄ ခုနှစ်အတွင်း ဆရာတော်သည် နတ်တလင်းမြို့နယ်၊ တာပွန်မြို့တွင် ဓာတ်ပေါင်းစေတီတည်သည်။

**စေတီတည်စဉ် ဓာတ်တော်များ ကြွတော်မူလာခဲ့**

စေတီတည်နေစဉ် ဌာပနာသွင်းမည့်နေ့တွင် ရဟန်းမယ်တော် ဒေါ်လှ၏သား ကိုအောင်မြင့်ဆိုသူအား ယာယီတဲကျောင်းအတွင်း ထားရှိသောဌာပနာပစ္စည်းများကို ယူခိုင်းလိုက်သည်။ မိုးရာသီဖြစ်၍ မိုးရွာထားသောကြောင့် စေတီဝန်းကျင်တွင် ရေများလွှမ်းနေချိန်ဖြစ်သည်။ ကိုအောင်မြင့်က ဓာတ်တော်များပင့်ဆောင်လာရာ စေတီသို့မရောက်မီ လမ်းတွင် မတော်တဆချော်လဲသဖြင့် ဓာတ်တော်ကြုတ်ရေထဲ ကျသွားသည်။

**ဓာတ်တော်တွေ ရေထဲကျသွား**

ကိုအောင်မြင့်မှာ ဓာတ်တော်ကြုတ်ကို ပြန်လည်၍ ဆယ်ယူရရှိသော်လည်း ဓာတ်တော်များ ရှာမရနိုင်တော့သဖြင့် ဆရာတော်ထံသွားပြီး မျက်နှာညှိုးငယ်စွာ အဖြစ်အပျက်ကို လျှောက်ထားရာ ဆရာတော်က စိုးရိမ်မှုလည်းမပြ ဆူပူခြင်းလည်းမရှိဘဲ "မင်း ချော်လဲတဲ့နေရာ ငါ့ကိုပြ၊ ငါဟာငါ အဓိဋ္ဌာန်မယ်" ဤသို့ အမိန့်ရှိပြီး လိုက်လံပြသစေသည်။

**လက်ဝါးဖြန့်၍ အဓိဋ္ဌာန်**

ချော်လဲသည့်နေရာသို့ ရောက်သောအခါ ရေပြင်ပေါ်တွင် လက်ဝါးဖြန့်လျက် အဓိဋ္ဌာန်ရာ ဓာတ်တော်(၁၄)ဆူစလုံး လက်ပေါ်သို့ရောက်ရှိနေပြီး ပြန်လည်ရရှိခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၃၈

**အံ့ဖွယ်အခြင်းအရာ**

ထို့အပြင် အံ့သြဖွယ်ရာတစ်ခုမှာ ဇီးကုန်းမြို့နယ်၊ လယ်မကျေးရွာတွင်ခေတ္တသီတင်းသုံးနေခိုက် ဘုန်းကြီးကျောင်းဝင်းအတွင်း ပေါက်နေသောခြောက်တောင်ခန့်အမြင့်ရှိ ဗောဓိပင်ကို လူအများက ဗောဓိပင်ဟုတ်, မဟုတ် သံသယဖြစ်နေကြ၏။

**ဆရာတော်သစ္စာပြု၍ သက်သေပြ**

ဆရာတော်အား လျှောက်ထားရာ ဆရာတော်ကလိုက်လာပြီး ဗောဓိပင်မှ အရွက်တစ်ရွက်ကို လက်ဖြင့်ကိုင်ကာ သစ္စာဆိုသည်။ တစ်မိနစ်ခန့်အကြာတွင် တစ်ပင်လုံးမှ အရွက်များ ကတော့ ထိုးကုန်သည်။ ဗောဓိပင်စစ်စစ် ဖြစ်ကြောင်း သက်သေပြခြင်း ဖြစ်၏။

အဆိုပါ ဗောဓိပင်ငယ်မှာ ယခုအခါအခက်အလက် ဝေဖြာသော ဗောဓိပင်ကြီးဖြစ်လျက် လယ်မကျေးရွာ ဘုန်းတော်ကြီး ကျောင်းဝင်းအတွင်း ရှိနေပါသည်။

**ဓာတ်တော်မျိုးစုံကြွ**

အေဒီ ၁၉၅၄ အထက်တွင်ဖော်ပြခဲ့သည့်အတိုင်း ၁၉၅၄ ခုနှစ်၊ တာပွန်မြို့တွင် ဓာတ်ပေါင်းစေတီတည်နေစဉ် ဌာပနာ သွင်းရန် အများလှူဒါန်းထားသော ရွှေငွေရတနာ ပစ္စည်းမျိုးစုံကို ဗားပြတစ်စုလာရောက် တိုက်ခိုက်လုယူကြသည်။

http://www.dhammadownload.com



**လူမှား၍ သေနတ်ပစ်ခံရ**

ညအချိန်လည်းဖြစ် ရုတ်ရုတ်သဲသဲ ဖြစ်နေချိန်ဖြစ်သဖြင့် ဆရာတော်အား လူမှား၍သေနတ်နှင့် ပစ်ခတ်မိရာ ဆရာတော်မှာ သေနတ်ဒဏ်ရာရကာ ပျံလွန်တော်မူသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၃၈)

**ရုပ်ကလာပ်တော်မပုပ်မသိုး**

ဆရာတော်၏ ရုပ်အလောင်းကို ကွင်းသာရွာသို့ သယ်ယူ၍(၁၄)ရက်ထားသော်လည်း မပုပ်မသိုး အနံ့မထွက်၊ ပကတိအတိုင်းပင်ရှိသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၃၈

အချိန်တန်၍ ဘုန်းကြီးကျောင်းပေါ်မှ အရိုးအိုးစေတီ တည်မည့်နေရာသို့ ဆရာတော်၏ ရုပ်အလောင်းအား သယ်ယူရာ မ၍မရဘဲ ဖြစ်နေသည်။ အားလုံးကြံရာမရဖြစ်နေစဉ် လူစိမ်းတစ်ဦး ကျောင်းပေါ်တက်လာပြီး. . .

"ဟေ့ မင်းတို့ဘုန်းကြီးကို အမျိုးသားလေးဦး ယောဂီအဝတ် ဝတ်ခိုင်းပြီး မ, ပေတော့"

ဟုပြောပြီး ပြန်ဆင်းသွားသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၄၁

ပုဂ္ဂိုလ်ထူး(သို့မဟုတ်) ဓာတ်တော်ကိုယ်တော်၏ အရိုးအိုးစေတီကို ကွင်းသာရွာအဝင် အနီးတွင် ယခုတိုင် တွေ့ရှိနိုင်ပါသည်။

ကျမ်းကိုး၊ စလေကျောင်း သာသနာ့နယ်မြေဆီသို့၊ စံထွန်းသာ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် (၁၉၅)၊ ၂၀၀၂ ခု၊ အောက်တိုဘာလ၊ စာ-၉

ကျမ်းကိုး၊ သူရိန်ဝင်း(ဇီးကုန်း)၊ ပုဂ္ဂိုလ်ထူး (သို့မဟုတ်) ဓာတ်တော်ကိုယ်တော်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ်၂၄၃၊ အောက်တိုဘာ ၂၀၀၆ ၊ စာ-၁၃၇။

http://www.dhammadownload.com



တောင်တွင်းကြီးမြို့

# ဂွေးတောက်ကုန်း ဆရာတော်ကြီး ဦးမုနိန္ဒ

(၁၉၀၆ – ၁၉၉၅)



http://www.dhammadownload.com



၁၉၀၆ ခုနှစ်ဖွား ရဟန္တာနှင့် ရဟန်းထူးများကို လေ့လာသောအခါ ၂ ပါးတွေ့ရှိရပါသည်။ တစ်ပါးမှာ ယနေ့တိုင် ရုပ်ကလာပ်တော် ရှိသေးသော ရတနာသိဒ္ဓိ တောင်တော် ဂူကျောင်း ဆရာတော် အရှင်ပညာသာမိဖြစ်၏။ ကယားပြည်နယ်၊ လွိုင်ကော်မြို့တွင် တည်ရှိ၏။ ရုပ်ကလာပ်တော် ယနေ့တိုင် ရှိသေး၏။

> ကျမ်းကိုး။ ဓေတ္တရာဆရာကျော်၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ ၂၀၀၄ ခု၊ ဇွန်လ၊ အမှတ် ၂၁၅၊ စာ ၁၇ - ၂၂ ကို ကြည့်။ မောင်ပန်းမွှေး ရဟန္တာနှင့် ရဟန်းထူး စာ ၇၀၆ လည်းကြည့်။

**ခေတ်ပြိုင် ၁၉၀၆–ခုဖွား ရေဝတီတိုင်း၊ ပုသိမ် သံပတ်ဆရာတော်**

၁၉၀၆ ခုဖွား အခြား ဆရာတော်ကြီးတစ်ပါးမှာ ပုသိမ် သံပတ်ဆရာတော်ဖြစ်၏။ ဘွဲ့တော် ဦးအာစိဏ္ဏ ဖြစ်၏။ ရဟန်းဟု ကျော်ကြား၏။ သို့သော် သံပတ်ဆရာတော်ဟု လူသိများ၏။

> ကျမ်းကိုး။ ပုသိမ် ဒေါ်လှလှသီ၊ သံပတ်ဆရာတော်၊ ၁၉၉၂ ခု၊ မတ်လ၊ သိဒ္ဓိမြိုင် ပုံနှိပ်တိုက်၊ စာ ၄၂-၄၃ ကိုကြည့်။ မောင်ပန်းမွှေး ရဟန္တာနှင့် ရဟန်းထူးများ စာ ၇၀၉ လည်းကြည့်။

**ခေတ်ပြိုင် ဝွေးတောက်ကုန်းဆရာတော်**

ထို ၁၉၀၆ ခုနှစ်မှာပင် ခေတ်ပြိုင်ဖွားသော ဆရာတော်ကြီးမှာ ယခုတောင်တွင်းကြီး ဝွေးတောက် ကုန်းဆရာတော် ဖြစ်၏။ ဤကျမ်းပြုသူ စုဆောင်းထားသော ခေတ်ပြိုင်မှတ်တမ်းများကို တင်ပြ ပါမည်။

**ဇာတိ**

ဆရာတော်၏ မွေးရာဇာတိကား တောင်တွင်းကြီးမြို့နယ်၊ ဆတ်သွားအပိုင် ကြံစုကျေးရွာအုပ်စု၊ ဝွေးတောက်ကုန်းရွာဖြစ်၏။ ခမည်းတော်မှာ ဦးအောင်ဇန်လေး၊ မယ်တော်မှာ ဒေါ်ပြည့်ဖြစ် သည်။ မွေးချင်း(၇)ယောက်အနက် အကြီးဆုံးသားဦး ရတနာ ဖြစ်သည်။ မွေးချင်းများမှာ ဦးညီပု၊ ဦးကြွက်ညို၊ ဒေါ်မလေး၊ ဦးညီမောင်၊ ဦးငယ်မောင်နှင့် ဒေါ်မုန်းတို့ ဖြစ်သည်။

**ငယ်မည်**

အေဒီ ၁၉၀၆ — ဆရာတော် အလောင်းအလျာကို မြန်မာသက္ကရာဇ် ၁၂၆၈ ခုနှစ်၊ ဝါခေါင်လဆုတ် (၈)ရက်၊ ကြာသပတေးနေ့တွင် ဖွားတော်မူခဲ့သည်။ ငယ်မည်မှာ မောင်သက်စိန် ဖြစ်သည်။

> ကျမ်းကိုး၊ တောင်တွင်းကြီးမြို့နယ်၊ ဝွေးတောက်ကုန်း ဆရာတော်ကြီး၏ အံ့မခန်း ကြည်ညို ဖွယ်ရာများ၊ အောင်မြတ်မွန်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် - ၂၄၀၊ ဇူလိုင်လ ၂၀၀၆၊ စာ-၂၅

**နယ်ချဲ့ခေတ်**

ထိုစဉ်က ဗြိတိသျှအစိုးရသည် မြန်မာနိုင်ငံကို အုပ်ချုပ်လျက်ရှိ၏။ ဤအဖြစ်ကို ဇာတိမာန် ထက်သန်လှသော ဖခင်ဖြစ်သူ ဦးအောင်ဇန်လေးကမခံရပ်နိုင်၊ ခံပြင်းလျက်ရှိ၏။

**တော်လှန်ရေးသမား မဖြစ်ချင်**

အေဒီ ၁၉၂၂ — မောင်သက်စိန် (၁၆)နှစ်သားအရွယ်သို့ရောက်သော် ဖခင်ဖြစ်သူက သားဖြစ်သူအား တော်လှန် ရေးဝတ်စုံကို ဝတ်၍ ဓား၊ လှံ၊ လက်နက်ကို ဆွဲကိုင်ကာ အားမာန်အပြည့်ဖြင့် တော်လှန်ရေး သမားကြီး ဖြစ်စေချင်သည်။

http://www.dhammadownload.com



**ခန္တီမေတ္တာဖြင့် ကိလေသာရန်ကို တော်လှန်ရေးသမားဖြစ်လာခဲ့**

သားဖြစ်သူ မောင်သက်စိန်က သက်နံးကို ဝတ်ရုံ၍ သပိတ်၊ ယပ်၊ ရေစစ်တို့ကို ဆွဲကိုင်ကာ အားမာန်ချလျက် ခန္တီမေတ္တာဖြင့် ကိလေသာရန်ကိုသာ တွန်းလှန်ဖြိုဖျက်လိုသည်။

**သာမဏေဝတ်**

အေဒီ ၁၉၂၂ — ၁၆ နှစ်သားမောင်သက်စိန်သည် ဂွေးတောက်ကုန်းကျောင်းတိုက်၌ သာမဏေဝတ်ခဲ့သည်။ ဘွဲ့အမည်ကား ရှင်မုနိန္ဒ ဖြစ်သည်။

**ရဟန်းဖြစ်**

အေဒီ ၁၉၂၅ — မြန်မာသက္ကရာဇ် ၁၂၈၇ ခုနှစ်၊ ပြာသိုလဆန်း(၁၀)ရက်၊ ကြာသပတေးနေ့တွင် တောင်တွင်းကြီးမြို့နယ်၊ လယ်သာတိုက်၊ စန်းဖျားဆရာတော်ကြီးအား ဥပဇ္ဈာယ်ပြု၍ မြင့်မြတ်သော ရဟန်းဘဝသို့ တက်ရောက်တော်မူခဲ့သည်။ ဘွဲ့အမည်ကား အရှင်မုနိန္ဒ ဖြစ်သည်။

(ကျမ်းကိုး။ ယင်းကျမ်း၊ စာ-၂၆)

**ဝါတော်စဉ်များလေ့လာချက်**

အေဒီ ၁၉၂၅ — ဆရာတော်သည် ၁၂၈၇ခုနှစ်တွင် တောင်တွင်းကြီးမြို့နယ်၊ ဂွေးတောက်ကုန်းကျောင်းတိုက်၌ (၁)ဝါ။

အေဒီ ၁၉၂၆ — ၁၂၈၈ ခုနှစ်မှ၁၂၉၀ပြည့်နှစ်အထိ တောင်တွင်းကြီးမြို့၊ ရတနာ့ဗိမာန်တောရကျောင်းတိုက်၌ (၃)ဝါ၊

အေဒီ ၁၉၂၈ — ၁၂၉၁ ခုနှစ်မှ ၁၂၉၅ ခုနှစ်အထိ ပခုက္ကူ၌ (၅)ဝါ၊

အေဒီ ၁၉၃၄ — ၁၂၉၆ခုနှစ်မှ ၁၂၉၉ ခုနှစ်အထိ မန္တလေး၌(၄)ဝါ၊ စုစုပေါင်း (၁၃)ဝါ ကာလပတ်လုံး စာသင်သားအဖြစ် ပရိယတ်နယ်ပယ်အတွင်း ဘဝကို မြှုပ်နှံထားတော်မူခဲ့သည်။

အေဒီ ၁၉၃၈ — ၁၃၀၀ ပြည့်နှစ်သို့ ရောက်သော် ဂွေးတောက်ကုန်းကျောင်းတိုက် ဆရာတော်ဦးစန္ဒက မန္တလေး၌ စာဝါ လိုက်လျက်ရှိသော အရှင်မုနိန္ဒအား . . .

"မောင်ပဉ္ဇင်း အမြန်ပြန်လှည့်ပါ" ဟု လူကြုံဖြင့်မှာရာ ကျေးဇူးတော်ရှင်ဆရာ မိန့်ကြားချက် ဖြစ်၍ အမြန်ပြန် ကြွလာခဲ့၏။

ရောက်လျှင်ရောက်ချင်း ဆရာတော်ဦးစန္ဒက "မောင်မုနိန္ဒ ဘုန်းကြီးကိုယ်စားကျောင်းထိုင်ပေးပါ" ဟုဆို၍ တောထွက်တော်မူခဲ့ပါသည်။

ကျမ်းကိုး။ ယင်းကျမ်း၊ စာ-၂၆

**၃၂ နှစ်မှာ ဂွေးတောက်ကုန်းဆရာတော်ဟူ ကျော်ကြားလာ**

အေဒီ ၁၉၃၈ — ထိုစဉ်ကအရှင် မုနိန္ဒ၏ သက်တော်မှာ (၃၂)နှစ်သာ ရှိသေးသည်။ ထိုအချိန်မှစ၍ အရှင်မုနိန္ဒသည် ဂွေးတောက်ကုန်းဆရာတော်ဟူ၍လည်းကောင်း၊ အလင်္ကာရာမဆရာတော်ဟူ၍ လည်းကောင်း ထင်ရှားလာခဲ့၏။

**ခန္တီမေတ္တာမွေးရာပါ**

ကလေးဘဝ ဘုန်းကြီး ကျောင်းသားအရွယ်ကပင် ဆရာတော်၏ခန္တီနှင့်မေတ္တာကြီးမားပုံကို သိမိသူတို့ပြော၍ မဆုံး၊ ချီးကျူးမဆုံးဖြစ်ခဲ့ကြရသည်။

**အင်းဝခေတ် ပေလေးပင် ရှင်လေးပါး ရတနာ့ဗိမာန်ကျောင်း**

ထို့ကြောင့် ထင်၏။ တောင်တွင်းကြီးမြို့ ရတနာ့ဗိမာန်တောရကျောင်းတိုက်တွင် စာဝါလိုက်ခဲ့စဉ် ဦးပဉ္ဇင်းငယ်ဘဝ၌ ရတနာ့ဗိမာန်တောရကျောင်းတိုက် ဆရာတော်ဦးမာလာဝံသက . . .

"ခန္တီထားနိုင်ဖို့နဲ့ မေတ္တာကြီးမားဖို့ဆိုတာကလဲ အင်မတန် ခက်ခဲတယ်။ အခုဘုန်းကြီးတို့

http://www.dhammadownload.com



ကျောင်းတိုက်မှာ ထူးထူးခြားခြား ကိုယ်တော်နှစ်ပါးကို တွေ့နေရတယ်။ ပဥ္စင်း မောင်ဥပ္ပလနဲ့ မောင်မုနိန္ဒတို့ပါပဲ"ဟူ၍ မိန့်မြွက်ချီးကျူးတော်မူခဲ့သည်။

ဦးဥပ္ပလသည် တောင်တွင်းကြီးမြို့နယ်၊ ညောင်ပင်သာ၊ ဆူးကောက်ရွာတွင် ထင်ပေါ်ကျော်ကြား လှသော ကျောင်းထိုင်ဆရာတော်တစ်ပါးဖြစ်လာခဲ့သည်။ ခန္တီ၊ မေတ္တာကြီးမားပြီး ဝိနည်းကို လေးစားလွန်းသဖြင့် ရဟန္တာ ဟူ၍ သမုတ်တော်မူခဲ့ကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၇

## သည်းခံမှုကို စမ်းသပ်ခြင်း စာမေးပွဲများ

ရှင်မုနိန္ဒသည် ဝွေးတောက်ကုန်းကျောင်းတိုက်၌ ကိုရင်ဘ၀ဖြင့်သီတင်းသုံးခဲ့စဉ်ကာလဖြစ် သည်။ အတူနေကိုရင်များက ရှင်မုနိန္ဒ စိတ်ဆိုးနေသည်ကို မြင်လိုလှသဖြင့် ကျိန်းစက်လျက်ရှိ သော ရှင်မုနိန္ဒ၏ ခြေချောင်းများကြားတွင် လဲမွေးများကိုညှပ်ပြီး မီးဖြင့်တို့ကာ အခန်းတွင်းမှ ချောင်းကြည့်ကြ၏။

## ခြေသည်းမီးရှို့၍ ရန်စကြ

လဲမွေးများမှ တစ်ဆင့် ခြေချောင်းများကို မီးလောင်လေသော် အပူဒဏ်ကြောင့်လန့်နိုးလာကာ မီးလောင်လျက်ရှိသော လဲမွေးများကို ကပျာကယာဖယ်ရှားရှာ၏။ ရှင်မုနိန္ဒသည် မီးလောင် ထားသော ခြေချောင်းလေးများကိုလက်ဖြင့် ပွတ်ရင်း . . . "ဘုရား ဘုရား ပူလိုက်တာ" ဟု နှုတ်မှရေရွတ်ရင်း ဘုရားသာတ, နေတော့သည်။

ကျီစားသန်လှသောကိုရင်တစ်စုမှာ ဒေါသမထွက်၍ မကျေမနပ် ဖြစ်နေမိ၏။ ထိုစဉ် ခပ်ကြီးကြီး ကိုရင်တစ်ပါးက ချောင်းကြည့်နေရာမှထွက်လာကာ. . . "ကိုရင့်ခြေချောင်းတွေကို မီးနဲ့ရှို့တာ တပည့်တော်ပဲ" ဟု မခံချင်အောင် ရင်ကိုကော့၍ ခပ်မာမာဖြင့်ပြောလေ၏။

ထိုအခါကိုရင် မုနိန္ဒသည် ကိုရင်ကြီးအား လှမ်း၍ကြည့်လိုက်သည်။ ထိုအကြည့်တွင် ရန်လို သည့် အသွင်မရှိ၊ အရာရာတွင် ခွင့်လွှတ်သည်းခံမည်ဟူသော မေတ္တာနှင့်ယှဉ်သည့် အသွင်သာ ဖြစ်နေ၍ ကိုရင်ကြီးမှာ ပါးစပ်အဟောင်းသားဖြင့် အံ့သြနေမိ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၈)

## ခန္တီသစ္စာစမ်းသပ်ပုံအဆင့်ဆင့်

ဆရာတော်အလောင်းအလျာ ဦးပဥ္စင်းအရှင်မုနိန္ဒသည် ဆွမ်းစားဆောင်တွင် ဆွမ်းဘုဉ်းပေးပြီး သီတင်းသုံးရာ ကျောင်းဆောင်သို့ ပြန်ကြွအလာ ကျောင်းဆောင်အပေါ်ထပ်မှ ဒေါသထွက်နေ သည်ကို မြင်လိုလှသော ကိုယ်တော်များက ရေအပြည့်ပါသော ရေပုံးဖြင့် လောင်းချလိုက် သည်။

## ရေနှင့်လောင်း

တစ်ကိုယ်လုံးရွှဲရွှဲစိုလျက်ရှိသော အရှင်မုနိန္ဒသည် ရုတ်တရက်အပေါ်သို့ မော့ကြည့်ကာ "အရှင်ဘုရားတို့ သည်းခံတော်မူကြပါ။ အရှင်ဘုရားတို့ ရေသွန်ချခိုက် တပည့်တော် ရောက် လာ ခိုက်ကြုံမိပါတယ် ဘုရား" ဟုတောင်းပန်ရှာ၏။ ကျောင်းပေါ်မှ ကိုယ်တော်များသည် တစ်ပါးကို တစ်ပါးကြည့်၍ ပြုံးတော်မူကြ၏။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၈)

## သည်းခံရင်း တရားမြင်

ရတနာဗိမာန် တောရကျောင်းတိုက်ဆရာတော် ဦးမာလာဝံသလက်ထက်ကဖြစ်သည်။ရတနာ ဗိမာန်တောရကျောင်းတိုက်သည် ကုက္ကိုပင်၊ မန်ကျည်းပင်၊ ဖန်ခါးပင်စသည့် သစ်ပင်ကြီးငယ်

http://www.dhammadownload.com



တို့ဖြင့် အုပ်ဆိုင်းညို့မှိုင်းလျက်ရှိ၏။ ထိုစဉ်က အရှင်မုနိန္ဒသည် ရတနာဗိမာန်တောရကျောင်း တိုက်၌ စာဝါလိုက်လျက်ရှိ၏။ ရာသီကား ဆောင်းနှောင်းကာလဖြစ်သည်။ မန်ကျည်းပင်ထက်မှ မန်ကျည်းကြက်ဆူသီးတို့သည် ကျောင်းသားများကို ဆွဲဆောင်လျက်ရှိရာ တုတ်၊ ခဲတို့ဖြင့် ပစ်ခတ် လေတော့၏။

**သည်းခံခြင်း အထုံပါရမီ**

တစ်နေ့ကျောင်းသားများ မန်ကျည်းကြက်ဆူသီးများကို ပစ်ခတ်နေစဉ် ပဥ္စင်းငယ် အရှင်မုနိန္ဒ ကြွလာခိုက်နှင့် ဆုံနေလေရာ ပစ်လိုက်သောခဲတစ်လုံးက အမှတ်မထင် အရှင်မုနိန္ဒ၏ ဦးခေါင်း တော်အား ထိမှန်လေတော့၏။ သွေးများ မြင်မကောင်းအောင် စီးကျလာ၍ ကျောင်းသားများ အရှင်မုနိန္ဒအားလှမ်းကြည့်ရင်း ထိတ်လန့်နေမိကြ၏။ ပဥ္စင်းငယ်အရှင်မုနိန္ဒသည် ထိမှန်ခံရ သော ဒဏ်ရာကို လက်ဖြင့်ပိတ်ရင်း နောက်ကြောင်းလမ်းပြန်လှည့်ကာ ကြွသွားခဲ့၏။

ကျမ်းကိုး။ ယင်းကျမ်း၊ စာ-၂၉

**ဓိရှိသော့မခတ်**

ဆရာတော်သည် မည်သည့်ပစ္စည်းကိုမျှ တွယ်တာသာယာခြင်း၊ တပ်မက်စွဲလမ်းခြင်း မရှိခဲ့ပေ။ အရာရာတွင် ရောင့်ရဲတင်းတိမ်လျက်သာရှိသည်။ ထို့ကြောင့် သီတင်းသုံးရာ ကျောင်းဆောင် တွင် မည်သည့်ဗီရိုကိုမျှ သော့ခတ်ထားခြင်း မရှိခဲ့ပေ။

**သူခိုးအတွက်အခွင့်အရေးများ**

ဤသည်ကိုအခွင့်ကောင်းယူ၍ ခိုးသူတို့က ဆရာတော်ကုဋီသို့ကြွသွားခိုက် ဗီရိုထဲမှ နာရီ၊ စာအုပ်နှင့် အသုံးအဆောင်ပစ္စည်းများကို ခိုးယူ လေတော့၏။

**သူခိုးနှင့် ရင်ဆိုင်တွေ့**

ရံဖန်ရံခါ ဆရာတော်သည် ခိုးသူတို့နှင့် လှေကားအတက်အဆင်းတွင် ပက်ပင်းတိုးသော်လည်း မည်သို့မျှမဆိုဘဲ မမြင်ဟန်ပြုလျက်သာ နေသည်။

"သံသရာတွင် ငါသည်လဲ သူတစ်ပါးရဲ့ပစ္စည်းကိုခိုးယူခဲ့ဖူးပါတကား။ ခိုးကြွေးတွေဆပ်ခွင့်ရလေ ပြီ" ဟူသော သံဝေဂယူရင်းကျေနပ်နေပေတော့သည်။

နောင်သောအခါ ခိုးသူများက ဆတ်သွားဘုတာအနီး အရက်ဆိုင်တွင် မူးပြီး ဆရာတော် အကြောင်းဖောက်သည်ချရာမှ ခိုးမှုဇာတ်များ ပေါ်လာခြင်းဖြစ်သည်။

(ကျမ်းကိုး။ ယင်းကျမ်း၊ စာ-၂၉)

**သက်တော် ၈၀ ကျော်သောအခါ**

အေဒီ ၁၉၈၆ သက်တော်(၈၀) ကျော်လာပြီဖြစ်သော ဆရာတော်သည် ညဥ့်အချိန်မတော် ကုဋီသို့ ကြွ၍ ကျင်ငယ်ကို စွန့်လေ့ရှိ၏။ တစ်ပါးတည်း သီတင်းသုံးတော်မူသော ဆရာတော်ကြီးအတွက် ဒကာ၊ ဒကာမများ စိုးရိမ်မိကြသည်။ အနီးကပ် ပြုစုလျက်ရှိသော ဆတ်သွားစခန်းမှူး ဦးသန်းထွန်းက အရဲစွန့်၍

"အရှင်ဘုရား ကျင်ငယ်စွန့်ရာမှာ ကုဋီအထိမကြွပါနဲ့။ သက်တော်က ထောက်လာပြီ။ မတော် လဲကျရင် ခက်ရချည့်ရဲ့ဘုရား။ တပည့်တော် ကျင်ငယ်အိုးကိုထားပေးပါမယ်။ မနက် တပည့် တော်ပဲ သွန်ပေးပါမယ်။ ကုသိုလ်လဲရတာပေါ့ ဘုရား"

ဟုလျှောက်ထားမိ၏။ ဆရာတော်သည် မည်သို့မျှ ပြန်လည်မိန့်ကြားခြင်းမရှိပေ။ မနက် ကျင်ငယ် အိုးကိုသွန်ရန်ကြည့်လေသော် ကျင်ငယ်စွန့်ထားခြင်းမရှိချေ။ ဒကာဦးသန်းထွန်း ကထပ်မံ၍ လျှောက်ထားပြန်၏။ ထိုအခါ ဆရာတော်က -

http://www.dhammadownload.com



"ဒကာကြီး ဒီကျောင်းက သံဃိကကျောင်းကွယ့်။ ကျင်ငယ်စွန့်လို့ အမှတ်မထင်ကျင်ငယ် တစ်စက်ကြမ်းပေါ် ကျမိရင် ဘုန်းကြီး အာပတ်သင့်ပြီ။ ဒါကြောင့် ကျင်ငယ်မစွန့်ဝံ့တာပါ" ဟုမိန့်ကြားတော်မူခဲ့သည်။ ဒကာဦးသန်းထွန်း ထပ်မံ၍မလျှောက်ထားဝံ့တော့ပြီ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၀

## ခြေသုတ်ပုဆိုးမြွေစွယ်ကျိုးကဲ့သို့ ကျင့်

တစ်ခါကလည်း တောင်တွင်းကြီးမြို့အောင်မြင်ဇေယျ ရခိုင်ဘုရားကြီး၏ ဂေါပကအတွင်းရေးမှူး ဖြစ်ခဲ့သူ ဦးသာစိန်သည် ဆရာတော်အား ဖူးမြော်ရန် ဝွေးတောက်ကုန်းကျောင်းတိုက်သို့ ရောက်လာခဲ့သည်။ "အရှင်ဘုရား တပည့်တော်ရဲ့ တစ်သက်တာအတွက် ဆုံးမဩဝါဒ ပေးတော်မူပါဘုရား" ဟုလျှောက်ထားပြန်သည်။ ထိုအခါ ဆရာတော်က
"ဒကာ လှေကားအတက်မှာ ဘာတွေ့ခဲ့လဲကွယ်" ဒကာဦးသာစိန်သည် ခေတ္တစဉ်းစားပြီး . . .
"ခြေသုတ်ခုံကိုတွေ့ခဲ့ပါတယ်ဘုရား"
"အေး ခြေသုတ်ခုံလိုကျင့်၊ တစ်ဘဝအတွက်သာမက သံသရာအတွက်ပါ ကောင်းတယ်ကွယ့်" ဟူ၍ ဆုံးမဩဝါဒပေးတော်မူခဲ့သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၀)

## တောင်တွင်းကြီး ရတနာဗိမာန်ဆရာတော်၏ ချီးကျူးစကား

၁၉၉၆ခုနှစ်၊ ဇွန်လတွင် စာရေးသူသည် တောင်တွင်းကြီးမြို့၊ ရတနာဗိမာန်တောရကျောင်း တိုက် ဆရာတော်ဦးကုသလအား သွားရောက်ဖူးမြော်ရင်း ဝွေးတောက်ကုန်းဆရာတော်နှင့် စပ်လျဉ်း၍ လျှောက်ထားမေးမြန်းမိရာ
"အင်း ဝွေးတောက်ကုန်း ဆရာတော်လို ရဟန်းမျိုး တို့နယ်မှာ နောက်ထပ်တွေ့ရဖို့ ခပ်ရှားရှားပဲ။ ဘုရားရှင်ချမှတ်ခဲ့တဲ့ ဝိနည်းတော်နဲ့အညီနေထိုင်နိုင်တဲ့ အာဂရဟန်းထူးပဲ။ တစ်ခါက ဒီကျောင်း တိုက်ကို ကြွလာခဲ့တယ်။ သက်တော်၊ ဝါတော်က တို့ထက်ပိုကြီးတော့ တို့များကျိန်းတဲ့ ခုတင်ပေါ် မှာပဲ ကျိန်းဖို့လျှောက်ထားရတယ်ပေ့ါ။
မနက်ရောက်တော့ ဆရာတော်ရဲ့ခုတင်ပေါ် တပည့်တော်ကျိန်းခဲ့မိပါပြီ။ အမှားအယွင်း လေးများရှိရင် ခွင့်လွှတ်သည်းခံပါ ဆရာတော်ဆိုပြီး အကြိမ်ကြိမ်တောင်းပန်တော်မူခဲ့တယ်။ ဆရာတော် ပြန်ကြွသွားတော့ တို့များခုတင်ပေါ်ကို သွားရောက်ကြည့်မိပါတယ်။ စောင်၊ ခြင်ထောင်ကအစ သေသေသပ်သပ်ခေါက်ထားပုံမှာ အံ့ဩမိပါရဲ့"ဟု ရတနာ ဗိမာန်ဆရာ တော်က တလေးတစား ချီးကျူးတော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၁

## ခန္ဓာဝန်ချတော်မူ

အေဒီ ၁၉၉၅

ဆရာတော်ကြီးကား သက်တော်(၉၁)နှစ်၊ ဝါတော် (၇၁)အရ မြန်မာသက္ကရာဇ် ၁၃၅၇ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော်၊ (၁၃)ရက်၊ တနင်္ဂနွေနေ့ နံနက်(၉)နာရီ (၄၀)မိနစ်တွင် ခန္ဓာဝန်ချ ပျံလွန်တော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၁

ကျမ်းကိုး။ ဆရာတော်ကြီးပျံလွန်တော်မူပြီးနောက် ထူးခြားချက်ကို ၁၉၉၇ ခုနှစ်၊ အမှတ် (၁၂၈)၊ မတ်လထုတ်နက္ခတ္တရောင်ခြည်မဂ္ဂဇင်းတွင် ဆရာနွယ်သာကီ (မင်းလှ) ၏"ရုပ်ကလာပ်တော်ဘေးမှ ထူးဆန်းတဲ့မှို" ဆောင်းပါးကို ရှာဖွေဖတ်ရှု နိုင်ပါသည်။

http://www.dhammadownload.com



**ချမ်းမြေ့ဆရာတော်**

ချမ်းမြေ့ဆရာတော်ဘုရားကြီးကိုယ်တော်တိုင် ကြွရောက်ပူဇော်လေ့ရှိသော ဂုဏ်ထူးလည်းရှိသော ဆရာတော်ကြီး ဖြစ်၏။ ဤအချက်ဖြင့်ပင် ဆရာတော်ကြီး၏ အဆင့်ကို ခန့်မှန်းနိုင်ပါသည်။

**ရဟန္တာဟု သမုတ်ကြ**

တောင်တွင်းကြီးမြို့နယ်၊ ပျဉ်းမန္တာ ဇာတိ၊ ပြည်တွင်းပြည်ပ သာသနာပြုအကျော် ချမ်းမြေ့ဆရာတော်သည် တောင်တွင်းကြီးမြို့သို့ ကြွရောက်လာသည့်အခါ ဝွေးတောက်ကုန်းကျောင်းတိုက်သို့ကြွရောက်၍ ဆရာတော်ကြီးအား သင်္ကန်း၊ ဂွမ်းစောင် စသည့် လှူဖွယ်ပစ္စည်းတို့ကို ဆက်ကပ်လှူဒါန်းလေ့ရှိသည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၁)

**ငှက်ပစ်တောင်ဆရာတော်**

ငှက်ပစ်တောင်ဆရာတော်ဘုရားကြီးသည်လည်း ဝွေးတောက်ကုန်းဆရာတော်ဘုရားကြီးကို အလွန်ကြည်ညိုလေသည်။ တောင်တွင်းကြီးမြို့နယ်၊ သံဃနာယကဥက္ကဋ္ဌ၊ အဂ္ဂမဟာ ပဏ္ဍိတ ငှက်ပစ်တောင်ဆရာတော် ဦးတိလောက ဉာဏသည် ဝွေးတောက်ကုန်းဆရာတော်ကြီး၏ မွေးနေ့မင်္ဂလာပူဇာပွဲသို့ နှစ်စဉ် ကြွရောက်မြဲ ဖြစ်သည်။ ဆရာတော်ကြီး၏ သက်တော် (၈၇)နှစ် မွေးနေ့မင်္ဂလာပူဇော်ပွဲတွင် ဆရာတော်ကြီးက -

**ရဟန္တာကိစ္စပြီးမပြီး**

အေဒီ ၁၉၉၃ "ငှက်ပစ်တောင်ဆရာတော် တပည့်တော်ကို တချို့က ရဟန္တာလို့ သမုတ်နေကြတယ်။ တပည့်တော် ရဟန်းကိစ္စ မပြီးသေးပါဘုရား" ဟု မိန့်ကြားတော်မူခဲ့သည်။

တောင်တွင်းကြီး ရတနာဗိမာန်ဆရာတော်ကြီးကလည်း ဝွေးတောက်ကုန်းဆရာတော်ကြီးကို မေးလျှောက်ဖူးသော ကိစ္စရှိကြောင်း သိရှိရပါသည်။

**ဝန်မခံဝံ့**

အေဒီ ၁၉၉၆ "တပည့်တော်ကိုရဟန္တာတဲ့။ ကြားသိရတိုင်း တပည့်တော်တုန်လှုပ်မိပါရဲ့။ တပည့်တော် ရဟန္တာလို့ ဝန်မခံဝံ့ပါဘုရား" ဟု မိန့်ကြားချက်တို့သည် ဆရာတော်ကြီးသက်တော်(၉၀)မပြည့်မီ ကာလကဖြစ်သည်။

ကျမ်းကိုး၊ တောင်တွင်းကြီးမြို့နယ်၊ ဝွေးတောက်ကုန်း ဆရာတော်ကြီး၏ အံ့မခန်း ကြည်ညိုဖွယ်ရာများ။ အောင်မြတ်မွန်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း။ အမှတ် - ၂၄၀၊ ဇူလိုင်လ ၂၀၀၆၊ စာ-၂၅။

http://www.dhammadownload.com



သာမညဆရာတော်ဘုရားကြီးက ပုဂ္ဂိုလ်ထူးဟူ၍ မိန့်ကြားကာ
သက်နီးတော် ဆက်ကပ်လှူဒါန်းခဲ့သော ရဟန်းထူး

# တိန်ဖား ဦးနာဂိန္ဒ

(၁၉၀၆ - ၁၉၉၉)



http://www.dhammadownload.com



သာသနာတော်ကြီးသည် တောင်ပေါ် မြေပြန့်မကျန် မြန်မာနိုင်ငံတစ်ဝန်းလုံးတွင် မည်သို့မှ မည်သူကမှဖိနှိပ်၍မရဘဲ နယ်ချဲ့လက်အောက်တွင်ပင် စည်ပင်ပြန့်ပွားခဲ့ကြောင်း အထောက်အထားများ များစွာရှိပါသည်။

အေဒီ ၁၉၀၆ — ၁၉၀၆ နှစ်ဖွား ဆရာတော်ကြီးအကြောင်းကို လေ့လာရာတွင် ကျွန်ုပ်တို့ စာပေသမားတို့မှာ စာကိုသာဂရုစိုက်နေသဖြင့် သာသနာသမိုင်းဘက်ကို ရုတ်တရက်ဆက်စပ်၍ မလေ့လာနိုင်ခဲ့ပါ။

အေဒီ ၁၉၀၆ — ကျွန်ုပ်တို့ မြန်မာစာပေလောကကြီးတွင်လည်း ၁၉၀၆ ခုနှစ်သည် ထူးခြားသော နှစ်တစ်နှစ်ဖြစ်၍နေပေသည်။

**YMBA အသင်းကြီးပေါ်ပေါက်လာသောနှစ်**

အေဒီ ၁၉၀၆ — ထိုနှစ်တွင်ပင် အမျိုးသားရေး စိတ်ဓာတ်နှင့် အမျိုးသားလှုပ်ရှားမှုကြီးများ ပေါ်ပေါက်နေသော နှစ်ဖြစ်ပေသည်။ ဗုဒ္ဓဘာသာကလျာဏယုဝအသင်း စတင်ဖွဲ့စည်းသောနှစ်လည်း ဖြစ်ပေသည်။ ထိုအသင်းသည် ဝိုင်အမ်ဘီအေ အသင်းကြီးဖြစ်၏။

**ဆရာလွန်း၏ ကဗျာကျမ်းကြီး ပေါ်ထွက်သောနှစ်**

အေဒီ ၁၉၀၆ — ထို ၁၉၀၆ ခုနှစ်တွင်ပင် နောင်သောအခါ သခင်ကိုယ်တော်မှိုင်းဟု အားလုံးသိသော ဆရာကြီးသည် ဆရာလွန်း အမည်ခံလျက် ကဗျာ သာရ မဥ္ဇူကျမ်းကို ရေးနေသော နှစ်လည်းဖြစ်သည်။ ထိုအချိန်တွင်ပင် ခေတ်ပေါင်းတစ်ကျော့ပြန် စာအုပ်များလည်း ထွက်လျက်ရှိ၏။

**ထိုခေတ်တွင် တိန်ဖားဆရာတော်ကို မွေးဖွားခဲ့**

ထိုသို့သော အချိန်တွင် တိန်ဖား တစ်နေရာတွင် ရဟန်းထူးတစ်ပါးကို ဖွားမြင်တော်မူကြောင်း မည်သူမျှ ဂရုမပြုမိကြချေ။

တောင်ထိပ် လွမ်းစေတီကုန်းတော်မှ ပြန်ဆင်းခဲ့ရာ လမ်းထက်ဝက်အရောက်တွင် လမ်း၏ ယာဘက်ဆင်ခြေလျှော၌ သစ်ပင်ကြီးတစ်ပင်ကို တွေ့ရသည်။ ထိုအပင်အနီးတွင် ယခင် ဆရာတော် ဦးနာဂိန္ဒအား မီးသင်္ဂြိုဟ်ရာ ကုန်းမြေကို ခြံခတ်ထားသည်။ အဆောက်အအုံမရှိပါ။ အိုးကလေးများ ချ၍အမှတ်အသားပြုထားသည်။ ဆရာတော်သည် ပုဂ္ဂိုလ်ထူးဟူ၍ ကျော်ကြားသော ပုဂ္ဂိုလ်ဖြစ်သည်။

> ကျမ်းကိုး။ တိန်ဖားတောင်သာသနာ့မြေသို့၊ ထက်မင်းကျော်စွာ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် (၂၄၃)၊ အောက်တိုဘာ ၂၀၀၆၊ စာ-၉၇

**သက်တော်ရှည်ဖြစ်ခဲ့**

အေဒီ ၁၉၉၈ — ဆရာတော်သည် သက်တော် (၉၄)နှစ် မြန်မာသက္ကရာဇ် ၁၃၆၁ ခုနှစ်တွင် ပျံလွန်တော်မူသည့်အခါ မီးသင်္ဂြိုဟ်ရာတွင် ထူးခြားသည်ဟုပြောဆိုကြသည်။

**တောင်ပေါ်က မဟာစည်သာသနာပြု**

အေဒီ ၁၉၆၈ — ဆရာတော်သည် ၁၃၃၀ ပြည့်နှစ်မှစတင်ကာ တိန်ဖား တောင်သာသနာ့မြေတွင် မဟာစည်နိဿယဖြင့် ကမ္မဋ္ဌာန်း ပြသဦးဆောင်ပေးတော်မူခဲ့သည်။

**နိုင်ငံတော်က ဆက်ကပ်သောဘွဲ့**

အေဒီ ၁၉၉၃ — ၁၃၅၅ ခုနှစ်တွင် အဂ္ဂမဟာ ကမ္မဋ္ဌာနာစရိယ ဘွဲ့တံဆိပ်တော် ဆက်ကပ်ခြင်းခံရသည်။

> ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၇

**ကျောက်ထက်အက္ခရာတင်ထားသော ထေရုပ္ပတ္တိ**

ကျောင်းရှေ့လွင်ပြင်တွင် ဆရာတော် ဦးနာဂိန္ဒအထိမ်းအမှတ် ကျောက်စာတိုင်ကို တွေ့ရသည်။ ဆရာတော်၏ ထေရုပ္ပတ္တိအကျဉ်းနှင့် သာသနာရေးဆောင်ရွက်ချက်များကို ကျောက်ထက်တွင် အက္ခရာတင်ထားသည်။

> ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၉

http://www.dhammadownload.com



ဆရာတော်ဦးနာဂိန္ဒအား အနီးကပ်ပြုစုရသော သာသနာ့အကျိုးဆောင်တစ်ဦးဖြစ်ရာ ဆရာတော်နှင့် ပတ်သက်၍ သိမြင်ရသမျှ ပြောပြသည်။

**ကယ်တင်ရှင်ဆရာတော်**

အေဒီ ၁၉၉၆ လွန်ခဲ့တဲ့ (၁၀)နှစ်ကျော်လောက်က ရှမ်း တိုင်းရင်းသားတွေအများကြီးရောက်လာတယ်။ ကျိုင်းတုံနယ် တောင်ပေါ်ရွာကြီးတစ်ရွာကပါ။ သူတို့ရွာကလူတစ်စု တောလည်သွားရင်း ဒုက္ခတွေ့နေတဲ့အချိန်မှာ ဆရာတော်ကကယ်ဆယ် ပေးခဲ့သတဲ့။ သတင်းစုံစမ်းကြည့်တော့ ဇန်းမော်နယ် တိန်ဖားတောင်ပေါ်ကျောင်း ဆရာတော်ဖြစ်နေသတဲ့။ အဲဒီအချိန်က တရားစခန်း ဖွင့်ထားလို့ ဆရာတော်ဘယ်မှမကြွပါဘူး။ သူတို့ကတော့ ပုဂ္ဂိုလ်ထူးပဲလို့ဆိုပြီး ရွာလုံးကျွတ်ကို ဖူးကြတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၀၀

**နိုင်ငံခြားသားများလည်း သိကြ**

နောက်ပိုင်း တရုတ်၊ ဂျပန်၊ အမေရိကန်နိုင်ငံတွေက နိုင်ငံခြားဧည့်သည်တွေလဲ ဒီအဖြစ်ကြုံလို့ဆိုပြီး စကားပြန်လမ်းညွှန်တွေနဲ့လာပြီး အရိုအသေပြုကြတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၀၀

**သာမည ဆရာတော်က မိန့်ကြား**

ဆရာတော်က လောဘ၊ ဒေါသ ကင်းတယ်။ ရွှေငွေကိုင်ခံ သုံးစွဲခြင်းမရှိဘူး။ ဆွမ်းကိုလဲ ဇီဇာမချဲ့ ဘူး။ ရရာဘုဉ်းပေးတယ်။ သာမညတောင် ဆရာတော်ကြီးကလဲ ပုဂ္ဂိုလ်ထူးပါပဲလို့မိန့်ပြီး သက်န်းတစ်စုံ လူကြုံနဲ့ပို့လှူဖူးပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၀၁

**တစ်ပြိုင်နက် နှစ်ကိုယ်ခွဲ ဆွမ်းခံကြွ**

လာဖူးကြတဲ့ ပရိသတ်တွေထဲမှာ မိုင်ပေါင်းအတော်ဝေးတဲ့ နေရာအတော်များများကို တစ်ချိန်တည်း ဆွမ်းခံကြွတာ ကြုံရတယ်လို့ ပြောပြကြပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၀၁

**မဟာစည်သာသနာ တောင်ပေါ်ရောက်**

အေဒီ ၁၉၈၆ ၁၃၃၀ ပြည့်နှစ်မှ စတင်ကာ ရတနာစေတီတောင်ပေါ်တောရတွင် မဟာစည်နည်းဖြင့် ပဋိပတ္တိသာသနာတော်ကို စတင်ပြုစုခဲ့သည်။

**ခန္ဓာဝန်ချ**

အေဒီ ၁၉၉၀ ဆရာတော် အရှင်နာဂိန္ဒသည် အနှစ်(၃၀)ကျော် ဦးဆောင်တော်မူကာ မြန်မာသက္ကရာဇ် ၁၃၆၁ ခုနှစ်တွင် ခန္ဓာဝန်ချတော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၀၁

ကျမ်းကိုး၊ တိန်ဖားတောင်သာသနာ့မြေသို့၊ ထက်မင်းကျော်စွာ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် (၂၄၃)၊ အောက်တိုဘာ ၂၀၀၆၊ စာ-၉၇

http://www.dhammadownload.com



ရဟန္တာဟု ကျော်စောတော်မူသော

စစ်ကိုင်းတောင်

# အနောက်ပရက္ကမ ဆရာတော်ကြီး ဦးဝဏ္ဏစာရ

(၁၉၀၆ – ၁၉၅၇)



http://www.dhammadownload.com



စစ်ကိုင်းတောင် အနောက်ပရက္ကမ ဆရာတော်ကြီးသည် ရဟန္တာဟု ကျော်ကြားခဲ့သော ဆရာတော် တစ်ပါး ဖြစ်သည်။

ကျမ်းကိုး၊ မောင်ရွှန်းသစ်၊ မြတ်မင်္ဂလာ၊ စာမျက်နှာ - ၄၅

### ဘုရားဆုပန်

စင်စစ် အနောက်ပရက္ကမ ဆရာတော်သည် ဆုကြီးပန် ဖြစ်သည်။ ဆရာတော်ကြီး နေ့စဉ်ရွတ်ဆိုသော ဘုရားရှိခိုး ဆုတောင်းဂါထာတွင် ပညာဓိက ဘုရားဆုပန်ကြောင်း ပါရှိသည်။ မိမိဆုကြီးပန်ကြောင်းကိုလည်း ရင်းနှီးသောတပည့် ရဟန်းများကို ပြောကြားခဲ့ပြီး ဆုကြီးပန်ကြရန်လည်း တိုက်တွန်းလေ့ရှိသည်။

ယင်းကျမ်း၊ စာ-၄၅

### ရေငုံ့ဆရာတော်

အေဒီ ၁၉၆၆

အင်းဝခေတ်ကလည်း ရေငုံဆရာတော်ဟု ပေါ်ပေါက်ခဲ့ဖူး၏။ ရေငုံ့နှုတ်ပိတ် အဓိဋ္ဌာန်သည်ကို ပင် စကားမပြောဘဲ ဝစီပိတ်အကျင့်ဟု ရဟန်းရှင်လူတို့က မှတ်ယူကြ၏။ ဝစီနှုတ်ပိတ် အဓိဋ္ဌာန်သည်မှာ ၁၃၂၈ ခုနှစ် ဝါတွင်းမှ စ၍ ဖြစ်၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၇၁

### ဝစီပိတ်အဓိဋ္ဌာန်

ဆရာတော်ကြီးသည် စကားမပြောရန် အဓိဋ္ဌာန်ထားသော်လည်း ဗုဒ္ဓကိစ္စနှင့် ပတ်သက်၍ အခက်ကြုံရသောအခါ တစ်နှစ်လေးကြိမ် လေးရက် မိန့်မြွက် ပြောဆိုရသေး၏။ ယင်းရက်တို့မှာ ဝါဆိုလပြည့်၊ တပို့တွဲလပြည့်၊ တပေါင်းလပြည့်နှင့် ကဆုန်လပြည့်နေ့တို့ ဖြစ်၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၇၁

### တစ်နှစ် လေးရက် ဝစီမြွက်

ဤသို့သော ဗုဒ္ဓကိစ္စများနှင့် နှစ်စဉ်ပြုမြဲအတွက်ကြောင့်၊ ညွှန်ကြားချက်များ မိန့်မြွက်ရန် ဝါဆိုလပြည့်၊ တပို့တွဲလပြည့်၊ တပေါင်းလပြည့်၊ ကဆုန်လပြည့်နေ့တို့၌ တစ်နှစ်တွင် လေးရက်သာ နှုတ်ဝစီမြွက်၏။ တစ်နှစ်တွင် လေးရက် စကားပြောသည်ဆိုသော်လည်း ဆွမ်းခံပြီး၍ ဗုဒ္ဓကိစ္စများပြုပြီးလျှင် ဂူထဲသို့ဝင်သွားတော့၏။ ၎င်းနေ့တို့တွင် ရောက်လာကြသည့် ရဟန်းရှင်လူတို့ကိုလည်း တရားဓမ္မများ ကိုသာ အဓိကအားဖြင့်ဟော၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၇၅

### ရဟန်းကိစ္စ ပြီး မပြီး စံကင်းဆရာတော်၏ အမေး

### မဟာဂန္ဓာရုံ အရှင်ဇနကာဘိဝံသ၏အမေး

ထိုအခါ ရဟန်းကိစ္စ ပြီးမပြီးကို ဆရာတော်ကြီးအား အဘိဓဇမဟာရဋ္ဌဂုရုများ ဖြစ်ကြသည့် စံကင်း ဆရာတော်ကြီးနှင့် သက်တော်ရှည် မစိုးရိမ်ဆရာတော်ဘုရားကြီး အဂ္ဂမဟာပဏ္ဍိတ တောင်မြို့ မဟာဂန္ဓာရုံ အရှင်ဇနကာဘိဝံသ ဆရာတော်တို့က မေးမြန်းကြ၏။

### ဘုရားဆုပန်ဟု ဖြေ

ကိစ္စမပြီးကြောင်း တပည့်တော် ယခုဘဝအတွက်ကိုသာမက၊ သံသရာအတွက်ပါ အားတက်သရော အားထုတ်လျက်ရှိပါကြောင်း၊ ညွှတ်ပျောင်းစွာ လျှောက်ထား၏။ အခြား အခြားသော ရဟန်းရှင်လူတို့ကလည်း ရဟန္တာဖြစ်မဖြစ် မေးလျှောက်ထားကြ၏။ ရဟန်းကိစ္စ မပြီးကြောင်း ဘုရားဆုပန်ဖြစ်ကြောင်းကို ကောင်းမွန်စွာ မိန့်ကြား၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၇၆

http://www.dhammadownload.com



### ရဟန္တာဟု သမုတ်ကြ

ဆရာတော်ကဲ့သို့ အားထုတ်သည့် ပုဂ္ဂိုလ်မှာ ယခုမျက်မှောက်ခေတ်၌ အလွန်ရှားပါး၏။ ရှာမရအောင် နည်းပါးလှ၏။ ဟန်ဆောင်မှုမပါ စစ်မှန်စွာ အားထုတ်သည်မှာ တွေ့ဖို့ရာ ခဲယဉ်း၏။ ထို့ကြောင့်လည်း ပရိသတ်က ဆရာတော်အား ရဟန္တာဟု သမုတ်ကြ၏။

ကျမ်းကိုး။ ယင်းကျမ်း စာ ၃၇၆

### ဆရာတော်၏ ကြေညာချက်

မေးလျှောက်သူ များပြားလာသောအခါ ဆရာတော်၏ ဂုဏ်တော် ပုတီးစိပ်နည်း စာအုပ်နိဂုံးတွင် က္ကဒံ မေ ပုညံ သဗ္ဗညုတ ဉာဏဿ ပစ္စယော ဟောတု ဟု ကြေညာမှု ပြုလိုက်လေ၏။

ကျမ်းကိုး။ ယင်းကျမ်း စာ ၃၇၆

### ကနီဆရာတော်၏ တပည့်၊ လယ်တီဆရာတော်၏တပည့် ကြောင်ပန်းဆရာတော်၏တပည့် မိုးညှင်းဆရာတော်၏တပည့်

ဆရာတော်သည် ကနီဆရာတော်ကြီး၏ တပည့်ဖြစ်ရုံမသာမက လယ်တီဆရာတော်၊ ပထမကြောင်ပန်းဆရာတော်၊ မိုးညှင်းဆရာတော်ကြီးတို့၏အထံမှာလည်း နည်းအဝဝ ဩဝါဒတို့ကို ခံယူခဲ့၏။

### ဆရာ့ဆရာများအား အခါအားလျော်စွာ ကန်တော့ပန်းဆင်ခဲ့ရသော ရဟန်းထူး

စံကင်းဆရာတော်၊ မစိုးရိမ်ဆရာတော်၊ ပိတောက်ချောင် ဆရာတော်၊ ဣစ္ဆာသယဆရာတော် ဦးပညာ၊ တောလေးထပ် စကုမော် ဆရာတော်၊ မဟာဂန္ဓာရုံ ဆရာတော် အရှင် ဇနကာဘိဝံသ၊ အနီးစခန်းဆရာတော်၊ လောကမှန်ကင်း ဆရာတော်၊ ရေဦးမြို့နယ် မိမိဆရာ သောင်ပြင်ငယ်ရွာ တောင်ပေါ်ကျောင်း ဆရာတော် ဦးပဏ္ဍိစ္စ၊ မောင်းထောင် တိုက်သစ်ဆရာတော် ဦးဝိစာရစသော ဆရာတော်များကို အခါအားလျော်စွာ သွားရောက် ကန်တော့ကာ ဩဝါဒကို ခံယူ၏။

### ဉာဏစာရီဆရာတော်လည်း ကြွရောက်ပူဇော်

အထက်ပါ ဆရာတော်များကလည်း ဩဝါဒအသီးသီးချီးမြှင့်ကြ၏။ ဆရာတော်ထံမှောက်သို့ ကြွ ရောက်လာကြသည့် ဆရာတော်များကိုဖော်ပြရသော် ဉာဏစာရီ ဆရာတော်သည်လည်း ဆရာတော် ထံသို့ ကြွရောက်လာ၏။

ကျမ်းကိုး။ ယင်းကျမ်း စာ ၃၈၆

### ဉာဏစာရီဆရာတော်သို့ ပြောကြားချက်အံ့ဖွယ်

ဉာဏစာရီဆရာတော်က ဆရာတော်ထက်ကြီး၍ ဆရာတော်က အားရအောင် ဂါရဝပြုပြီးလျှင် "ဆရာတော်ဘုရား တပည့်တော်က ဆရာတော်ထံ လာရမှာပါ တပည့်တော်ကို တွေ့လိုပါက မှာလိုက်ရောပေါ့ဘုရား" ဟု ဉာဏစာရီ ဆရာတော်ကြွလာသည်ကို အားနာစွာဖြင့် လျှောက်ထား၏။

### ဉာဏစာရီဆရာတော်မှ ကန်တော့ချက်

ဉာဏစာရီကလည်း "အရှင်ဘုရား အလုပ်ပျက်မည်စိုး၍ တပည့်တော်ကပင် ကြွလာခြင်းပါ၊ အရှင် ဘုရား၏ ပဋိပတ္တိ သာသနာလုပ်ငန်းက စစ်ကိုင်းတောင် ကျက်သရေဆောင်သာမက၊ ထေရဝါဒ တစ်သာသနာလုံးအတွက် ကျက်သရေဆောင်ဖြစ်နေလို့ ဝမ်းသာလို့ ကြည်ညိုလို့ လေးစားလို့ အားမရနိုင်ပါဘူး၊ ကိုယ်တိုင်တွေ့လိုလှတာနဲ့ ဒါယကာများကို လိုက်အပို့ ခိုင်းရတယ်" ဟု အမိန့်ရှိကာ မိမိရေးသားထားသော စာအုပ်များကို ဆရာတော်အား လှူဒါန်း၏။ ဆက်လက်မိန့်ကြားသော ဩဝါဒများကိုလည်း လေးစားစွာမှတ်သားနာခံနေ၏။

ကျမ်းကိုး။ ယင်းကျမ်း စာ ၃၈၇

http://www.dhammadownload.com



**ဉာဏစာဂီဆရာတော်အား ပဲစားချောင်အထိ ဂါရဝ ထား၍လိုက်ပို့**

ဉာဏစာဂီ ဆရာတော် ပြန်လည်ကြွသောအခါ ကားထားခဲ့ရာ ပဲစားချောင်အရောက် ဂါရဝ ခြောက်လိုက်၍ ပို့ကာ မိမိလုပ်ငန်းခွင်သို့ ပြန်လည်၍ ဝင်သွားကြောင်း သိရ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၈၇

**ဗောဓိတစ်ထောင်ဆရာတော် လာဖူး**

ဗောဓိတစ်ထောင်ဆရာတော်သည်လည်း ဗုဒ္ဓါနုဿတိကို မပြတ်အားထုတ်သည့် ဆရာတော် ဖြစ်ခြင်းကြောင့်၊ ဗုဒ္ဓါနုဿတိကို အမြဲအားထုတ်သည့် ဆရာတော်ကြီးအား ပို၍ ကြည်ညို လေးစား၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၈၇

**၁၉၀၆–ခုဖွား အနောက်ပရက္ကမ ဆရာတော်၏ ဓေတ်ပြိုင်မှတ်တမ်းများ ဇာတိ**

အေဒီ ၁၉၀၆ — ဆရာတော်ကို စစ်ကိုင်းတိုင်း၊ ဘုတလင်မြို့နယ် ကင်းစမ်းရွာတွင် အဖဦးကောင်း၊ အမိ ဒေါ်ကောက်တော်တို့က မြန်မာသက္ကရာဇ် ၁၂၆၈ ခုနှစ်တွင် ဖွားမြင်သည်။

**ငယ်မည်**

ငယ်မည် မောင်လူသန် ဖြစ်သည်။

**ရဟန်းဘွဲ့**

အေဒီ ၁၉၃၄ — ၁၂၉၆ ခုနှစ်တွင် တောင်ငူခရိုင်၊ ကျွဲအိပ်ပွဲဘူတာ ကျွန်းတောကျောင်း ဆရာတော်ကြီးကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဖြစ်သည်။ ဘွဲ့တော်မှာ ဦးဝဏ္ဏစာရ ဖြစ်သည်။

ယင်းကျမ်း၊ စာ-၄၅

**ကနုတ်ဆေး ကုဋီဝေယျာဝစ္စပြု တံမြက်လှည်းသော ဆရာတော်**

အေဒီ ၁၉၃၈ — မုံရွာမြို့၊ မဟာလယ်တီတိုက်ကြီးသို့ ၁၃၀၀ ပြည့်နှစ်တွင် ရောက်ရှိပြီး ပညာ သင်ကြားသည်။ ဆွမ်းခံချိန်မှအပ မြို့ထဲသို့ မသွား။ စကားအလွန်နည်းသည်။ အချိန်ရှိသရွေ့ စာဖြင့် မွေ့လျော် နေသည်။ သံဃာတော်များအတွက် သောက်ရေ၊ ချိုးရေများ ခပ်ပေး လှူဒါန်းသည်။ ကနုတ် ဆေး၊ ကုဋီ ဝေယျာဝစ္စပြုသည်။ တံမြက်လှည်းသည်။

ယင်းကျမ်း၊ စာ-၄၅

**ရာသက်ပန် သက်သတ်လွတ်**

လယ်တီတိုက်သို့ ရောက်သည့်နေ့မှစ၍ အမဲသားမစားတော့။ နောင်တွင် ရာသက်ပန် အသက် သတ်လွတ် ဆွမ်းဘုဉ်းပေးသည်။

ယင်းကျမ်း၊ စာ-၄၅

**ပဲဆွမ်းချည်းသက်သက် ၁၀ နှစ်**

အေဒီ ၁၉၄၇ — ပျံလွန်တော်မမူမီ ဆယ်နှစ်ခန့်မှစ၍ ပဲဆွမ်းချည်း သက်သက်သာ ဘုဉ်းပေးခဲ့သည်။

ယင်းကျမ်း၊ စာ-၄၅

**တစ်ပါးတည်းကေစာရကျင့်**

အေဒီ ၁၉၄၇ — ၁၃၀၉ ခုနှစ် ဝါဆိုလကပင် တစ်ပါးတည်း ကေစာရ ကျင့်သုံးခဲ့၏။ ထိုအခါမှစ၍ အရှင် ဝဏ္ဏစာရကို အနောက်ပရက္ကမဆရာတော်ဟု ခေါ်တွင်လာကြ၏။

http://www.dhammadownload.com



**အနောက်ပရက္ကမဆရာတော်ဟု ခေါ်ဝေါ်ကြ**

အနောက်ပရက္ကမချောင်သည် စစ်ကိုင်းတောင်ရိုး ဥမင်သုံးဆယ်ဘုရား၏ မြောက်ဘက် ချောက်ထဲတွင် တည်ရှိ၏။ ယင်းချောင်၌ သီတင်းသုံးနေထိုင်ကာ ဘာဝနာတရားပွားများ အားထုတ်နေသော ဆရာတော်ကို ချောင်၏အမည်နာမကို အစွဲပြု၍ အနောက်ပရက္ကမဆရာတော်ဟု ခေါ်ဝေါ်ကြ၏။

> ကျမ်းကိုး။ စစ်ကိုင်းတောင် အနောက်ပရက္ကမဆရာတော်၏ ဖြစ်စဉ်နှင့်ကျင့်စဉ်များ၊ အရှင်စာရိန္ဒ (မွှာစရိယ) ၁၉၈၁ ခု၊ ဧပြီလ ၁၀ ရက်၊ ၁၃၄၃ ခု၊ သီတင်းကျွတ်လဆန်း ၆ ရက်၊ တနင်္ဂနွေနေ့ တွင် မှတ်တမ်းရေးသား ပြီးစီးသည်။

**ပရက္ကမချောင်သို့ စတင်ရောက်ရှိ**

အေဒီ ၁၉၄၇

ပရက္ကမ ချောင်၌ ခေတ္တ သံယာပြတ်လပ်နေရာ၊ ၁၃၀၉ ခုနှစ်တွင် ဆရာတော် ဦးဝါယမ ရောက်လာကာဝါကပ်၏။ အနောက်ပရက္ကမဆရာတော်နှင့် တစ်နှစ်တစ်ဝါတည်း တစ်ပြိုင်နက် ဆိုသလို ရောက်ကြလေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၂)

**အရှေ့ပရက္ကမဆရာတော်လည်း ကေစာကျင့်**

အေဒီ ၁၉၄၇

အရှေ့ပရက္ကမဆရာတော်နှင့် အနောက်ပရက္ကမ ဆရာတော်တို့သည် ၁၃၀၉ ခုနှစ်တွင် တစ်ချောင်တစ်ပါး ကေစာရ တောရဆောက်တည်ကြပြီး တိစီဝရိက်စသော ဓုတင်များကို ဆောင်ကြကာ ဘာဝနာပွားများနေကြလေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၂)

**ပရက္ကမညီနောင်ဟု ခေါ်တွင်ကြ**

ချောင်ချင်းလည်းနီး၊ အားထုတ်ပုံချင်းလည်းတူညီကြ၊ ဆွမ်းခံလည်း အတူကြွကြ၍ ပရက္ကမ ညီနောင်ဟု ခေါ်တွင်လာကြ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၃)

**တောင်ပလူ (တောင်ဘီလူး) အရပ်**

အေဒီ ၁၉၆၄

ထုတ်ခွန်သွင်း အင်းဝတည်နှင့်အညီ သက္ကရာဇ် ၇၂၆ ခုနှစ်၊ သတိုးမင်းဖျား အင်းဝတည် သောအခါ၊ တောင်ပလူ (တောင်ဘီလူး) အရပ်မှာလည်း လူထူထပ် လူနီးစပ်လာ၍ ပရက္ကမ ညီနောင်တို့သည် ဤတောင်ပလူ (တောင်ဘီလူး) အရပ်မှာ လူထူထပ်လာပြီ။ ငါတို့ နေလို့မသင့် ပြီဟု နှလုံးပိုက်ကာ စစ်ကိုင်းတောင်ရိုးသို့ ကူး၍ အုံတော်မူဘုရား အနောက်ချောင်၌ အရှေ့ အနောက်၊ တစ်ပါးစီ ကေစာရီနေကြသည်။ အရှေ့ပရက္ကမ၊ အနောက်ပရက္ကမ ဟူ၍တွင်သည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၄

**ထိုစဉ်က ဥမင်သုံးဆယ်မပေါ်သေး**

ပရက္ကမညီနောင်တို့ ပရက္ကမချောင်တို့၌ သီတင်းသုံးနေကြစဉ်၊ ဥမင်သုံးဆယ်ဘုရား မတည်ရ သေး။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၂၄

**အရင့် အရင်က ဆရာတော်**

အေဒီ ၁၉၄၇

ယင်းဆရာတော်၏ တပည့် ဦးတိဿသည် ၁၃၀၉ ခုနှစ်ထိ သီတင်းသုံး၏။ ၁၃၀၉ ခုနှစ်မှ စ၍ ၁၃၇၇ ခုနှစ်၊ တန်ခူးလပြည့်ကျော် ၂ ရက်နေ့အထိ ဆရာတော် ဦးဝဏ္ဏစာရသည် သီတင်းသုံး၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၃၀)

http://www.dhammadownload.com



## စတင်သီတင်းသုံးသောနှစ်

အေဒီ ၁၉၄၇

အနောက် ပရက္ကမချောင်၌ ၁၃၀၉ ခုနှစ် ဝါဆိုလဆန်း ၈ ရက်နေ့တွင် ဆရာတော် ဦးဝဏ္ဏစာရ စတင်၍ သီတင်းသုံးခဲ့လေ၏။ ထိုနှစ်မှာပင် အရှေ့ပရက္ကမချောင်၌လည်း ဆရာတော် ဦးဝါယမ စတင်၍ သီတင်းသုံး၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၅

## ကနီရွှေသိမ်တော်ဆရာတော်၏ တပည့်များဖြစ်

အနောက်ပရက္ကမ ဆရာတော် ဦးဝဏ္ဏစာရသည် ကနီရွှေသိမ်တော်ရှိ တောရဆရာတော် ဘုရားကြီးထံ နည်းခံခဲ့ရပါသော်လည်း၊ တင်းတိမ်အားရခြင်း မရှိခဲ့၊ ထို့ကြောင့် ဝါကျွတ်လျှင် ကနီမြို့ ဆရာတော်ဘုရားကြီးထံ ထပ်မံနည်းခံရန် အကြံဖြစ်မိ၏။ ထိုအကြံကို မိမိနောင်တော် ရင်းအသွင် အကျွမ်းဝင်သည့် အရှေ့ပရက္ကမ ဆရာတော် ဦးဝါယမကို တိုင်ပင်လေလျှင်၊ အရှေ့ပရက္ကမဆရာတော်ကလည်း ကျေးဇူးတော်ရှင် ရွှေသိမ်တော်တောရ ဆရာတော်ဘုရား ကြီးထံ နည်းခံရန် အတူကြွသွားကြကြောင်း သိရ၏။

ကျမ်းကိုး။ဘာဝနာပါရဂူကျမ်း ပထမနိဒါန်း၌ အနောက် ပရက္ကမ ဆရာတော်က ဤသို့ရေးသားခဲ့၏။ ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၅ ကို ကြည့်။

## ကနီဆရာတော်ထံ ပညာတော်သင်သွား

သီတင်းဝါလ ကျွတ်သကာလ သဘောတူ တိုင်ပင်ကာ၊ ရွှေသိမ်တော် တောရ ဆရာတော်ဘုရား ကြီးထံ နည်းနာခံရန် အတူသွားကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၅

## ကနီသို့ ခြေလျင်ကြွ

ပရက္ကမညီနောင်နှစ်ပါးတို့ ကျေးဇူးတော်ရှင် ကနီဆရာတော်ဘုရားကြီးထံ နည်းခံသွားကြသော အခါ ပလိဗောဓ အလွန်ဖြတ်တောက်ကြ၏။ ကျောင်းကို အစောင့်မထား၊ တံခါး ဖွင့်လျက်သား ကြွသွား ကြ၏။ အခြားပစ္စည်းတို့၌လည်း မတွယ်တာ မငြိကပ် ပလိဗောဓများ အာလယဖြတ်ကြ ကာ၊ သပိတ်တစ်လုံး သက်န်းသုံးထည်ဖြင့် ငှက်တို့ကဲ့သို့ ပေါ့ပါးသော အသွင်ဖြင့် စစ်ကိုင်း တော်မှ ကနီမြို့သို့ ခြေလျင်ကြွတော်မူကြ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၅)

## ဓုတင်များကျင့်ဆောင်ကြ

ပရက္ကမညီနောင် ဆရာတော်နှစ်ပါးတို့သည် ကနီဆရာတော်ဘုရားကြီး၏ အထံတော်မှာ နည်းနာနယများကို ယထာဘူတကျကျ မှတ်သားခံယူနေကြစဉ် အဆင်သင့်သလို ဓုတင်များ ကိုလည်း ကျင့်ဆောင်ကြ၏။ ဆွမ်းစားလည်း မလိုက်လိုကြ။ ထို့ကြောင့် ဆွမ်းစားကျောင်း ဘုန်းကြီးအား ဆွမ်းစားသွားအလှည့် ကျရောက်သော်လည်း မိမိတို့အား မထည့်ပါရန်၊ လျှောက် ထားကြ၏။

## ဆွမ်းစားလည်းမလိုက်

ထိုအခါ ဆွမ်းစားကျောင်း ဘုန်းကြီးက "အရှင်ဘုရားတို့ ဆွမ်းစားလိုက်လျှင်သာ ခက်တာပါ၊ မလိုက်ချင်တာကတော့ လွယ်ပါတယ် ဘုရား၊ အရှင်ဘုရားတို့ ဆန္ဒအတိုင်း ဖြစ်စေရပါမယ်" ဟု အမိန့်ရှိကာ ဆွမ်းစားမထည့်ရန် ဝန်ခံလိုက်ကြောင်း စသည်ကို ကနီမြို့ ရွှေသိမ်တော်တောရ လက်ရှိ ဆရာတော်က စာရေးသူအား မိန့်ကြားလိုက်၏။

http://www.dhammadownload.com



**ပညာသင်ဘဝ**

အေဒီ ၁၉၄၇ ပရက္ကမညီနောင် ဆရာတော်နှစ်ပါးတို့သည် ၁၃၀၉ ခုနှစ် သီတင်းကျွတ်လတွင် ကျေးဇူးတော်ရှင် ကနီဆရာတော်ဘုရားကြီး၏ ထံတော်မှောက်သို့ ခြေလျင်သွားရောက် ထပ်မံနည်းတစ်ဖန် ယူနေကြသည်မှာ ၁၃၀၉ ခုနှစ်မှသည် ၁၃၁၀ ခုနှစ် ရာသီသို့လည်းကောင်း၊ ဝါဆိုဝါကပ်ရန် အချိန်သို့ လည်းကောင်း၊ တဖြည်းဖြည်း ရောက်ခဲ့ရလေပြီ။ ပဋိပတ် နည်းနာနယကား ယူ၍ အားမရ၊ တင်းမတိမ်နိုင်သေး။ ဆရာအပါးမှလည်း မခွာချင်ကြသေး။

**နောက်တစ်နှစ် ပညာဆက်သင်**

အေဒီ ၁၉၃၈ ထို့ကြောင့် ၁၃၁၀ ခုနှစ်ဝါ မှာ ဆရာတော်ဘုရားကြီး၏ ခြေတော်ရင်းမှာပင်၊ နည်းယူမှတ်သားရင်း ဝါကပ် ဝါဆိုရကြောင်းကို ဆရာတော်က စာရေးသူအား မိန့်ကြား၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၆

**ပညာအမွေခံ မှတ်တမ်းများထားရှိ**

ဆရာတော်နှစ်ပါးတို့သည် ကနီဆရာတော်ဘုရားကြီး၏ အထံတော်၌လည်း အချိန်ကို အချည်းနှီး ဖြုန်းတီးမပစ်ကြဘဲ၊ ဆရာတော်ဘုရားကြီး၏ နည်းနာယအတိုင်း အချိန်ပြည့် အားထုတ်ကြ၍ လည်းကောင်း၊ ဩဝါဒ နည်းနာနယများကို စိတ်ဖြင့်လည်းကောင်း စာအုပ်စာတမ်းဖြင့်လည်းကောင်း မှတ်သားထားကြလေ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၆

**ကိုယ်တိုင်ရေး လက်ရေးများအထင်အရှားရှိ**

အေဒီ ၁၉၃၈ ထို ၁၃၁၀ ခုနှစ်က အနောက်ပရက္ကမ ဆရာတော်၏ ကိုယ်တိုင် လက်ရေးဖြင့် မှတ်သားထားသည့် စာအုပ်များ အမှတ်စဉ် ၁ မှ ၈ အထိ ယခုတိုင်ရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၆

**ဆရာကောင်းတပည့် ပန်းကောင်းပန်ခိုင်း**

ယင်းသို့ မှတ်သားထားသော နည်းနာနယများကိုလည်း ကနီဆရာတော်ဘုရားကြီးက မပျောက်ပျက်စေရန် ကျမ်းစာအုပ်ဖြစ်အောင် ရေးသားအားထုတ်ရမည်ဟု အမိန့်ရှိတော်မူကြောင်းသိရ၏။

ကျမ်းကိုး။ဘာဝနာ ပါရဂူကျမ်း နိဒါန်း၌ အနောက်ပရက္ကမ ဆရာတော် ရေးသားထားသည်ကို တွေ့ရ၏။ ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၆ ကိုလည်း ကြည့်။

**ကနီဆရာတော်က တပည့်များကို ကျမ်းပြုခိုင်း**

ကနီဆရာတော်ဘုရားကြီးသည် များသောအားဖြင့် နှုတ်မိန့်မြွက်ကာ ဟောကြားသော တရားဓမ္မနည်းနာနယတို့ကို ရေးကူးမှတ်သားစဉ် ထိုကျေးဇူးတော်ရှင် ဆရာတော်ဘုရားကြီးက "ဝါယမဝဏ္ဏတို့ ဆရာတော်ဟောကြားသမျှ နည်းနယတို့ကို တဖြင့်တစ်ပါး မပျောက်ပျက်စေရန် ကျမ်းစာအုပ်ဖြစ်အောင် ရေးသားအားထုတ်ကြရမည်" ဟု ချီးမြှင့်စေခိုင်းတော်မူသည်ကို ဝန်ခံခဲ့ရလေသည်ဟု သိရပါသည်။ ဤသို့သော မှတ်စုမှတ်ရာ ဩဝါဒအဖြာဖြာတို့ကြောင့် ဘာဝနာပါရဂူကျမ်း ဖြစ်ပေါ်လာခဲ့ပေ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၇

**ကနီဆရာတော်ကပင် ချီးမွမ်းရသည့် ဝီရိယ**

ဆရာတော်နှစ်ပါးတို့သည် ကနီဆရာတော်ဘုရားကြီး၏အထံမှာ နည်းခံမှတ်သား ပွားများအားထုတ်ကြစဉ်၊ အလွန်ပင် ဝီရိယရှိရှိ ပွားများအားထုတ်ကြကြောင်း ကနီဆရာတော်ဘုရားကြီးကပင် ချီးကျူးရကြောင်းသိရသည်၊

http://www.dhammadownload.com



ကျမ်းကိုး။ ထိုအခါက ကနီမှာ အတူနေခဲ့သည့် ယခု သက်တော် ၈၃ နှစ်ရှိ မုံရွာမြို့ ခါးပန်းနီ ဆရာတော်ကြီးက စာရေးသူအား မိန့်ကြား၏။ ကျမ်းကိုး၊ ယင်းကျမ်း စာ- ၁၄၈ ကိုလည်းကြည့်။

**သေနတ်သံများကြားတွင် အားထုတ်**

အေဒီ ၁၉၃၉ ဆရာတော်နှစ်ပါးတို့သည် ကနီဆရာတော်ဘုရားကြီး၏ ခြေတော်ရင်းမှာ အားထုတ်နည်း ယူနေကြ စဉ်၊ ၁၃၀၁ ခုနှစ်အချိန်တွင် ကနီမြို့၌ ဆူပူသောင်းကျန်းမှုများ ရံခါရံခါဖြစ်ပေါ် လာတတ်၏။ သေနတ်သံများလည်း မကြာခဏကြား ရတတ်၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၈)

**ဆွမ်းခံရင်းလည်း သေနတ်သံ ကြားရ**

တစ်ခါတော့ နံနက်ဆွမ်းခံဝင်ချိန်တွင် သက်န်းရုံပြီးကြသောအခါ မြို့တွင်းမှ သေနတ်သံများ ကြားကြရ၏။ ထို့ကြောင့် သံဃာတော်များလည်း ဆွမ်းခံသွားရန် မသွားရန်၊ ကြံစည် စဉ်းစား နေကြ၏။ သေနတ်သံများလည်း မပြတ် ညံဆဲပင်ဖြစ်၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၈)

**တိုက်ပွဲများကြားမှာ ဆွမ်းခံကြွ**

ဆရာတော်နှစ်ပါးနှင့် အချို့ သံဃာတို့သည် သေနတ်သံများ ဆူညံနေဆဲအခါ၌ ဟိုဘက် သည်ဘက် ပစ်ခတ်ကြသည့် သေနတ်ကျည်ဆန်တို့၏ အကြားမှပင် ဆွမ်းခံကြွသွားကြလေ၏။ တိုက်ပွဲဖြစ်ဆဲ၌ပင် ဆွမ်းခံဝင်ကြလေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၈)

**တိုက်ပွဲကြားမှ ဆွမ်းလောင်းပွဲ**

ဆရာတော်နှစ်ပါး စသော သံဃာတော်တို့၏ ဂုဏ်တော်တို့ကြောင့်လည်းကောင်း၊ မေတ္တာတော် တို့ကြောင့်လည်းကောင်း၊ ဆူညံနေသော သေနတ်သံများသည် အပ်ကျသံမျှ ကြားရလောက် အောင် တိတ်ဆိတ်ငြိမ်သက်သွားလေတော့၏။ တိုက်ပွဲကားပြီးဆုံးသွား၏။ မြို့သူမြို့သား အချို့တို့လည်း ဆွမ်းထွက်လောင်းကြတော့၏။

ကျမ်းကိုး။ ဤအကြောင်းအရာများကို ထိုအချိန်အခါက ကနီ၌သီတင်းသုံးခဲ့သော သက်တော် ၈၃ နှစ် ယခုတိုင် အသက်ထင်ရှား ရှိသော မုံရွာမြို့ ခါးပန်းနီကျောင်း ဆရာတော်ကြီး အမိန့်ရှိ၏။ ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၉ ကို ကြည့်။

ဆူပူသောင်းကျန်းမှုအတွက် အကြောင်းမလှ အခွင့်မသာ အခွင့်မသင့်လွန်းလှသဖြင့် ကျေးဇူး တော်ရှင် ဆရာတော်ဘုရားထံမှ မဖဲခွာချင်ဘဲလျက် ဝမ်းနည်းဖွယ်ရာ သခ်ီရခမ့်တွေကို နှလုံး သွင်းလျက် ဖဲခဲ့ရလေ၏ဟု ရေးသားထားလေ၏။

ကျမ်းကိုး။ အနောက်ပရက္ကမ ဆရာတော်၏ ဘာဝနာပါရဂူကျမ်း ပထမ နိဒါန်း၌ လည်း။ ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄။

ဝါယမ ဝဏ္ဏတို့လဲ သာသနာ့ဝန်ထမ်း ရဟန်းများကို ဆရာ့ကိုယ်စား ဆုံးမသြဝါဒ ပေးကြပါဟု အမိန့်ရှိတော်မူကြောင်းကို ကနီဆရာတော် မိန့်ကြားဖူး၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၉

ထိုညောင်ပင်သာဆရာထံမှ စစ်ကိုင်းတောင်ရိုးသို့ ရေတစ်တန် ကုန်းတစ်တန် လှေတစ်ဖန် ခြေတစ်ဖုံ ရေစုံလှေစုံ တစ်လှည့်၊ ခြေလျင်လျှောက်တစ်သွယ်၊ ရှည်ကျယ်တစ်သီး၊ ခရီးလမ်း

http://www.dhammadownload.com



မွှာမွှာ၊ တစ်ရွာဝင်တစ်ရွာထွက်၊ နေခိုလျက်တစ်ဖုံ၊ ညဉ့်အိပ်ရုံတစ်ဝ၊ ဆင်းရဲပုံအဝဝ မျိုးစုံစွာ ခံစားလျက်၊ သည်းခံကာ ဝါကပ်မီရုံ ပြန်ကြွလာခဲ့ကြောင်း မှတ်တမ်းရှိ၏။

ကျမ်းကိုး။ အနောက်ပရက္ကမ ဆရာတော် ရေးသားသည့် ဘာဝနာပါရဂူကျမ်း ပထမနိဒါန်း၌ ရေးသားတော်မူခဲ့ပေသတည်း။ ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၉။

**လွင်တီးခေါင်ခုံတန်းလျား အိုအိုလေးပေါ်မှာ နေ့ ည ကျင့်**

အနောက်ပရက္ကမဆရာတော်သည် ပြင်စည်မြို့စား မင်းသမီး၏ ကောင်းမှု သိမ်ပြာသာဒ်အိုကြီး၏ အနောက်ဘက်ကွင်းပြင် လွင်တီးခေါင်တွင် တန်းလျားခုံအိုလေးပေါ်တွင် နေ့စဉ် ညဉ့်ဆက် မပျက်မကွက် သီတင်းသုံး၍ နေရှာလေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၄၉)

**ညမှာ လွင်ပြင်ထဲမှာ ဓုတင်**

ဤသို့ ညတိုင်း ညစဉ် လွင်ပြင်မှာပင် အဗ္ဘောကာသိကဓုတင် ဆောက်တည်ကြောင်း သိရ၏။

ကျမ်းကိုး။ သမ္ဗုဏ္ဏာရာမတိုက်သစ်ဆရာတော်က စာရေးသူအား မိန့်ကြား၏။
ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၅၆။

ဆရာတော်သည် ထိုအခါမှစ၍ အသက်ထက်ဆုံး ထိုအဗ္ဘောကာသိက ဓုတင်ကို ဆောင်ခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၅၆

**ပျံလွန်တော်မူသည်အထိ ဓုတင်ဆောင်**

အေဒီ ၁၉၅၆

အနောက်ပရက္ကမ ဆရာတော်ဘုရားကြီးကား ၁၃၁၈ ခုနှစ်မှ ပျံလွန်တော်မူ သည့်တိုင်အောင် အနှစ် ၂၇ နှစ် သီတင်းသုံး ကျင့်ဆောင်တော်မူခဲ့၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၅၈

**ကျမ်းပြု၍ ကနီဆရာတော်ကို ကျေးဇူးဆပ်**

ပရက္ကမညီနောင် ဆရာတော်နှစ်ပါးတို့သည် ကနီဆရာတော်ဘုရားကြီး၏ အထံတော် မှ မှတ်သားရခဲ့သော နည်းနာနယများ တစ်ဖြင့်တစ်ပါး မလွှင့်ပါး မပျောက်ပျက်စေရန် ကျမ်းစာအုပ်တစ်အုပ်ဖြစ်အောင်ရေးသားရန် ဝန်ခံခဲ့ကြလေ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၅၉

**ရဟန်းညီနောင်နှစ်ပါး အတူတကွ ကျမ်းပြုကြ**

ထိုသို့ နှစ်ပါးဝန်ခံခဲ့ကြသော်လည်း အနောက်ပရက္ကမဆရာတော်သည် အရှေ့ပရက္ကမ ဆရာတော်အား ကျေးဇူးတော်ရှင် ကနီဆရာတော်ဘုရားကြီး၏အထံမှ နည်းနာနယများကို တစ်ဖြင့်တစ်ပါး မလွှင့်ပါး မပျောက်ပျက်စေရန် အရှင်ဘုရားပင် ကျမ်းတစ်စောင်ဖြစ်အောင် ရေးသားပါ၊ တပည့်တော်လည်း အကူအညီပေးပါမည်ဟု လျှောက်ထားသောအခါ အရှေ့ ပရက္ကမဆရာတော်ကလည်း တပည့်တော်က ရေးသားပါမည်။ အရှင်ဘုရားက ကြည့်ရှုပြင်ဆင်ပါ ဟု ပြန်လည် ပြောကြားကြောင်းမှတ်တမ်းရှိ၏။

ကျမ်းကိုး။ ဆရာတော်က ဆရာလုံးအား မိန့်ကြား၍ ယင်းက စာရေးသူအား လျှောက်ထား၏။ ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၅၉ ကို ကြည့်။

**ကျမ်းပြီးစီးမှု ကောင်းမှု**

အေဒီ ၁၉၅၀

အရှေ့ ပရက္ကမ ဆရာတော်သည် ကနီဆရာတော်ဘုရားကြီး၏ တိုက်တွန်းချက်အရ လည်းကောင်း၊ အနောက်ပရက္ကမဆရာတော်၏ ထပ်မံ လှူဆော်မှုကြောင့်လည်းကောင်း၊ ဘာဝနာပါရဂူ ကျမ်းကို ပြုစုရေးသားခဲ့ရာ ၁၃၁၂ ခုနှစ်တွင် အောင်မြင်ပြီးစီးခဲ့လေ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၅၉

http://www.dhammadownload.com



**ပြင်စည်မြို့စား မင်းသမီးကောင်းမှု သိမ်အိုအိုကြီး**

အနောက်ပရက္ကမချောင်တွင် ပြင်စည်မြို့စားမင်းသမီး၏ ကောင်းမှု သိမ်ပြာသာဒ်အိုကြီး ရှိ၏။ ယင်း၏ မြောက်ဘက်တွင် အလျားတောင် ၆၀ ရှိ အခင်းမပါ မိုးကာထားသည့် ကပ်များလည်း ဆွေးမြေ့ပျက်စီးနေသည့် စကြိုကျောင်းလေးမှာလည်း မိုးရွာလျှင် မိုးယိုကာ၊ ရင့်ရော်အိုမင်းနေ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၀

**သစ်ပင်ရှိရင် ကျောင်းရှိတာပဲ**

"ဒါယိကာမကြီးတို့ ဘုန်းကြီးဆိုတာက သစ်တစ်ပင်ရှိရင် ကျောင်းရှိတာပဲ၊ သစ်ပင်ရင်းနေရတာက ရွက်ဟောင်းတွေ ကြွေတော့၊ မိမိကိုယ်ကို အနိစ္စသည် ကောင်းစွာ ထင်မြင်နိုင်တယ်။ နောက်ပြီးတော့ ရှင်တော်ဘုရားဟာ သစ်ပင်ရင်းမှာ ဖွားမြင်တော်မူတယ်။ သစ်ပင်ရင်းမှာပင် ဘုရားဖြစ်တော်မူတယ်။ ဓမ္မစကြာတရားတော်ကိုလည်း ဒီသစ်ပင်ရင်းမှာတင်ပဲ ဟောတော်မူတယ်။ အဘိဓမ္မာ ခုနစ်ကျမ်းကိုလည်းပဲ ပင်လယ်ကသစ်ပင်ရင်းမှာ ဟောတော်မူတယ်။ နောက်ဆုံး ပရိနိဗ္ဗာန်ပြု စံဝင်တော့လဲ ဒီသစ်ပင်ရင်းမှာမို့ ဒါယိကာမကြီးတို့ မိမွေ ဖမွေ ထိန်းသိမ်းစောင့်ရှောက်သလို၊ ဘုန်းကြီးတို့လဲ အဘဘုရား အမွေတော်ကို ထိန်းသိမ်းပြီး သစ်ပင်ခြေရင်းမှာပဲ နေလိုပါတယ်" ဟု အမိန့်ရှိဖူး၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၀

**ဆရာလုံးရောက်လာခြင်း**

ဆရာတော် ဤအနောက်ပရက္ကမချောင်သို့ ရောက်၍ သုံးနှစ်မျှလောက်ရှိသောအခါ၊ ဆရာတော်၏ တူအရင်း ဆရာလုံး (ယခု ဘိုးလုံး) သည် ဆရာတော်ဘုရားကြီး၏ ထံမှောက်သို့ ရောက်လာလေ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၁

**ဘယ်သူ့မှ မပြောနဲ့**

"မောင်လုံး ငါ မင်းတို့ သံယောဇဉ် ကြောင့်ကြပလိဗောဓတွေ ပယ်ဖြတ်ပြီး ရပ်ဝေး ရွာဝေး တောထဲ ပုန်းရှောင်လာခဲ့တာ မင်း ဘာဖြစ်လို့ လိုက်လာခဲ့ရသလဲ၊ မင်းဒီနေ့ပဲပြန်ရမယ်၊ နောက်ကို မင်းလဲမလာနှင့်၊ အခြားသူတွေကို မလာစေနဲ့၊ ငါဒီမှာရှိကြောင်းကိုလဲ ဘယ်သူ့မှ မပြောနဲ့" ဟု ဆုံးမဩဝါဒပေး၍ ပြန်လွှတ်လေ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၁

**ရေသောက်ချင်၍ ရေအိုးမရှိသော ဆရာလုံး**

ဆရာလုံးသည် ဆုံးမဩဝါဒကို နာယူပြီး ရေသောက်လို၍ ရေအိုးမေးလျှောက်ရာ "ငါ့မှာ ရေအိုးလဲမရှိဘူး၊ သောက်ရေခွက်လဲ ရှင်တော်ဘုရားကပ်ရတာနဲ့၊ ငါသောက်ရတဲ့ခွက်နဲ့ အတူတူဖြစ်နေလို့ စိတ်မချမ်းမမြေ့ ကပ်နေရတယ်" ဟု ပြန်လည်မိန့်ကြားတော်မူ၏။ ထိုအချိန်အခါက ဆရာတော်ဘုဉ်းပေးသည့် သပိတ်ဖြင့်ပင် ဘုရားရှင်ကို ဆွမ်းကပ်လှူရကြောင်း၊ သောက်ရေခွက်ကို လည်းကောင်း၊ သီးခြားမထားနိုင်သည့်အကြောင်း ဖယောင်းတိုင်တစ်တိုင်ကိုပင် ၃ - ၄ ညခွဲကာ ပူဇော်ရသည့်အကြောင်းရင်းများကို သိရှိရ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၂

**ဆွမ်းခံကြွပုံ ကြွနည်း**

အရညကင်ဓုတင်ဆောင် ပရက္ကမညီနောင် ဆရာတော်နှစ်ပါးတို့သည် ဆွမ်းခံကြွတော်မူကြသောအခါ သပိတ်ကိုလွယ် သင်္ကန်းသုံးထည်ဖြင့် တောင်ဝှေးကိုင်ကာ ကမ္မဋ္ဌာန်းဘာဝနာဖြင့် ကြွတော်မူကြလေ၏။ ရွာတွင်း ဆွမ်းခံဝင်သောအခါ ဖိနပ်ထည့်လွယ်ရန် ဖိနပ်အိတ်နှင့် ရေပူး

http://www.dhammadownload.com



တို့ကိုလည်း တောနေ ရဟန်းတို့အင်္ဂါ ပြည့်ဝစွာဖြင့် ဆွမ်းခံဝင်လေ့ရှိကြ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၄

## ကြည်ညို၍မဝကြ

ထိုသို့ နေ့စဉ်နှင့်အမျှ ဆွမ်းခံကြွနေကြသည်ကို ဒါယကာ ဒါယိကာမများသာ ကြည်ညို၍ မဝရှိ သည်မဟုတ်၊ ဂါမဝါသီ အရညဝါသီ ရှင်ရဟန်းတို့ကလည်း ကြည်ညို၍မဝကြ၊ တောနေ ရဟန်း ပီသကြောင်းကိုလည်း မှတ်တမ်းရှိ၏။

> ကျမ်းကိုး။ အဂ္ဂမဟာပဏ္ဍိတ အဘိဓဇမဟာရဋ္ဌဂုရု၊ ရွှေကျင်သာသနာပိုင် ရွှေဟင်္သာဆရာ တော်ဘုရားကြီးကလည်း နှုတ်ဖြင့်လည်း အမိန့်ရှိ၊ စာဖြင့်လည်း ရွှေကျင်သာသနာဝင်တွင် မှတ်တမ်းတင်ခဲ့လေ၏။ ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၄ ကို ကြည့်။

## ပထမ မစိုးရိမ်ဆရာတော် ကိုယ်တော်တိုင် ခြေဆေးပေး ဝတ်ပြုကြောင်းအံ့ဖွယ်

ရွှေကျင် ပထမ မစိုးရိမ်ဆရာတော်ကလည်း ဆရာတော်နှစ်ပါး နေ့စဉ်နှင့်အမျှ ဆွမ်းခံကြွတာကို တစ်ဆင့်ကြား ကြည်ညိုလွန်းလို့ တစ်နေ့တော့ ကိုယ်တိုင်လာကြည်ညိုတယ်၊ ဖူးမြော် တယ်၊ ကြည်ညိုလို့ ဖူးမြော်လို့ကမဝတာနဲ့ အနောက် ဆရာတော်ထံ ခြေဆေးဝတ်ပေးရန် ခွင့်ပန်တယ်၊ ဒါပေမယ့် မရခဲ့ဘူး၊ အနောက်ဆရာတော်က ငြင်းဆန်တယ်။ ဒါနဲ့ အဲဒီနေ့က ခြေဆေးမပေးခဲ့ရ ဘူး၊ နောက်တစ်နေ့ ဆက်လာတယ်၊ ဆရာတော် မကြွလာခင် ခြေဆေးရေခပ်ယူပြီး စောင့်နေ တယ်၊ အနောက်ဆရာတော်ကို ထပ်မံပြီး ခွင့်ပန်ပြန်တယ်၊ ဒါလဲ ဆရာတော်က ငြင်းပြန်တယ်၊ ဒါနဲ့မငြင်းဆန်ရန် ဖွတ်အတင်းခွင့်ပန်တယ်၊ ဒီတော့မှ အနောက်ဆရာတော်က ရဟန်းဝါ မေးတယ်၊ ဝါမေးပြီးမှ ခြေဆေးဝတ်ကို ခွင့်ပေးတယ်၊ ဒီလို တစ်ဆယ့်ငါးရက်လောက် ခြေဆေး ပေးတဲ့ ဝတ်ကို ပြုရဖူးတယ်၊ ခြေဆေးပေးရင်း မသိမသာ ခြေလက္ခဏာကြည့်လိုက်ရတယ်၊ အလွန်ထူးဆန်းတဲ့ ခြေလက္ခဏာ အမှတ်အသားများပါတယ်ဟု မှတ်တမ်းရှိ၏။ စာရေးသူနှင့် သတင်းထောက် ဦးသောင်းညွန့်တို့အား မိန့်ကြားလိုက်၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၄

## သမ္ဗုဏ္ဏာရာမဆရာတော်ကပင် ဆွမ်းလောင်းတော်မူခြင်းအံ့ဖွယ်

ပရက္ကမညီနောင် ဆရာတော်နှစ်ပါးကို အားထားကြည်ညို ဝတ်ပြုကြသည့် ရဟန်းရှင်လူ တို့တွင် သမ္ဗုဏ္ဏာရာမ တိုက်သစ်ဆရာတော်သည်လည်း ပါဝင်၏။ ဆရာတော်နှစ်ပါး ဆွမ်းခံ အပြန်တွင် နေ့စဉ်ဆီးကြိုကာ ဆွမ်းလောင်းလေ့ရှိ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၆)

## မြေကြောရှုံ့ခြင်းပေလော

တစ်ခါသော် ဆရာတော်နှစ်ပါးကို ထွင့်ခေါင်ဘုရား တောင်ဘက်၊ မင်းဝံတောင်ရိုးပေါ် မြင်လိုက် ရပြီး ယင်းမင်းဝံတောင်နှင့် ၁၅ မိနစ်ခန့် ဆင့်တက်ရသည့် မိမိအနီး မိုက်ကျူးညွန့် ဇရပ်နှင့် ရုံတော်ကြီးစတိုး ဇရပ်ကြား ရုတ်ခြည်း မယုံကြည်နိုင်အောင် ရောက်လာသည်ကို အံ့ဩစွာ ဖူးမြင်ရဖူးကြောင်း မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၆

## ဖူးသူများ များပြား၍ ပြတင်းပေါက် ပိတ်ထားရ

အနောက်ပရက္ကမ ဆရာတော်သည် တစ်ပါးတည်း ကေစာရသခ်မ်းကျောင်းထဲတွင် သီတင်းသုံး နေ၏။ ထိုအခါ အချို့လမ်းမသိ၍မေးသူနှင့် အချို့ဆရာတော်ကို ဖူးတွေ့ရန်လာသူတို့က လမ်းမေးကြ ဖူးမြော်ကြနှင့် ဖြစ်နေ၍ နေ့အခါတွင် စကြံကျောင်းထဲဝင်ကာ အတွင်းက ချက်ချ

http://www.dhammadownload.com



မင်းတုပ်လျှို၍ သီတင်းသုံးအားထုတ်ရလေ၏။ သို့သော်လည်း ပြတင်းပေါက် ဖွင့်ထားလျှင် ပြတင်းပေါက်မှ ချောင်းမြောင်းကြည့်ရှု ဖူးမြော်ကြလေ၏။ ထို့ကြောင့် ပြတင်းပေါက်ကိုပင် ပိတ်ထားပြီး အားထုတ်ရကြောင်းကို မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၇

**လူမတွေ့အောင် ပုန်းရှောင်ကာ အားထုတ်ရကြောင်း**

ဤသို့ လူသူမတွေ့အောင် ပုန်းရှောင်ကာ သမထ ဝိပဿနာ ဘာဝနာများကိုမှတ်သား ပွားများ အားထုတ်၍ နေလေ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၇

**အလုပ်ပျက်သောကြောင့် လုံခြုံရာသို့ ပြောင်းရ**

ဤအနောက်ပရက္ကမချောင်သည် ချောင်ကျ၍ တိတ်ဆိတ်လှသော်လည်း လမ်းမေးသူနှင့် အဖူး အမြော်လာကြသူတို့ကြောင့် တစ်ချက်တစ်ချက် အလုပ်ပျက်ရ၏။ ထို့ကြောင့် နေ့အခါ သင်္ခမ်း ကျောင်းမှ လုံခြုံရာစကြံကျောင်းသို့ ပြောင်းရွှေ့ပုန်းအောင်း၍ အားထုတ်ရလေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၇)

**နေ့အခါ ဗုဒ္ဓါဝတ်ပြု**
**ညဉ့်အခါ ဘာဝနာပြု**

ဆွမ်းဘုဉ်းပေးပြီးလျှင် အလုပ်ခွင်ဝင်သည့် အချိန်သည် တစ်နေ့ပတ်လုံးဖြစ်၏။ ညနေ နေဝင်၍ လူသူရှင်းချိန်လောက်မှ အလုပ်ခွင်မှထွက်ကာ တံမြက်လှည်းခြင်း၊ သောက်ရေသုံးရေဝတ်၊ မဟာဗောဓိဝတ်၊ စေတီယင်္ဂဏဝတ်စသော နိဗ္ဗတ်ဝတ်တို့ကို နေ့စဉ်မပြတ် ပြုလုပ်လေ၏။ ညဉ့် အခါမှာလည်း နာရီအချိန်ကို ကြယ်နက္ခတ်ဖြင့်သတ်မှတ်ကာ ဘာဝနာလုပ်ငန်းကို စီးဖြန်းလေ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၁၆၈)

**ညအိပ်စောင့်၍ဆွမ်းလောင်းကြရ**

အမြို့မြို့အနယ်နယ်မှ ဘုရားဖူးများ လာကြသည့် ရဟန်းရှင်လူ ပြည်သူတို့ကလည်း ချောင် အသီးသီးတွင် ညဉ့်အိပ်တည်းခိုကြကာ ဆရာတော်နှစ်ပါးအား ဆွမ်းလောင်းလှူကြ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၄၆)

**သာသနာရေးဝန်ကြီး ဦးဝင်းကိုယ်ကိုင် ဆွမ်းလောင်းချင်၍**

ထိုပြည်သူအပေါင်းတို့တွင် ဦးဝင်း (သာသနာရေးဝန်ကြီးဟောင်း)၏ မယုံနိုင်အောင် အံ့သြရ ပုံကို အနည်းငယ် ဖော်ပြပါမည်။

**လူမရှိဘဲ ဆွမ်းပြည့်နေကြောင်း မျက်မြင် သက်သေရှိ**

ဦးဝင်းသည် အနောက်ပရက္ကမကျောင်းဝင်း အနောက်ပေါက်မှ ဆရာတော်နှစ်ပါးအား လက်ဦး ဆုံး ဆွမ်းလောင်းရန် စောင့်နေ၏။ ဦးဝင်း၏ ရှေ့၌ဆွမ်းလောင်းမည့်လူ တစ်ဦး တစ်ယောက်မျှ မရှိ။ သို့သော် ဆရာတော်နှစ်ပါး ဆွမ်းခံကြွလာ၍ ဦးဝင်း ဆွမ်းလောင်းရန် သပိတ်ကို ဖွင့်လိုက် သောအခါ ဦးဝင်းမှာ မယုံနိုင်အောင် အံ့သြဖွယ်ရာ ဆရာတော်နှစ်ပါး၏ သပိတ်များထဲတွင် ဆွမ်းများဖြင့်ရှိသည်နှင့်ကို မြင်တွေ့ရ၏။ ဆရာတော်နှစ်ပါးတို့သည် ကျောင်းအတွင်း မည်သူ၏ ဆွမ်းကိုမျှ မခံယူ၊ ဦးဝင်း၏ရှေ့၌လည်း လူတစ်ယောက်မျှမရှိခြင်းကြောင့် ပိုမို၍ယုံကြည် ကြည်ညို ခြင်းဖြစ်ရ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၄၇

http://www.dhammadownload.com



**ပဲဆွမ်း အဓိဋ္ဌာန်**

အေဒီ ၁၉၆၁ ၁၃၂၃ ခုနှစ်၊ ဝါဆိုလပြည့်နေ့ ညဥ့်တွင် အနောက်ဆရာတော်သည် မည်သည့်အာဟာရကို ဘုဉ်းပေး၍ တရားအားထုတ်မည်ကို တွေးတောဆင်ခြင်ကာ ပဲဆွမ်း အာဟာရကို ဘုဉ်းပေး၍ တရားအားထုတ်ရန် အဓိဋ္ဌာန်လိုက်ကြောင်း သိရှိရ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၄၈

**တစ်ခါက တစ်ပါးတည်း ဆွမ်းခံကြွခဲ့ဖူး၏။**

အေဒီ ၁၉၆၁ ၁၃၂၃ ခုနှစ် ဝါဆိုလပြည့်နေ့ ၁ ရက်နေ့တွင် အနောက်ပရက္ကမ ဆရာတော်သည် ရွာထောင်ရွေသမား ဒိုးဘိုရွာတို့သို့ တစ်ပါးတည်းသာ ဆွမ်းခံကြွတော်မူ၏။ ဆရာတော်အဖို့ တစ်ပါးတည်း ဆွမ်းခံကြွရသည်မှာ မည်သို့မျှ မဖြစ်သော်လည်း ဆွမ်းဒါယကာ၊ ဒါယိကာမများနှင့် ဖူးမြော်ကြည်ညိုကြသူ ဒါယကာ၊ ဒါယိကာမများမှာတော့ အခါတိုင်း ညီနောင်နှစ်ပါး ကြွနေကြသည်ကို ဖူးမြော်နေကျဖြစ်၍ ယခု တစ်ပါးတည်းကြွလာသည်ကို ဝမ်းနည်းသလိုလို၊ လွမ်းသလိုလိုနှင့် ဝမ်းထဲမှာ ဟာနေကြ၏။

(ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၄၈)

**ပဲဆွမ်းအဓိဋ္ဌာန်**

ဘုရားတော်ကလည်း ပဲဆွမ်း ဘုဉ်းပေးရန် အဓိဋ္ဌာန်ကြောင့် ဒါယကာ ဒါယိကာမတို့ ကောင်းမွန်စွာ စီမံထားကြသည့် သက်သတ်လွတ် ဆွမ်းဟင်းများကို အလှူမခံ၊ ဒါယကာ ဒါယိကာမတို့ကလည်း ဆရာတော်၏ ပဲဆွမ်းဘုဉ်းပေးရန်အဓိဋ္ဌာန်ကိုမသိ၍ ဆွမ်း ဆွမ်းဟင်းများကို လောင်းရန် ကြိုးစားကြ၏။ ဆရာတော်က အလှူမခံ၊ ဝစီပယောဂနှုတ်ဖြင့် မမြွက်ကောင်း၍ ဆရာတော်ကလည်း နှုတ်ဖြင့် မမြွက်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၄၈

**ပဲဆွမ်းကိုသာ အလှူခံ**

ဒါယကာ၊ ဒါယိကာမတို့သည် ဆရာတော် ပဲဆွမ်းဘုဉ်းပေးကြောင်း သိသည်နှင့် ပဲပြုတ်သည်ထံမှ ပဲများကို အလုအယက် ဝယ်ယူကြကာ လောင်းလှူကြလေ၏။ အချို့က ပဲဆွမ်းကို ပဲနှင့် ကောက်ဆန်ရောေ၍ ချက်ထားသော ထမင်းဆွမ်းများကို လောင်းလှူကြ၏။ ဆရာတော်က အလှူမခံ၊ ပဲပြုတ်သက်သက်ကိုသာ အလှူခံ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၄၉

**သစ်သီးဆွမ်းအဓိဋ္ဌာန်**

ဆရာတော်သည် ပဲဆွမ်း ဘုဉ်းပေးပြီး သစ်သီးဆွမ်း ဘုဉ်းပေးပြန်၏။ သစ်သီးဆွမ်း ဘုဉ်းပေးစဉ်က ဝိညတ်၊ နိမိတ်၊ ဩဘာ စသော ဝစီပယောဂများ ကင်းလွတ်ကြောင်း မိန့်ဖူး၏။

**ငှက်ပျောသီးကိုသာ အလှူခံ**

"ဘုန်းကြီး သစ်သီးဆွမ်းဘုဉ်းပေးရန် အဓိဋ္ဌာန်ပြီး ဝတ်ချက်ရွာကို ဆွမ်းခံစကြွတယ်၊ ဝတ်ချက်ရွာ ဆွမ်းဒါယကာ ဒါယိကာမတွေကလည်း ခါတိုင်း လောင်းနေကျအတိုင်း မွှန်မြတ်တဲ့ ဆွမ်း ဆွမ်းဟင်းတွေစီမံပြီး စောင့်နေကြတယ်။ ဒါယိကာမကြီးတစ်ဦး ဆွမ်းလောင်းဖို့ ပြင်ထားတဲ့ အထဲ ငှက်ပျောသီးပါတယ်။ ဒါနဲ့ အဲဒီ ဒါယိကာမကြီးရှေ့ ရပ်တယ်၊ အဲဒီ ဒါယိကာမကြီးကလဲ ဆွမ်းလောင်းမလို့ ဆွမ်းခွက်ကိုင်လျက်နဲ့ ပျာယာခတ်နေတယ်၊ ဘုန်းကြီးကလဲ ဆွမ်းဟင်း ခွက်ကိုင်ထားတဲ့အခါ သပိတ်ဖွင့်မပေးဘူး၊ နောက်မှ ဒါယိကာမကြီးက ငှက်ပျောသီးကိုင်တယ် အဲဒီတော့မှ ဘုန်းကြီးက သပိတ်ဖွင့်ပေးပြီး ဆွမ်းခံတယ်၊ အဲဒီ ဒါယိကာမကြီးကလဲ သူ့

http://www.dhammadownload.com



ငှက်ပျောသီး လောင်းလိုက်ရလို့ အလွန့်အလွန်ကြီး ဝမ်းသာပြီး၊ ဆရာတော် ငှက်ပျောသီး အလှူခံတယ်ဟေ့၊ သစ်သီး ဆွမ်းဘုဉ်းပေးတယ်ဟေ့ဟု အော်လိုက် နှီးဆော်လိုက် ပြောလိုက်တယ် တခြား ဒါယကာ ဒါယိကာမတွေကလဲ ဈေးဆိုင်က ငှက်ပျောသီး စတဲ့ သစ်သီးများဝယ်ပြီး လောင်းကြတယ်။ ဒီလို စင်ကြယ်သန့်ရှင်းစွာနဲ့ သစ်သီးဆွမ်းကို ဘုဉ်းပေးခဲ့ရတယ်ကွဲ့" ဟု အမိန့်ရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၄၉

## ပရစိတ္တ ဝိဇ္ဇာနာနဉာဏ်ဆိုသည်မှာ

တစ်ခါကလည်း ဖွားဝဏ္ဏတို့ တူဝရီးတစ်စု ဆွမ်းလောင်းလာကြရင်း လမ်းတွင် ရန်ဖြစ်လာကြ၏။ ဆွမ်းလောင်းပြီး သီလယူ တရားဟောသောအခါ ခန္တိဝါဒီဇာတ်ကို ဟော၏။ ဒါကလဲ ဆရာတော်ဟာ သူတစ်ပါးစိတ်ကို သိသော ပရစိတ္တ ဝိဇ္ဇာနာနဉာဏ်ရ၍သော လမ်းမှာ ရန်ဖြစ်လာကြတာကိုသိ၍ ခန္တိဝါဒီဇာတ်ကို ဟောသည်ဟု ဖွားဝဏ္ဏက လျှောက်ထား၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၅၁

## ကားပျက်နေကြောင်း မပြောဘဲသိ

မဟာဗောဓိ အောက်စက်တော်ရာ ပါဒစေတီတော်နှင့် အနောက်ပရက္ကမတစ်ချောင်လုံး ပစ္စည်းလေးပါး ဒါယကာ ဦးဘရီ (လွတ်လပ်ရေး မော်ကွန်းဝင်) ဒေါ်ညွန့်ညွန့်မေ မိသားစု တို့ကလည်း ဆရာတော်သည် တပည့်တော်တို့ လာမည့်နေ့ ကြိုတင်သိနှင့်ကြောင်း တစ်ခါတလေ တပည့်တော်တို့ ကားပျက်နေသည်ကိုပင် မင်းတို့ကား ပျက်နေကြတာကိုးကွဲ့ဟု အမိန့်ရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၅၁

## အင်္ဂလိပ်စာ သင်ရင်မလာနဲ့ဟု ပြောဖူး၏

စာရေးသူ ကိုယ်တိုင်လည်း တွေ့ကြုံဖူးပါသည်။ တွေ့ကြုံရပုံမှာ စာရေးသူ အင်္ဂလိပ်စာ သင်နေစဉ် အခါက ဆရာတော်ထံ ရောက်သွား၏။ ဆရာတော်က "မင်း အင်္ဂလိပ်စာသင်နေရင် ငါ့ဆီမလာခဲ့နဲ့" ဟု အမိန့်ရှိ၍ အင်္ဂလိပ်စာမသင်ရပဲ ရပ်လိုက်တော့၏။ အင်္ဂလိပ်စာ သင်ကြောင်းကို ဆရာတော်အား မည်သူမျှ မလျှောက်ထား။ စာရေးသူလည်း အင်္ဂလိပ်စာသင်နေကြောင်း မည်သူမျှမသိအောင် တိတ်တခိုးသင်ခြင်း ဖြစ်၏။ သို့သော် ဆရာတော်ကား သိ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၅၂

## ပုန်းအောင်းအားထုတ်နေ၍
## ဆရာကိုယ်တိုင် လာရှာရာ ရှာမတွေ့

ဆရာတော်သည် ဤစစ်ကိုင်းတောင် ပရက္ကမချောင်သို့ ရောက်၍ နှစ် လ အတော်အတန်ကြာသောအခါ ဆရာတော်၏ ဆရာ မင်းကင်းမြို့နယ် ညောင်ပင်ရွာကျောင်း (ယခု ဒီပဲယင်းမြို့နယ်၊ တောင်ပြင်ငယ်ရွာ၊ တောင်ပေါ် တောရကျောင်း) ဦးပဏ္ဍိစ္စသည် ဆရာတော်ရှိရာ ဤပရက္ကမချောင်သို့ ကြွရောက်လာ၏။ ချောင်အတွင်း ရဟန်းလူရှင် မည်သူတစ်ဦးတစ်ယောက်မျှ မတွေ့ရ။ ဆရာတော်သည် လူသူကင်းရှင်းရာနေရာတွင် တစ်ပါးတည်း တစ်နေကုန် တရားအားထုတ်၍နေ၏။ မြနန်းလိုဏ်ဂူတော်ကြီး တည်ဆောက် ဖောက်ထွင်းပြီးသောအခါမှာလည်း မြနန်း လိုဏ်ဂူတော်ကြီး၏ အထက် လူသူမရောက်ရာ သင်္ခမ်းကျောင်းငယ်ကလေးထဲမှာ ပုန်းအောင်းကာ တရားအားထုတ်၍နေ၏။ ထို့ကြောင့် ဦးပဏ္ဍိစ္စသည် ဆရာတော်အား မတွေ့ရ။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၅၂

http://www.dhammadownload.com



**ကိုရင် ကျောင်းသားမထား**

**တစ်ပါးတည်းနေ**

ဆရာတော်သည် ဦးပဥ္စင်းရဟန်း ကိုရင်ကျောင်းသား ကပ္ပိယမထား တစ်ပါးတည်းသာ သီတင်းသုံး၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၅၂

**ဆရာက တကြော်ကြော်အော်ခေါ်**

ဆရာတော် ဦးပဏ္ဍိစ္စသည် ဆရာတော်ကိုလည်း မတွေ့ရ အခြား တစ်ဦးတစ်ယောက်ကိုမျှလည်း မတွေ့ရ၍ မိမိခေါ်နေကျအတိုင်း ဦးဝဏ္ဏ ဦးဝဏ္ဏဟု တကြော်ကြော် ခေါ်လေတော့၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၅၂

**ဆရာ့အသံ မှတ်မိ၍ ထွက်လာ**

ဆရာတော်ကလည်း တရားအားထုတ်ရာမှ ထ၍ မိမိဆရာ၏ အသံကိုလည်း မှတ်မိ၊ ငါ့ကို ဦးဝဏ္ဏခေါ်သူလည်း ငါ့ဆရာတစ်ပါးသာ ရှိ၏။ ကေန္တ ငါ့ဆရာ ငါ့ထံလာပြီ ဟု ဝမ်းပန်းတသာ ခရီးဦးကြိုခြင်းကို ပြုလေ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၅၂

**မဟူရာကျောက်ရတနာ**

မဟူရာတောင်သည်လည်း မြွေပိုင်းတောင်၏ အမြီးပိုင်းဖြစ်၍ မဟူရာတောင်မှ ထွက်သည့် မဟူရာကျောက်မြတ် ရတနာများသည်လည်း မြွေဆိပ်နိုင်ကြောင်း အသိအမှတ်ပြုထားကြ၏။ တကယ်အဆိပ်နိုင်သည့် မဟူရာကျောက်ရတနာတို့ကိုလည်း တွေ့ရတတ်၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၅၃

**ဆရာတော်မှာ ရှိ**

ဆရာတော်ထံမှာ ဤသို့ အစွမ်းထက်သော မဟူရာကျောက်မြတ်ရတနာ ရှိ၏။ ဤစစ်ကိုင်း အထိပင် ပါ၍လာ၏။ တစ်နေ့တွင် ယခုလက်ရှိ ကြွယ်လူးတောရဆရာတော်က မဟူရာကျောက်အကြောင်း လျှောက်ထား၍ ဆရာတော်က မဟူရာကျောက်အကြောင်း အမိန့်ရှိကာ "ဘုန်းကြီး မဟူရာကျောက်လဲ အစွမ်းတော့ ထက်ပါရဲ့၊ ဒါပေမယ့် ကမ္မဋ္ဌာန်း ဘုန်းကြီး အဆောင်မလိုတော့ပါဘူး အောက်မေ့လို့ ဒါယကာ တစ်ယောက်ကို စွန့်လိုက်တယ်" ဟု သိရ၏။

ကျမ်းကိုး။ ထိုသို့ အမိန့်ရှိကြောင်း ကြွယ်လူး ဆရာတော်က မိန့်ကြား၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၅၃။

**အဆောင်ကောင်းဆိုသည်မှာ**

ကမ္မဋ္ဌာန်းဘုန်းကြီး ယောဂီသူတော်စင်တို့မှာ လောကီလက်ဖွဲ့ စသော အဆောင်အယောင်များ မလိုလား ကြတော့ပေ။ ထာဝရ ပွားများနေကြသည့် ကမ္မဋ္ဌာန်းများက အဆောင်များဖြစ်၍ နေ၏။ ဥပမာ ဗုဒ္ဓါနုဿတိ ပွားများသည့် ယောဂီပုဂ္ဂိုလ်သည် ယင်း ဗုဒ္ဓါနုဿတိ ကမ္မဋ္ဌာန်း ကပင် အဆောင်ဖြစ်နေတော့၏ဟု ဆို၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၅၅

**သုသာန်မှာ ဂါထာမန္တန်စုတ်ခဲ့ဖူး၏။ သို့သော်**

ယခင် ညောင်ပင်သာ၌ နေစဉ်က သုသာန်ဓုတင်မဟုတ်ဘဲ ညဥ့်အခါ ၄၅ ရက် သုသာန်၌ နေ၏။ မေတ္တာပွား မန္တန်ဂါထာ စုတ်ခဲ့ဖူး၏။ ၄၅ ရက်စေ့လျှင် မိမိလိုသည့် လာဘ်လာဘများ ပေါ်များ၏ဟု ဆို၏။ လောကီဆန်၏ ယင်းအလုပ်ကို တစ်ဝက်တပျက်နှင့် ဖျက်ပစ်ခဲ့၏။

ကျမ်းကိုး။ ကြွယ်လူး ဆရာတော်အား အမိန့်ရှိဖူးကြောင်းကို ကြွယ်လူးဆရာတော်က မိန့်ကြားဖူး၏။ ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၅၅။

http://www.dhammadownload.com



**ဗောဓိပင်ပူဇော်ခြင်း အကျိုးကို**
**ရေးလည်းရေး ဟောလည်းဟော**

ဆရာတော်ဘုရားကြီးသည် မဟာဗောဓိ ပူဇော် ကိုးကွယ်ခြင်းနှင့် စပ်လျဉ်း၍ ရရှိသည့် အကျိုးအာနိသင်တို့ကို အပါဒါန် ပါဠိတော်မှ ထုတ်နုတ်၍ အောက်ပါအတိုင်း ရေးသားထားသည်ကို အကျဉ်းအားဖြင့် ဖော်ပြလိုက်၏။

၁။ ကမ္ဘာတစ်သိန်းထက် ပဒုမုတ္တရ ဘုရားသခင်၏ ဗောဓိပင်ကို နံ့သာရည်ဖြင့် သွန်းလျှဖူး၍ ရဟန္တာဖြစ်သော ဂန္ဓောဒကိယထေရ်။

၂။ ၎င်းကမ္ဘာ၊ ၎င်းဘုရားသခင်၏ ဗောဓိပင်၌ ဆီမီးငါးခွက်ရရှိ၍ ညှိထွန်းပူဇော်ခဲ့သော ရဟန္တာ ပဉ္စဒီပိကထေရ်။

၃။ ၎င်းကမ္ဘာ၊ ၎င်းဘုရားသခင်၏ ဗောဓိပင်၌ တံခွန်ပူဇော်ခြင်း အရွက်ဟောင်းကို သိမ်းဆည်းခြင်း ရှိခိုးခြင်းပြု၍ ရဟန္တာဖြစ်သော ဓဇဒါယတ ထေရ်။

၄။ ကိုးဆယ့်နှစ်ကမ္ဘာထက် တိဿဘုရားသခင်၏ ဗောဓိပင်ကို စိုက်ပျိုးပြုစုခဲ့ဖူး၍ ရဟန္တာဖြစ်သော အဿန ဗောဓိယထေရ်။

၅။ ကိုးဆယ့်တစ်ကမ္ဘာထက် ဝိပဿီဘုရားသခင်၏ ဗောဓိပင်ကို ပန်းရည်ကျသွန်း ပူဇော်ဖူး၍ ရဟန္တာဖြစ်သော ဗောဓိသဥ္စယထေရ်။

၆။ ၎င်းကမ္ဘာ ၎င်း ဘုရားသခင်၏ သခွတ် ဗောဓိပင်ကို ပန်းသုံးပွင့်တို့ဖြင့် ပူဇော်ပြီးလျှင်၊ ကြွေကျသော အရွက်တို့ကို သုတ်သင်ခဲ့ဖူး၍ ရဟန္တာဖြစ်သော တိပုပ္ဖိယထေရ်။

၇။ တစ်သင်္ချေနှင့် ကမ္ဘာတစ်သိန်းထက် အနောမဒဿီ ဘုရားသခင်၏ ဗောဓိပင်ကို အင်္ဂတေ လိမ်းကျံပူဇော်ခဲ့ဖူး၍ ရဟန္တာဖြစ်သော အနုလေပဒါယကထေရ်။

၈။ တိဿဘုရားသခင် သခွတ်ဗောဓိပင်ကို သခွတ်ဖိုပန်းတို့ဖြင့် ကြဲလျက် တံမြက်သိမ်းလှည်း ပူဇော်ခဲ့ဖူး၍ ရဟန္တာဖြစ်သော တမ္ဗပုပ္ဖိယ ထေရ်။

၉။ ပဒုမုတ္တရ ဘုရားသခင်၏ ထင်းရှူးဗောဓိပင်ကို ရှိခိုးပူဇော်ခဲ့ဖူး၍ ရဟန္တာဖြစ်သော သီဟာသန ထေရ်။

၁၀။ ၎င်းဘုရားသခင်၏ ဗောဓိပင်ကို ဆီမီးတစ်တိုင် လှူခဲ့ဖူး၍ ရဟန္တာဖြစ်သော ဧကဒီပိယ ထေရ်။

၁၁။ တစ်ရာတစ်ဆယ့်တစ်ကမ္ဘာထက် အတ္ထဒဿီ ဘုရားသခင်၏ ဗောဓိပင်ကို ညဥ့် နံနက် အမြဲ မုရိုးစည်ဖြင့် ပူဇော်ဖူး၍ ရဟန္တာဖြစ်သော ဗောဓိဥပဋ္ဌကထေရ်။

၁၂။ ကိုးဆယ့်တစ်ကမ္ဘာထက် ဝိပဿီဘုရားသခင်၏ ဗောဓိပင်ကို ပွတ်တိုင်ခြံရံ၍ ပူဇော်ခဲ့ဖူး၍ ရဟန္တာဖြစ်သော ဝေဒိကာရကထေရ်။

၁၃။ ၎င်းဘုရားသခင်၏ ဗောဓိပင်ကို ဘုရားကဲ့သို့ မှတ်၍ ရှိခိုးပူဇော်ခဲ့ဖူး၍ ရဟန္တာဖြစ်သော ဗောဓိဝန္ဒကထေရ်။

၁၄။ ၎င်းဘုရားသခင်၏ ဗောဓိပင်ကို တံမြက်သိမ်းလှည်း၍ ရှိခိုးပူဇော်ခဲ့ဖူး၍ ရဟန္တာဖြစ်သော သင်္ကသမဇ္ဇကထေရ်။

၁၅။ ၎င်းဘုရားသခင်၏ ဗောဓိပင်ကို ပန်း ပူဇော်ခဲ့ဖူး၍ ရဟန္တာ ဖြစ်သော ဥဒဏ္ဍ ပုပ္ဖိယထေရ်။

၁၆။ ပဒုမုတ္တရ မြတ်စွာဘုရားသခင်၏ ဗောဓိပင်ကို မြတ်သောနေရာပြု၍ ပူဇော်ခဲ့ဖူး၍ ရဟန္တာ ဖြစ်သော သီဟာသနိက ထေရ်။

http://www.dhammadownload.com



၁၇။ ၎င်းဘုရားသခင်၏ ဗောဓိပင်ကို ပွတ်တိုင် အခြံအရံပြု၍ ပူဇော်ခဲ့ဖူး၍ ရဟန္တာဖြစ်သော ဝေဓိကာရထေရ်။

၁၈။ ကိုးဆယ့်တစ်ကမ္ဘာထက် သိဒ္ဓတ္ထဘုရားသခင်၏ ဗောဓိပင်ကို ဗောဓိအိမ်ပြု၍ ပူဇော်ခဲ့ဖူး၍ ရဟန္တာဖြစ်သော ဗောဓိဃရ ဒါယကထေရ်။

၁၉။ ကိုးဆယ့်နှစ်ကမ္ဘာထက် တိဿဘုရားသခင်၏ ဗောဓိပင်နှင့် ရွှေပလ္လင်ကို ကပ်လှူခဲ့ဖူး၍ ရဟန္တာဖြစ်သော သီဟာသန ဗီဇိတထေရ်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၇၆

ကျမ်းကိုး။ ဆရာတော်ဘုရားကြီးသည် မဟာဗောဓိ စိုက်ပျိုးပူဇော်စဉ်အခါက မဟာဗောဓိ ဒါယကာ ဒါယိကာမ မိသားတို့နှင့် ဦးတင် ဦးတင်ထွန်း (ဓာတ်ပုံ) စသော ဒါယကာ ဒါယိကာမ တို့အား မဟာဗောဓိ ပူဇော်၍ ရရှိသောအကျိုး တရားတို့ကို အထက်ဖော်ပြပါ ထေရာ အပဒါန် ပါဠိတော်မှ ထုတ်ယူ၍ ဟောလည်း ဟောကြားခဲ့၏။ ရေးလည်း ရေးသားခဲ့၏။ ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၇၆ ကို ကြည့်ပါ။

**မဟာဗောဓိကျောက်စာ**

အေဒီ ၁၉၇၄ မဟာဗောဓိ ကမ္ဗည်းကျောက်စာကို ၁၃၃၆ ခုနှစ် နတ်တော်လဆန်း ၁၃ ရက် (၁၉၇၄ ခု၊ ဒီဇင်ဘာလ ၂၉ ရက် ) ကြာသပတေးနေ့တွင် ရေးပြီး၏။ ရေးပြီးသောအခါ မဟာဗောဓိ ဒါယကာက လယ်တီ ဦးလှပိုင်အား ဉာဏ်ပူဇော်ခ ပေး၏။

ကျမ်းကိုး။ လယ်တီဦးလှပိုင်ကလည်း ဆရာတော်ဘုရားကြီးအား ကြည်ညိုလှ၍ တစ်ကြောင်း ဆရာတော်ဘုရားကြီးနှင့် မိမိတို့ လယ်တီ၌ အတူနေခဲ့ရ၍ လယ်တီဂိုဏ်းသားဖြစ်၍က တစ်ကြောင်းဖြစ်၍မလိုကြောင်း ငြင်းပယ်၏။ ထိုအခါ ဗောဓိဒါယကာက မယူလျှင် ယူ အောင်ပေးမည်ဟူသောအကြံဖြင့် လက်စွပ်ကိုကိုယ်တိုင်ဝတ်ပေးကာ ကန်တော့၏။ လယ်တီ ဦးလှပိုင်လည်း ဗောဓိဒါယကာ၏ စေတနာကို ငဲ့ရလေတော့၏။ ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၇၆ကိုကြည့်။

အေဒီ ၁၉၇၅ အလျား ၅ ပေ၊ အနံ ၄ ပေ၊ ထု ၄ လက်မရှိ ကျောက်ပြားကြီးပေါ်တွင် ရွှေစေ့သာသာခန့်စာလုံး၊ အကြောင်း ပေါင်း ၉၀ ရှိသော ကြီးမားကောင်း မွန်သော တစ်ဖက်ရေး ကျောက်စာကြီးကို မန္တလေးမြို့မှ ဤအနောက်ပရက္ကမချောင်သို့ ၁၃၃၇ ခုနှစ်၊ တပို့တွဲလပြည့်နေ့တွင် အရောက် တင်ကာ စိုက်ထူထားခဲ့၏။

ကျမ်းကိုး။ ဗောဓိဒါယကာသည် စစ်ကိုင်းတိုင်း၊ တိုင်းသာသနာရေး ဦးစီးမှူး၊ ပါဠိပထမကျော် လယ်တီ ဦးလှပိုင် ရေးသားသည့် မဟာဗောဓိ ကမ္ဗည်းကျောက်စာကို ကျောက်စာထုလုပ်ရန် မန္တလေးမြို့ ကျောက်ဆစ် ဆရာကြီး ဦးစံရှင်အား အပ်နှံခဲ့၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ- ၂၇၆။

**လူတစ်ရာကျော် သောက်ရေကပ်သည်ကို အားလုံး ဘူဦးပေးခြင်း အံ့ဖွယ်**

စစ်ကိုင်းကောင်းမှုတော်ကြီးကို မီးထွန်းကြွစဉ် လမ်းခရီးတွင်လည်း ဆရာတော်ဘုရားကြီးအား သောက် ရေကပ်ကြသည်မှာလည်း အလွန်များ၏။ သောက်ရေကပ်လူဦးရေ ရာကျော်လိမ့်မည် ဟုပင် ထင်၏။ ကပ်တိုင်း ကပ်တိုင်း သောက်ရေများကိုလည်း ဘူဦးပေးတော်မူ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၈၅

**သောက်ရေအကျန်များကို သိဒ္ဓိမြောက်သည်ဟု စွဲထားကြ**

သောက်ရေ ကပ်လှူသူများက ဆရာတော်ဘုရားကြီး၏ သောက်ကြွင်း သောက်ကျန် ရေကို အန္တရာယ်ခပင်း ကင်းရှင်းရန် စသည် ရည်ရွယ်၍ သိုမှီး သိမ်းဆည်းထားကြ၏။

http://www.dhammadownload.com



ကျမ်းကိုး။ ၎င်းအကြွင်းအကျန်သောက်တော်ရေမှာ သမ္ဗုဏ္ဍာရာမတိုက်သစ်ဆရာတော် စသည်တို့၏ အထံမှာ ယခုတိုင်ရှိကြ၏။ ဆရာတော်ဘုရားကြီးအား သောက်ရေကပ်လှူသူတို့၏ စေတနာကို ငဲ့၍သာ ဘုဉ်းပေးတော်မူ၏။ အခြားအကြောင်းကို သိကောင်းအံ့မထင်ဟု တွေ့ရ၏။ ကျမ်းကိုး။ ယင်းကျမ်း စာ ၂၈၅ကိုလည်းကြည့်။

**ကောင်းမှုတော်မှတ်တမ်းများ**

အောဒီ ၁၉၆၄ ဆရာတော်ဘုရားကြီး ကောင်းမှုတော် မီးထွန်းပွဲတော်သို့ ကြွတော်မူသောအခါ ဖယောင်းတိုင် အမွှေးတိုင် သောက်ရေ ပန်းလှူဒါန်းနေကြသည်များကိုလည်းကောင်း၊ ဖူးမြော်ရှိခိုး ပူဇော်နေပုံများကိုလည်းကောင်း၊ စုံစုံလင်လင် မှတ်တမ်းတင်ထားသူများ ရှိ၏။

ကျမ်းကိုး။ ဦးတင်ထွန်း (ဓာတ်ပုံတင်ထွန်း) က ၁၃၂၆ ခုနှစ်၊ ၁၃၂၇ ခု၊ ၁၃၂၈ ခုနှစ် စသည် နှစ်များတွင် ဓာတ်ပုံဖြင့် မှတ်တမ်းတင်ထား၏။ ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၈၅ကိုလည်းကြည့်။

**ကုသိုလ်တော်စရိုးစဉ်**

ဆရာတော်ဘုရားကြီး ကြွတော်မူခဲ့သည့် ခရီးစဉ်မှာ တောင်ခြေမှ မြို့သစ်၊ ယင်းမှ ဘူတာ၊ ယင်းမှ မိုးဇာဈေး၊ ယင်းမှ ပန်းပဲတန်း၊ ယင်းမှ အိုးဘို၊ ရွှေသမား၊ ရွာထောင်၊ ပြူကံ၊ ကျောက်ဆစ်၊ မန်ကျီးစင်၊ စသည်တို့မှ ကောင်းမှုတော်သို့ ဖြစ်၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၈၆

**ဆရာတော်ကိုယ်တိုင် ရေးခဲ့သော မှတ်တမ်းအစစ်**

အောဒီ ၁၉၆၂ ဤသို့ လှူဒါန်းပူဇော်ရကြောင်းကို ဆရာတော်ကိုယ်တိုင် ၁၃၂၄ ခုနှစ် တပေါင်းလပြည့်နေ့က စ၍မှတ်သော မှတ်စုတွင် အောက်ပါအတိုင်း တွေ့ရ၏။

ရာဇမဏိစူဠာ ဘွဲ့အမည်တော် ရှိသော ကောင်းမှုတော် မြတ်စွာဘုရားကြီးအား ရွှေသင်္ကန်းနှင့်တကွ ဆီမီးငါး ထောင်၊ ပန်းနံ့သာ စသည်တို့ဖြင့် လှူဒါန်းပူဇော်ရပါသည်။ ဘုရားအမှူးရှိသော သံဃာတော် ၁၂ ပါးတို့အား တစ်ပါးလျှင် ဖယောင်းတိုင် ၁၂ ထုပ်၊ အမွှေးတိုင် မီးခြစ် ဆပ်ပြာနှင့်တကွ၊ ဆေးပစ္စည်းများကို သင့်လျော်သလို ဝမ်းမြောက်ဝမ်းသာ လှူဒါန်းကြရပါသည်။ ကောင်းမှုတော် မြတ်စွာဘုရားကြီးအတွက် ဆီမီးငါးထောင် အမွှေးတိုင် ငါးထောင်ဟု ပြောရ သော်လည်း မူတည် မ,တည် ငါးထောင်ကိုသာ အစွဲပြု၍ ပြောရပါသည်။ နောက်ထပ် ပါဝင် လှူဒါန်းကြသော ဆီမီးတိုင် အမွှေးတိုင်တို့ကား အမှတ်မရှိ တစ်သောင်း နှစ်သောင်း စသည်ဖြင့် ဝမ်းမြောက် ဝမ်းသာ ပျော်ပျော်ပါးပါး လှူဒါန်းရပါသည်ဟု ကိုယ်တော်တိုင် မှတ်တမ်းတင်ခဲ့၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၈၇

**နှစ်ပေါင်း ၁၃ နှစ်တိုင်တိုင် ကောင်းမှုတော်**

အောဒီ ၁၉၇၅ ၁၃၂၄ ခုနှစ်မှစ၍ ၁၃၃၇ ခုနှစ် ပျံလွန်တော်မူသည့်တိုင်အောင် ရွှေသင်္ကန်း၊ တိစီဝရိတ်သင်္ကန်း၊ ဆီမီးလျှပ်စစ် အင်ဂျင်မီး၊ ရေမွှေး၊ အမွှေးတိုင်၊ ပန်း စသည်တို့ လှူဒါန်းရကြောင်းတို့ကို မှတ်သား ထားသည်ကို တွေ့ရ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၈၇

**ဆရာတော်ကိုယ်တိုင် ဘုရားရှင်အား မျက်နှာတော်ကို သုတ်ကာလှူဒါန်း**

အောဒီ ၁၉၆၈ ၁၃၃၀ ပြည့်နှစ် တပေါင်းလပြည့်နေ့က ဆီမီးပူဇော်ပွဲတွင် အရှေ့ဘက်မုခ်နှင့် တောင်ဘက်မုခ် မြတ်စွာဘုရားကြီး နှစ်ဆူတို့အား တိစီဝရိက်သင်္ကန်း နှစ်စုံနှင့်တကွ မျက်နှာသုတ်ပဝါများကို ဝမ်းမြောက်ဝမ်းသာ ဆရာတော်ဘုရားကြီး ကိုယ်တိုင် (ရုပ်ပွားတော် မြတ်စွာဘုရားကြီး နှစ်ဆူ

http://www.dhammadownload.com



တို့အား) သက်ရှိသကဲ့သို့ သက်န်းများကို ခြုံသိုင်းကာ လှူဒါန်း၏။ မျက်နှာသုတ်ပဝါတို့ကိုလည်း ကိုယ်တိုင် မြတ်စွာဘုရား၏ မျက်နှာတော်ကို သုတ်ကာ လှူဒါန်း၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၈၉

**သက်ရှိ ထင်ရှားကဲ့သို့ ဘုရားရှင်အား လှူဒါန်းခြင်းအခမ်းအနား**

အေဒီ ၁၉၇၀ ၁၃၃၂ ခုနှစ် တပေါင်းလပြည့်နေ့ ဆီမီးပူဇော်ပွဲတွင် အနောက်ဘက်မုခ်နှင့် မြောက်ဘက်မုခ် ဘုရားကြီးနှစ်ဆူအား တိစီဝရိက်သင်္ကန်းနှစ်စုံနှင့် မျက်နှာသုတ်ပဝါများကို သက်တော်ထင်ရှား ကဲ့သို့ သင်္ကန်းများကို ရုံ၍လည်းကောင်း၊ မျက်နှာသုတ်ပဝါများကို သုတ်၍ လည်းကောင်း ဝမ်းမြောက် ဝမ်းသာ ဒါနပါရမီကို ဖြည့်ကျင့်၍နေ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၈၉

**တရားဖြင့် ပူဇော်ခြင်း**

ယင်း အာမိသဒါနပါရမီများဖြင့် ပြုလုပ်ပူဇော်ပြီးသောအခါ မိမိ၏ သမထ ဝိပဿနာ တရား ဘာဝနာအလုပ် အားဖြင့် ကောင်းမှုတော်ဘုရားကြီးအား ပူဇော်သည်မှာ ၃ နာရီခန့်မျှ ကြာ၏။

**ရင်ပြင်တော်ပူပူ နေပူပူမှာ**

သာမန်လူတို့ ဤမျှကြာအောင် ထိုင်နိုင်ဖို့ မလွယ်ကူချေ။ အကြောင်းမှာ ဘုရားကြီး၏ ရင်ပြင်တော်မှာ သမံတလင်းခင်းထား၏။ နေကလည်း နွေဦးပေါက်စမို့ အားပါးတရ ပြင်းထန်စွာ တစ်နေကုန်ပူထား၏။ ထို့ကြောင့် ဘုရားကြီးရင်ပြင်တော် သံမံတလင်းများကလည်း အပူငွေ့ ထဆဲမို့ သာမန်လူတို့ သုံးနာရီခန့် ထိုင်ရန် မလွယ်ကူချေ။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၈၉

**ဘုရားအား ပူဇော်ပုံ ပူဇော်နည်းအတုယူဖွယ်**

ဆရာတော်ဘုရားကြီး သမထ ဝိပဿနာဖြင့် ဘုရားကြီးအား ပူဇော်နေသည်မှာ သူတော်တကာ တို့ အတုယူ အားကျစရာပင် ဖြစ်၏။

**ဗောဓိတစ်ထောင်ဆရာတော်ကိုယ်တိုင် ဖူးခဲ့ရ**

မုံရွာမြို့ ဗောဓိတစ်ထောင် ဆရာတော် ဦးနာရဒက ဆရာတော်ဘုရားကြီးအား တပေါင်းလပြည့် နေ့ ကောင်းမှုတော် ဘုရားကြီး ဆီမီးပူဇော်ပွဲတွင် ဖူးမြင်ခဲ့ရ၍ အားကျကြည်ညိုမှုများ တဖွားဖွား ဖြစ်ပေါ်လာကြောင်း မိန့်ကြားဖူး၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၈၉

**ညလုံးပေါက်မီးအသေမခံဘဲ**
**နေ့စဉ်ပူဇော်ကုသိုလ်တော်**

ဆရာတော်ဘုရားကြီးသည် မြတ်စွာဘုရားအား အလွန်ပင် မီးလှူချင်၏။ ဤချောင်တွင် ရောက်စ ဖယောင်းတိုင် တစ်တိုင်ကို နှစ်ရက်သုံးရက်ခွဲကာ ပူဇော်ရစဉ်အခါကလည်း နေ့စဉ် ကြိုးစား၍ ပူဇော်ခဲ့ကြောင်းကိုလည်းကောင်း၊ ဖယောင်းတိုင် များများရလာသောအခါ ချောင် အတွင်းရှိ စေတီရုပ်ပွား မြတ်စွာဘုရားတို့အား ညလုံးပေါက် မီးအသေမခံဘဲ နေ့စဉ်အမြဲ ပူဇော်ကြောင်းကို လည်းကောင်း၊ တစ်ခါကလည်း ချောင်အတွင်း မြတ်စွာဘုရားတို့အား မီး တစ်ထောင်ပူဇော်လို၍ အုတ်ကျွတ်ပြားအဟောင်းများ မြေမှုန့်ပြောင်စင်အောင် ဆေးကြော၍ ပူဇော်ရကြောင်းကို လည်းကောင်း အမိန့်ရှိဖူး၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၈၉

http://www.dhammadownload.com



## ရွှေတိဂုံသို့ ပူဇော်ခြင်း
## အလောင်းတော်ကဿပသို့ ပူဇော်ခြင်းမှတ်သားဖွယ်

အေဒီ ၁၉၇၅

၁၃၃၇ ခု တပေါင်းလပြည့်နေ့က ရန်ကုန်မြို့ရှိ ရွှေတိဂုံဘုရားအားလည်းကောင်း၊ မုံရွာမြို့ အလောင်းတော် ကဿပ အရှင်မြတ်ကြီးအားလည်းကောင်း ဖယောင်းတိုင် အမွှေးတိုင် ရေမွှေး ပုလင်းများ လှူဒါန်းလိုကြောင်း မှတ်သားထားသည်ကို တွေ့ရ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၉၀

## ဆုတောင်းပုံ ဆုတောင်းနည်းကိုသင်ပြ

ဆရာတော်ဘုရားကြီးသည် ဝိဇ္ဇာ ဥဒပါဒိ အာလောကော ဥဒပါဒိ ဟူ၍သို့ ဆီမီးရောင်ဖြင့် အမှောင်ကို ခွင်းနိုင်သလို ဝိပဿနာတည်းဟူသော ဆီမီးရောင်ဖြင့်လည်း မောဟ စသော အဝိဇ္ဇာမှောင်တို့ကို ခွင်းနိုင်ကြစေကြောင်း ဆုတောင်းကြရန် သွန်သင်ခဲ့၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၂၉၀

## တံမြက်စည်းလှည်းခြင်းအလှူတော်

ရပ်ရွာကြွခိုက် ဆရာတော်ဘုရားကြီးသည် ဩဝါဒပေး လမ်းညွှန်မှုကိုပင် အစဉ်တစိုက် ပြုလျက်နေ၏။ တစ်နေ့တွင်လည်း "မောင်လူရင် မင်းကို ငါတာဝန်တစ်ခုပေးချင်တယ်၊ ယူနိုင်ပါ့ မလား" ဟု မေး၏။ မောင်လူရင်ကလည်း ယူနိုင်ကြောင်း ပြန်၍လျှောက်၏။ "တာဝန်ကတော့ ရွာဦးက ဖူးလို့လဲမဝ၊ အထူးကို ကြည်ညိုစရာကောင်းလှတဲ့ ပုဂံခေတ်က အလောင်းစည်သူ မင်းကြီး တည်ထားကိုးကွယ်တော်မူခဲ့တဲ့ ချမ်းသာကြီး စေတီတော်မြတ်ရဲ့ တံတိုင်းအတွင်း အပြင် နေ့စဉ် တံမြက်လှည်းရမယ်" ဟု အမိန့်ရှိ၏။ မောင်လူရင်ကလည်း လှည်းနိုင်ပါကြောင်း ထပ်လောင်း၍ တာဝန်ယူ၏။ တာဝန်ယူသည့်အတိုင်း သေသည့်တိုင်အောင် ဆောင်ရွက်၍ သွား၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၀၅

## ရေချမ်းစင် ရေပဒေသာပင်ပေါက်

ဆရာတော်ဘုရားကြီးသည် မိမိရပ်ရွာသို့ ပြန်လည် ရောက်ရှိနေခိုက်၊ ဩဝါဒ ဆုံးမစကားများ ထိုက်သလို ညွှန်ကြား၏။ "ရေချမ်းစင်တည်ကြကွဲ့၊ တစ်နေ့ရေပဒေသာပင် ပေါက်လာမှာ" ဟု အမိန့်ရှိ၏။ ရေအကျိုး ဆယ်ပါးကိုလည်း ရေလှူ၍ ရေပဒေသာပင် ပေါက်သော ကျွန်မ၏ ဇာတ်နိပါတ် သာဓကများဖြင့် ဟောပြ ဆုံးမ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၀၅

## ကင်းစမ်းရွာမှာ စေတီပေါင်း ၂၂၂ ဆူရှိ

စစ်ကိုင်းတိုင်း၊ ဘုတလင်မြို့နယ်၊ ကင်းစမ်းရွာသည် သမိုင်းဝင်ဘုရားကြီးများနှင့်တကွ၊ အုတ်ရိုး စေတီတော်များမှာ ၂၂၂ ဆူရှိကြောင်းကို မှတ်တမ်းပြုခဲ့ကြ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၀၅

ကျမ်းကိုး။ ရန်ကုန်မြို့ ရှေးဟောင်း သုတေသန ဦးစီးဌာန လက်ထောက် သုသေသနမှူး ဦးကျော်ငြိမ်းနှင့် ဦးငြိမ်းမောင်တို့ကလည်း ဤရွာသည် ရှေးအခါက မြို့ဖြစ်နိုင်ကြောင်း ရှေးဟောင်းစေတီပုထိုးတို့နှင့် ဂူအမျိုးမျိုးတို့ကို ထောက်၍ မှတ်ချက်ချကြ၏။ စေတီ ပုထိုး ဂူ (၂၂၂) ဆူဟု ဆိုရသော်လည်း ယင်းစေတီပုထိုး ဂူအတွင်းတို့၌ သိတင်းသုံးတော်မူကြသည့် ရုပ်ပွားတော်များပါ ရေတွက်မည်ဆိုလျှင် ပုဂံဘုရားပေါင်းကိုပင် မီမည်ထင်၏။ ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၀၇။

http://www.dhammadownload.com



**စေတီတော် ၁၆၀ ဆူ ကို**

**တစ်ဆူမကြွင်းကျန်ရ ဆိုမီးပူဇော် ကုသိုလ်တော်အတုယူ ဖွယ်**

အေဒီ ၁၉၆၆ မုံရွာခရိုင်၊ ဘုတလင်မြို့နယ်၊ ကင်းစမ်းရွာ ၁၆၀ ဆူ ရှိသော အုတ်ရိုး စေတီတော်များနှင့် ရွာလယ် ဓမ္မာရုံ ဘုရားဝတ်တက်ကျောင်း ရုပ်ပွားတော်၊ ဆင်းတုတော်များကိုပါ မကျန်၊ ဆီမီး အမွှေးတိုင် ရေမွှေး စသည်တို့ကို ၁၃၂၈ ခု နယုန်လဆန်း ၅ ရက် အင်္ဂါနေ့က လှူဒါန်းပူဇော်ခဲ့ပါသည်။

ကျမ်းကိုး။ ကင်းစမ်းရွာ အုတ်ရိုး စေတီ ပုထိုး ဂူအမျိုးမျိုးတို့သည် ကျော်ကြားခြင်း ၂၂၂ ဆူမျှသာ ကျန်တော့ဟန် ရှိ၏။ ၆၀ ဆူမှာ စေတီနေရာမျှကိုပင် ညွှန်ပြနိုင်သူ မရှိ။ ယင်းစေတီနေရာ ဟောင်းတို့ကို ရှေးဟောင်းသုတေသန ရှာဖွေ ဖော်ထုတ်သော် တိမ်မြုပ်နေသည့် သမိုင်းအစအန အထောက်အထားများ ထင်ရှားလာမည်ဟု ထင်၏။ ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၀၇။

ဆရာတော်ဘုရားကြီးသည် ယင်း ၁၆၀ ဆူကို ၂ ရက်ကျော်ကျော် ၃ ရက်တိုင်တိုင် လှူဒါန်းပူဇော်ကန်တော့၏။ ဆုတောင်း အမျှဝေ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၀၇

**ဆရာတော်ကြွသောအခါမှ စ၍**

**မိုးခေါင်နေရာမှာ နေ့တိုင်းမိုးရွာ**

အေဒီ ၁၉၆၆ ဆရာတော်ဘုရားကြီးသည် ကြွလာသော ၁၃၂၈ ခုနှစ်သည် ဆရာတော်ဘုရားကြီး ကြွလာသည့် နယုန်လဆန်း ၃ ရက်နေ့မှ စ၍ မိုးသည်းထန်စွာ ရွာသွန်း၍ ရေကန်များအားလုံး ၅ ရက်နေ့မှာပင် ပြည့်သည့်အပြင် လယ်များပင် ရေရကြ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၀၉

**မိုးခေါင်သော်လည်း ဆရာတော်ကြွသည့် ၃ ရက်အတွင်း**

**ရေတွင်းရေကန် ပြည့်၍လျှံ**

ကင်းစမ်းရွာသည် ပုထိုးစေတီ ဘုရားများသာ ပေါမျာသည်မဟုတ်။ ရေတွင်း ရေကန်တို့ကလည်း များပြားလှ၏။ ပုထိုးစေတီ ဂူကျောင်း ပြာသာဒ်တို့ ရွာကို ဝိုင်းပတ်သည့်အပြင် ရေတွင်း ရေကန်တို့ကလည်း ရွာကို ဝိုင်းရံထားကြ၏။ ထိုတွင် ၅ ဧကခန့်ရှိသည့် ရေကန်ကြီးတို့က ၃ ကန်၊ ၃ ဧကခန့်ရှိသည့် ရေကန်ကြီးတို့က ၅ ကန်၊ အုတ်ကန်ကြီး အုတ်ကန်ငယ် စသည်တို့ဖြင့် ၁၅ ကန်ခန့်ရှိ၏။ ရေတွင်းပေါင်းကလည်း ၁၅ တွင်းခန့် ရှိ၏။ ဤမျှ များပြားသည့် ရေတွင်း ရေကန်အားလုံး ဆရာတော်ဘုရားကြီး ကြွလာ၍ ၃ ရက်အတွင်း ပြည့်လျှံကြတော့၏။ နှစ်စဉ် နယုန်လအထိ ရေရှားနေသည့် အန္တရာယ်သည် ဆရာတော်ဘုရားကြီးကို အမှီပြု၍ ကင်းလွတ်ချမ်းသာကြ၏။

**မိုးကောင်းဆရာတော်ဟု ခေါ်ကြ**

အေဒီ ၁၉၆၆ နှစ်စဉ် လယ်ယာအတွက်လည်း မိုးနည်း၍ အထွက်နည်း၏။ ဆရာတော်ဘုရားကြီး ကြွလာသည့် ၁၃၂၈ ခုနှစ်မှ ၁၃၄၀ ခုနှစ်အထိ ၁၃ နှစ် တိုင်တိုင် မိုးကောင်းခဲ့၍ ဆရာတော်ဘုရားကြီးအား မိုးကောင်း ဆရာတော်ဟုပင် ခေါ်တွင်ကြ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၀၅

http://www.dhammadownload.com



**ဦးအောင်ဇေယျကိုးကွယ်သည့်ဓာတ်တော်များပေါ်ပွင့်လာ**

တောင်ပြင်ငယ်ရွာ တောင်ပေါ်ကျောင်း ဆရာတော် ဦးပဏ္ဍိစ္စမှာ ဓာတ်တော်များ များပြားစွာရှိ၍ ပူဇော်ခဲ့ရ၏။ ယင်းဓာတ်တော်တို့မှာ အလောင်းမင်းတရားကြီး ဦးအောင်ဇေယျ ချင်းတွင်းမြစ် ညာသို့ ဆန်တက်သောအခါ စခန်းချရန် သင့်တော်သည့် အရပ်ဖြစ်၍ သင့်တော်ဟုခေါ်တွင် ရာမှ ယခု သင်တောရွာ ကွန်းထောက်ချသည့် နေရာကိုလည်း ဘုရားတည်၏။ ယင်းကို ကွန်းထောက်ဘုရားဟု ခေါ်၏။ ယခုသော် ကွန်းတောက်ဘုရားဟု တွင်၏။ ၎င်းကွန်းထောက် ဘုရား ပြိုပျက်၍ ရရှိထားသော ဓာတ်တော်များ ဖြစ်ရကား ဦးအောင်ဇေယျကိုးကွယ်ခဲ့သည့် ဓာတ်တော်များ ဖြစ်၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၀၅

**အလောင်းဘုရားကိုးကွယ်သော ဓာတ်တော်များ ပင့်ဆောင်ခဲ့**

အေဒီ ၁၉၆၆

ဆရာတော်ဘုရားကြီးသည် ယင်းဓာတ်တော်များကို ပင့်ဆောင်ကာ မိမိသီတင်းသုံးရာ အနောက်ပရက္ကမချောင် သို့ ၁၃၂၈ ခု၊ နယုန်လဆန်း ၁၁ ရက်နေ့တွင် ပြန်လည်ရောက်၏။ ကြွရာလမ်းတစ်လျှောက်တွင်လည်း ပဲဆွမ်းများကို ခုတင်မပျက် ဆွမ်းခံလျက် ဘုဉ်းပေးကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၀၅

**အသက်ကြီး၍ကျောင်းပေါက်ဝအထိ ဆွမ်းလာလောင်းကြခြင်း**

အေဒီ၁၉၆၅

၁၃၂၇ ခုနှစ်သို့ ရောက်သောအခါ ဆရာတော်ဘုရားကြီးကလည်း အရွယ်ကြီး၍ လည်းကောင်း၊ သစ်သီးဆွမ်းတစ်လှည့်၊ ပဲဆွမ်းတစ်လှည့် ဘုဉ်းပေးလာသည်မှာလည်း အနည်းငယ်ကြာလာပြီ ဖြစ်၍လည်းကောင်း၊ သမထ ဝိပဿနာကိုလည်း ခုတင်အကျင့်မြတ်နှင့်တကွ နေ့စဉ်မပြတ် ရှုမှတ်သောကြောင့် လည်းကောင်း၊ ဝတ်ချက် ရွာထောင် ရွှေသမားစသော ရွာတို့ကို ဆွမ်းခံကြွ ဆင်းရန် ပင်ပန်းဟန်ရှိ၍ ဆွမ်းဒါယကာ ဆွမ်းဒါယိကာမများက ဆရာတော်ဘုရားကြီး၏ ကျောင်းပေါက်ဝသို့အရောက် လာရောက်ကာ လောင်းလှူကြ၏။

**ဆွမ်းခံ မကြွ**

အေဒီ ၁၉၆၅

ထိုအခါမှစ၍ ဝတ်ချက်ရွာစသော ရွာများသို့ ဆွမ်းခံမကြွတော့ကြောင်းကို ဆရာတော်ဘုရားကြီး ၏ မှတ်စုတွင် တွေ့ရှိရပါသည်။

ကျမ်းကိုး။ ၁၃၂၇ ခုနှစ် ပြာသိုလဆန်း ၁ ရက် ကြာသပတေးနေ့ကစ၍ ဝတ်ချက် ရွာထောင် ရွှေသမား အိုးဘိုရွာများသို့ ဆွမ်းခံမဆင်းဟု မှတ်တမ်းပြုထား၏။ ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၁၁။

**ဘုရားဆွမ်းတော်ကပ်ရာတွင် သန့်ရှင်းမှု အံ့ဖွယ် အတုယူဖွယ်**

ဆရာတော်ဘုရားကြီးသည် မြတ်စွာဘုရားအား ဆွမ်းတော်ကပ်သည့်အခါ အလွန်ပင် အသန့်အရှင်းကြိုက်၏။ ဆွမ်းတော်ပွဲ ပြင်ဆင်သောအခါများ၌ မပြင်ဆင်ခင် လက်ကို စင်ကြယ် သန့်ရှင်းအောင် ဆပ်ပြာဖြင့် အထပ်ထပ် ဆေးကြော၏။ လက်ကို အထပ်ထပ် ဆေးကြောရမည် ဟူသည့် အဌကထာတို့နှင့် ညီ၏။

**လက်တော်ဆေး**

တစ်ခါက ဆရာတော်ဘုရားကြီး ဆွမ်းတော်ပွဲ ပြင်ဆင်နေသည်ကို စာရေးသူပါ ဝင်ရောက် ပြင်ဆင်သောအခါ လက်ကို အထပ်ထပ် သန့်ရှင်းအောင် ဆေးပါရန် အမိန့်ရှိ၍ သန့်ရှင်းသည် ထက် သန့်ရှင်းအောင် ဆေးရ၏။

http://www.dhammadownload.com



**သေချာစွာဆေးကြော**

ဆွမ်းခံဖွယ်ဘောဇဉ်ထည့်ကပ်မည့် မြသပိတ်တော်နှင့် ပန်းကန်စသည်တို့ကိုလည်းကောင်း၊ သောက်တော်ရေ လက်ဆေးရေ ဖန်ဇလုံ ဖန်ရေတကောင်း ထွေးခံ စသည်တို့ကိုလည်းကောင်း သေချာစွာ ဆေးကြောရ၏။ ဆွမ်းခံဖွယ် ဘောဇဉ် သောက်တော်ရေ လက်ဆေးရေများ ထည့်ရ၏။

**ကိုယ်တော်တိုင် နေ့စဉ်လုပ်ခြင်းအံ့ဖွယ်အတုယူဖွယ်**

ဤဝေယျာဝစ္စများကို ဆရာတော်ဘုရားကြီးကိုယ်တိုင် နေ့စဉ်ပြုလုပ်၏။ ဆွမ်းခံပြန် သီလ ပေးပြီးကတည်းက ပြုလုပ်၍ မြတ်စွာဘုရားအား ဆွမ်းတော်ကပ်၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၁၈

**ဘုရားရှင်ဆွမ်းကွမ်းအတွက် တစ်နံနက်အချိန်ကုန်**
**တစ်ခါတလေ ဆွမ်းဘုဉ်းပေးဖို့တောင် မမီ**

ဤသို့သော ဝေယျာဝစ္စများဖြင့် မြတ်စွာဘုရားအား နေ့စဉ်မပျက် ဆက်ကပ်လှူဒါန်း၏။ မြတ်စွာဘုရား ဆွမ်းကွမ်း ဝေယျာဝစ္စဖြင့်သာ တစ်နံနက်အချိန်မှာ ကုန်ဆုံး၍သွားကြောင်းကို "ရှင်တော်ဘုရားကြီး၏ ဆွမ်းကွမ်းအတွက် ဝေယျာဝစ္စဆောင်ရွက်တာနဲ့ တစ်နံနက်အချိန်ကုန် တယ်ကွဲ့၊ တစ်ခါတစ်ခါ မွန်းမတည့်မီ အနိုင်နိုင် ဆွမ်းဘုဉ်းပေးရတယ်ကွဲ့" ဟု အမိန့်ရှိ၏ဖူး၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၁၈

**ဘုရားရှင်ကို ညအခါ ခြင်ထောင်ချ နံနက်အခါ ခြင်ထောင်တင် ဝတ်မပျက်ခြင်း အံ့ဖွယ်အတုယူဖွယ်**

ဆရာတော်သည် မြတ်စွာဘုရားအား သက်တော်ထင်ရှားကဲ့သို့ ကျိန်းစက်ရာကို ခြူးပန်းခြူးနွယ် ကနုတ်တို့ဖြင့် အထူးပြုလုပ်ကာ ရွှေပိန်းချရွှေသလွန်တော်နှင့် အုံးတော် အခင်းတော် ခြင်ထောင်တော် စသည်တို့ကို ထူးဆန်းစွာ ပြုပြင် မွမ်းမံ၍ လှူဒါန်းထားကြောင်း ဖော်ပြပြီး ဖြစ်၏။ မြတ်စွာဘုရားရှင် ကျိန်းစက်တော်မူရာ နေရာကို နေ့စဉ်နေ့တိုင်း ပုတ်လိုက် ခါလိုက် ရေမွှေးပူဇော်လိုက် စသည်ဖြင့် ဝေယျာဝစ္စပြုလုပ်၏။ ညဉ့်အခါတွင် ခြင်ထောင်ကို ချခြင်း၊ နံနက်အခါတွင် ခြင်ထောင်ကို တင်ခြင်း စသည်ဖြင့် နေ့စဉ်မပျက် ဆောင်ရွက်၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၂၄

**ဘုရားရှင်ထိုင်တော်မူဖို့ ကုလားထိုင်တော်ထားခြင်းအံ့ဖွယ်**

ဘုရားရှင် နေသန့်တော်မူရာ နေရာကိုလည်း သရိုးကြိုးပန်းတို့အပြင် ဝဲယာ နဂါးနှစ်ကောင်နှင့် တကွ ရွှေကုလားထိုင်တော်ကိုလည်း ပြုလုပ်ထား၏။ ယင်း ကုလားထိုင်ပေါ်တွင် ကောင်းမွန် သော အခင်းကို ခင်းထား၍နေ့စဉ် ပုတ်ခါခြင်း၊ ရေမွှေးပူဇော်ခြင်းတို့ကို ပြု၏။

**ဘုရားရှင်အတွက် ခြေသုတ်ခုံထားခြင်းအံ့ဖွယ်**

မြတ်စွာဘုရား၏ ခြေသုတ်ခုံကိုလည်း နေ့စဉ် ပုတ်ခါ၍ သန့်ရှင်း၏။

**ဘုရားရှင်၏ ဖိနပ်တော်ထားခြင်းရှိခြင်း အံ့ဖွယ်**

ဘုရားရှင်၏ ဖိနပ်တော်ကိုလည်း နေ့စဉ်နှင့်အမျှ ပွတ်တိုက်၏။ ဘုရားရှင်အား လက်ကိုင် ပဝါတော်၊ မျက်နှာသုတ်ပဝါ၊ လက်သုတ်ပဝါ၊ ခြေသုတ်ပဝါ၊ ဖိနပ်သုတ်ပဝါ၊ ဤပဝါငါးမျိုး တို့ကိုလည်း ခွဲခြားကာ သီးသန့်ထား၏။

http://www.dhammadownload.com



**ဘုရားရှင်အတွက် ရွှေတောင်ဝှေးတော် လှူဒါန်းခြင်းအခမ်းအနားဖွယ်**

ဘုရားရှင်အား ရွှေတောင်ဝှေးတော်ကိုလည်း လှူဒါန်း၏။ မျက်နှာကျက်တော် အခင်းတော် အမျိုးမျိုးတို့ကိုလည်း လှူဒါန်း၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၁၁

**ဘုရားရှင်အား မည်သည့်ပစ္စည်းမဆို လှူဒါန်းလေလေ ကောင်းလေလေ**

ဆရာတော်သည် မိမိ (သို့မဟုတ်) မည်သူမဆို သုံးဆောင်သည့် ပစ္စည်းဝတ္ထုမျိုးမှန်သမျှ ဘုရားအား လှူဒါန်း၏။ မည်သည့် ပစ္စည်းမျိုးမဆို ဘုရားရှင်အား လှူဒါန်းပြီး မိမိသုံးဆောင်၏။ အလွန်ထူးဆန်းသည့် ကောင်းသည့် ပစ္စည်းဖြစ်စေ၊ မြတ်စွာဘုရားအား လှူဒါန်းလေ ဖြစ်၏။ တပည့်တို့ကိုလည်း မြတ်စွာဘုရားအား မည်သည့်ပစ္စည်းမဆို ကောင်းမွန်ထူးဆန်းလေ ပို၍ လှူဒါန်းကြရန် ဩဝါဒစကားမြွက်ကြား၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၂၅

**ဘုရားရှင်ကျိန်းစက်တော်မူရန်နေရာ ဆွမ်းဘုဉ်းပေးတော်မူရာ နေရာထားတော်မူခြင်း အခမ်းအနားဖွယ်အတုယူဖွယ်**

လိုဏ်ဂူတော်အတွင်း ဘုရားခန်းတွင် မြတ်စွာဘုရား ရုပ်ပွားတော်နှင့် ကျိန်းစက်တော်မူရန် နေရာတော်၊ နေ့သန့်တော်မူရာ နေရာတော်၊ ဆွမ်းဘုဉ်းပေးတော်မူရာ နေရာတော်တို့ဖြင့် ဘုရားခန်းကို တခမ်းတနားထား၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၂၅

ဆရာတော်သည် ဘုရားရှင်အား သက်တော်ထင်ရှား သုံးစွဲနိုင်သည့် ဝတ္ထုပစ္စည်း အားလုံးကို လှူဒါန်း လေ့ရှိ၏။

**သက်တော်ထင်ရှား ဘုရားရှင်အလား လက်သုတ်ပဝါ၊ ဆပ်ပြာလှူဒါန်းခြင်း အခမ်းအနားဖွယ်**

သက်တော်ထင်ရှား ရှိစဉ်အခါက ဘုရားရှင်သည် လက်သုတ်ပဝါ၊ ဆပ်ပြာ စသည်တို့ကို သုံးစွဲပေမည်။ ထိုကိုရည်၍ ဆရာတော်သည် မြတ်စွာဘုရားအား လက်သုတ်ပဝါ၊ ခြေသုတ်ခုံ၊ ခြေသုတ်ပဝါကို လှူဒါန်း၏။

**ဘုရားရှင်အား ဒန်ပူကိုကိုယ်တော်တိုင်လှူဒါန်းခြင်း**

ထို့အတူ သက်တော်ထင်ရှား ဘုရားရှင်သည် ဒန်ပူကိုလည်း အသုံးပြုပေမည် ဖြစ်သောကြောင့် ဒန်ပူကို ကိုယ်တိုင်ပြုလုပ်၍ လှူဒါန်း၏။ ဒန်ပူပြုလုပ်သောအခါ လုံးပတ် ငါးမူးလုံးခန့်နှင့် အရှည် ရှစ်လက်မခန့် ကြီးမားကောင်းမွန်စွာ အထပ်ထပ် ပြုလုပ်၍ ဂျုံ ကော်ပတ် ဒဟတ်ရွက်တို့ဖြင့် ချောမွတ်အောင် အထပ်ထပ် ပွတ်တိုက်၏။ ဤသို့ စိတ်ကြိုက်ပြုလုပ်ပြီးမှ မြတ်စွာဘုရားအား လှူဒါန်း၏။

**ဘုရားရှင်အား သွားတော်များ တိုက်ပေးခြင်းအခမ်းအနားဖွယ်**

လှူဒါန်းသောအခါမှာလည်း ဘုရားရှေ့ ချထားရုံမဟုတ်ဘဲ ရုပ်ပွားတော်များအား နေ့စဉ် မှန်မှန် ၎င်းဒန်ပူဖြင့် သွားတော်များအား စားပေး တိုက်ပေး၏။

**နံနက်တိုင်း မျက်နှာသစ်ရေ လှူဒါန်းခြင်းအလေ့အထ**

ဤသို့ သဟတ္ထိကမြောက် ကိုယ်ထိလက်ရောက် လှူဒါန်း၏။ လှူဒါန်းသည်မှာ အထူးအားဖြင့် မြတ်စွာဘုရား ရုပ်ပွားတော်တို့အား နံနက်တိုင်းမျက်နှာတော် သစ်သောအခါ ပြုလုပ် လှူဒါန်း၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၂၅

http://www.dhammadownload.com



**ဘုရားရှင်အားနေ့တိုင်း မျက်နှာသစ်ပေးခြင်း အခံ့ပွယ်**

ဆရာတော်သည် ဘုရားရှင်၏ ဝေယျာဝစ္စတို့ကို မည်သို့ မည်ပုံ ပြုလုပ်ရမည်နည်းဟု အမြဲ တစေကြံ၍နေ၏။ ၎င်းဝေယျာဝစ္စတို့တွင် ဘုရားရှင်အား မျက်နှာတော်သစ်ရန် ရေကပ်နေရုံမျှ အားမရ၍ ဘုရားရှင်ကိုယ်စား ရုပ်ပွားတော်များကို မျက်နှာသစ်၍ ဝေယျာဝစ္စပြု၏။ ရုပ်ပွားတော် တစ်ဆူကိုသာမက ချောင်အရာမ်တွင်းရှိ ရုပ်ပွားတော် ၇ ဆူလုံးကိုပင် နေ့စဉ် မျက်နှာတော်သစ်၍ ဝေယျာဝစ္စပြု၏။

**နေ့စဉ် ပြုလုပ်သော ဝတ်ကြီးဝတ်ငယ်အခံ့ပွယ်**

မျက်နှာတော်သစ်သောအခါ ဖယောင်းတိုင် အမွှေးတိုင် ရေမွှေးတို့ကို ပူဇော်ခြင်း၊ ဆားသွား တိုက်ဆေးကပ်ခြင်း၊ ဒန်ပူဖြင့် ဘုရားရှင်၏ နှုတ်ခမ်းတော်ကို ပွတ်တိုက်ခြင်း၊ နံ့သာရည် ရေမွှေးတို့ဖြင့် ရောစပ်ထားသည့် မျက်နှာတော်သစ်ရေဖြင့် ဘုရားရှင်၏ မျက်နှာတော်ကို သပ္ပာယ်ခြင်း၊ မျက်နှာသုတ်ပဝါတော်ဖြင့် သုတ်ခြင်း၊ ပြီးလျှင် တံမြက်လှည်း သောက်တော် ရေကပ်ကာ ကန်တော့ ဝတ်တက်ဝတ်ကပ်ပြု၍ ဆုတောင်းဆုယူပြီး အမျှဝေ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၂၇

**ရွှေပွတ်တိုင် ဆုတောင်းပြည့်အခံ့ပွယ်လျှို့ဝှက်ချက်**

ဂူအတွင်း ဘုရားပြီးလျှင် ဇေယမဥ္ဇူသိမ်တော်ကြီးအတွင်းမှ ဆရာစဉ်ဆက် ကိုးကွယ်ခဲ့ကြသည့် ရုပ်ပွားတော် ၃ ဆူတို့ကိုလည်းကောင်း၊ ပရက္ကမတောင် (စစ်ကိုင်းတောင်သမိုင်း)၊ မြစိမ်းတောင် (ရွှေပွတ်တိုင်ဘုရား ဌာပနာ ငွေပုရပိုက်) ထိပ်ရှိ (ရေပွတ်တိုင်) ယခု ဆုတောင်းပြည့် စေတီတော်အတွင်းရှိ ရုပ်ပွားတော်ကြီးနှင့် ရှေးပရက္ကမ ဆရာတော်ကြီးတို့၏ အရိုးပြာသာဒ် အတွင်းရှိ ရုပ်ပွားတော်တို့ကိုလည်းကောင်း၊ ပုပ္ဖာရုံကျောင်းတော်အတွင်းရှိ မဟာသကျမုနိ ကြေးရုပ်ပွားတော်ကို လည်းကောင်း၊ အထက်ဖော်ပြခဲ့သည့်အတိုင်း အဆူစေ့ နေ့စဉ် မျက်နှာ တော်သစ်၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၂၇

ဆရာတော်သည် ရှင်တော်မြတ်ဘုရားအား သောက်တော်ရေကိုလည်း အသက်ရှိသူ ရဟန်းရှင် လူတို့ တစ်နေ့တာ သောက်ကြသည့် အကြိမ်အောက် မလျော့စေဘဲ အမြဲမပြတ် ဆက်ကပ် လှူဒါန်း၏။

**နံနက် ၃ နာရီ မျက်နှာသစ်ရေ တစ်ကြိမ်**

နံနက် ၃ နာရီ မျက်နှာသစ်တော်ရေ ကပ်ပြီးလျှင်၊ သောက်တော်ရေကပ်၏။ သောက်တော်ရေ ကိုလည်း ဝစ္စာ ဘုဉ်းပေးလောက်အောင် များပြားစွာ ကပ်၏။ ဆွမ်းကပ်ပြီးလျှင် သောက် တော်ရေ တစ်ကြိမ်ကပ် ပြန်၏။ များပြားစွာပင် ကပ်၏။

**နေ့လယ် တစ်နာရီ တစ်ကြိမ်ကျ ဆက်ကပ်လှူဒါန်း**

နေ့အခါမှာလည်း ၁၂ နာရီ၊ ၁ နာရီ၊ ၂ နာရီ၊ ၃ နာရီ၊ ၄ နာရီ၊ ၆ နာရီ၊ ၈ နာရီ၊ ၁၀ နာရီ စသည်ဖြင့် ၁၀ ကြိမ်အောက်မလျော့ဘဲ သီးခြားကပ်ကြောင်းကို လည်းကောင်း၊ မိမိကိုယ်တိုင် ရေသောက်သောအခါတို့၌လည်း မိမိသောက်မည့် ရေကို ကပ်ပြီးမှ သောက်ကြောင်းကို လည်းကောင်း အမိန့်ရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၂၇

http://www.dhammadownload.com



### ဘုရားရှင်အား ချိုးတော်ရေ လှူဒါန်းတော်မူခြင်းအခမ်းအနား

ဆရာတော်ကြီးသည် ရှင်တော်မြတ်ဘုရားအား မျက်နှာသစ်တော်ရေ သောက်တော်ရေတို့ကိုသာ ကပ်သည်လည်း မဟုတ်၊ ချိုးတော်ရေကိုလည်း နေ့စဉ်မပျက် ဆက်ကပ်လှူဒါန်း၏။ မိမိချိုးသုံးမည့် ရေတို့ကိုလည်း ရှင်တော်မြတ်ဘုရားအား လှူဒါန်းပြီးမှ ချိုး၏။

### ဘုရားရှင်အတွက် သီးခြားရေချိုးခန်းထားရှိခြင်း အခမ်းအနား

ပုဗ္ဗါရုံကျောင်းတော်ကြီးအတွင်းတွင် (ဗုဒ္ဓဥဒက ကောဋ္ဌက) မြတ်စွာဘုရားရှင်၏ ရေချိုးခန်းကို ပင် ပြုလုပ်၍ မြတ်စွာဘုရားရှင်အား ချိုးတော်ရေ နေ့စဉ်မှန်မှန်လှူဒါန်း၏။ မည်သည့်မြို့ မည်သို့ပင် အဆောက်အအုံကောင်းကောင်း၊ မြတ်စွာဘုရားရှင်၏ ရေချိုးခန်းလို စိတ်ကူး အဆန်းမျိုး ကောင်းစွာ ပေါ်ပေါက် ဆောက်လုပ်မည် မဟုတ်။ ဆရာတော်သည် ဘုရားရှင်အား ချိုးတော်ရေကို အားပါးတရ လှူဒါန်းရလောက်အောင် ရေချိုးခန်းကိုပါ လှူဒါန်း၍ထား၏။

### ရေချိုးခန်း ဂုဏ်အင်္ဂါအပြည့်အစုံ

ဘုရားရှင်၏ ချိုးတော်ရေအခန်းကို သာမန်ပြုလုပ်ထားသည် မဟုတ်ဘဲ သက်န်းတန်း၊ လက်ဆေး ကန်၊ မျက်နှာသုတ်၊ ဆပ်ပြာ လျှပ်စစ်မီး၊ ရိုးရိုးရေပိုက်၊ ရေပန်းပိုက်များဖြင့် ဆန်းပြားခမ်းနားစွာ ပြုလုပ်လှူဒါန်းထား၏။ နေ့စဉ်လည်း ရေဖွင့်၍ လှူဒါန်းပူဇော်၏။ ဤကား သက်တော်ထင်ရှား ရှင်တော်ဘုရားအတွက် လှူဒါန်းထားသော ရေချိုးခန်းဖြစ်၏။

> ကျမ်းကိုး။ ရုပ်ပွားတော်များအတွက် ရေသပ္ပါယ်ရန်ကိုလည်း ပလ္လင်အမိုး၊ ရေပန်း တို့ကို ရန်ကုန်မြို့၊ ၅၂ လမ်း၊ ဘုရားအမကြီး ဒေါ်ကြင်မေက လှူဒါန်းထား၏။ ရုပ်ပွားတော်များကို ၎င်းပလ္လင်ပေါ်တွင် ရေသပ္ပါယ်ကာ လှူဒါန်းပူဇော်၏။ ဤ လည်း ထူးဆန်းသည်ပင် ဖြစ်၏ဟု မှတ်ချက်တွေ့ရပါသည်။ ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၂၇ကိုလည်း ကြည့်ကြပါ။

### ဘုရားရှင်အတွက် ကုဋိတော်

ဘုရားရှင်၏ ကျင်ငယ်အိမ်နှင့် ကျင်ကြီးအိမ်တို့ကိုလည်း ပုဗ္ဗာရုံကျောင်းအတွင်း၌ ပြုလုပ် လှူဒါန်း၏။ ယင်းကုဋိတို့၌ ရေအထူးစီမံ၍ လှူဒါန်းထား၏။ နေ့စဉ်လည်း ဆေးကြော သုတ်သင်ကာ လှူဒါန်း၏။ ဤရေသည်လည်း တစ်နိုင်ငံလုံးမှာ တစ်ဦးတည်း လှူဒါန်းသည်ဟု ပင် ဆိုရမည်ဖြစ်၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၃၁

### အရဟံ သိဒ္ဓိပုတီးစိပ်လျှင် ပေါက်ပါသလား

မေးမြန်းလို၍ လာသူ ဒါယကာ တစ်ဦးသည် "ဆရာတော်ဘုရား အရဟံကို အရဟံသိဒ္ဓိလို့ ပုတီးစိပ်လျှင် လောကီသိဒ္ဓိ ပေါက်ပါသလား ဘုရား" ဟု လျှောက်၏။ ဆရာတော်က "လောကီ သိဒ္ဓိ ဘုန်းကြီးမသိ" ဟု ဖြေ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၃၉

### အထူးအဆန်း လောင်းကစား မန္တန်တော်

၎င်းမန္တန်မှာ ကိုးနှင့် ကုလား၊ မျိုးမခြား ကုလားအင်္ဂါ အကြံသာ ရွှေကျောင်းပဒေသာ ဟူ၍ ဖြစ်၏။ ဤမန္တန်ကို ဆရာကြီး ဦးစိန်လှိုင်က အနောက်ပရက္ကမ ဆရာတော်ကြီးအား လျှောက် ထားသောအခါ "ဒကာ့မန္တန်က လောင်းကစားဖြစ်လို့ မသိချင်ပါနှင့်" ဟုသာ ဖြေကြောင်း ဤအဖြေသည် မှန်ကန်ကြောင်း ဆရာကြီး ဦးစိန်လှိုင်က ပြောခဲ့၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၃၉

http://www.dhammadownload.com



**ကနီဆရာတော်အား နှစ်စဉ် သွားရောက်ကန်တော့ကြခြင်း**

ယင်းသို့ တရားအားထုတ်နေ၍ မအားလပ်သည့်ကြားမှ မိမိ၏ ကျေးဇူးရှင် ကမ္မဋ္ဌာနာစရိယ ကနီဆရာတော် ဘုရားကြီးကို ဖူးမြော်ကန်တော့လိုသောအခါတို့၌ သွားရောက်ကန်တော့၏။ ထိုအခါ ကနီဆရာတော်ဘုရားကြီးက "ဒီပရက္ကမချောင်ဟာ ချောင်တည်ဆရာတော် ဘုရားကြီး တွေမှုစ၍ ယခုတိုင် အစဉ်အဆက်မပျက် တကယ်တမ်း အားထုတ် ကြ၍ ပဋိပတ်ဘက်တွင် ထင်ရှားစွာ ပေါ်ထွက်ခဲ့ကြတယ်။ ချောင်နာမည်ကလဲ ပရက္ကမဆိုတာ အားထုတ်တာလို့ အဓိပ္ပါယ် ရတယ်။ ချောင်မှာနေတဲ့ ပုဂ္ဂိုလ်ကလည်း အားထုတ်တယ်ဆိုတော့ ချောင်နာမည်နဲ့ ပုဂ္ဂိုလ်နဲ့ အနွတ္ထဖြစ်ကြတာပေါ့။ ဘုန်းကြီးမှာ တပည့်တွေပေါပေမဲ့ ဘုန်းကြီးစိတ်ကြိုက် အားထုတ်နိုင်တာကတော့ ဦးဝါယမနှင့် ဦးဝဏ္ဏ... ပရက္ကမနှစ်ပါးပဲ၊ အားထုတ်ကြပါ၊ ကြိုးစား ကြပါ" ဟု ဩဝါဒစကား မိန့်ကြား၏။ ကနီဆရာတော်ဘုရားကြီးအား သွားရောက်ကန်တော့ သည်မှာ နှစ်စဉ်ပင် ဖြစ်၏။ ကန်တော့သောအခါ တိစီဝရိတ်စသည်တို့ကို လှူဒါန်း၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၃၉

**နောက်တစ်ကြိမ် ပြန်လည် ကန်တော့ကြခြင်း အဓိပ္ပါယ်ကို ဘယ်သူမှ မသိ။**

အေဒီ ၁၉၆၆ ၁၃၂၈ ခုနှစ် သီတင်းကျွတ်လထဲက ကန်တော့ပြီး ဖြစ်ကြလျက် နောက်ထပ်တစ်ဖန် ပြန်၍ ကန်တော့ပြန်၏။ အဘယ်ကြောင့် ထပ်၍ ကန်တော့ကြောင်းကိုတော့ ကနီဆရာတော် ဘုရားကြီးနှင့် အနောက်ပရက္ကမဆရာတော်ဘုရားကြီးတို့သာ သိကြပေမည်။

**ကနီဆရာတော်၏ နောက်ဆုံးစကားတော်**

သွားရောက် ကန်တော့သောအခါလည်း ကျေးဇူးရှင် ကနီဆရာတော်ဘုရားကြီးက "ကန်တော့ ကြတော့ဗျာ၊ အားရအောင် ကန်တော့ကြ၊ ဒီတစ်ခါတော့ နောက်ဆုံး ကန်တော့ခြင်းပဲ" ဟု ထူးဆန်းစွာ မိန့်ဆို၏။

> ကျမ်းကိုး။ အနောက် ပရက္ကမဆရာတော်ကလည်း ခါတိုင်းကန်တော့သည်ထက်ပို၍ ကန်တော့ကြောင်း၊ ဒါတောင်မှ ဆရာတော်က အားရဟန် မတူကြောင်းကို ကန်တော့ရာ တွင် လိုက်ပါနေကျ (မဟာဗောဓိဒါယကာ) ဦးဘရီက စာရေးသူအား လျှောက်ထား၏။ ဤ ကန်တော့ခန်းကို ဓမ္မာစရိယ ဦးဌေးလှိုင်က ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများတွင်လည်းကောင်း၊ ဗိုလ်သိန်းဆွေက မြန်မာနိုင်ငံ ရဟန္တာအရိယာများ၏ ထေရုပ္ပတ္တိတွင်လည်းကောင်း၊ ရေးသား ဖော်ပြထားကြ၏။ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၄၁ကိုလည်းကြည့်။

**ကနီဆရာတော်ကြီး ပရိနိဗ္ဗာန်ပြုတော်မူကြောင်း အကြောင်းကြားစာမှုရင်း**

ကျေးဇူးရှင် ယောဂီပါရဂူ ကျမ်းပြု ကနီဆရာတော်ဘုရားကြီး ပျံလွန်တော်မူကြောင်း သံကြိုးစာ ရပြီး၊ နောက်ထပ် တစ်ဖန် အကြောင်းကြားစာရောက်၍ လာပြန်၏။ အခြား အခြားသော ဒါယကာ ဒါယိကာမတို့ကလည်း ကနီဆရာတော်ကြီး ပျံလွန်တော်မူကြောင်းကို လာရောက် လျှောက်ထားကြ၏။ ၎င်းတို့အား ဆရာတော်ဘုရားက "အင်း သေတာကတော့ လူတိုင်းသေကြ ရမှာပဲကွဲ့၊ ဒါပေမယ့် ကျေးဇူးရှင် ဆရာတော်ဘုရားကြီး ပျံလွန်တာကတော့ ကနီမြို့အတွက် ရော မြန်မာနိုင်ငံအတွက်ပါ ဘာသာရေးဘက်မှာ တအားပျက်တာပေါ့ကွယ် မြို့နိုင်ငံ ဘာသာရဲ့ ခေါင်းဆောင် ကျက်သရေဆောင်ကွဲ့၊ အစားထိုးစရာ ပေါ်ပေါက်လာဖို့ မလွယ်ဘူး" ကွဲ့ ဟု အမိန့်ရှိကြောင်း သိရ၏။

> ကျမ်းကိုး။ လာရောက်လျှောက်ထားသူတွင် ပါဝင်သည့် အောက်စက်တော်ရာ ဒါယကာ ဦးဘရီက စာရေးသူအား လျှောက်ထား၏ဟု ဖော်ပြထား၏။ ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၄၁ ကို ကြည့်ပါ။

http://www.dhammadownload.com



အေဒီ ၁၉၆၇ အကြောင်းကြားစာမှာ အောက်ပါအတိုင်း ဖြစ်၏။

သို့
အနောက်ပရက္ကမဆရာတော်
စစ်ကိုင်းတောင်ရိုး၊ စစ်ကိုင်းမြို့
အကြောင်းကြားအပ်ပါသည်။
၁၃၂၈ ခု၊ တန်ခူးလဆန်း ၁ ရက်၊ ဧပြီလ ၁၀ ရက်နေ့ နံနက် ၁၀ နာရီခွဲ အချိန်တွင် ရွှေသိမ်တော် တောရ သက်တော် ၈၈ နှစ် သိက္ခာတော် ၆၉ ဝါ အရ ကျေးဇူးရှင် ယောဂီပါရဂူ ဆရာတော် ဘုရားကြီး သည် ဘဝနတ်ထံ ပျံလွန်တော်မူကြောင်း သိစေအပ်ပါသည်။
၁၃၂၉ ခု၊ တန်ခူးလပြည့်နေ့ သင်္ဂြိုဟ်မည်။
တပည့်သံဃာတော်များနှင့် ဒါယကာ ဒါယိကာမများ
ဈာပန ကော်မတီအဖွဲ့
ကနီမြို့။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၄၁

အထက်ပါ အကြောင်းအရာများမှာ ကနီဆရာတော်နှင့် ပတ်သက်သော စာများဖြစ်၏။ ထို့နောက်တွင်ကား ကျွန်ုပ်၏ သီးခြား မှတ်စုကတ်တလောက်တွင် ဆရာတော်၏ မှတ်တမ်းတွင် ဖော်ပြထားသော ထူးခြားချက်များကို မှတ်သားထားပါသည်။ ထိုအချက်ကိုလည်း အထက်ဖော်ပြပါ ဆရာတော်ကြီး၏ တပည့်အရင်း ကျမ်းစာအုပ်ကြီးမှ ကူး၍ ရရှိပါ၏။

**ဆရာတော်၏ မှတ်တမ်းတို့၌ကား အောက်ပါအတိုင်း ဖြစ်၏။**

| ၁၃၁၉ ခု ပုလဲအဆင်း | | ၄၁ ဆူ |
|---|---|---|
| ။ | ရွှေအဆင်း | ၂၆ ဆူ |
| ။ | ပဲနောက်အဆင်း | ၁၅ ဆူ |

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၄၂

အေဒီ ၁၉၆၅ ၁၃၂၇ ခု တန်ဆောင်မုန်းလပြည့်ကျော် ၄ ရက်၊ သောကြာနေ့ ပတ္တမြားဆင်းတု ကြွလာသည်။

အေဒီ ၁၉၆၇ ၁၃၂၉ ခု တော်သလင်းလဆန်း ၈ ရက်၊ တနင်းလာနေ့က ဘုရားငါးဆူ အကြည်ညိုခံ ကြွတော်မူကြပါသည်။

အေဒီ ၁၉၆၇ ၁၃၂၉ ခု သီတင်းကျွတ်လပြည့်ကျော် ၃ ရက်၊ စနေနေ့က ဓာတ်တော်များ အကြည်ညိုခံကြွ၍ ချီးမြှင့်တော်မူကြသည်။

အေဒီ ၁၉၆၆ ၁၃၂၈ ခု နယုန်လပြည့်ကျော် ၂ ရက်၊ တနင်္ဂနွေနေ့က ဓာတ်တော် အဆူပေါင်း ၂၀၀၀ကျော်လောက် အကြည်ညိုခံ ကြွလာတော်မူကြပါသည်။

အေဒီ ၁၉၆၆ ၁၃၂၈ ခု တန်ဆောင်မုန်းလပြည့်ကျော် ၆ ရက်၊ စနေနေ့ စလင်းဆင်းတုကြွတော်မူလာသည်။

အေဒီ ၁၉၆၈ ၁၃၃၀ ခု ဝါဆိုလဆန်း ၃ ရက်၊ ကြာသပတေးနေ့ စိန်စေတီ ကြွတော်မူလာသည်။

အေဒီ ၁၉၆၆ ၁၃၂၈ ခု ပထမဝါဆိုလပြည့် စနေနေ့က ကုသိနာရုံရှိ မြတ်စွာဘုရား တေဇောဓာတ် လောင်ပြီး ကြွမြန်းသွားသည့်နေရာက စေတီတော် အုတ်နှင့် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်တွင် နတ်သိကြားတို့ကို တရားဟောတော်မူသော နေရာမှ အုတ်များ အကြည်ညိုခံ ကြွလာတော်မူကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၄၃

http://www.dhammadownload.com



ဤကား ဆရာတော်ကြီး မှတ်သားထားသည်တို့တည်း။ မမှတ်သည်တို့ကား များပြားစွာ ရှိဦးမည်၊ ဤသို့ တန်ဖိုးမဖြတ်နိုင်သည့် စိန် ပတ္တမြား စသည်တို့ဖြင့် ပြုလုပ်ထားသော စေတီရုပ်ပွားများနှင့် ဓာတ်တော်များမှာ ပရက္ကမတောင် (သို့မဟုတ်) မြစိမ်းတောင်ထိပ်ရှိ ရွှေပွတ်တိုင် ဆုတောင်းပြည့် စေတီတော်ကြီး ပြုပြင်မွမ်းမံစဉ်က အားလုံးဌာပနာလိုက်၏ဟု ဆို၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၄၃

ထို့ပြင်လည်း ထူးခြားသော အဖြစ်ဆန်းများကို ဆရာတော်၏မှတ်တမ်းတွင် တွေ့မြင်ရ၏။ ယင်းမှတ်တမ်း တွင် တွေ့မြင်ရသည့် အဖြစ်ဆန်းများမှာလည်း နေ့ညဉ့်မပြတ် ရှုမှတ်ပွားများ အားထုတ်သောကြောင့် ဖြစ်ပေါ်လာသော တရားတော်၏ အစွမ်းအာနုဘော်များပင် ဖြစ်ကြပေမည်။ ဆရာတော်၏ မှတ်တမ်းစာအုပ်၌ များပြားစွာရှိသည့်အနက် ပြက္ခဒိန်လို ခုနှစ် လ ဆန်း လဆုတ် ရက် နေ့တို့ကို ဆရာတော်ကြီးကိုယ်တိုင် ခဲဖြင့် ဇယားကွက်ချ၍ထားသော မှတ်တမ်းစာအုပ်များ ရှိ၏။ ထိုစာအုပ်တွင် ဆန်းပြားသော မှတ်ပာမ်းများကို တွေ့ရှိရသည့် နေ့စွဲ ဇယားကွက်မှစ၍ တိုတိုရေး၏။ ဆန်းပြားသော မှတ်တမ်းများတွင်လည်း ယခု ဖော်ပြမည့် မှတ်တမ်းမှာ အောက်ပါအတိုင်း ဖြစ်၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၄၄

## ရှင်သီဝလိနှင့် ရှင်ဥပဂုတ်တို့ ကြွတော်မူလာခြင်း

အေဒီ ၁၉၆၅ — ၁၃၂၇ ခု သီတင်းကျွတ်လပြည့်ကျော် ၁၀ ရက်၊ ဗုဒ္ဓဟူးနေ့ ရှင်သီဝလိနှင့် ရှင်ဥပဂုတ်မထေရ်တို့ ကြွလာကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၄၄

ဤမှတ်တမ်းကား ဆန်းပြား၍နေ၏။ ဆန်းပြားပုံမှာ ရှင်သီဝလိကား ပရိနိဗ္ဗာန် ပြုပြီးသော ကြောင့်တည်း။ထို့ကြောင့် ရှင်ဥပဂုတ်မထေရ်နှင့် အခြား မထေရ်တစ်ပါးများ လေလားဟု ယုံမှားမိ၏။

> ကျမ်းကိုး။ ဆရာတော်ကြီးကား ဤမထေရ်နှစ်ပါးတို့ ကြွလာပုံဆန်းပြား၍ ဘွဲ့များကို လျှောက်ထား၍ မှတ်သားထားခြင်း ဖြစ်ပေမည်ဟု မှတ်ချက်တွေ့ရ၏။
> ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၄၄ ကိုကြည့်။

မှတ်တမ်းကား ကောင်းကင်ပျံသည်ကို မှတ်သားထားခြင်း ဖြစ်၏။ မှတ်သားရာ၌ အတိုနည်းဖြင့် ကောင်းကင်ပျံသည့် နေ့စွဲ ပျံ၊ ကောင်းကင်ဟုလည်းကောင်း ဟုလည်းကောင်း နေ့စွဲပေါင်း ၂၅ နေရာထိ တွေ့ရှိရ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၄၄

## ကောင်းကင်ပျံခြင်း

ဆရာတော်သည် ကောင်းကင်ပျံကို မှတ်သားသည်မှာ မိမိကိုယ်တိုင် ကောင်းကင်ပျံသည်ကို မှတ်သားထားဟန် ရှိ၏။

> ကျမ်းကိုး။ မှတ်သားထားသောအခါမှာလည်း အတိုအကျဉ်းဆုံး စကားလုံးတို့ဖြင့် ပြက္ခဒိန်ဇယားကွက်တို့ဖြင့် မှတ်သားကြောင်းဖော်ပြပြီးဖြစ်၏။ ဤ၌လည်း အတိုဆုံး စကားလုံးဖြင့် ၁၂၊ ၇ အကွက်တွင် ကောင်းကင်ပျံဟု မှတ်တမ်းပြုထား၏။

## ကောင်းကင်ပျံသည်ကို ဖူးဖူးသူ

အေဒီ ၁၉၆၅ — ၁၂၊ ၇ တို့၏ အဓိပ္ပါယ်မှာ ၁၃၂၇ ခုနှစ် တန်ခူးလဆန်း ၁၂ ရက်၊ စနေနေ့ဖြစ်သည်။ အခြားသော နေ့စွဲများတွင်ကားပျံ ဟု မှတ်သားထားပေ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၄၅

http://www.dhammadownload.com



ကျမ်းကိုး။ မြန်မာ အမေရိကန် သာသနာပြု တောင်ပုလု ဆရာတော်ဘုရားကြီး ကောင်းကင်ပျံကြွကြောင်းကို လုပ်သားပြည်သူ နေ့စဉ်သတင်းစာနှင့် စာစောင်တို့တွင် ဖတ်ရှုရ၏။ ကျမ်းကိုး၊ ယင်းကျမ်း စာ- ၃၄၅ ကိုကြည့်ပါ။

**လျှို့ဝှက်ချက်မှတ်တမ်း**

ထိုမှတ်တမ်းစာအုပ်မှ ဖြစ်ရပ်ဆန်း မှတ်တမ်းတစ်ခုအား ဗောဓိပင် ကောင်းကင်က ကြွလာသည်ကို မှတ်သားထား၏။ ဗောဓိပင်ကလည်း ထူးဆန်း၏။ မြတ်စွာဘုရားမှီ၍ ပွင့်ခဲ့သည့် မဇ္ဈိမဒေသမှ ကိုင်းကူးခဲ့သည့် မဟာဗောဓိပင် အစစ်ဖြစ်ကြောင်း ရေးသားဖော်ပြပြီး ဖြစ်၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၄၆

**တရားထူးရသည့် ဖြစ်ရပ်ဆန်းများ**

အေဒီ ၁၉၇၀ ဆရာတော်သည် နိသဇ်ဓုတင်ဆောင်၍ မကျိန်းစက်ကြောင်း၊ နေ့ရောညပါ အစဉ်မပြတ် ရှုမှတ်ကြောင်းတို့ကို ဖော်ပြပြီး ဖြစ်၏။ ထိုကဲ့သို့ ရှုမှတ်အားထုတ်ခြင်းကြောင့်လည်း တရားထူးများ၊ ထူးဆန်းသည့် ဖြစ်ရပ်များကို တွေ့မြင်ရ၏။ ၎င်းတို့ကို မှတ်တမ်းစာအုပ်တွင် မှတ်တမ်းတင်ခဲ့၏။

ကျမ်းကိုး။ ထိုဖြစ်ရပ်ဆန်း မှတ်တမ်းတစ်ခုကို ဖော်ပြရလျှင် ကောင်းကင်ဈာန် ကွန့်မြူးသော သံဃာတော်များ ဖူးမြင်ရ၏။ ၎င်းနေ့စွဲမှာ ၁၃၃၂ ခုနှစ်၊ ပြာသိုလဆန်း ၉ ရက် အင်္ဂါနေ့ တည်း။ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၄၆ ။ ကင်းဆရာတော် ကောင်းကင်ပျံကြွသည်ကို သီးလုံးဆရာတော် ဖူးတွေ့ရကြောင်း မှတ်ချက်တွေ့ရ၏။

**ပဲချည်းသက်သက် ၁၀ နှစ်**

အေဒီ ၁၃၆၆ ယခု လူတို့၏ အစာအာဟာရမှာ ကောက်ဆန်ဖြင့် ချက်အပ်သော ထမင်း ဂျုံ ပဲ စသည်တို့ ဖြစ်၏။ ဆရာတော်ကြီးလည်း ကောက်ဆန်ဖြင့် ချက်အပ်သော ကောက်ဆွမ်း၊ သစ်သီးဆွမ်း တို့ကို ဘုဉ်းပေးခဲ့ပြီး ၁၃၂၈ ခုနှစ်ကစပြီး ပျံလွန်တော်မူ သည့်တိုင်အောင် ၁၀ နှစ်ကျော် ပဲချည်းသက်သက် ပြုတ်အပ်သော ပဲဆွမ်းတို့ကို ဘုဉ်းပေးကြောင်း ဖော်ပြပြီးဖြစ်၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၄၇

**နတ်သုဒ္ဓါ ဘုဉ်းပေးရခြင်း**

အေဒီ ၁၉၆၉ ပဲဆွမ်း ဘုဉ်းပေးနေစဉ်အတွင်း ၁၃၃၁ ခုနှစ်၊ ကဆုန်လပြည့်ကျော် ၁၂ ရက် သောကြာနေ့တွင် ထူးခြားသော အစာအာဟာရကို ဘုဉ်းပေးရကြောင်း မှတ်တမ်းစာအုပ်၌ အံ့ဩဖွယ်မြောက်စွာ တွေ့ရှိရ၏။ ထိုအစာအာဟာရသည် နတ်သုဒ္ဓါဖြစ်၍နေ၏။ ၎င်းနတ်သုဒ္ဓါဘုဉ်းပေးရသည့် နေ့စွဲကို ပြက္ခဒိန်မှတ်တမ်းစာအုပ်တွင် နတ်သုဒ္ဓါ ဟု မင်ဖြင့် ရေး၍ (စား) ကား ဂဏန်းအစား လက္ခဏာခဲဖြင့် မှန်ဝါးစွာ မှတ်သားထား၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၄၇

**အိပ်မက် မက်ပြန်ခြင်း မှတ်တမ်း**

အေဒီ ၁၉၇၂ ဆရာတော်ကြီးသည် နတ်သုဒ္ဓါ ဘုဉ်းပေးရပြီးနောက် တစ်နှစ်ကျော် ကြာသောအခါ နတ်သုဒ္ဓါ စားရသည်ဟု အိပ်မက်မြင်မက်ကြောင်း မှတ်တမ်း စာအုပ်တွင် ၁၃၃၄ ခု တန်ဆောင်မုန်း လဆန်း ၅ ရက် သောကြာနေ့ နတ်သုဒ္ဓါ စားရသည်ဟု အိပ်မက်သည်ဟု တွေ့ရှိရပြန်၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၄၈

http://www.dhammadownload.com



**ဘုရားရှင်ကို ဖူးရခြင်းမှတ်တမ်း**

အေဒီ ၁၉၇၂ ဘုရားရုပ်ပွား ဆင်းတုတော်များက တန်ခိုးပြကြဟန် ရှိ၏။ ဘုရားရုပ်ပွားတော်များ လှုပ်ရှားတော်မူကြောင်း မှတ်တမ်းစာအုပ်၌ ဘုရားရုပ်ပွားတော်များ လှုပ်ရှားတော်မူပုံဟု ၁၃၃၄ ခု တန်ဆောင်မုန်းလပြည့်ကျော် ၄ရက် သောကြာ နေ့တွင် မှတ်သားထား၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၄၈

**နဂါးတစ်ကောင်အကြောင်းမှတ်တမ်း**

ဆရာတော်သည် တရားကို လွန်စွာအားထုတ်မှုကြောင့် ထူးဆန်းသည့်ဖြစ်ရပ် အတွေ့အကြုံများ မှတ်သားထားသည်ကို မှတ်တမ်းစာအုပ်တွင် တွေ့မြင်ရ၏။ ဆန်းပြားသည့် အတွေ့အကြုံ တစ်ခုမှာ နဂါးတစ်ကောင် ဖြစ်၏။

ယင်းနဂါးတစ်ကောင်ကို မည်သို့ မည်ပုံ တွေ့ကြုံရသည်ကိုတော့ အကျယ်မှတ်တမ်း မတင်၊ တွေ့ကြုံသော နေ့စွဲ ဇယားကွက် ပြက္ခဒိန်အကွက်တွင် အခြားမှတ်တမ်းတစ်ခုရှိ၍ ယင်းအကွက် အောက်တည့်တည့် အလွတ်တွင် ခဲဖြင့် နဂါးတစ်ကောင်ဟု မှတ်သားထား၏။

**နဂါးတစ်ကောင်အကြောင်းကိုယ်ပိုင်မှတ်တမ်း**

အေဒီ ၁၉၇၀ ၁၃၃၂ ခု၊ နယုန်လဆန်း ၃ ရက် တနင်္ဂနွေနေ့တွင် ဖြစ်၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၄၉

**ဘုရားဖူးရသည့်မှတ်တမ်း**

အေဒီ ၁၉၇၃ ၁၃၃၅ ခု၊ တန်ခူးလဆန်း ၄ ရက်၊ အင်္ဂါနေ့ ဇယားကွက်တွင် ဘုရားအထူး ဖူးရသည့် ရွေးတိုက်ကျောင်းကြီးနှင့် ဟု မှတ်တမ်းပြုထားသည်။

**ဆင်ဖြူတော်မှတ်တမ်း**

အေဒီ ၁၉၇၄ ၁၃၃၆ ခုနှစ် သီတင်းကျွတ်လပြည့်ကျော် ၁၁ ရက်၊ တနင်္ဂနွေနေ့ ဇယားတွင် သစ်ပင်ထက်၌ ဆင်ဖြူတော်ကလေးဟု လည်းကောင်း၊

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၅၀

**ဓာတ်လုံးမှတ်တမ်း**

အေဒီ ၁၉၇၂ ဆရာတော်ကြီး၏ မှတ်တမ်းစာအုပ်ကို ဆက်လက် ဖော်ပြရသော် ဓာတ်လုံး ဟု မှတ်သားထား သည်ကို ၁၃၃၄ ခု တော်သလင်းလဆန်း ၂ ရက်၊ စနေနေ့ ဇယားကွက်တွင် တွေ့မြင်ရ၏။

**ဓာတ်လုံးမှတ်တမ်း**

အေဒီ ၁၉၇၅ ၁၃၃၇ ခုနှစ်၊ နယုန်လပြည့်ကျော် ၇ ရက်၊ တနင်္လာနေ့ ဇယားကွက်တွင်လည်း ဓာတ်လုံး ရောက်လာသည်ဟု ကြည့်ရှုရပြန်၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၅၁

ကျမ်းကိုး။ ၁၃၃၇ ခုနှစ်၊ ဝါခေါင်လဆန်း ၁၃ ရက်နေ့ ဓာတ်လုံးရောက်လာသည်။ ရွှေစကြာ ဆရာကြွယ် လှူဒါန်းသည်ဟု မှတ်တမ်းပြုထားပြန်၏။ ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၅၁။

**ဓာတ်လုံးလာလှူသည်ကိုလက်မခံ**

ဆရာတော်။ ဘုန်းကြီးလဲ ဓာတ်လုံး လာလှူကြဖူးတယ်၊ အရှင်ဘုရား ဒီပရက္ခမချောင်ဟာ အရှင် ဘုရားအရင် သုံးဦး ထွက်သွားဖူးကြောင်း အရှင်ဘုရားလဲ ဒီဓာတ်လုံးအလှူခံလျှင် ထွက်မှာပါဘုရားလို့ လျှောက်ထားကြပြီး လှူကြတယ်။ ဘုန်းကြီးကလဲ မထွက်လို၍ ဒီဓာတ်လုံး အလှူမခံလိုကြောင်း၊ လောကုတ္တရာစစ်စစ် ကျင့်တဲ့အကြောင်း ပြန်ပြောလိုက်တယ် ကွဲ့ဟု အမိန့်ရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၅၁

http://www.dhammadownload.com



**ရဟန္တာဟုကျော်ကြား**

ရဟန်း ရှင် လူ ယောဂီအပေါင်းနှင့်တကွ ပြည်သူပြည်သားတို့ကလည်း ဆရာတော်ကြီး အား ရဟန္တာဟု ဘွဲ့အမည် ပြုလာကြ၏။ ပြည်သူအများပေးသော ဘွဲ့ဖြစ်၍လည်း ပျံလွန်တော်မူပြီး စေကာမူ ခေါ်ဆောင်နေကြဆဲပင် ရှိသေး၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၅၂

**ရဟန်းကိစ္စမပြီးသေးကြောင်းအမိန့်ရှိ**

ထိုသို့ ရဟန္တာဟု ကျော်ကြား၍ အတော်ကြာသောအခါ ဆရာတော်အား ရဟန်းကိစ္စပြီးမပြီးကို လျှောက်ထားဖူး၏။ ဆရာတော်ကလည်း ရဟန်းကိစ္စ မပြီးသေးကြောင်း အမိန့်ရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၅၂

**မစိုးရိမ်ဆရာတော်ဘုရားကြီးလျှောက်ထားချက်**

ရဟန္တာ ကိစ္စနှင့်ပတ်သက်၍ အဘိဓဇမဟာရဋ္ဌဂုရု မစိုးရိမ်ဆရာတော်ဘုရားကြီးက မိမိအား လာရောက် ကန်တော့စဉ်အခါက ပရက္ကမဆရာတော်အား တပည့်တော်တို့က အဘိဓမ္မာ သရုပ်နှင့်တကွ ပိဋကသုံးပုံကို ကိုရင်ဘ၀ထဲက ယခုတိုင်အောင် အာဂုံဆောင်ပြီး ကျေညက် နေပါတယ်။ ခန္ဓာကိုယ်သရုပ် အရှင်ဘုရားတို့လောက် မပိုင်ပါဘူး။ ဒါကြောင့် အရှင်ဘုရားတို့ တရားထူးရလို့ ရဟန်းကိစ္စပြီးလျှင်လည်း တပည့်တော်တို့ကို ပစ်မထားပါနှင့်ဟု အမိန့်ရှိသော အခါ ဆရာတော်ကလည်း မိမိ ရဟန်းကိစ္စမပြီးသေးကြောင်း ပြန်လည်လျှောက်ထား၏။

> ကျမ်းကိုး။ ဆရာတော်နှင့်အတူ ပါကြသူ မန္တလေး မြို့ ရုံးသာရပ်မှ ဦးမြမောင်နှင့် အဖွဲ့ ရေကြည်ရပ်မှ ဦးဘရီ ဒေါ်ညွန့်ညွန့်မေနှင့်အဖွဲ့တို့က စာရေးသူအား တစ်ဆင့် လျှောက်ထားကြ၏။ ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၅၃။
>
> ကျမ်းကိုး။ ဤအကြောင်းအရာကို မစိုးရိမ်ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိတွင် ဦးရဇဓမ္မာဘိဝံသက ပွင့်လင်းသော ဆရာတော်နှစ်ပါး ဟူသော ခေါင်းစဉ်ဖြင့် အနောက်ပရက္ကမဆရာတော်ကြီးကလည်း ရဟန္တာမဟုတ်ပါဟုလည်းကောင်း မစိုးရိမ်ဆရာတော်ဘုရားကြီးကလည်း ပရိယတ် ကျွမ်းကျင်သလောက် ပဋိပတ္တိမပေါက်ရောက်ကြောင်းကိုလည်းကောင်း ပွင့်လင်းစွာ ရိုးရိုးသားသားပြောကြပုံကို ဤယခုခေတ်၌ ရဟန္တာဟု ကျော်ကြားသူ အချို့တို့ မစိုးရိမ်ဆရာတော်ဘုရားကြီးထံရောက်လာ၍ မေးစစ်သောအခါ ကွေ့ကောက်စွာ ပြောကြားသွားကြသည်ကိုလည်း ရေးသားထား၏။ ယင်းကျမ်း ၃၅၃ ကိုလည်းကြည့်။

**ဆရာတော်ကြီး၏ ညည်းတွားသံ**

စံကင်း ဆရာတော်ဘုရားကြီးနှင့် မစိုးရိမ် ဆရာတော်နှစ်ပါးလုံး ပျံလွန်တော်မူသောအခါ "သာသနာတော်ကြီးတွင် နေလအသွင် ထင်ရှားကြပြီး သီလ သမာဓိ ပညာ အသက်ဂုဏ်ဝါ ကြီးမားကြသည့် ဆရာတော်ကြီးနှစ်ပါး ပျံလွန်တော်မူကြရှာပါပြီ၊ သေခြင်းတရားဟာ ရှောင်ရှား၍ မရပါတကား" ဟု ညည်းတွား၍ မိန့်ကြားဖူး၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၅၄

**တောင်မြို့ဆရာတော် လျှောက်ထားချက်ရဟန္တာကိစ္စ**

တောင်မြို့ ဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသအား သွားရောက် ကန်တော့သော အခါ၌လည်း ရဟန္တာဟုတ် မဟုတ် မေးခွန်းပုဒ်ကိုပင် အဖြေထုတ်ခဲ့ရ၏။ စစ်ကိုင်းတောင်ရိုး ပါဠိတော်ဂိုဏ်း ဣစ္ဆာသယ ဆရာတော် ဦးပညာ လောကမှန်ကင်း (ဈေးကျောင်း) ချောင်ဆရာတော်၊ အနီးစခန်း ဆရာတော်တို့အားလည်း ပူဇော်ကန်တော့၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၅၅

http://www.dhammadownload.com



**အနီးစခန်း ဆရာတော်လျှောက်ထားသော ရဟန္တာ**

အနီးစခန်း ဆရာတော်အား ပူဇော်ကန်တော့သောအခါ၌လည်း ရဟန္တာ ပြဿနာကိုပင် မြေရှင်း လျှောက်ထားခဲ့ရ၏။ ထိုအခါ အနီးစခန်း ဆရာတော်က "အရှင်ဘုရားတို့လောက် ကျင့်နိုင်တဲ့ပုဂ္ဂိုလ် ယခု ပစ္စက္ခမှာ မပေါ်သေးပါဘူး၊ နောက်ပြီးတော့ အရှင်ဘုရားတို့က ပဋိပတ္တိမှာ စစ်ကိုင်းတောင်နှင့် တစ်သာသနာလုံးရဲ့ ကျက်သရေကို ဆောင်နေတဲ့ ပဋိပတ္တိသာသနာ့ ရှေ့ဆောင်ကြီး များ ဖြစ်ကြပါတယ်" ဟု အမိန့်ရှိကြောင်း သိရပါသည်။

ကျမ်းကိုး။ ကန်တော့ရာတွင် ပါဝင်သူ သတင်းထောက် ဦးသောင်းညွန့် ဦးသိန်းတန်တို့က စာရေးသူအားလျှောက်ထားကြ၏ဟု ကျမ်းကိုး၊ ယင်းကျမ်းစာ-၃၅၅ တွင် ပါ၏။

**ဆရာတော်ကြီးကိုယ်တိုင် ရေးသားတော်မူခဲ့သော မေတ္တာတရား ကဗျာများ ရှားပါး ပစ္စည်း**

မေတ္တာဘာဝနာ ပွားများကြရန် အောက်ပါကဗျာများကို ဆရာတော်၏ မှတ်စုစာအုပ်မှ ဖော်ထုတ်ပြလိုက်ပါ၏။

**ဆရာတော်ကြီး ကိုယ်တိုင်ရေး မေတ္တာကဗျာများ**

၁။ မေတ္တာတရား၊ လက်ကိုင်ထား၊ မလားပါယ်လေးရှာ။
၂။ မေတ္တာတရား၊ နေ့စဉ်ပွား၊ ထင်ရှားလာမည်သာ။
၃။ မေတ္တာတရား၊ အမြဲပွား၊ တိုးပွားဉာဏ်ပညာ။
၄။ မေတ္တာပွားများ၊အသားစား၊ တအားရှောင်ကြဉ်ပါ။
၅။ မေတ္တာပွားပြန်၊ မှားမမှန်၊ ဧကန်ချမ်းသာမှာ။
၆။ မေတ္တာကိုဆောင်၊ ကြံတိုင်းအောင်၊ လူ့ဘောင်ကျော်ကြားလာ။
၇။ မေတ္တာအကျိုး၊ နေ့တိုင်းတိုး၊ တန်ခိုးပြည့်စုံမှာ။
၈။ မေတ္တာအတွက်၊ ရန်သူပျက်၊ ဆက်လက်ပွားများပါ။
၉။ မေတ္တာတန်ခိုး၊ ရန်သူမျိုး၊ ပျက်ရိုးအမှန်ပါ။
၁၀။ မေတ္တာရေချမ်း၊ အမြဲဖျန်း၊ ဘေးဘျမ်းရှင်းရှင်းကွာ။
၁၁။ မေတ္တာအတွက်၊ မသတ်ရက်၊ လွတ်ချက်ဧကန်ပါ။
၁၂။ မေတ္တာရှေ့သွား၊ နှလုံးသား၊ အများချမ်းသာရာ။
၁၃။ မေတ္တာပို့ပြန်၊ ရန်သူ့ထံ၊ ဒဏ်ပြန်ဆေးမှတ်ပါ။
၁၄။ မေတ္တာမွှမ်းထုံ၊ ဘေးမျိုးလုံ၊ အကုန်ချမ်းသာရာ။
၁၅။ နှုတ်ကြမ်းမောက်စွာ၊ မဲ့မေတ္တာ၊ ချီးသာပြေပြစ်၊ လူတိုင်းချစ်။
၁၆။ ဘေးရန်နှင့်တွေ့၊ မေတ္တာမွေ့၊ ရန်ငွေ့ပျက်ပြုန်းမည်။
၁၇။ မေတ္တာခြုံမှု၊ လုံခြုံစွ၊ သုခရှိမည်သာ။
၁၈။ မေတ္တာတရား၊ ပွားသူများ၊ ရောက်ပြားဘုံပြဟ္မာ။
၁၉။ မေတ္တာအစွမ်း၊ ကမ္ဘာလွှမ်း၊ ငြိမ်းချမ်းသာယာမှာ။
၂၀။ မေတ္တာအဟုန်၊ ကမ္ဘာလုံ၊ လူ့ဘုံအေးချမ်းသာ။

ဤကဗျာများသည် မေတ္တာနှင့် စပ်၍ ကိုယ်တွေ့ဖြစ်ရပ်များကို မှတ်သားထားသည့် ကဗျာများဟု ယူဆမိသည်ဟု တွေ့ရ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၇၁ကိုကြည့်ပါ။

http://www.dhammadownload.com



**ကက်ဆက်ခွေနှင့် ဝိပဿနာဘုန်းကြီးအသံ မြို့ထဲမှာ တကြော်ကြော်နှင့်**

ဥပုသ်နေ့တစ်နေ့တွင် ဆရာတော် သီလပေး တရားဟောမည့် ရှေ့တွင် ကက်ဆက်ချထား၏။ ထိုအခါ ဆရာတော်က "ဒါက ဘာလဲကွဲ့" ဟု မေး၏။ ကက်ဆက်ဖြစ်ကြောင်း လျှောက်သော အခါ "ကက်ဆက်ဆိုတာ ဘာလဲကွဲ့" ဟု ထပ်မံမေးမြန်း၏။ အသံဖမ်းတဲ့စက်ဖြစ်ကြောင်း လျှောက်ထားသောအခါ တခြားတစ်နေရာမှာ ထားလိုက်ပါကွယ်" ဟု အမိန့်ရှိပြန်၏။ ထိုအခါ ဦးဘရီက "ဆရာတော်ရဲ့ တရားသံ ဖမ်းထားချင်လို့ပါ ဘုရား၊ အိမ်ရောက်လဲ တရားနာချင် တဲ့အခါ ဖွင့်ပြီးတရားနာဖို့ပါ ဘုရား" ဟု ထပ်မံလျှောက်ထားပြန်၏။ ထိုအခါ ဆရာတော်က "ကွယ် သည်းခံကြပါကွဲ့ ဝိပဿနာဘုန်းကြီးရဲ့အသံက မြို့ထဲ ရွာထဲမှာ တကြော်ကြော်နဲ့ မသင့်လျော်ပါဘူးကွယ်" ဟု အမိန့်ရှိ၏။ ဦးဘရီတို့ကလည်း "ဆရာတော်ခွင့်မပြု၍ အသံဖမ်းမှု ကို မပြုကြတော့" ဟု ဆို၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၀၁

**ကံကောင်း၍ အသံသွင်းခွေ တစ်ခွေ ကျန်ခဲ့**

"တပည့်တော်ကို သီလပေးကိုတော့ အသံဖမ်းခွင့်ပြုပါဦး ဘုရား" ဟု လျှောက်ထားကာ သီလ ယူကြရင်း ဖမ်းထားသည့် သီလပေးသာ ရှိ၏ဟု ကံကောင်းစွာသိခဲ့ရပါသည်။

> ကျမ်းကိုး။ ဆရာတော် ပျံလွန်တော်မူပြီးမှ ဦးမြင့်ဆွေက မန္တလေးမြို့ အိမ်တစ်အိမ်တွင် ဖွင့်နေသည့် အသံကို နားစွင့်ထောင်သောအခါ ဆရာတော်အသံဟု ထင်၍ ဝင်ရောက် မေးမြန်းသောအခါ ဟုတ်ကြောင်းသိရ၍ ဦးဘရီအား ပြောပြ၏။ ဦးဘရီရော၊ ဦးမြင့်ဆွေ တို့ပါ အသံကို ကူးယူကြ၏။ စာရေးသူအားလည်း လာရောက်ဖွင့်ပြ၏။ အကြောင်းအရာမှာ တခြားမဟုတ်ပဲ၊ တပေါင်းလပြည့်နေ့က ကောင်းမှုတော် မီးပူဇော်ပွဲတွင် သီလပေး သံဃာ တော်များ ပရိတ်ရွတ်နှင့် ဆရာတော် ဝတ်တက်နေခြင်းဖြစ်၏။ ဝတ်တက်နေသောအခါ ဆရာတော်နောက်မှ ဆရာတော် မသိအောင် ဖမ်းထားရ၍ ကြည်လင်ပြတ်သားမှု နည်းပါး ၏။ နားထောင်ဖြစ်သေး၍ တော်သေး၏ ဟု ဆိုရင်း မှတ်တမ်းတင်ထား၏။ မူရင်း ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၀၂ ကို ကြည့်။

**ဆရာတော်၏နည်း အမွေ**

ဆရာတော်သည် ဝေယျာဝစ္စပြုရင်းမှ ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်းစီးဖြန်းခြင်းနှင့် ဝိပဿနာ သွင်းသွား ကြောင်းကို မိန့်ကြားဖူး၏။

**ဆရာတော်၏ ဘုရားရှိခိုးနည်း**

မြတ်စွာဘုရားအား ဖူးမြော်ရှိခိုးသောအခါတို့၌လည်း ဖော်ပြခဲ့ပြီးသည့် ဘုရားရှိခိုးနည်းအတိုင်း ပြုလုပ်သည်ကို စာရေးသူနှင့် တပည့်များ နေ့စဉ်တွေ့မြင်ကြရ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၀၄

**သံသရာ ခရီးသွားတို့ ဂုဏ်တော်ပွားကြ**

ဆရာတော် ကိုယ်တိုင်ကလည်း သံသရာ ခရီးရှည်ရှည် သွားလိုသူများ ဂုဏ်တော်ကို အမြဲပွားရ မည်ဟု အမိန့်ရှိဖူး ၏။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၀၄

http://www.dhammadownload.com



**အင်းဝခေတ် ရှင်မဟာသီလဝံသ ကဗျာကြီး**

**ပျောက်ဆုံးနေသော အင်းဝခေတ် ရှင်မဟာသီလဝံသ၏ ၃၅ ဂါထာကို ဆရာတော်ကြီး နှုတ်တက်ဆောင်တော်မူခြင်း**

ဆရာတော်ကလည်း အင်းဝခေတ် စာဆိုတော်ကြီး အရှင်မဟာသီလဝံသ ရေးသားစီကုံး ပြီးနောက် ပျောက်ဆုံးနေခဲ့သော သုံးဆယ့်ငါးဂါထာ ပါဠိအနက်ကို အရကျက်၍ နေ့စဉ် ဝတ်တက်ဝတ်ကပ်ပြီး ရွတ်ဖတ်၍ဆုတောင်း၏။ စာမူတွေ့ရခြင်းနှင့် ရှင်မဟာသီလဝံသရေးဟု သိရသည်မှာ ဆရာတော်ကိုသာ ကျေးဇူးတင်ကြရပါမည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၀၅

**ရွှေပွတ်တိုင်ဘုရားသွားဖူးကြ**

ရွှေပွတ်တိုင်ဘုရား၏ ဘွဲ့တော်ကိုကား ကြားဖူးသူ တော်တော် များကြ၏။ အသက် ၇၈ နှစ်တွင် ပျံလွန်တော် မူသွားသော အထက်မင်းပူး ဆရာတော် ဦးပဏ္ဍိတကလည်း ရွှေပွတ်တိုင်ဘုရား ပြိုလျှင်၊ အမေသေတာတောင် စောင့်မနေနှင့် သွားဖူးဟု ကြားဖူးကြောင်း စာရေးသူအား မိန့်ကြားဖူး၏။

**ဓာတ်တော်ထူးများ**

ဘာကြောင့်လဲ ဘုရားဟု လျှောက်ထားသောအခါ ဓာတ်တော်ထူး ဖူးရအောင်ဟု မိန့်ကြား၏။ ဓာတ်တော်ထူးများ ဖူးကြရ၏။ ရွှေပွတ်တိုင်ဘုရား ပြုပြင်မွမ်းမံသော အခါ၌ ဌာပနာအတွင်းမှ ဓာတ်တော်များ ဖူးကြရ၏။

**ပုလင်းအလယ်တွင် အမှီအတွယ်မရှိဘဲ ဈာန်ပျံနေသော ဓာတ်တော်များ**

ဓာတ်တော်များ များပြားစွာ ပါသော်လည်း ဓာတ်တော်ထူးမှာ နှစ်ဆူသာပါ၏။ ဓာတ်တော်ထူးတို့သည် ပုလင်းထဲတွင် ကိန်းဝပ်ကြသော်လည်း ပုလင်း၏ အောက်ခြေတွင် မကိန်းဝပ်ကြပဲ၊ ပုလင်း အလယ်မှာ အမှီအတွယ်မရှိဘဲ ထူးကဲစွာ ကိန်းဝပ်ကြ၏။ ပုလင်းထဲတွင်လည်း ရေမွှေး စသည့် ဘာမျှမရှိ၊ ဤသို့ ထူးကဲစွာ ကိန်းဝပ်နေကြသည်ကို ဖူးမြင် ကြည်ညိုလို့ မဝ၊ အားမရကြ ကြောင်း ဖူးသူတို့က ပြောဆိုကြ၏။

ကျမ်းကိုး။ အထက်မင်းပူး ဥရုဝေဠ ဆရာတော် စသည်တို့က စာရေးသူအား မိန့်ကြား၏။ ၎င်းဓာတ်တော်များကိုလည်း ရွှေပွတ်တိုင် ဘုရားမှာပင် ပြန်လည် ဌာပနာ၏။ ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၂၀။

**ရွှေပွတ်တိုင် ရောင်ခြည်တော်လွှတ်**

ရွှေပွတ်တိုင်ဘုရားမှ ရောင်ခြည်တော်များ ပုညရှင်ဘုရားပွဲတော်နေ့တွင် ပုညရှင်နှင့် ကူးသည်ကို ဖူးမြင်ရဖူးကြောင်း၊ ယခု အသက် ၇၀ ရှိ ဘိုးသက်ရှည် ကာလသား အရွယ် ကောင်းမှုတော် ဘုရားပွဲ ဓာတ်လှည်းတိုက်ပွဲစဉ် ရွှေပွတ်တိုင်ဘုရားမှ ရောင်ခြည်တော်များ ကောင်းမှုတော်ဘုရားနှင့် ကူးသည်ကို ဖူးမြင်ကြည်ညိုရကြောင်း သိရှိရ၏။

ကျမ်းကိုး။ ၎င်းရွှေပွတ်တိုင်ဘုရားမှ ရောင်ခြည်တော်များ ကွန့်မြူးသည်ကို ဖူးမြင်ကြရသူများတွင် အထက်မင်းပူးချောင်ဆရာတော်၊ ကြွယ်လူးတောရဆရာတော်လည်း ပါဝင်၏ဟု သိရ၏၊ ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၂၂ ကို ကြည့်။

**ရွှေပွတ်တိုင် ဘုရားဒါယကာ**

ရွှေပွတ်တိုင်ဘုရား၏ မူလဒါယိကာမမှာ ငါးဆူမိဖုရား၊ နောက်ထပ်ပြုပြင်သူ ဘုရားဒါယိကာမ

http://www.dhammadownload.com



မှာ ပန်းတောင်း မင်းသမီး (ခေါ်) ကျောက်ပန်းတောင်း မင်းသမီး၊ မန္တလေးမြို့ ရွှေမြင်း ပိုးထည်ကုန်သည် ဦးလှမောင် ဒေါ်ရင် ဟူ၍ မှတ်တမ်းပြုရပေမည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၄၂၂

**ဆရာတော် နေ့တိုင်းဖူး**

ဆရာတော်သည် ရွှေပွတ်တိုင် စေတီတော်အား နေ့စဉ်အမြဲ ဝတ်တက်ဝတ်ကပ်ပြု၏။ အေဒီ ၁၉၅၇ ဆရာတော်နာမကျန်းဖြစ်နေစဉ်ကာလ မြန်မာသက္ကရာဇ် ၁၃၃၇ ခုနှစ် တပေါင်းလပြည့်ကျော် ၉ရက်နေ့ ညပိုင်းတွင် ဆရာတော်၏ အခန်းတစ်ခန်းလုံး မွှေးကြိုင်နေပြီး ဆရာတော်နှင့် စကားပြောသံ ကြားရသည်။ ဘယ်သူမှမရှိဘဲ စကားပြောနေသည်ကို အရဲစွန့်၍ လျှောက်ထားသောအခါ "မသိချင်ပါနဲ့ကွယ်" ဟူ၍သာ မိန့်တော်မူ၏။

ကျမ်းကိုး၊ မောင်ရွှန်းသစ်၊ မြတ်မင်္ဂလာ၊ စာမျက်နှာ - ၄၈

အေဒီ ၁၉၅၇ — အနောက်ပရက္ကမဆရာတော်ကြီးသည် မြန်မာသက္ကရာဇ် ၁၃၃၇ ခုနှစ် တန်ခူးလပြည့်ကျော် ၂ ရက်၊ သင်္ကြန်အတက်နေ့တွင် ပျံလွန်တော်မူခဲ့သည်။

ကျမ်းကိုး။ စစ်ကိုင်းတောင် အနောက်ပရက္ကမဆရာတော်၏ ဖြစ်စဉ်နှင့်ကျင့်စဉ်များ၊ အရှင်စာရိန္ဒ (ဓမ္မာစရိယ) ၁၉၈၁ ခု၊ ဧပြီလ၁၀ ရက်၊ ၁၃၄၃ ခု၊ သီတင်းကျွတ်လဆန်း ၆ ရက်၊ တနင်္ဂနွေနေ့တွင် မှတ်တမ်းရေးသားပြီးစီးသည့်စာမူ။

ကျမ်းကိုး။ စစ်ကိုင်းတောင်ရိုး အနောက်ပရက္ကမဆရာတော်၏ ဂုဏ်တော်ပုတီးစိပ်နည်းနှင့် အာဇီဝဋ္ဌမကသီလ ခံယူဆောက်တည်ပုံ။ ပညာဗလပုံနှိပ်တိုက်၊ ဈေးချိုအနောက်ဘက်ပွဲစားတန်း။

ကျမ်းကိုး။ နတ်သဒ္ဓါဘုဦးပေးရသော ရဟန္တာတော်၊ မောင်မောင် ဥပဒေ၊ သူရဇ္ဇမဂ္ဂဇင်း ၂၀၀၅ ခုနှစ် စက်တင်ဘာလ၊ စာ ၆၄။

ကျမ်းကိုး၊ မောင်ရွှန်းသစ် စစ်ကိုင်းတောင်၊ အနောက်ပရက္ကမဆရာတော်ကြီး၏ ထူးဆန်းသော မှတ်တမ်းများ၊ မြတ်မင်္ဂလာမဂ္ဂဇင်း၊ အတွဲ ၁၇၊ အမှတ် ၅။ ၂၀၀၁ ခု ဒီဇင်ဘာလ၊ စာ ၄၅။

http://www.dhammadownload.com



မပုပ်မသိုးသော ရုပ်ကလာပ်တော်ကြီးတည်ရာ အခန်းတံခါးကြီးသည် လူမရှိဘဲ အလိုလို
ပိတ်လျက် ပြန်ဖွင့်၍မရတော့သော
ဘာမသိတဲ့ဆရာတော် အမည်ခံ

# စစ်တောင်း တောင်ဖီလာဆရာတော် ဦးပဉ္ဉာဝ

(၁၉၀၇ – ၁၉၈၇)



http://www.dhammadownload.com



ခန္ဓာဝန်ချစဉ်က အလွန်ထူးဆန်းသော အဖြစ်အပျက်များကြောင့် တောတောင် အထပ်ထပ်ကို ကျော်ဖြတ်လျက် သွားဖူးကြသူများကို တွေ့ရှိရပါသည်။

**ကိုယ်တိုင် ရောက်ဖူးခြင်း**

ကျွန်ုပ်တို့ တစ်စုလည်း ရောက်ဖူးပါသည်။ ထိုတောင်ဖီလာတောင်မှာ စစ်တောင်းတစ်ဖက်ကမ်း တွင် တည်ရှိပါသည်။ တောင်ငူမှ တစ်ဆင့်သွားရသည်။ တကယ့်ကို ဖီလာကန့်လန် တောင်ကြီး ဖြစ်သည်။ စစ်ကိုင်းတောင် တောင်ဖီလာကို အနောက်တောင်ဖီလာဟု ခေါ်ကြသည်။ ယခု တောင်ဖီလာကို အရှေ့ စစ်တောင်းတောင်ဖီလာဟု ခေါ်ကြသည်။

**ခေတ်ပြိုင်ဆရာတော်များ ရှာဖွေခြင်း**

အေဒီ ၁၉၀၇

၁၉၀၇ ခုနှစ်ဖွား ဆရာတော်အကြောင်းကို လေ့လာသောအခါ ခေတ်ပြိုင်များကိုလည်း လေ့လာ ရပါသည်။ တစ်နှစ်တည်းဖွားသော ရဟန္တာနှင့် ရဟန်းထူးများ ၂ ပါးကို ရှားရှားပါးပါး ရှာတွေ့ ရပါသည်။

**ယနေ့တိုင်ဖူးတွေ့နိုင်သော အလွန့်အလွန်ထူးခြားသည့် ဂဠုန်တောင် ကုံလုံဆရာတော် ဘုရားကြီး**

အေဒီ ၂၀၀၄

၁၉၀၇ ခုဖွား ဆရာတော်တစ်ပါးမှာ ရုပ်ကလာပ်တော် ယနေ့တိုင် တည်ရှိနေသော ကုံလုံ ဆရာတော် ဘုရားကြီးဖြစ်၏။ ကုံလုံဆရာတော်ကြီး ဦးတေဇနိယမှာ ဂဠုန်တောင်၌ မပုပ်မသိုး တည်နေတော်မူသော ရဟန်းထူး ရဟန်းမြတ်ကြီးဖြစ်၏။ ၁၉၀၇ ခုမှာ ဖွား၏။ ၂၀၀၄ ခုနှစ်မှာ ခန္ဓာဝန်ချတော်မူ၏။

> ကျမ်းကိုး။ ထွန်းလွင်၊ ဓမ္မစရိယ ဘီအေ၊ ကုံလုံဆရာတော်ဘုရားကြီး၊ ရတနာမွန်မဂ္ဂဇင်း၊ ၁၉၉၃ ခု၊ ဩဂုတ်လ၊ အတွဲ ၂၀၊ အမှတ် ၈၊ စာ ၅-၆ ကိုကြည့်။ အေးဖေသိန်း၊ ရွှေကန်၊ ကုံလုံဆရာတော်၊ မြတ်ပွင့်ဖြူ၊ ဂဠုန်တောင်မှ ကုံလုံဆရာတော်ဘုရားကြီး၊ ၁၉၉၀ ခု၊ ပထမအကြိမ်၊ စာ ၃၉-၄၀။

**ခေတ်ပြိုင် ၁၉၀၇-ဖွား ကျီးကန်းက ဖွန်းချီလာပြီး ပန်းကန်ထဲ ထည့်ပေးရသော ဆရာတော်**

၁၉၀၇ ခုဖွား အခြားတစ်ပါးမှာ အုတ်ဖိုမြို့နယ် ဂုံညင်းတန်းရွာအနီး သရက်ပင်ကန်ရွာတွင် ယနေ့တိုင် ရုပ်ကလာပ်တော်မပုပ်မသိုး တည်ရှိနေသေးသော ရွှေဘုန်းပွင့်စံကျောင်းဆရာတော် ဦးသီဟ ဖြစ်၏။ ထိုဆရာတော်လည်း ၁၉၀၇ ခုနှစ်မှာ ဖွား၏။ ၁၉၆၉ တွင် ခန္ဓာဝန်ချ၏။ ထိုဆရာတော်၏ ထူးခြားချက်မှာ ဆရာတော်အား ဆွမ်းကပ်စဉ်က ဇွန်းတစ်ချောင်းမှ ပါမလာ သဖြင့်ကျီးကန်းတစ်ကောင်က ဇွန်းကို ကိုက်ချီ ပျံသန်းလာပြီး ဟင်းပွဲထဲသို့ ဇွန်းလာထည့်ပေး ခဲ့ခြင်းကြောင့် ထူးထူးခြားခြား ကျော်စောတော်မူသော ဆရာတော်ကြီးဖြစ်၏။

> ကျမ်းကိုး။ မောင်သောင်းဝင်း၊ စစ်ကွင်း ရွှေဘုန်းပွင့်က ဆရာတော် ဦးသီဟ၏ မပုပ်မသိုး သော ရုပ်ကလာပ်တော် နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၂၀၀၄ ခု ဩဂုတ်လ၊ အမှတ် ၂၁၇၊ စာ ၃၈ ကိုကြည့်၊ မောင်ပန်းမွေး ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မ၊ ၂၀၀၈ ခု၊ အောက်တိုဘာ စာ ၇၁၈ ကိုကြည့်။

**ခေတ်ပြိုင် ၁၉၀၇-ဖွား ရမည်းသင်းသား စစ်စစ်**

**သို့သော် စစ်တောင်းမှာ နာမည်ကျော်**

ဤသို့အားဖြင့် ထူးခြားဆန်းကြယ်သော ၁၉၀၇ ခုနှစ်တွင် သာသနာတော်ကြီးအတွက် ဆရာတော်တစ်ပါး ဖူးပွင့်လာပါသည်။ ထိုဆရာတော်ကြီးမှာ ရမည်းသင်းသား စစ်စစ်ကြီး ဖြစ်၏။ သို့သော် စစ်တောင်းသို့ ရောက်၍ စစ်တောင်းတောင်ဖီလာဟု ဟိုးဟိုးကျော်သော ဆရာတော်ကြီး ဖြစ်၏။

http://www.dhammadownload.com



**ရမည်းသင်းသား ဇာတိ**

အေဒီ ၁၉၀၇

"မိမိတို့ဟာ ရမည်းသင်းနယ်၊ သဖန်းကျောင်းဇာတိဖြစ်တယ်၊ ဆရာတော်ကြီးဟာ တောင်ဖီလာကို မရောက်ခင်က ကိုရင်ဘဝ၊ ရသေ့ဘဝနဲ့ မဟာဂန္ဓာရီလှည့်နေသေးတယ်ဟု ဆရာတော်ကြီး၏ အစ်မတော်ကိုယ်တိုင် ပြောခဲ့ပါသည်။

ကျမ်းကိုး။ ဦးသန်းဖေမြင့်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း။ ၁၉၉၄၊ မတ်လ၊ စာ-၁၀

**ရဟန်းဖြစ်ခြင်း**

အေဒီ ၁၉၄၂

"ရဟန်းဖြစ်တော့ အသက် (၃၅)နှစ် ရှိပြီ" ဟု အစ်မတော်ကိုယ်တိုင် ပြောခဲ့ပါသည်။

ကျမ်းကိုး။ ယင်းကျမ်း စာ ၁၀။

**စစ်တောင်းသို့ ရောက်ရှိခြင်း**

အေဒီ ၁၉၄၅

"တောင်ဖီလာကို (၁၃၀၇)ခုနှစ်က ရောက်ခဲ့ကြတယ်" ဟု ဆရာတော်ကြီး၏ အစ်မတော်ကိုယ်တိုင် ပြောခဲ့ပါသည်။

ကျမ်းကိုး။ ယင်းကျမ်း စာ ၁၀။

**ဆရာတော်ကြီး၏ နှမတော် နှစ်ဦးစလုံးတောထွက်ခြင်း**

ဆရာတော်ကြီးရဲ့ နှမအကြီး လူနာမည်မှာ ဒေါ်လင်းကြည် ဖြစ်၏။ ရသေ့ဘွဲ့ ဒေါ်ဝဏ်သစာရီ ဖြစ်၏။ ဆရာတော်ဘုရားကြီးရဲ့ နှမအငယ် လူအမည် ဒေါ်ဝိုင်းကြည်၊ ရသေ့ဘွဲ့ ဒေါ်ပါရမီ အစ်မတော် နှစ်ယောက်စလုံး ၁၀ ပါးသီလ စောင့်ထိန်းကြတယ်လို့ သိရပါသည်။

ကျမ်းကိုး။ ယင်းကျမ်း စာ ၁၀။

**သစ်ရွက်စား၍ကျင့်ကြံခြင်း**

တောင်ဖီလာဆရာတော်ဘုရားကြီးကတော့ မရှိတော့ဘူး။ ဆရာတော်ကြီးနဲ့အတူ သစ်ရွက်စားပြီး တရားကျင့်ခဲ့တဲ့ ဆရာတော်ဘုရားကြီးရဲ့ နှမတွေပဲ ရသေ့ဝတ်နဲ့ ကျန်ရစ်ခဲ့ကြတယ်ဟု ဖတ်ရှုရပါသည်။

ကျမ်းကိုး။ ယင်းကျမ်း စာ ၁၀။

**ခရီးလမ်းညွှန်**

ရေနီကနေ တောင်ဖီလာရောက်တဲ့အထိ ၁၂ မိုင်နီးပါးဝေးလံသည်။ စတင်ပြီး ခရီးထွက်ခဲ့တဲ့ ဆိတ်ဖူးကုန်းကနေ တောင်ဖီလာရောက်တဲ့အထိ ဖြတ်သန်းခဲ့ရတဲ့ ကျေးရွာများဟာ တစ်ရွာနဲ့ တစ်ရွာ သိပ်မနီးလှပါဘူး။ ခြေလျင်ခရီးတစ်လျှောက်မှာ အင်ကြင်းတောများကို အများဆုံး တွေ့ခဲ့ရပါတယ်။ ဒီအင်ကြင်းတောတွေထဲမှာ ကြီးမားခမ်းနားလှတဲ့ ခြတောင်ပို့ကြီးများကို အံ့ဖွယ်တွေ့ရခြင်းပါပဲဟု ကိုယ်တွေ့ မှတ်တမ်းရှိ၏။

ကျမ်းကိုး။ ယင်းကျမ်း စာ ၁၀။

**နှမထူး**

"သူတို့မောင်နှမ ဒီတောင်ကို ရောက်စက တောင်ပေါ်မှာ ဘာဆိုဘာမှမရှိသေးဘူး။ သစ်ရွက်တဲထိုး၊ သစ်ရွက်စားပြီး အစ်ကိုနဲ့ နှမတစ်နေရာစီ တရားကျင့်ခဲ့ကြတယ်" ဟု ကိုယ်တွေ့ဖြစ်သူ စစ်တောင်းက ကပ္ပိယ အမျိုးသမီးကြီး ဒေါ်ရင်မေက ပြောပြပါသည်။

ကျမ်းကိုး။ ယင်းကျမ်း စာ ၁၀။

**ဒေါ်ဝဏ်သစာရီ ကသိုဏ်းရှုရင်း မျက်စိကွယ်ခြင်း**

ရေကသိုဏ်းနဲ့ ပထဝီကသိုဏ်း ရှုရင်းက တစ်နှစ်လောက် မျက်စိကွယ်ခဲ့တယ်။ နောက်တော့ သူတော်စင်တွေရဲ့ ဆေးနဲ့ မျက်စိပြန်မြင်လာခဲ့တယ်ဟု ထူးဆန်းစွာ ကြားရပါသည်။

ကျမ်းကိုး။ ယင်းကျမ်း စာ ၁၀။

http://www.dhammadownload.com



**ဆရာတော်သာသနာပြုခဲ့သော နယ်မြေများ**

ဆရာတော်ကြီးသည် အမျိုး၊ ဘာသာ၊ သာသနာကို ထိန်းသိမ်းစောင့်ရှောက်ခဲ့ပါသည်။ (၁)စောဗလ (၂)ဖုန်းဆိုး (၃) အောင်ခေါင် (၄) ကြို့ချောင်း (၅) သစ်အယ်တောင် (၆) တောင်ကတုံး စတဲ့နေရာဒေသအနှံ့မှာ အမျိုးမျိုး သာသနာပြုခဲ့ပါသေးသည်။ မိဘမဲ့ကလေးများကို အကြိမ်ကြိမ် ရှင်ပြုရဟန်းခံ ပေးခဲ့ပါသည်ဟု တွေ့ရ၏။

ကျမ်းကိုး။ ယင်းကျမ်း စာ ၁၂။

**ဆရာတော်ကြီး၏ တစ်နေ့တာခရီး**

ဆရာတော်ဘုရားကြီးဟာ စကားအလွန်နည်းတယ်လို့ သိရပါတယ်။ အိပ်ချိန်လည်း အထူးနည်းပြီး တစ်နေ့တစ်နာရီခန့်သာ ကျိန်းကြောင်း သိရပါတယ်။ ဆွမ်းစားရာမှာလည်း ကျောင်းမှာရှိနေရင် အရက်ဆွမ်းတစ်နပ်တည်းသာ ဘုဉ်းပေးလေ့ ရှိပါတယ်။ နေ့စဉ် လက်ဖက်ရည် ပန်းကန်လုံး တစ်လုံးစာလောက်သာ ဘုဉ်းပေးတတ်ပါတယ်။ ဆရာတော်ကြီးဟာ အရပ်အမောင်း ခပ်ပြတ်ပြတ်နဲ့ စိတ်မြန်လက်မြန် အလုပ်လုပ်လေ့ရှိတယ်လို့ ဆိုပါတယ်ဟု ဆောင်းပါးရှင်က မှတ်တမ်းတင်ပါသည်။

ကျမ်းကိုး။ ယင်းကျမ်း စာ ၁၂။

**ထူးခြားသော လူမသိသည့် မဖော်နိုင်စွမ်းသည့် ဆေးစွမ်းကောင်းတစ်လက်**

ဆရာတော်ကြီး ရှိစဉ်ကတည်းက ဉာဏ်ရှိသလို ရေလဲနဲ့ သုံးနိုင်တဲ့ နာမည်ကျော် တောင်ဖီလာ အဆိပ်ဖြေဆေး ရှိပါတယ်။ တိရစ္ဆာန်ပေါင်းစုံရဲ့ သည်းခြေများနဲ့ ဖော်စပ်ထားတဲ့ ဆေးစွမ်းကောင်းပါပဲဟု သိရပါသည်။

ကျမ်းကိုး။ ယင်းကျမ်း စာ ၁၃။

**ဆေးတော်ကြီးကိုယ်တွေ့အစွမ်း**

ထိုဆေးတော်ကြီးနှင့်တကွ ဆေးတွင် ပါဝင်သော တိရစ္ဆာန်ပေါင်းစုံသည်းခြေများစာရင်းကို ရရှိပါသည်။ ထိုစာရင်းအရ ဖော်စပ်နိုင်ဖို့ ဝေးစွ။ သည်းခြေ အမျိုးပေါင်း ၁၀၈ မျိုး ရှာရသည်ကို မဆိုထားပေနှင့်၊ မြင်တွေ့ဖို့တောင် အလွန်ခက်ခဲကြောင်း သိရ၍ ထိုစာရင်းကို ဖတ်ရင်း တုန်လှုပ်မိပါသည်။

> ကျမ်းကိုး။ စစ်တောင်း တောင်ဖီလာသို့ ဤကျမ်းပြုသူကိုယ်တိုင် ရောက်ဖူးရာ တကာရင်းဖြစ်သူ ဦးအောင်ကြီး၏ သား ဦးသိန်းဦးနှင့် ဓမ္မမိတ်ဆွေဖြစ်သူ ရွှေပေါ်ကျွန်း စေတော်ဝင်ကျောင်းမှ စာရေးဆရာကြီးမြေလတ်မြတ်သူတို့ပါဝင်ခဲ့ရာ ဆရာတော်ဘုရားကြီးလက်ထက်ကတည်းက သိကျွမ်းသူများဖြစ်၍ ဆရာတော်ကြီး၏အစ်မတော်များထံမှာ အစုံအလင်သိရှိခဲ့ရပါသည်။ ရသင့်ရထိုက်သည်တို့ကိုလည်း ရရှိပါသည်။ အစ်မတော်များသည် သက်ရှိထင်ရှား ယခု ၂၀၀၉ ခုနှစ်အထိ ရှိနေသေးပါ၏။

**သစ်သီး ငှက်ပျောသီး**

ဆရာတော်ကြီးဟာ အလျဉ်းသင့်တဲ့ သစ်သီးကို ဘုဉ်းပေးလေ့ရှိပေမယ့်လည်း ငှက်ပျောသီးကို နှစ်သက်ကြောင်း သိရပါတယ်ဟူ၍ အစ်မတော်ကြီးများကိုယ်တိုင် ပြောကြားပါသည်။ ကျွန်ုပ်တို့ကိုယ်တိုင်လည်း တောင်ဖီလာတောင်ခြေတွင် ငှက်ပျောပင်များကို စိုက်ပျိုးထားကြောင်း အလိုလိုပေါက်နေကြောင်း တွေ့ရှိရခဲ့ပါသည်။

**ကွေ့ကိုးကွေ့ရှိတဲ့ တောင်တော်ထူး**

တောင်ဖီလာတောင်တော်ဟာ မမြင့်မားလှပေမယ့်လဲ ဂငယ်ကွေ့ ကိုးကွေ့ကို ရစ်ပတ်ပြီး တက်

http://www.dhammadownload.com



ရတဲ့အတွက် အနည်းငယ်တော့ ပင်ပန်းပါတယ်။ တောင်ပေါ်ရောက်တဲ့အခါ တောင်ထိပ်မှာ အောင်ချမ်းသာစေတီ ခပ်ကြီးကြီးတစ်ဆူနဲ့ ဆုတောင်းပြည့် စေတီကလေးတစ်ဆူကို ဖူးတွေ့ရပါတယ်ဟု ရှေးဦးရောက်ဖူးသူတို့ မှတ်တမ်းရှိ၏။

ကျမ်းကိုး။ ဦးသန်းဖေမြင့်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၁၉၉၄၊ မတ်လ စာ-၁၃ကိုကြည့်

**ဆရာတော်မတိုင်မီက ကိုရင်လေး မောင်လူထူး**

တောင်ဖီလာဆရာတော်ကြီး မတိုင်ခင်က ကိုလူထူးလို့ ခေါ်တဲ့ ကိုရင်လေးတစ်ပါး သာသနာပြု သွားခဲ့ဖူးပါတယ်။ ဘယ်ကရယ်လို့တော့သိခွင့်မရလိုက်ကြပါဘူး။ ကိုရင်လေးက ဆရာတော် ဘုရားကြီးကို ဆက်ပြီး သာသနာပြုရစ်ဖို့ လျှောက်ထားပြီး ထွက်သွားတယ်လို့ ဆိုပါတယ်။

ကျမ်းကိုး။ ယင်းကျမ်း စာ ၁၄။

**စမတောင်နှင့် မောင်လူထူးအကြောင်း**

ထိုကိုရင်လေးအကြောင်းနှင့် စပ်လျဉ်း၍ ဤကျမ်းပြုသူတို့သည် စမတာင်တော်သို့ ရောက်ရှိစဉ် အခါကလည်း တစ်ဆင့်စကား ကြားရပါသည်။ စမတောင်တော်နှင့် စပ်လျဉ်းသော ပုဂ္ဂိုလ်ထူး ကြီးများ ဖြစ်ကြသည့် အဖေရှင်၊ အဖေလူ၊ အဖေနွဲ့ စသော ပုဂ္ဂိုလ်ကြီးများအကြောင်းပြန်လည် ဖော်ပြထားသော ကိုယ်တွေ့ မှတ်တမ်းများတွင် စစ်တောင်းက မောင်လူထူးအကြောင်း မကြာခဏ မှတ်တမ်းတွေ့ရှိရပါသည်။ သို့သော မောင်လူထူးမှာ ယခု စစ်တောင်း တောင်ဖီလာ ဆရာတော်ကြီးနှင့် ပတ်သက်နေမှန်း တောင်ဖီလာတောင်သို့ ရောက်မှ ရိပ်မိပါတော့သည်။

ကျမ်းကိုး။ မောင်ပန်းမွှေး၏ မှတ်တမ်း၊ တောင်ဖီလာတောင် ရောက်စဉ်က၊

**ပုပ္ပါးရောက် တောင်ဖီလာဆရာတော်**

ဆရာတော်ဘုရားကြီး တောင်ဖီလာကို မရောက်မီ ပုပ္ပါးမှာ ရှိစဉ်ကတည်းက တောင်ဖီလာကို ရောက်တဲ့အခါ ဘယ်ရောဂါဖြစ်ရင် ဘာဆေးသုံးရမယ်ဆိုတဲ့ ဆေးနည်းကို ဆိုင်ရာပုဂ္ဂိုလ်များက လှူဒါန်းခဲ့ပြီး ဖြစ်တယ်လို့ ဆိုပါတယ်ဟု မှတ်တမ်းရှိပါသည်။

ကျမ်းကိုး။ ယင်းကျမ်း စာ ၁၄။

**ဆရာတော်ကြီးသုံးခဲ့တဲ့ စည်ကြီးနဲ့ မောင်းများ**

ဆရာတော်ကြီး သက်တော်ထင်ရှားရှိစဉ်က ည (၆)နာရီ တစ်ကြိမ်၊ (၉)နာရီတစ်ကြိမ် တီးလေ့ ရှိတဲ့ စည်ကြီးများနဲ့ မောင်းများရှိပါတယ်။ နာရီအလိုက် တီးသလို အခါပေးစည်မောင်းများ အဖြစ် လည်း သုံးတယ်လို့ ဆိုပါတယ်ဟု မှတ်တမ်းရှိပါသည်။

ကျမ်းကိုး။ ယင်းကျမ်း စာ ၁၄။

**ကိုယ်တွေ့ လုမ္ဗိနီအင်ကြင်းပင်နှင့် မဥ္ဇူသကနတ်ပန်းပင်ကြီး**

ကျွန်ုပ်တို့ ကိုယ်တွေ့အရ ပြောရလျှင် ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်တည်ရှိရာ ကျောင်း၏ ခေါင်းရင်းပိုင်းတွင် လုမ္ဗိနီအင်ကြင်းပင်ကြီးတစ်ပင် တွေ့ရှိရပါသည်။ ၎င်းအပြင် မဥ္ဇူသကနတ်ပန်းပင်ကြီးလည်းတွေ့ရပါသည်။ ထိုအပင်ကြီးတို့၏ နောက်ကြောင်းသမိုင်းရှိပါ သည်။ အဘယ်ကြောင့် စိုက်ခဲ့ရကြောင်း အတွင်းကျကျသိသူများ ရှိပါသည်။ ကိုယ်တွေ့ဖြစ်ပါ သည်။

**စစ်တောင်းသို့ ခရီးစဉ်**

ရေနီရောက်တဲ့အခါ စစ်တောင်းမြစ်ကို ဖြတ်ရပါသည်။ နွေမှာ တံတားရှိသလို ရေလျှံတဲ့မိုးအခါ မှာ မော်တော်နဲ့ ဖြတ်လို့ရပါသည်။ တစ်ဖက်ကမ်းရောက်တော့ အောင်ချမ်းသာနဲ့ ကျောက် တန်း ရွာနှစ်ရွာကို ဖြတ်ရပါသည်။ ၎င်းနောက် ဆိတ်ဖူးကုန်းသို့ ရောက်ပါသည်။ ၎င်းနောက်

http://www.dhammadownload.com



တောင်ခြေသို့ ရောက်ပါသည်။ တောင်ခြေတွင် ရွာများ ရှိပါသည်။ တောင်ပေါ်အရောက် နေ့ချင်းတက်နိုင်ပါသည်။ တောင်ပေါ်ရောက်လျှင် တည်းခိုစရာနေရာလည်း ရှိပါသည်။ စားစရာသစ်သီးများလည်း ရှိပါသည်။ ကျွန်ုပ်တို့ ရောက်စဉ်က ဆရာတော်ကြီး၏ အစ်မတော်များကို ကိုယ်တိုင် တွေ့ဆုံ မေးမြန်းခဲ့ရပါသေးသည်။

**သက်တော် ၈၀ ဝါတော် ၆၀**

အေဒီ ၁၉၈၇ ဆရာတော်ကြီးသည် (၁၃၄၉)ခု၊ တပေါင်းလကွယ်နေ့ ည ၈ နာရီမှာ ပျံလွန်တော်မူခဲ့ပါသည်။ ထိုအချိန်တွင် သက်တော် (၈၀)၊ သိက္ခာတော် (၆၀)ရှိနေပြီ ဖြစ်ပါသည်။

**၇ ရက်အဖူးခံပါသည်။** ပျံတော်မူပြီး ခုနစ်ရက်ဖူးတွေ့ခံသေးတယ်၊ **ရုပ်ကလာပ်တော်တံခါး အလိုလို ပိတ်တော်မူပါသည် ပြန်ဖွင့်၍မရတော့ပါ။** ခုနစ်ရက်မြောက်နေ့ မနက် ၉ နာရီ တိတိမှာ တမင်အံဝင်ခွင်ကျဖြစ်အောင် ကြိုးစားပြီး ပိတ်ရင်တောင် မလွယ်တဲ့တံခါးဟာ အလိုလိုပိတ် သွားတယ်ဟု အစ်မတော်များ ကိုယ်တိုင် ပြောပါ သည်။

ကျမ်းကိုး။ ဦးသန်းဖေမြင့်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၁၉၉၄၊ မတ်လ စာ-၁၁ကိုလည်း ကြည့်ပါ။

**ဖျားနာခြင်းမရှိ ပျံလွန်တော်မူ**

ဆရာတော်ကြီး ပျံတော်မူမယ့်သာ ပျံတော်မူသွားတာပါ၊ ဖျားခြင်း နာခြင်း ဘာမှမဖြစ်ခဲ့ပါဘူးဟု သိရပါသည်။

ကျမ်းကိုး။ ယင်းကျမ်း စာ ၁၀။

**မြွေများထွက် ပန်းတွေ ပွင့်၊**

ဆရာတော်ကြီး ပျံတော်မူချိန်မှာ မြွေတွေအများကြီး ထွက်ကြတယ်၊ တောထဲက တောကြောင်တွေ ထွက်လာကြတယ်၊ မိုးဦးကျမှသာ ပွင့်လေ့ရှိတဲ့ နှင်းပန်းတွေ ဆရာတော်ကြီး ပျံတော်မူမယ့် နှစ်မှာ တစ်နှစ်လုံး ပွင့်ကြတယ်။

ကျမ်းကိုး။ ယင်းကျမ်း စာ ၁၀။

**ဘုရားဆုပန်**

ယခုနှစ်အထိ ဆရာတော်ကြီး ရုပ်ကလာပ်ရှိတဲ့ တိုက်ကျောင်းရဲ့ ခေါင်းရင်းမှာ မဥ္စူသကပန်းပင်ရှိတယ်၊ ဘုရားဆုပန်ဦးမယ်ဆိုတဲ့ အဓိဋ္ဌာန်နဲ့ စိုက်ခဲ့တာပဲဟု စာစောင်တစ်စောင်က ဖွင့်ဖော်ပါသည်။

ကျမ်းကိုး။ ယင်းကျမ်း စာ ၁၀ကို ကြည့်ပါ။

ကျမ်းကိုး။ ထွန်းလွင်၊ ဓမ္မာစရိယ ဘီအေ၊ ကုံလုံဆရာတော်ဘုရားကြီး၊ ရတနာမွန်မဂ္ဂဇင်း၊ ၁၉၉၃ ခု၊ ဩဂုတ်လ၊ အတွဲ ၂၀၊ အမှတ် ၈၊ စာ ၅-၆ ကိုကြည့်။ အေးဖေသိန်း၊ ရွှေကန်၊ ကုံလုံဆရာတော်၊ မြတ်ပွင့်ဖြူ၊ ဂဠုန်တောင်မှ ကုံလုံဆရာတော်ဘုရားကြီး၊ ၁၉၉၀ ခု၊ ပထမအကြိမ်၊ စာ ၃၉-၄၀။

ကျမ်းကိုး။ မောင်သောင်းဝင်း၊ စစ်ကွင်း ရွှေဘုန်းပွင့်က ဆရာတော် ဦးသီဟ၏ မပုပ်မသိုးသော ရုပ်ကလာပ်တော် နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၂၀၀၄ ခု ဩဂုတ်လ၊ အမှတ် ၂၁၇၊ စာ ၃၈ ကိုကြည့်၊ မောင်ပန်းမွှေး ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မစာအုပ်တိုက်၊ ၂၀၀၈ ခု၊ အောက်တိုဘာ စာ ၇၁၈ ကိုကြည့်။

ကျမ်းကိုး။ ဦးသန်းဖေမြင့်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၁၉၉၄၊ မတ်လ၊ စာ-၁၀။

http://www.dhammadownload.com



လယ်သမားဘဝမှ တရားထူးရခဲ့သော ရန်ကုန်က ဆရာတော်
ရန်ကုန်မြို့ ငမိုးရိပ်ချောင်းနံဘေးမှာ ရုပ်ကလာပ်တော်
ယနေ့တိုင် မပုပ်မသိုး ကြွင်းကျန်တော်မူသော
ရန်ကုန်တိုင်း၊ ရန်ကုန်မြို့ ဒဂုံမြို့သစ်မြောက်ပိုင်း နန်းအောင်မြေ
အောင်ဝမ္မရိပ်သာကျောင်းဆရာတော်

# ဦးကုန္ဒာစရိယ

(၁၉၀၈ – ၁၉၈၈)



http://www.dhammadownload.com



ဖွား - ၁၉၀၈
ခန္တာဝန်ချ - ၁၉၈၈
သက်တော် - ၈၀
ရုပ်ကလာပ်တော် တည်ရာဌာန - ရန်ကုန်မြို့၊ ဒဂုံမြို့သစ်မြောက်ပိုင်း၊ (၄၆)ရပ်ကွက်

အေဒီ ၁၈၈၅ သီပေါမင်း ပါတော်မူပြီးနောက် နှစ်ပေါင်း ၂၃ နှစ် ကာလအတွင်းတွင် အမျိုးဘာသာ သာသနာတို့ကို နယ်ချဲ့တို့က မည်သို့ပင် နှိပ်ကွပ်သော်လည်း ဘာသာ သာသနာသည် မပျက်ပြယ်ရုံသာမက အမျိုးသားတို့ ကြိုးစားမှုကြောင့် ဆထက်တပိုးပင် ထွန်းလင်းပြောင်လာကြောင်း အသေအချာ လေ့လာတွေ့ရှိရပါသည်။

အေဒီ ၁၉၀၈ နယ်ချဲ့တို့သည် မြန်မာပြည်ကို အသိမ်းရလွယ်သလောက် နောင်သောအခါ မထိန်းနိုင်မသိမ်းနိုင်အောင် ထောင့်မျိုးစုံမှ တော်လှန်ကြသဖြင့် နယ်ချဲ့တို့ မျက်ဖြူဆိုက်ခဲ့ရလေသည်။ ထိုသို့သောအချိန်အခါတွင် စာပေလောကသားတို့ကလည်း တစ်မျိုးတစ်ဖုံ ပုန်ကန်ကြ၏။ တော်လှန်ကြ၏။ နိုင်ငံရေးသမားတို့ကလည်း မိမိရှုထောင့်မှ မနားမနေ တွန်းလှန်ကြ၏။ ထိုသို့သော အချိန်တွင် သာသနာရေး ရှုထောင့်ကလည်း နယ်ချဲ့လက်အောက် သာသနာတော်ကြီး မတိမ်ကောရအောင် အပတ်တကုတ် ကြိုးစားလျက် ရှိနေကြပေသည်။

**ပရိယတ္တိသာသနာဝင်နှင့် ပဋိပတ္တိသာသနာဝင် ခေတ်ပြိုင်လေ့လာချက်**

အေဒီ ၁၈၉၂ ၁၈၈၅ ခုနှစ်တွင် သီပေါမင်း ပါတော်မူပြီးနောက် ၁၈၉၂ ခုနှစ်တိုင်အောင် အင်္ဂလိပ်အစိုးရလက်ထက်တွင် စာပြန်ပွဲများ မပြုလုပ်နိုင်ခဲ့ကြပါ။ သို့သော်လည်း ထောင့်မျိုးစုံမှ ကြိုးပမ်းမှုကြောင့် ပထမပြန် စာမေးပွဲများ ပြန်လည်ပေါ်ပေါက် ပွင့်လင်းသောအချိန် ဖြစ်ပေသည်။

**ဆရာမြေ ကျမ်းပြုနေပြီ**

အေဒီ ၁၈၉၅ ၁၈၉၅ ခုနှစ်တွင် ပါဠိ ပထမပြန် စာမေးပွဲများ ဖြစ်မြောက်ဖို့ ကော်မတီဖွဲ့ကြသည်။
ထိုအချိန်တွင် ပထမဆုံး ပုံနှိပ်ထုတ်ဝေသည့် ကျမ်းစာအုပ်များမှာ အဂ္ဂမဟာပဏ္ဍိတ ဆရာဖြေတည်းဖြတ်သော ကျမ်းများဖြစ်သည်။ ပုံနှိပ်ပြီးသော ကျမ်းများကိုလည်း ဆရာတော်ကြီးများအား လှူဒါန်းကြသောအချိန်ဖြစ်သည်။

အေဒီ ၁၈၉၅ ၁၈၉၅ ခုနှစ်တွင် ပထမပြန် စာမေးပွဲများ ကျင်းပရန် ဆုံးဖြတ်ကြသည်။

အေဒီ ၁၈၉၇ ၁၈၉၇ ခုနှစ်တွင် သင်ခန်းစာများ ပြဋ္ဌာန်းကြသည်။

အေဒီ ၁၈၉၈ ၁၈၉၈ ခုနှစ်တွင် ပထမကြီးတန်းတွင် အမှတ်အများဆုံး ရသူအား ပထမကျော်ဘွဲ့ဆက်ကပ်ကြရန် ဆုံးဖြတ်ကြသည်။
ထိုသို့သော အချိန်တွင် ပထမကျော်တန်း စာမေးပွဲ ယှဉ်ပြိုင်ဖြေဆိုကြသော ဘုန်းတော်ကြီး ၁၂ ပါးအနက် ရန်ကုန်မြို့ သရက်တောကျောင်းတိုက် နောင်အခါ မော်လမြိုင် ဘုံပျံကျောင်းတိုက် ဦးကေတုမာလာသည် ၁၉၀၁ ခုနှစ်တွင် အောင်မှတ်အများဆုံးရ၍ ပထမကျော်ဘွဲ့ကို ဆွတ်ခူးခဲ့လေသည်။

**တော်စိန်ခိုကောင်းမှု**

အေဒီ ၁၉၀၇ ၁၉၀၁ ခုနှစ်က စ၍ ကျောက်စာဝန် တော်စိန်ခို၏အကြံပေးချက်အရ ဗုဒ္ဓဘာသာသီလရှင်များကို ပါဠိ ပထမပြန် စာမေးပွဲ ဖြေဆိုခွင့် ပေးခဲ့လေသည်။
ဤသို့အားဖြင့် မြန်မာနိုင်ငံ ပရိယတ္တိသမိုင်းကြီးတွင် သာသနာရောင်တော်ဖွင့် ပုဂ္ဂိုလ်များ အသီးသီး ပေါ်ပေါက်လာကြလေသည်။

**၁၉၀၇ ခုနှစ် ခေတ်ပြိုင်ပရိယတ္တိသာသနာဝင်**

အေဒီ ၁၉၀၁ ၁၉၀၁ ခုနှစ်တွင် ဦးကေတုမာလာ (အဂ္ဂမဟာပဏ္ဍိတ သရက်တော ကျောင်းတိုက် ရန်ကုန်မြို့)

http://www.dhammadownload.com



| | |
|---|---|
| အေဒီ ၁၉၀၂ | ၁၉၀၂ ခုနှစ်တွင် ဦးသူရိယ ( အဂ္ဂမဟာပဏ္ဍိတ အဘိဓဇအဂ္ဂမဟာရဋ္ဌဂုရု မစိုးရိမ်ကျောင်းတိုက် မန္တလေးမြို့) |
| အေဒီ ၁၉၀၃ | ၁၉၀၃ ခုနှစ်တွင် ဦးဉာဏ ( အဂ္ဂမဟာပဏ္ဍိတ) ပုဇွန်တောင် ပါဠိကျောင်းတိုက် ရန်ကုန်မြို့။ |
| အေဒီ ၁၉၀၄ | ၁၉၀၄ ခုနှစ် ဦးဝိသုဒ္ဓ (အဂ္ဂမဟာပဏ္ဍိတ) ပုဇွန်တောင် ပါဠိကျောင်းတိုက်၊ ရန်ကုန်မြို့။ |
| အေဒီ ၁၉၀၅ | ၁၉၀၅ ခုနှစ်တွင် ဦးကလျာဏ ( အဂ္ဂမဟာပဏ္ဍိတ ) ယသဓေယျကျောင်းတိုက်၊ ရန်ကုန်မြို့။ |
| အေဒီ ၁၉၀၆ | ၁၉၀၆ ခုနှစ်တွင် ဦးပညိန္ဒြိယ (ဆရာကြီး ဦးလွင်) မင်းကွန်းရှားပင်ချောင်၊ မန္တလေးမြို့။ |
| အေဒီ ၁၉၀၇ | ၁၉၀၇ ခုနှစ်တွင် ဦးကောသလ္လ (ဆရာကြီး ဦးကျော်လှ) အင်းဝကျောင်း၊ သရက်တောကျောင်းတိုက်၊ ရန်ကုန်မြို့။ |

ဤသို့အားဖြင့် ပရိယတ္တိ သာသနာဝင် သမိုင်းတွင် ကြိုးပမ်းမှုများကို သမိုင်းမတင်ဘဲ နေလို့မရချေ။ ထိုအချက်အလက်များကို ကျွန်ုပ်သည် ကံကောင်းထောက်မသဖြင့် ရှာဖွေတွေ့ရှိခဲ့ပါသည်။

ကျမ်းကိုး။ မြန်မာပြည် ဗုဒ္ဓဘာသာ၊ ပုညကုသလအသင်း၊ ဘီဘီအမ်အေ၊ ၄၅ ကြိမ်မြောက်နှစ်ပတ်လည် အစည်းအဝေးမှတ်တမ်း ကောက်နုတ်ချက်၊ ပခန်းသာသနာဝင် ဗြိတိသျှအစိုးရခေတ်၊ ပထမကျော်များ၊ လယ်တီ ဦးလှပိုင်၊ စာ ၁၆၆။

## ခေတ်ပြိုင် ပဋိပတ္တိသာသနာဝင်ကို လေ့လာခြင်း

အထက်ပါ အချက်အလက်များကို ဖော်ပြသည်မှာ သာသနာ၏မဏ္ဍိုင်ဖြစ်သော ပရိယတ္တိ သာသနာဝင်ပုဂ္ဂိုလ်များသည် သူ့ခေတ်အလျောက် အသီးသီးပေါ်ထွန်းနေကြသကဲ့သို့ပင် ပဋိပတ္တိသာသနာဝင်သမိုင်းတွင်လည်း သူ့ခေတ်အလျောက် ရဟန္တာနှင့် ရဟန်းထူးများ ခေတ်ပြိုင်ပေါ်ထွက်နေသည်ဟူသော အချက်ကို ထင်ရှားစေလို၍ ခေတ်ပြိုင် မှတ်တမ်း ပြုရခြင်း ဖြစ်ပါသည်။

## ၁၉၀၇ ခုနှစ်တွင် ရဟန္တာနှင့် ရဟန်းထူးများ ပေါ်ထွက်နေပြီ

## ခေတ်ပြိုင် ၁၉၀၇-ခုမှား ဒုတိယ သိမ်တောင် ဆရာတော်ကြီး ဦးဇဝန

ထို ၁၉၀၇ ခုနှစ်တွင် ဒုတိယ သိမ်တောင်ကြီး ဆရာတော် ဟုကျော်ကြားတော်မူသော ဆရာတော်ကြီး ဦးဇဝနသည် အင်းမကြီးဆရာတော်ဘုရားထံ တပည့်ခံကာ ကပ္ပိယလုပ်နေသော အချိန်ဖြစ်ပါသည်။ ထို ၁၉၀၇ ခုနှစ်တွင်ပင် ကိုရင်ကြီးဝတ်၏။ ရှင်ဇဝနဟု ခေါ်၏။ ထိုအရှင်ဇဝနကို လယ်တီဆရာတော်က မောင်ဇဝနဟု ခေါ်၏။

## ခေတ်ပြိုင် ၁၉၀၇-ခုမှား ဘီးလင်း ဝေပုလ္လတောင် ဘုန်းဘုရားကြီး

ထို ၁၉၀၇ ခုနှစ်တွင်ပင် နတ်များကို ညစဉ် ညစဉ် ဓမ္မစကြာတရား ဟောကြားသည်ဟု ကျော် ကြားတော်မူသော ဘီးလင်းမြို့နယ် ဝေပုလ္လတောင် ဘုန်းဘုရားကြီး ဦးဝေပုလ္လသည် သုံးခွမြို့၊ အုတ်ကန်ရပ်၊ ဘုရားကြီးတိုက်၌ ၂ ဝါတိတိ ဝါဆိုနေသော အချိန်ဖြစ်၏။ လာလာသမျှသော စာသင်သားတို့အား စာချနေသောအချိန် ဖြစ်၏။ ဘုန်းဘုရားကြီးသည် နောင်နှစ်တွင် လှည်းကူးမြို့အပိုင် ဒါးပိန်ရွာသို့ ရောက်သွားလေသည်။ ဘီးလင်း ဝေပုလ္လတောင်သို့ မရောက်သေးပါ။

ကျမ်းကိုး။ ဖိုးဒေါင်းသား၊ ဝေပုလ္လတောင် ဘုန်းဘုရားကြီး ဦးကောသလ္လ၊ ဂမ္ဘီရမဂ္ဂဇင်း၊ စာ ၁၀၊ ဘုန်းပွင့်ထွန်း၊ ဝေပုလ္လတောင် ဆရာတော်ဘုရားကြီး၏ ဩဝါဒ၊ ပါရမီမဂ္ဂဇင်း၊ စာ ၁၄၄၊ ဦးကြီးဖေ၊ မဟာပညာ ဗလ၊ ဝေပုလ္လတောင် ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိကထာ၊ မောင်ပန်းမွှေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မစာအုပ်တိုက်၊ ၂၀၀၈ ခု၊ စာ ၄၈၀ ကိုကြည့်။

http://www.dhammadownload.com



**ခေတ်ပြိုင် ၁၉၀၇ ခုနှစ်တွင် ဝေဘူဆရာတော် သာမဏေဖြစ်**

ထို ၁၉၀၇ ခုနှစ်တွင်ပင် ဇမ္ဗူမှာ တစ်ဆူဟု ဟိုးဟိုးကျော်တော်မူလတ္တံ့သော ဝေဘူဆရာတော် ဘုရားကြီးသည် အသက် ၁၂ သား အရွယ်ရောက်၍ သာမဏေ ပြုပြီးဖြစ်ပါသည်။

ကျမ်းကိုး။ မောင်ပန်းမွှေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ စာ ၆၀၀ ကိုကြည့်။

**ခေတ်ပြိုင် ၁၉၀၇ ခုနှစ်တွင် ငမိုးရိပ်ချောင်းနံဘေးက ရဟန်းထူးကို မွေးဖွား**

ထိုသို့သောအချိန်တွင် ယခု ဖော်ပြလတ္တံ့သော ရန်ကုန်မြို့ ငမိုးရိပ်ချောင်းနံဘေးတွင် ယခုထက်တိုင် မပုပ်မသိုး ရုပ်ကလာပ်တော် တည်ရှိနေသော လယ်သမားကြီး တစ်ယောက်ကို ဖွားမြင်သောနှစ် ဖြစ်နေပေတော့သည်။

**ရဟန်းဝတ်ချင်သော လယ်သမားကြီး**

အေဒီ ၁၉၅၆

အချိန်ကာလမှာ ၁၃၁၈ ခုနှစ် နတ်တော်လ ဖြစ်သည်။ ငမိုးရိပ်ချောင်းနံဘေးရှိ ထားဝယ်ချောင်ရွာမှာ လယ်ယာကိုင်းကျွန်း လုပ်ကိုင်သူများ၏ ရွာဖြစ်သည်။ ထိုရွာမှ လယ်သမားကြီးတစ်ဦးက ရွာဦးကျောင်းဆရာတော်ကို ရဟန်းပြုပေးပါရန် လျှောက်ထားနေခြင်း ဖြစ်သည်။

ကျမ်းကိုး။ ဉာဉ်သစ် ဒဿန၊ ငမိုးရိပ်ချောင်းနံဘေးမှ ထူးခြားသောဆရာတော်၏ ဘဝခရီး၊ ပါရမီ ဓမ္မမဂ္ဂဇင်း အမှတ် ၃၇ ၊ ၁၉၉၅ ခု၊ အောက်တိုဘာလ၊ စာ ၂၁။

**ရှံ့ပေနေသော ကျွဲပခုံးထနေသော လယ်သမားကြီးဘဝမှ လွတ်မြောက်ရေးလမ်းစ**

ထိုသို့ ရဟန်းပြုရန် စိတ်ကူးရချိန်တွင် ထိုရဟန်းလောင်းသည် အသက် ၄၈ နှစ် ရှိပြီ ဖြစ်ပါသည်။ ထိုအချိန်သည်ကား အလွန်ထူးဆန်း၏။ ခရစ်နှစ် ၁၉၅၆ ခု ဖြစ်၏။ သာသနာသက္ကရာဇ် ၂၅၀၀ တင်းတင်း ပြည့်သောနှစ်ဖြစ်၏။ ထိုနှစ်တွင်ပင် ထိုလယ်သမားကြီးသည် ရဟန်းပြုခဲ့ပေသည်။ ထိုရဟန်းကြီးသည်ပင် တရားထူးရ၍ ယနေ့တိုင် ရုပ်ကလာပ်တော် မပုပ်မသိုး ရှိနေလေသည်။ ငမိုးရိပ်ချောင်းနံဘေးတွင် သွားရောက် ဖူးမြော်နိုင်ပါသည်။ ယခု ထိုလယ်သမားကြီးအကြောင်း ကျွန်ုပ်၏ မှတ်စုကတ်တလောက်များကို ဖော်ပြပါသည်။ အောက်တွင် ကြည့်ပါ။

**ဇာတိ**

အေဒီ ၁၉၀၈

ထိုလယ်သမားကြီး၏ အမည်မှာ ဦးရှင် (ခေါ်) ဦးအောင်ခင် ဖြစ်သည်။ မြန်မာသက္ကရာဇ် ၁၂၇၀ ပြည့်နှစ်၊ တန်ဆောင်မုန်းလဆုတ် ၈ ရက်၊ တနင်္ဂနွေနေ့တွင် ထားဝယ်ချောင်ရွာနေ ဦးဖေ၊ ဒေါ်ပုလုတို့မှ မွေးဖွားခဲ့သည်။ ခရစ်နှစ် ၁၉၀၈ ခုနှစ် နိုဝင်ဘာ ၁၅၊ တနင်္ဂနွေနေ့ဖြစ်၏။ မွေးချင်း မောင်နှမ ၇ ယောက်ရှိပါသည်။

ကျမ်းကိုး။ ယင်းစာ ၂၁

**ရှံ့အလူးလူး ပင်ပင်ပန်းပန်း ဆင်းဆင်းရဲရဲဘဝ**

ကြီးပြင်းလာသည့်အခါ၌လည်း ထိုလယ်ကွင်း၌ပင် မိဘတို့၏လုပ်ငန်းကို ရှံ့အလူးလူးဖြင့် ကူညီလုပ်ကိုင်ပေးခဲ့ရသည်။ ထွန်တုံးကိုဆင်၊ နွားကိုင်၍ ပင်ပင်ပန်းပန်း နေ့စဉ် စားဝတ်နေရေးကို ထမ်းခဲ့သည်။

ကျမ်းကိုး။ ယင်းစာ ၂၁

**အိမ်ထောင်ပြု**

အသက်အရွယ်ရလာသောအခါ ဒေါ်နှင်းဆိုသူနှင့် အိမ်ထောင်ပြုခဲ့သည်။ သံသရာ ထမ်းပိုးကြီးက ပို၍ တင်းလေပြီ။ မတင်ဥနှင့် မစောရွှေ ဟူသော သမီးနှစ်ယောက်ကို မွေးဖွားပြီး ဒေါ်နှင်း ဆုံးပါးသွားခဲ့သည်။

ကျမ်းကိုး။ ယင်းစာ ၂၁

http://www.dhammadownload.com



**ကေလာသ ဘုန်းကြီးထံမှာ တရားရ**

တရားပွဲများကို သွားရောက်နာ၍ ကေလာသ ကေလာသဖတောင်မှ ဘုန်းဘုရားကြီး ဦးကောသလ္လထံတွင် သမထ ဝိပဿနာများနည်းခံယူကျင့်ကြံခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၂၁

**သမီးများကို အိမ်ထောင်ချပေး**

အေဒီ ၁၉၅၆

၁၃၁၈ ခုနှစ်သို့ ရောက်သောအခါ သမီးနှစ်ယောက်အား သင့်တော်သူများနှင့် စုံဖက်ပေးခဲ့ပြီး ရဟန်းဘောင်သို့ အပြီးတိုင် ဝင်ရောက်ခဲ့တော့သည်။

ကျမ်းကိုး၊ ယင်းစာ ၂၁

**ဆင်းရဲတွင်းမှ ရဟန်းဘဝသို့**

အေဒီ ၁၉၅၆

၁၃၁၈ ခုနှစ် နတ်တော်လဆန်း ၁၃ ရက်နေ့၊ ရွာဟောင်းသိမ်တော်၌ ဂိုဏ်းချုပ် ဆရာတော် ဦးဝါယမ (တိုးကြောင်လေးရွာကျောင်း) ၏ ဩဝါဒခံယူ၍ လယ်သမားကြီး ဦးရှင် ရဟန်းဘဝ ရောက်ခဲ့ပြီး ရဟန်းဘွဲ့တော်မှာ ဦးဣန္ဒာစရိယ ဖြစ်သည်။

ကျမ်းကိုး၊ ယင်းစာ ၂၁

**နေ့မအား ညမအား အားထုတ်**

နေ့မအား ညမအား တရားကြိုးကုတ် အားထုတ်ခဲ့သည်။ မြောက်ဥက္ကလာရှိ ဦးပညာသာမိ၏ နေရဋ္ဌရာကျောင်း၌ သီတင်းသုံးနေထိုင်ခဲ့ရာမှ ကျောင်းဆောက်လုပ်လှူဒါန်းသူ ပေါ်လာသည်။

ကျမ်းကိုး၊ ယင်းစာ ၂၁

**ကျောင်းဒကာပေါ်ပေါက်**

ကျောင်းဒကာများမှာ ယခု ရွှေပေါက်ကံ မြို့သစ် (ယခင်ပေါက်တလောက်ကျေးရွာမှ ဦးကွာ - ဒေါ်အုန်းမြိုင် တို့ဖြစ်သည် ) ဆရာတော်၏ သီလနှင့် ကျင့်စဉ်တို့ကို ယုံကြည်ကိုးစား၍ ယခု ပတ္တမြားမြို့အနီး ပေါ်တော်မူစေတီအနီးတွင် တောရကျောင်း ဆောက်လုပ်လှူဒါန်းခဲ့ခြင်း ဖြစ်သည်။

ကျမ်းကိုး၊ ယင်းစာ ၂၁

**ကျိုက္ကဆံ ဆံတော်ရှင်မှာ ကျင့်ကြံခဲ့**

အေဒီ ၁၉၅၈

ထိုကျောင်းတွင် ၂ ဝါခန့် တရားကျင့်ကြံအားထုတ်ခဲ့သည်။ ထို့နောက် သက်ကြီးဝါကြီး ဆရာတော်ကြီးများရှိရာ သယ်န်းကျွန်း ကျိုက္ကဆံဘုရား ( ပရိဘောဂ ဝိပဿနာကျောင်း) သို့ သွားရောက် သီတင်းသုံးခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၂၂

**ဝိပဿနာအဆင့်ဆင့် မြင့်သထက်မြင့်**

မိမိရရှိထားသော တရားကို အခြေခံ၍ ဝိပဿနာတရားကို ဇွဲနပဲကြီးစွာ အားထုတ်ခဲ့သည်။ တစ်ဆင့်ထက် တစ်ဆင့် တိုးမြင့်၍ ကျင့်ကြံခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၂၂

**တရားကျင့်၍ ထူးခြားမှုတွေ ရလာ**

ထိုကျောင်းတွင် ဆရာတော် ဦးရှင် တရားကျင့်နေစဉ် ထူးခြားမှုများ ဖြစ်ပေါ်ခဲ့သည်။ ကျောင်းထိုင်ဆရာတော်ကြီးမှ ထိုထူးခြားမှုများကိုလည်းကောင်း၊ ဆရာတော် ဦးရှင်၏ ရရှိလာသော တရားတို့ကို သိရှိသဘောပေါက်၍ "မောင်ပဥ္စင်း မင်း လိုရာ ကြွသီတင်းသုံးနိုင်ပါပြီ" ဟု မိန့်တော်မူလိုက်တော့သည်။

ကျမ်းကိုး၊ ယင်းစာ ၂၂

http://www.dhammadownload.com



**ဘဝတူလယ်သမားများကို ပြန့်ဝေချင်စိတ်**

ဆရာတော်သည် မိမိသိရှိထားသော တရားအား ဆင်းရဲပင်ပန်းစွာ အသက်မွေးကြရသော လယ်သမားများအား ကြားသိစေချင်သည်။ စေတနာဖြင့် မိမိဇာတိ ထားဝယ်ချောင်ရွာ၊ ရွာဦး ကျောင်းသို့ ပြန်လည် ကြွရောက် သီတင်းသုံးခဲ့သည်။ ရဟန်းရှင် လူအများအား တရားဟော ကြားပြသခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၂၂

**ထားဝယ်ချောင်ကျေးရွာ**

ထားဝယ်ချောင်ကျေးရွာမှ ဦးထွန်းရှင်နှင့်သား ဦးလှရွှေ ဒေါ်စောရွှေ မိသားစုနှင့် ကျေးရွာလူကြီး အချို့ တိုင်ပင်ဆွေးနွေးပြီး ဆရာတော်အတွက် ကျောင်းလေးတစ်ဆောင် ဆောက်လုပ်လှူဒါန်း ကြသည်။

ကျမ်းကိုး၊ ယင်းစာ ၂၂

**ကွဲပခုံးထသည့်ဘဝဟောင်းက နေရာကလေး**

ထိုကျောင်းလေးမှာ ဆရာတော်ယယ်စဉ် ကလေးဘဝမှ စ၍ ရွံ့အလူးလူးနှင့် ဆော့ကစားခဲ့သော ကွဲပခုံးထအောင် နွားနှင့် ရုန်းခဲ့ရသော လယ်ကွင်းထဲတွင် ရှိသည်။

ကျမ်းကိုး၊ ယင်းစာ ၂၂

**ဝါးကျောင်းကလေး ပန္နက်ချ**

အေဒီ ၁၉၇၂ — ၁၃၃၄ ခုနှစ် တန်ခူးလဆန်း ၁၀ ရက်နေ့တွင် ထိုဝါးကျောင်းလေးကို ပန္နက်ချခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းစာ ၂၂

**အခါမလပ် သတိ**

ဆရာတော်သည် သတိကို မလွတ်ဘဲ ပြင်းထန်စွာ ကျင့်ကြံခဲ့သည်။ ကျောင်းပေါ်တွင် ရပ် ထိုင်လျောင်း အနေအထားများအတိုင်း အခါမလပ် တရားမှတ်နေတတ်သည်။

ကျမ်းကိုး၊ ယင်းစာ ၂၂

**ဆွမ်းဘုဉ်းပေးပုံ**

ညနေပိုင်းတွင် အနီးအနားရှိ ရေကန်ပေါင်ပေါ်တွင် စင်္ကြံလျှောက် တရားမှတ်နေတတ်သည်။ ဆွမ်းဘုဉ်းပေးရာတွင်လည်း ပေါ့သည်၊ ငန်သည်၊ ကောင်းသည်၊ ဆိုးသည် မည်သည့်အခါမှ ပြောကြားခြင်း မရှိခဲ့ပါ။ ဆွမ်းစားသည့်အခါ မိမိရှေ့တည့်တွင်ရှိသော ဟင်းလျာကိုသာ ဘုဉ်းပေးတတ်သည်။

ကျမ်းကိုး၊ ယင်းစာ ၂၂

**ငွေကို မကောက်မသိမ်း**

ဆရာတော်သည် ဝတ္ထုပစ္စည်း ခင်တွယ်မှုလုံးဝ မရှိ၊ ငွေလှူလျှင် ကောက်မသိမ်းဘဲ လှူသူကိုသာ ဆုပေးနေတတ်သည်။ အလှူရှင်မှသော်လည်းကောင်း၊ ဒါယကာ၊ ဒါယိကာမမှလည်းကောင်း ဆရာတော် သီတင်းသုံးရာ ခုတင်အောက်သို့ ထည့်သွင်းပေးကြရသည်။

ကျမ်းကိုး၊ ယင်းစာ ၂၂

**ကျော်ကြားစ ပြု**

အေဒီ ၁၉၈၄ — ၁၃၄၆ ခုနှစ် ဆရာတော်ကြီး ဂုဏ်သတင်းများ ပျံ့လွင့်နေသည့်အချိန်ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းစာ ၂၂

http://www.dhammadownload.com



**အနာဂတ်အတွက် တဘောင်ပေါ်**

အေဒီ ၁၉၈၅

၁၉၈၅ - ၈၆ ခုတွင် ထားဝယ်ချောင်တစ်ဝိုက်၌ မည်သူက စလိုက်သည် မသိရသော တဘောင်တစ်ခုပေါ်လာခဲ့သည်။ ဥက္ကလာ သာကေတ မာရဏတက္ကသိုလ် လေးဇဟိုအလယ် ကြား မြိုင်ခိုမည့်အသားဟူ၍ ဖြစ်သည်။ ထိုတဘောင်ကို သာသနာပြု သစ္စာမဏ္ဍိုင် ဆရာစိုးက ဆရာတော်အား လျှောက်တင် မေးမြန်းခဲ့ရာ မိန့်ဆိုပုံမှာ စိတ်ဝင်စားဖွယ် ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းစာ ၂၂

**နေရာဟောင်းမှာ မြို့သစ်ကြီး လမ်းသစ်ကြီးပေါ်လတ္တံ့**

အနောက်အရပ် မြောက်ဥက္ကလာ တောင်အရပ် သာကေတ အရှေ့အရပ် ရွာသာကြီး (မာရဏ)၊ မြောက်အရပ် ရွှေပေါက်ကန် (တက္ကသိုလ်) ဟူသော မြို့များသည် ရှေးအခါက ဘုရင့်သားတော် များ စစ်ပညာသင်ရာ စစ်မှုထမ်းများ နေခဲ့ရာမြို့ဖြစ်သည်။ ထိုမြို့များအလယ်တွင် စည်ကား မည့် မြို့သစ်များ ပေါ်ထွန်းလာမည့် နိမိတ်ဖြစ်သည်ဟု ပြောဆိုခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းစာ ၂၂

**လမ်းသစ်ပေါ်မည်ကို ကြိုတင်သိ**

ထားဝယ်ချောင်ရွာသည် ရန်ကုန်တိုင်းအတွင်း ပါဝင်သော်လည်း သွားလာရေး ခက်ခဲချောင်ကျ သော ရွာဖြစ်သည်။ ထိုစဉ်က ငမိုးရိပ်ချောင်းကြီးကို ခရီးသွား လာရေးအတွက် အသုံးပြုနေရ သည့် ကာလ ဖြစ်သည်။

ကျမ်းကိုး၊ ယင်းစာ ၂၃

**ဆရာတော်၏ အနာဂတ်သိမြင်မှု**

ယခုအခါ ထိုလယ်ကွင်းကြီးများမှ စည်ကားလှသော ဒဂုံမြို့သစ်ကြီး ဘွားခနဲ ပေါ်လာခဲ့သည်။ ထို့အပြင် ဆရာတော်ကြီးမှ "ငါ တရား သုံးသပ်နေတုန်း ငါ့ကျောင်းက အနောက်ဘက် ငမိုးရိပ် ချောင်းထိပ် ( ရွှေပဒေသာ ဆန်စက်) အထိ လမ်းကျယ်ကြီးတစ်ခု ဖောက်ထားတာ မြင်နေရ တယ်။ နောက် ငါမရှိရင် ဒီနေရာ စည်ကားလိမ့်မယ်၊ ဒီလိုမစည်ကားခင် ဘေးဆိုး ကပ်ဆိုး၊ အန္တရာယ်ဆိုး မကြုံတွေ့ရအောင် ရတနာသုံးပါး ဦးထိပ်ထားနေကြ" ဟု မိန့်မှာခဲ့ဖူးပါသည်။

ကျမ်းကိုး၊ ယင်းစာ ၂၃

**ယခု မျက်မြင်သက်သေပြစ်**

ဥက္ကလာ၊ သာကေတ၊ မာရဏ၊ တက္ကသိုလ် စသော မြို့ကြီးလေးမြို့ကြား ဒဂုံမြို့သစ်ကြီး ထီးထီး မားမား ပေါ်လာသကဲ့သို့ ဆရာတော် တရားမှတ်ရာမှ မြင်တွေ့ရသော ငမိုးရိပ်ချောင်း ထိပ် ရွှေပဒေသာဆန်စက်မှ စသော လမ်းမကြီးမှာလည်း ယခုအခါ သီလဝါလမ်းမကြီးအဖြစ် ဆရာတော်၏ကျောင်းကို ဦးတိုက်၍ ဖောက်လုပ်ထားကြောင်း အံ့ဩဖွယ်တွေ့ရပါသည်။

ကျမ်းကိုး၊ ယင်းစာ ၂၃

**သင်္ကန်းမြင့် အောင်လံထူ**

ဆရာတော်ကြီး သက်တော် ၇၇ နှစ်ပြည့်ပြီး နတ်တော်လဆုတ် ၁ ရက်တွင် ကျောင်းဝင်းအတွင်း စေတီတည်မည့် နေရာ၌ သာသနာ့အောင်လံအဖြစ် ဆရာတော်၏သင်္ကန်းဖြင့် အလံစိုက်ထူ ထားလိုက်ပါသည်။

ကျမ်းကိုး၊ ယင်းစာ ၂၃

http://www.dhammadownload.com



**ဆရာထံမှ ငွေ ၃၀၀၀**

ပြာသိုလဆုတ် ၈ ရက်၊ နံနက် ၈ နာရီတွင် စေတီတော် အုတ်မြစ်ချသည်။ ထိုနေ့တွင်မှ ဆရာတော်ကြီးမှ သိမ်းဆည်းထားသော ငွေ ၃၀၀၀ ကျပ်ကို ထုတ်ပေးပြီး ရရှိပုံကို ပြောပြပါသည်။

ကျမ်းကိုး၊ ယင်းစာ ၂၃

**လေးကျွန်းတစ်ခိုင် အောင်နန်းရှင်စေတီဟုခေါ်စေ**

ထိုစေတီတော်ကိုပင် ပုဂ္ဂိုလ်ထူးကြီးများမှ ပေးသည့်အတိုင်း လေးကျွန်းတစ်ခိုင် အောင်နန်းရှင်စေတီဟု ဘွဲ့အမည်မှည့်ခေါ်ခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းစာ ၂၃

**သိမ်သမုတ်ခြင်း**

အေဒီ ၁၉၈၅

၁၃၄၉ ခုနှစ် တပေါင်းလဆန်း ၇ ရက် နံနက် ၆ နာရီမှ တပေါင်းလဆန်း ၁၁ ရက်ထိ ဆရာတော် ကြီးများ ဦးစီး၍ စုစုပေါင်းအလွှာ ၄၀ နုတ်ပြီး သိမ်သမုတ်အောင်မြင်ခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းစာ ၂၄

**မီးမရှို့နဲ့ ဂူထဲ ထိုးထားလိုက်ဟု အမိန့်ရှိခဲ့**

ဆရာတော် ပျံလွန်တော်မမူမီပင် "ငါသေရင် မီးမရှို့နဲ့ ဘုန်းကြီးပျံပွဲမလုပ်နဲ့ ဂူထဲ ထိုးထားလိုက်" ဟု မိန့်မှာထားခဲ့ကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ ၂၄

**ခန္ဓာဝန်မချခင် အရင်စီမံထား**

ထိုစေတီသည် ဆရာတော်ကြီးအတွက် ရည်စူး၍ တည်ခြင်းဖြစ်ကြောင်း ခန္ဓာဝန်မချခင်ကပင် ရုပ်ကလာပ်တော် ထားရှိရန် ကြိုတင်တည်ထားခဲ့ကြောင်း ပြောသဖြင့် အားလုံး အံ့ဩနှစ်သက်စွာ ဂူသွင်းခဲ့ကြသည်။

ကျမ်းကိုး၊ ယင်းစာ ၂၄

**ရုပ်ကလာပ်တော်နှင့် မြစိမ်းရှင်လွမ်းစေတီ**

ယခုအခါ ဆရာတော်၏ ရုပ်ကလာပ်တော်ကို မြစိမ်းရှင် လွမ်းစေတီဂူဘုရားထဲတွင် မည်သူမဆို ဖူးမြင်နိုင်ပါသည်။ အနီးကပ်ဖူးတွေ့ချက်အရ အသားဓာတ်များမှာ ပုပ်သိုးခြင်းမရှိ အရောင်ပြောင်းလဲခြင်းမရှိဘဲ သစ်သားကဲ့သို့ မာကျောကျစ်လျစ်လျက်ရှိကြောင်း တွေ့ရပါသည်။ မည်သည့် အနံ့အသက်မျှ မရှိဘဲ အနီးကပ်ဖူးမြင်နိုင်ပါသည်။

ကျမ်းကိုး၊ ယင်းစာ ၂၄

**မပုပ်မသိုးသော ရုပ်အလောင်းတော်သို့လမ်းညွှန်**

ဆရာတော် ဝတ်ရုံခဲ့သော သင်္ကန်းတော်ကို မှန်ခေါင်းပေါ်တွင် ထုတ်ထားပါသည်။ ထိုသင်္ကန်းတော်မှာလည်း ထိုစေတီဂူအတွင်းမှ ထုတ်ယူ၍ မရကြောင်း အံ့ဩဖွယ် ကြားသိရပါသည်။

ကျမ်းကိုး၊ ယင်းစာ ၂၄

ဒဂုံမြို့သစ်မြောက်ပိုင်း ကြိုးတံတားအနီး ၄၆ ရပ်ကွက်၊ သီလဝါလမ်းထိပ်၊ နန်းအောင်မြေ အောင်ဓမ္မရိပ်သာကျောင်းသို့ ကိုယ်တိုင်သွားရောက် ဖူးမြော်ကြည်ညိုနိုင်ကြပါသည်။

ကျမ်းကိုး၊ ယင်းစာ ၂၄

http://www.dhammadownload.com



## ၂၁ နှစ်ကျော်ခဲ့သော်လည်း မပုပ်မသိုးသော အလောင်းတော်

အေဒီ ၁၉၈၆

ထို့နောက် သိမ်အုတ်မြစ်ချ၍ သိမ်ပေါ်တွင် ငါးရာငါးဆူ တည်ပါသည်။ ထိုသိမ်ဘုရားများ မပြီးမီပင် ၁၃၅၀ ပြည့်နှစ် ကဆုန်လဆန်း ၁၂ ရက်၊ နံနက် ၈ နာရီ ၁၅ မိနစ်တွင် ဆရာတော်ကြီး ခန္ဓာဝန် ချတော်မူသည်။

ကျမ်းကိုး၊ ယင်းစာ ၂၄

ကျမ်းကိုး။ မြန်မာပြည် ဗုဒ္ဓဘာသာ၊ ပုညကုသလအသင်း၊ ဘီဘီအမ်အေ၊ ၄၅ ကြိမ်မြောက် နှစ်ပတ်လည် အစည်းအဝေးမှတ်တမ်း ကောက်နုတ်ချက်၊ ပခန်းသာသနာဝင် ဗြိတိသျှ အစိုးရခေတ်၊ ပထမကျော်များ၊ လယ်တီ ဦးလှပိုင်၊ စာ ၁၆၆။

ကျမ်းကိုး။ ဖိုးဒေါင်းသား၊ ဝေပုလ္လတောင် ဘုန်းဘုရားကြီး ဦးကောသလ္လ၊ ဂမ္ဘီရမဂ္ဂဇင်း၊ စာ ၁၀၊ ဘုန်းပွင့်ထွန်း၊ ဝေပုလ္လတောင် ဆရာတော်ဘုရားကြီး၏ ဩဝါဒ၊ ပါရမီမဂ္ဂဇင်း၊ စာ ၁၄၄၊ ဦးကြီးဖေ၊ မဟာပညာ ဗလ၊ ဝေပုလ္လတောင် ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ ကထာ။ မောင်ပန်းမွှေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မစာအုပ်တိုက်၊ ၂၀၀၈ခု၊ စာ ၄၈၀ ကိုကြည့်။

ကျမ်းကိုး၊ ညဉ်သစ် ဒဿန၊ ငမိုးရိပ်ချောင်းနံဘေးမှ ထူးခြားသောဆရာတော်၏ ဘဝခရီး၊ ပါရမီ ဓမ္မမဂ္ဂဇင်း၊ အမှတ် ၃၇၊ ၁၉၉၅ ခု၊ အောက်တိုဘာလ၊ စာ ၂၁။

http://www.dhammadownload.com



မာတ်တော်တဖွားဖွားကျတော်မူသော

ရန်ကုန်တိုင်း၊ မှော်ဘီမြို့

# ရွှေမြယာ ဆရာတော်ကြီး ဘဒ္ဒန္တ နန္ဒမာလာ

၁၉၀၈ - ၁၉၉၉



http://www.dhammadownload.com



အေဒီ ၁၉၁၂ မော်ဘီရဟန္တာဟု ဟိုးဟိုးကျော်သော သဲအင်းဂူဆရာတော်ဘုရားကြီးကြောင့် မော်ဘီသည် အလွန်ကျော်ကြား လူသိများခဲ့ပါသည်။ မော်ဘီဆရာတော် သဲအင်းဂူမှာ တေဝိဇ္ဇပတ္တ ရဟန္တာဟု ကျော်ကြားတော်မူပါသည်။ ထိုရဟန္တာအရှင်မြတ်ကြီးကား ၁၉၁၂ ခုနှစ်မှာ ဖွားတော်မူခဲ့လေသည်။ ၁၉၇၆ ခုနှစ်တွင် ပရိနိဗ္ဗာန်ပြုတော်မူပါသည်။ ထို့ကြောင့် ရွှေမြယာဆရာတော်ဘုရားကြီးသည် သဲအင်းဂူဆရာတော် ဘုရားထက်စော၍ မွေးဖွားတော်မူခဲ့ပါသည်။

> ကျမ်းကိုး။ နေဝန်းတစ်ဆူ သဲအင်းဂူ၊ ဦးဘို အကာလိကော၊ ဦးသိန်းမောင်၊ တေဝိဇ္ဇပတ္တ ရဟန္တာဟု ကျော်ကြားခဲ့သော သဲအင်းဂူဆရာတော် ဦးဥက္ကဋ္ဌ ထေရုပ္ပတ္တိအကျဉ်းချုပ်၊ မောင်ပန်းမွေး ရဟန္တာနှင့် ရဟန်းထူးများ၊ ၂၀၀၈ ခုနှစ်၊ တော်ဝင်မြို့မစာအုပ်တိုက်၊ စာ ၇၆၀ လည်း ကြည့်ပါ။

### ခေတ်ပြိုင် ၁၉၀၈–ခုဖွား ဦးခေါင်းခွံနှင့်တကွ အံတော်များ ဓာတ်တော်ရောင်စုံ ကျတော်မူသော အုံဖွယ် သီပေါရဟန္တာ အရှင်မြတ်ကြီး

အေဒီ ၁၉၀၈ ရွှေမြယာ ဆရာတော်ဘုရားကြီးနှင့် တစ်နှစ်တည်း ဖွားသော ရဟန္တာနှင့် ရဟန်းထူးတစ်ပါး ရှိပါသေးသည်။ ထိုဆရာတော်မှာ ဦးစန္ဒာဝရ ဖြစ်ပါသည်။ ဦးစန္ဒာဝရမှာ သီပေါ ဆရာတော်ဖြစ်သဖြင့် အချို့လူသိနည်းပါသည်။ သို့သော ခန္ဓာဝန်ချတော်မူသောအခါ ဓာတ်တော်များ တဖွားဖွား ကျတော်မူသည့်အပြင် ထူးထူးခြားခြား ဦးခေါင်းရိုးခွံများလည်း ကျန်ရှိတော်မူ၏။ အံတော်များလည်း ကျန်ရှိတော်မူ၏။ ဓာတ်တော်များမှာလည်း အရောင်မျိုးစုံ ပွင့်တော်မူ၏။ ထို့ကြောင့် အံ့ဖွယ် ဓာတ်တော် မွေတော်များကို ယနေ့တိုင် ပူဇော်ထားရှိ၏။ သီပေါမြို့ တြိပ္ပဒ္ဒသိမ်တောင်တွင် သီတင်းသုံးတော်မူပါသည်။

> ကျမ်းကိုး။ ဒေါက်တာမင်းထွန်း၊ သီပေါ၊ တြိပ္ပဒ္ဒသိမ်တောင်၊ ကုန်းမြေမှ ၉ ဆူတောင်ဆရာတော် ဘဒ္ဒန္တစန္ဒာဝရ အရှင်သူမြတ်၊ နက္ခတ္တရောင်ခြည် ၁၉၉၉ ခု၊ ဇူလိုင်၊ အမှတ် ၁၅၆၊ စာ ၂၅ ကြည့်။ မောင်ပန်းမွေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ ၂၀၀၈ ခုနှစ်၊ စာ ၇၃၁ လည်း ကြည့်။

### ခေတ်ပြိုင် ၁၉၀၈–ခုဖွား ဓာတ်တော်များကျတော်မူသော တတိယ မိုးကုတ်ဆရာတော်ဘုရားကြီး

အေဒီ ၁၉၀၈ ၁၉၀၈ ခုဖွား အခြား ရဟန္တာနှင့် ရဟန်းထူးတစ်ပါးမှာ ပြောလိုက်လျှင် ချက်ခြင်းသိပါသည်။ ထိုဆရာတော်ဘုရားကြီးကား အခြားမဟုတ်ပါ။ ပထမ မိုးကုတ်ဆရာတော်ဘုရားကြီး၏ တပည့်အရင်းအစစ်ဖြစ်သော ဆရာတော်ဘုရား ဖြစ်ပါသည်။ တတိယမိုးကုတ်ဆရာတော်ဘုရားဟုလည်း ပြောလျှင် ရပါသည်။ ထိုဆရာတော်ဘုရားကြီး ခန္ဓာဝန်ချတော်မူသောအခါ အချို့မှာ အရိုးအတိုင်း တွေ့ရ၏။ အချို့မှာ ဓာတ်တော်များ ကျတော်မူ၏။ ကြွင်းကျန်သောဓာတ်တော်များကို မိုးကုတ်မြို့ထင်းရှူးခြံအရပ်ရှိ မင်္ဂလာကျောင်းတိုက်တွင် ယနေ့တိုင် ပူဇော်ထားကြောင်း မျက်မြင် ဖူးတွေ့ ကြည်ညိုနိုင်ပါသည်။ ထိုဆရာတော်ကြီးလည်း ၁၉၀၈ ခုနှစ်ဖွား ဖြစ်ပါသည်။

> ကျမ်းကိုး။ ဦးကျော် (ပြည်)၊ မိုးကုတ် မင်္ဂလာကျောင်းတိုက်သို့ ရောက်ခဲ့စဉ်က ပါရမီမဂ္ဂဇင်း ၂၀၀၇ ခုနှစ် မတ်လ၊ စာ ၆ ကိုကြည့်၊မောင်ပန်းမွေး၊ ရဟန္တာနှင့်ရဟန်းထူးများ၊ တော်ဝင်မြို့မ၊ ၂၀၀၈ ခုနှစ်၊ စာ ၇၃၄ လည်းကြည့်။

### နယ်ချဲ့လက်အောက် မညှိုးနွမ်းခဲ့သော ပဋိပတ္တိ သာသနာသမိုင်းကြီး

မြန်မာနိုင်ငံတော်တွင် ထိုသို့သော ရဟန်းထူး ရဟန်းမြတ်များသည် လွတ်လပ်ရေး မတိုင်မီ နယ်ချဲ့လက်ထက်တွင် နယ်ချဲ့လက်ချက် မည်မျှပင်ကြမ်းကြုတ်စေကာမူ အမျိုးဘာသာ သာသနာများ မညှိုးမနွမ်း အပွင့်ထူးဆန်း အဆန်းတကြယ် ပွင့်လျက်ရှိကြောင်း သက်သေများပင် ဖြစ်ပါသည်။

http://www.dhammadownload.com



**မှော်ဘီ ရဟန္တာများဖြစ်ကြသော သဲအင်းဂူရဟန္တာအရှင်မြတ်ကြီးနှင့် မှော်ဘီရွှေမြိုယာ ဆရာတော်ဘုရားကြီး**

အေဒီ ၁၉၀၈

ခန္ဓာဝန်ချတော်မူရာမှာလည်း သဲအင်းဂူဆရာတော်ဘုရားက ၂၃ နှစ် စော၍ ခန္ဓာဝန်ချတော်မူပါသည်။ ရွှေမြိုယာဆရာတော်ဘုရားကြီးသည် ၂၃ နှစ်နောက်ကျ၍ သက်တော်ရှည်စွာ ခန္ဓာဝန်ချတော်မူပါသည်။ ဤသို့ လေ့လာတွေ့ရှိရပါသည်။ သဲအင်းဂူဆရာတော်ဘုရားသည် ၁၉၁၂ နှစ်ဖွား ဖြစ်၏။ ၁၉၇၆ ခုနှစ်တွင် ပရိနိဗ္ဗာန် ပြုတော်မူ၏။ ရွှေမြိုယာ ဆရာတော်ဘုရားကား ၁၉၀၈ ခုမှာ ဖွား၏။ ၁၉၉၉ ခုနှစ်တွင် ခန္ဓာဝန်ချသွားတော်မူ၏။

ကျမ်းကိုး။ ဦးကျော် (ပြည်)၊ မိုးကုတ် မင်္ဂလာကျောင်းတိုက်သို့ ရောက်ခဲ့စဉ်က ပါရမီမဂ္ဂဇင်း ၂၀၀၃ ခုနှစ် မတ်လ၊ စာ ၆ ကိုကြည့်၊ မောင်ပန်းမွေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ ၂၀၀၈ ခုနှစ်၊ စာ ၇၃၄ လည်းကြည့်။

**ခေတ်ပြိုင်မှတ်စု မှတ်တမ်းများ သမိုင်းတန်ဖိုးကြီးမား**

ကျွန်ုပ်ထုတ်နုတ်ထားသော မှတ်စု မှတ်ရာများအရ ရွှေမြိုယာ ဆရာတော် ခေတ်ပြိုင် မှတ်တမ်း ကတ်တလောက်များကို အောက်တွင် ဖော်ပြအပ်ပါသည်။ ခေတ်ပြိုင် မှတ်တမ်းဖြစ်၍ တန်ဖိုး ကြီးလှပါသည်။

**ဝိပဿနာအကျိုးကို မျက်မှောက်ခေတ်တွင် တွေ့ကြရ**

အေဒီ ၁၉၉၉

၁၃၆၁ ခုနှစ်အရောက် သက်တော် (၉၁)နှစ်၊ သိက္ခာတော် (၇၁)ဝါအရတွင် ခန္ဓာဝန်ချတော်မူခဲ့သော ရန်ကုန်မြို့၊ မှော်ဘီမြို့နယ်၊ ရွှေမြိုယာကုန်းရှိ ရွှေမြိုယာဆရာတော်ကြီး ဘဒ္ဒန္တ နန္ဒမာလာ ၏ ရုပ်ကလာပ်တော်သည် လွန်စွာကြည်လင်၍ သက်ရှိအသားအရေကဲ့သို့ ပကတိနူးညံ့နေပြီး တောင့်တောင့်တင်းတင်း မရှိ၊ အနံ့အသက်လည်းမထွက်ဘဲ ရွာ၏မြောက်ဘက် သုသာန်၌ မီးပူဇော်သော် အညော်နံ့လည်း လုံးဝမထွက်ပေ။

**အရောင်အမျိုးမျိုး ပြောင်းလဲသော ဓာတ်တော်များကို မီးနိုးများကပင် ပူဇော်ကြ**

ရွာအပြင်ဘက်၌ လေများတိုက်နေကြသော်လည်း မီးခိုးတို့သည် ဘေးဘယ်ညာဆီသို့ ယိမ်းထွက် မသွားကြဘဲ ကောင်းကင်ထက်သို့သာ တန်းတန်းမတ်မတ် တက်သွားကြလျက် ဓာတ်တော်များ ကျရှုံမကဘဲ အရိုးတော်စလေးများကို ရရှိကောက်ယူကြရာ တစ်စတစ်စကြီးထွားလာ၍ ပူဇော်ထားရင်း ကျောက်ကဲ့သို့ဖြစ်ကာ အရောင်အမျိုးမျိုး ပြောင်းလဲသွားကြကြောင်းကိုသိရ သည်။

**ရဟန္တာအရှင်မြတ်ကြီး၏ ကြိုတင် မှာကြားချက်များ**

ငါ(သေ)ခါမှ သူတစ်ပါး ဆင်းရဲပင်ပန်းအောင် ကြောင့်ကြမှုအမျိုးမျိုး၊ စိတ်ပင်ပန်းမှုအမျိုးမျိုးတို့နဲ့ မဆောင်ရွက်စေလိုပါ။

စိတ်လက်ကြည်သာ မပင်ပန်း၊ မဆင်းရဲဘဲ ကုသိုလ်ရရုံသာလျှင် သင်္ဂြိုဟ်မှုကို ပြုစေလိုသည်။

သူတစ်ပါးက အကျယ်တဝင့် နည်းလမ်းပြတိုင်း၊ မြှောက်ပေးတိုင်း မလုပ်ကြပါနဲ့။

ရက်ကြာကြာ မထားဘဲ ၅ ရက်၊ ၇ ရက်၊ ၉ ရက် ထားပြီး ကိစ္စပြီးအောင်လုပ်ပါ။ လိမ္မာကြပါ။ အပင်ပန်းဆင်းရဲ မခံကြပါနှင့်။

ရှိပြီး ဝတ္ထုပစ္စည်းများနှင့်သာ သင့်လျော်အောင်လှူပါ။ ကျွေးပါ။ ပြုပြင်ပါ။

လက်စားလိုက်သဘော၊ လက်စားချေသဘော မထားကြပါနှင့်။

ယခုလှူမှု၊ နောက်လှူမှု၊ ကောင်းမှုများကသာ ပူဇော်ရာ၊ ချီးမြှောက်ရာရောက်ပါသည်။

လူတပည့်ဒါယကာ တို့လည်း ကုသိုလ်ရမှုသင့်လျော်အောင် လုပ်နိုင်သည်။

ဈာပနပွဲတော်ကြီး ကျင်းပပြုလုပ်တိုင်း အကျိုးထူးရသည်မဟုတ်ပါ။

တရားသံဝေဂဉာဏ်ဖြင့် သင်္ဂြိုဟ်ပူဇော် တတ်ရင်လည်း အကျိုးထူး ရပါသည်။

http://www.dhammadownload.com



မှာတမ်း စကားအတိုင်း ဆောင်ရွက်ကြပါလေ။ လူအများ မကဲ့ရဲ့နိုင်ပါ။
ပညာရှိ သူတော်ကောင်းများ ချီးကျူးကြပါလိမ့်မည်။
ခေတ်နှင့် ညီအောင် ဆောင်ရွက်ကြပါလေ။
အားထား ယုံကြည်ထိုက်သော တပည့်ကောင်းတို့၏ ဆရာ
ဟူ၍ မှာတမ်းအတိအကျ တွေ့ရှိရပါသည်။

ကျမ်းကိုး။ အေးအေး၊ ရွှေမြယာ ဆရာတော်ကြီး ဘဒ္ဒန္တ နန္ဒမာလာ၏ အန္တိမအင်္ဂါဗျာပန သာစုကိုဌနသဘင်မှ ထူးခြားဖြစ်စဉ်များ၊ ပါရမီ မဂ္ဂဇင်း၊ အမှတ် ၁၂၈၊ ၂၀၀၃ ခုနှစ် မေလ၊ စာ ၉၃၊

**မှာတမ်းစာ ကြိုတင်ရေးထားခဲ့**

အထက်ပါ မှာတမ်းစာကို ရွှေမြယာဆရာတော်ကြီး ဘဒ္ဒန္တနန္ဒမာလာသည် ခန္ဓာဝန်ချတော်မမူခင် တပည့်များအတွက်ကြိုတင်၍ မှာကြားရေးသားထားခဲ့ခြင်း ဖြစ်ပါသည်။
ရွှေမြယာဆရာတော်ကြီးသည် ရန်ကုန်မြို့၊ မှော်ဘီမြို့နယ်ရှိ ရွှေမြယာကျောင်းတိုက်ကြီး၏ ဦးစီးပဓာန နာယက ဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၃

**သက်တော်ကြီးသည့်တိုင်အောင် တရားပြ**

ဆရာတော်ကြီးသည် သက်တော်ကြီးပြင်း၍ ကိုယ်ခန္ဓာယိုယွင်းနေပြီဖြစ်သော်လည်း ကိုယ်နှင့်အသက် မငဲ့ကွက်ဘဲ မနေမနား သာသနာပြုလုပ်ငန်းများကို ကြိုးစားဆောင်ရွက်ရင်း သက်တော် (၉၁) နှစ်တွင် ကျန်းမာရေးချို့ယွင်း လာပါတော့သည်။
ထို့ကြောင့် ရန်ကုန်မြို့ရှိ သျှင်ပါကူဆေးခန်းသို့ ကြွရောက်ကုသကြသော်ငြား သက်သာမလာသဖြင့် မင်္ဂလာဒုံ အမှတ်(၁) စစ်ဆေးရုံသို့ (၂၄)ရက် တက်ရောက်ကုသရာ ကျန်းမာလာပြန်၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၃

**ခန္ဓာဝန်ချတော်မူခြင်း**

အေဒီ ၁၉၉၉

၁၃၆၁ ခုနှစ်၊ ပြာသိုလဆုတ် (၄)ရက်ညနေ (၆)နာရီတွင် ကျန်းမာရေး မကောင်းဖြစ်လာသောကြောင့် စစ်ဆေးရုံသို့ပင် တက်ရောက်ကုသရင်း ပြာသိုလဆုတ်(၅)ရက် ညနေ (၆)နာရီ (၃၀)မိနစ်တွင် ခန္ဓာဝန်ချတော်မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၃

**အလိုလို ရပ်သွားသော နာရီကြီးတစ်လုံး**

အေဒီ ၁၉၉၉

ခန္ဓာဝန်မချခင် တစ်ရက်အလိုမှာ ဆရာတော်ကြီး သီတင်းသုံးတော်မူတဲ့ သုခိတာရုံကျောင်းမှာ ထားရှိတဲ့ နာရီကြီးနှစ်လုံးဟာ သူ့အလိုလို ရပ်သွားပါတော့တယ်။ နောက်ပြီး ကျောင်းထဲက ခွေးတွေအားလုံး အော်ဟစ်ဆူပူကြသလို ကျောင်းဝင်းတစ်ခုလုံးမှာရှိတဲ့ သစ်ပင်တွေကလဲ ညှိုးကျသွားကြကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၄

**မပုပ်မသိုး အနံ့မထွက်**

အေဒီ ၁၉၉၉

ဆရာတော်ကြီးရဲ့ ဥတုဇရုပ်ကလာပ်တော်ဟာ လွန်စွာကြည်လင်နေရုံသာမက အသားအရေတွေကလဲ သက်ရှိ ပုဂ္ဂိုလ်လိုပဲ ပကတိနူးညံ့ပျော့ပျောင်းနေပါတယ်။ တောင့်တင်းမှုလုံးဝမရှိသလို အနံ့အသက်လဲမထွက်ကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၄

http://www.dhammadownload.com



၁၂၇၀

**မမြင်ဖူးသော ရသေ့ထူးများ လာဖူးကြ**

(၉)ရက် ထားပြီး စံကျောင်းတော်မှာ ပူဇော်ထားစဉ်မှာ ဆရာတော်ကြီးရဲ့ ဥတုဇရုပ်ကလာပ်တော်မြတ်ကို ဘုန်းကြီးတို့တစ်ခါမှ မမြင်ဖူးတဲ့ပုဂ္ဂိုလ်ထူးတွေ ရသေ့တွေနဲ့ ထူးခြားတဲ့ အမျိုးသမီးတွေ လာဖူးမြော် ကြည်ညိုကြကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၄

**ဆံပင်တွေယူထားကြဟု မှာခဲ့**

အေဒီ ၁၉၉၉

ဆရာတော်ကြီးက ခန္ဓာဝန်မချခင်မှာ "ငါ့ဆံပင်တွေကိုယူထား"လို့ မိန့်တာကြောင့် သိမ်းထားတဲ့အခါ တဖြည်းဖြည်းဆံပင်တွေက သူ့အလိုလိုလုံးကုန်ကြကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၄

**စေတီတည်ပြီးကိုးကွယ်ကြဟု မှာခဲ့**

အေဒီ ၁၉၉၉

နောက်ပြီးဆရာတော်ကြီးက

"ငါပျံလွန်တော်မူရင် စေတီတော်ကိုတည်ထားကိုးကွယ်ထားကြ" လို့လဲမိန့်မှာခဲ့တာကြောင့် စေတီတော်တစ်ဆူ တည်ထားကိုးကွယ်ခဲ့ကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၄

**ထူးခြားသော ရုပ်ကလာပ်တော်**

မီးသင်္ဂြိုဟ်တဲ့အခါမှာ သာမန်ဆိုရင် ဦးခေါင်းက အရင်ပြုတ်ထွက်သွားလေ့ရှိတယ်။ ဆရာတော်ကြီးကတော့ သူတော်ကောင်းမို့ထင်ပါရဲ့။ မီးပူဇော်ပြီးခါနီးအထိ ဦးခေါင်းတော်ကမပြုတ်ဘူး။ ရုပ်ကလာပ်တော်က ကုန်းကွမထဘူး။ အသံတွေမမြည်ကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၅

**ဦးခေါင်းတော် ထောင်ထခြင်းအံ့ဖွယ်**

မီးခိုးတက်ရာ ကောင်းကင်ပြင်ရဲ့ ရာသီဥတုလေးဟာ ကြက်ပြီး တည်ငြိမ်နေတယ်။ ခေါင်းတော်က အရင်မပြုတ်ရုံသာမက ထောင်နေတာကြောင့် မီးသင်္ဂြိုဟ်တဲ့ပုဂ္ဂိုလ်တွေက တောင်းပန်ကြမှ ပြန်လှဲသွားကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၅

**တစ်နှစ်လုံးပွင့်သော ယူဇနပင်ကြီး**

ဆရာတော်ကြီးရဲ့စံကျောင်းတော်နားက ယုဇနပင်တစ်ပင်ဟာ ဆရာတော်ကြီးရဲ့သီလ၊ သမာဓိ၊ ပညာနဲ့ အခြားဂုဏ်ပေါင်း များစွာတို့ကို တစ်နှစ်ပတ်လုံးပွင့်ပေးပြီး ပူဇော်လေ့ရှိကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၅

**တကယ်က ယူဇနဆိုသည်မှာ မိုးမှာသာပွင့်**

မိုးရာသီမှာသာပွင့်ကြတဲ့ အဲဒီယုဇနပင်ဟာ အခုလဲဆက်ပြီး တစ်နှစ်ပတ်လုံးပွင့်နေဆဲဖြစ်တာကလဲ အံ့ဩစရာဖြစ်ကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၅

**ထူးဆန်းသောအသံကြီး**

နောက်ပြီးဆရာတော်ကြီး ခန္ဓာဝန်ချသွားတော်မူတဲ့အချိန်မှာ ဆေးရုံခေါင်မိုးပေါ်က ဒုန်းခနဲမြည်တဲ့ အသံကြီးကို ကြားလိုက်ရတာကလဲထူးဆန်းနေကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၅

http://www.dhammadownload.com



**မိမိ အခေါင်းအတွက် နှစ် ၃၀ ကတည်းက ပျဉ်ချပ်ကြီးလေးချပ် စုခဲ့**

နောက်ပြီး ဆရာတော်ကြီးဟာ မိမိခန္ဓာဝန်ချရင် ကြွင်းကျန်ရစ်သောဥတုဇ ရုပ်ကလာပ်တော်ကို ထည့်ထားဖို့ရန်အတွက် အခေါင်းကို တပည့်ဒကာဒကာမများအား ဒုက္ခမပေးလိုတဲ့ အတွက်ကြောင့် ခန္ဓာဝန်မချမီ နှစ်ပေါင်း(၃၀) လောက်ကတည်းက မိမိအခေါင်းအတွက် ပျဉ်ချပ်ကြီး (၄)ချပ်ကို စုဆောင်းထားခဲ့ကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၅

**သိမ်းဆည်းထားခဲ့**

အဲဒီပျဉ်ချပ်ကြီးတွေကို ကျောင်းကြီးရဲ့အောက်ထပ်မှာ ရက်မများနဲ့ထိုးပြီးသိမ်းဆည်းထားခဲ့တယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၅

**လွန်ခဲ့သော ၃ နှစ်ကတည်းက မှာတမ်းစာရေးခဲ့**

အေဒီ ၁၉၈၀ ခန္ဓာဝန်ချတဲ့အခါ ဆောင်ရွက်ဖို့အတွက် မှာတမ်းစာကိုလဲ ခန္ဓာဝန်မချမီ (၃)နှစ်ခန့်ကပင် ရေးသားတော်မူ၍ ဒီစာကိုငါခန္ဓာဝန်ချမှသာ ဖောက်ပါဟု ဆိုကာအပ်နှံထားခဲ့ကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၅

**နှစ်ပေါင်း ၅၀ ပညာပေးခဲ့**

အေဒီ ၁၉၈၃ ဆရာတော်ကြီးဟာ စာဝါတွေကိုနှစ်ပေါင်း(၅၀)ကျော် သက်တော်အားဖြင့် (၇၅)နှစ်အထိ ပို့ချခဲ့ပါကြောင်း သိရပါသည်။

**ရွှေမြင်ယာ ဂိုဏ်းချုပ်ကြီး နန္ဒမာလာ ပညာသင်ဆုရခဲ့သူများ ကံထူးပါလိမ့်**

တိုင်းဩဝါဒါစရိယ ဆရာတော် ရွှေမြင်ယာဂိုဏ်းချုပ်ဆရာတော်ကြီးလဲဖြစ်ပါသည်။ ဘုန်းတော်ကြီး သင်ပညာရေးကျောင်းများကိုလဲ နှစ်စဉ် နန္ဒမာလာပညာသင်ဆုအဖြစ် ထူးခြားစွာ ချီးမြှင့်ဂုဏ်ပြုပေးခဲ့ပါကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၅

**အနာဂါမ်ဆရာသက်ကြီး၏နည်း**

ရွှေမြင်ယာဆရာတော်ကြီးရဲ့ တရားစခန်းတွင် ပို့ချသောဝိပဿနာရှုမှတ်နည်းမှာ ကျေးဖူးရှင်လယ်တီဆရာတော်ကြီးရဲ့ တပည့်ရင်း အနာဂါမ် ဆရာသက်ကြီးနည်းလမ်းပင် ဖြစ်ကြောင်းသိရပါသည်။

ကျမ်းကိုး။ ဦးကျော် (ပြည်)၊ မိုးကုတ် မင်္ဂလာကျောင်းတိုက်သို့ ရောက်ခဲ့စဉ်က ပါရမီမဂ္ဂဇင်း ၂၀၀၃ ခုနှစ် မတ်လ၊ စာ ၆ ကိုကြည့်၊ မောင်ပန်းမွှေး၊ ရဟန္တာနှင့် ရဟန်းထူးများ ပထမတွဲ ၂၀၀၈ ခုနှစ်၊ စာ ၇၃၄ လည်းကြည့်။

ကျမ်းကိုး။ ဒေါက်တာမင်းထွန်း၊ သီပေါ၊ တြိပ္ပဒ္ဒသိမ်တောင်၊ ကုန်းမြေမှ ၉ ဆူတောင် ဆရာတော် ဘဒ္ဒန္တစန္ဒာဝရ အရှင်သူမြတ်၊ နကွတ္တရောင်ခြည် ၁၉၉၉ ခု၊ ဇူလိုင် အမှတ် ၁၅၆၊ စာ ၂၅ ကြည့်။ မောင်ပန်းမွှေး၊ ရဟန္တာနှင့် ရဟန်းထူးများ၊ တော်ဝင်မြို့မစာအုပ်တိုက်။ ၂၀၀၈ ခုနှစ်၊ စာ ၇၃၁ လည်းကြည့်။

ကျမ်းကိုး။ အေးအေး၊ ရွှေမြင်ယာ ဆရာတော်ကြီး ဘဒ္ဒန္တ နန္ဒမာလာ၏ အဋ္ဌိမအင်္ဂါရုပ်ပန သာဓုကိစ္စနသဘင်မှ ထူးခြားဖြစ်စဉ်များ၊ ပါရမီ မဂ္ဂဇင်း၊ အမှတ် ၁၂၈၊ ၂၀၀၃ ခုနှစ် မေလ၊ စာ ၉၃၊

http://www.dhammadownload.com





စစ်ကိုင်းတိုင်း၊ စစ်ကိုင်းတောင်ရိုး

# အရှေ့ပရက္ကမ ဆရာတော်ကြီး

၁၉၀၈ –



http://www.dhammadownload.com



| | |
|---|---|
| အေဒီ ၁၉၀၈ | ၁၉၀၈ ခုနှစ်တွင် မြန်မာနိုင်ငံ တစ်ဝန်းလုံး၌ သာသနာ့သူရဲကောင်းများ ပေါ်ထွန်းနေသည်မှာ ထင်ရှား၏။ တစ်ချိန်တည်းမှာပင် ထိုနှစ်၌နိုင်ငံရေးလောကလည်း ထူးလာ၏။ စာပေလောက လည်း ထူးပါ၏။ အနုပညာလောက သဘင်လောကလည်း ထူးပါ၏။ |
| အေဒီ ၁၉၀၈ | ကမ္ဘာတစ်ဝန်းလုံးတွင်ကား ၁၉၀၈ ခု ပတ်ပတ်လည် နှစ်များတွင် ဖြစ်ပျက်ပေါင်းစုံတို့ ဖြစ်ထွန်း လျက်ရှိပါသည်။ |

**ကလေးဝဆရာတော်ပွားသောနှစ်**

**တောင်ဗီလာဆရာတော်ပွားသောနှစ်**

| | |
|---|---|
| အေဒီ ၁၈၉၆ | ၁၈၉၆ ခုသည် မြန်မာပြည်၌ နာမည်ကျော် ရဟန်းတော်ဖြစ်သော ကလေးဝ ဆရာတော်ဘုရား ကြီး မွေးဖွားသောနှစ်၊ တောင်ဗီလာ ဆရာတော်ဘုရားကြီး ဦးဝိလာသ မွေးဖွားသောနှစ် ဖြစ်၏။ |

**ထိုနှစ်သည် ကမ္ဘာ့အိုလံပစ်ကျင်းပချိန်**

| | |
|---|---|
| အေဒီ ၁၈၉၆ | ထို ၁၈၉၆ ခုနှစ်တွင် ခေတ်သစ်အိုလံပစ်အားကစားပွဲကို အေသင်မြို့၌ ကျင်းပလျက်ရှိပါသည်။ |

**ထိုနှစ်သည် တရုတ်ဂျပန်စစ်ပွဲ ဖြစ်နေချိန်**

| | |
|---|---|
| အေဒီ ၁၈၉၅ | ထိုနှစ်မတိုင်မီ ၁၈၉၅ ခုနှစ်တွင် တရုတ်ဂျပန် စစ်ပွဲ ဖြစ်ပွားလျက် ရှိပါသည်။ ထိုစစ်ပွဲအပြီးတွင် ထိုင်ဝမ်ကျွန်းကို ဂျပန်တို့က ရရှိသွားပါသည်။ |

**ထိုနှစ်သည် အမေရိကန် စပိန်စစ်ဖြစ်ချိန်**

| | |
|---|---|
| အေဒီ ၁၈၉၈ | ထိုသို့သော အချင်းအရာများ ဖြစ်ပွားနေချိန်တွင် ၁၈၉၈ ခုနှစ်၌ အမေရိကန်နှင့် စပိန်တို့စစ်ဖြစ် ပွားရာ စစ်အပြီးတွင် ကျူးဘားနှင့် ဖိလစ်ပိုင်ကျွန်းတို့သည် စပိန်လက်အောက်မှ လွတ်မြောက် သွားကြသော အချိန်ဖြစ်လေသည်။ |

**ထိုနှစ်သည် မြန်မာမှာ နိုင်ငံရေးနိုးကြား**

| | |
|---|---|
| အေဒီ ၁၉၀၂ | ထိုသို့သော အချိန်တွင် မြန်မာနိုင်ငံ၌ ၁၉၀၂ - ၁၉၁၂ အကြား နိုင်ငံရေး နိုးကြားစ ပြုသော အချိန်လည်းဖြစ်ပါသည်။ |

**ထိုနှစ်သည် မင်းလောင်းမောင်သန့် ပေါ်ပေါက်ချိန်**

| | |
|---|---|
| အေဒီ ၁၉၀၈ | ၁၉၀၈ ခုဖွား အရှေ့ပရက္ကမ ဆရာတော်ဘုရား ၃ နှစ်သားအရွယ်ရောက်သောအချိန်တွင် မြန်မာနိုင်ငံ၌ မင်းလောင်းမောင်သန့် ပေါ်ပေါက်သောအချိန်နှင့် တိုက်ဆိုင်လျက် ရှိပါသည်။ မင်းလောင်း မောင်သန့်နှင့် အခြားလေးယောက်တို့မှာ သေဒဏ်ခံရ၏။ ၂၅ ယောက်မှာ ထောင် တစ်သက် လွတ်ရက်မရှိ တစ်ကျွန်းအပို့ခံရ၏။ ဩဂုတ်လ ၂၉ တွင် မောင်သန့်ကို ကြိုးပေးမည် ဟု သတင်းစာများတွင် ဟိုးလေးတကျော်ကျော် ပါနေသောအချိန်ဖြစ်ပေသည်။ |

**ထိုနှစ်သည် လယ်တီ ဦးဝါယမ သတင်းစာကြီးထုတ်နေချိန်**

| | |
|---|---|
| အေဒီ ၁၉၀၈ | ထိုသို့သောအချိန်တွင် လယ်တီ ဆရာတော်ဘုရားကြီး၏ တပည့်အရင်း လယ်တီ ဦးဝါယမသည် အယ်ဒီတာကြီး ပြုလုပ်လျက် ဓမ္မဒေသနာ သတင်းစာကြီးကို တခမ်းတနား ထုတ်ဝေနေသော အချိန်လည်း ဖြစ်ပေသည်။ |

**ထိုနှစ်သည် ရွှေမြင်ယာ ဆရာတော် ပွားသောနှစ်**

**တောင်ပုလုလှိုင်းတက်ဆရာတော် ပွားသောနှစ်**

| | |
|---|---|
| အေဒီ ၁၉၀၈ | ထိုသို့သောအချိန်တွင် အရှေ့ပရက္ကမ ဆရာတော်ဘုရားကြီးကို ဖွားတော်မူပါသည်။ ထိုနှစ်မှာ ပင် မော်ဘီ ရဟန္တာဟု ခေါ်ဆိုအပ်သော ရွှေမြင်ယာ ဆရာတော်ဘုရားကြီးကိုလည်း ဖွားတော်မူ ပါသည်။ မှတ်မှတ်ရရပြောရလျှင် ထို ၁၉၀၈ ခုနှစ်မှာပင် တောင်ပုလု လှိုင်းတက်ဆရာတော် ဘုရားကြီးကိုလည်း ဖွားတော်မူပါသည်။ |

http://www.dhammadownload.com



ဤသို့အားဖြင့် မြန်မာနိုင်ငံ အရပ်ရပ်နှင့် ကမ္ဘာအရပ်အရပ်တို့တွင် သောင်းပြောင်းထွေလာ ဖြစ်လိုရာ ကံစီမံရာ ဖြစ်နေကြသည့်အချိန်တွင် မြန်မာနိုင်ငံ၌ ရဟန္တာနှင့် ရဟန်းထူးများ ပွင့်ပေါ်လာမည့် သူတော်စင်များ မွေးဖွားလျက်ရှိကြောင်းကို ချက်ခြင်း သတိမမူမိကြမည်မဟုတ် ချေ။ သို့သော် မျိုးစေ့ကား သတ်၍မသေနိုင်။

**ထိုနှစ်သည် အရှေ့ပရက္ကမဆရာတော် မွေးဖွားချိန်**

ထိုသို့သောအချိန်တွင် မွေးဖွားတော်မူသော အရှေ့ပရက္ကမဆရာတော်အကြောင်း ကျွန်ုပ်၏ မှတ်စု မှတ်ရာအစုံအလင်ကို ခေတ်ပြိုင်မှတ်တမ်းများအဖြစ် ကျွန်ုပ်ရှာဖွေစုဆောင်း သိမ်းဆည်း ထားခဲ့ပါ၏။ နောင်ပေါ်လတ္တံ့သော သမိုင်းသာသနာ သုတေသီများအတွက် ထုတ်နုတ်၍ပြသ လိုက်ပါ၏။

**လမ်းညွှန်**

ဥမင်ကိုးဆယ်ဘုရားမှ အရှေ့ဘက်သို့ ဆင်းလိုက်လျှင် အရှေ့ပရက္ကမချောင်သို့ ရောက်ပါသည်။

**ဇာတိချက်ကြွေမွေးရပ်မြေ**

အေဒီ ၁၉၀၈ — အရှေ့ပရက္ကမဆရာတော်ကြီး၏ ဇာတိချက်ကြွေမွေးရပ်မြေကား ရှေးအခေါ် ဒေါင်းဖြူမြို့၊ ယခု အခေါ် ဓနုဖြူ မြို့နယ် နန်းတော်ကုန်းကျေးရွာတွင် ခမည်းတော် ဦးဘာသန်း၊ မယ်တော်ဒေါ်ပဲ တို့မှ ၁၂၇၀ ပြည့်နှစ်၊ နတ်တော်လဆန်း (၃)ရက်ဗုဒ္ဓဟူးနေ့တွင် ဖွားမြင်တော်မူသော သားရတနာ ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၁

**သာမဏေပြုစ်**

အေဒီ ၁၉၂၀ — ၁၂၈၂ ခု နယုန်လပြည့်နေ့ သက်တော် (၁၃)နှစ်အရွယ်တွင် မြို့ပေါ်ကျောင်းဆရာတော်ကြီး ဘဒ္ဒန္တမာလာကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေပြုခဲ့ပါသည်။

(စာ-၈၁)

**ရဟန်းပြုစ်**

အေဒီ ၁၉၂၇ — ၁၂၈၉ ခုနှစ်၊ တန်ခူးလပြည့်ကျော် (၂)ရက် သောကြာနေ့တွင် ဓနုဖြူမြို့၊ မြို့ပေါ်ကျောင်း ခဏ္ဍသိမ်တော် မြတ်၌ မြင့်မြတ်သောရဟန်းအဖြစ်သို့ရောက်ရှိခဲ့ပါသည်။

(စာ-၈၁)

**ဆရာ့ ဆရာများ**

ဓနုဖြူမြို့၊ သုံးထပ်ကျောင်း၊ စာချဆရာတော် ဘဒ္ဒန္တ အဂ္ဂိလက်ာရ၊ ဈေးဦးကျောင်းဆရာတော် ဘဒ္ဒန္တပညိန္ဒ၊ ပခုက္ကူမြို့ မဟာဝိဇယရာမတိုက်ဆရာတော်ကြီး ဘဒ္ဒန္တဇဝန၊ လက်ထောက်စာချ ဆရာတော်ဘဒ္ဒန္တပညာ။ ပခုက္ကူမြို့အလယ်တိုက်ဆရာတော်ကြီး ဘဒ္ဒန္တပညာ(အဂ္ဂမဟာ ပဏ္ဍိတ)၊ ဘဒ္ဒန္တသုန္ဒရ၊ ဘဒ္ဒန္တဂန္ဓမာ၊ ဘဒ္ဒန္တ နန္ဒိယ၊ ဘဒ္ဒန္တမာယိန္ဒတို့ထံ၌ ပရိယတ္တိစာပေများ သင်ယူပြီး ကနီမြို့ ရွှေသိမ်တော် တောရဆရာတော်ကြီးထံမှာ ဝိပဿနာ တရားများအားထုတ်ခဲ့ သည်။

(စာ-၈၁)

**ဆရာတော်ကြီး ဂူအောင်းခဲ့သောလိုဏ်ဂူတော်ကြီး**

ဆရာတော်ကြီး ဂူအောင်းခဲ့သောဂူ၏အမည်ကို "မဟာပါသာဏ လေဏဂုဟာ = မဟာပါ သာဏလိုဏ်ဂူတော်ကြီး"ဟု ကမ္ပည်းထိုးထားသည်။ သို့ရာတွင်လွယ်လွယ်ကူကူ "စကြာရှင် လိုဏ်ဂူတော်ကြီးဟု ခေါ်လေ့ရှိကြသည်။

(စာ-၈၁)

http://www.dhammadownload.com



**ဆရာတော်ကြီး၏ ပညာအမွေ**

အရှေ့ပရက္ကမဆရာတော်ကြီးသည် ၁။ ဘာဝနာပါရဂူကျမ်း ၂။ ဝိပဿနာရှုနည်းအကျဉ်း ၃။ မေတ္တာပါရဂူကျမ်း ၄။ ကိုးပါးသီလ ဝိနိစ္ဆယကျမ်းတို့ကိုပြုစုတော်မူခဲ့ပါသည်။

စာ-၈၂

**ဆရာတော်ကြီးပေးခဲ့သော နည်း**

အာနာပါန ကမ္မဋ္ဌာန်းကို စီးဖြန်းမယုတ် ပွားများအားထုတ်လိုသော အာနာပါနယောဂီသည် ငါ၏ ထွက်သက်လေကို ထွက်တိုင်း ထွက်တိုင်းမှတ်အံ့။ ဝင်သက်လေကို ဝင်တိုင်းဝင်တိုင်း မှတ်အံ့" ဟု သတိကို ဖြစ်စေ၍ သတိကိုနှာသီးဖျား၌ထား၍. .

ထွက်သည် ဝင်သည် တစ်
ထွက်သည် ဝင်သည် နှစ်
ထွက်သည် ဝင်သည် သုံး
ထွက်သည် ဝင်သည် လေး
ထွက်သည် ဝင်သည် ငါး
ထွက်သည် ဝင်သည် ခြောက်
ထွက်သည် ဝင်သည် ခုနစ်
ထွက်သည် ဝင်သည် ရှစ်

ဟူ၍ မှတ်ရမည်။ ရေတွက်ရမည်။ ရှစ်သို့ ရောက်ကာ "တစ်ဝါရ"ဟုခေါ်၏။ ဝါရအရေအတွက် ကို စိတ်သညာဖြင့်သာ အမှတ်အသားပြုပြီး မှတ်သားရေတွက်ရပါသည်။

**ဘယ် ညာ ၅ ဌာနစီ**

မှတ်သားရာဌာန နေရာအရပ်များကား ညာဘက်၌ ငါးဌာန၊ ဘယ်ဘက်၌ငါးဌာန ရှိသည်။ ညာဘက်၌ကား ချိုစောင်း၊ ပခုံးစွန်း၊ တံတောင်ဆစ်၊ လက်ကောက်ဝတ်၊ လက်ဖျားဟူ၍ ငါးဌာန။ ဘယ်ဘက်၌ လည်း ငါးဌာန။

**၅ ဝါ ရလျှင်**

သို့ဖြစ်၍ "ငါးဝါရ"လျှင် ညာဘက်ချိုစောင်းမှာ စိတ်သညာဖြင့်တင်ထား၊ စိတ်ဖြင့်တင်ထား။ စိတ်သညာဖြင့် မှတ်ထား၊ စိတ်ဖြင့်မှတ်ထား။

**စိတ်အာရုံ ထားပုံထားနည်း**

"ချက်ဆိုဒက်ခနဲ"နေပေ့စေ။ "ဒိုးဆိုဒေါက်ခနဲ"နေပေ့စေ။

(ချိုစောင်းမှတစ်ပါး အခြားတစ်ပါးဆီသို့ စိတ်အာရုံရောက်မသွားစေနဲ့။ စိတ်အာရုံညွတ်မသွား စေ နဲ့)

နောက်ထပ်တစ်ဖန် . . .

**နောက်ထပ်ဆက်လက်၍ ဤသို့ လုပ်ပါဟု မှာတမ်းရှိ၏။**

နောက်"ငါးဝါရ"ရလျှင် ပခုံးစွန်းမှာတင်။
နောက် "ငါးဝါရ"ရလျှင် တံတောင်ဆစ်မှာတင်။
နောက်"ငါးဝါရ"ရလျှင် လက်ကောက်ဝတ်မှာတင်။
နောက် "ငါးဝါရ"ရလျှင် လက်ဖျားမှာတင်။

**ဝါ ရပုံ အရေအတွက်**

အဆုံးဖြစ်သော လက်ဖျားသို့ကျတိုင်း ကျတိုင်း "ငါသည် ဝါရ(၂၅)ဝါရပြီ၊ ရပြီဟုပြန်ပေါင်း

http://www.dhammadownload.com



ရေတွက်၍မနေရဘဲ ဝါရ ရပုံအရေအတွက်ကို သိနိုင်ပါသည်။ သိရပါသည်။ ညာဘက်နှင့် ဘယ်ဘက်နှစ်ပါးစုံကို "တစ်ပတ်"ဟုမှတ်သားထားပြီး တစ်ပတ်လျှင် ဝါရ(၅၀)၊ နှစ်ပတ်လျှင် ဝါရ (၁၀၀) စသည်ဖြင့် မှတ်သားရေတွက်သွားပါက စိပ်ပုတီးဖြင့်ဝါရရေတွက် မှတ်သားသည်နှင့်မခြား ဝါရရေတွက်ပုံ၊ မှတ်သားရပုံ များစွာလွယ်ကူနေပုံတို့ကို လက်တွေ့ သိရှိပြီး ဖြစ်၍ သဘောကျကာ စိတ်ရှင်းသွားပေလိမ့်မည်။

ကျမ်းကိုး၊ ရွှေမင်းသား (စစ်ကိုင်း) ဆရာတော်ကြီး၏ ထေရုပ္ပတ္တိတော် ကိုယ်တိုင် သွားရောက် လေ့လာချက် (စာ-၈၇)။

ကျမ်းကိုး။ ဘဒ္ဒန္တ ဝါယမ သီတင်းသုံးခဲ့သော စကြာရှင်လိုဏ်ဂူတော်ကြီးနှင့်ဆရာ တော်ကြီး၏ ကျင့်စဉ်စရဏ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း အမှတ် (၂၀၃)၊ ၂၀၀၃ ခုနှစ်၊ ဇွန်လ (စာ-၈၁)။

http://www.dhammadownload.com



ပဲခူးတိုင်း၊ ပြည်မြို့

ရွှေပျိုင်းနားဆရာတော်၊ ကမ္ဘာ့ရွှေရင်အေးဆရာတော်

# ဦးဝိဇ္ဇာဗလ

၁၉၀၉ – ၂၀၀၅



http://www.dhammadownload.com



**ပိဋကတ် မောင်ထွန်းကြိုင် စန်းထသောနှစ်**

ဦးဝိဇ္ဇာဗလကိုယ်တော်ကြီး ရှိစဉ်အခါက "တို့များ ရဟန်းပြုတဲ့ နှစ်မှာ မင်းတို့ ကြားဖူးတဲ့ ပိဋကတ် မောင်ထွန်းကြိုင် ဟိုးဟိုးကျော်နေတဲ့ အချိန်ပေါ့" ဟု မိန့်တော်မူခဲ့ပါသည်။

**ပိဋကတ်မောင်ထွန်းကြိုင်နှင့် ခေတ်ပြိုင်ဖြစ် ရဟန်းအဖြစ်ရတော်မူ**

ထိုအချိန်အခါက ဆရာတော်၏ ရဟန်းဒကာများမှာ တစ်ရွာလုံး စုပေါင်းရဟန်းခံပွဲ ဖြစ်၍ ဒါယကာ ဒါယိကာမအပေါင်း တစ်သောင်းကျော်တို့၏ ကုသိုလ်တော်ဖြင့် ရဟန်းအဖြစ်သို့ ရောက်တော်မူသည်မှာလည်း အလွန်ထူးခြားလှပါသည်။

**ဦးကောက်ကြီးနှင့် ဘိုးမင်းခေါင်**

ဆရာတော်ရှိစဉ်အခါက "တို့များအမေဒေါ်မလေးဟာ ဦးကောက်ကြီးရဲ့ သမီးပဲ၊ ဦးကောက်ကြီး ဆိုတာက ပုပ္ပါးမြို့မှာ သမားတော်ကြီးပဲ၊ ဦးကောက်ကြီးဆိုတာကလဲ တို့များ ဘိုးမင်းခေါင်ကိုယ်တော်ကြီးနှင့် ဆွေမျိုးတော်တယ်ကွဲ့" ဟု မိန့်တော်မူခဲ့ဖူးပါသည်။

ဆရာတော်ကြီး ခန္ဓာဝန်ချမီ ကာလတွင် ကျွန်ုပ်တို့ တစ်စုသည် ကြုံတောင့်ကြုံခဲ ကုသိုလ်တော် နှစ်ခုကို ပြုခဲ့ရပါသည်။

**ကျွန်ုပ်တို့ တစ်စု ပထမ ကောင်းမှုတော်**

တစ်ခုမှာ ဆရာတော်ကြီး သက်ရှိထင်ရှား ရှိစဉ်မှာပင် ဗီဒီယို မှတ်တမ်း မဟာထေရုပ္ပတ္တိကထာ ရိုက်ကူးနိုင်ခဲ့ခြင်း ဖြစ်ပါသည်။ ဒါရိုက်တာမှာ စိုးဟိန်း (မန်းတက္ကသိုလ်) ဖြစ်၏။ ဇာတ်ညွှန်း မှတ်တမ်းအချက်အလက် အတိအကျရှာဖွေစုဆောင်းသူမှာ မောင်ပန်းမွှေးနှင့် မြေလတ်မြတ်သူ တို့ ဖြစ်ပါသည်။ ဇာတ်ဝင်သီချင်းအချို့ကို မြေလတ်မြတ်သူက ပြုစုပါသည်။

**ဒုတိယ ကောင်းမှုတော်**

အခြား ကုသိုလ်တော်တစ်ခုမှာ ဆရာတော်ကြီး၏ မဟာရုပ်ပုံလွှာကို မောင်ပန်းမွှေးက ပြုစု၍ စာအုပ်ထုတ်ဝေခဲ့ခြင်း ဖြစ်ပါသည်။ ဆရာတော်ကြီး သက်ရှိ ထင်ရှားရှိစဉ်ကပင်လျှင် ရာပြည့် မှတ်တမ်း ဗီဒီယို ထုတ်လုပ်နိုင်ခဲ့သဖြင့် ဆရာတော်ကြီးကိုယ်တိုင် ဝမ်းမြောက်ဝမ်းသာ သာဓု ခေါ်ခဲ့ပါသည်။ သို့သော် ပြင်ဆင်တည်းဖြတ်ပြီးချိန်တွင် ခန္ဓာဝန်ချတော်မူခဲ့ပါသည်။ ဆရာတော် ကြီး၏ ထူးခြားချက်များစွာ ရှိခဲ့ပါသည်။

**ခေတ်ပြိုင်မှတ်တမ်းများ**

ထိုအချက်များကို ကျွန်ုပ်၏ ခေတ်ပြိုင်မှတ်စု ကတ်တလောက်များမှ ထုတ်နုတ်တင်ပြပါမည်။ နောင်လာ နောက်သားများအတွက် သမိုင်းဝင် မှတ်တမ်းကြီး ဖြစ်၏။

**သက်တော် ရာပြည့် အခမ်းအနား**

အေဒီ ၂၀၀၅ — ၁၃၆၈ ခုနှစ် ဝါဆိုလပြည့်ကျော် ၃ ရက်နေ့တွင် ကမ္ဘာ့ရွှေရင်အေးဆရာတော်ကြီး၏ သက်တော် (၁၀၀) ပြည့်မွေးနေ့ကျင်းပမည်ဖြစ်သဖြင့် ယနေ့တိုင် သက်ရှိထင်ရှားရှိနေသေးသော သက်တော်ရှည်ဆရာတော်ကြီးဖြစ်သဖြင့် ကြားရသူအပေါင်းတို့က အံ့သြကြပါသည်။ ထိုအံ့သြ သူများထဲတွင် ကျွန်တော်လည်းပါ ပါသည်။

သို့သော်လည်း ဆရာတော်ကြီးမှာ ရာပြည့်မတိုင်မီ ရက်အနည်းငယ်အလိုတွင် ခန္ဓာဝန်ချတော် မူခဲ့သဖြင့် မဟာထေရုပ္ပတ္တိပြုစုသူ ကျွန်ုပ်တို့မှာ ဝမ်းနည်းစရာများနှင့် တွေ့ကြုံခဲ့ရပါသည်။

**ဆရာတော်ကြီးထေရုပ္ပတ္တိ ပြုစုခွင့်ရရှိခဲ့**

ဆရာတော်ကြီး ခန္ဓာဝန်မချမီ ရက်ပိုင်းအလိုမှာပင် ကျွန်ုပ်တို့တစ်စုသည် ဆရာတော်ဘုရားကြီး ၏ သက်တော်ရာပြည့် မဟာထေရုပ္ပတ္တိ ရုပ်ပုံလွှာစာအုပ်ကိုလည်းကောင်း၊ တစ်ပြိုင်တည်းမှာ

http://www.dhammadownload.com



ပင် ရာပြည့်သာသနာ့ မော်ကွန်း ရုပ်ရှင်တော်ကြီးကိုလည်းကောင်း၊ ဆရာတော်ကြီးထံမှာ လျှောက် ထားခဲ့ပါသည်။

**မောင်ပန်းမွေး ခေတ်မီတယ်**

ဆရာတော်ကြီးကလည်း ဝမ်းမြောက်ဝမ်းသာဖြင့် ခွင့်ပြုပါသည်။ "မောင်ပန်းမွေး ခေတ်မီတယ်" ဟူ၍ပင် နှုတ်တော်မှ ဖွင့်ဟမိန့်တော်မူခဲ့သဖြင့် ကျွန်ုပ်တို့တစ်စုမှာ ဝမ်းသာခဲ့ရပါသည်။

**ရွှေမျိုးနား သာသနာ့မော်ကွန်း**

ဆရာတော်ကြီးထံမှ ခွင့်ရလျှင်ရချင်း သာသနာ့ မော်ကွန်းတင် ရုပ်ရှင်တော်ကြီးကို အမြန်စတင် ရိုက်ကူးခဲ့ပါသည်။ ဒါရိုက်တာ စိုးဟိန်း (မန်းတက္ကသိုလ်)က ဦးစီးပြီး သက်ဆိုင်ရာဒေသများသို့ သွားရောက်ပြီး ဒေသခံပုဂ္ဂိုလ်များ၏ အကူအညီဖြင့် မော်ကွန်းတင်ရိုက်ကူးခဲ့ပါသည်။

**တိုက်ကြပ်ဆရာတော် ကူညီခဲ့**

ရိုက်ကူးပြီးစီးသည့်အချိန်အထိ ဆရာတော်ကြီးအား သွားရောက်ဖူးမြော်လျှောက်ထားခဲ့ပါသည်။ ဆရာတော်ကြီး ကိုယ်တော်တိုင် သိတော်မူခဲ့ပါသည်။ တိုက်အုပ်ဆရာတော်ကြီးလည်း သိပါသည်။ တိုက်ကြပ်ဆရာတော်ကြီးလည်း သိပါသည်။

**ဂန္ဓမာလာ ဦးခင်လတ်**

ထိုသို့ အဆင်ပြေအောင်လည်း ဂန္ဓမာလာ ဦးခင်လတ်နှင့် ဓမ္မမိတ်ဆွေ တစ်စုတို့က ဆောင်ရွက်ပေးခဲ့ပါသည်။ စီစဉ်တည်းဖြတ်နေဆဲမှာပင် ဆရာတော်ကြီး ခန္ဓာဝန် ချခဲ့ပါသည်။

**ခန္ဓာဝန်ချသည့်မှတ်တမ်း**

ထို့ကြောင့် စိတ်မကောင်းစွာနှင့်ပင် ခန္ဓာဝန်ချသည့်နေရာအထိ လိုက်လံဖြည့်စွက် ရိုက်ကူးခဲ့ရပါသည်။ ၎င်းနောက် ဆရာတော်ကြီး သက်တော်ထင်ရှားရှိစဉ်ကပင် ခွင့်ပြုတော် မူခဲ့သည့်အတိုင်း ဆရာတော်ကြီး၏ဆန္ဒအရ ရာပြည့်ပွဲတော်ကြီးအမီ သာသနာ့ မော်ကွန်းရုပ်ရှင်ကို ရာပြည့်ပွဲလာပရိသတ်အပေါင်းတို့ ကြည့်ရှုနိုင်ရန် စီစဉ်ရပါသည်။

တစ်ပြိုင်တည်းမှာပင် ယခင်က စီမံထားသည့်အတိုင်း မောင်ပန်းမွေး ရေးသားသော ရာပြည့် ရုပ်ပုံလွှာကိုလည်း ပုံနှိပ်ထုတ်ဝေရန် စီစဉ်ရပါသည်။

**စတင်ဖူးတွေ့ရခြင်း**

အေဒီ ၁၉၆၇

တက္ကသိုလ်ဆရာပေါက်စဘဝက ဆရာတော်ကြီးကို ကျွန်တော်စတင် ဖူးတွေ့ရသောအခါ က ဆရာတော်သည် သက်တော် ၅၀ ကျော်မျှသာ ရှိပါသေးသည်။ ၁၉၆၇ ခုနှစ်ကဖြစ်သဖြင့် ကျွန်တော်သည် ပုသိမ်ကောလိပ်အသစ်တည်ထောင်ပြီးစ ကာလကတည်းက မြန်မာစာဌာန တွင် မြန်မာစာဆရာဖြစ်ခဲ့ပြီးနောက် ရန်ကုန်တက္ကသိုလ် မြန်မာစာဌာနသို့ ရောက်လာစ ကာလဖြစ်ပါသည်။

**ပုသိမ်ကောလိပ် မြန်မာစာဆရာ**

အေဒီ ၁၉၆၁

ထိုကာလမတိုင်မီ ပုသိမ်ကောလိပ် မြန်မာစာဌာနတွင် မြန်မာစာ ဆရာ လုပ်ခဲ့ရာ ၁၉၆၁-၆၂ မှ ၁၉၆၇ ကာလတိုင်တိုင် ဖြစ်လေသည်။

**ဆရာပေါက်စ ဘဝမှာ ဖူးတွေ့ခဲ့ရ**

ထို့နောက် ရန်ကုန်တက္ကသိုလ်သို့ ပြောင်းရွှေ့လာခဲ့ရာ ထိုကာလက ကျွန်တော်သည် ရန်ကုန် တက္ကသိုလ် မြန်မာစာဌာနသို့ ပြေး၍ စာသင်လိုက်၊ ပညာရေး တက္ကသိုလ်သို့ ပြေး၍ စာသင် လိုက်နှင့် တက္ကသိုလ် ဆရာပေါက်စ ဆိုလား (သို့တည်းမဟုတ်) တက္ကသိုလ် ဆရာကြီး ဆိုလား ဖြစ်နေပါပြီ။

http://www.dhammadownload.com



**ဆရာ့ထက်တော်သောတပည့်များ**

ထိုစဉ်ကာလက မြန်မာစာကျောင်းသားကိုအောင်မြင့်ဆိုသူနှင့် သိရပါသည်။ ကိုအောင်မြင့်သည် ကျောင်းသား ဖြစ်သည်။ ကျွန်တော်သည် ဆရာဖြစ်သည်၊ သို့သော် သူသည် ကျွန်တော့်ထက် ပို၍ ဘဝစုံသည်။ ရန်ကုန်လောကအကြောင်း ပိုသိသည်။ သူသည် လောကဓံကို ရေဆန်၍ ကူးခတ်ခဲ့သူဖြစ်သည်။

**စက်ာပူကျောင်းတိုက်မှာ စတင် ဖူးတွေ့ရ**

ကျွန်တော်သည် ငယ်ငယ်ရွယ်ရွယ် တက္ကသိုလ်ဆရာပေါက်စဖြစ်လာသဖြင့် သူ့လောက် ရန်ကုန် လောကစာပေလောကကို မသိ၊ ထိုစဉ်ကာလ သူကပင် ကျွန်တော့်ကိုခေါ်သွား၍ ရန်ကုန် ပုဇွန်တောင် စက်ာပူကျောင်းတိုက်တွင် ရတနာမာရ်အောင်ဆရာတော်ကို ဖူးတွေ့ခဲ့ရသည်။

**ဖျာပုံလိပ်ဥကုန်းမှ အပြန်နှင့် မငေးကြီးဆရာတော်**

ထိုစဉ်က ဆရာတော်ကြီးသည် ဖျာပုံမှပြန်ကြွကာစဖြစ်၏။ ထို့ကြောင့် ဖျာပုံက လိပ်ဥကုန်းဘုရား အကြောင်း ကိုလည်းကောင်း၊ မငေးကြီး ဆရာတော်အကြောင်းကိုလည်းကောင်း၊ တပည့် ပရိသတ်အပေါင်း ပြောဆိုနေသံကို ကျွန်တော် ကြားရပါသည်။

**ထိုစဉ်က ဆရာတော် သက်တော် ၅၈ နှစ်**

ကျွန်တော်သည် ဘာသာရေးဗဟုသုတနည်းသဖြင့် ကိုအောင်မြင့်ကို မေးရပါသည်။ ကိုအောင် မြင့်သည် တက္ကသိုလ်ကျောင်းသား မောင်ဌေးအောင်၏ ကောင်းမှုကြောင့် ရတနာ့ မာရ်အောင် ဆရာတော်၏အကြောင်းကို အံ့ဖွယ်ကြည်ညိုဖွယ်ပြောကြား၍သိရပါသည်။ ထိုစဉ်က ဆရာတော်သည် သက်တော် ၅၈ နှစ်အရွယ်တော် ဖြစ်ပါသည်။

**ရွှေဘုံသာက အကြားအမြင်ဗေဒင် ဒေါ်ရင်နွဲ့**

ရန်ကုန်မြို့ ရွှေဘုံသာလမ်း အမှတ် ၃၅၆ တွင် ဒေါ်ရင်နွဲ့ဆိုသူ တစ်ဦးရှိ၏။ သူသည် ရတနာ မာရ်အောင် ဆရာတော်ဘုရားနှင့် ဆွေရိပ်မကင်း မျိုးရိပ်မကင်းသူ တစ်ဦးလည်း ဖြစ်၏။ တပည့်မတစ်ဦးလည်းဖြစ်၏။ ရွှေဘုံသာလမ်း၊ အမှတ် ၃၅၆ တွင်နေသည်ဟု ကျွန်တော် ကောင်းစွာ မှတ်မိပါသည်။

ထိုအကြားအမြင်ဟောသော ဒေါ်ရင်နွဲ့နှင့် တွေ့သောအခါ ရတနာမာရ်အောင် ဆရာတော်က သိဒ္ဓိချီးမြှင့်လိုက်သဖြင့် သူသည် ရှေးယခင်က ဘာမှမတတ်ဘဲ၊ ယခုအခါ အလိုလို ဟောတတ် လာသည်ဟု ဒေါ်ရင်နွဲ့ ကိုယ်တိုင် ပြောပြသဖြင့် တအံ့တသြ ဖြစ်ရပါသည်။ ဩော် - ဒီလို ကိစ္စမျိုးလည်း ရှိပေသကိုးဟု ဗဟုသုတ အသစ်များ ရရှိပါသည်။

**ပုဂ္ဂိုလ်ထူး ဆရာတော်**

ထိုစဉ်ကာလ အာတီးယားလမ်းတွင် ရတနာမာရ်အောင်ဆရာတော်ကို ကိုးကွယ်သည်ဆိုသော ပုဂ္ဂိုလ်ထူးတို့ကို တွေ့ရပါသေးသည်။ သူတို့မှာ ဦးစိန်မောင် ဒေါ်လှလှ ဆိုသူတို့ ဖြစ်ကြပါသည်။ ရန်ကုန်မြို့၊ ကမာရွတ်၊ အာတီးယားလမ်းတွင် နေထိုင်ကြပါသည်။ ခြံအမှတ် ၄၆ ဟု မှတ်မိ နေပါသေးသည်။

**အာတီးယားလမ်းက တပည့်များ**

အဘယ်ကြောင့်ဆိုသော် ရန်ကုန်မြို့ လှည်းတန်း၊ ထိုအာတီးယားလမ်းထဲတွင်နေသော ဦးဖေကြည်၊ ဒေါ်စောတင် ဆိုသော ပုဂ္ဂိုလ်များကို အကြောင်းပြု၍ ဖြစ်ပါသည်။ သူတို့သည် အာတီးယားလမ်းတွင်ပင် နေကြ၏။ ခြံအမှတ် ၃၁ ဖြစ်၏။

http://www.dhammadownload.com



ထို့ကြောင့် ဆက်စပ်လျက် မှတ်မိနေခြင်းဖြစ်ပါသည်။ ထိုပုဂ္ဂိုလ်တို့၏ ပြောကြားချက်အရ ကိုယ်တွေ့များဖြစ်သဖြင့် ယုံစရာဖြစ်၍ ယုံခဲ့ပါသည်။ ကြည်ညိုစရာ ဖြစ်၍ ကြည်ညိုခဲ့ပါသည်။

**ကိုယ့်ကိုယ်ကိုယ် ရှက်တတ်ခြင်း**

ထိုစဉ်က ကျွန်တော်တို့သည် ဒေါ်ခင်မျိုးချစ်၏ ဝတ္ထုများကို ဖတ်ခဲ့ဖူး၍ မျိုးချစ်ဟူသော စကားကိုနှစ်သက်သောကာလဖြစ်၏။ ပုလိပ်အရာရှိတစ်ဦး၏ နာမည်ကျော် ကိုယ်တွေ့စုံထောက်မှုကြီးကို ဖတ်ဖူး၍ ကိုယ်တွေ့မှ ယုံသည်ဟု ပြောတတ်ကာစဖြစ်ပါသည်။

ရန်ကုန်တက္ကသိုလ် စာကြည့်တိုက်မှူး ဆရာဇော်ဂျီ အမည်ခံဆရာကြီး ဦးသိန်းဟန်နှင့်လည်း နေ့တိုင်းလိုလို တွေ့ကြုံစကားပြော တပည့်ခံဖူးသူဖြစ်သဖြင့် ပလေတို နိဒါန်းတွေဖတ်၊ ဆော့ခရတ္တိ အတွေးအခေါ်တွေဖတ်နှင့် ကိုယ့်ကိုယ်ကိုယ် လူတတ်ကြီးယောင်ယောင်၊ ဘာယောင်ယောင်ကာလဖြစ်၏။

ရတနာမာရ်အောင် ဆရာတော်ကြီးအကြောင်း ကိုယ်တွေ့ဖြစ်ရပ်များကြားရမှ ကိုယ့်ကိုယ်ကိုယ် ဘာမှမဟုတ်မှန်း ရှက်တတ်လာကာစ ကာလဖြစ်၏။

**စိန်ခင်မောင်ရီနှင့် ဒေါင်းနွယ်ဆွေနှင့် ဖြူ နီ ညို ပြာ**

ထိုကာလတွင် စိန်ခင်မောင်ရီဆိုသူ စာရေးဆရာကြီးကလည်း လှည်းတန်းကုန်းကြီးအောက် ရထားလမ်းအနီးတွင် ဖြူ နီ ညို ပြာ မဂ္ဂဇင်းကြီးကို ထုတ်စဖြစ်၏။

**မြန်မာ့ စွယ်စုံကျမ်း၏အမှားဆောင်းပါးနှင့် မျက်ကန်းတစ္ဆေမကြောက်**

ထိုကာလက ကျွန်တော်သည် တက္ကသိုလ်ဆရာပေါက်စ၊ ကဗျာဆရာပေါက်စ၊ ဥခွံမှပေါက်ကာစ ဖြစ်သဖြင့် လောကကြီးကို အကြီးကြီးမြင်၍ အံ့သြသည့်အခါ အံ့သြ၊ ကြောက်သည့်အခါ ကြောက်၊ မကြောက်သည့် အခါမကြောက်၊ မျက်ကန်းတစ္ဆေ မကြောက်ဖြစ်၍ မြန်မာ့စွယ်စုံကျမ်း၏ အမှားဟူသော ဆောင်းပါးတစ်ပုဒ်ကို မကြောက်မရွံ့ရေးလိုက်ရာ ကဗျာဆရာကြီး ဒေါင်းနွယ်ဆွေနှင့် စိန်ခင်မောင်ရီတို့က မြှောက်ပင့်မြှောက်အားပေးကြ၏။

**နေလို့ လလို့ တစ်ခုသောပန်းဥယျာဉ်**

နေလို လလို ကဗျာစာအုပ်များ၊ တစ်ခုသောပန်းဥယျာဉ် ကဗျာစာအုပ်များ ထုတ်ဝေကာစ ကာလဖြစ်၏၊ ရောင်းလို့ကောင်းလိုက်သည်မှာမပြောနှင့်တော့။ အလကားပေး၍ လက်ဆောင်ဝေငှလိုက်ရသည်မှာ မရေမတွက်နိုင်။

**သဲအင်းဂူ ဆရာတော်ရှိစဉ်က**

ထိုစဉ်ကာလက မောင်ပန်းမွှေးသည် ဘန်ကောက် လုံချည်နှင့်၊ မြောက်ပြင် ပုဆိုးနှင့် အတက်ချီ ကေ့စ်နှင့် အမောက်ထောင်စကာလ ဖြစ်၏။ ထိုစဉ်ကာလ ရတနာမာရ်အောင် ဆရာတော် ဘုရားအကြောင်းကိုလည်းကောင်း၊ သဲအင်းဂူ ဆရာတော် အကြောင်းကိုလည်းကောင်း၊ ကြား၍ ကြား၍နေရသောအခါ ရှိသမျှမာန်စွယ်ကလေး အကုန်ကျိုးရပေတော့သည်။

**ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများကို နှစ် ၃၀ ကျော် ရှာဖွေခဲ့**

ထိုမျှလောက်ပင် ရဟန္တာနှင့်ပုဂ္ဂိုလ်ထူးများတို့၏သတင်းက ကျွန်ုပ်တို့၏စိတ်ကို လွှမ်းမိုးနိုင်ခဲ့ပေသည်။

**သက်တော်ရာပြည့်အထိ အသက်ရှည်ခြင်းသိဒ္ဓိ**

သို့နှင့် နောင်သောအခါ ဘာဖြစ်လာသည်မှန်းမသိသော မောင်ပန်းမွှေးဆိုသူသည် ရတနာမာရ်အောင် ဆရာတော်ကို ကြည်ညိုခဲ့ပါသည်ဟုဆိုသောစကားထက် အံ့သြစွဲလမ်းခဲ့ပါသည်ဟူသော စကားက မဆီလျော်သော်လည်း ဟုတ်မှန်နေခဲ့ပါသည်။

http://www.dhammadownload.com



ထို့ကြောင့် နောက်ထပ် နှစ်ပေါင်း ၄၀ ကျော် ကြာသောအခါ ထိုမောင်ပန်းမွေး ဆိုသူသည်ပင် ရတနာမာရ်အောင် ဆရာတော် ဦးဝိဇ္ဇာဗလ ကမ္ဘာ့ရွှေရင်အေးဘွဲ့တော်ရှိပေသော အဘိဇဇ အဂ္ဂမဟာသဒ္ဓမ္မဇောတိက ဘွဲ့တံဆိပ်တော်ရ ဆရာတော်ကြီး၏ သက်တော် (၁၀၀) ပြည့် သက်တော်ရှည် ဘဝရုပ်ပုံလွှာကို ရေးခြယ်စီကုံး ပူဇော်သူတစ်ယောက် ဖြစ်လာလိမ့်မည်ဟု ကိုယ်ကိုယ့်ကိုယ် မသိခဲ့ပါချေ။

**ဇေကမ္ဘာဥက္ကဋ္ဌ ဒေါက်တာ ခင်ရွှေက အသက်ကိုကယ်တင်ခြင်း**

ကိုယ်လည်း ဒီလောက်တောင် အသက်ရှည်လိမ့်မည်မထင်၊ ရတနာ မာရ်အောင်ဆရာတော်ကြီး လည်း ယခုလို သက်တော်ရာကျော်ရှည်တော်မူလိမ့်မည်ဟု ကြိုတင်၍မသိ၊

ယခုသော် ဇေကမ္ဘာ ဥက္ကဋ္ဌ ဒေါက်တာခင်ရွှေ၏ အသက်ကယ်မှုကြောင့် အသက်ရှည်ခဲ့ရသော အကျွန်ုပ် မောင်ပန်းမွေးဆိုသူသည် တပည့်ကောင်းပီပီ ဆရာကောင်းတပည့် ပန်းကောင်းပန်၍ သုဝဏ္ဏဘူမိဆံတော်ရှင်သာသနာတော်ကြီးကို တစ်ကျော့ပြန်ဖွင့်ဖော်ခဲ့သော ကျိုက်ထီးဆောင်း ဆရာတော် အဘိဇဇအဂ္ဂ မဟာသဒ္ဓမ္မ ဇောတိကဘဒ္ဒန္တပညာဒီပ ဦးထိပ်ထား၍ သင်ဆရာ မြင်ဆရာအပေါင်းကို ကျေးဇူးဆပ်သောအားဖြင့် မသိသူကျော်သွား သိသူဖော်စား ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ ပေါင်းချုပ်ကြီးကို ဖြည့်စွက်၍ ပြန်လည်ရေးသားပူဇော်နိုင်သည်သာမက ဝိဇ္ဇာ ပေါင်းချုပ် အတ္ထုပ္ပတ္တိများကို ပြုစုရင်း ကမ္ဘာ့ရွှေရင်အေးရာပြည့် မဟာထေရုပ္ပတ္တိကြီးကို စီကုံး ရေးသားပူဇော်လိုက်ရခြင်းဖြစ်ပေသည်။

**သာသနာ့အကျိုးတော်ဆောင် ပြစ်မှန်းမသိပြစ်လာသော စိုးဟိန်းနှင့် တွေ့ဆုံခြင်း**

ထိုနေ့က စိုးဟိန်း ( မန်းတက္ကသိုလ် ) ရောက်လာသည်မှာ အကြိမ် တစ်ရာမြောက်ဖြစ်ပေလိမ့် မည်။ ရွှေဗျိုင်းနား ဆရာတော် မဟာထေရုပ္ပတ္တိ ပြုစုရန် ကြိုးစည်ကြသည်မှာလည်း အကြိမ် တစ်ရာမြောက် ဖြစ်ပေလိမ့်မည်။

**စာရေးဆရာ မြေလတ်မြတ်သူ**

မြေလတ်မြတ်သူဆိုသူ ရွှေပေါ်ကျွန်းစေတော်ဝင် မဟာဂန္ဓာရီ တက္ကသိုလ်ကျောင်းတော်ကြီး ထွက်စာရေးဆရာကြီးနှင့် တိုင်ပင်ကြသည်မှာလည်း အကြိမ်တစ်ရာမြောက်ဖြစ်ပါလိမ့်မည် ထင်ပါသည်။

**တစ်ကျော့ပြန် အကန်တော့ခံ ဆံတော်ရှင် သာသနာပြုဆောင်းပါးများ**

ကျွန်တော်သည် ကျိုက်ထီးဆောင်းဆရာတော် အဘိဇဇအဂ္ဂမဟာသဒ္ဓမ္မဇောတိက ဘဒ္ဒန္တ ပညာဒီပ သက်တော်ရှည် ကိုယ်တော်ကြီးနှင့် စပ်လျဉ်း၍ ယခင်က ၂၀၀၃-ခုနှစ်အထိ ဆောင်းပါး ပေါင်း ၁၆၅ ပုဒ် ရေးခဲ့ဖူးပါသည်။ ၎င်းနောက် အပုဒ် ၅၀၀ ရေးဖူးပါသည်။

**ကျိုက်ထီးဆောင်းဋီကာပေါင်းချုပ်ကြီး ကုသိုလ်တော်**

ကျိုက်ထီးဆောင်းဋီကာဟူ၍ ပထမတွဲ၊ ဒုတိယတွဲ၊ တတိယတွဲ၊ စတုတ္ထတွဲ၊ ပဉ္စမတွဲ အတွဲ ၅ တွဲ ရေးခဲ့ဖူးပါသည်။ ကျိုက်ထီးဆောင်းဋီကာပေါင်းချုပ်ကြီးဟူ၍လည်း ထုတ်ခဲ့ဖူးပါသည်။ ဓမ္မဒါနပြုခဲ့ဖူးပါသည်။ ထိုကောင်းမှုအစုစုသည် ဇေကမ္ဘာ ကုမ္ပဏီဥက္ကဋ္ဌကြီး ဒေါက်တာ ခင်ရွှေ မိသားစု၏ ဂန္ထဝင်မြောက် ကုသိုလ်တော် ဒါနအစုစု ဖြစ်ပါသည်။ သံသရာ ရိက္ခာထုပ်ကြီးများ ဖြစ်ပါသည်။ အကောင်းဆုံးထဲက အကောင်းဆုံး ကုသိုလ်တော်များ ဖြစ်ပါသည်။

**အာယုသိဒ္ဓိမြောက်ခဲ့ခြင်း အကြောင်းအရင်းများကျေးဇူးရှင်**

ထိုဆံတော်ရှင်သာသနာ တစ်ကျော့ပြန်ဖွင့်ဖော်မှု ဒါနအစုစုတွင် ပါဝင်ရုံကလေးကြောင့်ပင် ကျွန်တော်သည် သေရွာမှ ပြန်ခဲ့ရပါသည်။ မန္တလေး ပြည်သူ့ဆေးရုံကြီးမှ ကျေးဇူးရှင်ခွဲစိပ်

http://www.dhammadownload.com



ပါရဂူဆရာကြီးများ၏ ကယ်ဆယ်မှုနှင့် မန္တလေး နဒီမြန်မာ ဦးအောင်ခိုင်တည်းဟူသော ပုဂ္ဂိုလ်ထူး၏ ကူညီမှုကို ခံယူကာ အသက်ရှည်ခဲ့ရသူဖြစ်သဖြင့် ကျွန်ုပ်မောင်ပန်းမွေး ပြုစုသမျှ အဝဝတို့သည် ထိုပုဂ္ဂိုလ်ခင်ပွန်းကြီး ဆယ်ပါးအား ကျေးဇူးဆပ်စာတန်းများသာ ဖြစ်ပေလိမ့်မည်ဟု ဝန်ခံ ပြောဆိုပါသည်။

**ပညာအမွေပေးသောဆရာတော်**

ယခုလည်း သက်တော်ရှည် ရာပြည့်ရွှေဖျိုင်းနားဆရာတော်ကို ကျေးဇူးဆပ်ရပေလတ္တံ့။

အေဒီ ၂၀၀၅ — ၁၃၆၇ ခုနှစ် သီတင်းကျွတ်လပြည့်ကျော် ၁၃ ရက်နေ့ ( ၂၀၀၅ အောက်တိုဘာ ၃၀) တနင်္ဂနွေနေ့တွင် ကျွန်ုပ်တို့တစ်စုသည် စိတ်တူကိုယ်တူတိုင်ပင်၍ ရာပြည့် မဟာထေရုပ္ပတ္တိကထာဖြင့် သာသနာ့အကျိုးဆောင်ရွက်ရန် ပြည်မြို့သို့ ထွက်ခွာခဲ့ကြပါသည်။ ကျွန်ုပ်တို့တစ်စုဆိုသည်မှာ ဒါရိုက်တာ စိုးဟိန်း (မန်းတက္ကသိုလ်) စာရေးဆရာ သာသနာ့အကျိုးဆောင် မြေလတ်မြတ်သူ၊ သစ်တော အငြိမ်းစားအရာရှိ ဥပဒေအကျိုးတော်ဆောင် ဦးအောင်မြင့်နှင့် ကျွန်တော်မောင်ပန်းမွေးတို့ ဖြစ်ပါသည်။ ရုပ်ရှင်ကင်မရာနှင့်တကွ ဆလိုက်မီးမှစ၍ လိုအပ်သမျှယူဆောင်ကာ ကားဖြင့် သွားကြရာ၊ ထိုနေ့ ညနေစောင်းတွင် ရတနာမာရ်အောင်တောရသို့ ရောက်ရှိခဲ့ပါသည်။

**ရာပြည့် ရုပ်ရှင်ရိုက်ကူးရန် ခရီးထွက်ကြခြင်း**

ရတနာမာရ်အောင်ဆရာတော်၏ ဝေယျာဝစ္စအကျိုးတော်ဆောင် ဦးစိန်ရနှင့် တွေ့ရှိ၍ ဂန္ဓမာလာဇရပ်ကျောင်းတိုက်တွင် ညအိပ်တည်းခိုကြရပါသည်။ တိုက်ကြပ် ဦးဣန္ဒိမန္တကိုယ်တော်မှာ ရတနာမာရ်အောင်ဆရာတော်ကြီးကိုယ်စား ဖျာပုံသို့ ကထိန်အလှူတော် ကြွတော်မူနေသဖြင့် ထိုနေ့ညက မတွေ့ရပါ။ ဖျာပုံသို့ တကူးတကန့် ဖုန်းဆက်၍ လာရင်းကိစ္စကို ရိုသေစွာလျှောက်ထားရပါသည်။

**ဦးနေမိန္ဒ၏ ကျေးဇူးကြောင့်**

စာချတိုက်အုပ်ဆရာတော် ဦးနေမိန္ဒ၏ ကူညီပံ့ပိုးမှု ခွင့်ပြုမှုတို့ဖြင့် အစစ အဆင်ပြေရပါသည်။ ကျွန်တော်တို့တစ်စုသည် ရတနာမာရ်အောင်ကျောင်းတိုက် အတွင်းအပြင်နှင့်တကွ လိုအပ်သောနေရာများတွင် မှတ်တမ်းတင် ရိုက်ကူးခွင့်ရခဲ့ပါသည်။

**ထေရုပ္ပတ္တိတစေ့တစောင်း ပန်းချီကားကြီးများ၏ သမိုင်းတန်ဖိုး**

ရတနာမာရ်အောင်ကျောင်းတိုက်အတွင်းရှိ ဓမ္မစကြာဓမ္မာရုံတော်ကြီးပေါ်တွင်ရှိသော ပန်းချီကားကြီး ၂၄ ချပ်ကို မှတ်တမ်းတင် ရိုက်ကူးရပါသည်။

ထိုပန်းချီကားကြီး ၂၄ ချပ်သည် ရတနာမာရ်အောင်တောရ ဆရာတော် ကမ္ဘာ့ရွှေရင်အေး ဆရာတော်၏ ငယ်ဘဝမှ စ၍ ကြီးဘဝအထိ ဘဝရုပ်ပုံလွှာ ပန်းချီကားချပ်များ ဖြစ်ကြပါသည်။ ထိုပန်းချီကားချပ်များကို အကြမ်းဖျင်း ကြည့်ရှုံမျှနှင့်ပင် သက်တော်ရှည်ဘဝကို ရိပ်စားမိနိုင်ပါသည်။

**ပျော်ဘွယ်ခရီးစဉ်**

အေဒီ ၂၀၀၅ — ၁၃၆၇ ခုနှစ် တန်ဆောင်မုန်းလဆန်း ၇ ရက် (၂၀၀၅ နိုဝင်ဘာလ ၇ ရက် ) တနင်္လာနေ့တွင် ကျွန်ုပ်တို့ ရာပြည့် မော်ကွန်းတင် ရုပ်ရှင်နှင့် မော်ကွန်းတင် မဟာထေရုပ္ပတ္တိဘဝ ရုပ်ပုံလွှာပြုစုသူ အကျိုးဆောင်တစ်စုတို့သည် ပျော်ဘွယ်မြို့သို့ သွားကြရပြန်ပါသည်။

**ဆွမ်းမစားသော ဆားတောင်ကိုရင်လေး**

ပျော်ဘွယ်စံတော်ကုန်းမှာ ရောက်ဖူးသူတိုင်း မမေ့နိုင်သော နေရာဖြစ်လေသည်။ ဆွမ်းမစားတဲ့

http://www.dhammadownload.com



ဆားတောင်ကိုရင်ကလေး ကျင်လည်ကျက်စားခဲ့သော နေရာဖြစ်သဖြင့် ထိုနေရာရှိ တောကလေးများသည်လည်းကောင်း၊ တောင်ကုန်းကလေးများသည်လည်းကောင်း၊ သစ်ပင်ရိပ်ကလေးများသည် လည်းကောင်း၊ တောညိုညို အုပ်ဆိုင်းဆိုင်း ကလေးများသည်လည်းကောင်း ကျွန်ုပ်တို့အတွက် စိတ်လှုပ်ရှားစရာများ ဖြစ်ကြရလေသည်။

**စံတော်ရာကုန်းသို့ ရောက်ခဲ့သော ဂျာနယ်ကျော်မမလေး**

အေဒီ ၁၉၇၈

၁၃၄၀ ခုနှစ်က ထိုစံတော်ရာကုန်းသို့ ရောက်ရှိခဲ့သော စာရေးဆရာမကြီး ဂျာနယ်ကျော်မမလေးသည် မိမိ အတွေ့အကြုံတို့ကို တစ်ဖွန်းဆန်ဟူသောအမည်ဖြင့် မြစ်ငယ်မဂ္ဂဇင်းတွင် ဖြစ်ရပ်မှန် ဝတ္ထုဆောင်းပါးရေးခဲ့ရာ ယနေ့တိုင်မှတ်မိသူများ ရှိကြပါသေးသည်။

ထိုစဉ်က မြင်ကွင်းနှင့် ယခုမြင်ကွင်းမှာ နှစ်ပေါင်း ၃၀ နီးပါးမျှ ကြာပြီဖြစ်ပါသဖြင့် ပြောင်းလွဲသင့်သလောက် ပြောင်းလွဲနေပါသည်။ ရှေးဖြစ်ဟောင်း ပြန်ပြောင်းတွေးတောလျှင် စိတ်မျက်စိတွင် ထင်ယောင်ယောင် မြင်ယောင်ယောင် ဖြစ်ရပါသေးသည်။

**ရှေးဖြစ်ဟောင်း အောက်မေ့ဖွယ်**

အဘိဓဇအဂ္ဂမဟာသဒ္ဓမ္မဇောတိက ဘဒ္ဒန္တဝိဇ္ဇာဗလဟူ၍ ကျော်ကြားပေသော ပြည်မြို့ ရတနာမာရ်အောင်တောရကျောင်းတိုက်တွင် သီတင်းသုံးတော်မူသော ပဓာနနာယက ဆရာတော်ကြီး ဦးဝိဇ္ဇာဗလကိုယ်တော်ကြီးသည် ရွှေဖျိုင်းနားဆရာတော် ဟူ၍လည်းကောင်း၊ ရွှေလိပ်ပြာနားဆရာတော်ဟူ၍ လည်းကောင်း၊ လူသိများ ကျော်ကြားလှပါသည်။

**အပိုင်း (၅) ပိုင်းခွဲ၍ လေ့လာခြင်း**

ထိုဆရာတော်ကြီးအကြောင်းကို လေ့လာရာတွင် ကျွန်တော်တို့အုပ်စုသည် အပိုင်း (၅) ပိုင်းခွဲ၍ လေ့လာကြပါသည်။

**ဆွမ်းမစားသော ဆားတောင်ကိုရင်လေး၏ အံ့ဖွယ်**

(၁) ပထမပိုင်းတွင် ကျွန်တော်တို့သည် ဆားတောင်ကိုရင်ကလေး အကြောင်းကို လေ့လာကြပါသည်။ ထိုခရီးအတွက် ပျော်ဘွယ်စံတော်ရာကုန်းနှင့်တကွ ဆားတောင်ရွာအပါအဝင် ပတ်ဝန်းကျင်သို့ သွားရောက်လေ့လာရပါသည်။ ဓာတ်ပုံမှတ်တမ်းတင်ကြသည်။ ရုပ်ရှင်မော်ကွန်းတင်ကြပါသည်။

**ကိုရင်ကလေး တရေးအားထုတ်စဉ်က ဆရာ ၃၇ ပါးနှင့် တောင် ၃၇ တောင်**

(၂) ဒုတိယပိုင်းအနေဖြင့် ကျွန်တော်တို့သည် ဆားတောင်ကိုရင်ကလေးဘဝကို လေ့လာကြရပါသည်။

**ပြည်မြို့ ရန်ကုန်တောင်တောရတိုက်က လူတွေ့မခံသော ဆွမ်းမစားသည့် ကိုရင်လေးအကြောင်း**

(၃) တတိယပိုင်းအနေဖြင့် ကျွန်တော်တို့သည် ရန်ကုန်တောင်တောရ ကျောင်းတိုက်တည်ရာ ပြည်မြို့သို့ သွားရောက်လေ့လာရပါသည်။ ဆွမ်းမစားတဲ့ ရဟန်းတော်ကလေး အရှင်လာဘအကြောင်း လေ့လာကြရပါသည်။

**ဦးဝိဇ္ဇာဗလဖြစ်လာခြင်း ကမ္ဘာ့ရွှေရင်အေးဆရာတော် ဖြစ်လာခြင်းအကြောင်းအရင်း**

(၄) စတုတ္ထပိုင်းအနေဖြင့် ကျွန်တော်တို့သည် ပြည်မြို့ ရတနာမာရ်အောင်တောရ ကျောင်းပတ်ဝန်း ကျင်တစ်ခိုကို သွားရောက်လေ့လာရပါသည်။ သို့မှသာ ဦးဝိဇ္ဇာဗလ ဘဝရုပ်ပုံ လွှာကိုလည်းကောင်း၊ ကမ္ဘာ့ရွှေရင်အေးဆရာတော်ဘုရားကြီး၏ ဘဝရုပ်ပုံလွှာကိုလည်းကောင်း သိရှိလာခဲ့ရခြင်း ဖြစ်ပါသည်။

http://www.dhammadownload.com



**သက်တော်ရှည်ဘဝ မှတ်တမ်းများ**

(၅) ပဉ္စမပိုင်းအနေဖြင့် ကျွန်တော်တို့ တစ်စုသည် သက်တော်ရှည် ဆရာတော်ဘုရားကြီး၏ သာသနာရေးဆိုင်ရာ ကြိုးပမ်းမှုများကို လေ့လာလျက် ဆရာတော်ကြီး၏ အဖိုးတန်ဩဝါဒကထာများကို မှတ်တမ်းတင်ကြရပါသည်။ ဤသို့ဖြင့် ကျွန်တော်တို့တစ်စုသည် သက်တော်ရှည် ရာပြည့်ဆရာတော် ဘုရားကြီး၏ ဘဝရုပ်ပုံလွှာကို မှတ်တမ်းတင်ရာတွင် အပိုင်းကြီး (၅) ပိုင်းခွဲ၍ လေ့လာခဲ့ရပါသည်။ ထိုအချက်ကို အသေးစိတ် တင်ပြပါမည်။

**အပိုင်း (၁)**

**ဆားတောင်ကိုရင်ကလေးအကြောင်းလေ့လာရေးခရီး၊ ပျော်ဘွယ်ခရီး၊ စံတော်ရာခရီး၊ ဆားတောင်ခရီး လေ့လာချက်စာတမ်း**

ကမ္ဘာ့ရွှေရင်အေးဆရာတော်၏ ဘဝရုပ်ပုံလွှာပထမပိုင်းမှာ ပျော်ဘွယ်ခရီးနှင့်သာ ပတ်သက်နေလိမ့်မည်။ ထို့ကြောင့် ပျော်ဘွယ်ခရီးသည် ကမ္ဘာ့ရွှေရင်အေးရုပ်ပုံလွှာ ပထမပိုင်း လေ့လာရေးခရီး ဖြစ်၏။

**ကိုရင်လေး ပုတီးစိပ်ခဲ့သောနေရာ**

ပထမပိုင်းဖြစ်သဖြင့် မွေးရာဇာတိ ဆားတောင်ရွာကိုလေ့လာရမည်။ ၎င်းနောက် အမိအဖ ဆွေမျိုးများကို လေ့လာရမည်။ ဇာတိရွာအနေအထားကို လေ့လာရမည်။ တစ်ပြိုင်တည်းမှာပင် ငယ်စဉ်ကာလ ကလေးဘဝက ကျောင်းနေစ သျှောင်ပေစူးနှင့်ကာလကို လေ့လာရမည်။ ဘယ်နေရာမှာ စာသင်ခဲ့သည်၊ ဘယ်နေရာမှာ ပုတီးစိပ်ခဲ့သည်၊ ဘယ်နေရာမှာ တရားထိုင်ခဲ့ သည် စသည်ဖြင့် တတ်စွမ်းသမျှ လေ့လာရမည်ဟု စိတ်အာရုံထဲ အစီအစဉ်ဆွဲလျက် ရှိပါသည်။

**ဆားတောင်ရွာ ဇာတိ**

ယနေ့ ဆားတောင်ရွာမှာ အရှေ့ဆားတောင်ရွာ အနောက်ဆားတောင်ရွာ ဟူ၍ ရှိ၏။ ယခင်ကလည်း ရှိ၏။ ဆားတောင် ကိုရင်ကလေး ဘဝက အနောက်ဆားတောင်ရွာမှာ မွေးဖွားခဲ့သည်။ သို့သော် အရှေ့ဆားတောင်ရွာမှာ ကျောင်းလာနေသည်။ ကိုရင်ကလေးကို အနောက် ဆားတောင်ရွာမှာမွေးခဲ့သည်။ ထို့ကြောင့် ရွှေချက်သိုစေတီတော်သည် အနောက် ဆားတောင်ရွာမှာ တည်ရှိနေလေသည်။

**မွေးဖွားရာ ဇာတိရွာ မြေနေရာ ရွှေချက်သိုစေတီတော်**

ဖခင် ဦးကြက်တောင်နှင့် မိခင် ဒေါ်မလေးတို့မှာ အနောက်ဆားတောင်ရွာမှာ အခြေစိုက်၏။ ကိုရင်ကလေးကိုလည်း အနောက်ဆားတောင်ရွာမှာ မွေးဖွား၏။ ထို့ကြောင့် ကမ္ဘာ့ရွှေရင်အေး ဆရာတော်ကြီးဟူ၍ ဖြစ်လာသောအခါ ဇာတိချက်ကြွေမွေးရပ်မြေတွင် ရွှေချက်သိုစေတီကို တည်ထားခဲ့လေသည်။

**ဦးဝိဇ္ဇာဗလ ဖွားသောရွာ**

ထိုနေရာတွင် ဦးဝိဇ္ဇာဗလ မီးရှူးသန့်စင်တော်မူသောနေရာဟူ၍ ရွှေချက်သို စေတီတည်ရာဌာနသို့ သက်တော်ရှည်ရုပ်ရှင်မှတ်တမ်းရိုက်ကွင်းအတွက် သွားရောက်မှတ်တမ်းတင်ရပါသည်။

**ဖွားမြင်ရာ အိမ်နေရာရှိ ရွှေချက်သိုစေတီတော်ကိုလေ့လာခြင်း**

ရွှေချက်သို စေတီတော်မှာ ကိုးတောင်ပြည့် စေတီတော် ဖြစ်၏။

အေဒီ ၁၉၉၀ ၁၃၅၂ ခု ကဆုန်လဆန်း ၁၄ ရက် ( ၁၉၉၀ မေလ ၇ ရက် ) တနင်္လာနေ့ ၁၁ နာရီ ၅၅ မိနစ်တွင် ပန္နက်တော်တင် အခမ်းအနားကျင်းပခဲ့ကြောင်း၊

http://www.dhammadownload.com



အေဒီ ၁၉၉၀ ၁၃၅၂ ခု ဝါဆိုလပြည့် ကျော် ၃ ရက် ( ၁၉၉၀ ဇူလိုင်လ ၉ ရက် ) တနင်္လာနေ့ နံနက် ၁၁ နာရီ ၅၅ မိနစ် အချိန်တွင် အုတ်မြစ်တော်စီ အခမ်းအနား ကျင်းပခဲ့ကြောင်း၊

အေဒီ ၁၉၉၀ ၁၃၅၂ ခု နတ်တော်လဆန်း ၈ ရက် ( ၁၉၉၀ နိုဝင်ဘာလ ၂၄ ရက် ) စနေနေ့ နံနက် ၉ နာရီအချိန်တွင် ဌာပနာတော်သွင်း အခမ်းအနားနှင့် ရွှေထီးတော် ငှက်မြတ်နားတော်တင် အခမ်းအနားကျင်းပခဲ့ကြောင်း၊ မော်ကွန်းတင်ကမ္ပည်းကျောက်စာအရ သိရှိရပါသည်။

**ရွှေချက်သိုစေတီဆိုင်းဘုတ်က သက်သေလမ်းညွှန်ပြစ်နေခြင်း**

ထိုရွှေချက်သိုစေတီမှာ ရန်ကုန်မန္တလေးကားလမ်းမကြီး၏ ညာဘက်အခြမ်းတွင် တည်ရှိပါသည်။ ညာဘက်သို့ လှမ်းကြည့်လိုက်လျှင် ဖူးတွေ့နိုင်ပါသည်။ လမ်းထိပ်တွင်လည်း ဦးဝိဇ္ဇာဗလ မီးရှူးသန့်စင်တော်မူသောနေရာတွင် တည်ထားကိုးကွယ်သော ရွှေချက်သိုစေတီဟု ဆိုင်းဘုတ် တင်ထားကြောင်း တွေ့ရပါသည်။

**ကျောင်းသားဘဝ မောင်ပေါက်ကျော်ဘဝ**

ထိုနေရာတွင် ကမ္ဘာ့ရွှေရင်အေးဆရာတော်ကြီးငယ်စဉ်ကာလ ကျောင်းသားကလေး မောင်ပေါက်ကျော်ဘဝက နေရာဖြစ်၏။ မိခင် ဖခင်များနှင့်တကွ ညီအစ်ကို မောင်နှမများပါ အတူတကွနေကြသော နေရာဖြစ်လေသည်။

**မောင်ပေါက်ကျော် ကျောင်းတက်ခဲ့သောကျောင်းကို ရောက်ရှိခြင်း**

မောင်ပေါက်ကျော်ကလေး ၅ နှစ်သားသို့ ရောက်သောအခါ ရွာဦးကျောင်းတွင် ကျောင်းထားခဲ့လေသည်။ ရွာဦးကျောင်းမှာ ဆားတောင်ရွာ အရှေ့ကျောင်း ဖြစ်၏။ ဆားတောင်ရွာမှာ အရှေ့ရွာ အနောက်ရွာဟူ၍ နှစ်ရွာ ဆက်စပ်လျက်ရှိရာ မောင်ပေါက်ကျော်မှာ အနောက် ဆားတောင်ရွာတွင် မွေးဖွားခဲ့၏။ ကျောင်းတက်သောအခါ အရှေ့ ဆားတောင်ရွာသို့ သွားတက်ရ၏။

**ဇာတိ ရပ်ရွာ ဆားတောင်ရွာ လူဦးရေကို လေ့လာချက်**

အရှေ့ဆားတောင်ရွာမှာ အိမ်ခြေ ၄၀/၅၀ မျှ ရှိကြောင်း၊ အနောက် ဆားတောင်ရွာမှာ အိမ်ခြေ ၃၀ / ၄၀ မျှ ရှိကြောင်းသိရပါသည်။ ထိုစဉ်က ရပ်ပုံလွှာ ဖြစ်ပါသည်။ ယခု ဆားတောင်ရွာတွင် ကားအရှေ့ဆားတောင်ရွာတွင် အိမ်ခြေ ၅၃ အိမ်ရှိကြောင်း အနောက် ဆားတောင်ရွာတွင် အိမ်ခြေ ၄၆ အိမ်ရှိကြောင်း ကျေးရွာဥက္ကဋ္ဌ ဦးတင်ထွန်း ပြောပြ၍ သိရှိရပါသည်။

**ယနေ့ ဆားတောင်ရွာလေ့လာချက်**

မောင်ပေါက်ကျော်၏ မွေးဖွားရာ အိမ်ခြေကို ရှာဖွေမှတ်တမ်းတင်ရာတွင် ရ ယ က ဥက္ကဋ္ဌ ဦးတင်ထွန်းနှင့်တကွ အဖွဲ့ဝင် (၁) ဦးခင်မောင်ဦးတို့က လိုက်လံကူညီကြပါသည်။ ဆားတောင် အုပ်စု (၁) တွင် အနောက်ဆားတောင်ရွာ၊ အရှေ့ဆားတောင်ရွာနှင့် အေးသာယာရွာတို့ ပါဝင်ကြောင်း သိရပါသည်။ ထိုဆားတောင်ရွာ နှစ်ရွာစလုံးကပင် ရှေးအခါက ဆရာတော် ဦးက္ကန္တြီယကိုကိုးကွယ်ကြကြောင်းသိရသည်။ ထိုဆရာတော်မှာ မောင်ပေါက်ကျော်၏ အဘိုးတော်စပ်လေသည်။

**လောကမှာ ပြောကြပေတော့ဟု မှတ်တမ်းကြီးပြုစုခြင်း**

မောင်ပေါက်ကျော်ဘဝနှင့်စာသင်ခဲ့သောကျောင်း၊ ကိုရင်ကလေး ရှင်လာဘ စာသင်ခဲ့သော ကျောင်းမှာ နေရာဟောင်းသာရှိတော့၏။ ကျောင်းကား မရှိတော့ချေ။ နှစ်ပေါင်း ၁၀၀ ကျော်ကြာခဲ့ပြီး ဖြစ်ရကား ဆွေးမြေ့ကုန်လေပြီ။

http://www.dhammadownload.com



ကိုရင်ကလေးရှင်လာဘသည်သာ မဆွေးမမြေ့ဘဲကျန်ရစ်၍ ယနေ့ကမ္ဘာ့ရွှေရင်အေး ဟူ၍ ဖြစ်လာ၏။ တစ်ကမ္ဘာလုံး ရွှေရင်အေးစေမည့် ဝိဇ္ဇာ သင်္ကေတကြီးအဖြစ် လောကတစ်ခွင်မှာ ပြောစရာကြီးအဖြစ် မှတ်တမ်းဝင် ကျန်ရစ်နေသည်မှာ နည်းနည်းနောနော ကုသိုလ်ကြီး မဟုတ်ချေ။ ထိုနှစ် တစ်ရာမှတ်တမ်းကြီးကို ကွန့်ပ်တို့ တစ်စု မော်ကွန်းဝင်မှတ်တမ်းဝင် ရိုက်ရသည်မှာလည်း နည်းနည်းနောနော ကုသိုလ်ကြီး မဟုတ်ချေ။

**မောင်ပေါက်ကျော် ကျောင်းနေခဲ့သောနေရာတွင် သိန်းပေါင်းတစ်ထောင်ကျော် အကုန်ခံ လှူဒါန်းခဲ့သော ရာပြည့်ရွှေကျောင်းတော်ကြီးပေါ် ပေါက်လာခြင်း**

လိုရင်းကို တိုရှင်းသွားပါမည်၊ ယခင်က မောင်ပေါက်ကျော်ကလေး ကျောင်းအပ်ခဲ့သောကျောင်း၊ ကိုရင်ကလေး အရှင်လာဘကျောင်းအပ်သော ကျောင်း၊ စာအံခဲ့သော ကျောင်း၊ ထိုကျောင်းကလေးများမှာ ယခု မရှိတော့ချေ။ ခေတ်တွေပြောင်း နှစ်တွေ ပြောင်း၍ အဟောင်းနေရာတွင် အသစ်ဝင်ခဲ့ရာ ယခုအခါ သက်တော်ရှည် ရာပြည့်ကျောင်းတော်ကြီး အဖြစ် သိန်းတစ်ထောင်ကျော် အကုန်ခံဆောက်သူ ဒါယကာတွေပေါ်နေသဖြင့် အံ့ဩစရာ ဖြစ်ပါတော့သည်။ ထိုဒါယကာ၏ အထ္ထုပ္ပတ္တိကိုလည်း ဂန္ထဝင်မြောက် မော်ကွန်းတင်ရမည် ဖြစ်ပါသည်။ အိမ်ခြေ ၃၀/၄၀ မျှသာ ရှိသော တောခေါင်ခေါင်ရွာကလေးထဲတွင် ရွှေတိုင် ငွေတိုင်ကြီးများနှင့်တကွ ခေါင်အဆင့်ဆင့် အရောင်ဝင့်လျက် တင့်တယ်လှသော ရာပြည့်ကျောင်းတော်ကြီးကို ထင်းထင်းကြီး တွေ့မြင်ကြရရာ မအံ့ဩဘဲ မနေနိုင်တော့ပါ။

ဒါယကာတို့ကိုလည်း သာဓု သာဓု သာဓုဟူ၍ ခေါ် ရုံမှတစ်ပါး ဝေဖန်စရာမရှိပါ။ အံ့ဩမကုန်နိုင်သော ဘဝသံသရာ အဆက်ဆက် ဣစ္ဆာသယရွှေအိုးကြီး ဖြစ်ကြောင်းမှတစ်ပါး ပြောစရာ မရှိပါ။

**ဒေါက်တာဇော်ထွန်း လှူခဲ့သော ရွှေကျောင်းကြီး ရာဇဝင်**

| | |
|---|---|
| အေဒီ ၂၀၀၃ | ရာပြည့်ရွှေကျောင်းတော်ကြီးကို ၁၃၆၄ ခု တပို့တွဲလဆန်း ၈ ရက် (၂၀၀၃ ခု ဖေဖော်ဝါရီ ၄ ရက် ) နေ့တွင် မြေတိုင်းကာ အခြေချခဲ့ကြောင်း၊ |
| အေဒီ ၂၀၀၃ | ၁၃၆၅ ခု နတ်တော်လဆန်း ၅ ရက် (၂၀၀၃ ခု နိုဝင်ဘာ ၂၈ ရက်) သောကြာနေ့တွင် ပန္နက်တင်အခမ်းအနားကျင်းပခဲ့ကြောင်း။ |
| အေဒီ ၂၀၀၅ | ၁၃၆၇ ခု နယုန် လပြည့်ကျော် ၇ ရက် ( ၂၀၀၅ ခု ဇွန်လ ၂၃ ရက် ) ကြာသပတေးနေ့တွင် ရေစက်ချမင်္ဂလာအခမ်းအနား ကျင်းပခဲ့ကြောင်း သိရှိ၍ မှတ်တမ်းတင် ရပါသည်။ |

**ညအခါ ပျောက်၍ ပျောက်၍ သွားခြင်း**

ဤရာပြည့်ကျောင်းတော်ကြီးနေရာသည်ကား ရှေးရှေးက မောင်ပေါက်ကျော်ကလေး စာသင်ခဲ့သောနေရာ၊ မောင်ပေါက်ကျော်ကလေး နွားကျောင်းရာမှ ပြန်အလာ စာအံသောနေရာ၊ ဆွမ်းမစားတဲ့ ဆားတောင် ကိုရင်ကလေး ညအခါပျောက်၍ ပျောက်၍ သွားသောနေရာ တစ်ခါ တစ်ရံ တစ်နေ့လုံး ပျောက်သွားပြီးလျှင် အမှတ်မထင်ဘုရား ရှိခိုးခဲ့သောနေရာ စသည်ဖြင့် တမ်းတ မှန်းဆမိပါသည်။

**မောင်ပေါက်ကျော် ပုတီးစိပ်ခဲ့သော ရှင်အရဟံသိမ်တော်ကြီးကို ယနေ့တိုင် တွေ့နိုင်ပါသေးသည်။**

ခပ်လှမ်းလှမ်းသို့ လှမ်းကြည့်လိုက်လျှင် တောင်ကုန်းကြီး တစ်ခုတွေ့ရ၏။ ရွှေရောင်တဝင်းဝင်း သိမ်တော်ကြီးလည်းရှိ၏၊ ဆည်းလည်းသံ တလွင်လွင်နှင့် စေတီတော်တစ်ဆူလည်းရှိ၏၊ ရာပြည့်ကျောင်းကြီးအရှေ့တွင် ရေကန် နှစ်ကန်ရှိ၏။ နတ်ရေကန်ဟု သိရပါသည်။

http://www.dhammadownload.com



**မောင်ပေါက်ကျော်ကိုယ်တိုင် ရွှံ့လုံးကလေးများကို ကိုယ်တိုင် လုံး၍ ပုတီးကုံးတစ်ကုံး ရအောင်ပြုလုပ်ခဲ့သော နေရာ**

ခပ်လှမ်းလှမ်းတွင် ကန်တစ်ကန်ရှိ၏။ မေတ္တာကန်ဟု ဆိုပါသည်။ သို့ဖြင့် မေတ္တာကန် သစ္စာကန်တို့သည် နတ်ရေကန်အမှန် ဖြစ်တော့သည်။

**ထိုနတ်ရေကန်နှင့်ဟင်္သာမောင်နှံလာရောက်ခြင်း နေ့ရက်များ**

ရှေ့တည့်တည့်က နတ်ရေကန်တွင် ရေပြတ်လပ်သည်ဟူ၍ မရှိပေ။ ဟိုတစ်လောက ဟင်္သာ မောင်နှံလာ၍ နားခိုကြသဖြင့် အတော်ကလေး လူစည်ကားသွားခဲ့လေသည်။

**ဟင်္သာမောင်နှံတို့ နေ့တိုင်း နေ့တိုင်းလာသဖြင့် ပွဲဈေးတန်းတမျှ လူစည်ကားခြင်း**

ထိုဟင်္သာ မောင်နှံတို့သည် ဘာကိုမှမကြောက်၊ လူသံ လှည်းသံ လော်စပီကာသံ သီချင်းသံတို့ကို မကြောက်မလန့်ဘဲ နတ်ရေကန်ထဲတွင် အရှည်အကြာနေကြသဖြင့် တအံ့တသြဖြစ်ကာ လာကြည့်သူတို့မှာ လှည်းနှင့်လာကြသဖြင့် ရေကန်တစ်ဝိုက်တွင် လှည်းတန်းကြီးဖြင့် လူစည် ကားခဲ့သည်ဟု ဆိုပါသည်။

တစ်နေ့တစ်နေ့လျှင် လူပေါင်း ၃၀၀ / ၄၀၀ ခန့် လာကြည့်သည်ဟု ဆိုပါသည်။ မနှစ်က ဒီဇင်ဘာလောက်ကဟု ဆိုသဖြင့် ၂၀၀၄ ခု ဒီဇင်ဘာလဟု မှန်းဆ၍သိရပါသည်။

**ဟင်္သာသာမက ငှက်သံစုံ မြည်သံကြားရ**

အေဒီ ၂၀၀၄ — သို့ဖြင့် ဟင်္သာတွေ လာ၍ လာ၍ နားခိုကြကြောင်း သတင်းကောင်းသည် အနီးအနားရှိ ရွာပေါင်း တစ်ရာကျော်သို့ ပျံ့နှံ့ခဲ့ကြောင်း သိရပါသည်။

ကျွန်တော်တို့ ရောက်သွားသော ကာလတွင်လည်း ဟင်္သာများကို သာမက အခြား ငှက်ကလေး များကိုပါ ကြည်နူးစဖွယ် ချစ်စဖွယ် တွေ့ရပါသေးသည်။

**ရှင်အရဟံသိမ် သို့မဟုတ် ဆားတောင်ကိုရင်ကလေး ပျောက်၍ ပျောက်၍ သွားသည် ဆိုသောနေရာကို လေ့လာခြင်း**

ခပ်လှမ်းလှမ်းတွင် ရှင်အရဟံသိမ် ဟူ၍ သိမ်ကြီးတစ်သိမ် ရှိပါသေးသည်။ တောင်ပူစာထိပ်တွင် နေရောင်၌ ရွှေရောင်ဟပ်သဖြင့် တလျှပ်လျှပ်မြင်တွေ့ရပါသေးသည်။ သက်ဆိုင်ရာပုဂ္ဂိုလ်တို့၏ အကူအညီဖြင့် မေးမြန်းသိရှိရသည်မှာ တောင်ကုန်းပေါ်က သိမ်တော်မှာ ရှင်အရဟံ သိမ်တော် ဖြစ်ကြောင်း မဟာဝိပုရာသိမ်တော်ဟု အမည်တွင်ကြောင်း ပြောဆိုကြပါသည်။ အနီးအနား ပတ်လည်တွင် တောင်ငါးလုံးဝိုင်းရံလျက်ရှိသောကြောင့် ရာဇဂြိုဟ်ကဲ့သို့ပင် တောင်ငါးလုံးကို ဗဟိုပြုလျက်တည်ရှိကြောင်း ထွေအုပ်ဖြစ်သူ ဦးတင်ထွေးက ပြောဆိုပါသည်။

**ဆားတောင်ကိုရင်ကလေး ပုတီးစိပ်ခဲ့သော မန်ကျည်းပင်ကြီးနေရာကို ယနေ့တိုင် တွေ့နိုင်သေးခြင်း**

သိမ်မှီသူများကို မေးသောအခါ ရာပြည့်ကျောင်းတော်ကြီး မျက်စောင်းထိုးတစ်နေရာတွင် မန်ကျည်းပင်ကြီးတစ်ပင်ကို ပြပါသည်။ ထိုမန်ကျည်းပင်ကြီး ခပ်လှမ်းလှမ်းတွင် အခြား မန်ကျည်းပင်ကြီး တစ်ပင်ရှိသေးကြောင်း ပြောဆိုကြပါသည်။

**အသက် ၇ နှစ်အရွယ်နှင့် စိပ်ပုတီး**

အေဒီ ၁၉၁၀ — ထိုမန်ကျည်းပင်ကြီးအောက်တွင် ဆားတောင်ကိုရင်ကလေး အရှင်လာဘ အသက် ၅ နှစ် အရွယ်၊ ၇ နှစ် အရွယ်စသည့် အရွယ်များတွင် ရွှံ့လုံး၊ ပုတီးကလေးများဖြင့် ပုတီးစိပ်ခဲ့သော နေရာဖြစ်ကြောင်း၊ ဘိုးဘွားစဉ်ဆက် မှတ်သားခဲ့ကြောင်း ပြောဆိုကြပါသည်။

http://www.dhammadownload.com



ကိုရင်ကလေး အရှင်လာဘကိုယ်တိုင်လည်း ယနေ့တိုင်သက်ရှိထင်ရှားရှိသဖြင့် အသေအချာ မှတ်တမ်းတင် မှတ်သားခဲ့ရပါသည်။

**မူလ မန်ကျည်းပင်နေရာတွင် ညောင်ပင်ကြီးစိုက်ထား**

ပို၍ သဒ္ဓါပေါက်သူတို့က ထိုနေရာကို မဟာအောင်မြေအဖြစ် ပြောဆိုကြပါသည်။ မူလ မန်ကျည်းပင်နေရာတွင် ညောင်ပင်တစ်ပင်စိုက်ခဲ့ရာ ယခုအခါ ထိုညောင်ပင်ကြီးမှာ ဝေဝေဆာဆာ ဖြစ်နေလေပြီ။ ရတနာမာရ်အောင်တောရကျောင်းရှိ ပန်းချီကားများထဲတွင် ပန်းချီကားတစ်ချပ်မှာ ထိုအကြောင်းကို သရုပ်ဖော်ရေးဆွဲထားကြောင်း တွေ့ရပါသည်။

**အဝတ်ပြဲပြဲနှင့် သက်တော်ရှည် အဘအောင်ထံမှာ ပညာသင်ခဲ့**

အေဒီ ၁၉၁၀

ဆားတောင်ရွာ အရှေ့ကျောင်းတွင် ကျောင်းသား... ကစားနေကြသော်လည်း မောင်ပေါက်ကျော်ကား သစ်ပင်ရင်း၌ တစ်ဦးတည်း ပုတီးစိပ်နေပုံနှင့် သက်တော်ရှည် ဘိုးဘိုးအောင်က ပညာသင်ကြား ပေးနေပုံဟူ၍ ပန်းချီကားတွင် စာတန်းထိုးထားသည်ကို ကျွန်တော်ကောင်းစွာ မှတ်မိပါသည်။

**ကမ္ဘာ့ရွှေရင်အေးဆရာတော်၏ မြစ်တော်သူ မြစ်ကြီးရောဝတီစိုက်ထားတဲ့ ညောင်ပင်**

အေဒီ ၁၉၈၃

ဘိုးဘိုးအောင် ပညာသင်ပေးခဲ့သော မဟာအောင်မြေဟူသော ဆိုင်းဘုတ်မှတ်တမ်းကိုလည်း တွေ့ရပါသည်။ ၁၃၄၅ ခု ဝါဆိုလပြည့်ကျော် ၃ ရက် ( ၁၉၈၃ ခု ဇူလိုင်လ ၂၇ ရက် ) ဗုဒ္ဓဟူးနေ့တွင် ကိုတင်ငွေဆိုသူက ဒါယကာပြု စိုက်ပျိုးခဲ့ကြောင်း စုံစမ်းသိရှိရပါသည်။

**ဘိုးဘိုးအောင် ပညာသင်ပေးခဲ့သောနေရာက မန်ကျည်းပင်ကြီး**

ကိုတင်ငွေ မည်သူလဲဟု စုံစမ်းရာ ကိုတင်ငွေဆိုသူမှာ ကမ္ဘာ့ရွှေရင်အေးဆရာတော်ကြီး၏ မြစ်တော်သူဖြစ်ကြောင်း သိရှိရပါသည်။ ကျွန်တော်က စပ်စုသူပီပီ ဆွေမျိုးစာရင်းကို မှတ်သားခဲ့ပါသည်။

**မြစ်ကြီးရောဝတီ**

မောင်ပေါက်ကျော်၏ ဖခင် ဦးကြက်တောင်တွင်ညီရှိရာ ထိုဦးဖိုးဆွဲ ဒေါ်ဘောတို့မှ ကိုတင်ငွေကို မွေးဖွားကြောင်း သိရပါသည်။ ကိုတင်ငွေကို ကမ္ဘာ့ရွှေရင်အေး ဆရာတော်ကြီးက - မြစ်တော်သဖြင့် မြစ်ကို တင်စားကာ ချီးမြှောက်၍ မြစ်ကြီး ရောဝတီဟု ခေါ်လေ့ရှိကြောင်း သိရပါသည်။ ထိုမြစ်ကြီးရောဝတီ ကိုတင်ငွေသည်ပင် ယခုအခါ သက်ဆိုင်ရာ နယ်မြေ ထွေအုပ်ကြီး ဖြစ်၍ ထိုမြစ်ကြီးရောဝတီ၏ အကူအညီဖြင့်ပင် ကျွန်ုပ်တို့တစ်စုမှာ လုပ်စရာများကို အောင်မြင်စွာ လုပ်ဆောင်နိုင်ခဲ့လေသည်။

**မောင်ပေါက်ကျော်မှတ်တမ်း**

အေဒီ ၁၉၁၀

သို့နှင့် ဆားတောင်ရွာတွင် မောင်ပေါက်ကျော်ကလေး မွေးဖွားသော နေရာကိုလည်း မှတ်တမ်းတင်ခဲ့ပါသည်။ မောင်ပေါက်ကျော်ကလေး ကျောင်းတက်ခဲ့သော ကျောင်းကိုလည်း မှတ်တမ်းတင်ခဲ့ပါသည်။ မောင်ပေါက်ကျော်ကလေး ပုတီးစိပ်ခဲ့သောနေရာကိုလည်း မှတ်တမ်းတင်ခဲ့ပါသည်။

**ဟိုဘက်ကမ်း ဒီဘက်ကမ်း ပေါင်းကူး၍**

**ရွှံ့ပုတီးလုပ်ခဲ့သော နေရာ**

ထို့နောက် ကျွန်ုပ်တို့ တစ်စုသည် မောင်ပေါက်ကျော်ကလေး ရွှံ့ဖြင့် ပုတီးလုံးများလုံးခဲ့သော နေရာကလေးကိုလည်း လိုက်လံမှတ်တမ်းတင်ခဲ့ရပြန်ပါသည်။ ထိုနေရာကလေးမှာ ချောင်း

http://www.dhammadownload.com



ရှိ၍ ထိုချောင်း၏ ဟိုဘက်ကမ်းက ရွှံ့မြေနှင့် ဒီဘက်ကမ်းက ရွှံ့မြေကို ပေါင်းစပ်ကာ ကြိတ်ပြီးလျှင် ပုတီးလုံးကလေးများ လုပ်ခဲ့သောနေရာ ဖြစ်လေသည်။

**ဂုဏ်တော် ၁၀၈ လုံး ပုတီး ၁၀၈ လုံး စိပ်သောနည်း**

အေဒီ ၁၉၁၀ ထိုပုတီးလုံး ကလေးများကို ဆီဖြင့်လိမ်း၍ ကြိုးဖြင့်သီပြီးလျှင် ထူးထူးခြားခြား ပုတီးစိပ်ခဲ့ကြောင်း သိရပါသည်။ ပုတီးစိပ်သောနည်းမှာ ဂုဏ်တော်ကို တစ်လုံးချင်း စိပ်ခြင်း ဖြစ်၏။ ဂုဏ်တော်အစ အဆုံး ၁၀၈ လုံး ကွက်တိ ဖြစ်၏။

**မောင်ပေါက်ကျော် ကျောင်းသားဘဝ**

ထိုအချိန်တွင် မိဘများက မောင်ပေါက်ကျော်ကလေးကို ဆားတောင်ရွာ အရှေ့ကျောင်း အဘိုးဆရာတော်ကြီးထံ ကျောင်းသားအဖြစ် အပ်နှံသဖြင့် မောင်ပေါက်ကျော်ကလေး ကျောင်းသားဖြစ်စ ကာလဖြစ်ပေသည်။

**ညအခါ ပျောက်၍ ပျောက်၍ သွားသော**
**သန်းခေါင်မိုလ်ဆိုတာ ဘယ်သူလဲ**

ထိုအချိန်တွင် မောင်ပေါက်ကျော်ကလေးသည် အသားဟင်းကို ရှောင်၍ အသားလွတ်ဟင်းများဖြင့်သာ ရောင့်ရဲခဲ့ကြောင်း၊ ကျောင်းဝေယျာဝစ္စများလုပ်ဆောင်ပြီးလျှင် တစ်နေ့လုံး ပျောက်သွားတတ်ကြောင်း၊ ဘယ်နေရာ သွားသည်ဟု ဘယ်သူမှ အသေအချာမသိရကြောင်း ယခုတိုင် သက်ရှင်နေသူတို့က ကိုယ်တွေ့ ပြောဆိုကြပါသည်။

**အဝတ်ဖြူဝတ် ဘိုးဘိုးနှင့် မယ်တော် စန္ဒီ**

ညအခါ ပျောက်၍ပျောက်၍ သွားတတ်သဖြင့် မောင်ပေါက်ကျော်ကလေးကို သန်းခေါင်ဗိုလ် ဟူ၍ နာမည်သစ်ဖြင့်လည်း ခေါ်ဆိုကြရကြောင်း သိရပါသည်။ ထိုအချိန်တွင် မောင်ပေါက်ကျော်ကလေးသည် အဝတ်ဖြူဝတ် ဘိုးဘိုးနှင့် မယ်တော် စန္ဒီတို့က အစဉ်အမြဲ စောင့်ရှောက်နေပြီဖြစ်ကြောင်း နောင်အခါမှာ ဆရာတော်ကြီးကိုယ်တော်တိုင် ပြန်ပြောပြ၍ သိရပါသည်။

**ဆားတောင်ကိုရင်ကလေး ကော်ဇော ၃ ထပ်ပေါက်အောင် ၅ လတိုင်တိုင် လုံးဝ မလှုပ်မရှား တပို့တပါး ထ၍မသွားဘဲ နေ့ ည တောက်လျှောက် ပုတီးစိပ်ခဲ့သော နေရာကို ရောက်ရှိခဲ့ခြင်း**

အေဒီ ၁၉၂၅ ကိုရင်ကလေး အရှင်လာဘသည် အသက် ၁၉ နှစ်အရွယ်ရောက်သောအခါ အသက် ၂၀ ပြည့်လုပြီ ဖြစ်သဖြင့် အဓိဋ္ဌာန် ၅ လ ဝင်ခဲ့လေသည်။ ကော်ဇော ၃ ထပ် ထပ်ခင်းပြီးလျှင် အဓိဋ္ဌာန် ၅ လ ဝင်ခဲ့လေသည်။ ထို ၅ လ အတွင်း ထိုင်နေရာမှမထ၊ လှုပ်ရှားခြင်းလည်း မပြုဘဲ ပွားများအားထုတ်ခဲ့သည်ဟု ဆိုပါသည်။

တစ်နေ့ ထက် တစ်နေ့ ပို၍ အံ့ဩလာကြသဖြင့် တစ်လမှ နှစ်လ၊ နှစ်လ မှ သုံးလ ရောက်လာခဲ့လေသည်။

၅ လပြည့်၍ အဓိဋ္ဌာန်မှ ထမြောက်သောအခါ အောက်မှ ထပ်၍ခင်းထားသော ကော်ဇော ၃ ထပ်မှာ ချွေးကြောင့်ပေါက်၍ အမြစ်ဝိုနေသည်ဟု ဆိုပါသည်။

အေဒီ ၁၉၂၅ ထိုအဓိဋ္ဌာန်မှ အောင်မြင်သောအခါ အသက် ၂၀ ပြည့်လုပြီဖြစ်သဖြင့် မြင့်မြတ်သော ရဟန်းဘဝသို့ ရောက်ရှိခဲ့သည်ဟု သိရပါသည်။

http://www.dhammadownload.com



**ငါးလတိုင်တိုင် တစ်ဆက်တည်း နေ့ရော ညပါ မထဘဲတရားထိုင်ခဲ့ပြီး အဓိဋ္ဌာန် အောင်မြင်ခဲ့သော နေရာကို တွေ့ရှိခဲ့ခြင်း**

အေဒီ ၁၉၂၇ — အဓိဋ္ဌာန် စဝင်သောနေ့မှာ ၁၂၈၉ ခု ဝါဆိုလဆန်း ၈ ရက် (၁၉၂၇ ခု ဇူလိုင်လ ၆ ရက် ) ဗုဒ္ဓဟူး နေ့ဖြစ်ကြောင်း၊ အဓိဋ္ဌာန်ဝင်သောနေရာမှာ ဆားတောင်ရွာ အရှေ့ကျောင်းဘုရားရှေ့တွင် ဖြစ်ကြောင်း သိရပါသည်။ ထို နေရာမှာ ယခု ရာပြည့်ကျောင်းတော်ကြီး ဆောက်ထားသော နေရာဖြစ်ပါသည်။

**ဆွမ်းမစားဘဲ တရားအားထုတ်ရာ ၅ လ ပြည့်သောနေ့**

အေဒီ ၁၉၂၇ — အဓိဋ္ဌာန် ၅ လ ပြည့်သောနေ့မှာ ၁၂၈၉ ခု နတ်တော်လဆန်း ၈ ရက်နေ့ (၁၉၂၇ ခု ဒီဇင်ဘာလ ၁ ရက် ) ကြာသပတေးနေ့ ဖြစ်ကြောင်း သိရှိရပါသည်။

**ဆားတောင်ကိုရင်ကလေး ရဟန်းဖြစ်သောနေ့**

အေဒီ ၁၉၂၇ — ရဟန်းဖြစ်သောနေ့မှာ ၁၂၈၉ ခု နတ်တော်လပြည့်ကျော် ၄ ရက် ( ၁၉၂၇ ခု ဒီဇင်ဘာလ ၁၂ ရက် ) တနင်္လာနေ့ ဖြစ်ကြောင်း သိရှိရပါသည်။

**အဓိဋ္ဌာန်ဝင်ခဲ့သော မူလ ပထမကျောင်းဟောင်းကြီးကို ယနေ့တိုင် တွေ့နိုင်သေးခြင်း**

အဓိဋ္ဌာန်ဝင်ခဲ့သော ကျောင်းဟောင်းမှာ ဒုတိယကမ္ဘာစစ်အတွင်းအထိ တည်ရှိနေခဲ့သည်။ ၎င်းနောက် ထိုကျောင်းဟောင်းကို မူမပျက် ပုံစံမပျက် ရွှေ့ပြောင်းပြီးလျှင် တည်ဆောက်ထားကြောင်း သိရှိရသဖြင့် ထိုကျောင်းဟောင်းကို မြင်ဖူးအောင် ဟူ၍ သွားကြည့်ရပါသည်။

**ကျောင်းဟောင်းကို ပုံစံမပျက်နေရာ ရွှေ့ပြောင်း၍ ကျောင်းသစ်တည်ခြင်း**

ဆားတောင်ရွာတွင် ကန်နားကျောင်းတိုက်ဟူ၍ ကျောင်းကြီးတစ်ကျောင်း ရှိ၏။ ထိုကျောင်းကြီးမှာ ဆားတောင်ရွာ နှစ်ရွာလုံး ကိုးကွယ်သော ကျောင်းဖြစ်ကြောင်း သိရပါသည်။ ရှေးယခင်က ဆားတောင်အရှေ့ရွာကျောင်းကို ပုံစံမပျက် ဖျက်သိမ်းပြီးလျှင် ပြောင်းရွှေ့၍ ဆောက်ထားကြောင်း သိရှိရပါသည်။

**၅ လအဓိဋ္ဌာန်အောင်မြင်ပုံ ပန်းချီကားကြီး**

ထိုသို့ အဓိဋ္ဌာန် (၅)လ ဝင်သော အကြောင်းအရာကို ပန်းချီကားကြီးတစ်ချပ်ရေးဆွဲ၍ ပြည်မြို့ ရတနာမာရ်အောင် တောရကျောင်းတိုက် ဓမ္မစကြာတိုက်ကျောင်းကြီးတွင် ချိတ်ဆွဲထားသည်ကို ကျွန်တော်ကောင်းစွာမှတ်မိပါသည်။ ထိုပန်းချီကားတွင် ရေးထားသော စာသားမှာ - ရှင်လာဘသည် ဆားတောင်ရွာ အရှေ့ကျောင်းကြီး ပေါ်၌ ၁၂၈၉ ခု ဝါဆိုလဆန်း ၈ ရက်မှ နတ်တော်လဆန်း ၈ ရက်အထိ ဆွမ်းမစားဘဲ ၅ လ အဓိဋ္ဌာန်ဝင်တော်မူရာ ခင်းထားသည့် ကော်ဇောသုံးထပ်ပေါက်အောင် ချွေးယိုစီးလျက်ရှိသည်၊ အဓိဋ္ဌာန်ထွက်ချိန်ကို စောင့်နေပုံဟူ၍ ဖြစ်ပါသည်။

**မလျှော့မတင်း စောင်းကြိုးညင်းသို့ ဟူသော စကားအရ အကျင့်မလွန်ရန် ဆိုင်းဆရာကြီးက လျှောက်ထားခြင်း**

ထိုပန်းချီကားနှင့်တစ်ဆက်တည်းမှာပင် ဇာတ်လမ်းဆက် ပန်းချီကား တစ်ချပ်ရှိသေးရာ ထိုပန်းချီကားတွင် ရေးထားသည့်စာမှာ - ယင်းတော်မြို့မှ ဆိုင်း ဆရာကြီးဦးသက်ဝေသည် ကိုရင်ကလေး တရားအားထုတ်သည့်ရှေ့တွင် လျှောက်ထားပုံ ဟူ၍ ဖြစ်ပါသည်။

**ယနေ့ ဆားတောင်ရွာအခြေအနေကို လေ့လာခြင်း**

ဆားတောင်အုပ်စု (၁) တွင် ဆားတောင် အနောက်ခြမ်းရွာ၊ ဆားတောင်အရှေ့ရွာ၊ အေးသာယာ

http://www.dhammadownload.com



ရွာတို့ ပါဝင်ကြောင်း သိရပါသည်။ အရှေ့ ရွာတွင် အိမ်ခြေ ၅၃ အိမ်၊ အနောက်ရွာတွင် အိမ်ခြေ ၄၆ အိမ်ရှိကြောင်း ဆိုခဲ့ပြီး ဖြစ်ပါသည်။

**ဂျပန်ခေတ်က ဆားတောင်ရွာ၏ သဘော သဘာဝ**

ဆားတောင်ရွာမှာ ဆားထွက်သဖြင့် ဆားတောင်ဟု ခေါ်ကြောင်း သိရှိရပါသည်။ ဂျပန်ခေတ်အတွင်းက ဂျပန်များ ကျဆုံးသောအခါ ဟိုနေရာ ဒီနေရာမှာ မြေမြှုပ်ခဲ့သည်ဟုဆိုပါသည်။

**ဂျပန်စစ်သချိုင်းဟောင်းများရှိ**

အေဒီ ၁၉၉၃ ထိုနေရာများကို ပြန်လည်ဖော်ထုတ်ရန် ဂျပန်ပြည်မှ လာရောက်ရှာဖွေသောအဖွဲ့ရှိကြောင်း၊ ထိုအဖွဲ့သည် စစ်အတွင်းက သင်္ချိုင်းဟောင်းများကို ရှာဖွေခဲ့ရာတွင် မြစ်ကြီးရောဝတီ ဦးတင်ငွေကိုယ်တိုင်ပင်လျှင် ရှာဖွေကူညီခဲ့ကြောင်း၊ လွန်ခဲ့သော ၁၂ နှစ်လောက်က ဖြစ်ကြောင်း သိရှိရပါသည်။

**ဂျပန်များနှစ်စဉ် လာရောက်တတ်ခြင်း**

ယခုလည်း နှစ်စဉ်လိုလိုပင် ဒီဇင်ဘာလ ခရစ်စမတ်ကာလတွင် ဂျပန်ပြည်မှ ဂျပန်လူမျိုးများ ရောက်လာတတ်၍ စစ်အတွင်းက ဘိုးဘွားများကို ဂါရဝ ပြုကြသေးကြောင်း မြစ်ကြီးရောဝတီ ဦးတင်ငွေက ပြောကြားခဲ့ပါသည်။

**မြစ်က ၅၃ နှစ်**

ဦးတင်ငွေသည် စာရေး စာဖတ် လောကီ လောကုတ် အလွန်ဝါသနာကြီးသူ ဖြစ်၍ ပါရမီအလျှောက် ကျင့်ကြံသူလည်းဖြစ်ပါသည်။ ယခုအခါ အသက် ၅၃ နှစ်ရှိပြီဟု ဆိုပါသည်။

**အပိုင်း ( ၂ )**

**စံတော်ရာကုန်းနှင့် ဆားတောင်ကိုရင်ကလေးအကြောင်း လေ့လာရေးခရီး စာတမ်း**

ပျော်ဘွယ်စံတော်ရာကုန်းသည် ဆားတောင်ကိုရင်ကလေးဘဝတွင် အရေးပါသောနေရာ ဖြစ်လေသည်။ ထိုကြောင့် အမိအရအမှတ်တမ်းတင်ရန် ကျွန်တော်တို့တစ်စုသွားကြရပါသည်။

**လေ့လာရေးအဖွဲ့**

ကျွန်တော်တို့တစ်စုဆိုသည်မှာ ကျွန်တော် မောင်ပန်းမွေးနှင့်တကွ ရုပ်ရှင်ဒါရိုက်တာကြီး စိုးဟိန်း (မန်းတက္ကသိုလ်) အပါအဝင် ရွှေပေါ်ကျွန်းစေတော်ဝင် မဟာဂန္ဓာရီ တက္ကသိုလ်ကျောင်းထွက် ဓမ္မမိတ်ဆွေကြီး မြေလတ်မြတ်သူတို့နှင့်တကွ ရုပ်ရှင်အဖွဲ့ ၁၁ ယောက် အပါအဝင် သာသနာ့အကျိုးဆောင်များဖြစ်ပါသည်ဟု ဆိုလျှင် မြောက်ပင့်ရာ ရောက်သော်လည်း ဝမ်းသာဝမ်းမြောက်သဖြင့် ခပ်မြှောက်မြှောက်ကလေး ပြောလိုက်ရခြင်း ဖြစ်ပါသည်။

**စံတော်ရာကုန်း**

စံတော်ရာကုန်းတွင် အလွန်ကြီးသော စကြံတိုက်ကြီးကို တွေ့ကြရာ အံ့သြမိပါသည်။ ထိုစကြံတိုက် ကျောင်းကြီးတွင် ကျွန်တော်တို့တစ်စု ညအိပ်ရမည် ဖြစ်ပါသည်။ သို့သော်လည်း အိပ်ရန်နှင့် စားရန်ကို စိတ်မဝင်စား၊ နေရောင်ကလေးရှိတုန်း ရသမျှ မှတ်တမ်းကလေး ရိုက်ရန်သာ စိတ်စောလျက် ရှိပါသည်။

**ဆားတောင်ကိုရင်လေး အသက် ၁၃ နှစ်အထိ နေခဲ့သောနေရာ**

အေဒီ ၁၉၁၂ သက်တော်ရှည် ရာပြည့်ဆရာတော်ဘုရားကြီးငယ်စဉ် ကိုရင်ကလေးဘဝ ၇ နှစ်သားအရွယ်မှစ၍ ၁၃ နှစ်သားအရွယ်အတွင်း ဆားတောင်ရွာနှင့် လူးလာတုံ့ခေါက် ခြေလျင်လျှောက်၍ သစ်ပင်ကြို သစ်ပင်ကြား၊ ချောက်ကြို ချောက်ကြား တစ်ကိုယ်တည်း ခရီးသွားပြီးလျှင် အထူးသဖြင့် ညဉ့်အခါများမှာလည်း ဘာကိုမျှ ကြောက်ရကောင်းမှန်းမသိဘဲ အဓိဋ္ဌာန်ကြီးငယ်

http://www.dhammadownload.com



အသွယ်သွယ်ဝင်ခဲ့၍ ပေါက်မြောက်အောင်မြင်ခဲ့သော နေရာထူးနေရာမြတ်ဖြစ်သဖြင့် တအံ့တသြဖြစ်ကြကာ ကျွန်ုပ်တို့တစ်စုမှာ စားရကောင်းမှန်းပင် မသိတော့ဘဲ အပင်ကြို အပင်ကြား အပြေး အလွှားကလေးသွားကာ ချောက်ကြို ချောက်ကြား ဆင်းတက်သွား၍ ဆားတောင်ကိုရင်ကလေး တရားအားထုတ်ခဲ့သော အပင်များနှင့်တကွ အဓိဋ္ဌာန်ပေါက်မြောက် အောင်မြင်ခဲ့သော သမိုင်းဝင် ညောင်ပင်ကြီးကို ကြည့်ကြပါသည်။

**ဆွေတော်မျိုးတော်များနှင့် တွေ့ဆုံခြင်း**

ရွာခံတစ်စုနှင့်တကွ ဆားတောင်ကိုရင်ကလေး ဆွေတော်မျိုးတော် မြေးတော် မြစ်တော် သက်ဆိုင်ရာတစ်စုတို့က ရောက်လျှင်ရောက်ချင်းပင်အကူအညီပေးရန် စိတ်ရှည်ရှည် စောင့်နေကြသဖြင့် ကျွန်တော်တို့မှာ ရင်မော သက်သာရပါသည်။

**အင်းဝခေတ် ဘုရင်တစ်ဆူ ဖြစ်ခဲ့သော ဒုတိယမင်းခေါင်နှင့် မှူးကြီး မတ်ကြီးများ**

အေဒီ ၁၄၅၃ — အနီးရှိ ရုပ်တုတစ်ခုကို အမှတ်မထင်ကြည့်မိရာ ဒုတိယဘုရင် မင်းခေါင်ပုံတော်နှင့် စီးတော်မြင်းစိုင်းလျှော် မြင်းတော်တို့ပုံတော် ဖြစ်ကြောင်း သိရပြန်ပါသည်။ ၎င်းအပြင်သိမှတ်ဖွယ်ရာအဖြစ် ဒုတိယဘုရင်မင်းခေါင်၏ မြင်းတော် မြှုပ်ခဲ့သော နေရာကိုလည်းကောင်း၊ မြင်းတော် ရေသောက်ခဲ့သော ရေအိုင်တော်လည်းကောင်း၊ သိမှတ်သူတို့က လိုက်လံ ပြသကြပါသည်။

**နသိုးမြို့တောင်ကို တွေ့ရခြင်း**

၎င်းအပြင် အဝေးတွင်လှမ်းမြင်ရသော နသိုးဖြူတောင်ဟု ခေါ်သော ပုဆိုးဖြူတောင်အကြောင်းကိုလည်း တစေ့တစောင်း သိရပါသေးသည်။

**ဘိုးတော်မြို့ စေတီ**

၎င်းအပြင် ဘိုးတော်ဖြူ ကိုယ်တော်ကြီးတည်ခဲ့သော စေတီတော်တည်ရာကုန်းတော်ကို လည်းကောင်း၊ ဘိုးတော်ဖြူ ရေကန်တော်ကို လည်းကောင်း သွားရောက် လေ့လာကြရပြန်ပါသည်။

**ဆားတောင်ကိုရင်လေး ပေါက်ခဲ့သော အောင်မြေညောင်ပင်**

အေဒီ ၁၉၁၈ — ၎င်းအပြင် ဆားတောင်ကိုရင်ကလေး တရားကျင့်ခဲ့သော အောင်မြင်ခဲ့သော ညောင်ပင်ကိုလည်းကောင်း၊ ပေါက်ရောက် အောင်မြင်ခဲ့သော အောင်မြေကို လည်းကောင်း လေ့လာကြရပြန်ပါသည်။

**ဆားတောင်ကိုရင်လေး အဓိဋ္ဌာန်ပေါက်ခဲ့သော စံတော်ရာကုန်းတော်သမိုင်းအကြောင်း**

အေဒီ ၁၉၂၅ — ၎င်းအပြင် ဆားတောင်ရွာ ကိုရင်ကလေးဘဝမှ မြင့်မြတ်သော ပဥ္စင်းဘဝသို့ ရောက်ပြီးနောက် ရွှေတိဂုံဘုရားသို့ ၄၉ ရက် အဓိဋ္ဌာန်ဝင်ရန် ထွက်ခွာသွားသောနေရာကိုလည်း သွားရောက်လေ့လာကြရပြန်ပါသည်။

**ရွှေတိဂုံဆံတော်တွင်း အတွင်း**

**ဝင်ရောက်အဓိဋ္ဌာန်ပြု ကျင့်ကြံအောင်မြင်ခဲ့ခြင်း**

ရွှေတိဂုံတွင် အဓိဋ္ဌာန်အောင်ခဲ့၏။ လျှို့ဝှက်ဆံတော်ရှင် ဌာပနာထားသော တိုက်ကြီးထဲသို့ ရောက်ခဲ့၏။ ကျင့်ကြံအားထုတ်ခဲ့၏။ အောင်မြင်ခဲ့၏။ ဆရာတော်ကိုယ်တိုင် ဘမိန့်ရှိသဖြင့် မှတ်မှတ်သားသား ရှိပါသည်။

**ခေတ်ပြိုင် ပိဋကတ်မောင်ထွန်းကြိုင်**

"ငါရွှေတိဂုံမှာ အဓိဋ္ဌာန်အောင်တော့ ရဟန်းတစ်ဝါရပြီ အဲဒီတုန်းက ပိဋကတ်မောင်ထွန်းကြိုင် ဆိုတာ ဟိုးဟိုးကျော်တဲ့ အချိန်ပေါ့" ဟု ဆရာတော်ကိုယ်တိုင် မိန့်တော်မူခဲ့ဖူးပါ၏။

http://www.dhammadownload.com



**ရွှေတိဂုံ ဆံတော်တွင်းထဲ ဝင်ဖူးသူ**

ဆံတော်တွင်းထဲတွင် တပုသ ဘလ္လိကညီနောင်လက်ထက်က ဌာပနာထားသော ရွှေလှေပေါ်က ရွှေရုပ်တုထမ်းထားသော နေရာတွင် ဆံတော်ရှင် ဌာပနာထားကြောင်း ဆရာတော်ကြီး ကိုယ်တိုင် မျက်မြင်ကိုယ်တွေ့ဖြစ်၏။

**ဆံတော်တွင်း ဝင်ခဲ့ဖူးသူ မစ္စတာ အပါမေး**

မစ္စတာ အပါမေးဆိုသူသည် ဆံတော်တွင်းထဲ ဝင်ခဲ့ဖူးရာ ကြေးမုံ သတင်းစာတွင် မျက်နှာဖုံးက ပါသဖြင့် ဟိုးဟိုးကျော်ခဲ့၏။ ကျွန်ုပ်တို့၏ ဆရာတော်ကြီးကား လုံးဝ ဖွင့်မပြောခဲ့ပါ။ သက်တော် ၉၉ နှစ်တွင် ကျွန်ုပ် အဖူးမြော်ရောက်ရှိသောအခါမှ "ဟေ့ မောင်ပန်းမွှေး" ဆိုပြီး သိသင့် သိထိုက်တာတွေကို မိန့်တော်မူပါသည်။

**မူလ ပထမ အောင်မြေတွင် ဆုထူးပန် သစ္စာမဏ္ဍိုင် စေတီတော်ကြီးတည်ခဲ့**

ဤသို့ဖြင့် စံတော်ရာကုန်းတော်ဟု သာမန်အားဖြင့် ခေါ်လိုက်သော်လည်း ကမ္ဘာ့ရွှေရင်အေး ဆရာတော်ကြီးဘဝသို့ တက်လှမ်းခဲ့သော မူလပထမ အောင်မြေနေရာများဖြစ်သဖြင့် မဟာ မင်္ဂလာဇေယျသိဒ္ဓိ စံတော်ရာကုန်းတော်ကြီးအဖြစ် ယနေ့ ယခုအခါတွင် သက်တော်ရှည် ကမ္ဘာ့ ရွှေရင်အေးဆရာတော်ကြီးက မိမိငယ်စဉ်ဘဝမှ ယနေ့ကာလအထိ အောင်မြင်ခဲ့သော အောင်မြေထူးနေရာတွင် ဆုထူးပန် သစ္စာမဏ္ဍိုင် စေတီတော်မြတ်ကြီးတည်ထားခဲ့ပုံတို့ကို နောက် ကြောင်းပြန် တစိမ့်တစ်စိမ့်တွေးတောရင်း နှစ်တစ်ရာ မဟာထေရုပ္ပတ္တိရုပ်ပုံလွှာကို ပြန်လည် စားမြုံပြန်မြင်မိပါတော့သည်။

**မူလ ပထမ သစ်သားကျောင်းကလေး တွေ့ခဲ့သေး**

တောစပ်ကလေးတွင် သစ်သားကျောင်းဆောင်ကလေးတစ်ခုရှိရာ အသစ်ပြုပြင်ထားသော သဘောရှိ၏။ ထို့ကြောင့် မေးမြန်းကြည့်သောအခါ ယခင့် ယခင်က ရှိခဲ့သော သစ်သား ကျောင်းကလေးမှာ ဟောင်းနွမ်းလာသဖြင့် မွမ်းမံထားကြောင်း သိရပါသည်။ ထိုနေရာကလေး သည် မူလပထမ သီတင်းသုံးသော နေရာဖြစ်သည်ဟု ဆိုပါသည်။

**ဒုတိယစံကျောင်း**

အေဒီ ၁၉၉၃ — ဒုတိယ သီတင်းသုံးသောနေရာမှာ ဓမ္မရက္ခိတစံကျောင်းဖြစ်ကြောင်း သိရပါသည်။ ထိုစံကျောင်း တွင် ဆရာတော်ကြီး ကားအက်စီးဒင့်မဖြစ်ခင် ကာလအထိ သီတင်းသုံးခဲ့သည်ဟု ဆိုသဖြင့် ၁၉၉၃ခု မေလအထိ သီတင်းသုံးခဲ့သော သဘောကို တွက်ချက်မိပါသည်။ ကားအက်စီးဒင့်ဖြစ် သောကာလမှာ ၁၉၉၃ ခု မေလ ၁၀ ရက် ပတ်ဝန်းကျင်ကာလဟု ဆိုပါသည်။

**တတိယစံကျောင်း**

အေဒီ ၁၉၉၃ — တတိယသီတင်းသုံးသောနေရာမှာ စကြာ်ကျောင်း ဖြစ်သည်ဟုဆိုပါသည်။ ထိုစကြာ်ကျောင်းကို ပြုပြင်လိုက်သောအခါ ယခုတွေ့မြင်နေရသော စကြာ်တိုက်တော်ကြီးဖြစ်လာကြောင်း သိရပါ သည်။ မော်ကွန်းကျောက်စာတွင် မဟာ သီရိမင်္ဂလာ စကြာ်တိုက်တော်ကြီး မော်ကွန်း ရေးထိုးထား ကြောင်း တွေ့ရပါသည်။ ၁၃၅၂ ခု နတ်တော်လပြည့် (၁၉၉၉ ခု ဒီဇင်ဘာလ ၁ ရက်) စနေနေ့ဟု မော်ကွန်းကျောက်စာတွင် ဖတ်ရှုရပါသည်။

**နှစ်စဉ် ပြုလုပ်သော ဆွမ်းလောင်းပွဲကြီး**

နံရံတွင် ကပ်ထားသော ခေါင်းစီးကြီးတွင် ရေးထားသောစာမှာ အကြိမ် ၃၀ မြောက် ဗုဒ္ဓပူဇနိယ ပွဲတော်နှင့် ဆွမ်းဆန်စိမ်းလောင်းပွဲကြီး ဟူ၍ ဖြစ်ပါသည်။

အေဒီ ၂၀၀၂ — နေ့စွဲမှာ ( ၁၂-၁၂-၂၀၀၂) နှစ်မှ ( ၂၀-၁၂-၂၀၀၂) နှစ်ဟု ရေးထားပါသည်။ ထို့ကြောင့်

http://www.dhammadownload.com



အကြိမ် ၃၀ မြောက် ဆွမ်းဆန်စိမ်းပွဲတော်ကြီးမှ ၂၀၀၂ ခု ဒီဇင်ဘာလ ၁၂ ရက်နေ့မှ စ၍ ကျင်းပခဲ့ရာ ၂၀၀၂ ခု ဒီဇင်ဘာ ၂၀ ရက်နေ့ အထိ ဖြစ်သဖြင့် ရက်ပေါင်း ၉ ရက်တိတိ ဖြစ်ကြောင်း သိရပါသည်။

**မူလပထမကျောင်းဟောင်းနှင့် ကိုရှင်ကလေးဘဝက နေရာဟောင်း**

မူလပထမ ကျောင်းဟောင်းကလေးမှာ ဇရပ်ကလေးသဖွယ်ဖြစ်၍ လူပေါင်း ၈၀ လောက် ဆန့်သည်ဟု ဆိုပါသည်။

**တောကြမ်းသဖြင့် ယုန်ကလေးတွေ့တာတောင် မလိုက်ရဲ**

လွန်ခဲ့သော နှစ်ပေါင်း ၄၀ လောက် ကာလအခါက တောကြီးမျက်မည်းဘဝသာရှိသေးသဖြင့် ယုန်ကလေး တစ်ကောင်တလေ တောအုပ်ထဲပြေးဝင်သွားလျှင်တောင်မှ မည်သူမျှလိုက်၍ မဖမ်းဝံ့ကြဟု ဆိုပါသည်။ ဆိုလိုသော သဘောမှာ တောကြီး၍ တောကြမ်းသဖြင့် ကြောက်ရွံ့ကြသောကြောင့်ဟု ဆိုလိုခြင်းဖြစ်ပါသည်။

**တောထူထူ**

အေဒီ ၁၉၀၅ ဤသို့ဆိုလျှင် လွန်ခဲ့သော နှစ်ပေါင်း ၁၀၀ လောက်ကာလကို မှန်းဆ၍ သိနိုင်ပါသည်။ ထိုနေရာသည် အဘယ်မျှ တောထူလိမ့်မည်နည်း။ အဘယ်မျှ တောကြမ်းလိုက်မည်နည်း ဟူ၍ ပြေးကြည့်စရာ မလိုပါ။ တွေးကြည့်ကာ သိနိုင်ပါတော့သည်။

**အာဂကိုရင်လေး အရှင်လာဘ**

အေဒီ ၁၉၁၂ ထိုနေရာတွင် ကိုရင်ကလေး အရှင်လာဘသည် တရားအားထုတ်ခဲ့ပေသည်။ ကိုရင်ကလေးသည် အာဂကိုရင်ကလေး ဖြစ်တော့သည်ဟု အလိုလို တွေးမိပါတော့သည်။

**ဆားတောင်ကိုရင်ကလေးအတု ပြုလုပ်ခြင်း**

ဆားတောင်ကိုရင်ကလေး ပရိတ်တော်ရေ ဝေငှသော အခန်းကဏ္ဍကို ရိုက်ကူးရာတွင်ကား တစ်ရွာလုံးလုံး ပါဝင်ရိုက်ကူးကြပါသည်။

ထိုဇာတ်ဆောင်ခန်းတွင် ပါဝင်သောသရုပ်ဆောင်များမှာ ငွေတစ်ပြားတစ်ချပ်မှ မရမှန်းသိသော်လည်း မိမိတို့ရွာသား ဆားတောင်ကိုရင်ကလေး သက်တော် ရာပြည့် မော်ကွန်းတင် ရုပ်ရှင်မှတ်တမ်းကြီး ရိုက်ကူးမှန်းသိသဖြင့် ဘုမသိဘသိနှင့် ပါဝင်ကြခြင်းဖြစ်ရာ ကြိုးစားပမ်းစား ပြုလုပ်ကြရာတွင် ဒါရိုက်တာများက စိတ်တိုင်းမကျသောအခါ အော်ခြင်း ငေါက်ခြင်းကိုလည်း ခံရသေးသဖြင့် ရုပ်ရှင်ရိုက်ကွင်းပြီးသောအခါမှ အားလုံးကို ကျေးဇူးတင်ကြောင်းပြောရင်း ပြောမှားဆိုမှား အပြစ်တင်မှားမိပါက ခွင့်လွှတ်ပါရန် တောင်းပန်ရပါသေးသည်။

တောသား ရိုးသားသူများပီပီ ရှေးရှေးကလည်း စိတ်ဆိုးဟန်မပြခဲ့။ တောင်းပန်သောအခါမှာလည်း များစွာမပြုံးပြခဲ့ကြ။ အံ့ဖွယ်ပါရမီရှင်များဖြစ်ကြပါသည်။ လေးစားမိပါသည်။

**ရွာသူ ရွာသားများ အခမဲ့**

**ကိုယ့်ထမင်းကိုယ်စားနေပူခံ၍ ကူညီကြခြင်း**

ဆားတောင် ကိုရင်ကလေး အဓိဋ္ဌာန်မေတ္တာရေဝေငှသော အကြောင်း သရုပ်ဖော်ထားသည့် ပန်းချီကားကြီးတစ်ချပ်ကို ပြည်မြို့ ရတနာ မာရ်အောင်တောရကျောင်း ဓမ္မစကြာတိုက်ကြီးတွင် ချိတ်ဆွဲထားသည်ကို တွေ့ဖူးပါသည်။

**ဆားတောင်ကိုရင်လေး ပန်းချီကားကြီး ယနေ့ ပြည်မှာ ရှိ**

ဂုင်းပန်းချီ ကားကြီးအောက်၌ - ဆားတောင်ရွာအရှေ့ ကျောင်း၌ သာမဏေ ရှင်လာဘ၏ သီလ သမာဓိ သစ္စာ အဓိဋ္ဌာန်မေတ္တာကို ခံယူနေကြသည့် ဝေနာရှင်များ ပွဲတော်တမျှ ရပ်ဝေး

http://www.dhammadownload.com



ရပ်နီးမှလှည်းဖြင့် လာရောက်ကြသည့် ပရိသတ်များပုံဟူ၍ စာတန်းထိုးထားသည်ကိုလည်း ကျွန်တော်ကောင်းစွာ မှတ်မိနေပါသည်။

**ဆွေတော် မျိုးတော်ဖြစ်သူ သက်ရှိထင်ရှား ဦးလှစိန်နှင့် အင်တာဗျူး**

ကျွန်ုပ်တို့တစ်စုသည် ဆားတောင်ကိုရင်ကလေးနှင့် ဆွေမျိုးတော်သော ဦးလှစိန်နှင့် မှတ်တမ်းတင် ရိုက်ကူးပါသည်။

**တူအရင်းခေါက်ခေါက်**

ဦးလှစိန်မှာ ဆားတောင် ကိုရင်ကလေးနှင့် ဆွေမျိုးတော်ကြောင်း၊ တူအရင်းခေါက်ခေါက် ဖြစ်ကြောင်း သိရပါသည်။

**အဖက ညီအစ်ကိုတစ်ဝမ်းကွဲ**

ယခု အသက် ၇၄ နှစ်ရှိပြီ ဖြစ်ပါသည်။ အဖမှာ ဦးဖြူဖြစ်ကြောင်း၊ အမိမှာ ဒေါ်ရေ ဖြစ်ကြောင်း ဆားတောင်ရွာဇာတိဖြစ်ကြောင်း သိရပါသည်။ ဆားတောင်ကိုရင်ကလေးနှင့် ညီအစ်ကို တစ်ဝမ်းကွဲတော်ကြောင်းသိရပါသည်။

**ဦးလှစိန် အသက် ၃ နှစ်တုန်းက**

အေဒီ ၁၉၃၂ — ထိုစဉ်က ဦးလှစိန်သည် အသက် ၃ နှစ် ရှိပြီဖြစ်ကြောင်း အမေအဖေ များက ထပ်ဆင့်အခါခါ ပြောကြသဖြင့် မှတ်မိနေကြောင်း ဝန်ခံပြောဆိုပါသည်။ အပြောကလည်းရိုး သဘောကလည်း ရိုးသဖြင့် ရိုးရိုးကြီးပဲ မှတ်တမ်းတင်ကြပါသည်။ ဦးလှစိန်၏ ပြောကြားချက်တို့မှာ များစွာ မှတ်သားဖွယ်ရာ ဖြစ်ပါသည်။

**နွားကျောင်းသားဘဝက မောင်ပေါက်ကျော်**

"အဲဒီတုန်းက ဆားတောင်ကိုရင်ကလေးက ဆင်းရဲတယ် မဟုတ်လား၊ တောသားဆိုတော့ နွားလည်း ကျောင်းရသေးတယ်၊ အဲဒီမှာ နွားကျောင်းသားတွေနဲ့ နွားကျောင်းရင်း ပုတီးစိပ် တယ်တဲ့"

**အသားမစားသော ကိုရင်ကလေး**

သူများနွားကျောင်းသားတွေကတော့ အားတာနဲ့ သားစိမ်း ငါးစိမ်းရှာ၊ ဟိုသွား ဒီသွားပဲ ဆားတောင်ကိုရင်ကလေးကတော့ ဘယ်မှလည်း မသွားဘူး၊ သားစိမ်း ငါးစိမ်းလည်း မစားဘူး၊ အသီးအရွက်ကလေးပဲ စားတယ်၊ ကလေးချင်း အံ့ဩကြတာပေါ့။

**၅ နှစ်သားမှာ ရွှံ့လုံးလေးတွေ ပုတီးလုပ်**

အေဒီ ၁၉၁၀ — ပြီးတော့ ရွှံ့ကလေးတွေလုံးပြီး ပုတီးစိပ်တယ်၊ ပြီးတော့ နာနတ်ပင်တွေခုတ်ပြီး အရွက်ပေါ်မှာ အင်းကစားတယ်၊ အဲဒီတုန်းက ၅ နှစ်သားမှာ ကျောင်းနေတယ်။

**နွားကျောင်းရင်း ပုတီးစိပ်**

ပြီးတော့ ကိုရင်ဝတ်တယ်၊ အစ်ကိုတွေ ကိုရင်ဝတ်တော့ အိမ်မှာ အမေ အဖေက ခိုင်းရမယ့် လူမရှိလို့ လူထွက်ပြီး နွားကျောင်းရတယ်။

**ကိုရင်ဝတ်ပြန်ခြင်း**

အစ်ကိုတွေကိုရင်က လူထွက်တော့မှ ကိုရင်ပြန်ဝတ်ရတယ်၊ အဲဒီမှာ ပုတီးစိပ်ပြန်တယ်၊

**ပညာသင်ပေးခဲ့တဲ့ ကျေးဇူးရှင် ဆရာကြီးဘိုးဘိုးအောင်**

အေဒီ ၁၉၁၂ — ဆားတောင်မှာ ကိုရင်ကလေး ပုတီးစိပ်တဲ့ မန်ကျည်းပင်ကြီး ရှိတယ်၊ အဲဒီ မန်ကျည်းပင်ကြီး အောက်မှာပဲ အဝတ်ဖြူဝတ်တဲ့ ဘိုးဘိုးက ပညာတွေ သင်ပေးတယ်။

http://www.dhammadownload.com



ဒါပေမယ့် အမေအဖေတွေကိုလည်း ပြန်မပြောဘူး၊ ဘယ်သူ့မှလည်း မပြောဘူး၊ နောင်မှ တစ်စတစ်စ သိရတာ၊ အဲဒီမှာ ထူးတာတစ်ခုပြောမယ်။

**အသက်ကြီးကြီး ရဟန်းကြီး**

အေဒီ ၁၉၁၈

အခုမြင်ရတဲ့ မူလကျောင်းကလေးမှာပေါ့နော်၊ တစ်နေ့တော့ အသက်ကြီးကြီး ရဟန်းကြီး တစ်ပါးရောက်လာတယ်၊ အာဂန္တုပေါ့၊ အဲဒီရဟန်းကြီးက ခပ်စုတ်စုတ် ခမ်းနွမ်းနွမ်း ဝတ်ထား တယ်၊ မသိရင်တော့ စိတ်မှကောင်းရဲ့လားတောင် ထင်ကြတယ်တဲ့။

**စိတ်မှ နံ့ရဲ့လား**

ဒီတော့ အဘိုးဖြစ်သူ ကျောင်းထိုင်ဆရာတော်ကြီးကို အာဂန္တုရဟန်းအကြောင်း လျှောက်ထား ကြသတဲ့၊ ကြည့်ရတာ ကစုတ်ကဖတ်ကြီးတဲ့၊ ဘယ်သူမှ အနားမကပ်ချင်ဘူး၊ ကိုရင်ကလေးက အဲဒီတော့ငယ်ငယ် ၇ နှစ်သားနော်။

**လူမြင်မကောင်းအောင် တအားကြီးစား**

အဲဒီရဟန်းကြီးကို ကိုရင်ကလေးက ဆွမ်းသွားကပ်တယ်၊ လူမြင်မကောင်းအောင် တအားကြီး စားသတဲ့၊

**သိမ်ထဲ ပင့်သွား အာတွေပြောမှန်းမသိ**

ဒါနဲ့ ကိုရင်ကလေးက လမ်းပြပြီး သိမ်ထဲကို ပင့်သွားသတဲ့။ အဲဒီ အာဂန္တုရဟန်းကြီး နည်းနည်း နေပြီးတော့ ပြန်သွားတယ်။

**ကိုရင်လေး အချိုးပြောင်းခြင်း**

၇ ရက် ၈ ရက်လောက်ကြာတော့ ကိုရင်ကလေးဟာ တစ်မျိုးပြောင်းလာတယ်၊ ဘယ်အချိန်မှာ ဘယ်သွားတာ မသိရ၊ ဘယ်အချိန်ပြန်ကြွလာတာ မသိရ၊ ပထမတော့ အမှတ်တမဲ့ပဲ။

**ဘယ်သွားမှန်း ဘယ်သူမှ မသိ**

ရွာထဲလည်း ကြွတာမတွေ့ရ၊ ဒီတော့ အဘိုးကျောင်းထိုင် ဆရာတော်ကြီးက စစ်မေးပြန်တော့ လည်း ဟိုလိုလို ဒီလိုလိုပဲ။

**ရွှေစက်တော် သွားသတဲ့ ဟုတ်ပါ့မလား။** တစ်ခါမေးလိုက်တော့ ကိုရင်ကလေးက တပည့်တော် မန်းစက်တော်သွားတယ်လို့ပြောတယ်၊ **သီဟိုဠ်သွားသတဲ့ ဟုတ်ပါ့မလား။** နောက်တစ်ရက် တစ်ခါမေးပြန်တော့ တပည့်တော် သီဟိုဠ်သွားတယ်လို့ ပြောတယ်၊ **ရွှေတိဂုံ သွားသတဲ့ ဟုတ်ပါ့ မလား။** နောက်တစ်ရက်မေးပြန်တော့ ရွှေတိဂုံသွားတယ်လို့ပြောတယ်၊ **ကျိုက်ထီးရိုးသွားသတဲ့ ဟုတ်ပါ့မလား။** နောက်တစ်ညတစ်ခါ မေးပြန်တော့ တပည့်တော် ကျိုက်ထီးရိုး သွားတယ်လို့ ပြောတယ်။

**ကိုရင်လေး စိတ်နောက်နေပြီလားဟု ဝေဖန်ကြ**

ကျောင်းထိုင်ဆရာတော်ကြီးက ကိုရင်ကလေးရဲ့ အဘိုးလည်း တော်တယ် ဦးက္ကန္တကတဲ့၊ ဒီတော့ ကိုရင်ကလေး အဖေ ဦးကြက်တောင်ကို ခေါ် ပြောတယ်၊ မင်း သားတော့ စိတ်နောက်နေပြီလား မသိဘူးလို့ပြောတယ်၊ ဒါပေမယ့် သိတဲ့သူတွေ မေးကြည့်တော့လည်း သူပြောတာတွေက မှန်နေ တယ်တဲ့။

**အဆန်းတကြယ် အံ့ဖွယ်ဖြစ်ရပ်များ**

**ကိုယ်တွေ့ ပြန်ပြောချက်များမှန်နေသတဲ့**

မန်းစက်တော်ရောက်ဖူးသူတွေ မေးတော့လည်း သူပြောတာဟုတ်တယ်တဲ့၊ ရွှေတိဂုံတို့

http://www.dhammadownload.com



ကျိုက်ထီးရိုး ရောက်ဖူးသူတွေပြောတော့လည်း အမှန်ပဲတဲ့၊ ဒီတော့ စိတ်နောက်တယ် ပြောရအောင်လည်း ခက်တယ်တဲ့။

**ကိုရင်ကလေး ကိုယ်ပျောက်သလော**

ဒီတော့ ကိုရင်ကလေးကို ညမှာစောင့်ပြီး စုံစမ်းကြသတဲ့၊ ရှင်အရဟံ သိမ်ထဲဝင်သွားတာ တွေ့ရ တယ်၊ နောက်တော့ အပြင်ထွက်သွားရင်လည်း လိုက်လို့မမီဘူး၊ တွေ့ပြန်တော့လည်း သစ်ပင် အောက်ထိုင်နေတယ်၊ တရားအားထုတ်နေတာ အပြစ်ပြောလို့ မရပြန်ဘူး။

**ထူးဆန်းသောဒည်သည်ကြီး ရောက်ရှိလာခြင်း**

ဆန်းတာကလုံးဝ ဆွမ်းမစားတာပဲ၊ အဲဒါက ဟိုစုတ်စုတ်ဖတ်ဖတ် ဘုန်းကြီးနဲ့ တွေ့ပြီးကတည်းက အချိုးပြောင်းသွားတာပဲ၊ ကျင်ကြီး ကျင်ငယ်တောင် မစွန့်တော့ဘူးတဲ့။

**ပရိတ်ရေ အစွမ်းထက်ခြင်း**

အဲဒီမှာ ပိုးထိတဲ့သူတွေလည်း ဆေးကုတာပဲ၊ ရေမန်းလည်း ပေးတာပဲ၊ ကိုရင်ကလေး ပရိတ်ရေ စွမ်းတယ်ဆိုပြီး ခန့်မှန်းချေ တစ်နှစ်လောက် ဒီနားမှာ ပွဲကြီးဖြစ်နေတယ်ဟု ဦးလှစိန်က ပြောကြားပါသည်။

**ပဋ္ဌင်းခံပြီးကတည်းက ထွက်သွားလိုက်တာ နှစ်ပေါင်း ၃၀ ကြာမှ ပြန်ရောက်လာသတဲ့**

အေဒီ ၁၉၂၅ — ထိုဆားတောင် ကိုရင်ကလေးဟာ ပဋ္ဌင်းခံပြီး ၃-၄ ရက် လောက်ကတည်းက ထွက်သွားလိုက်တာ ဘယ်ရောက်သွားမှန်း မသိတော့ဘူးဟုလည်း ဦးလှစိန်က ပြောပြပါသည်။

**ယော်ယော်ကထွက်သွားတာလိုက်တာ အသက်ကြီးမှပြန်လာတော့ အားလုံးကမမှတ်မိကြ**

အေဒီ ၁၉၅၅ — နောက်နှစ်ပေါင်း ၃၀ လောက်ကြာတော့မှ၊ ဒီစံတော်ရာကုန်းကို ဆားတောင်ကိုရင်ကလေး ပြန်ကြွလာတယ်ဟု ဦးလှစိန်ကပြောပါသည်။ ဆားတောင်ကိုရင်ကလေး ပြန်ကြွလာတော့ ဆားတောင်ကိုရင်ကလေး မဟုတ်တော့ဘဲ၊ သက်တော် ၄၉ - ၅၀ ကိုယ်တော်ကြီးဖြစ်နေပြီ၊ အမည်တော်ကလည်း ဦးဝိဇ္ဇာဗလတဲ့။

အဲဒီစံတော်ရာကုန်းမှာ သာသနာဖွင့်ဖော်ပြီး ပူဇော်လိုက်တာ ယခုမြင်ရတဲ့အတိုင်းပါပဲဟု ဦးလှစိန် က ပြောကြားပါသည်။

**ဆားတောင်ကိုရင်လေး မဟုတ်တော့ပါဘူး၊ ဦးဝိဇ္ဇာဗလဖြစ်လာသတဲ့။**

ထို့ကြောင့် ဦးလှစိန်၏ ပြောကြားချက်များနှင့် တွဲဖက်၍ ဆားတောင် ကိုရင်ကလေးဘဝမှ စံတော်ရာကုန်းသို့ နောက်တစ်ကြိမ် ပြန်လည်ကြွလာတော် မူသည်အထိ နှစ်ပေါင်း ၅၀ ကို အကြမ်းဖျင်း တွက်ချက်လိုက်သောအခါ အောက်ပါ အတိုင်း အဖြေထွက်လာပါသည်။

**ရာပြည့် ရှပ်ပုံလွှာကို ရေးသားရန် အကြမ်းရေးဆွဲသော စုတ်ချက်များ**

**အေဒီ ၁၉၀၈ — မွေးသက္ကရာဇ်**

၁၂၇၀ ပြည့်၊ ဝါဆိုလပြည့်ကျော် ၃ ရက်၊ ( ၁၅ ဇူလိုင် ၁၉၀၉) ဗုဒ္ဓဟူးနေ့ နံနက် ၁၁ း ၄၅ မိနစ်။

**ဇာတိရပ်ရွာနှင့် ခမည်းတော်၊ မယ်တော်တို့အမည်**

အေဒီ ၁၉၂၁ — ပျော်ဘွယ်ကြီးမြို့နယ်၊ ဆားတောင်ရွာ ၊ ဖခင် ဦးကြက်တောင်၊ မိခင် ဒေါ်မလေး (သာမဏေ ပြုခြင်း) ၁၂၈၃ ခုနှစ်၊ နတ်တော်လပြည့်၊ ဗုဒ္ဓဟူးနေ့တွင် မိဘနှစ်ပါး ဆားတောင်ရွာ အရှေ့ကျောင်း၊ အဘိုးဆရာတော်ကြီးထံတော်၌ အစ်ကို မောင်ရေချမ်း၊ မောင်ရေပန်းတို့နှင့်အတူ မောင်ပေါက်ကျော်အား သာမဏေရ ပဗ္ဗဇ္ဇာ ဘိသေက မင်္ဂလာ ရှင်သာမဏေအဖြစ်သို့ သွတ်သွင်း၍ သာသနာ့အမွေခံယူကြသည်။ သာမဏေကလေး မောင်ပေါက်ကျော်အား ဗုဒ္ဓဟူးသား ဖြစ်၍ ရှင်လာဘဟု ဘွဲ့အမည် သတ်မှတ် ချီးမြှင့်တော်မူပါသည်။

http://www.dhammadownload.com



**ရဟန်းဖြစ်ရက် အပြည့်အစုံ၊**

အေဒီ ၁၉၂၇ သာသနာတော်နှစ် ၂၄၇၁ ခုနှစ်၊ ကောဇာ သက္ကရာဇ် ၁၂၈၉ ခုနှစ်၊ နတ်တော်လပြည့်ကျော် ၄ ရက် တနင်္လာနေ့ နံနက် (၁၁) ဖဝါး၊ ၁ ဖိလာ၊ စက်နာရီ ၉ နာရီ ၁၀ မိနစ် အချိန်တွင် မြင့်မြတ်သော ဥပသမ္ပဒ ရဟန်းအဖြစ်သို့ ရောက်ရှိတော်မူလေသည်။အများကုသိုလ်ဘုံရဟန်းအဖြစ် ရဟန်းခံပွဲကြီး ကျင်းပခဲ့သည်။

**ရဟန်းဒကာ ၂၀၀၀၀ ကျော်ပါဝင်သော ရဟန်းခံပွဲကြီး**

ရမည်းသင်း၊ ပျော်ဘွယ်၊ မိတ္ထီလာ၊ ယင်းတော်စသော မြို့များမှလည်းကောင်း၊ ဆားတောင်ရွာသာရွာကုန်းစသော ပတ်ဝန်းကျင်ရှိ ရွာပေါင်း ၁၀၀ ကျော်မျှသော ကျေးရွာ အသီးသီးမှလည်းကောင်း၊ ရဟန်း ဒါယကာအဖြစ် ပါဝင်ခဲ့ကြ၍ ၂၀၀၀၀ ကျော်မျှသော ရဟန်းဒါယကာ/ဒါယိကာမတို့၏ စုပေါင်းလှူဒါန်းသည့် ရဟန်းခံပွဲကြီး ဖြစ်သည်။

**ဆရာ့ ဆရာများ စာရင်း**

ရမည်းသင်းခရိုင်၊ ပျော်ဘွယ်မြို့နယ် တမာကုန်းကျေးရွာ ( ဂိုဏ်းအုပ်ဆရာတော်ဘုရားကြီး) ကျောင်းတိုက်အတွင်းရှိ သာသနဝိပုလ-ခဏ္ဍသိမ်တော်ကြီးတွင် သစ်ဆိမ့်ပင်ကျောင်းသက်တော် ရှည် ဂိုဏ်းချုပ်ဆရာတော်ကြီးကို ဥပဇ္ဈာယ်ပြုပြီးလျှင် ပထမကမ္မဝါစာ ဆရာတော်များအဖြစ် ၁ - တမာကုန်း ဂိုဏ်းအုပ်ဆရာတော်၊ ၂- မြသိန်းတန် ဆရာတော်၊ ၃- တန့်စုတောရ ဆရာတော် ၃ ပါးတို့ကလည်းကောင်း၊ ဒုတိယ ကမ္မဝါစာ ဆရာတော် များအဖြစ် ၁-ပေါက်တန်း ဆရာတော်၊ ၂- နံချွန်တောကျောင်း ဆရာတော်၊ ၃- တန့်စု တောရဆရာတော် ၃ ပါးတို့ ကလည်းကောင်း၊ တတိယ ကမ္မဝါစာဆရာတော်များအဖြစ် ၁-ရွာသစ်ကျောင်းဆရာတော်၊ ၂ - အေးသန်းကျောင်းဆရာတော်၊ ၃ - မင်းဝေတောရကျောင်း ဆရာတော် ၃ ပါးတို့ကလည်း ကောင်း၊ သံဃာတော် ၁၀၈ ပါးတို့ဖြင့် ခြံရံဝန်းပတ်ကာ ဥပသမ္ပဒ၊ အဘိသေက မင်္ဂလာ စီမံဆောင်ရွက်ချီးမြှင့်တော်မူကြသည်။

**ရဟန်းဖြစ်တော်မူသောနှစ်**

အေဒီ ၁၉၂၇ ဆားတောင်ရွာအရှေ့ ကျောင်းဆရာတော် ဦးဣန္ဒကာ၏ တပည့်ဖြစ်သော ရှင်လာဘသည် သာသနာတော်နှစ် ၂၄၇၁ ခုနှစ်၊ ကောဇာသက္ကရာဇ် ၁၂၈၉ ခုနှစ်၊ နတ်တော်လပြည့်ကျော် ၄ ရက် တနင်္လာနေ့ နံနက် (၁၁) ဖဝါး၊ ၁ဖိလာ၊ စက်နာရီ ၉ နာရီ ၁၀မိနစ်အချိန်တွင် မြင့်မြတ်သော ဥပသမ္ပဒရဟန်း အဖြစ်သို့ ရောက်ရှိတော်မူလေသည်။

**သာသနာရေးဆိုင်ရာဘဝရှုပ်ပုံလွှာများ –**

အေဒီ ၁၉၁၅ ၁၂၇၇ ခုနှစ် ဘိုးတော်အောင်၏ ပညာချီးမြှင့် စောင့်ရှောက်ခြင်းကို ပထမဦးစွာ ခံယူတော်မူရသည်၊

အေဒီ ၁၉၂၀ ၁၂၈၃ ခုနှစ် နတ်တော်လပြည့် ဗုဒ္ဓဟူးနေ့တွင် ရှင်သာမဏေဖြစ်သည်။ (ဘွဲ့အမည် ရှင်လာဘ)

**သလေးဆွမ်းဘုဉ်းပေးရခြင်း**

အေဒီ ၁၉၂၂ ၁၂၈၄ ခုနှစ် (၇)နေ့ (၇) နံ အဓိဋ္ဌာန်အောင်မြင်၍ ထူးခြားသော သလေးဆွမ်းကို ဘုဉ်းပေးတော်မူရလေသည်။

**ဖြစ်ရပ်မှန် ပန်းချီကားကြီး**

ထိုအကြောင်းကို ရေးဆွဲထားသော ပန်းချီကားကြီး ရှိပါသည်။ ထိုပန်းချီကားကြီး တွင်ပါသော စာသားမှာ ၁၂၈၃ ခု ၁၃နှစ်သား သာမဏေရှင်လာဘ ခုနစ်နေ့ ခုနစ်နံ အဓိဋ္ဌာန်အောင်၍ နောက်ဆုံးစနေနေ့တွင် စနေနံထိန်ပင်ကြီးဒွဆုံမှရသော သလေးဆွမ်း ဘုဉ်းပေးနေပုံ ဖြစ်သည် ဟူ၍ စာတမ်းရေးထိုးထားသည်ကို ဖတ်ရှုရပါသည်။

http://www.dhammadownload.com



**ပုဆိုးဖြူတောင်မှာ မြွေကြီးပတ်ပုံ**

အေဒီ ၁၉၂၃ — ၁၂၈၅ ခုနှစ် ယင်းတော်မြို့ ပုဆိုးဖြူတောင်၌ အဓိဋ္ဌာန်ဝင်စဉ် မြွေကြီး အပတ်ခံရတော်မူသည်။ ထိုအကြောင်းကို ပန်းချီကားကြီးတစ်ချပ် ရေးဆွဲ၍ထားသည်ကို တွေ့ရှိရပါသည်။ ပုဆိုးဖြူတောင်တွင် အဓိဋ္ဌာန်ဝင်စဉ် မြွေကြီး အပတ်ခံရပုံကို သရုပ်ဖော်ရေးဆွဲထားခြင်း ဖြစ်ပါသည်။

**ဦးခန္တာဇောတိ၊ တစ်လေးလုံး ဆရာတော်ဘုရားနှင့်တွေ့ဆုံခြင်း**

အေဒီ ၁၉၂၃ — ၁၂၈၉ခု နှစ်၊ တန်ခူးလဆန်း (၃) ရက်တနင်္လာနေ့ ဦးခန္တာဇောတိ ဆရာတော်ဘုရားကြီးက အာဟာရ သိဒ္ဓိဆေးဖြင့် စတင် ချီးမြှောက်စောင့်ရှောက်တော်မူသည်။ ထိုအကြောင်းကို သရုပ်ဖော်သော ပန်းချီကားကြီးတစ်ချပ်ရှိရာ ထိုပန်းချီကားထဲတွင် ရွှေဥဒေါင်းတောင် စိန်ရောင်ခြည်ဘုရားသို့အသွား တစ်လေးလုံးဆရာတော်က သိဒ္ဓိဆေးချီးမြှင့်ပုံ ဟူ၍ ရေးသားထားပါသည်။

**တော ၃၇ တော၊ တောင် ၃၇ တောင်၊ ဆရာ ၃၇ ပါး။**

ထိုအတောအတွင်းနှင့် သက်ဆိုင်သော ပန်းချီကား အချို့လည်းတွေ့ရပေရာ၊ တစ်ခုသော ပန်းချီ ကားမှာ ဆားတောင် ကိုရင်ကလေးဘဝ တော ၃၇ တော၊ တောင် ၃၇ တောင်သို့ လှည့်လည်လျက် သမထ၊ ဝိပဿနာအားထုတ်ရင်း ဆရာ ၃၇ ပါးထံမှာ လောကီ၊ လောကုတ္တရာ ပညာသင်ကြားရန် ထွက်ခွာလာပုံဖြစ်ပါသည်။ ထိုပန်းချီကားကြီးကို ရတနာမာရ်အောင် တောရကျောင်းတွင် တွေ့ရှိနိုင်ပါသည်။

**ဝေဘူလ နတ်မင်းကြီး**

အေဒီ ၁၉၃၃ — ရတနာမာရ်အောင်တောရတွင်တွေ့ရသော ပန်းချီကားတစ်ချပ်မှာ ၁၂၉၅ ခုနှစ်က အဖြစ်အပျက် ဖြစ်ပါသည်။ ထိုပန်းချီကားတွင်ရေးသားသော စာသားမှာ - ၁၂၉၅ ခု ဝါခေါင်လဆန်း ၁၂ ရက် နေ့တွင် ဖြစ်ပျက်သော ဖြစ်ရပ်မှန် ဖြစ်၍ ဝေဘူလနတ်မင်းကြီးတို့က ရွှေဘုရားစကား မပယ်ပါနှင့်ဟု ပြောကြားနေပုံ ပန်းချီကား ဖြစ်ပါသည်။

**ရွှေဘတောင်မှာ အားထုတ်စဉ်**

အခြား ပန်းချီကားတစ်ချပ်မှာ ရွှေဘတောင်တွင် တရားအားထုတ်စဉ်က ဖြစ်ရပ်မှန် ဖြစ်ပါသည်။ ရေတာရှည် မယ်ဒက်ပီတူးရွာ အင်္ဂသူကြီး သရဲ ပြိတ္တာက နံနက် ၈ နာရီခန့် အမဲသားထမ်းလာသူအား ခြောက်လှန့်သောကြောင့် လန့်၍ သေစေပြီးနောက် အရှင်လာဘအား ခြိမ်းခြောက်သောအခါ ပဋ္ဌာန်း အနုလုံ ပဋိလုံဖြင့် မောင်းထုတ်နေပုံ ပန်းချီကား ဖြစ်ပါသည်။ ထိုပန်းချီကားအရ ဖြစ်ရပ်မှန်တစ်ခုကို သိရှိခွင့်ရပါသည်။

**ရဟန်းဖြစ်တော်မူခြင်း**

အေဒီ ၁၉၂၇ — ၁၂၈၉ ခုနှစ် နတ်တော်လပြည့်ကျော်(၄)ရက် တနင်္လာနေ့ ရဟန်းအဖြစ်သို့ ရောက်သည်။

**အိုင်စီအက်စ် ဦးတင်ထွဋ် လာရောက်စစ်ဆေးခြင်း**

အေဒီ ၁၉၂၇ — ၁၂၈၉ ခုနှစ် တပေါင်းလဆုတ် (၂) ရက် ဗုဒ္ဓဟူးနေ့၊ ပြည်မြို့ ရန်ကုန်တောင်သို့ ရောက်သည်။ ထိုအကြောင်းနှင့် စပ်လျဉ်း၍ ပန်းချီကားကြီးတစ်ချပ် တွေ့ရှိရာ ထိုပန်းချီကားကြီးတွင် အိုင်စီအက်စ် ဦးတင်ထွဋ်၏ အမိန့်ဖြင့် ရန်ကုန်တောင် တောရကို ပန်ချာပီစစ်တပ် ပုလိပ်များ ဝန်းရံ ထားပုံနှင့် စုံစမ်းစစ်ဆေးနေပုံတို့ကို သရုပ်ဖော်ထားခြင်း ဖြစ်ကြောင်း သိရပါသည်။

**ပဲခူး ဓမ္မစေတီမင်းခေါင်ကြီးက ရေစင်ဆက်ကပ်ခြင်း**

အေဒီ ၁၉၂၈ — ၁၂၉၀ ခုနှစ် ရက်စွဲနှင့် ပန်းချီကားတစ်ချပ်ကိုလည်း ပြည်မြို့ ရတနာမာရ်အောင်တောရတွင် ချိတ်ဆွဲထားသည်ကို တွေ့ရပါသည်။ ထိုပန်းချီကားတွင် ရွှေမော်ဓောစေတီတွင် အဓိဋ္ဌာန်

http://www.dhammadownload.com



အောင်မြင်သဖြင့် ပဲခူးဓမ္မစေတီ မင်းခေါင်က ရေစင်များ ဆက်ကပ်နေပုံ ဖြစ်ပါသည်။ ဤသည်မှာလည်း ရဟန်းတော်ကလေး အရှင်လာဘ၏ ဘဝတစ်ကွေ့ ရုပ်ပုံလွှာ ဖြစ်ပါသည်။

**ရွှေတိဂုံတွင် အဓိဋ္ဌာန်အောင်မြင်ခြင်း**

ရဟန်းတော်ကလေး အရှင်လာဘသည် ရဟန်းဘဝသို့ ရောက်ပြီးနောက် ရွှေတိဂုံဘုရားတွင် ၄၉ ရက် အဓိဋ္ဌာန်ဝင်ခဲ့ပါသည်။

**ပဲခူး ရွှေမော်ဓောတွင် အဓိဋ္ဌာန်အောင်မြင်ခြင်း**

အေဒီ ၁၉၂၈ ၎င်းအဓိဋ္ဌာန်မှ အောင်မြင်သောအခါ ပဲခူးရွှေမော်ဓောဘုရားတွင် အဓိဋ္ဌာန် ၂၄ ရက် ဝင်ခဲ့ပါသည်။

**စမ်းကြီးတောရ အဓိဋ္ဌာန်အောင်မြင်ခြင်း**

အေဒီ ၁၉၂၈ ၎င်းနောက် စမ်းကြီးတောရတွင် အဓိဋ္ဌာန် ၃ ရက် ဝင်ခဲ့ပါသေးသည်။ ထိုအဓိဋ္ဌာန် အောင်မြင်ပြီးနောက် ရွှေတိဂုံဘုရားသို့ ပြန်လည်ရောက်ရှိ၍ တဝဂ္ဂတွင် ခေတ္တသီတင်းသုံးတော်မူပါသည်။

**ရဟန်းဖြစ်ပြီး ၃ လ**

အေဒီ ၁၉၂၈ ၎င်းနောက် ရန်ကုန်တောင် တောရချောင်သစ်တွင် သီတင်းသုံးသော သီလရှင်ဆရာကြီး ဒေါ်နာဂီ၏ ပင့်ဖိတ်ချက်ကြောင့် ရန်ကုန်တောင်တောရသို့ ရောက်ရှိခဲ့ရပါသည်။ ထိုကာလသည် ရဟန်းဖြစ်ပြီးစကာလ ၃ လ မြောက်အချိန် ဖြစ်ပေသည်။

**ဒူးရင်းသီးအဖျော်ရည် စတင်ဘုဉ်းပေးတော်မူခြင်းအစ**

အေဒီ ၁၉၃၁ ၁၂၉၃ ခုနှစ် ကဆုန်လတွင် ဒူးရင်းသီး အဖျော်ကြောင့် ဆွမ်းအနည်းငယ် စတင်၍ ဘုဉ်းပေးတော်မူလေသည်။

အေဒီ ၁၉၃၅ ၁၂၉၇ ခုနှစ် ပျော်ဘွယ်မြို့ ရဟန်းဒါယကာကြီး ဦးဉာဏ်တင် ရန်ကုန်တောင်တောရသို့ ရှေးဦးစွာ ရောက်ရှိ ဖူးတွေ့ရသည်။

အေဒီ ၁၉၃၇ ၁၂၉၉ ခုနှစ် သီလရှင်ဆရာကြီး ဒေါ်နာဂီ ဘဝတစ်ပါးသို့ ပြောင်းသွားသည်။

**ရတနာမာရ်အောင်တောရ စတင်တည်ထောင်**

အေဒီ ၁၉၃၈ ၁၃၀၀ ပြည့်နှစ် နယုန်လဆန်း(၈)ရက်၊ တနင်္ဂနွေနေ့ ရတနာမာရ်အောင်တောရကို စတင်တည်ထောင်တော်မူသည်။

**ဝိဇ္ဇာဖလဟူသော ဘွဲ့ထူးရရှိပုံ**

အေဒီ ၁၉၄၂ ၁၃၀၄ ခုနှစ် ကဆုန်လဆန်း (၈) ရက် အင်္ဂါနေ့ ဆရာတော်များက ( ဝိဇ္ဇာဖလ) ဟူသော ဘွဲ့ထူးကို အနာဂတ်မှာတမ်းဖြင့် ချီးမြှင့်တော်မူကြသည်။

**ဗုံးအလုံး ၂၀ ကျသော်လည်း မပေါက်ခဲ့**

အေဒီ ၁၉၄၃ ၁၃၀၅ ခုနှစ် နတ်တော်လဆန်း (၅)ရက် တနင်္ဂနွေနေ့ ရတနာမာရ်အောင်တောရ၌ ဗုံးအလုံးပေါင်း (၂၀)ကျသည်။

**စတင် တရားဟောသောနေ့**

အေဒီ ၁၉၄၆ ၁၃၀၈ ခုနှစ် တန်ဆောင်မုန်းလပြည့်ကျော် (၈) ရက် စနေနေ့မှစ၍ မြို့နယ်များသို့ တရားဟောစတင်ထွက် ကြွတော်မူသည်။

**ဥဒေါင်းကြီးရောက်ရှိခြင်း**

အေဒီ ၁၉၅၃ ၁၃၁၅ ခုနှစ် နတ်တော်လပြည့်ကျော် (၉)ရက် ဗုဒ္ဓဟူး နေ့ ရတနာမာရ်အောင်တောရ၌ သိမ်နုတ် သိမ်သမုတ် ဥဒေါင်းရောက် ဦးဝိဇ္ဇာဖလ သိမ်ထပ် ရဟန်းခံသည်။

http://www.dhammadownload.com



**နှစ် ၃၀ ပျောက်ပြီးမှ ပြန်ပေါ်ခြင်း**

အေဒီ ၁၉၅၆ ၁၃၁၈ ခုနှစ် ပျော်ဘွယ်မြို့ ညောင်နွယ်ရွာရှင်ပြု အလှူပွဲ သို့ စတင်ကြွရောက်တော်မူသည်။

**ဆားတောင် ကိုရင်ကလေး ရှပ်ပုံလွှာ**

ဤသို့ဖြင့် ဦးလှစိန်၏ ပြောစကားနှင့် ဆက်စပ်၍ ဆားတောင်ကိုရင် ကလေးဘဝမှစ၍ မြင့်မြတ်သော ပဋ္ဌင်းဘဝသို့ ရောက်သည်အထိ ဘဝရုပ်ပုံလွှာကိုလည်းကောင်း၊ ထိုနောက် စံတော်ရာကုန်းသို့ သက်တော် ၄၉/၅၀ အရွယ်လောက်တွင် ပြန်လည်ဆုံဆည်းရသည်ကို လည်းကောင်း ကျွန်ုပ်တို့သည် စိတ်မျက်စိတွင် ထင်ယောင်မြင်ယောင် ဖြစ်လာမိပါသည်။

**ဒုတိယမင်းခေါင်၏ စီးတော်မြင်း မြေမြှုပ်သောနေရာ**

**ရေသောက်သော ရေအိုင်**

အေဒီ ၁၅၅၃ ၎င်းနောက် ကျွန်ုပ်တို့ တစ်စုသည် ဒုတိယမင်းခေါင်စီးတော်မြင်း ဖြစ်သော စိုင်းလျှော်မြင်းတော် မြေမြှုပ်ခဲ့သောနေရာ၊ ရေသောက်ခဲ့သော ရေအိုင်တို့သည်လည်း စံတော်ရာကုန်း၏ ရှေးရှေး သော သမိုင်းကြောင်းများနှင့် ဆက်စပ်၍ နေသဖြင့် မှတ်တမ်းတင်ရိုက်ကူးကြပါသည်။

**ကိုယ်တွေ့ ပြောပြချက်များ သက်သေရှိ**

အသက် ၇၄ နှစ်ရှိ ဦးလှစိန်၏ ပြောပြချက်ကြောင့်လည်းကောင်း၊ မြစ်ကြီး ရောဝတီဟု ကမ္ဘာ့ရွှေရင်အေး ဆရာတော် ဘုရားကြီး၏ မြစ်တော်သူ ဦးတင်ငွေ၏ ပြောပြချက်တို့ကြောင့် လည်းကောင်း၊ နေရာမှန် အဖြစ်မှန်တို့ကို သိခွင့်ရခဲ့ပါသည်။

**ဦးဝိဇ္ဇာဗလ ကိုယ်တော်တိုင် ပြောပြချက်များ မှတ်တမ်းတင်ခြင်း**

မြင်းရေသောက်သော ရေအိုင်ကလေးမှာ ခပ်သေးသေးမျှသာ ကျန်ပါတော့သည်။ မသိသူတို့က သာမန် အိုင် ကလေးသာ ထင်ရပါလိမ့်မည်။ သိသူတို့ကမူ အမှတ်တရအဖြစ် ရေကိုပုလင်းနှင့် ထည့်၍ သယ်ဆောင်သွားသည်လည်း ရှိပါသည်။

**ရွှံ့မြေနေရာကို အံ့ဩကြ**

စံတော်ရာကုန်းသို့ ဆားတောင် ကိုရင် ကလေးသည် ဦးဝိဇ္ဇာဗလအဖြစ် ကြွရောက်တော်မူလာ စဉ်အခါမှစ၍ ထိုနေရာရှိ ရွှံ့မြေမှာ မြေပေါ်သို့ ၃ ပေ ၄ ပေ၊ မြင့်တက်လာခဲ့ရာ ထိုနေရာ ဟောင်းကို မှတ်မိသူတို့က ပြောကြား သဖြင့် ထိုရွှံ့မြေကို လိမ်းလျှင် ဆေးစွမ်းသည်၊ ခါးနာ ဒူးနာပျောက်သည် စသည်ဖြင့် သတင်းပျံ့နှံ့သွားသဖြင့် သယ်၍ သယ်၍ သွားကြရာ ယခုအခါ ထိုကုန်းမြင့်ကလေး မတွေ့ရတော့ပါ။

**စီးတော်မြင်း ရေသောက်သောနေရာ ဆိုင်းဘုတ်**

ရေအိုင်နေရာတွင် ဆိုင်းဘုတ်တစ်ခုတပ်ထားရာ ထိုဆိုင်းဘုတ်မှာ ဒုတိယ အင်းဝဘုရင် မင်းခေါင် စီးတော်မြင်း ရေသောက်သောနေရာဟူ၍ ရေးထားကြောင်း တွေ့ရပါသည်။

**အဝေးကတောင်**

ထိုနေရာကို မှတ်တမ်းတင်ရိုက်ကူးပြီးနောက် ဦးတင်ငွေက လက်ညှိုးထိုးပြသဖြင့် ဟိုးခပ်လှမ်း လှမ်းမှာ တောင်တစ်တောင် တွေ့ရပါသည်။

**ဆားတောင်ကိုရင်လေးအခိဋ္ဌာန်ဝင်ခဲ့သော နသိုးဖြူတောင်**

ထိုတောင်မှာ နသိုးဖြူတောင် ဖြစ်ကြောင်း သိရပါသည်။ ထိုတောင်တည်ရာသည် ယင်းတော်မြို့ နယ်ဘက်ဖြစ်ကြောင်း ပုဆိုးဖြူတောင်ဟုလည်း ခေါ်ကြကြောင်း သိရပါသည်။

http://www.dhammadownload.com



**မြွေကြီးပတ်ခဲ့တဲ့ ရာဇဝင်**

အေဒီ ၁၉၂၄ ထိုတောင်တွင် ဆားတောင် ကိုရင်ကလေး အသက် ၁၅ နှစ် အရွယ် ၁၂၈၅ ခု ( ၁၉၂၄ ခု) နှစ်တွင် အဓိဋ္ဌာန်ဝင်ခဲ့ဖူးကြောင်း၊ မြွေကြီးပတ်ခံခဲ့ရကြောင်း၊ ထိုအကြောင်း ပန်းချီကားချပ်ကြီးရေး ဆွဲထားသည်ရှိကြောင်း ရာဇဝင်သုတေသီ ဦးတင်ငွေက ပြောကြားပါသည်။

**ပန်းချီကားမှတ်တမ်း**

ပြည်မြို့ ရတနာမာရ်အောင်တောရ ကျောင်းတိုက်တွင် ချိတ်ဆွဲထားသော ပန်းချီကားချပ်ကြီးများရှိရာ ထိုပန်းချီကားကို ကျွန်တော်ကောင်းစွာ မှတ်မိပါသည်။

**ဘိုးတော်ဖြူ တည်ခဲ့သော စေတီတော်များ**

၎င်းနောက် ဘိုးတော်ဖြူတည်ထား ကိုးကွယ်သော စေတီတော်မြတ်ရှိ ရာသို့ သွားရောက်ဖူးမြော်၍ မှတ်တမ်းတင်ကြပါသည်။ ထိုနေရာတွင် ရေကန်ကြီးတစ်ကန်ရှိရာ အလွန်သာယာချမ်းမြေ့ကြောင်း တွေ့ရပါသည်။

**ဘိုးတော်ဖြူ ရေကန်**

အရိပ်အာဝါသ ကောင်းကောင်းနှင့် သာယာကြည်နူးဖွယ် တောရဂုံ အတွင်းရှိ ရေကန်ကြီးမှာ ဘိုးတော်ဖြူကန်ဟု ခေါ်ဆိုကြောင်း သိရှိရပါသည်။

**ဦးဝိစာရဗလ တရားထိုင်ခဲ့သောနေရာ**

**ပေါက်မြောက်အောင်မြင်ခဲ့သော ညောင်ပင်ကြီး**

ဘိုးတော်ဖြူကုန်းတွင် စေတီနှစ်ဆူ ဖူးတွေ့ရပါသည်။ ထိုနေရာသည် အစောင့်အရှောက်ကြီးမားသည်ဟု ကျော်စောသောနေရာ ဖြစ်ပါသည်။ ထိုနေရာအနီးတွင် ညောင်မုတ်ဆိတ် အပင်ကြီးတစ်ပင်ရှိရာ ထိုနေရာသည် အောင်မြေဖြစ်ကြောင်း၊ သက်ဆိုင်ရာပုဂ္ဂိုလ်များက ပြောကြားကြပါသည်။

**ဆားတောင်ကိုရင်ကလေး ပေါက်မြောက်ခဲ့သောနေရာ**

အေဒီ ၁၉၂၈ ထိုနေရာတွင် ဆားတောင်ကိုရင်ကလေး အရှင်လာဘ တရားကျင့်ခဲ့သည်ဟူ၍ လည်းကောင်း၊ ဆွမ်းမစားသော ရဟန်းတော်ကလေး အရှင်လာဘ၏ ပေါက်မြောက်အောင်မြင်ရာ အောင်မြေဖြစ်သည် ဟူ၍လည်းကောင်း သိရှိရပါသည်။

**သက်တော်ကြီးမှာ တစ်ကြိမ်ပြန်ကြွ**

**မှတ်တမ်းတင် ကျေးဇူးဆပ်**

ကမ္ဘာ့ရွှေရင်အေး ဆရာတော် ဘုရားကြီး ဘဝသို့ ရောက်သောအခါ မိမိငယ်စဉ် ဆားတောင်ကိုရင်ကလေးဘဝကနေရာသို့ တစ်ဖန် ပြန်လည်ကြွရောက်ခဲ့ကြောင်း မှတ်တမ်းတင်ဓာတ်ပုံများတွင် တွေ့ရှိရပါသည်။

ညအခါမှာ ကျွန်ုပ်တို့တစ်စုသည် မှောင်နဲ့မည်းမည်းတွင် စမ်းတဝါးဝါး သွား၍ အနီးအနားဝန်းကျင်ကို လှည့်လည် ကြည့်ရှုကြပါသည်။

အလွန်ထူးသော ကုန်းတော်ကြီးဖြစ်သည်နှင့်အညီ တိတ်ဆိတ်မှုနှင့်အတူ ညအမှောင်သည် လွှမ်းမိုးလျက်ရှိရာ ကျွန်ုပ်တို့ တစ်စုမှာ လေ့လာ၍ မဝနိုင်တော့ဘဲ သန်းခေါင်ဗိုလ်ဘဝက ဆားတောင် ကိုရင်ကလေးကို တမ်းတမိပါတော့သည်။

**၈ နှစ်သားအရွယ်က အဓိဋ္ဌာန်စာတမ်းကို ပတ်ရှုခြင်းမှတ်တမ်း**

အေဒီ ၁၉၁၆ နံနက်မိုးလင်းသောအခါ ဆုထူးပန် သစ္စာမဏ္ဍိုင် စေတီတော်မြတ်ကြီးကို မှတ်တမ်းတင်ကြပါသည်။ စေတီတော်ကြီး၏ အရှေ့ဘက်မုခ်တွင် ကျောက်စာတစ်ချပ်ရှိရာ ထိုကျောက်စာမှာ

http://www.dhammadownload.com



ဆားတောင်ကိုရင်ကလေး အရှင်လာဘ ဘဝ အသက် ၈ နှစ် အရွယ်ကတည်းက အမိဋ္ဌာန်ပြုခဲ့သော အဓိဋ္ဌာန်စာတမ်းကြီးကို မပျောက် မပျက်ရအောင် ကျောက်ထက် အက္ခရာ တင်ထားခြင်း ဖြစ်ကြောင်းသိရှိရပါသည်။

**သမုန်းပင်နှင့် သိုက်ပေါင်း ၁၀၉ သိုက်**

ထိုစေတီတော်ကြီး၏ မြောက်ဘက်တွင် အပင်တစ်ပင်ရှိရာ ထိုအပင်မှာ သမုန်းပင်ဟု ခေါ်ဆိုကြကြောင်းသိရှိရပါသည်။ ထိုနေရာသည် စံတော်ရာကုန်း ဘုရင့်သိုက်နေရာဖြစ်ကြောင်း ဦးအောင်မြင့်က ပြောကြားပါသည်။ အသေးစိတ်ကို ဦးလှစိန်က ပြောကြားပါသည်။

**ဘုရင့်သိုက်လည်းပါ**

ကမ္ဘာ့ရွှေရင်အေး ဆရာတော် ဘုရားကြီး၏ မေတ္တာ ရိပ်ကိုခိုလှုံကြသော သိုက်ပေါင်း ၁၀၉ သိုက်ရှိကြောင်း၊ စံတော်ရာကုန်း ဘုရင့်သိုက်မှာ တစ်ခုအပါအဝင် ဖြစ်ကြောင်း သိရှိရပါသည်။

**ဒုတိယမင်းခေါင်နှင့် သိုက်နန်းရှင်များ**

ထိုသို့သော ဒုတိယမင်းခေါင်နှင့် စပ်လျဉ်းသည့် အကြောင်းအရာများကို မကြာမကြာ ကြားသိရရာ ဗဟုသုတအဖြစ် မှတ်သားရပါသည်။

**ဖိတ်ကြားစာမူရင်း**

မဟာမင်္ဂလာဇေယျသိဒ္ဓိ ဘူမိကုန်းတော် သိုက်နန်း ပျော်ရွှင် သိုက်နန်းရှင်များ ဖြစ်ကြပါသော ဘိုးတော် ဘုရားမင်းခေါင်ကို အမှူးထား၍ အခြံအရံ ဝန်ကြီးများ ဖြစ်ကြသည့် ဦးဘိုးထွား၊ ဦးဘိုးမျှား၊ မနန်းခင်၊ မနန်းစော၊ မနန်းပေါ၊ မခင်မြ၊ မခင်လှ၊ ဤကုန်းတော်သိုက်နန်းမှ သိုက်နန်းရှင်တို့ကို အစအဦး အမှူးထား၍ သီရိခေတ္တ သိုက်နန်း တိုက်ကြီးမြို့နယ် သာခုကန် ဂျိုးဖြူသိုက်နန်း၊ ဖျာပုံမြို့နယ် နောက်ပြန်ထိုး မငေးကြီး သိုက်နန်းတို့မှ သိုက်နန်းရှင် မောင်နှမများကြသော ဒေါ်နှင်းလှိုင်၊ ဦးသိပ္ပ၊ စောဝဏ္ဏ၊ စောနန်းခင်၊ စောနန်းကျင်၊ စောသဒိုး၊ ခင်နန်းမူ၊ မသင်းကြိုင် မမူဆာ စသော သိုက်နန်းရှင်မောင်နှမတို့ကို လည်းကောင်း၊ အမြို့မြို့ အနယ်နယ်တွင် ရှိကြသော တစ်ရာ့ရှစ်ကွက် နဝင်းစက်ပန်း သိုက်နန်းပေါင်း (၁၀၈)ဌာနတို့မှ (၈၁) ဦးရှိသော နဝင်းဓာတ်ဝင် သိုက်နန်းရှင်အပေါင်းတို့ကိုလည်းကောင်း၊ နှစ်ထောင်း ရွှင်ပျအခြံအရံတို့နှင့်တကွ ဤမဟာမင်္ဂလာဇေယျသိဒ္ဓိကုန်းတော် မဟာသာသနာတော် မဏ္ဍိုင်ရောင်ဆိုင် အံ့ချီးဖွယ် ဓမ္မသန ပလ္လင်တော် ဤတရားမဏ္ဍပ်တော်ကြီးသို့ တရားတော် နာကြွရောက်ကြပါရန် ဝမ်းမြောက် ဝမ်းသာ စေတနာစိတ်ထားဖြင့် ဖိတ်ကြားလိုက်ပါသတည်း။

> ကျမ်းကိုး။ ဝမ်းမြောက်ဝမ်းသာ ဖိတ်စာဖတ်ကြားခဲ့သော သာသနာ့အလင်းရောင် ဦးဖေမြင့်၏ ရှေးအခါက လှိုက်လှိုက်လှဲလှဲ ဖိတ်ကြားသံကို စိတ်မျက်စိဖြင့် မြင်ယောင်ယောင် ကြားယောင်ယောင် ဖြစ်မိပါသေးသည်။

**ကိုရင်လေး ရွာမှ ထွက်စဉ်က ထွက်သွားသော မြောက်ဘက်မှန်**

ထိုနေရာမှတစ်ဖန် မြောက်ဘက်မုခ်မှ ထွက်၍ နွားစားကျက်များကို လည်းကောင်း၊ လယ်ကွင်းများကိုလည်းကောင်း ကြည့်ရှုကြပါသည်။

**တမာပင်ကြီးမှ နဂါးဦးခေါင်းများထွက်ရှိခြင်း အံ့ဖွယ်**

စကြံတိုက်ကြီး၏ ရှေ့တွင် တမာပင်ကြီးတစ်ပင်ရှိရာ ထိုတမာပင်ကြီးသည် အလွန်ထူးခြားကြောင်း ဓာတ်သိပုဂ္ဂိုလ်များက ပြောဆိုကြပါသည်။ ကျွန်ုပ်တို့ကလည်း စပ်စုသူများပီပီ စပ်စုကြရာ ထိုတမာပင်ကြီးကို နဂါးတမာပင်ဟု ခေါ်ဆိုကြကြောင်း သိရှိရပါသည်။

http://www.dhammadownload.com



**နဂါးတမာပင် ဆေးဖက်ဝင်**

တမာပင်ကြားထဲမှာ နဂါးအမောက်ထောင်သော ပုံသဏ္ဍာန်မျိုး ဟိုနေရာ ဒီနေရာမှ နေရာများစွာထွက်ပေါ်လာခဲ့ရာ အမောက်ထောင်နဂါးနှင့် ခပ်ဆင်ဆင်တူသဖြင့် ဆရာတော်ဘုရားကြီးအား လျှောက်ထားသောအခါ ဆရာတော်ကြီးက နဂါးတမာပင်ဖြစ်ကြောင်း ဆေးဖက်ဝင်ကြောင်း ပြောကြားကြသဖြင့် အရွက်ကအစ အကိုင်းကလေးများအထိ ရရာ ချိုးယူကြသဖြင့် တမာပင်ကြီးကို မထိခိုက်ရန် ခြံခတ်ထားသည်ကို တွေ့ရှိရပါသည်။

**စံတော်ရာကုန်းကို ဝိုင်းထားသော အရပ်လေးမျက်နှာက ရွာများ**

စံတော်ရာကုန်းသို့ အခြေစိုက်၍ တောင် မြေ ယာ လေးမျက်နှာတွင် ရွာကလေးများ အသီးသီး ရှိကြပါသည်။

အနောက်ဘက်တွင် ပင်းတော်ရှိပါသည်။ ၃ မိုင်လောက်ဝေးပါသည်။ အရှေ့ဘက်တွင် အေးသာယာ ရွာရှိပါသည်။ အိမ်ခြေ ၁၅၀ လောက် ရှိသည်ဟု ဆိုပါသည်။ မြောက်ဘက်တွင် တိမ်တီးဟူ၍ ရွာတစ်ရွာ ရှိပါသည်။ အိမ်ခြေ ၅၀၀ လောက် ရှိသည်ဟုဆိုပါသည်။ တောင်ဘက်တွင် ဆားတောင်ရွာဟူ၍ရှိပါသည်။ ဤသို့ သိရပါသည်။

**ဆားတောင်ကိုရင်လေး လမ်းလျှောက်သွားသော နေရာများ**

သာယာကုန်းရွာနှင့် ဆားတောင်ရွာတို့မှာ ၃ ဖာလုံလောက် ဝေးသည်ဟု ဆိုပါသည်။ ထို့ကြောင့် စံတော်ရာကုန်း တွင် တရားအားထုတ်ရန်အတွက် ဆားတောင်ကိုရင်ကလေးသည် ဆားတောင်ရွာမှ ၃ ဖာလုံ လောက်ဝေးသော စံတော်ရာကုန်းသို့ လမ်းလျှောက်၍ လာရပါလိမ့်မည်။

**အဓိဋ္ဌာန်ဝင်ခဲ့သော ရှင်ရဟံသိမ်**

ထို့နောက် စံတော်ရာကုန်းရှိ အရှင်အရဟံသိမ်တွင် အဓိဋ္ဌာန်ဝင်ရပါလိမ့်မည်၊ ဤသို့ဖြင့် ဆားတောင် ကိုရင်ကလေးသည် စံတော်ရာကုန်းဝန်းကျင်တွင် ကျက်စားနေပေလိမ့်မည်ဟု စိတ်မျက်စိဖြင့် ထင်ယောင် မြင်ယောင် ဖြစ်ရပါသည်။

**အပိုင်း (၃)**

**ဆွမ်းမစားတဲ့ ရဟန်းတော်ကလေး အရှင်လာဘာဘဝနှင့် ရန်ကုန်တောင်တောရ အကြောင်း လေ့လာရေး ခရီးစာတမ်း**

အေဒီ ၂၀၀၅ — နောက်တစ်နေ့ ၁၃၆၇ ခုနှစ် သီတင်းကျွတ်လပြည့်ကျော် ၁၄ ရက် လကွယ်နေ့ ၂၀၀၅ ခု အောက်တိုဘာလ ၃၁ ရက် တနင်္လာနေ့တွင် နံနက်စောစောကတည်းကထ၍ တောရိပ်တောင်ရိပ်တို့ကို အရိပ်ခိုကာ ထိုထို ဤဤ လှည့်လည် ကြည့်ရှု ရိုက်ကွင်းရှာကြပါသည်။

**ဦးနေမိန္ဒ၏ မေတ္တာနှင့် စေတနာ**

အေဒီ ၁၉၈၅ — ဦးနေမိန္ဒ၏ လမ်းညွှန်မှု မေတ္တာစေတနာကိုသာ မရရှိလျှင်ထိုနေ့က လုပ်ငန်းတို့သည် ပြီးနိုင်စရာ အကြောင်းမရှိပါ။

**နှစ်ပေါင်း ၂၀ ကျော် ရွှေဗျိုင်းနား ဆရာတော်က ပညာအမွေပေးခဲ့**

ဦးနေမိန္ဒသည် ရတနာ မာရ်အောင်တောရတွင် စာချကိုယ်တော် အဖြစ် ရတနာမာရ်အောင် ကမ္ဘာ့ရွှေရင်အေး ဆရာတော်ဘုရားကြီးကိုယ်စား စာချတရားပြ တရားဟောခမ္မ ကထိက စာချဘဝနှင့် နှစ်ပေါင်း ၂၀ ကျော်ခဲ့ပြီဟု သိရပါသည်။ တည်ငြိမ်သော ဣန္ဒြေရှိ၍ ကြည်ညို ဖွယ်ရာ တောရကိုယ်တော် ဖြစ်ပါသည်။

**နောင်သောအခါ ဆားတောင် ရာပြည့်ကျောင်းတော်ကြီး၏ ပဓာန နာယက ဖြစ်လာမည့် ရွှေဗျိုင်းနား ဆရာတော်ကိုယ်စားဖြစ်သော ဦးဣဒ္ဓိမန္တကိုယ်တော်ကြီး ဖျာပုံသို့ ကြွနေသဖြင့် မတွေ့ခဲ့ရ၊**

http://www.dhammadownload.com



ကျွန်ုပ်တို့ အထူးလေးစား အားထားသော ဦးဣန္ဒိမန္တကိုယ်တော်ကြီး ဖျာပုံသို့ကထိန်ပွဲကြွနေသဖြင့်မရှိသော်လည်း အားမငယ်ပါနှင့်ဟု ဦးနေမိန္ဒက အကြိမ်ကြိမ် အားပေးကာ နှုတ်ဖြင့်သာမက ကိုယ်တိုင်လည်း အပင်ပန်းခံကာ ကူညီတော်မူသဖြင့် သက်တော်ရှည်ရာပြည့် တစ်ကမ္ဘာလုံး အေးစေမည့် ကမ္ဘာ့ရွှေရင်အေးဆရာတော်ကြီး၏ မဟာထေရုပ္ပတ္တိကထာကြီးမှာ အောင်ရိပ် အောင်နိမိတ်တို့ဖြင့် အဆင်ပြေလျက်ရှိပါတော့သည်။ ဦးဣန္ဒိမန္တကိုယ်တော်ကြီးသည် ဖျာပုံသားဖြစ်၏။ ဖခမည်းတော်ကလည်း ရဟန်းဝိဇ္ဇာကြီး ဖြစ်၏။ ဖျာပုံမှာပင် ရှိ၏။

**ရာပြည့်ကျောင်းတော်ကြီးတာဝန်ခံ**

ဦးဣန္ဒိမန္တ သည် ယခုအခါ ရွှေဖျိုင်းနားဆရာတော်ကြီး ဦးဝိဇ္ဇာပလ၏ တာဝန်ပေးအပ်ချက်အရ ပျော်ဘွယ် ရွှေဖျိုင်းနား ရာပြည့်ကျောင်းတော်ကြီး၏ ပဓာန နာယကကြီး ဖြစ်၍နေချေပြီ။

**တက္ကသိုလ်ကျောင်းတော်ကြီးထွက် ရဟန်းဝိဇ္ဇာ**

ထိုဦးဣန္ဒိမန္တ ကိုယ်တော်ကြီးမှာ တက္ကသိုလ်ကျောင်းထွက်ကြီး ဖြစ်၏။ တက္ကသိုလ်မှာ ဘီအက်စီဘွဲ့ကို ဓာတုဗေဒ အသုံးချအထူးဖြင့် အောင်မြင်ပြီးနောက် ဘုန်းကြီးဝတ်သွားသော ကိုယ်တော်ကြီး ဖြစ်၏။

**ကျွန်ုပ်တက္ကသိုလ်ဆရာဖြစ်စဉ်က တက္ကသိုလ်ကျောင်းသားများ**

တက္ကသိုလ်ကျောင်းတွင် ကျွန်ုပ်ရှိစဉ်က ကျွန်ုပ်၏ ကျောင်းသားကြီးများ ဖြစ်ကြ၏။ သူတို့အဖွဲ့ကို ကျွန်ုပ်ကောင်းစွာ မှတ်မိ၏။ တစ်ဦးမှာ ကိုစိုးဝင်းဆိုသူ ဖြစ်၏။ တစ်ဦးမှာ ကိုအောင်မင်းဆိုသူဖြစ်၏။ အခြားတစ်ဦးမှာ ယခု ပျော်ဘွယ် ရွှေဖျိုင်းနား ရာပြည့်ကျောင်းတော်ကြီး ပဓာန နာယကဖြစ်၏။ ကိုယ့်တပည့် ဖြစ်ခဲ့သော်လည်း ကိုယ့်ထက် ဘုန်းကြီး၏။ ထို့ကြောင့် တွေ့တိုင်း ကန်တော့ရ၏။ ဦးဣန္ဒိမန္တကား တွေ့တိုင်း တွေ့တိုင်းမှာပင် တစ်ခါတုန်းက တက္ကသိုလ်ကျောင်းကို ပြန်၍ ပြန်၍ ပြောနေပါတော့သည်။ ဦးဣန္ဒိမန္တ (B.Sc, I.C)ကား ယခုအခါ ပျော်ဘွယ် ဆားတောင် ရာပြည့် ရွှေကျောင်းတော်ကြီး၏ ပဓာနနာယက ကျောင်းထိုင်ဆရာတော်ကြီး အဖြစ် ရွှေဖျိုင်းနား ဆရာတော်ကြီးကိုယ်တိုင် ခန့်အပ်တော်မူခဲ့ပါသည်။

**အရှင်လာဘ တရားအားထုတ်ခဲ့သော နေရာက သစ်ပင်များ**

ရဟန်းတော်ကလေး အရှင်လာဘတရားအားထုတ်ခဲ့သော ရန်ကုန်တောင် တောရကျောင်းသို့လည်း ဦးနေမိန္ဒ လမ်းညွှန်မှုဖြင့် ရောက်ရှိခဲ့ပါသည်။ ဦးနေမိန္ဒ ကိုယ်တိုင်ပါသဖြင့် အစစအဆင်ပြေပါသည်။ ထိုခရီးသည် ဦးနေမိန္ဒနှင့် ဦးစိန်ရတို့သာ မပါလျှင် စိုပြည်လိမ့်မည် မဟုတ်ပါ။

**ရန်ကုန်တောင်ဟု အဘယ်ကြောင့်ခေါ်**

အေဒီ ၁၉၂၇ ရန်ကုန်တောင်တောရသည် ရဟန်းတော်ကလေး အရှင်လာဘသည် ရဟန်းဖြစ်စ သုံးလမျှရှိသေးစဉ်ကာလက ရောက်ရှိတော်မူခဲ့သော နေရာဖြစ်ပါသည်။ အချို့ကလည်း ရန်ကုန်က ကိုယ်တော်ကလေး ကြွလာသဖြင့် ရန်ကုန်တောင်ဟု ခေါ်ကြောင်း ပြောကြပါသေးသည်။

**ဆွမ်းမစားတဲ့ ရဟန်းတော်ကလေး ရန်ကုန်တောင်ရောက်သောနေ့**

အေဒီ ၁၉၂၇ ရန်ကုန်တောင်သို့ ဆွမ်းမစားတဲ့ ရဟန်းတော်ကလေး ရောက်ရှိလာသောနေ့မှာ ၁၂၈၉ ခု တပေါင်းလပြည့်ကျော် ၂ ရက် ဗုဒ္ဓဟူးနေ့ ဖြစ်ကြောင်း သိရပါသည်။

**သီလရှင် ဆရာကြီး ဒေါ်နာဂီရှာပုံတော်**

ရန်ကုန်တောင်သို့ ရောက်ရှိခြင်းမှာ သီလရှင်ဆရာကြီး ဒေါ်နာဂီ၏ ပင့်ဖိတ်ချက်အရသာ ဖြစ်ကြောင်း သိရပါသည်။ ထိုတောင်ကို ရန်ကုန်က သီလရှင်ဆရာကြီးဒေါ်နာဂီ စတင်

http://www.dhammadownload.com



တည်ထောင်သည့် တောင်ဖြစ်သောကြောင့် ရန်ကုန်တောင်ဟူ၍ လည်းကောင်း၊ ရန်ကုန်တောင် တောရဟူ၍လည်းကောင်း ယနေ့တိုင် အမည်တွင်နေခြင်း ဖြစ်ပါသည်။ ထိုချောင်ကို ဒေါ်နာဂီ တရားအားထုတ်နေနိုင်ရန် သာယာဝတီ မြို့ ဝန်ထောက်မင်း ဦးမြင့်၊ မင်းကတော် ဒေါ်မြကြီးတို့က ဇရပ်တစ်ဆောင်လည်း ဆောက်လုပ်လှူဒါန်းခဲ့ပေသည်ဟု သိရပါသည်။

**ရန်ကုန်တောရ သမိုင်းအစ ဒေါ်နာဂီက**

အေဒီ ၁၉၂၇ — သီလရှင်ဆရာကြီး ဒေါ်နာဂီသည် ကျိုက်ဝိုင်းဘုရားအနီးရှိ ဇရပ်တွင်နေထိုင်သည့် အချိန်အခါတွင် ရဟန်းတော်ကလေး အရှင်လာဘနှင့် ဖူးတွေ့ခွင့်ရခြင်း ဖြစ်ပါသည်။

**ရန်ကုန်ရွှေတိဂုံ တဝဂူတွင် အဓိဋ္ဌာန်အောင်ခဲ့ခြင်း**

ရဟန်းတော် ကလေး အရှင်လာဘသည် ၁၂၈၉ ခုနှစ် နတ်တော် လပြည့်ကျော် ၉ ရက်နေ့မှစ၍ ၄၉ ရက်တိုင်တိုင် ရွှေတိဂုံဘုရား တနင်္ဂနွေထောင့်ရှိ တဝဂူတွင် ခေတ္တသီတင်းသုံးရင်း အဓိဋ္ဌာန်ဝင် ခြင်း ဖြစ်ပေသည်။

**ဘုရင်ခံ ကြွရောက်သောနေ့ ပြည်မြို့သို့ ကြွရောက်ခြင်း**

ထိုနေ့တွင် တိုက်တိုက်ဆိုင်ဆိုင်အားဖြင့် ထူးခြားမှုတစ်ခုမှာ မြန်မာပြည်သို့ ဘုရင်ခံကြွရောက်လာသည်ဖြစ်၍ အမြောက်များပစ်ဖောက် ကြိုဆိုသောနေ့ဖြစ်သဖြင့် ညအခါ၌လည်း မီးရှူးမီးပန်းများ ပစ်လွှတ်ကြသောနေ့ ဖြစ်သောကြောင့် ဖြစ်ပါသည်။ ထိုညက ည ၁၀ နာရီအချိန်လောက်တွင် ရန်ကုန်တွင် မြေငလျင်လှုပ်ခဲ့ပါသည်။ ထိုနေ့မှစ၍ အရှင်လာဘ အဓိဋ္ဌာန်စ၍ ဝင်ခဲ့ပါသည်။

**ပဲခူးစရိုး အဓိဋ္ဌာန်နှင့် ဓမ္မစေတီမင်း၏ ရေစင်တော်**

အေဒီ ၁၉၂၇ — အဓိဋ္ဌာန်အောင်သောအခါ ပဲခူးရွှေမော်ဓောဆံတော်ရှင်သို့ကြွရောက်ပြီး ၂၄ ရက် အဓိဋ္ဌာန်ဝင်ခဲ့ပါသည်။

အေဒီ ၁၉၂၇ — ၁၂၈၉ ခု တပို့တွဲလဆန်း ၁၄ ရက်နေ့မှ စပြီး တပေါင်းလဆန်း ၁၀ ရက်နေ့အထိ ဖြစ်ပါသည်။ ၂၄ ရက် အဓိဋ္ဌာန်အောင်သောအခါ ပဲခူးဓမ္မစေတီမင်းက ရေစင်ဆက်သခဲ့ပါသည်။ ထိုသို့ ရေစင်ဆက်နေသည့် ပုံတော်ကို ပြည်မြို့ ဓမ္မစကြာ အဆောင်ကြီးတွင် ပန်းချီကားကြီး ရေးဆွဲထားသည်ကို လေ့လာတွေ့ရှိနိုင်ပါသည်။

**စမ်းကြီးတောရ အဓိဋ္ဌာန်**

အေဒီ ၁၉၂၇ — ၎င်းနောက် ၁၂၈၉ ခု တပေါင်းလဆန်း ၁၀ ရက်နေ့တွင်ပင် စမ်းကြီးတောရသို့ ရဟန်းတော်ကလေး ကြွတော်မူပြီး ၃ ရက်ကြာမျှ တရားအားထုတ်ခဲ့ပါသည်။ စမ်းကြီးတောရဆရာတော်၏ မေတ္တာဓမ္မသြဝါဒကို ခံယူခဲ့ပါသည်။

**ရွှေတိဂုံအဓိဋ္ဌာန်**

အေဒီ ၁၉၂၇ — ထို့နောက် ထို ၁၂၈၉ ခု တပေါင်းလဆန်း ၁၃ ရက်နေ့တွင် ရန်ကုန်မြို့သို့ ပြန်ကြွလာပြီး ရွှေတိဂုံကုန်းတော်ပေါ်တွင် တဝဂူဘုရား၌ ခေတ္တမျှ သီတင်းသုံးတော်မူခဲ့ပါသည်။

**ရန်ကုန်တောင်ရောက်သောနေ့**

အေဒီ ၁၉၂၇ — ထို့ကြောင့် ရန်ကုန်တောင်တောရသို့ ရဟန်းတော်ကလေး အရှင်လာဘကြွသောနေ့မှာ ၁၂၈၉ ခု တပေါင်း လပြည့်ကျော် ၂ ရက် ဗုဒ္ဓဟူးနေ့ဖြစ်ကြောင်း အတိအကျ ဖြစ်ရပါသည်။

**ရန်ကုန်တောင်တောရ**

ရန်ကုန်တောင်၏အနီးတွင် သာဝတ္ထိတောင်ဟူ၍ ရှိ၏။ ထိုသာဝတ္ထိတောင်တွင် သာဝတ္ထိတောရကျောင်းဟူ၍ ယနေ့တိုင် တွေ့မြင်နိုင်သေးရာ ရှေးအခါက ရန်ကုန်တောင်တောရတွင်

http://www.dhammadownload.com



သီတင်းသုံးသဖြင့် ရန်ကုန်တောင် ဆရာတော်ဖြစ်ခဲ့သော ရဟန်းတော်ကလေး အရှင်လာဘ ရှိစဉ်ကတည်းက ထိုသာဝတ္ထိတောရကျောင်းသည်လည်း ရန်ကုန်တောင်တောရနှင့် တစ်ဆက်တည်းဖြစ်၍ အတူတူပင် ဖြစ်လေသည်။

**ဒေါ်နာဂ ကျောင်းဟောင်း**

ထိုနေရာတွင် သီလရှင်ဆရာကြီး ဒေါ်နာဂနေခဲ့သောနေရာဖြစ်၍ ကျောင်းဟောင်း၊ သိမ်ဟောင်း ဇရပ်ဟောင်း များကို မှတ်တမ်းတင်ရိုက်ကူးရပေသည်။ အရေးပိုင် ဦးဘဖိုး စတင်လှူဒါန်းခဲ့၍ အရေးပိုင်အိုင်စီအက်စ် ဦးတင်ထွဋ် ဆက်လက်တည်ထားခဲ့သော မင်္ဂလာသိမ်တော်ကိုလည်း ယနေ့တိုင် သက်သေထင်ရှားတွေ့နိုင်ပါသေးသည်။

**ရှေးက လက်ကျန် သစ်ပင်ကြီးများနှင့်**

**မျက်နှာဖြူ လူမျိုးခရိုင်ရဲဝန် ရှာပုံတော်နှင့် အမောက်နီနီမြွေကလေး**

ထိုနေရာတွင် ဆွမ်းမစားတဲ့ ဆားတောင်ကိုရင်ကလေးဘဝမှ မြင့်မြတ်သော ရဟန်းဘဝသို့ ရောက်ရှိခဲ့သော ဆွမ်းမစားတဲ့ ရဟန်းတော် အရှင်လာဘ သီတင်းသုံးခဲ့သောနေရာများ တရားအားထုတ်ခဲ့သော အပင်ကြီးများလည်း ရှိနေပေရာ ကျွန်ုပ်တို့တစ်စုမှာ လိုက်လံမှတ်သားမှတ်တမ်းတင်ရပါသည်။ အမောက်နီနီနှင့် မြွေက ဘယ်နေရာတွေ့တာလဲ ဟူ၍လည်းကောင်း၊ နိုင်ငံရေးနှင့် ပတ်သက်လေပါလားဟု အစိုးရိမ်ကြီးသော နယ်ချဲ့တို့က ပန်ချာပီစစ်တပ်ကြီး လွှတ်၍ ရန်ကုန်တောင်ကြီးကို စစ်တပ်နှင့် ဝိုင်းထားပုံတို့ကိုလည်းကောင်း၊ ပြည်မြို့ ခရိုင်ရဲဝန်ကြီး မျက်နှာဖြူလူမျိုး မစ္စတာဂျပ် ကိုယ်တိုင်ကြီးကြပ်၍ ပန်ချာပီပုလိပ်တို့ဖြင့် တစ်နာရီလျှင် တစ်ကြိမ် တပ်ကိုလဲ၍ စုံထောက်ဆန်ဆန် စုံထောက်ခဲ့ပုံများမှာ ထိုခေတ်ကဆားပုလင်းများကို ပြန်လည် သတိရစေပါတော့သည်။

**ယနေ့ ရန်ကုန်တောင်**

ရန်ကုန်တောင်တွင် ယခုအခါ ကိုရင်ကလေးနှစ်ပါးရှိ၏။ သီလရှင် နှစ်ပါး ရှိ၏။ တစ်ပါးမှာ အဘွားအိုဖြစ်၏။ ရန်ကုန်တောင်တွင် ဆရာတော်တရားအားထုတ်သော ကမ္မဋ္ဌာန်း အုတ်ဂူများကို ယနေ့တိုင် တွေ့ရပါသေးသည်။ ကမ္မဋ္ဌာန်းအုတ်ဂူနှစ်ခုရှိ ကြောင်းသိရပါသည်။ ပထမ အုတ်ဂူမှာ ဦးသာညွှန်း ဒေါ်ဆိုင်၊ ဦးထွန်းလှ ဒေါ်ထုံးတို့ လှူဒါန်းသော အုတ်ဂူဖြစ်ကြောင်း သိရှိရပါသည်။

**လက်ကျန်ကမ္မဋ္ဌာန်းအုတ်ဂူများ**

အခြားအုတ်ဂူတစ်ခုမှာ ပထမမူလ ကမ္မဋ္ဌာန်းအုတ်ဂူအနီးတွင်ပင် ဖြစ်လေသည်။ တောင်စွယ်တောင်လက်မောင်းကလေးပေါ်တွင် တည်ရှိလေသည်။ ဒုတိယအုတ်ဂူကို လှူဒါန်းသူမှာ အရေးပိုင်ဦးဘဖိုး ဖြစ်လေသည်။

**စာရေးဆရာကြီး ဒဂုန်ရွှေမျှားကောင်းမှု**

ထိုအုတ်ဂူနှစ်လုံးစလုံးမှာ ယခုအခါ တံခါးများ ပျက်စီး၍ အလွန်ဟောင်းနွမ်းလျက် ရှိနေကြောင်း သိရပါသည်။ ရှေးအခါက ထိုကမ္မဋ္ဌာန်းအုတ်ဂူများကို စာရေးဆရာကြီး ဒဂုန်ရွှေမျှားက ထပ်မံပြုပြင်ခဲ့သေးကြောင်း သိရပါသည်။

**တရားထိုင်ခဲ့သည့် အင်ပင်ကြီး**

ရန်ကုန်တောင်သည် တောရိပ် တောင်ရိပ်များကြားဝယ် သဘာဝ လိုဏ်ဂူငယ်ကလေးများဖြင့် ပြည့်နှက်လျက် ရှိပေသည်၊ ရဟန်းတော်ကလေး အရှင်လာဘသည် ရန်ကုန်တောင်ရှိ အင်ပင်ကြီးများ အရင်း၌သာ နေလေ့ရှိပေသည်။ ညအခါမှာလည်း ကျိန်းစက်ခြင်း မရှိပေ။

http://www.dhammadownload.com



**နေ့အခါ တံခါးပိတ် ညအခါ သစ်ပင်အောက်**

နေ့အခါတွင်လည်း ကျောင်းပေါ်မှာရှိသော်လည်း တံခါးပိတ်ခါသာ နေလေ့ရှိကြောင်း၊ ညအခါတွင်လည်း တောင်စောင်း၊ ချောက်ကြားနှင့် သစ်ပင်အောက်များ၌သာ တရားအားထုတ်လေ့ရှိကြောင်း သိရပါသည်။

**ဆွမ်းမစားတဲ့ ကိုရင်လေး နာမည်ကျော်လွှင်း၍ လာဖူးသူများ**

**ဖူးခွင့်မရ၍ ရေချိုး ချိန်ကို စောင့်ဖူးကြရ**

မည်သူမျှ ကျောင်းပေါ်သို့ တက်၍ ဖူးခွင့် မပြုချေ။ ထို့ကြောင့် ဖူးမြော်လို သူတို့သည် ရေချိုးသော အခါကိုသာစောင့်၍ ဖူးကြရကြောင်း သိရပါသည်။

**ကျားတွေ ကျက်စားတဲ့နေရာ**

ယနေ့ ရတနာမာရ်အောင် တောရကျောင်းတိုက်ကြီးသည် ခမ်းခမ်းနားနား ခန့်ခန့်ထည်ထည် ထည်ထည်ဝါဝါ ရှိနေပါသည်။ အားလုံးကလည်း သိနေကြပါသည်။

ရှေးအခါကမူကား တောတောင်ထူထပ်သဖြင့် ကျားသစ်များပင် ခိုအောင်းသောနေရာ ဖြစ်ပါသည်။ မြို့ထဲမှ လာသူများမှာ လှည်းများဖြင့် ခဲယဉ်းစွာလာကြရပါသည်။ ထို့ကြောင့် ရန်ကုန်တောင်တောရ သာဝတ္ထိတောရတို့သို့ သွားမည်ဆိုလျှင်ကား စဉ်းစားသာကြည့်ကြပါတော့ အဘယ်လောက်ခက်ခဲ နေလိမ့်ပါမည်နည်း။

**ကိုယ့်ထမင်းကိုယ်စား စုံထောက်လုပ်သူများ**

ထိုနေရာသို့ တကူးတကလာကြရသည်။ စိတ်မာန်တင်း၍ လာကြရသည်။ ရန်ကုန်တောင်တောရတွင် သီတင်းသုံးသော ဆွမ်းမစားတဲ့ ရဟန်းတော် အရှင်လာဘကို စုံထောက်လုပ်ကြရသူများမှာလည်း တာဝန်မသေးလှကြောင်း ခန့်မှန်းနိုင်ပါသည်။

**စုံထောက်များ ပုလိပ်များ ဖြစ်ရပ်မှန်တွေ့ရ**

ကျေနပ်လောက်အောင် စုံစမ်းပြီးသောအခါ ထင်သလိုမဟုတ်ဘဲ ကြည်ညိုဖွယ်ရာကောင်းသော ဖြစ်ရပ်မှန်များကို သိရှိရသောအခါမှာလည်း ထိုစုံထောက်များသည်ပင်လျှင် မယုံကြည်နိုင်လောက်အောင် ပြောင်းလဲကာ ယုံကြည်လာကြပြန်ပေသည်။

**အိုင်စီအက်စ် မိုးကျရွှေကိုယ် ဦးတင်ထွဋ် ဖြစ်ရပ်သိ၍ လာဖူး**

ဤသို့ဖြင့်ယုံသူတို့ အဆင့်ဆင့်ပြောကြားကြသဖြင့် သိပ္ပံပညာ လေ့လာ၍ ခေတ်ပညာတတ်ကြီးဟု ဟိုးဟိုးကျော်ခဲ့သော အိုင်စီအက်စ် မိုးကျရွှေကိုယ် ဦးတင်ထွဋ်ကဲ့သို့သော ပုဂ္ဂိုလ်ကြီးများပင် လျှင် ဆွမ်းမစားတဲ့ ရဟန်းတော် အရှင်လာဘကို လာရောက်ဖူးမြော်ရလေသည်။

**နာမည်ကြီး ICS ဦးတင်ထွဋ် ကောင်းမှု**

မိမိဖူးရသည်ကိုပင် မကျေနပ်နိုင်သေးပဲ မိမိအထက်က ပုဂ္ဂိုလ်ကြီးများဖြစ်သော တရားဝန်ကြီးချုပ် ဆာမြဘူးကိုပင်လျှင် ခေါ်ဆောင်လာပေသေးသည်။ ဤသို့သောတစ်ဖြစ်လဲ အိုင်စီအက်စ် ဦးတင်ထွဋ်၏ ပုံရိပ်များကိုလည်း သူ၏ ကောင်းမှုဖြစ်သော မင်္ဂလာသိမ်တော်ကြီးက ယနေ့တိုင် သက်သေခံလျက်ရှိပါသေးသည်။

**တရားဝန်ကြီးချုပ် ဆာမြဘူး လာရောက်သော နေရာ**

ဤတွင် ဆွမ်းမစားတဲ့ ရဟန်းတော်ကလေးကို ဖူးမြော်ရန်အတွက် တရားဝန်ကြီးချုပ် ဆာမြဘူး ကိုယ်တိုင်ပင်လျှင် တရားအားထုတ်နေသော ကိုယ်တော်ကလေးကို မနှောင့်ယှက်လိုသဖြင့် အနှောင့်အယှက် မဖြစ်ရအောင် ချင့်ချိန်လျက် ကိုယ်တိုင်အဆင်ပြေသည့်အချိန်မှာ မဖူးဘဲ ကိုယ်တော်ကလေး အဆင်ပြေသည့်အချိန်ကို သာစောင့်၍ဖူးခဲ့ကြရကြောင်း သိရပါသည်။

http://www.dhammadownload.com



ဤသည်မှာလည်း ထိုပုဂ္ဂိုလ်ကြီးများ၏ မြင့်မြတ်သော စိတ်ထားဖြစ်ကြောင်း အကဲခတ် နိုင်ပါသည်။ ထိုနေရာတွင် ထိုအတိတ် ဓာတ်လမ်းများရှိခဲ့သည်ကို စဉ်းစားမိသည်မှာ ယနေ့တိုင် တောတောင် အုံ့မှိုင်းဝေဆိုင်းလျက် ရှိနေသေးသော ရန်ကုန်တောင်၏ သံလိုက်ဓာတ်များ စွမ်းပကားများကြောင့် ဖြစ်ပါတော့သည်။

**အပိုင်း(၄)**

**ရတနာမာရ်အောင်တောရတည်ထောင်ခြင်းနှင့် ဦးဝိဇ္ဇာဗလ ဘဝမှတစ်ဆင့် ကမ္ဘာ့ရွှေရင်အေး ဆရာတော်ကြီးဘဝသို့ ရောက်ရှိခြင်းအကြောင်း လေ့လာရေးခရီး မှတ်စုစာတမ်း**

ထိုရတနာမာရ်အောင်တောတွင် ဆွမ်းမစားတဲ့ဆားတောင် ရဟန်းတော်ကလေးသည် ရတနာမာရ်အောင် ကျောင်းတိုက်ကြီးကိုတည်ထောင်လျက် ရတနာမာရ်အောင်ဆရာတော် ဟူ၍ ဖြစ်လာခဲ့ပေသည်။

**အရှင်လာဘသည် ရတနာမာရ်အောင်ဆရာတော်ဖြစ်လာ**

အေဒီ ၁၉၃၈ ထိုစဉ်ကအရှင်လာဘသည် ယနေ့ရတနာမာရ်အောင်ဆရာတော် ဖြစ်လာ၏။ ထိုစဉ်က သက်တော် ၃၀ မျှသာ ရှိသေး၏။

**နောင်အခါ ကမ္ဘာ့ရွှေရင်အေး ဆရာတော်ဖြစ်လာ**

အေဒီ ၂၀၀၅ နောက်ထပ် နှစ်ပေါင်း ၇၀ကြာသောအခါ သက်တော်ရာပြည့် ရတနာမာရ်အောင် ဆရာတော် ဖြစ်လာပြန်ပေသည်။ သက်တော်ရှည်၍သာ ရာပြည့်မှတ်တမ်း မော်ကွန်းပြုနိုင်ပေသည်။ ငယ်ငယ်ရွယ်ရွယ်နှင့် ပျံလွန်တော်မူသွားခဲ့ပါလျှင် ဤရွှေ ဤမျှ ဋီကာချဲ့စရာအကြောင်း မရှိပါ။

**ယနေ့ ရတနာမာရ်အောင် လေ့လာချက်**

ယနေ့ရတနာမာရ်အောင်ကျောင်းတိုက်တွင် သံဃာတော် ၆၀ မျှရှိကြောင်း၊ သီလရှင်ပေါင်း ၁၂၀ ကျော်မျှ ရှိကြောင်းသိရပါသည်။ ဝေယျာဝစ္စအကျိုးတော်ဆောင်ကြီး ဦးစိန်ရကို မေးမြန်း၍ သိရှိရသည်မှာ ဝေယျာဝစ္စ ဆောင်ရွက်သော ရဟန်းတော် ၅ ပါးရှိကြောင်း သိရပါသည်။ ၎င်းတို့မှာ ဦးသုန္ဒရ၊ ဦးတေဇ၊ ဦးအာစရ၊ ဦးဇောတိက၊ ဦးသုစိတ္တတို့ဖြစ်ကြောင်း သိရပါသည်။ ဆွမ်းချက် ဆွမ်းကပ်သူမှာ ဒေါ်အေးအေး ဖြစ်ကြောင်း သိရပါသည်။

**သက်တော် ရာပြည့်ရုပ်ရှင် မော်ကွန်း**

ရတနာမာရ်အောင် ကမ္ဘာ့ရွှေရင်အေး ဆရာတော်ဘုရားကြီးကို ဝင်ရောက် ဖူးမြော်ကန်တော့၍ သက်တော်ရာပြည့်မဟာထေရုပ္ပတ္တိရုပ်ပုံလွှာ ရုပ်ရှင်မော်ကွန်းတင် ရိုက်ကူးပူဇော်မည်ဖြစ်ကြောင်းလည်းကောင်း၊ သက်တော်ရာပြည့် မဟာရုပ်ပုံလွှာ စာအုပ်ကိုလည်း၊ ပူဇော်ထုတ်ဝေမည် ဖြစ်ကြောင်း၊ လျှောက်ထားကြရာ ဆရာတော်ကြီးက ပြုံးပြုံးရွှင်ရွှင်နှင့်ပင် ခွင့်ပြုတော်မူသဖြင့် ပူဇော်သူ တပည့်တစ်စုတို့မှာ ကမ္ဘာ့ရွှေရင်အေးအတွက် ရင်အေးရပါတော့သည်။

**ဓာတ်ပုံအဆောက်အအုံများ ရှာဖွေခြင်း**

ကမ္ဘာ့ရွှေရင်အေးဆရာတော်ကြီးသည် မိမိသီတင်းသုံးတော်မူသော ဓာတ်တော်တိုက်ကျောင်း အပေါ်ထပ်သို့ တက်ခိုင်းသဖြင့် တက်ရောက်ခဲ့ရာ နှစ်ပေါင်းတစ်ရာကျော်အတွင်း မှတ်တမ်းများကို ထိုနေရာ တစ်ထိုင်တည်းမှာပင် ရရှိနိုင်သည်ဟု အံ့သြရပါတော့သည်။

**တောင်ပုလုဆရာတော်နှင့်အတူ**

တောင်ပုလု ဆရာတော်ကြီးနှင့် ကမ္ဘာ့ရွှေရင်အေးဆရာတော်ကြီးတို့ အတူတကွ ရိုက်ကူးထားသော ဓာတ်ပုံကိုလည်း ဖူးမြော်ရပါသည်။

http://www.dhammadownload.com



**ရွှေဥဒေါင်းတောင် ဆရာတော်ကြီးနှင့်အတူ**

ၤင်းအပြင် ရှမ်းပြည်နယ်က ရွှေဥဒေါင်းတောင် ဆရာတော်ကြီးနှင့် ကမ္ဘာ့ရွှေရင်အေး ဆရာတော်ကြီးတို့အတူတကွ ရိုက်ကူးထားသော ဓာတ်ပုံကိုလည်း ဖူးမြော်ရပါသည်။

**ဆရာ့ ဆရာများဓာတ်ပုံ ဓမ္မိကာဆရာတော် ဘဒ္ဒန္တဝိဇယ**

ထိုဓာတ်ပုံထဲတွင် အထူးမှတ်တမ်းတင်ရမည့်ပုံမှာ ဓမ္မိကာဆရာတော် ဘဒ္ဒန္တဝိဇယ ဆရာတော်ကြီး၏ ပုံတော်ဖြစ်ပါသည်။ ထိုဆရာတော်ကြီးမှာ ရတနာမာရ်အောင်ဆရာတော် ကိုယ်တိုင် ဝန်ခံပြောဆိုသော ဆရာတော် ၃၇ ပါးတွင် တစ်ပါးအပါအဝင် ဖြစ်ကြောင်းသိရပါသည်။ ထိုဆရာတော်ဘုရားကြီးထံမှာ သုတ္တန်ဝိနည်းများ လေ့လာခဲ့ရကြောင်း သိရှိရပါသည်။ ထိုဆရာတော်သည် သက်တော် ၁၀၂ နှစ်မှာ ခန္ဓာဝန်ချတော်မူကြောင်း သိရပါသည်။ ရတနာမာရ်အောင်ဆရာတော်ကိုယ်တော်တိုင် ဝါဝင်ဝါထွက် အမြဲကန်တော့တော်မူကြောင်း သိရှိရပါသည်။

**ရှားပါး၍ တွေ့ရခဲသော ရတနာမာရ်အောင်မယ်တော် ဓာတ်ပုံ**

ဓာတ်ပုံများထဲတွင် အရေးကြီးသော ပုံတစ်ပုံမှာ ရတနာမာရ်အောင် ဆရာတော်ကြီး၏ မယ်တော် ဓာတ်ပုံ ဖြစ်ပါသည်။ မယ်တော်၏ အမည်မှာ ဒေါ်မလေး ဖြစ်ကြောင်း သိရပါသည်။

**မိခင်ကို့ ကိုယ်တိုင် သင်္ဂြိုလ်ခဲ့ရ**

အေဒီ ၁၉၃၈ — ဒေါ်မလေး သည် ၁၃၀၀ ပြည့်နှစ် တပေါင်းလဆန်း ၇ရက် သောကြာနေ့တွင် ဘဝတစ်ပါးသို့ ပြောင်းရွှေ့သွားကြောင်း သိရပါသည်။ မယ်တော်ပျံကို စည်ကားသိုက်မြိုက်စွာဖြစ်အောင် ရတနာ မာရ်အောင် ဆရာတော်ကြီး ကိုယ်တိုင်ကြီးကြပ် သင်္ဂြိုဟ်တော်မူခဲ့ကြောင်း သိရပါသည်။ ဖခည်း တော် ဦးကြက်တောင်၏ ဓာတ်ပုံကိုကား ရှာ၍ မတွေ့ခဲ့ပါ။

**ဖခင် ဦးကြက်တောင် ပျဉ်းမနားမှာ ဘဝပြောင်း**

အေဒီ ၁၉၃၄ — ဖခင် ဦးကြက်တောင်သည် ၁၂၉၆ ခု တော်သလင်းလတွင် ပျဉ်းမနားမြို့၌ ဘဝတစ်ပါး သို့ ပြောင်းရွှေ့သွားကြောင်း သိရပါသည်။

**ထိုစဉ်က သက်တော် ၂၆ နှစ်**

အေဒီ ၁၉၃၄ — ထိုစဉ်က ရတနာမာရ်အောင်ဆရာတော်မှာ သက်တော် ၂၆ နှစ်မျှသာရှိသေးသောအချိန် ဖြစ်ပါ သည်။ ထိုအချိန်က ဆရာတော်ဘုရားကြီး တော အထပ်ထပ် တောင်အထပ်ထပ်သို့ လှည့်လည် ကာ အဓိဋ္ဌာန်ဝင်နေခိုက် ဖြစ်သဖြင့် ကိုယ်တော်တိုင် သင်္ဂြိုဟ်ခြင်း မပြုခဲ့ရကြောင်း သိရပါသည်။

**ဆွေတော် မျိုးတော်များရှာဖွေတွေ့ရှိချက်**

ဆရာတော်ကြီး၏ နောင်တော် ဦးရေချမ်းဆိုသူမှာလည်း နောင်သောအခါ ရဟန်းဝတ်ပြီးလျှင် ရတနာမာရ်အောင်ကျောင်းတိုက်မှာပင် သီတင်းသုံးတော်မူခဲ့ပါသည်။

**နောင်တော်ကြီးဖြစ်သူက ဦးဝါသဝဖြစ်လာ**

အေဒီ ၁၉၇၈ — ဘွဲ့တော်မှာ ဦးဝါသဝ ဖြစ်ကြောင်း ၁၃၄၀ ပြည့်နှစ်နှောင်း တန်ခူးလဆန်း ၁၂ ရက်နေ့တွင် ပျံလွန်တော်မူကြောင်း သိရပါသည်။

**နှမဖြစ်သူက သီလရှင်ဝတ်**

ရတနာမာရ်အောင်ဆရာတော်ကြီး၏ နှမဖြစ်သူတစ်ဦးမှာ ဒေါ်ကုမာရီ အမည်ဖြင့် သီလရှင် ဝတ်လျက် ရှိကြောင်း၊ နှမတော်တစ်ဦးမှာလည်း ဒေါ်ရူပဝတီ ဟူသောအမည်ဖြင့် သီလရှင်ဝတ် လျက်ရှိကြောင်း သိရှိရပါသည်။ ဒေါ်ကုမာရီသည် ဒေါ်လှကြည် ဖြစ်၏။ ဒေါ်ရူပဝတီသည် ဒေါ်လှရီ ဖြစ်၏။

http://www.dhammadownload.com



**အလင်းရောင်တန်းကြီးထွက်နေသော ထူးခြားသော ဓာတ်ပုံတစ်ပုံက သက်သေပြနေခြင်း**

ထူးခြားသော ဓာတ်ပုံတစ်ပုံကို တွေ့ရှိကြရာ ထိုဓာတ်ပုံမှာ အလင်းရောင်တန်းကြီး ထွက်နေကြောင်း မျက်ဝါးထင်ထင်တွေ့ရ၏။

**ဉာဏလက်ရုံးမှာ ရောင်ခြည်ထွက်**

အေဒီ ၁၉၉၂

၁၉၉၂ ခုနှစ် စက်တင်ဘာလ ၂၆ ရက်နေ့ နံနက် ၆ နာရီအချိန်တွင် ဆရာတော်ကြီးကို ၉၀၄ ကြိမ်မြောက်သိမ်ထပ်ခဲ့ရာ ဘုရားရှင်ရုပ်ပွားတော်၏ ယာလက်ရုံးမှ အလင်းရောင်ခြည်ထွက်လာကြောင်း ဓာတ်ပုံထဲတွင် တအံ့တသြ ဖူးမြော်ရပါသည်။

**တစ်လေးလုံး ဆရာတော် ဦးစန္ဒာဇောတိ၏ မူရင်းဓာတ်ပုံကြီးတွေ့ရှိခြင်း**

၎င်းအပြင် ခေါင်းရင်းတွင် တရိုတသေချိတ်ထားသော ဓာတ်ပုံကြီး တစ်ပုံအောက်တွင် တွေ့ရသော စာတန်းအရ ဆရာတော်ကြီး၏ ကျေးဇူးရှင် ဆရာ ၃၇ ပါးထဲတွင် တစ်ပါးအပါအဝင်ဖြစ်ကြောင်း သိရပါသည်။ ဓာတ်ပုံ၏အောက်တွင် ဦးစန္ဒာဇောတိ မဏိရတနာ ဝိပဿနာ မဟာအာရ္ဍ နာဋ္ဌိယဂိုဏ်းတော်ကြီး၏ ဦးစီး အာဓိကမ္မိက ဝ-ယ-မ-ပ (၁၁၁၁) ဆရာတော်ဟူ၍ စာတန်းထိုးထားကြောင်း တွေ့ရ၍ ကူးယူခဲ့ပါသည်။

**ဖျာပုံသို့ မလိုက်လိုကြောင်း အိပ်မက်ပေးသည့် ထူးခြားသော သူရဿတီမယ်တော်ရုပ်တု**

၎င်းအပြင် သလွန်တော်အနီးတွင် ထူးခြားသော သူရဿတီမယ်တော်ရုပ်ပုံတော် ရုပ်တုတစ်ခုကို တွေ့ရှိရရာ သစ်တောပင်စင်အငြိမ်းစား ဥပဒေအကျိုးတော်ဆောင် မြောက်ဒဂုံ၊ တောင်သရက်လမ်းနေ ဦးအောင်မြင့်က မျက်မြင်ကိုယ်တွေ့သိရှိခဲ့ပါသည်ဟု ဝန်ခံပြောဆိုသည်မှာ ၎င်းရုပ်တုတော် ဖျာပုံသို့ကြွအံ့ဆဲဆဲကာလတွင် ပူဇော်လို၍ ပင့်ဆောင်မည့်သူ ပိုင်ရှင်က အိပ်မက်မက်သည်မှာ မိမိသည် ဖျာပုံသို့မလိုက်လိုဘဲ ပြည်မြို့ ရတနာမာရ်အောင်တောရသို့သာ လိုက်ပါလိုကြောင်း၊ ရတနာမာရ်အောင်ဆရာတော်ထံ လှူဒါန်းစေလိုကြောင်း အိပ်မက်မက်သည်ဟု ဆိုပါသည်။ ထိုအိပ်မက်အရ ပြည်မြို့သို့ ကြွလာသော သူရဿတီမယ်တော်ကြီးဖြစ်ကြောင်း သိရှိရပါသည်။

**စာရေးဆရာမကြီး ဒဂုန်ခေါ် ခင်ခင်လေး၏ အလှူတော်သလွန်နှင့် ဖားမဲ့ပဋ္ဌာန်းဆက်**

အနီးရှိ ရွှေချထားသော ခုတင်ကြီးအကြောင်းကို မေးမြန်းရာ ထိုခုတင်ကြီးမှာ စာရေးဆရာမကြီး ဒဂုန်ခင်ခင်လေးက လာလှူထားခြင်းဖြစ်ကြောင်း၊ ထိုသလွန်တော်ကြီးမှာ ရှေးသရောအခါက ဖားမဲ့ဆရာတော်၏ သလွန်တော်ဖြစ်ကြောင်း၊ အစဉ်အဆက်ထိန်းသိမ်းရရှိထားခြင်းဖြစ်ကြောင်း ဦးစိန်ရကပြောပြ၍ သိရှိရပါသည်။ အလွန်အံ့ဖွယ် ပဋ္ဌာန်းဆက်များ ဖြစ်ရပါသည်။

**ပဲခူးမှ ပင့်လာသော ဖားမဲ့ဆရာတော် ကိုးကွယ်သည့် ဆင်းတုတော်**

၎င်းအပြင် အလွန်ကြည်ညိုဖွယ်ရာကောင်းသော ဆင်းတုတော် တစ်ဆူကို ဖူးကြရသည်။ ထို ဆင်းတုတော်ကို ပဲခူးမြို့က ပင့်ဆောင်လာခြင်းဖြစ်ကြောင်း သိရှိရပါသည်။ ပဲခူးမြို့တွင် ဆရာ တော်ကြီး တရားဟောစဉ်အခါက ကြည်ညိုသူ တပည့်များက လှူဒါန်းခြင်းဖြစ်ကြောင်း သိရပါ သည်။ ဖားမဲ့ဆရာတော် ကိုးကွယ်ခဲ့သည့် ဆင်းတုတော်ဖြစ်ကြောင်း သိရပါသည်။ ကျွန်တော်လက်ဖြင့် အသာကလေး စမ်းသပ်ပူဇော်ကြည့်သောအခါ အတွင်းက ယွန်းထည်ဖြင့် ပြုလုပ်ထားသည်ဟု ထင်မြင်မိပါသည်။

http://www.dhammadownload.com



**ဗားမဲ့ တံခွန်တိုင်ကြီး**

၎င်းအပြင် ရှင်းလင်းပြောကြားသူ ဦးနေမိန္တက မိန့်ကြားသည်မှာ ဟိုဘက်က တန်ဆောင်းထဲတွင် ဗားမဲ့တံခွန်တိုင်ဟူ၍ ရှိသေးကြောင်း သိရသဖြင့်သွားရောက် မှတ်တမ်းခဲ့ရပါသည်။ အလွန်ထူးသော တံခွန်တိုင်ကြီး ဖြစ်ကြောင်း တွေ့ရှိရပါသည်။

**ဦးအုံမောင်၏ စာတစ်စောင်**

၎င်းနောက် တိုင်တွင်ချိတ်ထားသော စာတစ်စောင်ကို ဖတ်ကြည့်ရာ သာသနာရေးဝန်ကြီးဌာနမှ ညွှန်ကြားရေးမှူးချုပ်ဖြစ်သူ ဆရာကြီးဦးအုံမောင်ထံမှ ရေးသားသောစာဖြစ်သဖြင့် ကူးယူခဲ့ရပြန်ပါသည်။ အတွင်းစာသားများမှာ ရွှေ ဗျိုင်းန[illegible]နှင့် စပ်လျဉ်းနေကြောင်း သိရပါသည်။ ဆရာတော်ကြီးသည် ရွှေဗျိုင်းကလေးကို အစာခွံ့နေသောပုံကို လည်း တွေ့ရပါသည်။

**သက်တော် ၈၀ က ရွှေဗျိုင်းအကောင် ၁၀၀၀ လာနားသောဆရာတော် ဖြစ်သောကြောင့် ရွှေဗျိုင်းနား ဆရာတော်ဟုခေါ်တွင်ကြောင်းသိရပါသည်။**

အေဒီ ၁၉၈၉ — ထိုနှစ်က ၁၃၅၀ ခုနှစ် ၁၉၈၉ ခုနှစ် ဖြစ်ပေရာ ဆရာတော်ကြီး သက်တော် ၈၀ ရောက်ရှိသော ကာလဖြစ်ကြောင်း သိရပါသည်။

**အပိုင်း ( ၅ )**

**ကမ္ဘာ့ရွှေရင်အေး ဆရာတော်ဘုရားကြီးဘဝသို့ ရောက်ရှိခြင်းနှင့် သက်တော်ရှည်ရာပြည့် သာသနာ့ရေးကြီးပမ်းမှုများ၊ ဩဝါဒကထာများအကြောင်းလေ့လာခြင်း**

အေဒီ ၁၉၈၀ — ကမ္ဘာ့ရွှေရင်အေး ဆရာတော်ဘုရားကြီးဘွဲ့တော်ကို ခံယူစဉ်အခါက ဆရာတော်ကြီးသည် သက်တော် ၇၂ နှစ် ရှိပြီ ဖြစ်ပါသည်။

**ကမ္ဘာ့ရွှေရင်အေး ဘွဲ့တော်ခံယူခြင်း**

အေဒီ ၁၉၈၀ — ၁၃၄၂ ခုနှစ် ဝါခေါင်လပြည့်ကျော် ၁၂ ရက် တနင်္ဂနွေနေ့ နံနက် ၆ နာရီ ၄၅ မိနစ်တွင် ဦးဝိဇ္ဇာဗလ ကိုယ်တော်ကြီးအား ကမ္ဘာ့ရွှေရင်အေးဟူသော ဘွဲ့အမည်တော် ချီးမြှင့်တော်မူခဲ့ပါသည်။

**တစ်လေးလုံး ဆရာတော် ဦးခန္တာဇောတိ ကိုယ်တော်တိုင် ချီးမြှင့်တော်မူခြင်း**

ချီးမြှင့်တော်မူသောဆရာမှာ တစ်လေးလုံးဆရာတော် ဦးခန္တာဇောတိ အရှင်သူမြတ် ဖြစ်ပါသည်။ ချီးမြှင့်တော်မူသောနေရာမှာ ယခုလက်ရှိ ရတနာမာရ် အောင်ကျောင်းတိုက် ဓာတ်တော်တိုက် အပေါ်တွင် ဖြစ်ပါသည်။ ချီးမြှင့်သော အချိန်မှာ နံနက် စောစော ၆ နာရီ ၄၅ မိနစ် အချိန် ဖြစ်ပါသည်။ ထိုအခါမှစ၍ ဦးဝိဇ္ဇာဗလသည် ကမ္ဘာ့ရွှေရင်အေးဆရာတော်ဟူ၍ ဖြစ်လာခဲ့ပါသည်။

**ပျူစောထီးလက်ထက်က မြတ်စွယ်တော်**

အေဒီ ၁၉၇၂ — ထို့နောက် သက်တော် ၇၄ နှစ်အရွယ်တွင် ပျူစောထီးလက်ထက်က မြတ်စွယ်တော်ကို ပူဇော်ကန်တော့ခဲ့ပါသည်။ ထိုနှစ်သည် ၁၃၃၄ ခု ဖြစ်ပါသည်။

**ဆုထူးပန် သစ္စာမဏ္ဍိုင် ပန္နက်တော် တင်လှူပွဲ**

အေဒီ ၁၉၈၃ — သက်တော် ၇၅ နှစ် ပြည့်သောအချိန်တွင် ဆရာတော်ကြီးသည် ဆုထူးပန် သစ္စာမဏ္ဍိုင် လောကမာရဇိန် ဆုတောင်းပြည့်စေတီတော်မြတ်ကြီးကို အောင်ပန္နက်စိုက်ထူသော အခမ်းအနားကြီး ကျင်းပ၍ ကိုယ်တော်တိုင် ပဋ္ဌာန်းဒေသနာတော် ၂၄ ပစ္စည်းကို ကျူးရင့် ပူဇော်ခဲ့ပါသည်။

http://www.dhammadownload.com



**အဘိဓဇဘွဲ့တော်ကြီး ဆက်ကပ်လှူဒါန်းခြင်းခံရ**

အေဒီ ၁၉၉၁ — သက်တော် ၈၃ အရွယ်တော်သို့ ရောက်သောကာလ ၁၃၅၃ ခု တန်ဆောင်မုန်းလဆန်း (၁၉၉၁ ခု နိုဝင်ဘာလ ၂၁ ရက်နေ့ ) တွင် နိုင်ငံတော်မှ ချီးမြှင့်သော အဘိဓဇအဂ္ဂမဟာ သဒ္ဓမ္မ ဇောတိကဓဇဘွဲ့တံဆိပ်တော်ကို ခံယူတော်မူခဲ့ပါသည်။

**နှစ် ၆၀ ကြိုးပမ်းမှု ခရီး**

အေဒီ ၁၉၉၉ — ဆရာတော်ကြီး သက်တော် ၉၁ နှစ် အရွယ်တော်သို့ ရောက်သောအခါ မဟာရွှေမြင့်မိုရ် စူဠာမဏိဓာတ်ပေါင်းစု စေတီတော်မြတ်ကြီးကို အထက်ဌာပနာ သွင်းတော်မူခဲ့ပါသည်။ ငယ်စဉ် ကာလ သက်တော် ၃၀ က ကြံစည်ခဲ့သော စိတ်ကူးကို သက်တော် ၉၁ အရောက်မှာ အကောင် အထည်ဖော်ရခြင်း ဖြစ်ပါသည်။

**ဆရာတော်ကြီး သတ်မှတ်ခဲ့သော အောင်မြေ ရှာဖွေခြင်း**

အေဒီ ၁၉၃၈ — သက်တော် ၃၀ အရွယ်တွင် ဖားနှင့်မြွေ နိမိတ်ကိုဆောင်၍ ထိုနေရာကို အောင်မြေဟု သတ်မှတ်ကာ ဓာတ်ပေါင်းစုစေတီတော် တည်ထားကိုးကွယ်ရန် အဓိဋ္ဌာန်ပြုခဲ့ပါသည်။

**နှစ် ၆၀ ကြာညောင်းခဲ့တဲ့ ဘုရား**

**အေဒီ ၂၀၀၀** — သက်တော် ၉၂ နှစ် ပြည့်သောအခါမှ ထီးတော်တင် မင်္ဂလာအခမ်းအနားကို ပြုလုပ်နိုင်ခဲ့သဖြင့် နှစ်ပေါင်း ၆၀ ကျော်ကြာခဲ့သော ခရီးစဉ်ကြီးဖြစ်ကြောင်း သိရှိရပါသည်။

**ကားအက်စီးဒင့်ဖြစ်**

အေဒီ ၁၉၉၃ — ကမ္ဘာ့ရွှေရင်အေးဆရာတော်ကြီးသည် သက်တော် ၈၄ နှစ်အရွယ်တွင် ကားအက်စီးဒင့်ဖြစ်ခဲ့ရာ ဝေဒနာခံစားခဲ့ရကြောင်း သိရှိသူများပြောပါသည်။ ထိုကာလသည် ၁၃၅၄ ခုနှစ် ( ၁၉၉၃ ခု မေလ ၁၀ ရက်) ပတ်ဝန်းကျင် ဖြစ်သည်ဟု ဆိုသဖြင့် ထိုနေ့မှ စ၍ ယခုသက်တော် ရာပြည့် ကာလအထိ နှစ်ပေါင်း ၁၃နှစ် ကြာခဲ့ပြီ ဖြစ်ပါသည်။

**ပျော်ဘွယ်က ဘုရားဒကာအရင်းများ**

ဖြစ်ပျက်ပုံအလုံးစုံကိုလည်း ပျော်ဘွယ်သို့ ခရီးအသွားတွင် မှတ်သားခဲ့ရပါသည်။ ပျော်ဘွယ်တွင် ဘုရားဒါယကာကြီး ဦးဆာမိ မိသားစုနှင့်တွေ့ဆုံမေးမြန်းခဲ့ရာ မသိသေးသည်များကို သိရပါ သည်။ ပျော်ဘွယ်တွင် ဦးပုဏ္ဏား၊ ဦးအောင်ဆန်း၊ ဦးကျော်မြ၊ ဦးရွှေလေးစသော ပုဂ္ဂိုလ်များကို တွေ့ခဲ့ရရာ မသိသေးသည်များကို သိခဲ့ရသည်။

**ကြုံရ ဆုံရ လူ့ဘဝ**

ထိုစဉ်က ကားမောင်းသူမှာ ဦးဝေလွင် ဆိုသူဖြစ်ကြောင်း အမြဲတမ်း မောင်းနေကျ ကားဆရာ ဦးဝင်းမြင့်ဆိုသူ အပြင်သွားခိုက်ကြုံသဖြင့် ဦးဝေလွင်က မောင်းခဲ့ကြောင်း၊ စံတော်ရာကုန်းမှ ပျော်ဘွယ်သို့ အသွားခရီးဖြစ်ကြောင်း၊ ထိုညက ပျော်ဘွယ်တွင် ရွှေပြည်ရန်အောင် ဇမ္ဗူရုံ တရားပွဲရှိနေကြောင်း၊ ထိုတရားပွဲသို့ တရားချီးမြှင့်ရန် သွားရောက်ခြင်းဖြစ်ကြောင်း သိရှိရပါသည်။ ထိုသို့ စံတော်ရာကုန်းမှ ၆ နာရီကျော်ကျော်လောက်ထွက်ခဲ့ရာ ကားအက်စီးဒင့် ဖြစ်ခဲ့ကြောင်းသိရပါသည်။ ပျော်ဘွယ်က လူများ သတင်းကြားသောအခါ ည ၈ နာရီလောက် ရှိပြီဖြစ်ကြောင်း သူတို့က ပြောဆိုကြပါသည်။ ထိုမျှသာ သိရပါသည်။

**သေနေသောအပင် ပြန်ရှင်ခြင်း**

သို့သော် ထူးခြားချက်မှာ အောင်မြေနေရာအနီးရှိ သေနေသော အပင်ကြီးမှာ ပြန်ရှင်လာ ကြောင်း အတိတ်နိမိတ်ထူးများ ရှိကြောင်း ပြောဆိုကြပါသည်။

http://www.dhammadownload.com



**ဂန္ဓမာလာ မိသားစုမှ ရသောသတင်းထူး**

ဆရာတော်ကြီးသည် သက်ရှယ်အိုမင်းသဖြင့် ပြည်မြို့ရတနာမာရ်အောင် ကမ္ဗဋ္ဌာန်းတောရ ကျောင်းတိုက်တွင်ပင် သီတင်းသုံးလျက် ရှိပါသည်။

ဂန္ဓမာလာ မောင်နှမတစ်စု ဖြစ်သော ဒေါ်ခင်အေး ဒေါ်ခင်မြမြ ဦးခင်လတ်တို့နှင့် တွေ့ဆုံ၍ သိရှိရသည်မှာ ၂၀၀၅ ခု ဒီဇင်ဘာလ ၃ ရက်နေ့တွင် ဦးခင်လတ်တို့ ပြည်မြို့သို့ သွားကြ၍ တစ်ည အိပ်ပြီးလျှင် နောက်တစ်နေ့တွင် ပျော်ဘွယ်စံတော်ရာကုန်းသို့ ဆရာတော်ကြီးကို ပင့်ဆောင်တော်မူမည် ဖြစ်ကြောင်း၊ ထို့ကြောင့် ထိုဒီဇင်ဘာ ၅ ရက်နေ့မှ စ၍ ဆရာတော်ကြီးကို ဖူးလိုသူများသည် ပျော်ဘွယ်စံတော်ရာကုန်းသို့ လိုက်၍ဖူးကြရန် စီစဉ်လျက် ရှိကြပါသည်။ သို့နှင့် စံတော်ရာကုန်းတွင် ဗုဒ္ဓပူဇနီယပွဲတော်ကြီးနှင့် ဆွမ်းဆန်လောင်းပွဲတော်ကြီးကို ရှေးယခင် နှစ်များကဲ့သို့ပင် ဆက်လက် ကျင်းပလိမ့်မည်ဖြစ်ကြောင်း အံ့ဖွယ်ကြားသိခဲ့ရပါသည်။

ဆွမ်းမစားတဲ့ ဆားတောင် ကိုရင် ကလေးဘဝမှစ၍ ဆွမ်းမစားတဲ့ ရဟန်းတော်ကလေး အရှင် လာဘာဘဝနှင့်တကွ ဦးဝိဇ္ဇာဗလ ဘွဲ့တော်ကိုရပြီးသည့်နောက် ကမ္ဘာ့ရွှေရင်အေး ဘွဲ့တော် အသစ်ကို ဆရာသခင် ကျေးဇူးရှင်အပေါင်းတို့က ချီးမြှင့်ကြပြန်သဖြင့် ယနေ့ထက်တိုင် သက်တော်ရာကျော်ဆရာတော်ဘုရားကြီးအဖြစ် သက်ရှိထင်ရှားရှိနေတော်မူသော ဆရာတော် ကြီး ကိုယ်တိုင်ကြီးမှူးကျင်းပသော ဆွမ်းဆန်လောင်းပွဲတော်ကြီးဖြစ်သဖြင့် ရှာပေါင်း တစ်ရာ ကျော်ကလာကြမည့် လှည်းများနှင့်တကွ အနယ်နယ်မှလာကြမည့် တပည့်အပေါင်းတို့ စုရုံး ပူဇော်ကြရမည့် စံတော်ရာကုန်း ဗုဒ္ဓပူဇနီယပွဲတော်ကြီးနှင့် ဆွမ်းဆန်လောင်းပွဲတော်ကြီးနှင့် အတူ ရာပြည့်ရုပ်ပုံလွှာ မဟာထေရုပ္ပတ္တိကထာကြီးသည် သက်ရှိထင်ရှားဆရာတော်ကြီးအား ပူဇော်ရမည်ဟု ဤမဟာထေရုပ္ပတ္တိကို ရေးသားရခြင်း ဖြစ်သည်ဟူ၍ ဤကျမ်းပြုသူက လေ့လာ ရေးစာတမ်းကြီး လေ့လာပြုစုပြီး ဆရာတော်ထံ ပူဇော်မည်ဟု အခွင့်အထူး ရရှိခဲ့ပါသည်။ ဆရာတော်ကြီးကလည်း ခွင့်ပြုတော်မူခဲ့ပါသည်။ ရာပြည့် ရုပ်ရှင်သာသနာ့မော်ကွန်း ရိုက်ကူး ခွင့်လည်း ဆရာတော် သက်တော် ထင်ရှားရှိစဉ်ကပင် လျှောက်ထားအတည်ပြု ရရှိခဲ့ပါသည်။ ရာပြည့်ပွဲတော်ကြီးတွင် ပြသမည်ဟူ၍လည်း လျှောက်ထားခဲ့ပါသည်။ ဆရာတော်ကြီးကလည်း သဘောတူခဲ့ပါသည်။ ဝမ်းမြောက် ဝမ်းသာပင် ဖြစ်ပါသည်။ မောင်ပန်းမွှေး ခေတ်မီတယ်ဟုပင် ပြောခဲ့ပါသည်။ ဟော့လိုက်ဆို ဟူ၍လည်း ပဌာဝီဗလ သုန္ဒရီ အစရှိသော ဂါထာတော်မြတ်ကို လည်း နှုတ်တိုက်ချ၍ လိုက်ဆိုခဲ့ရပါသည်။ ထိုနေ့သည် ဆရာတော်ကြီး၏နောက်ဆုံးနေ့ မတိုင် မီ ၃ ရက်အလို ဖြစ်ပါသည်။ ၎င်းနောက် -

အေဒီ ၂၀၀၅ ဆရာတော်ကြီးကား သက်တော် ၁၀၀ ပြည့်နှစ်တွင် ခန္ဓာဝန်ချတော်မူပါသည်။

ခန္ဓာဝန်ချတော်မူပြီးနောက် ဂန္ဓမာလာ ဦးခင်လတ်ကလည်း ကျမ်းစာတစ်အုပ် ရေးထုတ်ပါ သည်။ ပညာအလင်းပြ ဦးအုန်းမောင်က တည်းဖြတ်ပါသည်။ ထိုစာအုပ်မှာ ခပ်ပါးပါး ဖြစ်ပါ သည်။ သို့သော်လည်း အလွန်ကောင်းပါသည်။ ထိုစာအုပ်အရ ရှေးရှေးက သိခဲ့ဖူးသော ရွှေမျိုင်းနားဆရာတော်ဦးဝိဇ္ဇာဗလ၏ ဘဝဖြစ်စဉ်တွင် အရေးပါလှသော တောကြီး (၃၇)တော၊ တောင်ကြီး (၃၇)တောင်၊ ပညာပေးခဲ့သော ဆရာပေါင်း (၃၇)ပါးတို့ စာရင်းကိုလည်း အချော့ရရှိ ပါသည်။ ယခင်ကရရှိဖူးသောစာရင်းများထက် ဆရာဦးခင်လတ်၏စာရင်းက ပို၍ စေ့စေ့စပ်စပ် ရှိပါသည်။ အောက်တွင်ဖတ်ကြည့်ပါ။ ဆရာတော်ကြီး၏ လက်ရင်းတပည့် ဖြစ်၍ အတွင်း ကျကျ သိသူဖြစ်သောကြောင့် အားကိုးရသော မှတ်တမ်းကြီးဖြစ်ပါသည်။

http://www.dhammadownload.com



**ရှင်လာဘအား လောကီ,လောကုတ္တရာသင်ကြားပြသသော ဆရာတော်ကြီးများ၏ စာရင်း**

(၁) သက်တော် (၇)နှစ်မှစ၍ (၁၈)နှစ်အထိ ရမည်းသင်း ခရိုင်၊ ပျော်ဘွယ်မြို့နယ်၊ ဆားတောင်ရွာ အဘိုးအောင်ထံ အဘိုးဆရာတော်ဘုရားကြီး ဦးဣန္ဒက ခြေတော်ရင်း၌ သင်ပုန်းကြီးမှ အစ ပရိတ်ကြီး လောကနီတိ ဇာတ်ကြီးဆယ်ဘွဲ့ ဝိနည်း ပါတိမောက် ပါဠိတော် သဒ္ဒါ သဂြိုလ် အဘိဓာန် အလင်္ကာ ဆန်းအစရှိသော ပရိယတ်အခြေခံနှင့် ပဋိပတ် အဖြေမှန် တရားတော်များကို နာယူမှတ်သား အားထုတ်ခဲ့ကြောင်း။

(၂) တောင်တွင်းကြီးမြို့ အရညဝါသီ သက်တော်ရှည် ဘိုးတော်အောင်ထံ၌ သက်တော် (၁၃)နှစ်မှ (၁၈)နှစ်အထိ လောကီ, လောကုတ္တရာ သင်ယူခဲ့ကြောင်း။

(၃) စစ်ကိုင်းမြို့၊ မဟာဂန္ဓာရုံ၊ ဆရာတော်ဘုရားကြီးထံ၌ သက်တော် (၁၄၊ ၁၅၊ ၁၆၊ ၁၇) အထိ သမထ ဝိပဿနာတရားများ နာယူမှတ်သား အားထုတ်ခဲ့ကြောင်း။

(၄) စစ်ကိုင်းတောင်၊ တောင်ဗိလာဆရာတော်ဘုရားထံ၌ သက်တော် (၁၉)နှစ်မှ (၂၀၊၂၁) အထိ ဝိနည်းဘက်ဆိုင်ရာ ပါဠိတော် အဋ္ဌကထာ ဋီကာများကို သင်မှတ်ထားခဲ့ကြောင်း။

(၅) မုံရွာ၊ ဘုတလင် ကြောင်ပန်းတောရ ဆရာတော်ဘုရားထံ သက်တော် (၁၃၊၁၄၊၁၅၊၁၆) တွင် သမထ ဝိပဿနာများ သင်ယူခဲ့ကြောင်း။

(၆) ပြည်မြို့၊ ကန်ဦးကျောင်း ဦးသီလစာရ ဆရာတော်ဘုရားကြီးထံ၌ သက်တော် (၂၀၊၂၁၊၂၂၊၂၃) ဝိနည်းဘက်ဆိုင်ရာ ပါဠိ အဋ္ဌကထာ ဋီကာ စသော ကျမ်းများကို သင်ယူမှတ်သားခဲ့ကြောင်း။

(၇) ပြည်မြို့၊ မဟာဓမ္မိကာရာမတောရ ဆရာတော်ဘုရားကြီး ဦးသုတထံ၌ သက်တော် (၁၉၊၂၀၊၂၁၊၂၂၊၂၃)နှစ်အထိ သုတ္တန်ဝိနည်းဘက်ဆိုင်ရာ ကျမ်းဂန်များကို သင်ယူ ခဲ့ကြောင်း။

(၈) သထုံမြို့၊ မူလမင်းကွန်း ဆရာတော်ဘုရားကြီးထံ၌ သက်တော် (၁၄၊၁၅၊၁၆)နှစ်အထိ သမထ ဝိပဿနာများ သင်ယူခဲ့ကြောင်း။

(၉) ကျိုက်ထိုမြို့၊ သေက္ခတောင် ဆရာတော်ဘုရား ဦးတိလောကထံ၌ သက်တော် (၁၉၊၂၀) နှစ်အထိ သုတ္တန်ဘက်ဆိုင်ရာ ပါဠိတော် အဋ္ဌကထာ၊ ဋီကာ ကျမ်းများ သင်ယူခဲ့ကြောင်း။

(၁၀) မော်လမြိုင်မြို့၊ မုဒုံကျောက်တစ်လုံးတောရ ဆရာတော် ဦးပဒုမထံ၌ သက်တော် (၁၄၊ ၁၅)အထိ သမထ ဝိပဿနာများကို သင်ယူခဲ့ကြောင်း။

(၁၁) မုံရွာမြို့၊ ဖိုလ်ဝင်တောင်ဆရာတော် ဦးဇာနေယျထံ၌ သက်တော် (၂၀၊၂၁)နှစ်အထိ အဘိဓာန် အလင်္ကာ ဆန်း စသည်များ သင်ယူခဲ့ကြောင်း။

(၁၂) မုံရွာမြို့နယ်၊ မိုးညှင်းတောရ ဆရာတော်ဘုရားကြီးထံ၌ သက်တော် (၁၉၊၂၀)အထိ သမထ ဝိပဿနာများကို သင်ယူခဲ့ကြောင်း။

(၁၃) ဆားလင်းကြီးမြို့နယ်၊ ဝက်လူးအိုင် မဟာဓမ္မိကာရာမကျောင်း ဆရာတော်ဘုရားကြီး ထံ၌ သက်တော် (၁၉၊၂၀)အထိ ဝိနည်းဘက်ဆိုင်ရာ ပါဠိတော် အဋ္ဌကထာ စသည်များ သင်ယူခဲ့ကြောင်း။

(၁၄) ပြည်မြို့၊ ရွှေတောင် အမ္ဗာရာမတိုက် ဦးတိက္ခိန္ဒြိယထံတော်၌ သက်တော် (၁၈၊၁၉)အထိ ဓာတ်ကမ္မဋ္ဌာန်းဘက်ဆိုင်ရာ သင်ယူခဲ့ကြောင်း။

(၁၅) ပဲခူးရိုးမ၊ အရညဝါသီ ဦးဝါသဝထံတော်၌ သက်တော် (၁၄၊၁၅)အထိ သမထ ဝိပဿနာ ဘက်ဆိုင်ရာ နာယူမှတ်သား အားထုတ်ခဲ့ကြောင်း။

http://www.dhammadownload.com



(၁၆) တောင်ငူခရိုင်၊ ရေတာရှည်မြို့နယ်၊ မယ်ဒက်တောရ ဆရာတော်ဘုရားကြီးထံ၌ သက်တော် (၁၃၊ ၁၄၊ ၁၅၊ ၁၆) အထိ သမထ ဝိပဿနာတရားများ သင်ယူခဲ့ကြောင်း။

(၁၇) ဖြူးမြို့၊ ရိုးမတောင် အရညဝါသီ ဦးသီလဝံသ ဆရာတော် ထံ၌ သက်တော် (၁၉၊ ၂၀) အထိ သမထ ဝိပဿနာဘက်ဆိုင်ရာ တရားများသင်ယူခဲ့ကြောင်း။

(၁၈) သာယာဝတီမြို့၊ မင်းကျောင်းဆရာတော် ဦးနန္ဒိယထံတော်၌ အဘိဓမ္မာဘက်ဆိုင်ရာ ပါဠိ အဋ္ဌကထာ ဋီကာများကို သင်ယူခဲ့ကြောင်း။

(၁၉) ရမည်းသင်းခရိုင် ရွှေမြို့၊ အရညဝါသီ ဆရာတော် ဦးခန္တာဇောတိ ထံတော်၌ သက်တော် (၁၈၊ ၁၉၊ ၂၀)အထိ သုတ္တန်ဝိနည်းဘက်ဆိုင်ရာ ပါဠိ အဋ္ဌကထာများနှင့် ဝ,ယ,မ,ပ ဝိပဿနာ စမလမ်းစဉ်များကို သင်ယူခဲ့ကြောင်း။

(၂၀) ကျောက်ပန်းတောင်းမြို့၊ အရညဝါသီ ဆရာတော် ဦးအာသဘထံတော်၌ အဘိဓမ္မာဘက် ဆိုင်ရာ ပါဠိ အဋ္ဌကထာ ဋီကာများကို သင်ယူခဲ့ကြောင်း။

(၂၁) အင်းစိန်၊ သမိုင်း မင်းကျောင်းဆရာတော် ဦးနန္ဒိယ ထံတော်၌ သက်တော် (၁၉၊ ၂၀၊ ၂၁)အထိ ဝိနည်းဘက်ဆိုင်ရာ ကခါစသော ကျမ်းများကို သင်ယူခဲ့ကြောင်း။

(၂၂) သမိုင်းမြို့မကျောင်း အဂ္ဂမဟာပဏ္ဍိတ၊ ဆရာတော် ဦးဧယျထံတော်၌ သက်တော် (၁၉၊ ၂၀၊ ၂၁)အထိ ဝိနည်းဘက်ဆိုင်ရာ ပါဠိ အဋ္ဌကထာများကို သင်ယူခဲ့ကြောင်း။

(၂၃) ရန်ကုန်မြို့၊ ရွှေကြက်ယက်ကျောင်း ဆရာတော်ဘုရားကြီးထံ၌ သက်တော် (၁၉၊ ၂၀၊ ၂၁)အထိ ဝိနည်းဘက်ဆိုင်ရာ ကခ်ီ အဘိဓမ္မာ ဋီကာစသော ကျမ်းများကို သင်ယူခဲ့ ကြောင်း။

(၂၄) ရန်ကုန်မြို့၊ သိမ်ကြီးကျောင်း၊ ဦးဝိလာသဆရာတော်ဘုရားထံ၌ သက်တော် (၂၀၊ ၂၁)အထိ ဓမ္မစကြာ အကျဉ်းအကျယ် ယူပုံယူနည်းကို သင်ယူခဲ့ကြောင်း။

(၂၅) ပုဂံမြို့ ဆံရှည်ဆရာတော်ဘုရားထံ၌ သက်တော် (၁၇၊ ၁၈၊ ၁၉၊ ၂၀၊ ၂၁)အထိ လောကီလောကုတ္တရာ တရားများသင်ယူခဲ့ကြောင်း။

(၂၆) မုံရွာခရိုင်၊ ပုံတောင်ပုံညာ ရက်ကန်းစင်တောင် အရညဝါသီ သက်တော်ရှည် ဆရာ တော်ဘုရား ဦးသြဘာသထံ၌ သက်တော် (၁၈၊ ၁၉၊ ၂၀၊ ၂၁)အထိ လောကီ လောကုတ္တရာ သင်ယူခဲ့ကြောင်း။

(၂၇) ရှမ်းပြည်နယ်တောင်ပိုင်း၊ တောင်ကြီး ပင်းတယဂူ အင်းတိမ် သက်တော်ရှည် ဘိုးတော် ဖြူထံတော်၌ သက်တော် (၁၃၊ ၁၄၊ ၁၅၊ ၁၆)အထိ လောကီ လောကုတ္တရာ သင်ယူခဲ့ ကြောင်း။

(၂၈) သာယာဝတီခရိုင်၊ ကြို့ပင်ကောက်မြို့၊ ကျစ္စာဘုရား အရညဝါသီ သက်တော်ရှည် ရာကျော် ဆရာတော်ဘုရားကြီး ဦးသဒ္ဓမ္မကိတ္တိထံတော်၌ သက်တော် (၁၈၊ ၁၉၊ ၂၀၊ ၂၁၊ ၂၂) အထိ လောကီ လောကုတ္တရာ သင်ယူခဲ့ကြောင်း။

(၂၉) ပျော်ဘွယ်မြို့၊ ရွှေမင်းဝံတောင်ဆရာတော် ဦးပါထံ၌ သက်တော် (၁၅၊ ၁၆၊ ၁၇) အထိ သမထ ဝိပဿနာ သင်ယူခဲ့ကြောင်း။

(၃၀) မုံရွာမြို့၊ အိုးတစ်လုံးတောရ ဆရာတော်ဘုရားထံ၌ သက်တော် (၁၉၊ ၂၀၊ ၂၁) အထိ အဘိဓမ္မာဘက်ဆိုင်ရာ ပါဠိတော် အဋ္ဌကထာ ဋီကာများ သင်ယူခဲ့ကြောင်း။

(၃၁) ကျိုက်ထိုမြို့၊ ကျိုက်ထီးရိုးဘုရား အရညဝါသီ ဆရာတော် ဦးကုန္တာစာရ ထံတော်၌ သက်တော် (၁၈၊ ၁၉) အထိ သမထ ဝိပဿနာ သင်ယူခဲ့ကြောင်း။

(၃၂) ပဲခူးမြို့၊ အရညဝါသီ ဓမ္မစေတီမင်းခေါင်ထံ၌ သက်တော် (၁၇၊ ၁၈၊ ၁၉၊ ၂၀)အထိ လောကီ လောကုတ္တရာများကို သင်ယူခဲ့ကြောင်း။

http://www.dhammadownload.com



(၃၃) သာစည်မြို့ အင်းမကြီး သိမ်တောင် ဆရာတော်ဘုရား ဦးဇဝနထံတော်၌ သက်တော် (၁၈၊ ၁၉၊ ၂၀) အထိ အဘိဓမ္မာဘက်ဆိုင်ရာ ပါဠိတော် အဋ္ဌကထာ ဋီကာများ သင်ယူခဲ့ကြောင်း။

(၃၄) သူကောင်းမြို့ အရညဝါသီ ကိုရင်ကြီး ဦးလန်း ထံ၌ သက်တော် (၁၄၊ ၁၅၊ ၁၆၊ ၁၇) အထိ လောကီ လောကုတ္တရာ ပညာများကို သင်ယူခဲ့ကြောင်း။

(၃၅) စကုမြို့ ရွှေစက်တော် အရညဝါသီ ဆရာတော် ဦးစန္ဒိမာထံတော်၌ သက်တော် (၁၉၊ ၂၀) အထိ လောကီ လောကုတ္တရာ ပညာများကို သင်ယူခဲ့ကြောင်း။

(၃၆) ရခိုင်ရိုးမ အရညဝါသီ သက်တော်ရှည်ဆရာတော်ကြီး ဦးကေလာသ ထံ၌ သက်တော် (၂၀၊ ၂၁)အထိ သမထ ဝိပဿနာ သင်ယူခဲ့ကြောင်း။

(၃၇) သီဟိုဠ်ကျွန်း အရညဝါသီ ဆာဒူးယောဂီ ဘာဘာကြီးထံ၌ သက်တော် (၁၃၊ ၁၄၊ ၁၅) အထိ သမထ ဝိပဿနာ သင်ယူခဲ့ကြောင်း။

ဆရာတော်ကြီး ကိုယ်တိုင် မိန့်တော်မူချက်အရ မှတ်စု မှတ်တမ်းများဖြင့် ရေးသားမှတ်တမ်း တင်ထားကြောင်း သိရှိရပါသည်။

http://www.dhammadownload.com



တတ်တော် ကျော်မှုသော သထုံမြို့ မင်းကွန်းဇေတဝန်ကျောင်း

# ဒုတိယမင်းကွန်း ဆရာတော် ဦးတိက္ခာစာရ

၁၉၁၉ – ၁၉၉၆



http://www.dhammadownload.com



ရဟန္တာမထေရ် နှစ်ပါးဟူ၍ ကျော်ကြားသော မင်းကွန်းဇေတဝန်ကျောင်း၊ သထုံမြို့တွင်ရှိသည်။ မူလမင်းကွန်းဇေတဝန် ဆရာတော် အရှင်နာရဒမထေရ်၏ ဓာတ်တော်များ ကိန်းအောင်းရာစေတီကို ဖူးမြော်ရသည်။

ယင်းစေတီနှင့် ယှဉ်လျက် တောင်ဘက်စေတီကား ဒုတိယဆရာတော် ဦးတိက္ခာစာရထေရ်၏ ဓာတ်တော်ကိန်းဝပ်ရာစေတီ ဖြစ်လေသည်။

**ဓာတ်တော်ကျသော ဒုတိယ မင်းကွန်း ဆရာတော်**

ဒုတိယဆရာတော်အထိမ်းအမှတ် အဆောင်အတွင်းရောက်သော် ပုံတူပန်းချီကား ရုပ်လုံးတော်များအားဖူးမြင်ရကာ အနီးရှိ မှန်ဗီရိုအတွင်း ဆရာတော်၏ သရီရဓာတ်တော်များပြည့်စုံစွာ ထားရှိပူဇော်ထားသည်ကို ဖူးမြင်ရသည်။

**ဒုတိယမင်းကွန်း ဆရာတော် ဓာတ်တော်ကျခြင်း**

အေဒီ ၁၉၉၂

ဒုတိယဆရာတော်နှင့်ပတ်သက်၍ ၁၃၅၈ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၅ ရက်နေ့ သက်တော် ၈၇ နှစ်၊ ဝါတော် ၅၄ တွင် ပျံလွန်တော်မူကြောင်း အန္တိမစျာပနအပြီး ဓာတ်တော်များရရှိကာ စေတီတည်ပူဇော်ကြောင်းမျှသာ သိရှိရသည်။

**ဒုတိယမင်းကွန်း ဆရာတော်၏ မေတ္တာရည်**

ဆွမ်းစားကျောင်း တာဝန်ခံ သီလရှင်ဆရာလေး ဒေါ်ဝဏ္ဏစာရီအား မေးလျှောက်သောအခါ ဒုတိယဆရာတော်မှာ ဆရာလေး၏ဝမ်းတွင်း နာတာရှည်ရောဂါအား မေတ္တာအဟုန်ဖြင့် ပို့လွှတ်ကုသပျောက်ကင်းခဲ့ရကြောင်း သိရှိရပါသည်။

**သွေးပေါင်ချိန် (၀)**

ပျံလွန်တော်မမူမီ တစ်လခန့်အလို ၁၃၅၈ ခု သီတင်းကျွတ်လဆန်း ၉ ရက်နေ့၌ သထုံမှ ဆရာဝန်ဦးပြုံးချို၏စမ်းသပ်ချက်အရ သွေးပေါင်ချိန် သုညတွင် ရှိနေကြောင်း သိရှိရသည်။ ဆရာတော်မှာ သြဝါဒစကား မြွက်ကြားလျက်ပင်ရှိကြောင်း အံ့သြဖွယ်ဖူးတွေ့ရကြောင်း သိရှိရပါသည်။

**စွန့်ခွာတော့မည့် အကြောင်း မိန့်တော်မူ**

အေဒီ ၁၉၉၆

၁၃၅၈ ခု နယုန်လ ဒုလ္လဘရဟန်းခံပွဲ၌ တရားချီးမြှင့်ရာတွင် ပါဠိဘာသာဖြင့် ပရိသတ်အား စွန့်ခွာတော့မည်ဟု မိန့်မြွက်ခဲ့ကြောင်း သိရှိရပါသည်။

**သက်သာပေ့ါပါးစွာ ခန္ဓာဝန်ချတော်မူခဲ့**

ပျံလွန်တော်မူချိန်တွင် အမူအရာတော် ပျက်ယွင်းခြင်း မရှိ၊ သက်သာပေ့ါပါးစွာ ခန္ဓာဝန်ချပျံလွန်တော်မူခဲ့ကြောင်း သိရှိရသည်။

**ဓာတ်တော်များ တဖွားဖွား ကျတော်မူခဲ့**

ပျံလွန်တော်မူပြီး မီးသဂြိုဟ်ရာတွင် သရီရဓာတ်တော်များ ကျဆင်းသဖြင့် အချို့အား ဓာတုစေတီတည် ဌာပနာထည့်သွင်း ပူဇော်ကာ အချို့အား တပည့် ဒါယကာ ပရိသတ်အများဖူးမြင်နိုင်ရန် ဖန်ပေါင်းချောင်ဖြင့် ပူဇော်ထားရှိကြောင်း သိရှိရလေသည်။

သကြားသီး၊ မက်လင်ချဉ်၊ အင်ကြင်း၊ သက်ရင်းစသည် ပင်မြင့် ဆေးဖက်ဝင်အပင်များ သာမက ကျားနွတ်ခမ်းမွေး ပရန္နဝါ၊ တိလက်သာ၊ မြက်ချို စသည့်အပင်ငယ် ပရဆေးပင်များစွာ တွေ့မြင်ကြရသည်။

**ထူးဆန်းသော သစ်ကွင်းကြီး**

http://www.dhammadownload.com



ကျောင်းဝင်းအတွင်းကိုက် ၂၀၀ ခန့် အကွာတွင်ရှိ ဆီးဖြူပင်ကြီးမှာ မြေပြင်အထက် ပေ ၂၀ အမြင့်၌ ဆန်ကောတစ်ချပ် ပမာဏမျှ သစ်ကွင်းဖြစ်တည်လျက် ရှိသည်ကို တွေ့ရသည်။

**ဆရာတော် တရားထူးရချိန်တွင် စတင်ပေါ်ပေါက်ခဲ့**

ဒုတိယ ဆရာတော် ဦးတိက္ခာစာရ ဆန္ဒပြည့်ဝချိန် (တရားထူး ရရှိချိန်) မှ စတင်ကာ ကွင်းသဏ္ဌာန်ဖြစ်တည်နေခြင်း ဖြစ်ကြောင်း သိရသည်။

http://www.dhammadownload.com



ပရိတ်ရွတ်ရာတွင် ပရိတ်ရေ ဆူရုံသာမက အပေါ်သို့ပါ ပန်းတက်တော်မူသောကြောင့်
ငါလိုဖြစ်ချင် ငါလိုလုပ်ဟု မိန့်ကြားတော်မူခဲ့သော
ယနေ့တိုင် ရုပ်ကလာပ်တော် ကြွင်းကျန်တော်မူသည့် ချောက်မြို့၊ ၁၅ ရပ်ကွက်၊ သန္တိသုခ

# သစ်သီးစားကျောင်းဆရာတော် ဦးပဏ္ဏဝ

## ၁၉၁၀ – ၁၉၉၉

နေ့စဉ်ငှက်ပျောသီး ၃ လုံးသာ ဘုဉ်းပေး၍ စွန်းလွန်းဝိပဿနာနည်း တရားတော် ကျင့်တော်မူသော ဆရာတော်ကြီး ဖြစ်ကြောင်း ထင်ရှားတော်မူပါသည်။

**ဇာတိ**

အေဒီ ၁၉၁၀

ဆရာတော် ဦးပဏ္ဏဝကို ခပေါင်းတဲအနောက်ရွာ၊ ခမည်းတော် ဦးဖိုးတုတ်၊ မယ်တော်ဒေါ်ဖွေး တို့မှ (၁၂၇၂)ခုနှစ်၊ ပထမဝါဆိုလဆန်း (၃)ရက် ကြာသပတေးနေ့တွင် ဖွားမြင်တော်မူခဲ့သည်။ မွေးချင်း (၆)ယောက်တွင် တတိယမြောက်သားဖြစ်ပြီး ငယ်နာမည် မောင်မြစိန် ဖြစ်သည်။

ကျမ်းကိုး၊ ဦးအာစရလင်္ကာသီရိ၊ မြတ်မင်္ဂလာ စာ-၂၂ အတွဲ၂၄/အမှတ်၈၊ ၂၀၀၉၊ ဖေဖော်ဝါရီ

**နေ့စဉ် ငှက်ပျောသီး (၃)လုံးသာ ဘုဉ်းပေး**

အေဒီ ၁၉၈၈

ဆရာတော် ဦးပဏ္ဏဝသည် ၁၃၅၀ ခုနှစ်တွင် ရေနံချောင်းမြို့ဂိုဏ်းအုပ်ကျောင်း၌ နေ့စဉ် ငှက်ပျောသီးသုံးလုံးသာ ဘုဉ်းပေး၍ စွန်းလွန်းဂူဝိပဿနာနည်းဖြင့် ၇ ရက်စတင်ကျင့်ကြံအား ထုတ်တော်မူရာ ရုပ်ခန္ဓာကိုယ် ဘာမှမဖြစ်ကြောင်း ကိုယ်တွေ့သိရှိခဲ့သည်။ ထိုအချိန်မှစ၍ ခန္ဓာဝန် စွန့်သည်အထိ သစ်သီးဆွမ်းသာ ဘုဉ်းပေးသုံးဆောင်တော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၂

**ကျင့်စဉ်**

ဆရာတော်ဦးပဏ္ဏဝသည် အချိန်နှင့်အမျှ စာကြည့်သည်။ ဝင်လေထွက်လေမပြတ်ရှုမှတ်သည်။ မိမိကြောင့် သူတစ်ပါး စိတ်မဆင်းရဲစေဘဲ မာန်မာနကင်းသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၂

**ခန္ဓာဝန်ချ**

အေဒီ ၁၉၉၉

သက်တော် (၉၀)၊ သိက္ခာတော် (၇၀)အရောက် (၁၃၆၁)ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော် (၈)ရက် အင်္ဂါနေ့ နံနက် ၉ နာရီတွင် ခန္ဓာဝန်စွန့်တော်မူသည်။

**မီး မသင်္ဂြိုလ်နှင့် မြေ မမြှုပ်နဲ့မှာ မှာခဲ့**

ပျံလွန်တော်မူပြီးနောက် ဆရာတော်မှာထားသည့်အတိုင်း မီးသင်္ဂြိုဟ်ခြင်း၊ မြှုပ်နှံခြင်း မပြုဘဲ ထားသည်။ ရုပ်ကလာပ်တော်သည် ဆေးဝါးစီရင်ခြင်း လုံးဝမပြုလုပ်ဘဲ ယနေ့တိုင် ပုပ်သိုးခြင်း မရှိ။ ပကတိအိပ်စက်လဲလျောင်းနေသည့်အလား ဖူးမြင်ပူဇော်နိုင်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၂

http://www.dhammadownload.com



**သမထသည် အပါယ်တံခါး မပိတ်နိုင်ဟု မိန့်ခဲ့**

ဆရာတော် သက်တော်ထင်ရှားရှိစဉ် တစ်နေ့၌ တောင်ရပ်စာရေးတန်းရပ်နေ ဒေါ်အေး၏ သမီးနော်လီစန်းက "ဆရာတော်ဘုရား၊ ဘာသိဒ္ဓိတွေများ ပြီးနေပါပြီလဲဘုရား" ဟု လျှောက်ထားတော်မူသောကြောင့် သမထတန်ခိုးသည် အပါယ်တံခါးမပိတ်နိုင်ကြောင်း မိန့်ကြားတော်မူခဲ့ပုံကို အောက်ပါအတိုင်း တွေ့ရှိရပါသည်။

**သစ္စာလေးပါး သိအောင်လုပ်**

ထို့နောက် ဆရာတော်က ဒကာမနော်လီစန်း အား "ဒါသိဒ္ဓိတွေ၊ သမထတန်ခိုးပြတာ၊ အပါယ်တံခါး မပိတ်နိုင်ဘူး။ သစ္စာလေးပါးကို ကိုယ်တိုင် ကျင့်ပြီးသိမှ အပါယ်လွတ်မှာဖြစ်ကြောင်း" ဆုံးမတော်မူခဲ့သည်။

**ပရိတ်ရွတ်လျှင် အထက်သို့ပင် ရေတွေပန်းတက်**

ဆရာတော် ပရိတ်ရွတ်လျှင် ရေဆူရုံသာမက အထက်သို့ပင် ပန်းတက်လာကြောင်း သက်သေ ရှိပါသည်။

**ပရိတ်ကြီး (၁၁)သုတ် တန်ခိုးတော်**

ဆရာတော်သည် ဒကာမ နော်လီစန်းအား ရေတစ်ခွက်ကပ်စေပြီး ထိုရေခွက်တွင်းသို့ လက်ညှိုးနှိုက်လျက် ပရိတ်ကြီး (၁၁) သုတ် ရွတ်ဆိုတော်မူရာ ရေများ ပွက်ထလာရုံမက အထက်သို့ပင် ပန်းတက် လာသည်ကို တွေ့ရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၂

**ထူးဆန်းသော ဖြစ်ရပ်**

အခြားဖြစ်ရပ်တစ်ခုမှာ ဆရာတော်ကို ဝတ်ကြီးဝတ်ငယ်ပြုစုနေသော ကိုတင်ဝင်းသည် "ငါ့မှာ သူ့မြေးတော်ပေမယ့် အဝေးကနေ ပင့်လျှောက်ဆွမ်းကပ်ရင် ကြွမကြွ သိချင်လိုက်တာ" ဟု စိတ်ကူးမိသည်။ ထို့နောက် မိမိနေထိုင်ရာ ချောက်မြို့ ပခန်းငယ်အုပ်စု၊ ခပေါင်းတဲ၊ ဆူးပန်းချောင်းရွာနေအိမ်တွင် ဆွမ်းများခူးခပ်ပြီး "ဆရာတော် ဆွမ်းအလှူခံကြွတော်မူပါ" ဟု လျှောက်ထားလိုက်သည်နှင့် ဆွမ်းကပ်လှူထားသော ဘုရားကျောင်းဆောင်ထက်မှ "ဘောင်း" ဟူသော ကျယ်လောင်သည့်မြည်သံ ကြားလိုက်ရသည်။ ဘုရားကျောင်းဆောင်ကို ကြည့်ရှုရာ မည်သည့်ပစ္စည်းမှ အကွဲအရှ အပျက်အစီးမရှိကြောင်း တွေ့ရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၂

**ဆရာတော် သိ မသိ စုံစမ်းခဲ့သူ**

အိမ်မှာပင် ဆွမ်းပွဲပြင်၍ ဆက်ကပ် လှူဒါန်းသူများလည်း ရှိပါသည်။ ဆရာတော် ကြွမကြွ စုံစမ်းစစ်ဆေးသောအခါ အောက်ပါ မှတ်တမ်းတစ်ခုကို တွေ့ရှိရပါသည်။

ထို့နောက် ဆရာတော် သီတင်းသုံးတော်မူရာ ကျောင်းသို့ ပြန်ရောက်သောအခါ ဆရာတော်ကို ဝတ်ဖြည့်နှိပ်နယ်ရင်း "ဆရာတော် ငါ့ဆွမ်းကပ်တာ သိမသိ စုံစမ်းချင်လိုက်တာ"ဟု တွေးနေစဉ် ဆရာတော်ဘုရားကြီးက "ဟဲ့ တင်ဝင်း၊ မင်းက ဆန်ကွဲဆွမ်းကပ်တာကိုးကွ" မဆိုင်းမတွ မိန့်တော်မူသဖြင့် အံ့ဩဝမ်းမြောက်ခဲ့ရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၂

http://www.dhammadownload.com



**ဆရာတော်၏ ရုပ်ကလာပ်တည်ရာအရပ်**

ဆရာတော် ဦးပဏ္ဍိတ၏ ရုပ်ကလာပ်တော်ကို ဖူးမြော်လိုပါက ချောက်မြို့၊ အမှတ် (၁၅)ရပ်ကွက်၊ အထက(၁) ကျောင်း တောင်ဘက်ရှိ သန္တိသုခ သစ်သီးစားကျောင်းတော်တွင် ဖူးမြော်ကြည်ညို တွေ့ရှိနိုင်ကြောင်း သိရှိရပါသည်။

ကျမ်းကိုး၊ ဦးအာစရလက်ာသီရိ၊ မြတ်မင်္ဂလာ စာ-၂၂ အတွဲ၂၄/အမှတ်၈၊ ၂၀၀၉၊ ဖေဖော်ဝါရီ။

ကျမ်းကိုး၊၂၀၀၅ ခုနှစ် ဇန်နဝါရီလထုတ် နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ဆရာကျော်ငွေး၏ ငါ့လို ဖြစ်ချင်၊ ငါ့လိုကျင့်ဆောင်းပါး။

❖ ❖ ❖

http://www.dhammadownload.com



## ယနေ့တိုင် မပုပ်မသိုးရုပ်ကလာပ်တော်ရှိသော
## ပြည်မြို့ မုဒ္ဒောကျေးရွာ၊ လယ်ပြင်ကျောင်းတိုက်

# ဘဒ္ဒန္တဉာဏဝံသ

## ၁၉၁၁ –

ပြည်မြို့နယ်၊ မုဒ္ဒောကျေးရွာ၊ လယ်ပြင်ကျောင်းတိုက်တွင် မပုပ်မသိုးသော ဆရာတော်ကြီး ဘဒ္ဒန္တဉာဏဝံသ၏ ရုပ်ကလာပ်တော်ရှိကြောင်း၊ ပြည်မြို့နယ်တစ်ခွင်တွင် လူသိများကြသည်။

ကျမ်းကိုး၊ မပုပ်မသိုးတည်ရှိတော်မူသောလယ်ပြင်ကျောင်း ဆရာတော်ကြီးဘဒ္ဒန္တဉာဏဝံသ (အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ) မောင်မောင်သိန်း (သတင်းထောက် ဦးကုန်း)၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊အမှတ် ၂၄၃၊ အောက်တိုဘာလ စာ-၁၇

ဆရာတော်၏ရုပ်ကလာပ်တော်မှာ မှန်ခေါင်းအတွင်း ထည့်သွင်းထားပြီး သင်္ကန်းများလွှမ်းခြုံထား၍ မျက်နှာတော်အားဖွင့်ထားလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇

ဆရာတော်၏မျက်နှာတော်မှာပကတိ အသားကဲ့သို့ရှိပြီး ဆံပင်မွေးများမှာလည်း မူလအတိုင်း ပင်ရှိလေသည်။ အုတ်တိုက်အတွင်း အနံ့အသက်ဟူ၍လုံးဝမရှိဘဲ မည်သည့်အမွှေးနံ့သာ ပစ္စည်းမျှ ထည့်သွင်းထားခြင်းမရှိပေ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈

### ဇာတိ ရပ်ရွာ

အေဒီ ၁၉၁၁ ဆရာတော်ကြီး၏ ဘွဲ့အမည်မှာဘဒ္ဒန္တဉာဏဝံသဖြစ်ပြီး ဆရာတော်အား ၁၂၇၃ ခုနှစ်၊ နတ်တော်လဆန်း (၁)ရက်၊ အင်္ဂါနေ့တွင်ပြည်မြို့နယ်၊ အရှေ့ပေါက်တောအုပ်စု၊ ကုက္ကိုကုန်း ကျေးရွာတွင် ခမည်းတော် ဦးဘိုးခက်၊ မယ်တော် ဒေါ်ငွေစိန်တို့မှ မီးရှူးသန့်စင်ဖွားမြင်သော သားရတနာဖြစ်သည်။

### ရှင်သာမဏေဘဝ

အေဒီ ၁၉၂၀ ဆရာတော်ကြီးသည် ၁၂၈၂ ခုနှစ်၊ ကိုးနှစ်သားအရွယ်တွင် ခမည်းတော်၊ မယ်တော်တို့၏ ပစ္စယာနုဂ္ဂဟကိုခံယူ၍ တပေါင်းလဆန်း (၈)ရက်နေ့တွင် သာသနာ့ဘောင်အတွင်း ရှင်သာမဏေအဖြစ်သို့ရောက်ရှိတော်မူလေသည်။

### ရဟန်းဘဝ

အေဒီ ၁၉၃၁ ဆရာတော်ကြီးသည် ၁၂၉၃ခုနှစ်၊ ကဆုန်လဆန်း (၁၂)ရက်နေ့ နံနက်ကိုးနာရီတွင် ဗျာသစ် ကျောင်းဆရာတော် ဦးလာဘအား ဥပဇ္ဈာယ်ပြု၍ ခမည်းတော်၊ မယ်တော်တို့၏ ပစ္စယာနုဂ္ဂဟခံယူတော် မူပြီးရဟန်းအဖြစ်သို့ ရောက်ရှိတော်မူလေသည်။

http://www.dhammadownload.com



**စာသင်သား ၁၁၀**

ဆရာတော်ကြီးသည် ရဟန်းပြုပြီးလျှင် ပြည်မြို့ ညောင်တန်းကျောင်းတိုက် ဆရာတော်၊ ရန်ကုန်မြို့ခြောက်ထပ်ကြီးတိုက် ဆရာတော်တို့ထံတွင် ပါဠိစာပေများကိုသင်ယူခဲ့ပြီး ပထမငယ်၊ ပထမလတ်၊ ပထမကြီးတန်းများကို ဖြေဆိုအောင်မြင်တော်မူခဲ့သည်။

**နှစ်ပေါင်း (၅၀) စာပို့ချခဲ့**

အေဒီ ၁၉၈၁ ဆရာတော်သည် ပထမကြီးတန်းအား အောင်မြင်တော် မူပြီးနောက် ပြည်မြို့ ညောင်တန်းကျောင်း၌ စာသင်သားအပါး(၅၀)တို့အား ပရိယတ္တိ စာပေများကို သင်ကြားပို့ချ ပေးလျက်ရှိပြီးနောက် ကျောင်းသား (၈၀)ကျော်တို့အား နှစ်ပေါင်း (၅၀)ကျော်တိုင်အောင် စာပေများသင်ကြားပို့ချခဲ့သည်။

**စွယ်စုံ ဆရာ တော်**

ဆရာတော်ကြီးသည် တစ်ဖက်မှ ပရိယတ္တိစာပေများအား သင်ကြားပို့ချရင်း တစ်ဖက်မှလည်း သာသနာရေးအား ဆောင်ရွက်လျက်ရှိရာ ပြည်မြို့ ဝိနည်းဓိုရ်ဆရာတော် အဖြစ်လည်းကောင်း၊ ကျေးရွာအုပ်စု သံဃနာယက ဥက္ကဋ္ဌအဖြစ်လည်းကောင်း သာသနာရေးအား ဆောင်ရွက်လျက်ခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈

**မုဋ္ဌောရွာ သမိုင်းကြောင်း**

အေဒီ ၁၂၅၆ သုမုန္တရီမင်းသည် သာသနာနှစ် ၆၁၇ ခုနှစ်တွင် နန်းတက်ပြီးဘုရားလေးဆူတည်ထားရာ
၁။ ရဟန္တာရှစ်ဆူဘုရား မင်္ဂလာသိင်္ဂီတိုက်မြို့လှတွင်လည်းကောင်း၊
၂။ ရဟန္တာလေးဆူဘုရားမှာ ရသေ့မြို့အနောက်တောင် ရဟန္တာကန်နားတွင်လည်းကောင်း၊
၃။ မက်တောဘုရားမှာရသေ့မြို့မုဋ္ဌောရွာတွင်လည်းကောင်း၊
၄။ မုဋ္ဌောဘုရားမှာ မုဋ္ဌောရွာတွင်လည်းကောင်း၊

ဆရာတော်ကြီးသည် မုဋ္ဌောစေတီနှင့်တကွ မော်ဇာမြို့ မိုယ်းကောင်းစေတီတော်များအားပြုပြင်ခဲ့ခြင်း၊ မော်ဇာမြို့မှ မုဋ္ဌောကျေးရွာအထိ လမ်းတံတားများဖောက်ခြင်းတို့ကို ဆောင်ရွက်ပြုပြင်ခဲ့သည်။ ဆရာတော်ကြီးသည် ပရိယတ္တိကိုတစ်ဖက်မှ ပို့ချသင်ကြားပေးခြင်း၊ သာသနာရေးအား တစ်ဖက်မှဆောင်ရွက်၍ ဘုရားစေတီ၊ လမ်း၊ တံတားတို့အား ပြုပြင်တည်ဆောက်ဖောက်လုပ်ခဲ့သည်။

**ကိုယ်တိုင်လည်းကျင့်ခဲ့ နည်းလည်းပေးခဲ့**

ဆရာတော်ကြီးသည် ပဋိပတ္တိဖြစ်သော ဝိပဿနာစခန်း တို့ကို မိမိကိုယ်တော်တိုင်အားထုတ်ခြင်း၊ တပည့်ဒါယကာ၊ ဒါယိကာမတို့ကိုလည်း အားထုတ်စေခြင်းတို့အား ကိုယ်တိုင်ကိုယ်ကျ နည်းပေးလမ်းပြ ပြုလုပ်ဆောင်ရွက်ပေးခဲ့သည်။

**မေတ္တာကမ္မဋ္ဌာန်းနှင့် ဝိပဿနာစခန်း**

ဆရာတော်ကြီးသည် မေတ္တာကမ္မဋ္ဌာန်းကို အထူးပွားများလျက် ရှိသည်။ ဆရာတော်ကြီးသည် ဝိပဿနာစခန်းတည်ဆောက်ရာတွင် (၃၂) ကောဋ္ဌာသကမ္မဋ္ဌာန်းအား စီးဖြန်းခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၀

http://www.dhammadownload.com



**အဆင့်မြင့် သာသနာပြုဘွဲ့ရခဲ့**

အေဒီ ၁၉၉၈ — ၁၉၉၈ ခုနှစ်၊ ဇန်နဝါရီလ (၄)ရက်နေ့တွင် နိုင်ငံတော်အေးချမ်း သာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ အမိန့်ကြေညာစာအမှတ်(၂/၉၈)ဖြင့် အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ ဘွဲ့တံဆိပ်တော်အား ပဲခူးတိုင်း(အနောက်ပိုင်း) ပြည်မြို့နယ်၊ မုဒ္ဒောကျေးရွာလယ်ပြင်ကျောင်းတိုက် ဆရာတော်ဘဒ္ဒန္တ ဉာဏဝံသအား ဆက်ကပ်လှူဒါန်းခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၀

ကျမ်းကိုး၊ မပုပ်မသိုးတည်ရှိတော်မူသောလယ်ပြင်ကျောင်း ဆရာတော်ကြီးဘဒ္ဒန္တ ဉာဏဝံသ (အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ)မောင်မောင်သိန်း (သတင်းထောက် ဦးကုန်း) နက္ခတ္တရောင်ခြည်မဂ္ဂဇင်း အမှတ် ၂၄၃၊ အောက်တိုဘာလ စာ-၁၇

http://www.dhammadownload.com



ကမ္ဘာ့မှတ်ဉာဏ်အကောင်းဆုံး လူသားအဖြစ် ဂင်းနစ်မှတ်တမ်းဝင်
သံသရာတွင် နောင်တစ်ဖန်ပြန်၍ မဆုံနိုင်တော့ပြီဟု မှတ်တမ်းတင်ရသော
တစ်ကမ္ဘာ တစ်ခါကြုံသည့် ရဟန်းထူး ရဟန်းမြတ်
တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက

# တိပိဋကဆရာတော် ဘဒ္ဒန္တ ဝိစိတ္တသာရာဘိဝံသ

၁၉၁၁ – ၁၉၉၃



http://www.dhammadownload.com



**ဗုဒ္ဓစကားတော် နှစ်ဆယ့်တစ်သန်းကျော်**

ပိဋကတ်သုံးပုံဟူသည် ဝိနယငါးကျမ်း၊ သုတ္တန်နှစ်ဆယ့်လေးကျမ်း၊ အဘိဓမ္မာဆယ့်နှစ်ကျမ်းအား ဖြင့် ကျမ်းစာအုပ်ကြီးပေါင်း ၄၁ အုပ်ရှိပါသည်။ ပိဋကတ်သုံးပုံ ပါဠိတော်ကို ယခုခေတ်ပေါ် ကွန်ပျူတာ၌ ထည့်သွင်းကြည့်ရှုသောအခါ ပိဋကတ်သုံးပုံရှိ မြတ်စွာဘုရားရှင်၏ စကားလုံး ပေါင်း ၂၁ သန်း ၅ သိန်းကျော် (၂၁၅၂၁၈၁၉) ရှိကြောင်း တွေ့ရှိရပါသည်။

ကျမ်းကိုး၊ ကမ္ဘာ့အကြီးဆုံး စာအုပ်ကြီးကို အရကျက်ထားနိုင်သူ ဝိပဿနာ ဆရာကြီး ဦးဂိုအင်ကာ၊ ဘုံဘေ၊ အိန္ဒိယ၊ ရတနာမွန်မဂ္ဂဇင်း၊ အတွဲ ၂၀၊ အမှတ် ၄၊ ၁၉၉၃၊ ဧပြီလ၊ စာ-၂၁

**ကမ္ဘာပေါ်မှာ တစ်ပါးသာရှိ**

ထိုစကားလုံးများတွင်လည်း အက္ခရာတစ်လုံးတည်းပါသောစကားလုံး၊ သမာသ်စပ်ထားသဖြင့် အက္ခရာတစ်ရာ ကျော်ပါဝင်သော စကားလုံးများအထိပါဝင်သည်။ ထိုမျှထုထည်ကြီးမား၍ အပြောကျယ်လှသော ကျမ်းစာများကို အလွတ်ကျက်မှတ်နိုင်ခြင်း မည်သည့်နေရာကမဆို ကောက်ကာငင်ကာရွတ်ပြနိုင်ခြင်းဟူသော စွမ်းရည်သတ္တိထူးရှိ သောပုဂ္ဂိုလ်မျိုးကား ကမ္ဘာကျော် အထွတ်အထိပ်မှတ်တမ်းတင်ရမည့် ပုဂ္ဂိုလ်ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၁

**သာသနာ (၂၅၀၀)တစ်ဆက် အာဇာနည် တစ်ပါး**

ဆဋ္ဌသင်္ဂါယနာတင်မည်ရှိသောအခါ မြန်မာနိုင်ငံ၌ ထိုသို့သော အာဇာနည်ပုဂ္ဂိုလ်ထူး တစ်ပါး ဦးစွာပေါ်ပေါက်ခဲ့ပါသည်။

**ကမ္ဘာကပင် အံ့ဩရ**

သူကား အရှင်ဝိစိတ္တသာရာဘိဝံသ ဖြစ်ပါသည်။ ကမ္ဘာ့ပုဂ္ဂိုလ်ကျော်များ မှတ်တမ်းစာအုပ်ကြီး တွင် အရှင်ဝိစိတ္တအား နှစ်ကြိမ်တိုင်တိုင် မှတ်တမ်းတင် နေရာပေးခဲ့ရပါသည်။

**ကမ္ဘာ့အကြီးဆုံး စာအုပ်ကြီးကို အာဂုံဆောင်ခဲ့**

အရှင်ဝိစိတ္တသာရာဘိဝံကား ကမ္ဘာပေါ်တွင်အကြီးဆုံးစာအုပ်ကြီးကို ပထမဆုံး အလွတ်ရ အောင် နှုတ်ငုံဆောင် ကျက်မှတ်နိုင်သော အရှင်မြတ်ကြီးပါတည်း။

အရှင်ဝိစိတ္တသာရာဘိဝံသကား ပါဠိတော်အုပ်ကြီးများကိုသာမက အဋ္ဌကထာ၊ ဋီကာ၊ အနုဋီကာ စသည် တို့ကိုပါ အုပ်ပေါင်းနှစ်ရာခန့်ကို လိုအပ်သောနေရာများကို လိုသလို ကျက်မှတ်ဆောင် ယူနိုင်သော တကယ့်အာဇာနည်အရှင်မြတ်ကြီးဖြစ်ပါသည်။ သူ့အားဥပမာနှိုင်းရသော် မြတ်စွာ ဘုရားရှင် လက်ထက်တော်က ညီတော်အာနန္ဒာနှင့်သာ နှိုင်းအပ်ပါတော့သည်။

သင်္ဂါယနာ တင်သောအခါတွင်လည်း အမေးရှင်များ အပြောင်းအလဲရှိစေကာမူ အဖြေရှင် အရှင်ဝိစိတ္တသာရာဘိဝံသကား အစမှအဆုံးတောက်လျှောက်ပင်တိုင် ဖြေဆိုနိုင်သော ပုဂ္ဂိုလ် ထူးကြီး ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၂

**ဘွဲ့ထူး ဂုဏ်ထူး (၃၀)ကျော်**

ထို့ကြောင့်လည်း နိုင်ငံတော်အစိုးရက အရှင်ဝိစိတ္တသာရာဘိဝံသအား အမြင့်ဆုံးဘွဲ့ထူးကြီးများ ဖြင့် ဂုဏ်ပြုပူဇော်ခဲ့ကြရပါသည်။ သူကား မြန်မာနိုင်ငံရှိ ဘွဲ့ထူးဂုဏ်ထူး ၃၀ ကျော်ကိုပိုင်ဆိုင် သော တကယ့်အာဇာနည်ကြီးဖြစ်ပါသည်။ အမှတ်သတိဉာဏ်နှင့် ပဋိဘာန်အရာမှာ အံ့ချီး မကုန်ရှိပါတော့သည်ဟု မှတ်တမ်းတွေ့ရ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃

http://www.dhammadownload.com



**ဆရာတော်၏အားပေးကူညီမှု**

အရှင်ဝိစိတ္တသာရာဘိဝံသသည် ပါဠိဘာသာကိုသာမက မြန်မာဘာသာတွင်လည်း အလွန်ကျွမ်းကျင်နိုင်နင်းတော်မူပါသည်။ ၆ အုပ် ရှစ်တွဲ စာမျက်နှာပေါင်း ၅၅၁၆ မျက်နှာရှိ ဗုဒ္ဓဝင်စာအုပ်ကြီးကိုလည်း မြန်မာဘာသာဖြင့် ရေးသားပြုစုတော်မူထားပါသည်။ အခြားကျမ်းများ၊ ကဗျာလင်္ကာများကိုလည်း ပြုစုထားပါသည်။ အရှင်ဝိစိတ္တ၏ ဗုဒ္ဓဝင်ကျမ်းကြီးကိုသာ ဟိန္ဒူဘာသာ ပြန်ဆိုနိုင်ကြပါမူ ဟိန္ဒူစာပေနှင့် ဟိန္ဒူလူမျိုးတို့အတွက် များစွာအကျိုးဖြစ်ထွန်းမည်မှာ မလွဲပါ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃

ဤကဲ့သို့သော ကမ္ဘာပေါ်တွင် နှစ်ဦးမရှိသော ပုဂ္ဂိုလ်ထူးကြီးနှင့် တွေ့ကြုံ ဖူးမြော်ခွင့်ရသည်မှာ ကျွန်ုပ်တို့ကံကောင်း ထောက်မခြင်းပင်ဖြစ်ပါတော့သတည်း။

(ကျမ်းကိုး၊ ကမ္ဘာ့အကြီးဆုံး စာအုပ်ကြီးကို အရကျက်ထားနိုင်သူ ဝိပဿနာ ဆရာကြီး ဦးဂိုအင်ကာ၊ ဘုံဘေ၊ အိန္ဒိယ၊ ရတနာမွန်မဂ္ဂဇင်း၊ အတွဲ ၂၀၊ အမှတ် ၄၊ ၁၉၉၃ ၊ ဧပြီလ၊ စာ-၂၁)

ကျမ်းကိုး။မွှောစရိယ ဦးဌေးလှိုင် ဆရာရာမ်ပူဂျန်ဖားမား ၁၂. ၃. ၁၉၉၃

ဆရာတော်ဘုရားကြီးသည် သာမဏေဘဝမှ ရဟန်းဘဝအထိ ပရိယတ္တိစာမေးပွဲ အောင်လက်မှတ်များနှင့် ဂုဏ်ပြုလက်မှတ်တော်များ အများဆုံးဆက်ကပ်ခံရသော ဆရာတော်ကြီးတစ်ပါးဖြစ်သည်။

ကျမ်းကိုး၊ ဖြိုးဝေမိုး၊ စာ - ၉

**ရခဲ့သော ဘွဲ့ထူး ဂုဏ်ထူးများ**

| | |
|---|---|
| အေဒီ ၁၉၂၄ | (၁) မြင်းခြံမြို့ ဝိနည်းစာပြန်ပွဲ သဒ္ဒါကြီးရှစ်စောင် အာဂုံပြန်အောင် လက်မှတ် (အသက် ၁၃ နှစ်)၊ ၁၉၂၄။ |
| အေဒီ ၁၉၅၂ | (၂) မြင်းခြံမြို့ဝိနည်းစာပြန်ပွဲ သဂြိုဟ် ၉ - ပိုင်းအာဂုံပြန် အောင်လက်မှတ် (အသက် ၁၄ နှစ် ၁၉၅၂)။ |
| အေဒီ ၁၉၂၆ | (၃) အစိုးရပထမငယ်တန်းအောင်လက်မှတ် (အသက် ၁၅ နှစ်၊ ၁၉၂၆) |
| အေဒီ ၁၉၂၇ | (၄) အစိုးရပထမလတ်တန်း အောင်လက်မှတ် (အသက် ၁၆ - နှစ်) ၁၉၂၇။ |
| အေဒီ ၁၉၃၀ | (၅) အစိုးရပထမကြီးတန်းအောင်လက်မှတ်(အသက် ၂၀ နှစ် ၁၉၃၁) |
| အေဒီ ၁၉၃၂ | (၆) အမျိုးသား ပထမကြီးတန်းစာမေးပွဲအောင်လက်မှတ် (အသက် ၂၁ နှစ်၊ ၁၉၃၂ |
| အေဒီ ၁၉၃၃ | (၇) ပရိယတ္တိသက္ကျ သီဟ ဘသင်ဘန်း စာမေးပွဲ ပရိယတ္တိသာသနဟိတ သီးခြားစာသင်တန်းအောင် လက်မှတ် (အသက် ၂၂ နှစ် ၁၉၃၃)၊ |
| အေဒီ ၁၉၃၃ | (၈) အစိုးရ ပထမကြီးတန်းအောင်လက်မှတ်(တစ်ဂဏန်းပြ၍ ဒုတိယတစ်ဖန် အောင်မြင်ခြင်း) (အသက် ၂၂ နှစ် ၁၉၃၃) |
| အေဒီ ၁၉၃၄ | (၉) ပရိယတ္တိသက္ကျသီဟ စာချတန်း စာမေးပွဲ ပရိယတ္တိသာနသဟိတ သီးခြားစာချတန်းအောင်လက်မှတ် (အသက်၂၃ နှစ် ၁၉၃၄)။ |
| အေဒီ ၁၉၃၄ | (၁၀) အစိုးရပထမကျော် အောင်လက်မှတ် (အသက် ၂၃ နှစ် ၁၉၃၄)။ |
| အေဒီ ၁၉၄၁ | (၁၁) အစိုးရစာချ တန်းအောင်လက်မှတ် (ဂုဏ်ထူးဖြင့်)(အသက် ၂၉ နှစ် ၁၉၄၁) |
| အေဒီ ၁၉၄၄ | (၁၂) စစ်ကိုင်းမြို့မ နာယက လက်မှတ်(အသက် ၃၃ နှစ်၊ ၁၉၄၄)။ |
| အေဒီ ၁၉၅၁ | (၁၃) ၃ - ကြိမ်မြောက် အစိုးရတိပိဋကဓရ စာမေးပွဲဝိနည်း ၅-ကျမ်း၊ အာဂုံရေးဖြေအောင်လက်မှတ် (အသက် ၃၉နှစ် ၊ ၁၉၅၁) |

http://www.dhammadownload.com



| | |
|---|---|
| အေဒီ ၁၉၅၂ | (၁၄) ၄ ကြိမ်မြောက် အစိုးရတိပိဋကဓရစာမေးပွဲ အဘိဓမ္မာရှေ့ပိုင်း ၅ ကျမ်း အာဂုံရေးဖြေအောင်လက်မှတ် (အသက် ၄၀ နှစ်၊ ၁၉၅၂) |
| အေဒီ ၁၉၅၃ | (၁၅) ၅ ကြိမ်မြောက် အစိုးရတိပိဋကဓရစာမေးပွဲ အဘိဓမ္မာနောက်ပိုင်း ၂ ကျမ်း၊ အာဂုံရေးဖြေ အောင်လက်မှတ် (အသက် ၄၁ နှစ် ၁၉၅၃)၊ |
| အေဒီ ၁၉၅၄ | (၁၆) ၆ ကြိမ်မြောက် အစိုးရတိပိဋကဓရ စာမေးပွဲသုတ် ၃ - ကျမ်း (ဒီဃနိကာယ်) အာဂုံရေးဖြေအောင်လက်မှတ် (အသက် ၄၂ နှစ် ၁၉၅၄)။ |
| အေဒီ ၁၉၅၄ | (၁၇) တိပိဋကဓရစာမေးပွဲ အစိုးရတိပိဋကဓရအောင်လက်မှတ် (သင်ရိုးပိဋကသုံးပုံပြန်-ဖြေ-ပြီးဆုံး) (အသက် ၄၂ နှစ် ၁၉၅၄) |
| အေဒီ ၁၉၅၄ | (၁၈) တိပိဋကဓရ စာမေးပွဲသင်ရိုး ပိဋကသုံးပုံ ဂုဏ်ထူး ၂ ခုစီနှင့် ပြန်-ဖြေ ပြီးဆုံး၍ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက လက်မှတ်တော် (အသက် ၄၂ နှစ် ၁၉၅၄) |
| အေဒီ ၁၉၅၇ | (၁၉) ဆဋ္ဌသံဂီတိ ဓမ္မဝိဿဇ္ဇက ဆဋ္ဌသင်္ဂါယနာဝင် သာသနာပြု လက်မှတ် (အသက် ၄၅ နှစ် ၁၉၅၇)၊ |
| အေဒီ ၁၉၅၇ | (၂၀) ဆဋ္ဌသံဂီကာရက ဆဋ္ဌသင်္ဂါယနာဝင် သာသနာပြုလက်မှတ် (အသက် ၄၅ နှစ်၊ ၁၉၅၇) |
| အေဒီ ၁၉၅၇ | (၂၁) ဆဋ္ဌသံဂီတိဘာဏက ဆဋ္ဌသင်္ဂါယနာဝင် သာသနာပြုလက်မှတ်(အသက် ၄၅ နှစ် ၁၉၅၇) |
| အေဒီ ၁၉၅၇ | (၂၂) ဆဋ္ဌသံဂီတိ ဘာရနိတ္ထာရက ဆဋ္ဌသင်္ဂါယနာတင် သာသနာပြုလက်မှတ် (အသက် ၄၅ နှစ်၊ ၁၉၅၇) |
| အေဒီ ၁၉၅၇ | (၂၃) ဆဋ္ဌသံဂီတိ ပါဠိဝိသောဓက ဆဋ္ဌသင်္ဂါယနာဝင် သာသနာပြုလက်မှတ် (အသက် ၄၅ နှစ်၊ ၁၉၅၇)။ |
| အေဒီ ၁၉၅၇ | (၂၅) ဆဋ္ဌ သံဂီတိ ဩသာန သောဓေယျ ပတ္တပါဠက သာသနာပြုလက်မှတ် (အသက် ၄၅ နှစ် ၁၉၅၇)။ |
| အေဒီ ၁၉၆၂ | (၂၆) အဋ္ဌကထာ သံဂီတိကာရက သာသနာပြုလက်မှတ် (အသက် ၅၀ နှစ် ၁၉၆၂) |
| အေဒီ ၁၉၇၉ | (၂၈) အဂ္ဂမဟာပဏ္ဍိတ လက်မှတ် (အသက် ၆၈ နှစ် ၁၉၇၉)၊ |
| အေဒီ ၁၉၈၁ | (၂၉) နိုင်ငံတော်သံဃမဟာနာယက အကျိုးတော်ဆောင်လက်မှတ် (အသက် ၇၀ နှစ် ၁၉၈၁) |
| အေဒီ ၁၉၈၄ | (၃၀) အဘိဓဇ မဟာရဋ္ဌ ဂုရု လက်မှတ် (အသက် ၇၃ နှစ် ၊ ၁၉၈၄) |
| အေဒီ ၁၉၈၆ | (၃၁) နိုင်ငံတော်သံဃမဟာနာယကလက်မှတ် (သက်တော် ၇၅ နှစ်၊ ၁၉၈၆) |
| အေဒီ ၁၉၉၁ | (၃၂) အဘိဓဇ အဂ္ဂမဟာသဒ္ဓမ္မဇောတိက လက်မှတ် (သက်တော် ၈၀ ၊ ၁၉၉၁) တို့ ဖြစ်ကြသည်။ |

(ကျမ်းကိုး၊ ဖြိုးဝေမိုး၊ စာ - ၁၀)

ကျမ်းကိုး၊ ကမ္ဘာ့အကြီးဆုံး စာအုပ်ကြီးကို အရကျက်ထားနိုင်သူ ဝိပဿနာ ဆရာကြီး ဦးဂိုအင်ကာ၊ ဘုံဘေ၊ အိန္ဒိယ၊ ရတနာမွန်မဂ္ဂဇင်း၊ အတွဲ ၂၀၊ အမှတ် ၄၊ ၁၉၉၃ ၊ ဧပြီလ၊ စာ-၂၁

**ကိုယ်တော်တိုင် မိန့်ကြားချက်**

| | |
|---|---|
| အေဒီ ၁၉၇၈ | ရန်ကုန်မြို့၊ မဟာစည်သာသနာ့ရိပ်သာ ဖလ်ယဉ်ဓမ္မာရုံကြီး၌ ၁၃၄၀ ပြည့်နှစ် နယုန်လပြည့်ကျော် ၅ ရက်နေ့တွင်ကျင်းပသော တိပိဋကဓရဘွဲ့ရရှိသည့် ၂၅ နှစ်မြောက် ငွေရတုသာဘင်ပူဇော်ပွဲ၌ မင်းကွန်းတိပိဋကဓရဓမ္မဘဏ္ဍာဂါရိက အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်ဝိစိတ္တသာရာဘိဝံသ ဟောကြားတော်မူသည့် တိပိဋကဓရရွေးချယ်ပွဲတွင် ဝင်ရောက်ဖြေဆိုတော်မူရပုံအကြောင်းနှင့် ဩဝါဒကထာ အနုမောဒနာတရားတော် မှတ်တမ်းသည် သမိုင်းဝင်ဂန္ထဝင်ဖြစ်၏။ |

http://www.dhammadownload.com



(ကျမ်းကိုး၊ ဆရာတော် အရှင်ဝိစိတ္တသာရာဘိဝံသ၏ထေရုပ္ပတ္တိအကျဉ်းနှင့်ဋ္ဌေရတု ဩဝါဒကထာ ဝိပဿနာဆယ်မျိုး တရားလက်ာများနှင့် သံဝေဂါထာလက်ာများတိပိဋကနိကာယ သာသနာပြုအဖွဲ့၊ မင်းကွန်း၊ မန္တလေး၊ ရန်ကုန် ၁၉၇၉၊ ဖေဖော်ဝါရီလ၊ စာ-၂၅)

**ကိုယ်တော်တိုင် မိန့်ကြားချက်**

ဘုန်းကြီးရဲ့ခံယူချက်သည် အရင်းကြီးကြီးနဲ့ အမြတ်အစွန်းနည်းနည်းလိုချင်တာ ဘုန်းကြီးရဲ့ ခံယူချက်ပါပဲလို့ အဲဒီလို ပြောတယ်။ ဒီဆောင်ပုဒ်ရဲ့အဓိပ္ပါယ်ကအရင်းကြီးကြီးနဲ့ အမြတ်နည်းနည်းလိုချင်တယ် ဆိုတာ မိမိရဲ့ဆောင်ရွက်ချက်ကို ဘေးက တစ်ဦးတစ်ယောက်ကြည့်လျှင် သမ္မောဓိဆုကြီးများ ပန်ထားသလားလို့ အောက်မေ့ မှတ်ယူဖွယ်ပါပဲ။

**ဓမ္မစရ အမည်ဖြင့် သောတာပန်နတ်သား ဖြစ်ရပါလို၏ ဆုပန်ချက်**

သို့သော် ဘုန်းကြီးရဲ့ ဆုပန်ချက်သည် - ဒုတိယေ အတ္တဘာဝမှိ လဒ္ဓါသပ္ပုညနိဿယံ၊ ဓမ္မစရော တိနာမေန သောတာပန္နော မရူဘဝေ၊ ဒုတိယကိုယ် အဖြစ်၌ မိတ်ဆွေကောင်း ပညာရှိတို့၏ အမှီကို ရပြီးဓမ္မစရဟူသောအမည်ဖြင့် သောတာပန် နတ်သားဖြစ်ရပါလို၏ ဆုတောင်းပါတယ်။ ဤဘုရားသာသနာတော်မှာပင် ကျွတ်တမ်းဝင်ရပါလို ၏လို့ ဆုတောင်းပါ တယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၆

ဆောင်ပုဒ်နဲ့ ပြန်စစ်ပြီးတော့ ပြောရလို့ရှိရင် အရင်းကြီးကြီးနဲ့ အမြတ်နည်းနည်းကို လိုချင်တဲ့ ပုဂ္ဂိုလ်လို မိမိဆောင်ရွက်ချက်က သမ္မောဓိဆုကြီးပန်ပုဂ္ဂိုလ်ကြီးများလို ရွက်ဆောင်ပြီးတော့ လိုချင်တဲ့ဆုဟာလဲ သာဝကဗောဓိမှ ပကတိသာဝက ဗောဓိဆုလောက်သာ လိုချင်ပါတယ်။ ဒါဟာဘုန်းကြီး ရဲ့ခံယူချက်ပါပဲလို့ ဝိနည်းပူဇော်ပွဲမှာ ခံယူချက်အကျဉ်းကို ပြောခဲ့ပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၇

**စာမေးပွဲ ဖြေဆိုခဲ့ပုံ**

အေဒီ ၁၉၄၈ ရဟန်းဒကာကြီး(ဆာဦးသွင်)ကလဲ မလျှော့သော ဇွဲ-လုံ့လ-ဝီရိယဖြင့် (၁၃၁၀)ပြည့်နှစ် တိပိဋကရေစာပြန်ပွဲကို မရောက်ရောက်အောင် ကြွပါ၊ မီးရထားနဲ့လာမဖြစ်ရင် လေယာဉ်ပျံနဲ့ လာခဲ့ပါဆိုပြီး အပူတပြင်း ရဟန်းဒကာကြီးရဲ့ ဖိတ်ခေါ် ချက်အရ ပထမဆုံးအကြိမ်ကျင်းပတဲ့ တိပိဋကရေ စာမေးပွဲ စာပြန်ပွဲသို့ လာခဲ့ပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၈

**ဇာတိ မွေးရပ်ရွာ**

အေဒီ ၁၉၁၁ မန္တလေးတိုင်း၊ မြင်းခြံမြို့နယ်၊ ကျည်းပင်(သဲဖြူဝ)ရွာ၌ ခမည်းတော် ရွာသူကြီးဦးဆုံ၊ မယ်တော် ဒေါ်ဆင်တို့မှ ၁၂၇၃ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၁၁ ရက်၊ ဗုဒ္ဓဟူးနေ့ (နေ့စက်နာရီ ၃နာရီကျော်) တွင် ဖွားမြင်တော်မူသည်။ သားသမီးသုံးယောက်အနက် သားအလတ်ဖြစ်သည်။

**ငယ်မည် မောင်ခင်**

မိဘဆွေမျိုးဉာတကာတို့၏ခင်မင်မှုကို အကြောင်းပြု၍ ငယ်နာမည် "မောင်ခင်"ဟုခေါ်တွင်သည်။ ဇာတာတော်၌ကား မောင်ရန်ရှင်းဟု ရေးမှတ်ခဲ့ကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃

**လေးနှစ်သား ဘဝ**

အေဒီ ၁၉၁၅ (၄)နှစ်သားအရွယ်၌ ဖခင်ဦးဆုံကွယ်လွန် အနိစ္စရောက်သဖြင့် မိခင်ဒေါ်ဆင်နှင့်အတူ အဘိုးဖြစ်သူ ဆရာကြီး ဦးချယ်၊ ဒေါ်အံ့တို့ထံ ရွှေ့ပြောင်းနေထိုင်ရလျက် အဘိုးအဘွားတို့၏ စောင့်ရှောက် ပြုစုမှုကို ခံယူရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄

http://www.dhammadownload.com



**ခြောက်နှစ်သား ဘဝ**

အေဒီ ၁၉၁၇ (၆)နှစ်သားအရွယ်တွင် ကျည်းပင်ကျောင်း ဆရာတော်အရှင်သာသနမထေရ်ထံတွင် ပညာသင်ကြားရန် အပ်နှံသည်။ ကျောင်းသားကြီးများ၏ စာအံသံကိုကြားကာမျှဖြင့်သင်ပုန်းကြီး၊ မင်္ဂလသုတ် စသည့်စာများကို မှတ်သားရွတ်ဆို နိုင်သည်။ အိမ်တွင်လည်း အဘိုးဦးချယ်နှင့် သမီးဒေါ်ငွေပေါ်(ဆရာတော်၏အရီး)တို့က ဘုရားရှိခိုး၊ ငါးပါးသီလ၊ မေတ္တာပို့စသည်တို့ကို သင်ကြားပေးသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄

ကျည်းပင်ကျောင်းသို့ အပ်နှံသည့်အချိန်(၆)နှစ်သားအရွယ်၌ပင် အဘိုးဦးချယ်၊ အဘွားဒေါ်အုံတို့က ပထမအကြိမ်ရှင်ပြုပေးသည်။ ငယ်လှသေး၍ သင်္ကန်းမဆီးရသေး။

**ရှစ်နှစ်သား ဘဝ**

အေဒီ ၁၉၁၉ အသက်(၈)နှစ် အရွယ်တွင် မြင်းခြံမြို့ မင်းကျောင်းတိုက် စာချဆရာတော် ဦးသောဘိတထံ ရွှေ့ပြောင်းအပ်နှံ၍ စာသင်ကြားစေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄

**ဆယ်နှစ်သား ဘဝ**

အေဒီ ၁၉၂၁ (၁၀)နှစ်သားအရွယ်တွင် မိခင်ဒေါ်ဆင်၏ ပစ္စယာနုဂ္ဂဟဖြင့် ဆရာတော်ဦးသောဘိတက ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေအဖြစ်သို့ ရောက်တော်မူသည်။ သာမဏေငယ်၏ "ဉာဏ်အမြင်ဆန်းကြယ်မှု"ကို အစွဲပြု၍ "အရှင်ဝိစိတ္တ သာရ"ဟူသောဘွဲ့အမည် ပေးတော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅

**ဆယ့်ကိုးနှစ်သား ဘဝ**

အေဒီ ၁၉၃၀ ဥပဇ္ဈာယ်ဆရာ ပျံလွန်တော်မူပြီးနောက်၊ အသက်(၁၉)နှစ်အရွယ်တွင် မြင်းခြံ မင်းကျောင်းတိုက်မှ ဘုန်းတော် ကြီး ဦးဣန္ဒာလောက က မန္တလေးမြို့ အနောက်ဘက် မင်းကွန်းတောင်ရိုးရှိ ဓမ္မနာဒတိုက်ဆရာတော် အရှင်ပညာ စက္ကမထေရ်ထံပို့ဆောင်အပ်နှံ၍ ပညာဆက်လက်သင်ကြားစေသည်။

**ရဟန်း ဘဝ အစ**

အေဒီ ၁၉၃၀ ၁၂၉၂ ခုနှစ် နှောင်းတန်ခူးလဆန်း ၆ ရက်နေ့တွင် မင်းကွန်းငွေတောင်တောရ ကျောင်းတိုက်ခဏ္ဍသိမ်၌ ဓမ္မနာဒ ဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ မြင့်မြတ်သော ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

**ဆရာ့ ဆရာများ**

မန္တလေးမြို့ ရွှေရေးဆောင် ဆရာတော်၊ ညောင်ကန်ဆရာတော်၊ မစိုးရိမ် ဆရာတော်၊ စစ်ကိုင်းမြို့ ဘုရားကြီးဆရာတော်၊ သမ္ဗာသတိဆရာတော်၊ မဟာသစ်ဝင်ချောင် ဆရာတော်၊ မင်းကွန်း တောင်ရိုး ချမ်းသာကြီးဆရာတော်၊ ပေါင်းတောင်ကူဆရာတော်၊ ငွေတောင် တောရ ရွှေကျင်ဆရာတော် အစရှိသည့်သာသနာ့ အဓိပတိဆရာတော်ကြီးများက ကမ္မဝါ ဆရာတော်များအဖြစ်ဖြင့် ချီးမြှင့်ဆောင်ရွက်တော်မူကြသည်။

**ဒေါ်ဓမ္မစာရီနှင့် သူဌေးကြီး ဆာဦးသွင်**

ရဟန်းဒါယကာများမှာ မင်းကွန်းတောင်ရိုး ရန်ကုန်အိမ်ကြီးချောင် သီလရှင်ဆရာကြီး ဒေါ်ဓမ္မစာရီနှင့် ရန်ကုန် မြို့သူဌေးကြီး ဆာဦးသွင်၊ သူဌေးကတော် ဒေါ်ဒေါ်သိန်းတို့ ဖြစ်ကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅

http://www.dhammadownload.com



ဆရာတော်ဘဒ္ဒန္တဝိစိတ္တသာရသည် မြင်းခြံမြို့နယ် ကျည်းပင်ရွာကျောင်းဆရာတော် အရှင်သာသန၊ မြင်းခြံမြို့ မင်းကျောင်းတိုက် စာချဆရာတော် ဦးသောဘိတ၊ ငါးထပ်တိုက်ဆရာတော် ဦးမုနိန္ဒ၊ တန်ဆောင်းကြီးတိုက် ဆရာတော် ဦးဝိသုဒ္ဓ၊ ပထမဓမ္မနာဒကျောင်းတိုက်ဆရာတော် ဦးပညာစက္က၊ ကွမ်းထားဆရာဖြစ်သူ အရှင်အဂ္ဂဝံသတို့ထံတော်၌ ပရိယတ္တိအခြေခံကျမ်းစာများနှင့် ပါဠိ၊ အဋ္ဌကထာ၊ ဋီကာ၊ ကျမ်းစာများကို ပါရဂူရောက်တတ်မြောက်လိမ္မာအောင် ငယ်စဉ်ကပင် သင်ကြားဆည်းပူးတော်မူပြီးလျှင် စာမေးပွဲပေါင်းများစွာတို့ကို ထူးချွန်စွာအောင်မြင်တော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆

**တိပိဋက ဘဝသို့ လမ်းကြောင်းဖြစ်စဉ်**

| | |
|---|---|
| အေဒီ ၁၉၂၄ | အသက် (၁၃)နှစ်တွင် မြင်းခြံမြို့နယ်လုံးဆိုင်ရာ စာပြန်ပွဲ၌ကစ္စည်းသဒ္ဒါကြီးရှစ်စောင်ကိုလည်းကောင်း၊ |
| အေဒီ ၁၉၂၅ | ၁၄ နှစ်သား အရွယ်တွင် သင်္ဂဟ ၉ ပိုင်းကိုလည်းကောင်း ပြန်ဆိုအောင်မြင်တော်မူခဲ့ပါသည်။ |
| အေဒီ ၁၉၂၅ | အသက် ၁၅ နှစ်အရွယ်တွင် အစိုးရ ပထမငယ်တန်းကိုလည်းကောင်း၊ ၁၆ နှစ်သားအရွယ်တွင် အစိုးရပထမ လတ်တန်းကိုလည်းကောင်း၊ |
| အေဒီ ၁၉၃၁ | ရဟန်းဖြစ်စ ဝါမရမီ ၁၂၉၃ ခုနှစ်၌ အစိုးရ ပထမကြီးတန်းကိုလည်းကောင်း၊ |
| အေဒီ ၁၉၃၂ | ရဟန်း ၁ ဝါအရ ၁၂၉၄ ခုနှစ်တွင် အိမ်တော်ရာအမျိုးသားပထမကြီးတန်းကိုလည်းကောင်း၊ |
| အေဒီ ၁၉၃၃ | ရဟန်း ၂ ဝါအရ ၁၂၉၅ ခုနှစ်တွင် သကျသီဟစာသင်တန်းနှင့် ပထမကျော်အတွက် ဝင်ရောက်ဖြေဆိုသော ပထမကြီးတန်း၌ *ခရေပွင့်အမှတ်ပြ၍ ၁ နံပါတ်မှ ပထမကြီးတန်းကိုလည်းကောင်း၊ |
| အေဒီ ၁၉၃၄ | ရဟန်း ၃ ဝါအရ ၁၂၉၆ ခုနှစ်တွင် သကျသီဟစာချတန်းနှင့် အစိုးရပထမကျော်တန်းကိုလည်းကောင်း၊ |
| အေဒီ ၁၉၄၀ | ၁၃၀၂ ခုနှစ်တွင် အစဆုံးကျင်းပသော အစိုးရစာချတန်း၌ ဂုဏ်ထူးကျမ်းများနှင့်တကွ အစိုးရစာချတန်းကိုလည်းကောင်း ဝင်တိုင်းမလွဲ ထင်တိုင်းစွဲ၍ အောင်ပန်းတို့ကို ဆက်ကာဆက်ကာ ရရှိတော်မူခဲ့ပါသည်။ |

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇

| | |
|---|---|
| အေဒီ ၁၉၅၀ | ၁၃၁၂ ခုနှစ်တွင် ကျင်းပပြုလုပ်သော ၃ ကြိမ်မြောက် တိပိဋကဓရ ရွေးချယ်ပွဲကြီး၌ ဝိနည်းငါးကျမ်း စာမျက်နှာ ၂၀၀၀ ကျော်ကိုလည်းကောင်း၊ |
| အေဒီ ၁၉၅၁ | ၁၃၁၃ ခုနှစ်တွင် ကျင်းပပြုလုပ်သော ၄ ကြိမ်မြောက်တိပိဋကရွေးချယ်ပွဲကြီး၌ အဘိဓမ္မာပိဋက ပထမပိုင်း ၅ ကျမ်း၊ စာမျက်နှာ ၁၁၀၀ ကျော်ကိုလည်းကောင်း၊ |
| အေဒီ ၁၉၅၂ | ၁၃၁၄ ခုနှစ်တွင် ကျင်းပပြုလုပ်သော ၅ ကြိမ်မြောက် တိပိဋကဓရရွေးချယ်ပွဲကြီး၌ အဘိဓမ္မာပိဋက ဒုတိယပိုင်း ၂ ကျမ်း စာမျက်နှာ ၂၅၀၀ ကျော်ကိုလည်းကောင်း၊ |
| အေဒီ ၁၉၅၃ | ၁၃၁၅ ခုနှစ်တွင် ကျင်းပပြုလုပ်သော ၆ ကြိမ်မြောက် တိပိဋကဓရ ရွေးချယ်ပွဲကြီး၌ သုတ္တန္တပိဋက သုတ်သုံးကျမ်း စာမျက်နှာ ၆၆၄ ကိုလည်းကောင်း အာဂုံသဘော ရေးဖြေပွဲနှစ်ရပ်လုံးတို့၌ ဂုဏ်ထူး နှစ်ဆင့်စီဖြင့် အောင်မြင်တော်မူခဲ့ပါသည်။ |

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈

စာမေးပွဲ အားလုံးတို့၌ တစ်ခါဖူးမျှ အကျအရှုံးမရှိခဲ့ဘဲ နှစ်ချင်းစွဲချည်းသာ အောင်မြင်တော်မူခဲ့ပါသည်။ သကျသီဟစာချတန်းအောင်မြင်ရာတွင် စာသင်တန်းအောင်မြင်ပြီးနောက် နှစ်မခြားဘဲ

http://www.dhammadownload.com



နှစ်ချင်းစွဲ စံချိန်တင်၍ ပထမဦးဆုံး ကျမ်းပြီးအောင်မြင်ခဲ့ခြင်း၊ အစိုးရစာချတန်း စာမေးပွဲတွင် နှစ်ချင်းစွဲဂုဏ်ထူးဖြင့် ပထမဦးဆုံးကျမ်းပြီးအောင်မြင်ခဲ့ခြင်း၊ တိပိဋကရေရွေးချယ်ပွဲတွင် အာဂုံပြန်ပွဲ၊ သဘောရေးဖြေပွဲနှစ်ရပ်လုံး၌ ဂုဏ်ထူးနှစ်ဆင့်စီဖြင့် ပထမဦးဆုံး ပိဋကသုံးပုံအောင်မြင်ခြင်းတို့သည် မည်သူမျှစံမတုနိုင်သော ထူးချွန်သည့် အောင်မြင်မှုများပင်ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈

## ထူးခြားသော ဘွဲ့တံဆိပ်များ

ဤသို့ စာမေးပွဲအသီးသီးတို့၌ ထူးချွန်စွာအောင်မြင်တော်မူခဲ့သောကြောင့် ထူးခြားသော ဘွဲ့တံဆိပ်များကိုလည်း အလှူခံရရှိတော်မူခဲ့ပါသည်။ သကျသီဟ စာချတန်းကို နှစ်မခြားပဲ အောင်မြင်တော်မူခဲ့၍ မန္တလေးမြို့ ပရိယတ္တိသာသနဟိတ (သကျသီဟ)အသင်းကြီးမှ ဆက်ကပ်သော "ဘဒ္ဒန္တဝိစိတ္တသာရာဘိဝံသ ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ "ဝရံသကာ" ဟူသော ဘွဲ့တံဆိပ်တော်ကိုလည်းကောင်း၊ ရန်ကုန်မြို့ ပါဠိဆရာ မြန်မာပညာရှိအသင်းကြီးမှ ဆက်ကပ်သော "အဋ္ဌကထာပြန်အကျော်"ဟူသောဘွဲ့တံဆိပ်တော်ကိုလည်းကောင်း၊ အစိုးရ ပထမကျော်တန်းနှင့် စာချတန်းကို ဂုဏ်ထူးဖြင့် အောင်မြင်ခဲ့၍ နိုင်ငံတော်အစိုးရကဆက်ကပ်သော "အစိုးရပထမကျော်" ဟူသော ဘွဲ့တံဆိပ်တော်နှင့် "သာသနဓဇ သိရီပဝရ ဓမ္မာစရိယ" ဟူသော ဘွဲ့တံဆိပ်တော်ကိုလည်းကောင်း ထူးထူးခြားခြား အလှူခံရရှိတော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉

## ထီးဖြူမိုး၍ ဟိုးဟိုးကျော်

ထို့ပြင် တိပိဋကရေ အာဂုံပြန်ပွဲ၊ သဘောရေး ဖြေနှစ်ရပ်တို့၌ ဝိနည်းငါးကျမ်းကို ဂုဏ်ထူး နှစ်ဆင့်ဖြင့် အောင်မြင်တော်မူခဲ့၍ နိုင်ငံတော်အစိုးရက ဆက်ကပ်သော "ဝိသိဋ္ဌဝိနယဓရ မဟာဝိနယကောဝိဒ" ဟူသော ဘွဲ့တံဆိပ်တော်နှင့် အရိုးဝါ ကနက္ကဒဏ် ထီးဖြူတော် ၁ လက် အမှတ်တံဆိပ်ပါရှိသော သာသနာ့အောင်လံတော်၊ တပည့်နှစ်ဦးနှင့်တကွ အခမဲ့စီးနင်း လိုက်ပါနိုင်သော မီးသင်္ဘော၊ မီးရထား ပထမတန်း အထူးလက်မှတ်ကိုလည်းကောင်း၊

အဘိဓမ္မာ ၇ ကျမ်းကိုဂုဏ်ထူး နှစ်ဆင့်ဖြင့် အောင်မြင်တော်မူခဲ့၍ နိုင်ငံတော်အစိုးရက ဆက်ကပ်သော "ဝိသိဋ္ဌအာဘိဓမ္မိက မဟာအဘိဓမ္မကောဝိဒ" ဟူသော ဘွဲ့တံဆိပ်တော်နှင့် အရိုးဝါ ကနက္ကဒဏ် ထီးဖြူတော် ၂ လက်အမှတ်တံဆိပ်ပါရှိသော သာသနာ့အောင်လံတော်ကိုလည်း ကောင်း၊ သုတ်သုံးကျမ်းကို ဂုဏ်ထူးနှစ်ဆင့်ဖြင့် အောင်မြင်တော်မူခဲ့၍ နိုင်ငံတော်အစိုးရက ဆက်ကပ်သော "ဝိသိဋ္ဌဒီဃ ဘာဏက မဟာဒီဃနိကာယကောဝိဒ" ဟူသောဘွဲ့တံဆိပ်တော် ကိုလည်းကောင်း၊

ပိဋကသုံးပုံလုံးကို ဂုဏ်ထူးနှစ်ဆင့်စီဖြင့် အပြီးအစီး အပြည့်အစုံအောင်မြင်တော်မူခဲ့၍ နိုင်ငံတော်အစိုးရကဆက်ကပ်သော "ဗုဒ္ဓသာသနဝိသိဋ္ဌ တိပိဋကဓရ မဟာတိပိဋကကောဝိဒ" ဟူသော ဘွဲ့တံဆိပ်တော်နှင့် အရိုးဝါ ကနက္ကဒဏ်ထီးဖြူတော် ၃ လက် အမှတ် တံဆိပ်ပါရှိသော သာသနာ့အောင်လံတော်၊ တပည့်နှစ်ဦးနှင့်တကွ အခမဲ့စီးနင်းလိုက်ပါနိုင်သော ကုန်း-ရေ-လေ သုံးဌာန ပထမတန်း အထူးလက်မှတ်တော်၊ "ဝိစိတ္တသာရာဘိဝံသ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက" ဟူသော အက္ခရာ တံဆိပ်ခတ်နှိပ်ပါရှိသော ဆင်စွယ်ယပ်ဝန်းတော်၊ နှစ်စဉ် လှူအပ်သော ရာသက်ပန် ဆွမ်းဆန်တော် စရိတ်များကိုလည်းကောင်း အလှူခံရရှိတော် မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၀

http://www.dhammadownload.com



**မဟာဗုဒ္ဓဝင်ကြီး**

နိုင်ငံတော်အစိုးရ၏ လျှောက်ထားချက်အရ အတွဲ(၆)တွဲ၊ အုပ်ရေ(၈)အုပ်၊ စာမျက်နှာပေါင်း ၅၁၆ ရှိ မဟာဗုဒ္ဓဝင်ကျမ်းကြီးကို ဦးစီးရေးသား ပြုစုတော်မူခဲ့ပါသည်။

မုံရွာ ကနီမြို့၊ ရွှေသိမ် တော်တောရ ဆရာတော် ဘုရားကြီး၏ သစ္စာပါရဂူကျမ်းကို ကြည့်ရှုမွမ်းမံ ပြင်ဆင်ပေး ခြင်းစသည့် ဂန္ထကာရကအမှုများကို ပြုတော်မူပြီး၊ ပြုတော်မူဆဲဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁

**တိပိဋကနိကာယကျောင်းကြီး ပေါ်ထွန်းခဲ့**

အေဒီ ၁၉၇၈

၁၃၄၀ ပြည့်နှစ် ဝါဆိုလဆန်း (၅)ရက်နေ့မှစ၍ မင်းကွန်းမိုးမိတ်စေတီတော်ကုန်းမြေ၌ "တိပိဋကနိကာယ" ကျောင်းတိုက်ဖွင့်လှစ်ကာ တိပိဋကရေနှင့် နိကာယ်စာမေးပွဲများတွင် ဝင်ရောက်ဖြေဆိုတော်မူကြမည့် သာသနာ့ အာဇာနည်လောင်းလျာ ရဟန်းတော်များအား ပလိဗောဓ ကင်းစွာဖြင့် စာကျက်၊ စာအံ၊ စာကြိုး စာကြည့်နိုင်ကြစေခြင်းငှာ ဆွမ်း၊ ကွမ်း၊ ဆေးဝါး၊ ကျောင်း၊ သင်္ကန်းမှစ၍ ပိဋကတ်ကျမ်းစာအုပ်များပါ ထောက်ပံ့လှူဒါန်းလျက်ရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂

**ကိုယ်တိုင် လက်နှိပ်စက်ရိုက်ခဲ့**

ဆဋ္ဌသင်္ဂါယနာ တင်စဉ်အချိန်က ဝိနည်းမဟာဝါပါဠိ ဝိသောဓက အကျိုးဆောင်အဖြစ် တာဝန် ယူလုပ်ဆောင်ခဲ့ရာ ၅၂၈ မျက်နှာရှိ သုတ်သင်ပြီး ပါဠိတော်ကို (၁)မူကောင်းမူသန့်ရရှိစေရန် (၂) မိမိ၏လက်နှိပ်စက်ကို ဘုရားရှင်၏ စကားတော်အား ပူဇော်ရန်။ (၃) မိမိ၏ ကိုယ်အား လုပ်အား ဉာဏ်အားတို့ဖြင့် ဆဋ္ဌသင်္ဂါယနာဝန်ကို ထမ်းဆောင်ရန် ရည်သန်၍ ဗုဒ္ဓသာသနာအဖွဲ့မှ စက္ကူတစ်ရွက် တံဆိပ်ခေါင်းတစ်လုံးမျှမတောင်းခံဘဲ သန့်ရှင်းစွာ ကိုယ်တိုင် လက်နှိပ်စက်ဖြင့် ရိုက်နှိပ်လျက် အပ်နှံခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆

**တရားပွဲပေါင်း (၈၂၈၀) ရှိခဲ့**

မြန်မာပြည်အရပ်ရပ်သို့ ဒေသစာရီလှည့်လည်ကြွရောက်တော်မူ၍ တရားစည်ကြီးကို ဆောင်းတီး ရိုက်ခတ် အဆက်မပြတ်ဟောတော်မူလျက်ရှိရာ ဆဋ္ဌသင်္ဂါယနာတင်ပြီးချိန်မှစ၍ ယနေ့ထိ အကြိမ်ပေါင်း ၈၂၈၀ ခန့်အထိရှိ သွားပြီ ဖြစ်ပါသည်။ ဆရာတော်၏ လုံ့လဝီရိယနှင့် သတ္တိကား အားကျအတုယူဖွယ်ကောင်းလေစွ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇

ဆရာတော်၏ လုပ်ရပ်များတွင် သာသနာတော်အတွက် စံပြုထိုက်သော လုပ်ငန်းပေါင်းများစွာ ရှိလေရာ စွန့်လွှတ်ရေး စိတ်ဓာတ်နှင့်စပ်၍ အတုယူမှတ်သားဖွယ်ကောင်းသော လုပ်ရပ်အနည်းငယ်ကို ဂုဏ်ပြုဖော်ပြလိုပါသည်။

**မဟာဗုဒ္ဓဝင်ကြီး ပြုစုပုံ ပြုစုနည်း သမိုင်းကြောင်း**

"ဆိုင်ရာပုဂ္ဂိုလ်တို့၏ အကြိမ်ကြိမ် လျှောက်ထားတောင်းပန်ချက်အရ အတွဲပေါင်း ၆ တွဲ၊ အုပ်ရေပေါင်း ၈အုပ်၊ စာမျက်နှာ ၅၅၁၆ခန့်ရှိ နိုင်ငံတော် မဟာဗုဒ္ဓဝင် ကျမ်းကြီးကိုအပြီးအဆုံး ကမ္ပတ်ဖုံးအောင် ရေးသားပြုစုပေးတော်မူခဲ့ရာ၊ မရေးသားမီ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ကြီးသို့ လိုလားချက် ၃ ခုကို ရယူတောင်းခဲ့ပြီးမှ ရေးသားပြုစုတော်မူခဲ့ပါသည်။ ဆရာတော်တောင်းဆိုသော လိုလားချက် ၃ ခုမှာ -

http://www.dhammadownload.com



၁။ စေတနာ၀န်ထမ်း အဖြစ်ဖြင့်သာ ဆောင်ရွက်ရလျှင်လည်းကောင်း၊
၂။ရုံးကိစ္စအ၀၀ဘုန်းကြီးနှင့်မပတ်သက်စေလျှင်လည်းကောင်း၊
၃။ မိမိတတ်သမျှ စာပေကိစ္စတွင်သာ ဦးစီးခွင့်ရလျှင်လည်းကောင်း၊
ဤသုံးချက်ကို အဖွဲ့က သဘောတူပါလျှင် လက်ခံပြီးဟူ၍မှတ်ယူပါဟူ၍ဖြစ်ပါသည်။

စာ-၁၈

ဆရာတော်၏ ပရိယတ္တိစာပေသင်ကြား ဆည်းပူးခဲ့ပုံမှာလည်း အထူးပင်စိတ်ဝင်စားဖွယ်ကောင်းလှပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈

**ငယ်စဉ်က စာပေ လေ့လာခဲ့ပုံများ**

ဒီစာအုပ်ကိုကြည့်၍ စာပေအရေးအသားတတ်မြောက်အောင် လေ့လာရမည်"ဟူသော ဆရာတော်များ၏ မိန့်ကြားပေးအပ်တော်မူချက်အရ "ပေါရာဏဒီပနီကျမ်း" နှင့် "မဃဒေဝလင်္ကာကြီး" များမှ ကဗျာမျိုးစေ့ကို ရယူလျက် စာပေအရေးအသားတတ်မြောက်ရေးအတွက် ဆရာတော်တို့၏ စာပေးစာယူကိစ္စအရပ်ရပ်များကို ဆောင်ရွက်တော်မူခဲ့ရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၁

အေဒီ ၁၉၇၈

ဆရာတော် ဘဒ္ဒန္တဝိစိတ္တသာရသည် ၁၃၄၀ပြည့်နှစ်တွင် ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတမြန်မာနိုင်ငံတော် နိုင်ငံတော်ကောင်စီက ဆက်ကပ်လှူဒါန်းသော "အဂ္ဂမဟာပဏ္ဍိတ" ဘွဲ့တံဆိပ် တော်မြတ်ကို အလှူခံရရှိတော်မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃

ကျမ်းကိုး၊ ဆရာတော် အရှင်ဝိစိတ္တသာရာဘိဝံသ၏ထေရုပ္ပတ္တိအကျဉ်းနှင့်ငွေရတု ဩဝါဒကထာ ဝိပဿနာဆယ်မျိုး တရားလင်္ကာများနှင့် သံဝေဂါထာလင်္ကာများ တိပိဋကနိကာယသာသနာပြုအဖွဲ့၊ မင်းကွန်း၊ မန္တလေး၊ ရန်ကုန် ၁၉၇၉၊ ဖေဖော်ဝါရီလ၊ စာ-၂၅

http://www.dhammadownload.com



မတ်တော်များ တဖွားဖွားကျတော်မူသော

# ကြိခင်း ကံကလေးတောရ အရှင်အဂ္ဂဝံသ

(၁၉၁၂–၂၀၀၁)



http://www.dhammadownload.com



**ဦးတိက္ခိန္ဒြိယက စခဲ့သော ဓာတ်လမ်း**

အေဒီ ၁၉၂၀ ဆရာတော် ဦးတိက္ခိန္ဒြိယဟာ ၁၂၈၂ ခုနှစ်၊ ရွှေတောင်မြို့က ဒကာတွေ ဆောက်လှူတဲ့ အမွှာ ရာမကျောင်းကို စတင် လက်ခံသီတင်းသုံးတယ်လို့ဆိုတယ်။

ကျမ်းကိုး၊ ကံကလေးတောရ အရှင်အဂ္ဂဝံသရဟန္တာ၊ စံထွန်းသော၊ နက္ခတ္တ ရောင်ခြည်မဂ္ဂဇင်း၊ အမှတ် - ၂၅၉၊ ဖေဖော်ဝါရီလ ၂၀၀၈ စာ-၄၅)

အရှင်တိက္ခိန္ဒြိယ ဝိပဿနာအဖွဲ့ဟူ၍ ဆရာတော်ကြီး၏ ပဋိပတ္တိသာသနာပြုအမွေကို ဆက်ခံ ဖြန့်ဝေပေးလျက်ရှိရာ ယနေ့တိုင်ပင် ရှင်သန်စည်ကားလျက်ရှိကြောင်းသိရသည်။

**ဓာတ်တော်များ ဖူးမြော်နိုင်**

အရှင်အဂ္ဂဝံသ၏ ဘုရားဆောင်ဝဲဘက်တွင် မှန်ကျောင်းဆောင်အတွင်း ဆရာတော်၏ ရုပ်တု နှင့် ဓာတ်တော်များပူဇော်ထားသည်။

**အဆင့်မြင့် သာသနာပြုဘွဲ့တံဆိပ်တော်လည်း ရခဲ့ဖူး**

လက်ယာဘက်တွင် ဆရာတော်၏ အဂ္ဂမဟာကမ္မဋ္ဌာနာစရိယ ဘွဲ့တံဆိပ်တော်ကိုလည်း ကောင်း၊ လက်ဝဲဘက်တွင် ဆရာတော်အသုံးပြုတော်မူခဲ့သည့် အသုံးအဆောင်အချို့ကို လည်းကောင်း ပြသထားသည်။ ရုပ်တုတော်ရှေ့မှောက်တွင် ဖန်ပေါင်းချောင်အတွင်း၌ ဓာတ်တော်များဖူးတွေ့ရသည်။

**စျာပန အခမ်းအနား**

အေဒီ ၂၀၀၀ ၂၀၀၀ပြည့်နှစ်မှာ ဆရာတော် ပျံလွန်တော်မူတော့ ပြလေ့ရှိတဲ့အတိုင်း တေဇောစျာပန အခမ်းအနား ကျင်းပခဲ့ပါသည်။

**ဓာတ်တော် ကျပုံ ကျနည်း**

"ရက်နည်းနည်းခြားပြီးမှ ဆရာတော် ရုပ်ကလာပ်၊ မီးသဂြိုဟ်တဲ့နေရာမှာ ဓာတ်တော်ကျ တယ်ဆိုပြီး တပည့်ပရိသတ်တွေ ပင့်ဆောင်ကိုးကွယ်ကြတာ ကြားရလို့ကျောင်းဂေါပက လူကြီးတွေ သွားကြည့်ကြတော့ ကိုးဆူပဲပူဇော်ခွင့်ရတော့တယ်။ ရသမျှပင့်ပြီးရုပ်တုတော်နဲ့ အတူ ဒီမှာပူဇော်ခဲ့တာ ဟိုပေါင်းချောင်အသေးနဲ့ပေါ့" ဟု ဆိုကြ၏။

**ဓာတ်တော်တွေ ပွား၍ ပွား၍ လာ**

"ဓာတ်တော်တွေက တစ်လထက်တစ်လပိုပြီးပွားများလာလိုက်တာ ကိုးဆူမှုလကနေပြီး အခု မြင်ရတဲ့အတိုင်းပဲ မရေမတွက်နိုင်တော့ဘူး"

ပေါင်းချောင်နှစ်ခု၌ ပုံမောက်များပြားစွာဖူးတွေ့ရသည်။ နှီနှစ်ပမာဖွေးဖွေးဖြူသော ဓာတ်တော် ခဲများဖြစ်ကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၅

**ကြံခင်း ကံကလေး မေ့ရိပ်သာ**

ဆရာတော်သည် ကံကလေးမေ့ရိပ်သာတွင် တိုက်အုပ်အဖြစ်လည်းကောင်း၊ ပဓာနနာယက ဆရာတော်အဖြစ်လည်းကောင်း တာဝန်ယူသီတင်းသုံးခဲ့သည်။

အရှင်တိက္ခိန္ဒြိယ ချန်ရစ်ထားရစ်ခဲ့သော ပဋိပတ်သာသနာတော်ကိုဆက်ခံပွားများစေရန် အားထုတ်ခဲ့သည်ဟု သိရသည်။

ဆရာတော်သည် ပျံလွန်တော်မူသည်အထိ ကမ္မဋ္ဌာန်းဝိပဿနာကိုညွှန်ပြကာ ကိုယ်တိုင်လည်း အပြင်းအထန်ကျင့်ကြံသည်။

http://www.dhammadownload.com



**ကိုယ်တွေ့ပြောပြချက်**

ကံကလေးဓမ္မရိပ်သာကို ဦးဆောင်တာဝန်ယူရသော ကာလ တစ်လျှောက်ကိုယ်ပိုင် အိပ်ရာ ခုတင် စသည်မထားခဲ့ပါ။ ဆွမ်းကပ်သော ပန်းကန်ပဲ့ပေါက်ခြင်းရှိသည်ကိုလည်း အမှတ်ဂရု ထားခြင်းမရှိဘဲဘုဉ်းပေးခဲ့သည် ဟုဖူးတွေ့ဖူးသူ (ပတ္တမြား တည်းခိုခန်းပိုင်ရှင်) ဦးထွန်းရွှေ၏ မြေးဖြစ်သူ သူငယ်ကလေးပြောပြသည်။

**ပျံလွန်တော်မူခါနီး နောက်ဆုံးနှစ်များ**

အဲဒီတုန်းက ဆရာတော် ဦးအဂ္ဂဝံသပျံလွန်တော်မူခါနီး နှစ်ပိုင်းအလိုနံနက်အရုဏ်တက်လို့ ဆွမ်းခံကြွဖို့ ပြင်ဆင်ကြတော့ သံယာကုဋီရှေ့ သစ်သားတုံးခေါင်းအုံးပြီးကျိန်းနေတဲ့ ဆရာ တော်ကိုတွေ့ရပါတယ်။

အကျိုးအကြောင်းမေးလျှောက်ကြည့်တဲ့အခါ "အသက်ကြီးတော့ ဆီး၊ ဝမ်း၊ မထိန်းနိုင်ဘူး။ ဒါ့ကြောင့်လွယ်ကူအောင် ကုဋီနားကျိန်းရတယ်" လို့မိန့်တော်မူပါတယ်။

**တစ်ပြိုင်တည်း နှစ်နေရာ ဆွမ်းခံကြွမှု ကောလာဟလဖြစ်**

အေဒီ ၁၉၉၈ ၁၃၆၀ ပြည့်နှစ်ဝန်းကျင်တွင် ဆရာတော်အား ရန်ကုန်၊ ကြည့်မြင်တိုင်ရှိ ဝေဠုဝန်ကျောင်း အနီးတွင်လည်းကောင်း၊ မြန်အောင်မြို့နယ်ရှိ ကျောက်သွေးမြိုင်ကျောင်းဝန်းကျင်၌လည်း ကောင်း ဆွမ်းခံကြွတော်မူသည်ကို တစ်နေ့တည်း တစ်ချိန်တည်းတွင် တွေ့ရှိ လောင်းလှူခဲ့ ကြရသည်ဟု ရပ်နီးရပ်ဝေး ဒါယကာတို့ကပြောကြသည်။

**ဘယ်မှမကြွ ကျောင်းမှာရှိ**

ထိုအချိန်တွင်ဆရာတော်သည် ကံကလေးတောရတွင် သီတင်းသုံးကာ တရားပြတော်မူလျက် မည်သည့်ဒေသသို့မျှ ကြွချီခြင်းမရှိဟု တောရရှိတပည့်၊ ယောဂီများကဆိုကြလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၆

**မွေးသက္ကရာဇ်နှင့် ဇာတိရပ်ရွာ**

အေဒီ ၁၉၁၁ ဆရာတော် ဦးအဂ္ဂဝံသလောင်းလျာကိုမြန်အောင်မြို့နယ်၊ သဲချောင်းရွာနေ ဦးဘိုးဆင်၊ ဒေါ်သန်းတို့မှ ၁၂၇၃ ခုနှစ်၊ နတ်တော်လဆုတ် ၁၄ ရက် တနင်္ဂနွေနေ့၌ ဖွားမြင်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၆

**မြန်အောင်မှာ ကိုရင်ဝတ်ခဲ့**

အေဒီ ၁၉၂၃ ၁၂၈၅ ခုနှစ်၊ ဝါဆိုလတွင်မြန်အောင်မြို့နယ် ကျောင်းကုန်းကျောင်းတွင်ရှင်သာမဏေပြုသည်။

**မြန်အောင်မှာပင် စာသင်ခဲ့**

အေဒီ ၁၉၃၂ ၁၂၉၄ ခုနှစ်၊ ကဆုန်လတွင်မြန်အောင်မြို့နယ်၊ ကျောက်သွေးမြိုင်ကျောင်း ဆရာတော် ဦးဇုတိန္ဓိယကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဘဝရောက်ရှိသည်။ ကျောက်သွေးမြိုင်ဆရာတော်၊ ကြည့်မြင်တိုင် ဝေဠုဝန်ဆရာတော်၊ ဦးကလျာဏ၊ ဦးသူရိယတို့ထံ၌ ကျမ်းကြီးပေါက်အောင် သင်ယူခဲ့သည်။

**ကြံခင်းမှာ တရားပြတော်မူခဲ့**

ကြံခင်းမြို့ ကံကလေးဓမ္မရိပ်သာတွင် တိုက်အုပ်အဖြစ်လည်းကောင်း၊ ပဓာန နာယက ဆရာ တော်အဖြစ်လည်းကောင်း၊ အမြို့မြို့အနယ်နယ်မှ တပည့်ယောဂီများကို ဝိပဿနာ တရား ညွှန်ကြားပြသ၍ပျံတော်မူသည်အထိ ကမ္မဋ္ဌာနာစရိယအဖြစ် ပဋိပတ္တိသာသနာ ပြုတော်မူ သည်။

http://www.dhammadownload.com



**အဆင့်မြင့် သာသနာပြုဘွဲ့ရခဲ့**

အေဒီ ၁၉၉၄ — ၄-၁-၁၉၉၄ နေ့တွင် အဂ္ဂမဟာကမ္မဋ္ဌာနာစရိယ ဘွဲ့တံဆိပ်တော်ဆက်ကပ်ခြင်းခံရသည်။

**ပရိနိဗ္ဗာန် ပြုတော်မူခဲ့**

အေဒီ ၂၀၀၁ — ၁၃၆၃ ခုနှစ်၊ နယုန်လပြည့်နေ့ည (၁၀း၄၅)နာရီ တွင်ဘဝနတ်ထံပျံလွန်တော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၇

ကျမ်းကိုး၊ ကံကလေးတောရ အရှင်အဂ္ဂဝံသရဟန္တာ၊ စံထွန်းသာ၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ အမှတ် - ၂၅၉၊ ဖေဖော်ဝါရီလ ၂၀၀၈ စာ-၄၅

http://www.dhammadownload.com



ရောဝတီတိုင်း၊ ဟင်္သာတခရိုင်၊ မြန်အောင်မြို့နယ်၊ အင်ပင်တိုက်ရွာ၊

# ဗူး — တောရကျောင်းဆရာတော်

၁၉၁၂ - ၁၉၉၀



http://www.dhammadownload.com



**တည်ရာဌာန**

ထူ-တောရကျောင်းသည် ရောဝတီတိုင်း၊ ဟင်္သာတခရိုင်၊ မြန်အောင်မြို့နယ်၊ အင်ပင်တိုက်နယ် တွင်ရှိသည်။ ဟင်္သာတ-ကြံခင်းသွားရထားလမ်း အရှေ့ဘက် ၂ မိုင်ခွဲခန့်ဝေးသည့် ထူကျေးရွာ အုပ်စုရှိသည်။

ကျမ်းကိုး။ မေတ္တာရှင် ထူ-တောရကျောင်းဆရာတော်၊ မေတ္တာလုလင်၊ ဂမ္ဘီရမဂ္ဂဇင်း၊ အမှတ်(၉)၊ စာ - ၇၅။

**တောင်ပေါ်က အဝီစိတွင်း**

ထူ-တောရကျောင်းသည် တောင်ကုန်းပေါ်တွင် ရှိသော်ငြားလည်း ဆရာတော်၏ မေတ္တာတော်ကြောင့် အဝီစိတွင်းမှ ရေထွက်လာသည်။

ကျမ်းကိုး။ ယင်းစာ - ၇၅

**ပြဿနာရပ်ဆန်းများ**

ဆရာတော်ထူ-တောရကျောင်းသို့ သီတင်းသုံးရန်ရောက်ရှိမလာမီတောရကျောင်းကြီးသည် ချုံနွယ်ပိတ်ပေါင်းများနှင့် ထူထပ်ပိတ်ဆို့နေပြီး အကြောင်းအားလျော်စွာ ညအိပ်ညနေ ဝင်ရောက်ခိုအောင်းကြသော လူဆိုးများသည် ကျောင်းရိပ်အောက်တွင် ညဘက်၌ကျောင်းပေါ်မှ မမြင်ရသော ပုဂ္ဂိုလ်တို့မှဆွဲချခြင်း ခံရဖူးသူတော်တော်များများရှိသည်ဟုကြားဖူးသည်။ တစ်ကြိမ်မက တောတွင်းလက်နက်ကိုင် ဆူပူသောင်းကျန်းသူတချို့သည် တောခေါင်ခေါင် ချုံနွယ်ပိတ်ပေါင်း များကြားက တောင်ပေါ်ကျောင်းတွင် ရှောင်ရင်း တိမ်းရင်း ဝင်ရောက်ခို အောင်းဖူးရာ၌ ကျောင်းပရိဝုဏ်အတွင်းမှာ နေလို့ မရအောင် ဆွဲထုတ်ခြင်းမျိုးရှိခဲ့ဖူးကြောင်း ကိုလည်း ထူးဆန်းစွာ ပြောသံကြားရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၅

**ကျင့်စဉ်များ အတွေ့အကြုံ**

ဦးက္ကန္ဒမာလာ မေတ္တာရှင်ထူ-တောရကျောင်းဆရာတော်သည် ရဟန်းဘဝမရောက်ခင်က ဝတ်ဖြူစင်ကြယ်ဝတ်ပြီး သက်သတ်လွတ်စားခြင်း၊ လှည့်လည်၍ကမ္မဋ္ဌာန်းတရားများ အားထုတ်ခြင်း၊ အဂ္ဂိရတ်ထိုးခြင်း၊ အဓိဋ္ဌာန်ပုတီးစိပ်ခြင်းများဖြင့် ကျင့်ကြံဆောက်တည်၏။

**မေတ္တာဓာရေ**

စုန်း၊ နတ်၊ တစ္ဆေဖမ်းစားခြင်းခံရသောရောဂါများကို မေတ္တာတရားဖြင့် ကုစားပျောက်ကင်း စေခဲ့သည်။ ပျောက်ကင်းခဲ့သူအများအပြားကို တွေ့ဖူးသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၆

**ဘီလူး မစားအောင် ဖူး ဘုရားတည်ခဲ့**

တောရကျောင်းပရိဝုဏ်အတွင်း ထင်ထင်လင်းလင်း တည်ထားကိုးကွယ်လျက်ရှိသော ဖူးဘုရား တစ်ဆူမှာ ကျောင်းခေါင်းရင်းဘက်၊ ဇောမိပင်နှင့်မျဉ်းဖြောင့်တစ်တန်းမှာ တည်ရှိသည့် တောင် ကုန်းပေါ်တွင် ဖူးမြင်ခဲ့ရသည်။

ဖူးဘုရားအနီး တောင်ကုန်းအစွန်းတွင်လည်း အာရုံခံ တန်ဆောင်းတစ်ခု ဆောက်လုပ်လျှုဒါန်း ထားကြပြန်သည်။ ဆရာတော်၏အမှာစကားအရ "သတ္တဝါတွေ ဘီလူးမစားအောင် ဖူး ဘုရား တည်ရမည်" ဟူ၍ တည်ထားကိုးကွယ်ကြခြင်း ဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၈

http://www.dhammadownload.com



**ထူးဆန်းသော အမွှေးနံ့များ**

ကျောင်းသို့ရောက်သွားသောအခါ ဒါယကာ၊ ဒါယိကာမများအစုံအညီဖြင့် ကျောင်းအပေါ်ထပ်တွင် ငှက်ပျောပွဲ၊ အုန်းပွဲများ၊ စက္ကူကိုပြုလုပ်ထားသည့် မုလေးပွားပန်းများ၊ ဆီမီးတိုင်များ၊ ရာဇမတ်ကွက် အကာအရံများ၊ မွှမ်းထုံနေသော အမွှေးတိုင်ရနံ့များကို တစ်ခါမှမတွေ့ဖူး၊ မကြုံဖူး ထူးထူးခြားခြားတွေ့ရသည်မှာ တစ်သက်တွင်မေ့၍ရတော့ မည်မဟုတ်ပါ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၉

**ထူးဆန်းသော ဆေးကြိတ်ပွဲ**

အများနည်းဆေးကြိတ်ပွဲမှာ ဆေးဝင်၍ကြိတ်သည်။ တစ်ယောက်ပြီးတစ်ယောက် ဆေးကြိတ်သူများဆေးဝင်ပြီး ကြိတ်ကြသည်။ ဆေးကြိတ်သည့် ကျောက်ပျဉ်ပေါ်က ဆေးများပေါ်သို့ ဆေးကြိတ်သည့် ကျောက်တုံးကိုတင်ကြည့်ပြီး ကြိတ်မည်ဟုစိတ်ကူးလိုက်သည်နှင့် တစ်ပြိုင်နက်လက်ကိုင်ထားသည့် ကျောက်တုံးမှာအလိုလိုကြိတ်နေပြီး လက်သာကိုင်ထားမိပါက ခွန်အားစိုက်ထုတ်ကြိတ်ရခြင်းမျိုးမဟုတ်ဘဲ ဆေးကြိတ်မိလျက်သားဖြစ်သွားသည်ကို တွေ့ကြုံရဖူးခဲ့ရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၉

ဆေးကြိတ်ပွဲပြီးတော့ ဆေးတောင့်ငယ်များပြုလုပ်ကြရပါသည်။ ဆေးတောင့်ကိုနောင်တွင်ဘုရားပုံတော်ထု ရွှေချပါသည်။

**အောင်မြေနေရာများ**

ထူ-တောရကျောင်း ဝောမိပင်တွင်အောင်မြေ ၄ ခုအသိအမှတ် ပြုထားသည်။ ဓမ္မသိဒ္ဓိအောင်မြေ၊ ဇေယျသိဒ္ဓိအောင်မြေ၊ ဓနသိဒ္ဓိအောင်မြေနှင့် အာရောဂျသိဒ္ဓိ အောင်မြေတို့ဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၉

**ဆရာတော့် မှာကြားချက်**

ဓမ္မသိဒ္ဓိအောင်မြေတွင် သမ္ဗုဒ္ဓေကိုးခေါက်ရွတ်ပါ။ ဇေယျသိဒ္ဓိအောင်မြေတွင် ၂၄ ပစ္စည်းကိုးခေါက်ရွတ်ပါ။ ဓနသိဒ္ဓိအောင်မြေတွင် ဂုဏ်တော်ကိုးပါး ကိုးခေါက်ရွတ်ပါ။ အာရောဂျသိဒ္ဓိအောင်မြေတွင် မေတ္တာသုတ်ပရိတ်တော် ကိုးခေါက်ရွတ်ပါ။

ထိုအောင်မြေများတွင် ၄၅ ရက် သက်ကင်းစား၍ တရားဘာဝနာပွားများအားထုတ်ပါကသိဒ္ဓိကျင့်ကြံရာပေါက်မြောက်မည် ဧကန်ဖြစ်သည်ဟု ဆရာတော်မိန့်ကြားခဲ့ဖူးသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၁

**မွေးသက္ကရာဇ်နှင့် ဇာတိရပ်ရွာ**

အေဒီ ၁၉၀၂ ဆရာတော်အား ထူကျေးရွာနေ ဦးဘိုးထင်၊ ဒေါ်နိုင်တို့မှ ၁၂၇၄ခုနှစ်၊ တန်ခူးလပြည့်ကျော် ၈ ရက်၊ တနင်္ဂနွေနေ့တွင် ဖွားသန့်စင်ခဲ့သည်။

**ခြံထဲမှာ တဲဆောက်၍ အဝတ်ဖြူဝတ်ခဲ့**

အရွယ်ရောက်သည့်အခါကပင် သက်ကင်းစား (အသက်သတ်လွတ်စား)ပြီး မိသားစုနှင့်တစ်အိမ်တည်းမှာ အတူမနေဘဲ ခြံဝင်းထဲတွင် တဲငယ်ဆောက်၍ ဝတ်ဖြူစင်ကြယ်ဝတ်ဆင်ကာတစ်ယောက် တည်းနေခဲ့သည်။ လူအမည် ဦးအုန်းဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၂

http://www.dhammadownload.com



**ရဟန်းဘဝ ကူးပြောင်းခဲ့**

အေဒီ ၁၉၇၅ လူ့ဘဝတွင်ရှိစဉ်ကတည်းက ဂန္ဓာရီလမ်းစဉ်ဖြင့် ကျင့်ကြံအားထုတ်နေခဲ့ပြီး ၁၃၃၇ ခုနှစ်၊ တန်ခူးလဆန်း ၁၂ရက်နေ့တွင် ထူ-ဘုရားကြီးကျောင်းတွင် ရဟန်းဘဝသို့ကူးပြောင်းပြီး သာသနာ့ဝန်ထမ်းအဖြစ်ဖြင့် မေတ္တာတရားကို အစွမ်းကုန်အားထုတ်ပွားများ ကျင့်ကြံ တည်ဆောက်ခဲ့သည်။

**တောစဉ် တောင်စဉ် ခရီးစဉ်**

နှစ်စဉ်ရွှေတိဂုံစေတီတော်၊ ကျိုက်ထီးရိုးစေတီတော်နှင့် ပုပ္ပါးတောင် စသည်များတွင် လှည့်လည်၍ အဓိဋ္ဌာန်ဝင်လျက် တရားအားထုတ်ကျင့်ကြံခဲ့ပြီးကျောင်းသို့ ပြန်ရောက်သည့်အခါတိုင်း အာရုံ သက်ရာကောင်းမှုများကို ပြုလုပ်ပြီး တစ၁။ပ၂။မရဲ ခန္ဓာဝန်ချတော့မည်ဟု မိန့်မြွက်ကြားဖူးသည်ကို နာခံ မှတ်သားမိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၂

မှတ်မှတ်ရရ မျက်မြင်ကိုယ်တွေ့များထဲမှ တကယ့်ဖြစ်ရပ်နှစ်ခုကို မှတ်တမ်းတင်ထားမိသည်။ ဆရာတော်သည် မြန်အောင်မြို့သို့ ကြွလာတိုင်း တပည့်ရင်းအဖြစ် အသိအမှတ်ပြုထားပြီးသော နေအိမ်မှာပင် သီတင်းသုံးနေထိုင်တော်မူသည်။

**ကိုယ်တစ်ပိုင်းသေသူ အကောင်းဖြစ်**

ဆရာတော်ရောက်ရှိနေကြောင်းသိကြ၍ ဆရာတော်၏မေတ္တာတရားကိုယုံကြည်ကိုးစားစွာ မေတ္တာကိုခံယူလိုသည့်ဆန္ဒဖြင့် ဆရာတော် သီတင်းသုံးနေထိုင်ရာနေအိမ်သို့ ရောက်လာကြသူများအထဲမှ ကိုယ်တစ်ပိုင်းသေနေပြီးမထနိုင်၊ မထိုင်နိုင်ဖြစ်နေရာမှာ အိမ်ပေါ်သို့ပွေ့ချီပြီး ဆရာတော်ကြီး၏ရှေ့သို့ရောက်သောအခါ ဆရာတော်၊ သံဃာတော်များ ရှေ့မှောက်တွင် အရှိအသေပြုကာ ထိုင်ကြရသည့်ဓလေ့ပုံစံ အတိုင်း ကျုံ့ကျုံ့ထိုင်နိုင်သွားသည်ကို မျက်ဝါးထင်ထင် တွေ့မြင်ရဖူးပါသည်။ (အမည်ကို ဖော်မပြတော့ပါ)

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၂

**ကလေးငယ်ငယ်လေးက လက်လှမ်း၍ ယူ**

နောက်ကလေးငယ် ငါးလအရွယ်တစ်ဦး မွေးလာကတည်းကထိတ်လန့်လျက် အော်ကြီးဟစ်ကျယ်ငိုငိုနေသဖြင့် ဆရာတော်ကြီးက ကွမ်းရွက်တစ်ရွက်ကိုလှမ်းပေးသောအခါ အရွယ်နှင့် မလိုက်အောင် ကွမ်းရွက်ကို လက်တစ်ဖက် (ဘယ်ဘက်လက်) ဖြင့်လှမ်းယူနေသည်။

**ကလေးငယ်ငယ်လေးက စကားနားလည်**

ထူးဆန်းအံ့ဩဖွယ်ကောင်းသည်မှာကား ဆရာတော်ကြီးက လက်တစ်ဖက်တည်းဖြင့် လှမ်းယူနေသော "ငါးလသမီးကလေးအား လက်နှစ်ဖက်နှင့်ယူရတယ်" ဟု အမိန့်ရှိသောအခါ ငါးလသာရှိသေးသည့်သမီးငယ်ကလေးသည် ရိုရိုညွတ်ညွတ်လက်နှစ်ဖက်ဖြင့် ကွမ်းရွက်ကို လှမ်းယူပြီး ပါးစပ်ထဲထည့်၍ စားနေသည်ကိုတွေ့ရသည်။

**မေတ္တာတန်ခိုး**

ထိုကလေးငယ်မှာ ဆရာတော်ကြီးနှင့် တွေ့ဆုံပူဇော်ပြီးနောက် ထိတ်လန့်၍ငိုခြင်းမျိုး မဖြစ်တော့ဟုသိရသည်။

ကျမ်းကိုး။ မြန်အောင် စည်ပင် သာယာမှုအင်ဂျင်နီယာဦးဖေသိမ်း-ဒေါ်အေးတို့၏သမီးဖြစ်သည်။

(ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၂)

http://www.dhammadownload.com



**စန္ဒာဝန်ချတော်မူခြင်း**

အေဒီ ၁၉၉၀ ဆရာတော်ပျံလွန်တော်မမူမီ ၁၃၅၂ ခုနှစ်၊ တပေါင်းလဆန်း ၈ ရက်နှင့် တပေါင်းလပြည့်နေ့များတွင် မြန်အောင်မြို့ (ယခင်လွန်ဆေးမြို့) ကုန်းဘောင်မင်း ဦးအောင်ဇေယျ တည်ထားကိုးကွယ်ခဲ့သော ရွှေဘုံသာဘုရားပရိဝုဏ်အတွင်း အောင်မြေနင်းကာ ထူးကဲ၍ဩဇာရှိသော အသံကြီးဖြင့်အောင်ပြီ-အောင်ပြီ-အောင်ပြီဟု ၃ ကြိမ်ရွတ်ဆိုပြီး ဘုရားတည်ထားကိုးကွယ်ခဲ့သော ဘုရားဒါယကာကြီးအား အမျှပေးဝေပါ၏ဟုအမျှပေးဝေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၃

အေဒီ ၁၉၉၀ ဆရာတော်သီတင်းသုံးရာ ထူတောရကျောင်းသို့ ပြန်ရောက်ပြီးတစ်ပတ်အကြာ ၁၃၅၂ ခုနှစ်၊ တပေါင်းလပြည့်ကျော် ၈ ရက်၊ သက်တော် ၇၆ နှစ် ဝါတော် ၃၆ ဝါအရတွင် ဘဝနတ်ထံသို့ ပျံလွန်တော်မူသည်။

**ဆံပင်များ ရှည်လာခြင်း**

ဆရာတော်ပျံလွန်တော်မူပြီး ၅ ရက်ကြာသည်အထိ မပုပ်မသိုးသည့်အပြင် ဆံပင်များရှည်လာသည်ကို မျက်မြင်ကိုယ်တွေ့ဖူးရ၏။

**သွေးစိမ်းရှင်ရှင် ထွက်ခြင်း**

အန္တိမ ဈာပန လာကြသူတိုင်း မှန်ခေါင်းထဲတွင် လက်ဝဲဘက်ပခုံးအောက်မှ အသားအက်ပြီး သွေးစိမ်း ရှင်ရှင်ထွက်နေသည်ကိုလည်း ဖူးမြင်အံ့မဆုံး ထူးဆန်းမှုကို ပြောဆိုနေကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၃

**ပခုံးမှ သွေးများထွက်ခြင်း**

ဆရာတော်ကြီးအားမှန်ခေါင်းထဲသွင်းစဉ်က ဆရာတော်ကြီးပခုံးမှာ သာမန်ပုဂ္ဂိုလ်များထက် ပိုကျယ်နေသည်ကို သတိမမူခြင်းမရှိဘဲ မှန်ခေါင်းမှာကိုယ်တော်နှင့်မဆံ့အောင်ကျဉ်းနေသဖြင့် ဖိသွင်းကြရာမှ ပခုံးအက်ပြီးသွေးများထွက်လာခြင်းဖြစ်သည်ကို ထူးဆန်းစွာဖူးတွေ့ကြရ သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၃

ကျမ်းကိုး။ ဆရာတော်ကြီးအား မီးသင်္ဂြိုဟ်ပြီးနောက်အရိုးပြာများကို မြစ်ထဲမျှောရန် ရေဖျန်းကောက်ယူကြသောအခါ ဓာတ်လုံး ၃ လုံးတွေ့သည်ဆို၏။ တပည့်ရင်း ၃ ဦးဆရာတော်အနီးတွင်နေကြသူ ၃ ဦးတို့ ရရှိသွားကြသည်။ ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၃ ကျမ်းကိုး၊ မေတ္တာရှင် ထူ-တောရကျောင်းဆရာတော်၊ မေတ္တာလုလင်၊ ဂမ္ဘီရမဂ္ဂဇင်း၊ အမှတ်(၉)၊ စာ - ၇၅။

http://www.dhammadownload.com



မှတ်တော်တဖွားဖွားကျော်မှုသော

ပခုက္ကူခရိုင်၊ မြိုင်မြို့နယ်၊ ဇီးတောရွာ၊ မြသီတာကျောင်းတိုက်

# မြိုင်မြို့ ဇီးတောဆရာတော် ဘဒ္ဒန္တအသျှင်သာဂရ

## ၁၉၁၂ – ၁၉၈၂

**မွေးရပ်ဇာတိ**

အေဒီ ၁၉၁၂

မကွေးတိုင်း၊ ပခုက္ကူခရိုင်၊ မြိုင်မြို့နယ်၌ ဇီးတောရွာကလေး ရှိပါ၏။ ထိုရွာကလေး၏ မြသီတာ တောရကျောင်းဝယ် အရညဝါသီ တောကိုမှီ၍ သူတော် ဓလေ့ထုံး တောရပ် တောရွာ၌ သီတင်း သုံးတော်မူသော ဘဒ္ဒန္တ အသျှင်သာဂရကို ခမည်းတော် ကိုင်းရင်းဆေးဆရာကြီး ဦးကြာဇင်၊ မယ်တော် ဒေါ်ရွှေမိတို့မှ "မြသီတာကျောင်းဆရာတော် အလောင်းအလျာ" ကို ၁၂၇၄ ခု သီတင်းကျွတ်လဆန်း (၁) ရက်၊ သောကြာနေ့ဝယ် မီးရှူးသန့်စင် ဖွားမြင်ခဲ့၏။

ကျမ်းကိုး၊ ဇီးတောဆရာတော်၊ စာ- ၂၃၀

**ခေတ်ပျက်ချိန်မှာ စာသင်ခဲ့ရ**

ငယ်စဉ်ကပင်၊ မိမိရပ်ရွာတွင် ကိုရင်ဝတ်ခဲ့ပြီး ပရိယတ္တိ စာပေတို့အား၊ ပခုက္ကူမြို့၊ မန္တလေးမြို့၊ တောင်သမန်တိုက်တို့တွင် ပညာရင့်နို့ သောက်စို့ခဲ့၏။ ပထမအကြီးတန်း အောင်မြင်ချိန်၌ ခေတ်ပျက်သဖြင့် ရွာသို့ ပြန်ခဲ့ရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃၀

**မိုးကုတ်ဆရာတော်ထံ ပညာသင်ခဲ့**

ဇီးတောဆရာတော် ပရိယတ္တိ သင့်တင့်ကုံလုံ ပြည့်စုံခဲ့ရုံမက မန္တလေးမြို့၌ ပညာရင့်နို့ သောက်စို့ခဲ့ စဉ် တောင်မြို့ (ခေါ်) အမရပူရမြို့၌ ကျေးဇူးရှင် မိုးကုတ်ဆရာတော် ဘုရားကြီး ထံမှောက်၌ အဘိဓမ္မာ ညဝိများသာမက၊ ဝိပဿနာ ဟောတရားများကိုပါ သက်ရှိထင်ရှား နာကြားခဲ့ပါ၏။ မိုးကုတ်ဆရာတော်ဘုရားကြီး၏ တပည့်သာဝကတစ်ဦးပင်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃၀

**ဝီရိယပိုင်ရှင်**

ဇီးတောဆရာတော်ကြီးကား ဝီရိယသမားကြီး ဖြစ်ပါ၏။ လျောင်း၊ ထိုင်၊ ရပ်၊ သွား၊ လေးပါးသော က္ကရိယာပုတ်စလုံး ဝိပဿနာကျင့်သုံးတော်မူ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃၁

**မလှုပ်မယှက် နေမြဲ ဓလေ့**

ကိုန်းစက်ရာခုတင်မှ ထလိုက်သည်နှင့် ခုတင်နံဘေးရှိ သံကုလားထိုင် ကလေးအား ခြေတင် လျက် မလှုပ်မယှက် တရားနှလုံးသွင်းနေ၏။ ခဏကြာလျှင် စင်္ကြံသွား၏။ စင်္ကြံမှလွန်လျှင် ကိန်းစက်ရာ ခုတင်၌ သတိသမ္ပဇဉ်ဖြင့် လဲလျောင်း၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃၂

http://www.dhammadownload.com



လျှောင်းစက်ရာ ဣရိယာပုတ်၌ ညာဘက်စောင်းလျက် ဝေဒနာချုပ် သည်ဟု မိန့်ဆိုသည်အား မန္တလေးမြို့ အလယ်ပေါင်ရပ် "အထက်မြန်မာပြည်ကျောင်းဆရာတော်" တပည့်ကြီး "ဦးတေဇော" ထံမှ မှတ်သားရပါ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃၂

**သစ္စာတော်တန်ခိုး**

မကွေးတိုင်း၊ ပခုက္ကူခရိုင်၊ မြိုင်မြို့နယ်သည် မိုးခေါင်ရေရှားရပ်ဝန်းဒေသ၌ ပါဝင်သဖြင့် ရေရှား၏။ လယ်လုပ်၍မရ၊ စပါးစိုက်၍မရ။ ကန်ရေကိုသာ အားထားသောက်သုံးကြရပြီး၊ အနေအစား၊ အင်မတန်ရိုးသားဆင်းရဲကြသည့် ယာသမားများဖြစ်ကြပါသည်။ ဇီးတောဆရာတော်ဘုရားကြီး အသျှင်သာဂရ အရှင်မြတ်ကြီးက "အေးကွယ် မိုးခေါင်တော့ တောသူတောင်သားတွေ ဆင်းရဲကြတာပေါ့၊ သို့ပေမယ့် သူတော်ကောင်းကြီးများ မေတ္တာကြောင့် မိုးရွာတတ်ပါရဲ့" လို့ မိန့်တော်မူသတဲ့။ သစ္စာရှင်ကြီးများ၏ ဆိုစကားနှင့်အညီ၊ ရက်များမကြာမီ မိုးကြီးလှိုင်လှိုင် ရွာသွန်းသဖြင့် ဇီးတောနယ်တစ်ခုလုံး ယာသမားတိုင်း နှမ်းများ ဖြိုင်ဖြိုင်ရကြတော့၏။ ဤမိုးသည်ကား သစ္စာတရားတော်၏ စွမ်းအားများဖြင့် ရွာသွန်းခဲ့သော မိုးဖြစ်ပါ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃၂

**ခန္ဓာဝန်ချတော်မူသော နေ့**

အေဒီ ၁၉၈၂

၁၃၄၄ ခုနှစ်၊ ကဆုန်လကွယ်နေ့သည် သောကြာနေ့ ဖြစ်ပါ၏။ ဆရာတော်ဘုရားကြီး၏ မွေးနေ့နောက်ဆုံး နာရီ ည (၁၂) နာရီခန့် စနေနေ့ဘက် မကူးမီ၊ ခန္ဓာဝန်ချတော်မူခဲ့ပါ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃၂

**ဘုန်းကြီးပျံပွဲ**

အေဒီ ၁၉၈၂

(၁၃၄၄) ခု၊ တပို့တွဲလဆန်း (၁၂) ရက် (၁၃) ရက် (၁၄) ရက် လပြည့်နေ့အထိ ဘုန်းကြီးပျံပွဲကြီး ကျင်းပကာ မီးသင်္ဂြိုဟ်ကြပေပြီ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃၃

**ထူးဆန်းသော ရောင်ခြည်များ အလင်းတန်းများ**

အဂ္ဂိဈာပန ကျင်းပစဉ်အခါက ထူးဆန်းသော ရောင်ခြည်တော်များ တစ်ပေ ပတ်လည်ခန့်ရှိ အလင်းလုံးကြီးသည် မီးသင်္ဂြိုဟ်ရာမှ ဆရာတော် ခန္ဓာဝန်ချခဲ့ရာ ကျောင်းပေါ်မှာ သွေးသွန်တော်မူခဲ့ရာကုဋီမှာ သွေးစက်များကျရာနေရာတို့မှာ "တဖျပ်ဖျပ်" ကွန့်မြူးတောက်ပ ရောင်ခြည်တော်များ မြင်တွေ့ရပါ၏ဟု ကိုယ်တိုင် မြင်တွေ့ခဲ့ရသည့် ဓမ္မမိတ်ဆွေကြီးများကို မေးစမ်း၍ ဤမှတ်တမ်းတင်ပါ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃၃

**အရိုးတော် အသွေးတော် အသားတော် ဝါဖွေးနုနု ဓာတ်တော်များ**

"ဇီးတောဆရာတော် အသျှင်သာဂရသူမြတ်ကြီးကား မိမိ၏ အရိုး၊ အသွေး၊ အသားတော်မြတ်တို့မှ ထင်ထင်ရှားရှား သေးငယ်လှစွာသော ဘိန်းစေ့ ကလေးများပမာ ဝါဖွေးနုနု ဓာတ်တော်အစုအဝေးတို့ကျလျက် ခေမာနိဗ္ဗာန် သောင်တစ်ဖက်ကမ်းသို့ တက်လှမ်းတော်မူခဲ့သည့် အရိယာ ဇာတ်နွယ်ဝင် ကျေးဇူးရှင်ကြီးဖြစ်ကြောင်း ဤဓာတ်တော်တို့က သက်သေခံပေပြီ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃၃

**သံသရာအေး ဓာတုစေတီ**

မြိုင်ဇီးတောတောရ မြသီတာဆရာတော် ဘဒ္ဒန္တ အသျှင်သာဂရ သူမြတ်ကြီး၏ ဓာတ်တော်များနှင့်တကွ၊ ဗုဒ္ဓဓာတ်တော် မွေတော်တို့ကို အထွေထွေပူဇော်ဌာပနာ၍ တည်ထားခဲ့သော စေတီတစ်ဆူရှိ၏။ ထိုစေတီတော်ကို "သံသရာအေး ဓာတုစေတီ" ဟု ခေါ်ဆိုကြပါ၏။

http://www.dhammadownload.com



မြိုင် ဇီးတော ရဟန္တာကြီး၏ နိုင်မာသည့် အဓိဋ္ဌာန်
သေရမည့်ရက်ကို မသိသော ငါသည် တဏှာ၊ ဥပါဒါန်၊ ကံ၊ ဟူသော အနာဂတ် ဒုက္ခသစ္စာ၏ ငြိမ်းကြောင်းဖြစ်သော တရားရှုမှတ်မှုကို လုပ်ချင်လျှင်လဲလုပ်မည်။ မလုပ်ချင်လဲလုပ်မည်။ နောက် သို့ ဆုတ်မည် မဟုတ်။

ကျမ်းကိုး။ ကျေးဇူးတော်ရှင် အဂ္ဂမဟာပဏ္ဍိတ ဘဒ္ဒန္တဝိမလ မဟာထေရ်အရှင် မိုးကုတ်ဆရာတော်ဘုရားကြီးအပါအဝင် ကိုယ်စီကိုယ်စီ ဓာတ်တော်ကျတော်မူခဲ့ကြသော ရဟန္တာငါးပါးနှင့် ယင်းတို့၏ အနှစ်တရားများ ဓမ္မခရီးသည် ပြုစုသည်။ သာသနာအမှတ်-၃၆၆/၀၇ (၆)၊ စာမူခွင့်ပြုချက် အမှတ်-၃၂၀၅၅၆၀၈၀၇၊ မျက်နှာဖုံးခွင့်ပြုချက်အမှတ်-၃၂၀၆၃၀၁၀၀၇၊ မျက်နှာဖုံးပန်းချီ-ဦးအေးမြင့် ( မြန်မာမှု ဒီဇိုင်းသုတေသီ) မျက်နှာဖုံးဒီဇိုင်း-မောင်အေးချို၊ ၂၀၀၇ ခုနှစ်၊ ဒီဇင်ဘာလ၊ ပထမအကြိမ်၊ အုပ်ရေ-၁၀၀၀၊တန်ဖိုး-၃၀၀၀ ကျပ်၊ ထုတ်ဝေသူ- ဦးငြိမ်းချမ်း (မြ - ၀၁၂၇၁)၊ ကြီးပွားရေးစာအုပ်တိုက်၊ ၂၂၁၊၈၄ လမ်းနှင့်၃၃လမ်းထောင့်၊ မန္တလေး။

http://www.dhammadownload.com



ရွှေကူမြို့

# ရွှေပေါက်ကျွန်းဆရာတော် ဦးသောဘိတ

၁၉၁၂ - ၂၀၀၅



http://www.dhammadownload.com



**စန္တိကျင့်စဉ်**

ဆရာတော်ကြီးသည် ချစ်ခင်ကြည်ညိုသူ ပေါမျာ၍ သူတစ်ပါးကို အတိုက်အခံပြောဆို မိန့်ကြားလေ့မရှိ၊ သည်းခံခြင်းဖြင့်သာ နေတော်မူသည်။

ကျမ်းကိုး၊ ရွှေပေါ်ကျွန်းဆရာတော်၏အတ္ထုပ္ပတ္တိနှင့် ထူးခြားဆန်းကြယ်မှုများ၊ စံထွန်းသာ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် ၂၄၆၊ ၂၀၀၇ - ခု၊ ဇန်နဝါရီလ စာ-၇၃။

**သရဏဂုံ အမြဲထုံ**

လာရောက်ကြသူ တပည့်ဒါယကာများကို သရဏဂုံ၌ အမြဲထုံနေစေရန် တိုက်တွန်းလေ့ရှိသည်။ ကိုယ်တိုင်လည်းအမြဲထုံ၍နေသည်။ ဂျပန်ခေတ်ကာလ မိဘများအားစိတ်မချသဖြင့် ရွာသို့ပြန်သွားစဉ် (သက်တော်၂၀ကျော် ရဟန်းဖိုးဘဝဖြစ်သည်။)လမ်းတွင် ဂျပန်စစ်သားများနှင့်ပက်ပင်းတိုးကာ သေနတ်ဖြင့်အပစ်ခံရသည်။ သရဏဂုံတန်ခိုးကြောင့် ကျည်ဆန်လွဲကာ ထွက်အပြေး၊ ကျန်ခဲ့သောလွယ်အိတ်ကို ဂျပန်စစ်သားများက သစ်ပင်၌ချိတ်ပေးခဲ့သည်ဟု ဆရာတော်မိန့်လေ့ရှိကြောင်း သိရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၅

**ထူးဆန်းသော ပုံရိပ်များ**

"တချို့ ကုသိုလ်ထူးတဲ့လူတွေဆိုရင် နေလုံးအဝိုက်ကွက်ထဲက ရဟန်းတစ်ပါး မတ်ရပ်ကြွနေတာ မြင်ကြတယ်"

"ဟုတ်တယ် မနေ့မနက် နေထွက်စမှာ ရဟန္တာပုံရိပ် ဖူးရတယ်။ တဖြည်းဖြည်းကျွန်းတောဆီ ရွေ့ သွားတာ ကျွန်မနဲ့သူငယ်ချင်းနှစ်ယောက်မြင်ရတယ်။ အမေကဈေးသွားနေလို့ ဖူးခွင့်မကြုံလိုက်ဘူး" ဟု ဒေါ်ပွား၏ သမီးဖြစ်သူက ဝင်ရောက်ပြောဆိုခြင်း ဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၅

**ဈာပန အခမ်းအနား**

ရွှေကူ-ရွှေပေါ်ကျွန်းရေယာဉ်ခရီးမှာ (၂၅)မိနစ်ခန့်ကြာလေသည်။ ဆရာတော်၏ကြွင်းကျန်ရစ်သော ရုပ်ကလာပ်တော်အား ကျောင်းထုတ်ရထားထက်တင် ပင့်ဆောင်၍လှည်းဝါရုံရှိ မြပုခက်တွင် ဖယောင်ကျူပူဇော်ကြပါမည်။ ပြီးလျှင် ကရဝိက်ဖောင်တော်ဖြင့် ပင့်ဆောင်ကာ ကျောင်းနှင့်မနီးမဝေး ရွှေပေါ်ကျွန်းရွာပြင်၌အသင့်ပြုလုပ်ထားသော အရိုးဂူတွင်းထည့်သွင်း၍ ဘူမိဈာပနကျင်းပသည်။ ကရဝိက်ဖောင်တော်ဟု ဆိုကြသော်လည်းတောင်ပံနှင့် ဝေဟင်ထက်ပျံတက်ဟန်နတ်မြင်းပျံရုပ်ကို တန်ဆာဆင်ထားသည်ကိုတွေ့ခဲ့ရသည်။

**မပျံလွန်မီကပင် စီစဉ်ခဲ့**

ယခုပျံလွန်တော်မူသောဆရာတော်သည်လည်း လွန်ခဲ့သည့်နှစ်နှစ်ခန့်ကပင် ရုပ်ကလာပ်တော်ထားရှိရန် အုတ်ဂူကို ကိုယ်တိုင်ကြီးကြပ်လုပ်ဆောင်ခဲ့သည်ဟု သိရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၆

**မပျံလွန်မီကပင် ကျောင်းကို လွှဲပြောင်းခဲ့**

အေဒီ ၂၀၀၄

ဆရာတော် ဦးသောဘိတသည် ပျံတော်မမူမီ ၁-၁၁-၀၄ ရက်နေ့ကပင် ကျောင်းတိုက်နာယကအနေဖြင့် ရွှေကူမြို့ မင်္ဂလာပရိယတ္တိကျောင်း ဆရာတော်ဦးပဏ္ဍိတအားတရားဝင်လွှဲပြောင်းပေးအပ်ထားပြီးဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၆

http://www.dhammadownload.com



**မိမိအတွက် အုတ်ဂူကို ကြိုတင်ပြုလုပ်ခဲ့**

ပျံလွန်တော်မမူမီ (၁၀)ရက်အလိုတွင် သံဃာတော်များ သီတင်းသုံးရာ ကျောင်းဆောင်သည် ပျဉ်အုတ်ကြွပ်များ မိုးထားသဖြင့် ပွဲတော်နီးပြီဟူ၍ သွပ်မိုးများပြောင်းလဲ၍ ပြီးစီးအောင် ဆောင်ရွက်သွားတော်မူသည်။ မိမိအတွက် ကြိုတင်ပြုလုပ်ထားသည့် အုတ်ဂူကိုလည်း (၅)ရက် အလိုတွင် သွားရောက်ကြည့်ရှုသည်။ မရဏာ နုဿတိကမ္မဋ္ဌာန်းကို နှလုံးသွင်းဆင်ခြင်နေခြင်း ဖြစ်ကြောင်း သိကြရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၆

**ဝေဒနာ မစံစားရဘဲ ခန္ဓာဝန်ချ**

တစ်ရက်အလိုတွင် ရေနွေးကြမ်း ဘုဉ်းပေးနေရာမှ ဦးပဋ္ဌင်းကြီး ဦးပဏ္ဍာဝံသကို အသက် ဘယ်လောက်ရှိပြီလဲ ဟုမေးရာ (၆၈)နှစ်ရှိကြောင်း ဖြေသဖြင့်

"ကိုယ်တော်က နေရဦးမှာပါ။ ဘုန်းကြီးတော့ခုတင်ပေါ် ပက်လက်ဖြစ်တော့မှာ" ဟု ပြုံးရွှင်စွာ မိန့်ကြားတော်မူသည်။

**(၄)ဘဝ လှူဝင်စား ရာဇဂြိုလ် တောင်ကိုးလုံး ဆရာတော် မိန့်ကြားချက်**

ရွှေကူ ရွှေပေါ်ကျွန်းဆရာတော် ခန္ဓာဝန် ချတော်မူသောအခါ အသက်ရာကျော်ရှိသော ကသာမြို့အနီးရှိ ရာဇဂြိုဟ် တောင် ၉ လုံးတွင် သီတင်းသုံးတော်မူသော ရာဇဂြိုဟ်ဆရာတော် ကြီး ကြွလာပြီးလျှင် ဤသို့ အေးအေးဆေးဆေးပင် မိန့်တော်မူသည်ဟု ဆိုပါသည်။

"ဦးသောဘိတ ဘုန်းကြီးဆီကိုရောက်လာတယ်။ ကိုယ်တော်တော့မထွက်သေးဘူးလား၊ တပည့် တော်တော့ ဝန်ချလို့ပေါ့ပါးသွားပြီ ထွက်တော့မယ်ဘုရား" လို့ပြောတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၆

**သက်တော် (၁၀၈)နှစ်ရှိ ရာဇဂြိုလ် ဆရာတော်**

အေဒီ၁၈၉၆ — သက်တော်(၄၄)နှစ်တွင်မှ ရဟန်းဘဝ ပြန်လည်ခံယူသည်ဖြစ်ရာ ယခုအခါ သက်တော်(၁၀၈) နှစ်၊ ဝါတော် (၆၃)ဝါရှိ သည့် ရာဇဂြိုလ်ဆရာတော်က အောက်ပါအတိုင်း အမိန့်ရှိတော်မူပါ သည်။

"တပည့်တော်မှာ သာသနာကိစ္စကျန်သေးလို့မထွက်နိုင်သေးပါဘူး။ ကိုယ်တော်ကြွနှင့်ပါလို့ပြန် လျှောက်ရတယ်။ သူ့စျာပနကို ချီးမြှင့်စေချင်တာပဲလို့သဘောရပြီးအခုလိုထွက်လာရတာပဲ"

အေဒီ ၁၉၃၆ — သက်တော် (၁၀၈)နှစ်ရာဇဂြိုလ်ဆရာတော်ကြီးသည် သက်တော်(၄၀)မတိုင်မီတွင် ရသေ့ဘဝ သို့ ပြောင်းကာ တောတောင်အနှံ့ လှည့်လည်၍ သာသနာပြုလုပ်ငန်းများ၊ ဘုရားစေတီ တည် ဆောက်ခြင်းများ ဆောင်ရွက်သည့် ရဟန်းထူးဖြစ်သည်။

**ရွှေပေါ်ကျွန်းက တစ်ဝါပိုကြီး**

အေဒီ ၁၉၄၀ — အသက် ၄၄ တွင် ရဟန်းအဖြစ်ခံယူတော်မူသည်။ ထို့ကြောင့် ထိုရာဇဂြိုလ်ဆရာတော်ထက် ရွှေပေါ်ကျွန်းဆရာတော်က ဝါတော် (၁) ဝါ ပိုကြီးကြောင်း သိရပါသည်။

**ထူးခြားချက်များ**

အေဒီ ၂၀၀၅ — (၁၀)ရက်နေ့ နံနက်(၅)နာရီတွင် ကောင်းကင်၌ ရောင်ခြည်ဝန်းများ ပေါ်ပေါက်လာကာ ဆရာတော်၏ ပုံသဏ္ဌာန် ထင်ရှားမြင်ကြရပါကြောင်း ဆရာတော်သံဃာတော်များစွာ မိန့်ကြား ကြသည်။

ကျမ်းကိုး၊ ရွှေပေါ်ကျွန်းဆရာတော်၏အန္တိမပူဇာနှင့်ထူးခြား ဆန်းကြယ်မှုများ၊ စံထွန်းသာ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် ၂၄၆၊ ၂၀၀၇ - ခု၊ ဇန်နဝါရီလ၊ စာ-၇၃

http://www.dhammadownload.com



### ထူးခြားချက်များ

ညောင်ပင်ကြီးများအကြားအုံဖွဲ့နေသည့် ပျားများစွာမြင်ရသည်။ အခြားသော အရိပ်အာဝါသ အေးမြသည့်နေရာများစွာရှိသော်လည်း ဤတစ်နေရာတည်းတွင်သာ စုဝေးနေကြသည်။ ပျားအုံတစ်အုံလျှင်ထမင်းစားပွဲဝိုင်းပမာဏလေးတောင်ကျော်ခန့်ရှိကြလေသည်။အောက်မှ ဖြတ်သန်းသွားလာကြသူများကို အန္တရာယ်ပေးခြင်းမရှိပါ။ အချို့နေရာများတွင် ပျားငယ်များ ပြောင်းရွှေ့သွားသဖြင့် ကျန်ရစ်သောပျားဖယောင်း အဖြူအတန်းရှည်များစွာလည်းတွေ့ရပေ သည်။

ကျမ်းကိုး၊ ဧယျာဘုံကျော် မြက်ကျွန်းရွှေပေါ်ခြေတော်ရင်းသို့(၁)၊ ဇင်ညိုငယ်၊ နဝွတ္တ ရောင်ခြည်မဂ္ဂဇင်း၊ အမှတ်(၂၄၆)၊ ၂၀၀၇ ခု၊ ဇန်နဝါလ၊ စာ-၄၁)

ပုဂ္ဂိုလ်ထူးဟုသမုတ်ခြင်းခံရသော ပျံလွန်တော်မူပြီးသည့်ရွှေပေါ်ကျွန်းဆရာတော် ဦးသောဘိတ လက်ထက်တွင် ဤကဲ့သို့ပျားများစွာအုံဖွဲ့ကာ ဆရာတော်၏မေတ္တာရိပ်တွင် ခိုလှုံကြခြင်းဖြစ် သည်ဟု ပြောစမှတ်တွင်ရစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၁

### ဗန်းမော်မြို့နယ်၊ ရွှေကူအိုးများ

ဗန်းမော်နယ်တွင် အဝင်အပါဖြစ်သော ရွှေကူသည်လည်း အိုးလုပ်ငန်းတွင် နာမည်ကျော်ကြား သည်။ သင်္ဘောဆိပ်တွင် အနယ်နယ်သို့တင်ပို့ရန် စုပုံထားသည့် ရွှေကူအိုးများ မပြတ်တွေ့နိုင် သည်။

ကျမ်းကိုး၊ ဧယျာဘုံကျော် မြတ်ကျွန်းရွှေပေါ်ခြေတော်ရင်းသို့(၁)၊ ဇင်ညိုငယ်၊ နဝွတ္တ ရောင်ခြည်မဂ္ဂဇင်း၊ အမှတ်(၂၄၆)၊ ၂၀၀၇ ခု၊ ဇန်နဝါလ၊ စာ-၆၅)

ရွှေကူသည်လည်း ရှမ်းဝေါဟာရဖြစ်၍ (ဝေ့ - ချောက်၊ ကျင်း၊ ကူ-ရုပ်သိမ်းခြင်း) ချောက်များ ကိုဖို့၍ (ရုပ်သိမ်း) ပြင်ဆင်ထားသောနေရာဟု အဓိပ္ပါယ်ရသည်။ အများကဖြင့် ရွှေကူဟု ခေါ်ကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၆

### ရွှေ့လျားနေသော ကျွန်းရှင်များ

မြန်မာနိုင်ငံတွင် ပင်လယ်သို့တိုင်စီးဆင်းသော မြစ်ကြီးများအနက်အရှေ့၌ သံလွင်၊ အလယ်၌ ဧရာဝတီတို့မှာ တနံတလျား ရှည်လျားစွာရှိ၍ ဘုရားရှင်နုစဉ်ကာလကပင် တည်ရှိခဲ့ကြသည် ဟု ဆိုကြသည်။

ထိုမြစ်ကြီးများအတွင်း အဓိကရ ကျွန်းနှစ်ကျွန်းစီရှိကြသည်။ အသကဏ်နီ (ခေါ်) သံလွင်မြစ် တွင်း၌ ဟသ်ာကျွန်း(ခေါ်)ခေါင်းကျွန်း၊ ခမင်ကျွန်း(ခေါ်)ဘီလူးကျွန်းတို့ရှိ၏။ ဧရာဝတီမြစ် တွင်း၌ အညာသီဟတောကျွန်း၊ ရွှေပေါ်ကျွန်းတို့ရှိကြသည်။

ထိုမှခေါင်းဆေးကျွန်း (ခေါ်)ကော့ပွန်ဇလိုင်မှာ ဘုရားရှင်နုစဉ်ကာလဟသ်ာမင်းဘဝဖြင့် မှီခိုသူ ဟသ်ာအပေါင်းနှင့်အတူ အသက်ဘေးလွတ်ကင်းခဲ့ရဖူးသည်။

### ခေါင်းဆေးကျွန်းမှာလည်း ရှပ်ကလာပ်တော်ရှိ

ထို့ကြောင့် ဟသ်ာကျွန်းအောင်မြေဟု တင်စားလေ့ရှိကြသည်။ ထိုခေါင်းဆေးကျွန်းဆရာတော် လည်း ထူးပါ၏။ ရှပ်ကလာပ်တော် ယခုတိုင်ရှိသေးသည်ကို နောင်သောအခါ အထူးဖော်ပြပါ မည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၈

http://www.dhammadownload.com



အညာသီဟတောကျွန်းတွင် အလောင်းတော်ခြသေ့်မင်း၊ ရွှေပေါ်ကျွန်းတွင် ဆင်မင်း အပါအဝင် နုစဉ်(၁၇)ဘဝကျင်လည်ကာ ဘေးရန်ကင်းဝေးခဲ့ကြသော အောင်မြေဌာနများ ဖြစ်ကြသည်။ ကျွန်းကြီးလေးကျွန်းစလုံးသည် တည်နေရာပြောင်းလဲနိုင်သော ကျွန်းရှင်များ ဖြစ်ကြသည်။

ဘီလူးကျွန်းသည် မုတ္တမပင်လယ်ကွေ့အတွင်း ဒီရေအတက်အကျလိုက်၍ ခိုင်မြဲစွာ ရွေ့လျား ရပ်တည်နေသည်။ ခေါင်းဆေးကျွန်းသည်လည်း ဒီရေအနိမ့်အမြင့်အတိုင်း အလိုက်သင့် ရပ်တည်နိုင်သောကျွန်းရှင်ဖြစ်သည်။ ရွှေကူရွှေပေါ်ကျွန်းကားအထက်ကဖော်ပြခဲ့သည့်အတိုင်း ရွေ့လျားနိုင်သောကျွန်းရှင်ဖြစ်ရာ ရှင်သန်အထမြောက်ခြင်းနိမိတ်ယူ အဓိဋ္ဌာန်ပြုကြခြင်းဖြစ် သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၉

ကျမ်းကိုး။ ဇေယျာဘုံကျော် မြတ်ကျွန်းရွှေပေါ်ခြေတော်ရင်းသို့(၁)၊ ဇင်ညိုငယ်၊ နက္ခတ္တ ရောင်ခြည်မဂ္ဂဇင်း၊ အမှတ်(၂၄၆)၊ ၂၀၀၇ ခု၊ ဇန်နဝါရီလ၊ စာ-၆၅)

အေဒီ ၂၀၀၅

ပျံတော်မူမည့် ညနေ(၆) နာရီတွင် ဓာတ်တော်တိုက်၌ ဘုရားဝတ်တက်၊ ကမ္မဋ္ဌာန်းဘာဝနာ ပွား များခြင်းတို့ကို ထူးထူးခြားခြား အချိန်ကြာမြင့်စွာ ပြုလုပ်အားထုတ်ပြီးနောက် (၈)နာရီ (၃၀) မိနစ်တွင် ဓာတ်တော်တိုက်မှထွက်လာကာ ညီတော်၊ ဟန်ထက် ဆရာတော် ဦးဉာဏနှင့် စကားစမြည်ပြောဆိုပြီးနောက် ဝေဒနာတစ်စုံတစ်ရာခံစားရခြင်းမရှိဘဲ ပျံလွန်တော်မူလေ သည်။

**ခန္ဓာဝန်ချတော်မူခြင်း**

အေဒီ ၂၀၀၅

ရွှေပေါ်ကျွန်း ဆရာတော်ဦးသောဘိတသည် ၁၃၆၇ ခုနှစ်၊ တပို့တွဲလဆန်း(၅)ရက်ညတွင် ပျံလွန်တော်မူ၏။

http://www.dhammadownload.com



ရောဝတီတိုင်း လပွတ္တာမြို့နယ်၊ ဂုံညင်းတန်း ကျေးရွာတွင်

ရုပ်ကလာပ်တော် ဖူးမြော်နိုင်သေးသော

# ဆရာတော် ဦးပညိန္ဒ

## ၁၉၁၃ - ၂၀၀၀

ရုပ်ကလာပ်တော်ကို ထိုင်တော်မူသော ဣရိယာပုတ်ဖြင့် တရားရှုမှတ်နေဟန် ပြုပြင်ထားသည့် အတိုင်းဖူးမြော်ကြည်ညိုနိုင်ကြပေသည်။

**မပုပ် မသိုးသော ရုပ်ကလာပ်တော်**

လပွတ္တာမြို့နယ်၊ ဂုံညင်းတန်းကျေးရွာကျောင်း ဆရာတော်ဦးပညိန္ဒ၏ ရုပ်ကလာပ်တော် ဖြစ်သည်။

**စန္ဒာဝန်ချုပ်သောအခါ (၈၈)နှစ်**

အေဒီ ၂၀၀၀ — သက်တော်(၈၈)နှစ်ပြည့်ရန် (၂)လအလို၊ သက်တော် (၈၇)နှစ်၊ ဝါတော်(၆၇)ဝါအရတွင် ၁၃၆၂ ခုနှစ်၊ တော်သလင်းလဆန်းပိုင်း၌ ပျံလွန်တော်မူခဲ့ခြင်းဖြစ်သည်။

**ထောပတ်နှင့် ငှက်ပျောသီး သုံးဆောင်လေ့ရှိ**

ဆရာတော် ဦးပညိန္ဒသည် ပျံလွန်တော်မမူမီက သက်သတ်လွတ် (သက်ကင်း) အာဟာရ သုံးဆောင်တော်မူခဲ့သည်။ အထူးသဖြင့် ထောပတ်နှင့် ငှက်ပျောသီးကို သုံးဆောင်လေ့ရှိခဲ့သည်။

> ကျမ်းကိုးးရဲဘော် ဘသော် (ဘီအေ၊ ဒစ်ပ်အီးဒီ)၊ ပညာရေးဝန်ထမ်း(ငြိမ်း) မပုပ်မပွ၊ မကျိုးမပဲ့သော ပျော့ပျောင်းနေသည့် ထူးခြားသည့်ရုပ်ကလာပ်တော်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် - ၁၈၀၊ ဇူလိုင်လ၊ ၂၀၀၁၊ စာ-၂၂

**အာနာပါန ကမ္မဋ္ဌာန်း**

အာနာပါနကမ္မဋ္ဌာန်း (သမထ)ပွားများအားထုတ်ခြင်း၊ ဝိပဿနာ (အာနာပါန)ရှုမှတ်ကျင့်ကြံအားထုတ်ခြင်းများ အမြဲတစေပြုဆောင်တော်မူခဲ့ကြောင်း သိရှိရပါသည်။

လပွတ္တာမြို့နယ်၊ ဂုံညင်းတန်းကျောင်းသည် ငပုတောမြို့နယ်၊ အုန်းချောင်းကျောင်း(ပဓာနနာယကဆရာတော်) ၏ ဂိုဏ်းဂဏဆိုင်ရာပိုင်ရာကျောင်းဖြစ်သည်။

**ပျံလွန်တော်မူသောအခါ**

ဆရာတော် ဦးပညိန္ဒ၏ ရုပ်ကလာပ်တော်ကို ဝမ်းဗိုက်မခွဲ။ အတွင်းမှ မည်သည့်အရာကိုမျှ မထုတ်ယူ၊ မပြုပြင်။ ဆေးထိုး၊ ဆေးစိရင်မှုမပြု၊ ပလပ်စတစ်အိတ် ငါးထပ်စွပ်၍ လုံခြုံအောင် မွမ်းမံထားခြင်းမျှသာရှိသည်။

http://www.dhammadownload.com



**အိပ်မက်အရ သင်္ကန်းလဲပေးရခြင်း**

ဆရာတော် ဦးပညိန္ဒ၏ ရုပ်ကလာပ်တော်ကို စံကျောင်းချပြီး (၂)လပြည့်သောအခါတွင် တပည့်ဒါယကာ(၂)ဦး က အိပ်မက် မြင်မက်သည်။ ၎င်းတို့(၂)ဦး၏အိပ်မက်ထဲတွင် ဆရာတော် ဦးပညိန္ဒ၏ရုပ်ကလာပ်တော်အား သင်္ကန်းလဲလှယ်ပေးပါ ဟုအမိန့်ရှိကြောင်း ၎င်းတို့(၂) ဦးစလုံးက ပြန်ပြောကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၂

ဆရာတော်ဦးသူရိယကို လျှောက်ထားပင့်ခေါ်ခဲ့ကြသည်။ ဆရာတော် ဦးသူရိယ ကိုယ်တိုင် သွားရောက်လျက် ရုပ်ကလာပ်တော်ကို ဖွင့်ကြည့်ခဲ့သည်။

နှာခေါင်းမကျိုး၊ နားရွက်မပဲ့၊ ကိုယ်ရေတော်စစ်သွားသော်လည်း ပုပ်ပွမှုမရှိ။ မျက်လုံးတော် တစ်ဖက် သည် မျက်နက်ဝန်းပါ (မူလပကတိအတိုင်း)ပုံပေါ်လျက်ပင် ရှိသည်။ တောင့်တင်းမနေ ဘဲ ပျော့ပျောင်းလျက်ရှိသည်။ ကွေး၍ဆန့်၍ရသည်။ ထိုင်လျက် တရားရှုမှတ်နေဟန် ပုံဖော် (ထိုင်လျက်)ထားလိုက်ကြသည်။

နှာခေါင်းဟူသည် သာမန်ဆိုရင် (တစ်လခန့်) ကြာရင် ကျိုးကျသွားစမြဲ။ ရုပ်ကလာပ်က သာမန် ဆိုရင် ရက်သတ္တပတ်မျှဖြင့် ပုပ်ပွကြစမြဲ။ ယခု ဆရာတော် ဦးပညိန္ဒကတော့ ဘုန်းကြီးတို့ စံကျောင်း ချပေးပြီး သင်္ကန်းလဲလှယ်ပေးတဲ့ အချိန် (၂)လကျော်ကြာတဲ့အထိ ဓာတ်ပုံထဲမြင်တဲ့ အတိုင်းပဲ မပုပ်မပွ၊ မကျိုးမပဲ့ဘဲ ရှိနေတယ်ဟု မျက်မြင်သက်သေများက မှတ်တမ်းတင်ကြ ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၂

**လမ်းညွှန်စရီးစဉ်**

ဂုံညင်းတန်းရွာသို့ လမ်းညွှန်ပါဟုဆိုလျှင် အောက်ပါစာသားကို ဖတ်စေချင်ပါသည်။ လပွတ္တာမြို့ ဟူသည်မှာ ဧရာဝတီတိုင်းတွင် ရှိပါသည်။

လပွတ္တာမြို့သို့ ရောက်ရှိလျှင် ဂုံညင်းတန်းရွာသို့ စက်လှေဖြင့် သွားရောက်နိုင်ပါသည်။ ငပုတောမြို့နယ်မှတစ်ဆင့် လာလိုလျှင် ပုသိမ်-သက်ကယ်သောင်(အုန်းချောင်း)သင်္ဘောဖြင့် လိုက်ပါလာနိုင်ကြောင်း သိရပါသည်။အုန်းချောင်းမှ ဂုံညင်းတန်းရွာသို့ (နာရီဝက်ခန့်ဖြင့်) စက်လှေ ခရီးရောက်ရှိပါမည်။

> ကျမ်းကိုး၊ရဲဘော်ဘသော် (ဘီအေ၊ ဒစ်ပ်အီးဒီ)၊ ပညာရေးဝန်ထမ်း(ငြိမ်း) မပုပ်မပွ၊ မကျိုးမပဲ့ သောပျော့ပျောင်းနေသည့် ထူးခြားသည့်ရုပ်ကလာပ်တော်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် - ၁၈၀၊ ဇူလိုင်လ၊ ၂၀၀၁၊ စာ-၂၂ကို ကြည့်ပါ။
>
> ကျမ်းကိုး။ အုန်းချောင်းကျောင်းရောက်လျှင် ဆရာတော် ဦးသူရိယမှ တစ်ဆင့်ဆက်သွယ် ရောက်ရှိနိုင်ပါသည်။ ဤမှတ်တမ်းသည် ၂၀၀၈ ခုနှစ်၊ မေလ ၂/၃၊ နာဂစ်မုန်တိုင်းမတိုင် မီက မှတ်တမ်း ဖြစ်ပါသည်။

http://www.dhammadownload.com



ရေဝတီတိုင်း ဇလွန်မြို့ အရှေ့တောင်ဘက်

# ကြာအင်းရွာဆရာတော် ဦးသီဟ

၁၉၁၃ - ၁၉၉၇



http://www.dhammadownload.com



**တည်နေရာ**

ဇလွန်မြို့မှ အရှေ့တောင်ဘက်(၇)မိုင်ကျော် ကွာဝေးသော ကြာအင်းရွာ ဖြစ်၏။ ကြာအင်းရွာ အတွင်း၌ ဘုန်းတော်ကြီးကျောင်းတစ်ကျောင်းတည်းသာ တွေ့ရသည်။ မုခ်ဦးအပြင်ဘက်၌ မြင့်မားသော ပိတောက်ပင်ကြီးတစ်ပင်ကို တွေ့ရသည်။

ကျမ်းကိုး။ ဇလွန် ကြာအင်းမှထူးခြားသောဆရာတော်နှင့် စိတ်ဝင်စားဖွယ်ရာများ။ အောင်ဌေး (ဂန္ဓာရီ)၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၁၉၉၈ခုနှစ်၊ အမှတ်(၁၅၈)၊ စာ - ၁၁

**ထူးဆန်းသော ပိတောက်ပင်ကြီး**

ဆရာတော် ဘဒ္ဒန္တသီဟသီတင်းသုံးနေစဉ်က ဒီပိတောက်ပင်ကြီးဟာ ဆရာတော်ဘက်လှည့်တဲ့ တစ်ကိုင်းတည်းမှာ အခါမဟုတ် ပန်းပွင့်တယ်။ ကျောင်းဝင်းအရှေ့ဘက်က ကုံကော်ပင်ဟာလဲ ဆရာတော် သီတင်းသုံးတဲ့ဘက် လှည့်တဲ့အကိုင်းမှာ အခါမဟုတ် ပန်းပွင့်တယ်။ သိမ်ကျောင်း ထဲမှာ ပူဇော်ခံထားတဲ့ရှေးဟောင်းဗုဒ္ဓရုပ်ပွားတော်(၃)ဆူအနက် အလယ်တစ်ဆူဟာ ဆရာတော် ရှိရာဘက်ကို လှည့်ပြန်တယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁

**ဆံတော်များ ဓာတ်တော်လို့ လုံးသွား**

သက်တော်ထင်ရှားရှိစဉ်က ဆံတော်များသည် ခန္ဓာဝန်ချတော်မူသောအခါ သူ့အလိုလိုပင် ဓာတ်တော်များအဖြစ်သို့ ပြောင်းလဲသွားသော ဖြစ်ရပ်ဆန်းတစ်ခု ရှိခဲ့ဖူးကြောင်း သိရပါသည်။ ဆရာတော် သက်တော်ထင်ရှားရှိစဉ်က ဦးခေါင်းရိတ်တဲ့အခါ ဆံတော်တွေကို တပည့်ဒကာ အချို့က ပုလင်းတွေမှာထည့်ပြီး အိမ်မှာထားရှိကိုးကွယ်တယ်။ ဆရာတော်ပျံလွန်ပြီး မကြာမီ အဲဒီဆံတော်တွေဟာ ဓာတ်တော်လိုအလုံးလေးတွေဖြစ်သွားကြောင်း ဖူးမြင်ကြရတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂

မွေးဖွားစဉ်ကလည်း အဘိုးစိုက်ခဲ့သော ညောင်ပင်ကြီးသည် အထူးအဆန်းဖြစ်သည်ဟု ဆိုပါသည်။

**ဇာတိ**

ဆရာတော် ဘဒ္ဒန္တသီဟဟာ ဇလွန်မြို့၊ ဘောသွန်ရွာဇာတိဖြစ်တယ်။ ဆရာတော်ကို ဖွားမြင်စဉ်က အဘိုးဖြစ်သူစိုက်ခဲ့တဲ့ညောင်ပင်ကြီးဟာ အရွက်ကတော့ထိုးတယ်။ နှစ်စဉ် ကဆုန်လရောက်တိုင်း အရွက်ကတော့ထိုးတာ တစ်ပင်လုံးပဲ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂

ခန္ဓာဝန်ချတော်မူသောအခါမှာလည်း ထိုညောင်ပင်ကြီးကပင် ထူးထူးဆန်းဆန်း တိုက်ဆိုင်နေပြန်လေသည်။

ဆရာတော်ပျံလွန်တော်မူ ခါနီးတစ်ရက်မှာ ညောင်ကိုင်းကြီးတစ်ကိုင်း ကျိုးကျသွားတယ်။ ထူးခြားတဲ့တိုက်ဆိုင်မှုပေါ့။

**ကိုရင်ဘဝ**

အေဒီ ၁၉၂၇

ဆရာတော်ဟာ (၁၄)နှစ်အရွယ်မှာ ရှင်သာမဏေပြုတယ်။ ဆရာတော်ဦးသောမ(ကြာအင်း ဒုတိယဆရာတော်)ထံမှာ လောကီပညာတွေသင်ယူတယ်။ မန္တလေး၊ မိတ္ထီလာ၊ မြင်းခြံ၊ ပခုက္ကူ ဒေသတွေမှာ ပရိယတ္တိစာပေကို ပထမကြီးတန်း အောင်မြင်တဲ့အထိ သင်ယူခဲ့တယ်ဟု မှတ်တမ်း ရှိ၏။

http://www.dhammadownload.com



**ဝိပဿနာ (၅)နှစ်**

အေဒီ ၁၉၃၂ ပြီးတော့ မိတ္ထီလာ၊ မလှိုင် ပန်းအိုင်ဒေသမှာ ဝိပဿနာ (၅)နှစ်အားထုတ်ပြီး ကြာအင်းရွာကို ပြန်ကြွလာတယ်ဟု မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂

အေဒီ ၁၉၅၇ ၁၃၁၉ ခုနှစ်မှာ တတိယဆရာတော် ဘဒ္ဒန္တ ရာဇိန္ဒပျံလွန်တော်မူလို့ ဆရာတော်ဘဒ္ဒန္တ သီဟ ကျောင်းထိုင် ဖြစ်လာတယ်။ ဝိပဿနာကို ကိုယ်တိုင်လဲအားထုတ်ပြီး တပည့်ဒကာတွေကို လဲပြသတယ်ဟု မှတ်တမ်းရှိ၏။

**မဟာစည် သတိပဋ္ဌာန်နည်း**

ဆရာတော်ရဲ့ ထူးခြားချက်များကတော့ မဟာစည် သတိပဋ္ဌာန်နည်းကို စင်္ကြံလျှောက်ပြီး အားထုတ်တယ်။ နံနက်(၄)နာရီကနေ ကျောင်းရဲ့အနောက် မြောက်(၁)မိုင်ကျော်ဝေးတဲ့ ကျိုက်သာခပေါင်းဘုရားကို စင်္ကြံလျှောက်သွားပြီး တရားအားထုတ်တယ်။ အရုဏ်ဆွမ်းအမီ ပြန်ကြွတယ်။ အရုဏ်ဆွမ်းစားပြီးချိန်ကနေ နေ့ဆွမ်းစားချိန်အထိ စကားမပြောတော့ဘဲ၊ စင်္ကြံလျှောက်ရင်းတရားအားထုတ် ပြန်တယ်ဟု မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂

**ဆရာတော်၏ ခလေ့**

ဆရာတော်၏ အလေ့အထမှာ စင်္ကြံလျှောက်ရင်း တရားအားထုတ်မှု ဖြစ်ပါတယ်။ ဝိနည်းကိုလဲ လေးစားတယ်။ နေပူပူ၊ မိုးရွာရွာ တရားအလုပ်ကို မလစ်ဟင်းစေရဘူး၊ စင်္ကြံလျှောက်ရင်း ခြေထောက်မှာကျွတ်တွယ်ရင် ဆက်မလျှောက်ဘဲရပ်နေတယ်။ ကျွတ်ပြုတ်ကျမှ ဆက်လျှောက် တယ်ဟု မှတ်တမ်းရှိ၏။

**ထူးဆန်းသော ညခလေ့ တရားအားထုတ်ပုံ**

ညဦးအခါမှာလည်း သီတင်းသုံးပုံ အလွန်ထူးဆန်းပါသည်။ ကျောင်းကြီးပေါ်မှာသီတင်းမသုံးဘဲ၊ ဘုရားတန်ဆောင်းထဲမှာ ကောက်ရိုးခင်း ပြီး၊ ဝါးခြမ်း ခေါင်းအုံးနဲ့စောင်၊ ခြင်ထောင်မယူဘဲ သီတင်းသုံးတယ်ဟု မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၃

**မီးမထွန်းဘဲ လင်းသော အလင်းရောင်များ**

ညအခါ မိုးမှောင်မှောင်တွင် ဘာမီးမှ ထွန်းမထားဘဲ ထူးခြားသော အလင်းရောင်များ ဝင်းဝင်း ထိန်ထိန်နေတတ်ပါသည်။

ခြင်တွေ၊ ကြမ်းပိုးတွေပေါများပေမယ့် ခြင်ဖု၊ ကြမ်းပိုးကိုက်ရာ လုံးဝမတွေ့ကြဘူး။ မိုးရာသီ ညဘက် မိုးသည်းထန်ချိန်မှာ တော်လည်းသံကြီးတွေမြည်ဟည်းလို့ ဆရာတော် သီတင်းသုံးတဲ့ အဆောင်ဘက်မှာလင်းထိန်နေတဲ့၊ ထူးခြားတဲ့အလင်းရောင်ကြီးတွေကိုယ်တိုင်မြင်ခဲ့ရဖူးတယ် ဟု မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စ-၁၃

**ဘုရား မျက်နှာတော်လှည့်**

နံနက်လင်းလို့ သွားကြည့်ရင် သော့ခတ်ထားတဲ့ အခန်းထဲက ဗုဒ္ဓရုပ်ပွားတော်တစ်ဆူဟာ ဆရာတော် ဘဒ္ဒန္တ သီဟရှိရာဘက်ကို ထူးဆန်းစွာလှည့်နေတာဖူးမြင်ရတယ်ဟု မှတ်တမ်းရှိ၏။

http://www.dhammadownload.com



**မပျံလွန်မီကတည်းက ကျော်စော**

အေဒီ ၁၉၉၁ မပျံလွန်မီ (၆)နှစ်လောက်ကစပြီး ထင်ရှားကျော်ကြားလို့အနယ်နယ် အရပ်ရပ်ကပရိသတ်တွေ လာရောက် ဖူးမြော်စည်ကားခဲ့တယ်ဟု မှတ်တမ်းရှိ၏။

ကျမ်းကိုး။ ယင်းကျမ်း။ စာ-၁၃

**ရုပ်ပွားတော်ရှေ့မှာ ကျမ်းကျိန်သော အလေ့အထ**

ဆရာတော်ဘဒ္ဒန္တသီဟရှိရာဘက်သို့အလိုအလျောက် လှည့်သော ထူးခြားသော ရှေးဟောင်း ရုပ်ပွားတော်မှာ ဉာဏ်တော်(၁)မိုက်ခန့်သာရှိသည်။ ကြာအင်းသူကြီးလက်ထက်တွင် အမှုအခင်း စစ်ဆေးသောအခါ တရားခံ၊ သက်သေ တရားလိုတို့မှ ဤရုပ်ပွားတော်ကို ဦးခေါင်း ပေါ် ရွက်ပြီး၊ ကျမ်းသစ္စာကျိန်ဆိုခဲ့ကြကြောင်း သိရသည်။

**ခေတ်ပြိုင် ကိုယ်တွေ့ပြောပြချက်များ မှတ်တမ်း**

ဆရာတော်၏ အကြောင်းအရာများနှင့် စပ်လျဉ်း၍ နားလည်သူများက ဤသို့ဆိုကြပါသည်။ ဆရာတော်၏ ဆုံးမစကားကို မှတည်၍ ပြောကြားခြင်း ဖြစ်မည်ဟု ဆိုကြပါသည်။ ဆရာတော် ကိုယ်တိုင် ကိုယ်တွေ့ သင်ကြားမှုမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

"လျှောက်ရင် လျှောက်တယ်လို့သိ၊ ရပ်ရင်ရပ်တယ်လို့သိ၊ လှည့်ရင်လှည့်တယ်လို့သိ၊ ဆက် လျှောက်ရင်လျှောက်တယ်လို့သိ၊ ကြိမ်ဖန်များစွာ လျှောက်ရင်းနဲ့ သမာဓိကို ခိုင်အောင်လုပ်ရင်း ဉာဏ်စဉ် အဆင့်ဆင့်မြင့်တက်သွားမယ်။ အနာဂါမိမဂ်အထိ ရောက်ရှိနိုင်တယ်" ဟူသော စကားတော်သည် ကိုယ်တွေ့ တရားတော် ဖြစ်ကြောင်း သိသာပါသည်။ စဉ်းစားတော်မူကြပါ။

**ထူးဆန်းသော မှတ်တမ်းများ**

ဆရာတော် သတိပဋ္ဌာန်တရားအားထုတ်စဉ်အတွင်း စာရွက်များပေါ်၌ ဂဏန်းသင်္ချာများ ရေးမှတ်လေ့ရှိသည်။ စာရွက်တစ်ရွက်ရှိ ဂဏန်းများအောက်၌

အေဒီ ၁၉၈၇ ငါ့ ဟာ တာဝတိံသာချိန် = ၁၃၄၉ ခု၊ တပေါင်းလဆန်း (၁၀) ၄ ဟူးနေ့ဟု ရေးသားထားသည်ကို တွေ့ရှိရပါသည်။

ကျမ်းကိုး၊ ဇလွန် ကြာအင်းမှထူးခြားသောဆရာတော်နှင့် စိတ်ဝင်စားဖွယ်ရာများ၊ အောင်ဇွဲ (ဂန္ဓာရီ)၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၁၉၉၈ခုနှစ်၊ အမှတ်(၁၅၈)၊ စာ - ၁၁

**ခန္ဓာဝန်ချတော်မူခြင်း**

အေဒီ ၁၉၉၇ ဆရာတော်ဟာ ၁၃၅၉ခု၊ သီတင်းကျွတ်လဆန်း(၈)ရက်၊ ကြာသပတေးနေ့နံနက်မှာ ပျံလွန်တော်မူခဲ့တယ်ဟု မှတ်တမ်းရှိ၏။

http://www.dhammadownload.com



မာတ်တော်များ တဖွားဖွား ကျတော်မူသော

ကျောက်ဆည် ဝေဘူချောင် ဒုတိယ ဝေဘူ

# ရွှေစောလှူးဆရာတော် ဦးခေမိန္ဒ

၁၉၁၃ – ၁၉၉၈

**ဒုတိယဝေဘူဆရာတော် အားထုတ်ခဲ့သော နေရာများ**

သီတာကုန်းပြင်ရွာရှိ သီတာရုံကျောင်း၊ မြောက်စမ်းရွာရှိ မြောက်စမ်းကျောင်း၊ ဒေါင့်ကြီးရွာရှိ စလင်းပရိယတ္တိစာသင်တိုက်၊ မန္တလေးမြို့ ရွှေပြည်ရပ်ရှိ ပင်လယ်တိုက်နှင့် တောင်ကျောင်း၊ မန္တလေးမြို့ရှိ ဦးသူတော်ကျောင်း၊ ထားဝယ်ရွာ၊ ကျောက်ဆည်မြို့ ရွှေစောလှူးကျောင်း၊ ကျောက်ဆည်မြို့ရှိ ဝေဘူချောင်၊ တံတားဦးမြို့နယ်ရှိ စကားအင်းရွာ ဘုံစံကျောင်းနှင့် ဂိုဏ်းထောက်ကျောင်း၊ မန္တလေးမြို့ရှိ မနောမယကျောင်း၊ ပြင်ဦးလွင်မြို့ မိုးညှိကျောင်း၊ မြို့လှမြို့ရှိ စမ်းအေးကျောင်း၊ ကောလင်းမြို့ရှိ ခမောက်တောင်ကျောင်း၊ မတ္တရာမြို့ရှိ ပြည့်ဝကျောင်း စသည့် အသီးသီးတွင် လှည့်လည်ပြီး သီတင်းသုံးကာ ဝိပဿနာတရားကို ကြိုးစား အားထုတ်တော်မူခဲ့သည်ဟု သိရှိရပါသည်။

**ဒုတိယ ဝေဘူဆရာတော်**

ကျောက်ဆည်ဝေဘူချောင်၏ ဒုတိယဝေဘူဆရာတော် ဘဒ္ဒန္တခေမိန္ဒသည် ထေရဝါဒ ဗုဒ္ဓသာသနာတော်အတွက် စွမ်းစွမ်းတမံဆောင်ရွက်တော်မူခဲ့သည်။

**ခန္ဓာဝန်ချသောနှစ်**

၁၃၆၁ ခုနှစ်၊ တန်ခူးလပြည့်ကျော်၊ ၁၄ ရက်၊ ဗုဒ္ဓဟူးနေ့၊ ည ၇ နာရီ ၃၀မိနစ်တွင် ခန္ဓာဝန်ချတော်မူခဲ့သည်။

**ဈာပန အခမ်းအနား**

၁၃၆၁ ခုနှစ် ကဆုန်လပြည့်ကျော် ၆ ရက်၊ ဗုဒ္ဓဟူးနေ့ ညနေ ၄ နာရီတွင် အန္တိမအဂ္ဂိဈာပန ပူဇာ သဘင်ကို စည်ကားသိုက်မြိုက်စွာ ကျင်းပပူဇော်ခဲ့သည်။

၁၃၆၁ ခုနှစ် ကဆုန်လဆန်း ၇ ရက် ဗုဒ္ဓဟူးနေ့၌ ရုပ်ကလာပ်တော်အား ဆရာတော်ကြီး သီတင်း သုံးရာ စံကျောင်းဆောင်မှ ရေခဲဗေွာရုံသို့ အခမ်းအနားဖြင့် စံကျောင်းတော်ချပါသည်။ ရေခဲဗေွာရုံမှ ညှော်ခံမဏ္ဍပ်သို့ ၁၃၆၁ ခုနှစ်၊ ကဆုန်လပြည့်ကျော် ၅ ရက်၊ အင်္ဂါနေ့၌ အခမ်းအနား ဖြင့် ပင့်ဆောင်ပါသည်။ ထိုမှ တစ်ဆင့် ၁၃၆၁ ခုနှစ်၊ ကဆုန်လပြည့်ကျော် ၆ ရက်၊ ဗုဒ္ဓဟူးနေ့ ညနေ ၄ နာရီအချိန်တွင် လောင်တိုက်ပြာသာဒ်ပေါ်သို့ ပင့်ဆောင်လျက် နောက်ဆုံး အဂ္ဂိဈာပန ပူဇော်ပွဲသဘင်ကို ကျင်းပခဲ့ခြင်း ဖြစ်သည်။

http://www.dhammadownload.com



**ရွှေစောလူး ဆရာတော်ဟု လူသိများ ကျော်ကြား**

တပည့် ဒါယကာ ဒါယိကာမ ယောဂီများက ရွှေစောလူး ဆရာတော်ဟုလည်း ခေါ်တွင်ခဲ့ကြလေသည်။ အဘယ်ကြောင့်ဆိုသော် ဆရာတော်သည် ကျောက်ဆည်မြို့ ထားဝယ်ရွာရှိ ရွှေစောလူးကျောင်းတွင်လည်း သီတင်းသုံးတော်မူခဲ့ခြင်းကြောင့် ဖြစ်ပါသည်။

**ပထမဝေဘူဆရာတော်ထံ တပည့်ခံခဲ့**

ဆရာတော်သည် ရွှေစောလူးကျောင်း၌ သီတင်းသုံးနေစဉ် ပထမဝေဘူဆရာတော်ကြီးမှာ ရဟန္တာဟု ထင်ပေါ်ကျော်ကြားလာသဖြင့် ဝေဘူချောင်သို့ ကြွ၍ ပထမဝေဘူဆရာတော်ကြီး၏ ဩဝါဒကို ခံယူကာ ဝိပဿနာတရားများကို အပြင်းအထန် ကြိုးစားအားထုတ်တော်မူခဲ့သည်။ ပထမဝေဘူဆရာတော်ကြီး ကြွရောက်သာသနာပြုတော်မူရာ ဒေသတိုင်းသို့ လိုက်ပါ ကြွရောက်တော်မူခဲ့သည်။

**ပထမဝေဘူဆရာတော် ခန္ဓာဝန်ချသောနှစ်**

၁၃၃၉ ခုနှစ်၊ ပထမဝါဆိုလဆန်း ၁၁ ရက်၊ တနင်္ဂနွေနေ့ ည ၇ နာရီ ၃၀ မိနစ်အချိန်တွင် ပထမ ဝေဘူဆရာတော်ကြီး ခန္ဓာဝန်ချတော်မူပါသည်။

**ဒုတိယဝေဘူဆရာတော်ဟု ဆက်လက်ကျော်ကြား**

ဆရာတော် ဘဒ္ဒန္တခေမိန္ဒလည်း ပထမဝေဘူဆရာတော်ကြီး၏ ကမ္မဋ္ဌာန်းနည်းနာအတိုင်း ဝိပဿနာတရားများကို တရစပ်ကြိုးစားအားထုတ်ခဲ့ရာ ၁၃၄၀ ပြည့်နှစ်မှ စ၍ ဒုတိယဝေဘူဆရာတော်ကြီးဟု ကျော်ကြားထင်ရှားလာခဲ့ခြင်း ဖြစ်သည်။

ဆရာတော်ကြီး၏ သာသနာ့တာဝန်များကိုလွှဲပြောင်းရယူ ဆက်လက်ထမ်းရွက်နေခဲ့သည် သာမက ပထမဝေဘူဆရာတော်ကြီး ပြုလုပ်ဆောင်ရွက်တော်မူခဲ့သည့် ရတနာမြတ်သုံးပါး ပူဇော်ပွဲကြီးနှင့် ၁၀ ဆူ ဘုရားပွဲတော်ကြီးများကိုလည်း အစဉ်အလာမပျက် ဆက်လက်ကျင်းပပေးခဲ့သည်။

ဒုတိယဝေဘူဆရာတော်ကြီးသည် ကျောက်ဆည်မြို့ရှိ ဝေဘူချောင်၌ သာသနာ အရှည်တည်တံ့ ခိုင်မြဲတိုးတက်နေစေရန်အတွက် မနေမနား ကြိုးစားခဲ့သည်။

**တိပိဋက မင်းကွန်းဆရာတော်ထံ အကူအညီတောင်းခဲ့**

ဝေဘူချောင်၌ ပရိယတ္တိရော ပဋိပတ္တိပါ စွယ်စုံတိုးတက်ထွန်းကားလာစေရန်အတွက် မင်းကွန်း တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာတော်ကြီး ဘဒ္ဒန္တ ဝိစိတ္တသာရာဘိဝံသထံသို့ ချဉ်းကပ်လျှောက်ထား အကူအညီတောင်းခံတော်မူခဲ့သည်။

ဤသို့ဖြင့် မင်းကွန်းတိပိဋကဓရ ဆရာတော်ကြီး၏ ပရိယတ္တိသာသနာတော် ထွန်းကားရေး အစီ အစဉ်ဖြင့် ၁၃၅၇ ခုနှစ် ဝါဆိုလဆန်း ၁၄ ရက်နေ့တွင် မင်းကွန်း မိုးမိတ်ကုန်းမြေမှ သာသနဓဇမဟာစရိယဘွဲ့ရ ဘဒ္ဒန္တဉာဏိန္ဒအား ဝေဘူချောင်သို့ကြွစေ၍ သာသနာပြုစေခဲ့ပါသည်။

**တတိယဝေဘူဆရာတော်သို့ တာဝန်လွှဲပြောင်းခဲ့**

ဒုတိယ ဝေဘူဆရာတော်ကြီးသည် ဘဒ္ဒန္တဉာဏိန္ဒကို တတိယ ဝေဘူဆရာတော်အဖြစ် သာသနာ့တာဝန်များကို အပ်နှင်းတော်မူပါသည်။

**(၇)နှစ်တိုင်တိုင် နည်းပေးခဲ့**

ထို့နောက် ဒုတိယဝေဘူဆရာတော်ကြီးသည် တတိယ ဝေဘူဆရာတော် ဘဒ္ဒန္တဉာဏိန္ဒအား

http://www.dhammadownload.com



ပထမ ဝေဘူဆရာတော်ကြီး၏ ကမ္မဋ္ဌာန်းနည်းနာအတိုင်း တရားအားထုတ်နည်းနှင့် ဝိပဿနာ တရားဟောကြားနည်းများကို ၇ နှစ်တိုင်တိုင် သင်ကြားပေးခဲ့သည်။

**မွန်ပြည်နယ် မြသပိတ်စခန်းလည်း ရှိသေး**

ဒုတိယဝေဘူဆရာတော်ကြီး၏ တပည့် ဘဒ္ဒန္တစန္ဒိမာသည် မွန်ပြည်နယ် သထုံမြို့ မြသပိတ် တောင်တန်းရှိ ဘုရားငါးဆူကျောင်းတိုက်၌ ဝိပဿနာတရားစခန်းများကို ဖွင့်လှစ်၍ ဝေဘူဆရာ တော်ကြီး၏ သာသနာ့အမွေကို ဆက်လက်ဖြန့်ဝေနေဆဲ ဖြစ်ပေသည်။

**ဇာတိရပ်ရွာ**

ဧရာဝတီတိုင်း ရေကြည် ငါးသိုင်းချောင်းမြို့နယ်၊ ဒေါင့်ကြီးရွာမတွင် ခမည်းတော် ဦးဘိုးလှိုင်နှင့် မယ်တော်ဒေါ်ဘိုမယ်တို့မှ ၁၂၇၅ ခုနှစ် တပို့တွဲလဆန်း ၈ ရက်၊ တနင်္လာနေ့၌ ဖွားမြင်ခဲ့ခြင်း ဖြစ်သည်။

**ကိုရင်ဘဝ**

၁၃ နှစ်သားအရွယ်တွင် ရွာကျောင်းစလင်း စာသင်တိုက် ဆရာတော်ဘဒ္ဒန္တအာစိဏ္ဏကို ဥပဇ္ဈာယ်ပြု၍ မြင့်မြတ်သော ဘဝသို့ တက်ရောက်တော်မူခဲ့သည်။

**စာသင်သား ဘဝ**

ပါဠိတော် အဋ္ဌကထာ၊ ဋီကာများကို ကျမ်းကြီးပေါက် သင်ယူတတ်မြောက်ခဲ့သည်။

**စိတ်ဖြင့် စာကြည့်**

ဆရာတော်သည် ပရိယတ္တိစာပေကို သင်ကြားရာ၌ အသံထွက်ပြီး အော်ဟစ်၍ စာမကျက်ချေ။ စိတ်ထဲ၌သာ မှတ်သား၍ စာကြည့်ခြင်း ဖြစ်သည်။

**အာဂုံအလွတ်ရ**

စာသင်ဖက်များက ထိုအချက်ကို စမ်းသပ်လို၍ ကိုယ်တော် စာဝါတွေကို မရပါဘူးဟု ပြောလာ သောအခါမှ ပြောသူအလိုကျ အာဂုံရွတ်ဆို၍ အဓိပ္ပာယ်များကိုပါ ရှင်းပြလေ့ရှိပါသည်။ အင်္ဂလိပ်ပန သာစုကြီးနုသဘင်အား ဦးဆောင်ကျင်းပခဲ့သော စာသင်ကျောင်း ဓမ္မသုခဆရာ တော် ဘဒ္ဒန္တကုမာရထံ သွားရောက်လျှောက်ထားခဲ့သည်။

**ကြိုသိခဲ့**

ဘုန်းကြီးရဲ့ ဦးရီးတော်လဲ ဖြစ်တဲ့ ဝေဘူဒုတိယ ဆရာတော်ကြီးဟာ ရောဂါဝေဒနာခံစားရတော့ မန္တလေးဆေးရုံကြီးမှာ တက်ရောက်ကုသရပါတယ်။ ဘုန်းကြီးပဲ အနီးကပ်ပြုစုစောင့်ရှောက်ခဲ့ ရတာပါ။ ဆရာတော်ကြီးက ခန္ဓာဝန်ချမှာကို ကြိုတင်သိထားတယ်။

**ဒုတိယဝေဘူဆရာတော် ခန္ဓာဝန်ချ**

ဒုတိယ ဝေဘူဆရာတော်ကြီးဟာ ၈၆ နှစ်မှာ ပျံလွန်တယ်၊ အင်္ဂလိပ်ပနပူဇော်ပွဲကို ၁၃၈ ဧက ကျယ်ဝန်းတဲ့ ဝေဘူကျောင်းတိုက်ကြီးထဲမှာ ကျင်းပပြုလုပ်ခဲ့တယ်။ လူပရိသတ်တွေ စည်ကားလွန်းလို့ လုံခြုံရေးတွေတောင် မနိုင်လောက်အောင်ပါပဲ။

**ဓာတ်တော်တွေ တဖွားဖွားကျ**

ဆရာတော်ကြီးရဲ့ အရိုးပြာတွေကို ပူဇော်ကြဖို့တဲ့။ ဓာတ်တော်တွေ ကျတယ်၊ မှန်ဘီလူးတွေနဲ့ ဓာတ်တော်တွေကို အလုအယက်ကောက်ယူ ပူဇော်ကြတာ မနည်းဘူး။ တစ်မြို့လုံး ဘုန်းကြီးပျံ တစ်ကွင်းလုံး ပွက်လောရိုက်လုယက်နေကြတာက ဓာတ်တော်တွေကိုပါ။

ပထမတော့ ဓာတ်တော်တွေကို မရဘူး။ ဒါ့ကြောင့်မို့ စိတ်ထဲကပူဇော်ဖို့အတွက် အဓိဋ္ဌာန်လိုက်

http://www.dhammadownload.com



တော့ ဓာတ်တော်တွေကို ရရှိလာတယ်။ တချို့လဲ ဓာတ်တော်တွေ မရလို့ မပူဇော်ရလို့ဆိုပြီး ဘုန်းကြီးဆီကို ရောက်လာကြတယ်။ ဒါကြောင့်မို့ အဲဒီပုဂ္ဂိုလ်တွေကိုလဲ ဘုန်းကြီးလိုပဲ အဓိဋ္ဌာန်ပြီး ဈာပနကွင်းထဲမှာ ရှာကြည့်ပါဆိုတော့ သူတို့တွေ ဓာတ်တော် လေးငါးဆူ ပူဇော်ခွင့်ရသွားတယ်။။

ဓာတ်တော်တွေ ရရှိသွားတဲ့အထဲက လူတစ်ယောက်က ဓာတ်တော်တွေကို အောက်ခံဘောင်းဘီထဲမှာထည့်ပြီး အိမ်ပြန်သွားသတဲ့။ အိမ်လဲရောက်ရော ဘုရားစင်ပေါ်ကို ပင့်ဆောင်ပူဇော်ဖို့ ဓာတ်တော်တွေကို ထုတ်ယူလိုက်တော့ မရှိတော့ဘူးတဲ့။

အဲဒါ ဘုန်းကြီးကို လာလျှောက်လို့ ဓာတ်တော်ဆိုတာ မြင့်မြတ်တဲ့ နေရာမှာ ထားရတယ်လို့ ဆုံးမပြီး ဘုန်းကြီးပူဇော်ထားတဲ့အထဲက ဓာတ်တော် သုံးလေးဆူကို ချီးမြှင့်လိုက်တယ်။

တစ်ကြိမ် တစ်ခါမှ မတွေ့ဖူး၊ မမြင်ဖူးတဲ့ ပုဂ္ဂိုလ်တွေကိုလည်း လာရောက်ပူဇော်ရှိခိုးနေကြတာလဲ ရှိပါတယ်။

http://www.dhammadownload.com



စကြံ့ကြွရာ မြေပြင်မှ တစ်တောင်ကွာသည်ဟု ဆိုကြသော

တရားကျင့်ရာကျောင်းမှ ခေါင်မိုးပေါ် အလင်းတန်းကြီး ထွက်ပေါ်သည်ဟုဆိုကြသော

# ရန်ကုန်တိုင်း ရွှေဥမင်ဆရာတော်

၁၉၁၃ – ၂၀၀၂



http://www.dhammadownload.com



သာမညဆရာတော်ဘုရားကြီးက မြောက်ဥက္ကလာပ အနီးအနားဒေသများမှ သာမညသို့ ရောက်လာသူများကို ထင်ရှားကျော်ကြားတော်မူသော ရွှေဥမင်ဆရာတော်ဘုရားကြီးကို ဖူးဖြစ်အောင် ဖူးကြ ထူးပါလိမ့်မည်ဟု မိန့်ကြားတော်မူပါသည်။

ကျမ်းကိုး၊ ကံဝင်း၊ ကျေးဇူးရှင် ရွှေဥမင်၊ သူရဋ္ဌမဂ္ဂဇင်း ၂၀၀၇ ခုနှစ်၊ ဇန်နဝါရီ၊ စာ ၂၇။

ထို့ကြောင့်ပင် ယခင်ကတည်းက ကျော်ပြီးဖြစ်သော ဆရာတော်ဘုရားကြီးမှာ ပို၍ ပို၍ ကျော်ကြားလာပါသည်ဟု ဆိုရပါမည်။ အောက်ပါ ကိုယ်တွေ့ဖြစ်ရပ်တစ်ခုကလည်း ဆရာတော်ကြီးအား ပို၍ ကြည်ညိုသူ ပေါ်များစေပါသည်။ ဆရာတော်ကြီး ရှိစဉ်က ထိုအချက်ကို သိုသိုသိပ်သိပ်ထားကြပါသည်။ အောက်တွင် ဖတ်ကြည့်ပါ။

အနောက်တောင်ရပ်ဝန်း မိုးကောင်းကင်တွင် အလင်းတန်းများ ထွက်ပေါ်လာ၍ ရင်တထိတ်ထိတ်နှင့် နွေရာသီမှာ ပူပင်စရာ မီးတောလောင်ပြန်ပြီကွာဟု ဦးဝင်းညွန့်စိတ်မှာ တွေးထင်မိလိုက်၏။ သေချာကြည့်ဦးမှ ဆိုပြီး စူးစိုက်ကြည့်မိလိုက်ရာမှ မီးလောင်လို့ မီးညွန့်တက်တာမျိုးနှင့်လည်း မတူ၊ ပေါက်ကွဲစရာ ဓာတ်ဆီတိုင်ကီများရှိ၍ မီးညွန့်လုံးတက်တာမျိုးလည်း မဟုတ်။ ထိုအလင်းတန်းသည် တန်းပြီးအထက်ထောင်ကာ ရောင်စုံမီးလုံးလေးတွေ လင်းသလို လင်းလိုက် ပေါ်လိုက် ဖြစ်နေချေ၏ဟု ဆို၏။

ကျမ်းကိုး၊ ယင်းစာ ၃၀။

ထူးတော့ထူးတယ် အလင်းလာရာ အနီးအနားထိ သွားကြည့်မှပဲ ဟု စိတ်မှာ တွက်ဆပြီး သကာလ ထိုအလင်းတန်းနှင့်နီးရာသို့ ခြေလှမ်းခပ်သွက်သွက် လှမ်းလာရင်း ရထားသံလမ်းနားသို့ ရောက်မှန်းမသိ ရောက်လာလေတော့၏။ ရထားသံလမ်းနားအရောက်မှာ အလင်းတန်းက ခေတ္တပျောက်နေသဖြင့် သတိထား ဝီရိယစိုက်ပြီး ကြည့်နေမိ၏။ မိနစ် ၂၀ နီးပါးအကြာမှာ အလင်းတန်းသည် ရွှေဥမင်တောရကျောင်းပေါ် ကောင်းကင်မှာ ဖြိုးဖြိုးဖြက်ဖြက် အလင်းရောင်တွေ ထွက်ပြီးနောက် ပျောက်ကွယ်သွားတော့၏ဟု ဆို၏။

ကျမ်းကိုး၊ ယင်းစာ ၃၀။

နောက်နေ့ညများတွင် ပေါ်လာနိုးဖြင့် စောင့်မျှော်သော်လည်း မပေါ်လာတော့ပေ။

**ထူးဆန်းသော ဖြစ်ရပ်များ မျက်မြင်ကိုယ်တွေ့ ပြောဆိုကြ**

သို့သော်လည်း သတင်းများက ကြားရ၏။ မင်္ဂလာဒုံ လေတပ်စခန်းဌာနချုပ်မှ လုံခြုံရေး စစ်သည်များကလည်း သူတို့မြင်ရကြောင်း တချို့ကျတော့လည်း ရွှေဥမင်ဆရာတော်ဘုရား ကောင်းကင်မှာ ကြွသွားသည်ကို ဖူးရကြောင်း ပုရွက်ဆိတ်ကုန်းနှင့် အနန်းပင်အရပ်မှ လူအများကလည်း ထူးထူးဆန်းဆန်း ထိုအလင်းတန်းကို တွေ့ရကြောင်း နောက်ပိုင်းရက်များတွင် သတင်းစကား ကြားရ၏။

**ဆရာတော်ကြီး၏ ဓလေ့တော်များ**

ရွှေဥမင်တောရ၌ တိုက်ကျောင်းကြီးငယ်များကို အလှူရှင်များမှ သဒ္ဓါကြည်ဖြူ ဆောက်လုပ်လှူဒါန်းကြသော်လည်း ထိုခမ်းခမ်းနားနား တိုက်ကျောင်းကြီးပေါ်တွင် ဆရာတော်သည် သီတင်းသုံးလေ့မရှိ။ ၁၂ ပေသာသာ ကျယ်ဝန်းသော တစ်ထပ်ကျောင်းသင်္ခမ်းတွင်သာ သီတင်းသုံးတော်မူ၍ ညဥ့်အခါကာလ၌ ကျိန်းစက်လေ့မရှိကြောင်း အနယ်နယ်အရပ်ရပ်မှ လာလှူသမျှ တစ်ခုမကျန် ချို့တဲ့နွမ်းပါးကျောင်းတိုက်များသို့ ပြန်လှူဒါန်းလေ့ရှိကြောင်း သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ ၃၀။

http://www.dhammadownload.com



**သူခိုးအတွက် ဘာမှမရှိ**

တစ်ခါသော် သူခိုးတစ်ယောက်သည် ကျောင်းသခ်မ်းလေးအတွင်း ဝင်ရောက် မွှေနှောက်ရှာဖွေရာ တရားနာသော ကက်ဆက်တစ်လုံးနှင့် သက်န်းသုံးထည်ကိုသာ ရသွားလေ၏။

ကျမ်းကိုး၊ ယင်းစာ ၃၁။

တရားမှတ်နေရင်း သူခိုးရောက်နေမှန်းသိသော်လည်း ခြောက်လှန့်ခြင်း၊ အော်ဟစ်ခြင်းမျိုး မလုပ်ခဲ့ပေ။ သင်လိုသမျှ ကြည်ဖြူစွာဒါနပြုပါသည်ဟု နှလုံးသွင်းတော်မူကြောင်း ကြည်ညိုဖွယ် သတင်းကို ကြားရပါသည်။

ကျမ်းကိုး၊ ယင်းစာ ၃၁။

**ရန်ကုန်မြို့ သန်လျင်မြို့နယ် ကျောက်တန်းမှ မြစ်ရပ်ဆန်း**

ဆရာတော်ဘုရားကြီး ကျောက်တန်းတောရ၌ သီတင်းသုံးတော်မူနေစဉ် နံနက်ပိုင်း စင်္ကြံ ကြွတော်မူလေ၏။ တစ်နေ့သောအခါတွင် ရဟန်းအမကြီး ဒေါ်တင်အေးသည် ဆွမ်းချက် ဆောင်၌ ဆွမ်းချက်နေရင်း တောစခန်းစင်္ကြံလမ်းသို့ အမှတ်မထင် လှမ်းကြည့်မိလိုက်ရာ ထူးထူး ဆန်းဆန်း ဖြစ်ရပ်ဆန်းတစ်ခုကို တွေ့လိုက်ရ၏။

**မြေပြင်မှ တစ်တောင်ကွာနေခြင်း ကိုယ်တွေ့**

ရွှေဥမင်ဆရာတော်ဘုရား စင်္ကြံကြွသွားသည်မှာ မြန်ဆန် လွန်းလှသဖြင့် ဘယ်လိုပါလိမ့် ဆိုပြီးနောက်မှ ကမန်းကတန်းလိုက်ကြည့်ရာ မြေပြင်ပေါ် တစ်တောင်အကွာမှ ဆရာတော် စင်္ကြံကြွသွားသည်ကို အံ့သြခြင်းများစွာဖြင့် ဖူးတွေ့လိုက်ရလေ၏။ ကြက်သီးမွေးညင်းများ ထလာသည်အထိ ရဟန်းအမကြီး ဒေါ်တင်အေးမှာ အတိုင်းအဆ မရှိ ဝမ်းသာနေလေတော့၏ဟု ဆို၏။

ကျမ်းကိုး၊ ယင်းစာ ၃၀။

**ကျောက်တန်းတောရ တောနက်ကြီးထဲက ဖြစ်ရပ်ဆန်းတစ်ခု နမူနာ**

ဆရာတော် မြောက်ဥက္ကလာပ ရွှေဥမင်တောရတွင် ပြန်၍ ဝါဆိုခါနီး၌ ရန်ကုန်မှ လိုက်လာသော တပည့်များကိုပါ ခေါ်ကာ ကျောက်တန်းတောရ တောနက်ကြီးမှာ တည်ရှိတော်မူသော ဆုတောင်းပြည့်စေတီသို့ သွားဖူးကြလေ၏။

**ရွှံ့ထဲ လမ်းလျှောက်ခြင်း**

လူသူ အရောက်အပေါက် နည်းလှသဖြင့် ဘုရားသို့ သွားရာလမ်းပင် ပျောက်နေပေ၏။ မိုးရွာထားသဖြင့် မြေသားမှာလည်း ရေစပ်စပ်ဖြင့် ရွှံ့နွံသဖွယ် ဖြစ်နေရသည့်အပြင် တောမြက်ရိုင်းများကလည်း လည်တစ်ဆုံတိုင် ပေါက်နေသဖြင့် ဦးလှမောင် ဒေါ်တင်အေးတို့က "တပည့်တော်တို့ ရှေ့ကတောရှင်းပြီး အရင်သွားပါရစေ" ဟု လျှောက်ရာ ဆရာတော်ကြီးမှ "ရှေ့က ကြွနှင့်မယ်။ နောက်ကလိုက်ခဲ့နေကြ" ဟု မိန့်တော်မူသဖြင့် ဆရာတော်၏ နောက်ပါးမှ လိုက်ခဲ့ကြလေ၏။

ကျမ်းကိုး၊ ယင်းစာ ၃၁။

**ရှေ့ဆုံးမှ ကြွတော်မူခြင်း**

ရှေ့ဆုံးမှ ကြွတော်မူနေသော ဆရာတော်ကြီးမှာ သက်တော် ၈၀ ကျော်ဖြစ်သော်လည်း မမောမပန်းပေါ့ပေါ့ပါးပါး ကြွတော်မူသွားလျက် နောက်ပါးမှ လိုက်ရသော ဦးလှမောင်၊ ဒေါ်တင်အေး ဒေါ်မြမြ၊ မစန်းတို့မှာ မြေပြင်မှ ရွှံ့နွံကိုနင်းရ၊ ရှုန်းရ မြက်ပင်ရှည် ချုံနွယ်တွေ ရှင်းရနှင့် တော်တော်နှင့် ခရီးမတွင်လှပေ။ ဆရာတော်၏နောက်ပါးမှ မောပန်းနွမ်းလျစွာ လိုက်ခဲ့ရ

http://www.dhammadownload.com



လေ၏။ စေတီတော်၏ ရင်ပြင်တော်ရောက်သောအခါ ဆရာတော်၏ ဘုန်းတန်ခိုးတော်ကို ဖူးမြင်ရမှ အမောအပန်းတွေ ပြေကြတော့၏။

ကျမ်းကိုး၊ ယင်းစာ ၃၁။

## ခြေထောက်ကို ရွှံ့မပေ ရေမစိုသော ဖြစ်ရပ်ဆန်း

စေတီတော်ရင်ပြင်မှာ ဆရာတော်နှင့်အတူပါ တပည့်များမှာ ရွှံ့နွံများထဲမှာ ဖိနပ်ပြုတ်ကျန်သူက ကျန်နှင့် လုံချည်အင်္ကျီမှာလည်း ရွှံ့ဗွက်များ ပေကျံနေကြလေ၏။ ဆရာတော်ကြီးမှာတော့ ရွှံ့နွံ မပြောလေနှင့် ရေတစ်စက်ပင်မရှိ။ ခြေတော်မှာ ဝင်းဝါ၊ ဖိနပ်တော်မှာ အမှိုက်တစ်ပင်မရှိ။ မောပန်းနွမ်းလျကင်းစွာ ရင်ပြင်တော်မှာ ရပ်တော်မူနေသည်ကို ဖူးမြင်ကြရသောအခါ အံ့သြ ဝမ်းမြောက်ခြင်း များစွာ ဖြစ်ခဲ့ကြ၏။

ကျမ်းကိုး၊ ယင်းစာ ၃၁။

## ပရိသတ်နှင့် ဝေးရာ

ဆရာတော်ဘုရားကြီး၏ သီလဂုဏ်၊ သမာဓိဂုဏ်၊ ပညာဂုဏ်တို့သည် အလွန်တရာ ကျော်ကြား လှ၍ ကြည်ညိုသူများလှ၏။ များလှသော ဧည့်ပရိသတ်များကို အမြဲဧည့်ခံနေရ၍ အချိန်ကုန် လူပန်းလျက် တရားဘာဝနာကိစ္စ အဖြာဖြာတွင် အနှောင့်အယှက် အတားအဆီးသဖွယ် ဖြစ်လာသောအခါ ဆရာတော်သည် ဧည့်ပရိသတ်နှင့်ဝေးရာ ဆိတ်ငြိမ်အေးချမ်း တောရစခန်း များတွင် လူမသိ သူမသိ တရားနှင့် မွေ့ပျော်နေတတ်၏။

ကျမ်းကိုး၊ ယင်းစာ ၃၁။

## မကြာခဏ ပျောက်ပျောက်နေ

ထင်ပေါ်ကျော်ကြား လူသိများမှုကို အလွန်တရာ စိုးရိမ်မှုနှင့်အတူ မကြာခဏ ရွှေဥမင်တောရ မှ ပျောက်ခြင်းမလှ ပျောက်ပျောက်နေတတ်လေသည်။

ကျမ်းကိုး၊ ယင်းစာ ၃၁။

## ရွှေဥမင်ဆရာတော် တရားအားထုတ်ရာ နေရာများ

တစ်ခါတစ်ရံမှာ မြောက်ဥက္ကလာပနှင့် အလွန် အလှမ်းကွာဝေးလှသော ပေါင်မြို့နယ် ဘန့်ဘွေး ကုန်းကျောက်အိုင် ဓမ္မသုခ တောရကျောင်းသခ်မ်းတွင် ဖူးခွင့်ရကြ၏။ ရေးမြို့နယ် အစင်ကျေး ရွာ မွန်ထိန်တောရ၊ ဒေးစွန်ပါ ဆင်ပုန်းတောရ၊ ရန်ကုန်တိုင်း ကော့မှူးမြို့နယ် ညောင်ကုက္ကိုင်း တောရ၊ ပဲခူးမြို့နယ်၊ ဘုရားသုံးဆူရွာ နာရဏီတောရ၊ ပဲခူးမြို့နယ် ကျောက်တန်းတောရများ သည် ရွှေဥမင်ဆရာတော်ဘုရား တရားကျင့်ကြံပွားများရာ ဌာနများ ဖြစ်ကြလေ၏။

ကျမ်းကိုး၊ ယင်းစာ ၃၁။

## မွေးသက္ကရာဇ်နှင့် ဇာတိရပ်ရွာ

အေဒီ ၁၉၁၃ — ရွှေဥမင်တောရ ဆရာတော်လောင်းလျာအား မွန်ပြည်နယ်၊ ကျိုက်ထိုမြို့နယ်၊ မုက္ခမူကျေးရွာ၌ ခမည်းတော် ဦးဟန်၊ မယ်တော် ဒေါ်သိုင်းခြံတို့ ၁၂၇၅-ခုနှစ်၊ တော်သလင်းလပြည့်ကျော် (၁)ရက်၊ (တနင်္လာနေ့)တွင် မီးရှူးသန့်စင် ဖွားမြင်တော်မူခဲ့ပါသည်။ မွေးချင်းငါးယောက်အနက် သားဦးရတနာဖြစ်သည်။

## ရဟန်း ဘဝ

အေဒီ ၁၉၃၃ — သက်တော် ကိုးနှစ်အရွယ်ကပင် မုက္ခမူကျေးရွာ မှန်ကျောင်းဆရာတော် ဘဒ္ဒန္တနန္ဒိယထံ၌ ရှင်သာမဏေပြုခဲ့၍ ၁၂၉၅-ခုနှစ်တွင် ပဲခူးတိုင်း၊ ညောင်လေးပင်မြို့၊ ညောင်လေးပင်တောရ ဆရာတော် ဘဒ္ဒန္တအရိယအား ဥပဇ္ဈာယ်ပြု၍ မြင့်မြတ်သော ရဟန်းအဖြစ်သို့ ရောက်ရှိခဲ့သည်။

http://www.dhammadownload.com



**စာသင်သားဘဝ**

ဆရာတော်သည် ပရိယတ္တိပိုင်းတွင် ဥပဇ္ဈာယ် ဆရာတော် ဘဒ္ဒန္တအရိယ၊ ရန်ကင်းမြို့နယ် မေဒိနီ ဆရာတော် ဘဒ္ဒန္တအာဇ္ဇာရ၊ သထုံမြို့ ညောင်လေးပင်တောရကျောင်းဆရာတော်တို့ထံ၌ ပါဠိ တော်၊ အဋ္ဌကထာ၊ ဋီကာ၊ နေ့ဝါ ညဝါများကို လေ့လာသင်ယူ ဆည်းပူးခဲ့ပါသည်။

**ပဋိပတ္တိဘဝ**

ပဋိပတ္တိ အားဖြင့် ဧရာဝတီတိုင်း၊ ကျိုက်လတ်မြို့ ပစ္ဆိမာရုံကျောင်းတိုက်၊ ရာကျော်ဆရာတော် ဘုရားကြီး နှင့် ရန်ကုန်၊ မဟာစည်သာသနာ့ရိပ်သာ မဟာစည်ဆရာတော်ဘုရားကြီးတို့ထံ၌ နိဿရည်းခံ၍ ကျင့်ကြံအားထုတ်ခဲ့ပါသည်။ ထို့နောက် မြောက်ဥက္ကလာပမြို့နယ်၊ ပုရွက်ဆိတ် ကုန်းရပ်ကွက်၊ ရွှေဥမင်တောရရိပ်သာကို ဖွင့် ဒိတင်းသုံးတော်မူခဲ့သည်။

**ဓမ္မသုခ ရိပ်သာများ တည်ထောင်ခြင်း**

အေဒီ ၁၉၉၇

မွန်ပြည်နယ်၊ ပေါင်မြို့နယ်၊ ဘန့်ဘွေးကုန်းကျေးရွာ၊ ကျောက်အိုင်တောရ ဓမ္မသုခရိပ်သာ (၁၃၅၀) မင်္ဂလာဒုံမြို့နယ်၊ ပတ္တမြားမြို့သစ်၊ ကုန်းတလပေါင်ရပ်ကွက်တွင် ရွှေဥမင်တောရ ဓမ္မသုခရိပ်သာ (၁၃၅၉) တို့ကို တည်ထောင်တော်မူခဲ့သည်။

**ခန္ဓာဝန်ချတော်မူခြင်း**

အေဒီ ၂၀၀၂

ရွှေဥမင်ဆရာတော်ဘုရားကြီးသည် ကမ္မဋ္ဌာနာစရိယအဖြစ် သာသနာ့တာဝန်ထမ်းဆောင်ရင်း ၁၃၆၄-ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော် (၁)ရက်၊ (၂၀. ၁၁. ၂၀၀၂) ဗုဒ္ဓဟူးနေ့ ညနေ ၃း၃၀ နာရီအချိန်တွင် ပတ္တမြားမြို့သစ်၊ ဓမ္မသုခတောရ၌ ခန္ဓာဝန်ချတော်မူခဲ့ပါသည်။

ကျမ်းကိုး။ ရွှေကျင်နိကာယရတ္တညူမဟာနာယက ကျေးဇူးတော်ရှင်ရွှေဥမင် ဆရာတော် ဘုရားကြီး ဘဒ္ဒန္တကောသလ္လ မဟာထေရ်မြတ်၏ ဩဝါဒကောက်နုတ်ချက်များ။
ဦးမောင်မောင်သန်း+ဒေါ်နွယ်နွယ်ဝင်း မိသားစု ဓမ္မဒါနစာအုပ်။

http://www.dhammadownload.com



မောင်ပန်းမွေး

ငါနဲ့ အတူတူပဲ သွားဖူးကြပါ သာမည ဆရာတော်ဘုရားကြီး မိန့်ကြားတော်မူသော

# အုတ်ဖို ငှက်ပစ်တောင်ကျောင်းသစ်

# ဦးဝါယမဗောဓိ

၁၉၁၄ – ၂၀၀၅



http://www.dhammadownload.com



**မေ့ဆေးပေးထားစဉ် စကားပြောခြင်း ဖြစ်ရပ်ဆန်း**

မေ့ဆေးပေးထား၍ ခွဲစိပ်ကုသနေစဉ် အားလုံးသိတော်မူသည့်အတိုင်းပင် အဘယ်သို့မှ စကားပြောဆိုစရာ အကြောင်း မရှိပါ။ ထိုသို့ ဖြစ်ပါလျက် မေ့ဆေးပေးထား၍ မေ့မြောနေသော ဆရာတော်ဘုရားကြီးက "ဟေ့ မင်းတို့ဟာ မပြီးသေးဘူးလားကွာ ကြာလှချည်လား" ဟူ၍ မေ့ဆေးပေးထားသည့်ကြားကပင် လှမ်း၍စကားပြောသဖြင့် အထူးတလည် တုန်လှုပ်သွားသော ဖြစ်ရပ်ဆန်းတစ်ခု ဖြစ်ပွားခဲ့ပါသည်။ ထိုဆရာတော်ကြီး၏ အမည်မှာ ဦးဝါယမဇောတိဟူ၍ ဖြစ်ပါသည်။

ကျင့်စဉ်ထူးများပေါက်ရောက် အောင်မြင်သည့် ဦးသံဝရဇောတိဆရာတော်မြတ်ကြီး ကိုယ်တိုင် လမ်းစဉ်များညွှန်ကြား ပြသောကြောင့် ပေါက်မြောက်အောင်မြင်ခဲ့သော ဦးဝါယမဇောတိ ဆရာတော်ဘုရားကြီး အကြောင်းကို အလွန်လူပြောများလှပါသည်။ အုတ်ဖိုမြို့ ငှက်ပစ်တောင်ကျောင်းတိုက်တွင် သီတင်းသုံးတော်မူကြောင်း သိရသဖြင့် သွားရောက်ဖူးမြော်သူများပြားလှပါသည်။ အံ့ဖွယ်ဖြစ်ရပ်ဆန်းများနှင့်အတူ မှတ်တမ်းတင်အပ်သော ရဟန်းထူး ရဟန်းမြတ် ဖြစ်ပါသည်။

ဆရာတော်ကြီး၏ ဘွဲ့တော်မှာ ဦးဝါယမဇောတိ ဖြစ်ပါသည်။

**မွေးသက္ကရာဇ်နှင့် ဖွားရာဇာတိ**

အေဒီ ၁၉၁၄

၁၂၇၆ ခုနှစ်၊ နယုန်လဆန်း (၁၀) ရက်နေ့တွင် ဖွားမြင်ခဲ့သည်။ ဗုဒ္ဓဟူးသားဖြစ်သည်။ ခမည်းတော်နှင့် မယ်တော်မှာ ဦးရွှေလှ၊ ဒေါ်သက်အိုတို့ဖြစ်ကြသည်။ ဖခင်မှာ ရွှေတောင်သား ဖြစ်၍ မိခင်မှာ မကွေးသူဖြစ်ကာ ဆရာတော်အား ကြို့ပင်ကောက်အနီး အိုးဖိုကုန်းရွာတွင် ဖွားမြင်ခဲ့ပါသည်။

**ဆရာ့အမည်က ဦးသံဝရဇောတိ**

အေဒီ ၁၉၃၂

အသက် (၁၈)နှစ် အရွယ်တွင် နယ်လှည့်၍ တရားဟော၊ တရားပြ၊ တရားကျင့်နေသော ရဟန်းတစ်ပါးနှင့် ဆုံဖြစ်ခဲ့သည်။ ဘွဲ့တော်မှာ ဦးသံဝရဇောတိ ဖြစ်သည်။

ကျမ်းကိုး၊ စာ-၂၂၈၊

**ဦးသံဝရဇောတိ အကြောင်း သိရသမျှ**

ဦးသံဝရဇောတိသည် ဖိုးသူတော်ဘဝ၊ ရသေ့ဘဝ၊ ရဟန်းဘဝစသဖြင့် အာရုံကျသလို သာသနာပြုလေသည်။ လယ်ကိုင်းဇာတိဖြစ်၏။ ဆရာတော်လောင်းလျာနှင့် တွေ့ဆုံချိန်တွင် သက်တော် (၇၀)ခန့်ရှိလေပြီဖြစ်သည်။ နယ်မြေဒေသအရပ်ရပ်၌ တောရော၊ မြို့ပါ လှည့်လည်ကာ တရားအားထုတ်လေ့ရှိလေသည်။

**ကျင့်စဉ်ပေး၍ ကျင့်ခိုင်း**

တစ်နေ့တွင် ဦးသံဝရဇောတိက ဗုဒ္ဓါနုဿတိကျင့်စဉ်ကို ပေး၍ ကျင့်ခိုင်းလေသည်။ ပါရမီဓာတ်ခံအကြောင်းကောင်းခဲ့သည့် ဆရာတော်လောင်းလျာကလည်း ကျင့်ပွားအားထုတ်ခဲ့သည်။

**ဘွဲ့တော် ရှင်ဝိန္ဒ**

အေဒီ ၁၉၃၈

(၆) နှစ်ကျင့်ခဲ့သည်။ ဤသို့ဖြင့် တစ်ရက်တွင် ဆရာတော် လောင်းလျာအား ကိုရင်ဝတ်ပေးလေသည်။ ဘွဲ့တော်မှာ ရှင်ဝိန္ဒဖြစ်သည်။ ပြီးနောက် ကိုရင် ရှင်ဝိန္ဒအား အုတ်ဖိုငှက်ပစ်တောင်ကျောင်းသစ်ကျောင်းဆရာတော် ဦးအာဒိစ္စထံသို့ ကိုယ်တိုင် အပ်နှံခဲ့သည်။

http://www.dhammadownload.com



**လူမောင်း**

"တပည့်တော်က လူသစ်တွေလိုက်ရှာနေတာ မဟုတ်ပါဘူးဘုရား၊ လူဟောင်း တွေကို လိုက်ရှာနေတာပါဘုရား" ဟုလျှောက်ထားသည်။

အေဒီ ၁၉၃၇ — ၁၂၉၉ခုနှစ်အတွင်း ငှက်ပစ်တောင် သို့ရောက်၏။

**ပြည်မြို့ နိဗ္ဗိန္ဒတောရ ဆရာတော်၏ တပည့်**

အေဒီ ၁၉၃၈ — ၁၃၀၀ ပြည့်နှစ်၊ နယုန်လပြည့် ဗုဒ္ဓဟူးနေ့တွင် မြင့်မြတ်သော ရဟန်းဖြစ်ခဲ့သည်။ ဥပဇ္ဈာယ်ဆရာတော်မှာ ပြည်မြို့၊ နိဗ္ဗိန္ဒတောရဆရာတော်ကြီး ဦးသီရိဖြစ်ပါသည်။

ကျမ်းကိုး၊ စာ-၂၂၉၊

**ဦးဝိန္ဒမှ ဦးဝါယမဓောဓိသို့ အမည်ပြောင်း**

ရဟန်းဘဝရောက်သည်နှင့် ဦးသံဝရဗောဓိက ဘွဲ့တော်ကို "ဦးဝိန္ဒ"မှ "ဦးဝါယမဗောဓိ"ဟု ပြောင်းရန်မိန့်သဖြင့် ဘွဲ့သစ်ပြောင်းခဲ့ပါသည်။

**ကျင့်စဉ်**

ကျင့်စဉ်ကိုလည်း ဗုဒ္ဓါနုဿတိပင် ကျင့်ပွားအားထုတ်ခဲ့လေသည်။ ဆရာတော်ကြီးသည် ဒါန၊ သီလ၊ ဘာဝနာမည်သည်ကို ရှက်ဆောင်သည်ဖြစ်စေ အဓိဋ္ဌာန်ဖြင့်သာ လုပ်ဆောင်လေ့ရှိခဲ့ပါသည်။

**အစမ်း (၆)လကျင့်**

အေဒီ ၁၉၇၆ — ၁၃၃၈ ခုနှစ်ထဲတွင် ဆရာသမားဖြစ်သူ ဦးသံဝရဗောဓိ ကြွရောက်လာကာ အထူးအဓိဋ္ဌာန်ကျင့်ရန် ညွှန်ကြားလေရာ အစမ်း (၆)လကို အထူးကျင့်ခဲ့လေသည်။ အောင်မြင်ခဲ့သည်။

**အထူး (၆)နှစ် တံခါးပိတ်၍ ကျင့်**

အေဒီ ၁၉၇၆ — ၁၃၈၈ ခုနှစ်၊ ကဆုန်လပြည့်နေ့မှ စတင်ကာ အထူးအဓိဋ္ဌာန်အဖြစ် (၆)နှစ်ကျင့်ကြံအဓိဋ္ဌာန်တင် အားထုတ်ခဲ့ပါသည်။ မိမိ၏ကျောင်းတော်၌ပင် အခန်းတံခါးပိတ်ကာ အားထုတ်ခဲ့ရာ အဓိဋ္ဌာန် တစ်ကြိမ် ကျိုးသွားသဖြင့် နောက်ထပ် တစ်နှစ်ခွဲတိုး၍ အားထုတ်ခဲ့ရသည်။

အေဒီ ၁၉၈၃ — ထို့ကြောင့် စုစုပေါင်း (၇)နှစ်ခွဲကြာခဲ့သည်။

အေဒီ ၁၉၈၄ — ၁၃၄၆ ခုနှစ်၊ တန်ဆောင်မုန်းလပြည့်နေ့ရောက်မှ အဓိဋ္ဌာန်ပြည့်မြောက်အောင်မြင်ခြင်းသို့ ရောက်တော်မူခဲ့ပါသည်။

ကျမ်းကိုး၊ စာ-၂၃၀

**ကျင့်ပုံကျင့်နည်း သိရသမျှ**

(၁) တစ်ခါထိုင် တစ်နာရီစနစ်ဖြင့် တစ်နေ့ (၁၀)ကြိမ်
(၂) တစ်ခါထိုင် နှစ်နာရီစနစ်ဖြင့် တစ်နေ့ (၆)ကြိမ်
(၃) တစ်ခါထိုင် သုံးနာရီစနစ်ဖြင့် တစ်နေ့ (၅)ကြိမ်
(၄) တစ်ခါထိုင် လေးနာရီစနစ်ဖြင့် တစ်နေ့ (၅)ကြိမ်
(၅) တစ်ခါထိုင် ခုနစ်နာရီစနစ်ဖြင့် တစ်နေ့ (၃)ကြိမ်
(၆) တစ်ခါထိုင် တစ်ဆယ့်တစ်နာရီစနစ်ဖြင့် တစ်နေ့ (၂)ကြိမ်
ဟူ၍ တိုး၍ အားထုတ်ကျင့်ပွားလေသည်။

ကျမ်းကိုး၊ စာ-၂၃၁

http://www.dhammadownload.com



## ရန်ကုန်ပြည်သူ့ဆေးရုံကြီးမှ ဖြစ်ရပ်ဆန်း

ဆရာတော်ကြီးသည် အထက်ပါအတိုင်း ကျင့်စဉ်ကော်အောင်မြင်ခဲ့သော်လည်း မျက်စိနှစ်ကွင်း အလင်းမရ ကွယ်ခဲ့ရပါသည်။ ထို့အပြင် အူပုပ်ခြင်းများလည်း ဖြစ်ခဲ့သည်။သို့ဖြစ်လေရာ ရန်ကုန် ပြည်သူ့ဆေးရုံကြီးသို့ တက်ရောက်ကုသခဲ့ရသည်။ ဆေးရုံတွင် ကုသမှုခံယူစဉ် ထူးခြား သောဖြစ်ရပ်တစ်ခု ဖြစ်လေသည်။

အူပုပ်ခြင်းအတွက် ဝမ်းဗိုက်ခွဲစိပ်ရပါသည်။ ထို့အတွက် မေ့ဆေးပေးရသည်။ တာဝန်ကျ ဆရာဝန် ကြီးများဖြင့် ဆရာတော်ကြီး၏ ဝမ်းဗိုက်အား ခွဲစိပ်နေစဉ် ပြန်မချုပ်ရသေးသောအချိန် တန်းလန်းတွင်

"ခုထိမပြီးသေးဘူးလားကွ၊ မင်းတို့ကလည်းကြာလိုက်တာ" ဟူ၍ဆရာတော်ကြီး၏ ပါးစပ်မှ ဖွင့်ဟပြောလာလေရာ အားလုံးမှာ အံ့အားလည်းသင့် စိုးရိမ်မှုလည်းဖြစ်ကြလေတော့သည်။

ကျမ်းကိုး၊ စာ-၂၃၂

ခွဲစိပ်ကုဆရာဝန်ကြီးက မေ့ဆေးဆရာဝန်အား မည်သို့ ဆောင်ရွက်ခဲ့ကြောင်း မေးမြန်းရာ ပုံမှန်အတိုင်းသာ ဆောင်ရွက်ကြောင်း၊ မည်သည့်အတွက်ကြောင့် ယခုလိုဖြစ်ရမှန်း မသိကြောင်း ပြောကြားသည်။

ကျမ်းကိုး၊ စာ-၂၃၂

## မမြင်သော မျက်စိ ပြန်၍ မြင်

ဆေးရုံမှ ဆင်းသောအခါ မမြင်သောမျက်စိသည် ပြန်၍မြင်လာသည်ဟု သိရှိရပါသည်။ ကျန်းမာရေးလည်း အထူးကောင်းမွန်ခဲ့ပါသည်။ ထို့နောက်ပိုင်းမှစ၍ လာသမျှ ဒကာ၊ ဒကာမ များအား အဆက်မပြတ် တရားဟောဆို ညွှန်ပြတော်မူခဲ့ပါလေသည်။

ကျမ်းကိုး၊ စာ-၂၃၂

## ငှက်ပစ်တောင် ကျောင်းသစ် အမည်သစ်

ပုဂံတွင်လည်း ပြူစောထီးမင်းလက်ထက်က ငှက်ပစ်တောင်ကျောင်းဟူ၍ ရှိသေး၏။ ထို့ကြောင့် ဆရာတော်ကြီး၏ ကျောင်းကို "ငှက်ပစ်တောင်ကျောင်းသစ်ကျောင်း"ဟုခေါ်ခြင်းဖြစ်သည်ဟု သိရပါသည်။ အုတ်ဖိုတွင်လည်း ကျောင်းဟောင်း ကျောင်းသစ် နှစ်ကျောင်းရှိပြန်၏။ သို့သော် နယ်မြေဧရိယာ တစ်ဆက်တည်းတွင် ကျောင်းဟောင်း ရှိသဖြင့် ကျောင်းသစ်ဟုခွဲခြားထားခြင်း ဖြစ်ပါသည်။ အုတ်ဖိုမြို့တွင်း၌ပင် တည်ရှိ၍ လူသိများလှပါသည်။

## ငှက်ပစ်တောင် သမိုင်းအစ

"မြန်မာနိုင်ငံအထက်ပိုင်း ငှက်ပစ်တောင်က ဆရာတော်ကြီးတစ်ပါး ဒီမှာလာပြီး တရား အားထုတ်ခဲ့တယ်။ ပေါက်မြောက် သွားတယ်။ အဲဒီကစလို့ ငှက်ပစ်တောင်ကျောင်းလို့တွင်တယ်" ဆရာတော်ကြီး မိန့်ကြားဖူးသော စကား ဖြစ်ပါသည်။

ကျမ်းကိုး၊ စာ-၂၃၅

ဆရာတော်ကြီးသည် လက်ရှိကျောင်းဟောင်း၌ပင် အဓိဋ္ဌာန်ပွား တရားများကို ကျင့်ကြံ အားထုတ်ပေါက်မြောက်ပါသည်။ လာသမျှပရိသတ်ကိုလည်း ဇရပ်ကျောင်းပေါ်၌ပင် တရား ဟောကြားပါသည်။

## ဗုဒ္ဓေါ ကျင့်စဉ်

ဆရာတော်သည် ဗုဒ္ဓါနုဿတိဟု ဆိုအပ်သော ကျင့်စဉ်ထူးကို ကျင့်သည်ဟု သိရှိရပါသည်။ ကျင့်ပုံမှာ အောက်ပါအတိုင်းဖြစ်၏။

http://www.dhammadownload.com



"ဗုဒ္ဓေါ ဗုဒ္ဓေါ ဗုဒ္ဓေါ" "ဘုရား ဘုရား ဘုရား" စသဖြင့် စိတ်တွင် စူးစူးစိုက်စိုက် မှတ်တဲ့ အလုပ်ကိုသာ ပေးပါသည်။

ကျမ်းကိုး၊ စာ-၂၃၅

တရားမထိုင်မီတွင်လည်း စရဏဝတ်ပြုပုံပြုနည်းကို အောက်ပါအတိုင်း သိရှိရပါသည်။ ပြုပုံပြုနည်းမှာ ဘုရားရှင် ကို မည်သို့ မည်ပုံ လျှောက်ထားပုံကို ဆရာတော်ကြီး သင်ပြသည့် အတိုင်း အောက်တွင် ဖော်ပြထားပါသည်။

* မြတ်စွာဘုရား၊ တပည့်တော်အား (တပည့်အရင်း)ဟုမှတ်တော်မူပါဘုရား၊ တပည့်တော်ကလည်း မြတ်စွာဘုရားကို (ဆရာအရင်း)ဟု မှတ်တော်မူပါသည်ဘုရား။ (၃ ကြိမ်)

* ရဟန္တာအရှင်သူမြတ်ကြီးတို့ဘုရား၊ တပည့်တော်အား (တပည့်အရင်း)ဟုမှတ်တော်မူပါဘုရား၊ တပည့်တော်ကလည်း ရဟန္တာအရှင်သူမြတ်ကြီးတို့အား (ဆရာအရင်း)ဟု မှတ်တော်မူပါသည်ဘုရား။ (၃ ကြိမ်)

* ဓာတ်ပိုင်၊ မနောပိုင်၊ စမပိုင်၊ စေပိုင်ဖြစ်တော်မူကုန်ကြသော ဆရာတော်အရှင်သူမြတ်တို့ဘုရား၊ တပည့်တော်အား (တပည့်အရင်း)ဟုမှတ်တော်မူပါဘုရား၊ တပည့်တော်ကလည်း ဆရာတော် အရှင်သူမြတ်တို့အား (ဆရာအရင်း)ဟု မှတ်တော်မူပါသည်ဘုရား။ (၃ ကြိမ်)

* မြတ်စွာဘုရား တပည့်တော်အား (ကမ္မဋ္ဌာန်းတရားများဓမ္မအမွေတော်များ)ကိုပေးသနားတော်မူပါဘုရား။ ကမ္မဋ္ဌာန်းပေါက်မြောက်၍ ကမ္မဋ္ဌာန်းပြသပေးသော ကမ္မဋ္ဌာန်းဆရာတော် အရှင်သူမြတ်တို့ဘုရား တပည့်တော်အား (ကမ္မဋ္ဌာန်းတရားများ ဓမ္မအမွေတော်များ)ကို ပေးသနား တော်မူကြပါဘုရား။ (၃ ကြိမ်)

* တပည့်တော်၏ ရုပ်နာမ်နှစ်ပါးကို သက်တော်ထင်ရှားရှင်တော်မြတ်ဘုရားအား ရှစ်ယောက်သော အရိယာ သံဃာတော်အရှင်သူမြတ်တို့အား သွန်သင်ပြတတ်ပေထသော ကမ္မဋ္ဌာန်း ဆရာတော်အရှင်သူမြတ်တို့အား အသက်ရှည်သမျှ ကာလပတ်လုံး တစ်ကြိမ်၊ နှစ်ကြိမ်၊ သုံးကြိမ် လှူဒါန်းပါ၏ ဘုရား။

အထက်ပါ ကျင့်စဉ်အတိုင်း ဆရာတော် ဦးဝါယမဗောဓိက ကျင့်ကြံရန် ညွှန်ကြားခဲ့၏။

ကျမ်းကိုး၊ စာ-၂၄၀

အေဒီ ၂၀၀၅ ၂၀၀၅-ခုနှစ်တွင် ခန္ဓာဝန်ချတော်မူပါသည်။

http://www.dhammadownload.com



ရုပ်ကလာပ်တော် မပုပ်မသိုး ကြွင်းကျန်တော်မူသော

ရန်ကုန် တစ်ဖက်ကမ်း၊ ဒလမြို့နယ်၊ ရွှေလေ့ချောင်ရွာ၊

# အောင်ဇမ္ဗူမင်္ဂလာရွှေကျောင်းဆရာတော် ဦးကေတု

၁၉၁၅ – ၂၀၀၉



http://www.dhammadownload.com



အောင်ဇမ္ဗူမဂ်လာရွှေကျောင်းသည် ဒလမြို့နယ်၊ ရွှေလှေချောင်ကျေးရွာတွင် တည်ရှိသည်။ ထိုအချိန်တွင် ၂၀၀၈-ခုနှစ် မေလ (၂/၃)ရက်များတွင် တိုက်ခတ်ခဲ့သော နာဂစ်မုန်တိုင်းဒဏ်ကြောင့် ဇေကမ္ဗာကုမ္ပဏီလီမိတက် ဥက္ကဋ္ဌ ဒေါက်တာခင်ရွှေသည် ကျိုက်ထီးဆောင်းဆရာတော် အဘိဓဇအဂ္ဂမဟာသဒ္ဓမ္မဇောတိက ဘဒ္ဒန္တပညာဒီပ၏ ညွှန်ကြားမှု ဦးဆောင်မှုဖြင့် သံဃမဟာနာယကအဖွဲ့ တွဲဖက်အကျိုးတော်ဆောင် အဂ္ဂမဟာပဏ္ဍိတ၊ ဒွိပိဋကဓရ၊ ဒွိပိဋကကောဝိဒ ဘဒ္ဒန္တဇာဂရာဘိဝံသ၏ အကူအညီဖြင့် ဆံတော်ရှင် သာသနာအကျိုးတော်ဆောင်ချုပ် မဟာသဒ္ဓမ္မဇောတိကဓဇ ဘဒ္ဒန္တနာဂဒီပ ကြီးကြပ်မှုဖြင့် ကျိုက်ထီးဆောင်းယောဂီအဖွဲ့သားများ အကူအညီ၊ သက်ဆိုင်ရာ မြို့နယ်သံဃနာယကနှင့် သက်ဆိုင်ရာ ဂေါပကတို့၏ သဘောတူညီမှုဖြင့် နာဂစ်မုန်တိုင်းဒဏ်ခံ စေတီပုထိုးများနှင့် သာသနိက အဆောက်အဦများကို ပြန်လည်ပြုပြင်ခြင်း၊ မွမ်းမံခြင်း၊ အသစ်တည်ဆောက်ခြင်း ရောင်တော်ဖွင့်ခြင်း၊ ဓမ္မသာလာ ဇရပ်များ တည်ဆောက်ခြင်း၊ ရင်ပြင်တော် တိုးချဲ့ခြင်းများနှင့်တကွ ရွှေထီးတော်၊ ရွှေငှက်မြတ်နားတော်၊ စိန်ဖူးတော်များ တင်လှူနေသော ကာလဖြစ်ပါသည်။

ထိုသို့သော ကာလတွင် ကွမ်းခြံကုန်းမြို့နယ်၊ ကော့မှူးမြို့နယ်၊ တွံတေးမြို့နယ်တည်းဟူသော ဒလတောကြီးတန်းတစ်လျှောက်တွင် တပုဿ ဘလ္လိက လက်ထက် ခရစ်မပေါ်မီ ၅၈၉-ဘီစီခေတ်က ဆံတော်ကြို စေတီ(၉)ဆူကို ခိုင်ခိုင်မာမာ ဖွင့်ဖော်နိုင်သောကြောင့် ဇေကမ္ဗာ ဇေကမ္ဗာဟူ၍ အသေအချာ နာမည်ကြီးနေသော ကာလဖြစ်သည်။

ထိုအချိန်တွင် ဓမ္မမိတ်ဆွေ သုတေသီ စာရေးဆရာများလည်း သာသနာပြုခရီးတွင် ပါဝင်ကြသည်ဖြစ်ရာ အောက်ပါအတိုင်း သတင်းကောင်းများ ရရှိပါသည်။ ဖတ်ကြည့်ပါ။ ခေတ်ပြိုင်မှတ်တမ်းဖြစ်၏။

**နာဂစ်မုန်တိုင်းအပြီး သတင်းထူး**

အေဒီ ၂၀၀၉ — ဆရာတော် ဘဒ္ဒန္တကေတုသည် ပြီးခဲ့သည့်နှစ်ဆန်း ၂၀၀၉ ခုနှစ်၊ ဇန်နဝါရီလ ၁၉ ရက်နေ့ ညနေ ၄ နာရီ ၂၆ မိနစ်တွင် ခန္ဓာဝန်ချတော်မူခဲ့သည်။

ယခုဆို လချီကြာမြင့်ပြီ ဖြစ်သည်။ ယခုအချိန်ထိ ဆရာတော်၏ ကြွင်းကျန်ရစ်သော ရုပ်ကလာပ်တော်သည် မပုပ်မသိုးဘဲ အိပ်နေသည့်အလား တည်ရှိကာ လက်နှင့် ခြေများလည်း အေးခဲတောင့်မာ၍မနေသလို ကိုင်၍ ကွေးဆန့်နိုင်ကြောင်း ကိုယ်တွေ့သွားရောက်ဖူးမြော်သူတို့ တွေ့ရသည်။

**ဇာတိ**

မပုပ်မသိုး ဆရာတော်ကြီး ဘဒ္ဒန္တကေတုမှာ ဧရာဝတီတိုင်းအတွင်းရှိ ကျေးရွာတစ်ရွာမှာ ဖွားမြင်ကာ ဖခမည်းတော် ဦးပုတု၊ မယ်တော် ဒေါ်ညိုစိမ့်တို့၏ တစ်ဦးတည်းသော သားဟူ၍သာ သိရသည်။

**မွေးသက္ကရာဇ်**

အေဒီ ၁၉၁၅ — ၁၂၇၇ ခုနှစ် မွေးပြီး တနင်္လာသား ဟူ၍သာ သိရသည်။ ငယ်ဘဝကြောင်းရာ မသိပေ။

**အသက် (၅၃)နှစ်ရောက်မှ ဘုန်းကြီးဝတ်ခဲ့**

အေဒီ ၁၉၆၈ — အရွယ်ရောက်ချိန်တွင် လယ်ယာလုပ်ငန်းကို လုပ်ကိုင်ခဲ့ပြီးနောက် ၅၃ နှစ်အရွယ်တွင် မြင့်မြတ်သောရဟန်းဘဝသို့ ရောက်ခဲ့သည်ဟု သိရသည်။

ဘဒ္ဒန္တကေတုသည် သာသနာ့ဘောင် စတင်ဝင်ချိန်မှစပြီး ခန္ဓာဝန်ချသည်အထိ ဒလမြို့နယ်၊ ရွှေလှေချောင်ကျေးရွာ၊ အောင်ဇမ္ဗူမဂ်လာရွှေကျောင်းမှာပဲ သီတင်းသုံးနေထိုင်ခဲ့သည်။

http://www.dhammadownload.com



"ဆရာတော်ကြီးက ရွှေကျောင်းမှာနေပြီး နေ့စဉ် တရားအားထုတ်တယ်။ ဝိပဿနာတရားတွေကို လေ့လာဆည်းပူးတယ်။ အနီးဝန်းကျင် ကျေးရွာတွေကို တရားလှည့်ဟောတယ်"

**သက်တော် (၉၃) ဝါတော် (၄၀)**

ဆရာတော်ကြီး ခန္ဓာဝန်ချတော့ သက်တော် ၉၃ နှစ် ဝါတော် ၄၀ နှစ်ပြည့်ပါပြီ။

**ဖြစ်ရပ်ဆန်းများ ဖြစ်ပွားခဲ့**

ဆရာတော်ကြီး ရှိစဉ် အခြားထူးခြားမှုများစွာ ရှိသည့်အနက် ဆရာတော်ကြီး ကျိန်းတဲ့အခန်းမှာ ရှိသော ကျွန်းတိုင်ကြီးတစ်တိုင်သည် ရွှေရည်သုတ်ထားသောနေရာမှာ ဆေးတွေ ပျက်ပြီး ရဟန္တာတစ်ပါးပုံပေါ်နေသည့် ထူးခြားချက်လည်းပါသည်။ ရွှေလှေချောင်တစ်ရွာလုံး သိကြသည်။

**ရဟန္တာသတင်း အိပ်မက်**

တစ်ခါက ရဟန်းတစ်ပါး ရောက်လာပြီး ဆရာတော်ကြီး ဘဒ္ဒန္တကေတုကို "အရှင်ဘုရား တပည့်တော်အိပ်မက်ထဲမှာ ဟိမဝန္တာတောင်ကို ရောက်သွားပါတယ်ဘုရား။ ဟိမဝန္တာတောင်ကို တက်တော့ အရှင်ဘုရား ဦးကေတုက ရှေ့ဆုံးက၊ ဒုတိယ ကြွတာက သာမညတောင်ဆရာတော်ကြီး ဘဒ္ဒန္တ ဝိနယ၊ တတိယကြွတာက မီးကွင်းဆရာတော်၊ အဲဒီနောက် စတုတ္ထနေရာမှာ ခနုတ်ကိုရင်ကြီး၊ နောက်ဆုံး ပဉ္စမနေရာမှာ တပည့်တော် ကြွတယ်ဘုရား။ အဲဒါ ဟုတ်ပါသလား" လို့လျှောက်တော့ ဆရာတော်ကြီးက အဖြေမပေး။ ပြုံး၍သာနေသည်ဟု ဆိုသည်။

ထူးခြားသည်မှာ အိပ်မက်ထဲပါသည့် သာမညဆရာတော်လည်း မပုပ်မသိုး ရုပ်ကလာပ်တော် ကျန်ရှိခဲ့သည်။ ထိုနည်းတူစွာ မီးကွင်းဆရာတော်နှင့် ခနုတ်ကိုရင်ကြီးတို့သည်လည်း မပုပ်မသိုးဘဲ ရုပ်ကလာပ်တော် ကျန်ရှိနေကြသည်။ ယခု ဦးကေတုသည်လည်း ခန္ဓာဝန်ချပြီး မပုပ်မသိုး ရှိခဲ့သည်။

အေဒီ ၂၀၀၆ ဖေဖော်ဝါရီလ ၁၉ ရက်နေ့မှ စတင်ကာ ဆရာတော်ကြီး၏ မပုပ်မသိုးရုပ်ကလာပ်တော်ကို အပူဇော်ခံထားရှိရေးအတွက် စံကျောင်းတော်အသစ်ကို ဆောက်လုပ်ခဲ့သည်။

အေဒီ ၁၈၆၅ ၁၂၂၆ ခုနှစ်ကပင် ခန္ဓာဝန်ချခဲ့ပြီး မပုပ်မသိုးရှိနေသော ဒလမြို့မ၊ ဇေယျဝတီကျောင်း၊ (ရဟန္တာကျောင်း) ဆရာတော် ဦးပညာ၏ ရုပ်ကလာပ်တော်ရှိကြောင်း၊ စာတွေ့ ငါတွေ့ တွေ့ရှိရပါသည်။

ကျမ်းကိုး၊ မောင်ပန်းမွေး ၊ ရဟန္တာနှင့် ရဟန်းထူးများ ပေါင်းချုပ်ကြီး၊ ၂၀၀၈-ခုနှစ်၊ တော်ဝင်မြို့မစာအုပ်တိုက်ကိုကြည့်။

တွံတေးမြို့နယ်တွင် တောင်းတော်ချုပ် ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်သည် မပုပ်မသိုး ကြွင်းကျန်တော်မူကြောင်း စာတွေ့ ငါတွေ့ဖြစ်ပါသည်။ ယခုအခါ တောင်းတော်ချုပ် ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို ယခင်ကကဲ့သို့ မြင်ခွင့်မရတော့ပါ။ ဂူအတွင်းသို့ အပြီးအပိုင် သွတ်သွင်း ပူဇော်လိုက်ပြီ ဖြစ်ပါသည်။

ကျမ်းကိုး၊ မောင်ပန်းမွေး ၊ ရဟန္တာနှင့် ရဟန်းထူးများ ပေါင်းချုပ်ကြီး၊ ၂၀၀၈-ခုနှစ်၊ တော်ဝင်မြို့မစာအုပ်တိုက်ကိုကြည့်။

သက္ကာယ်ကွင်းရွာ၊ ဦးစန္ဒိမာ၏ ရုပ်ကလာပ်တော်နှင့် ခနုတ်ကိုရင်ကြီး ခေါ် ခနုတ်ဆရာတော်၏ ရုပ်ကလာပ်တော်တို့သည်လည်း မပုပ်မသိုး ကြွင်းကျန်တော်မူသေးကြောင်း ဓမ္မမိတ်ဆွေများက အသေအချာ ပြောဆိုကြပါသည်။

ကျမ်းကိုး၊ စကြာကောင်းစံ၊ ဒလရွှေလှေချောင်က မပုပ်မသိုးသော ဆရာတော်ကြီးတစ်ပါး၊ ဂမ္ဘီရမဂ္ဂဇင်း၊ ၂၀၀၉ခုကို ကြည့်။

http://www.dhammadownload.com



ဒလမြို့နယ် ရွှေလှေချောင်ကျေးရွာရှိ အောင်ဇမ္ဗူမင်္ဂလာရွှေကျောင်းဆရာတော်ကြီး ဘဒ္ဒန္တ ကေတုသည် သက်ရှိ ထင်ရှားရှိစဉ် ထင်ထင်ပေါ်ပေါ် ကျော်ကျော်ကြားကြား ရဟန်းတော် တစ်ပါး မဟုတ်သော်ငြား ခန္ဓာဝန်ချပြီးနောက် ရပ်နီး ရပ်ဝေးမြို့များမှ မပုပ်မသိုး ဆရာတော် တစ်ပါး ပေါ်နေပြီဟု တစ်ဆင့်စကား သတင်းကြားပြီး ရေလမ်း ကုန်းလမ်းဖြင့် နေ့စဉ်လို လာရောက် ဖူးမြော်ကြသည်ဟု သိရသည်။

http://www.dhammadownload.com



ကြက်ကလေးများ ငှက်ကလေးများပင် လာ၍ တရားထိုင်သည်ဟု
အမှန်တကယ် ကျော်စောတော်မူသော
ရှမ်းပြည်နယ်၊ ကျိုင်းတုံမြို့အနီး ထပ်တင်ကာတောင်တွင်
ယနေ့တိုင် သံစကလေးများ ပြူထွက်လျက် မပုပ်မသိုး ရုပ်ကလာပ်တော် ရှိတော်မူသော

# ထပ်တင်ကာ တောရဆရာတော် ဦးသာဂရ

၁၉၁၅ – ၁၉၈၄



http://www.dhammadownload.com



ကြက်ကလေးများက ဆရာတော်ကို လာဖူးကြောင်း၊ လူစကား နားလည်ကြကြောင်း၊ ဆရာတော် မိန့်ကြားသည့်အတိုင်း ယောဂီပရိသတ်များနှင့်အတူ ကြက်ကလေးများ တရားထိုင်ကြကြောင်း ထူးထူးဆန်းဆန်း ကြားသိရသောအခါ မအံ့သြဘဲ မနေနိုင်တော့ပါ။

ကြက်ကလေးများသာမက ကြောင်ကလေးများကလည်း ထိုနည်းတူပင် ဖြစ်ကြောင်း သိရပြန်သောအခါ ဆရာတော်၏ ထူးခြားမှုများကို အသေအချာလေ့လာရပါတော့သည်။

ကျမ်းကိုး၊ ဓမ္မာစရိယဦးဌေးလှိုင်၊ ဓမ္မဒူတပထမတွဲကိုကြည့်၊

**မွေးသက္ကရာဇ်နှင့် မွေးဖွားရာဇာတိ**

အေဒီ ၁၉၁၅ ထပ်တင်ကာတောရဆရာတော်ဘုရားကြီးသည် စစ်ကိုင်းတိုင်း၊ စစ်ကိုင်းမြို့နယ် အုတ်ဖိုကျင်း ရပ်နေ ကြေးတိုင်အင်စပက်တော် အဘဦးလူ၊ အမိဒေါ်ပုံတို့မှ ၁၂၇၇ ခုနှစ်၊ တော်သလင်း လကွယ် သောကြာနေ့တွင် ဖွားမြင်ခဲ့သည့် ဒုတိယမြောက်သားလှရတနာပင် ဖြစ်သည်။

**သောကြာသားဖြစ်သော်လည်း**

ငယ်နာမည်မှာ မောင်ဘနှစ်ဖြစ်ပါသည်။

**ဆွေမျိုးစာရင်း**

ဆရာတော်ဘုရားကြီးမှ သားချင်းငါးဦးရှိပါသည်။ ဦးဘချစ်၊ ဦးဘနှစ်(ဆရာ တော်)၊ ဒေါ်ကြွေ၊ ဦးသန်းတင်အောင်(ဦးစီးမှူး၊ ရဲသိပ္ပံ-မန္တလေး)နှင့် ဒေါ်ကြည်တို့မှာ သားချင်းအရင်းအချာများပင်ဖြစ်သည်။

ကျမ်းကိုး၊ ထပ်တင်ကာ အောင်မြေကုန်းတော်မဟာမှာ လျှောင်းစက်နေသည့် ဦးသာဂရ၊ အောင်သာကျော်၊ သူရဇ္ဇမဂ္ဂဇင်း၊ အတွဲ (၄)၊ အမှတ် (၇)၊ ၂၀၀၄ခုနှစ်၊ ဇူလိုင်လ၊ စာ - ၃၈

**ရဟန်းခံ**

အေဒီ ၁၉၆၁ ကျိုင်းတုံမြို့နေ ဦးမြင့်ဆွေ-ဒေါ်နန်းစံဖူးတို့မှာ ရဟန်းဒါယကာခံကာ ၁၃၂၃ခု သီတင်းကျွတ်လဆန်း ၆ ရက်နေ့တွင် ရဟန်းအဖြစ်သို့ရောက်ရှိခဲ့သည်။

**ဘွဲ့အမည် ဦးသာဂရ ဟူ၍ ဖြစ်လာ**

ဆရာတော်ဘုရားကြီး၏ ဥပဇ္ဈာယ် ဆရာတော်မှာ ကျိုင်းတုံမြို့ သစ်တစ်ပင်တောင် စွန်မွန်းသာသနာပိုင်ဆရာ တော်ဖြစ်ပါသည်။ ထပ်တင်ကာတောရ ကမ္မဋ္ဌာန်းကျောင်း ဆရာတော်၏ ဘွဲ့တော်ကိုဦးသာဂရဟုတွင်စေခဲ့ပါသည်။

**ဝါဆိုခဲ့သော နေရာများ**

အေဒီ ၁၉၆၂ ထပ်တင်ကာ (ထပ်တင်ကာ)တောရ ကမ္မဋ္ဌာန်းကျောင်းဆရာတော် ဦးသာဂရသည် မဟာ ဗောဓိကမ္မဋ္ဌာန်းကျောင်းတွင် တစ်ဝါ၊

အေဒီ ၁၉၆၄ စစ်ကိုင်းရှစ်မျက်နှာကျောင်းတွင် နှစ်ဝါ၊

အေဒီ ၁၉၆၉ မိုင်းဆတ် ရန်ကြီးအောင်တောင်တွင် ငါးဝါ၊

အေဒီ ၁၉၇၀ ဝန်းနေတောင်တွင် တစ်ဝါ၊

အေဒီ ၁၉၇၁ ဆိုက်ခေါင်တောင်တွင် တစ်ဝါ၊

အေဒီ ၁၉၇၇ မိတ္ထီလာဒီးတုတောင်တွင် ခြောက်ဝါ၊

အေဒီ ၁၉၈၇ ကျိုင်းတုံထပ်တင်ကာတောင်တွင် ဆယ်ဝါတိတိ သီတင်းသုံးကာ ကမ္မဋ္ဌာန်းတရားများကျင့်ကြံပွားများအားထုတ်နေတော်မူခဲ့သည်။

http://www.dhammadownload.com



**အရညဝါသီ**

ဆရာတော်ဘုရားကြီးသည် အရညဝါသီတောရပ်မှီကာ သီတင်းသုံးတော်မူသည့် ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်တစ်ပါးပင်ဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၈

ပန်းသတင်း လေညင်းဆောင် လူ့သတင်း လူချင်းဆောင် ဆိုသကဲ့သို့ဆရာတော်ဘုရားကြီး ဘယ်ကြွကြွ၊ ဘယ်အရပ်ရောက်ရောက် ကြွလေရာနေရာတိုင်းတွင် ယောဂီပုဂ္ဂိုလ်များ စဉ်ဆက်မပြတ်အောင် များပြားပြီးဆရာတော်ကြီး၏ နည်းကို ခံယူကာ တရားဓမ္မကြိုးစား အားထုတ်နေကြသူများသည်။ ဆရာတော်ဘုရားကြီးထပ်တင်ကာတောရကမ္မဋ္ဌာန်းကျောင်းတွင် သီတင်းသုံး၍သုံးနှစ်ကျော် လေးနှစ်အတွင်း တွင်ကား တောင်ကြီးမြို့ ရွှေကျားပျံ မရွှေဝါမှ မ,တည်ပြီး အများ ဒါယကာ၊ ဒါယိကာမများစုပေါင်း၍ အဂ္ဂမဟာပဏ္ဍိတ ဘဒ္ဒန္တဝိမလာဘိဝံသ (ညောင်ရွှေ ကန်ကြီးကျောင်းဆရာတော်) ဦးသာဂရ (ထပ်တင်ကာတောရကမ္မဋ္ဌာန်းကျောင်း ဆရာတော်)၊ ကျိုင်းတုံမြို့နယ်၊ သံဃာသမုတိဦးပညာသာမိ(သီရိနေဝ်ကျောင်းဆရာတော်)၊ ဦးအာဇေယျ (ဓမ္မောဒယစာသင်တိုက်ဆရာတော်)တို့ အကြီးအမှူးပြုကာ သံဃာတော် (၃၆)ပါးတို့ဖြင့် သိမ်တော်ကြီး လှူဒါန်းခဲ့၏။

အေဒီ ၁၉၈၁ — ၁၃၄၃ တန်ဆောင်မုန်းလဆန်း ၈ ရက်နေ့တွင် (ဗုဒ္ဓဟူးနေ့)သဒ္ဓမ္မနန္ဒိသိမ်တော်ကြီး ကို အောင်မြင်စွာ သမုတ်တော်မူခဲ့ကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၈

**မေတ္တာစွမ်းအား၊ ပဋ္ဌာန်းစွမ်းအား**

ဆရာတော်၏ မေတ္တာစွမ်းအားနှင့် ပဋ္ဌာန်းစွမ်းအားများကောင်းလွန်းလှပါသည်။ ကမ္မဋ္ဌာန်းတရား ချီးမြှင့်ရာတွင်လည်း ထိရောက်မှုစွမ်းအားကြီးမားလွန်းလှသည်။

**ကြက်ဖကလေးတစ်ကောင် စတင်၍ တရားထိုင်**

တစ်နေ့သောနံနက်တွင် ယောဂီတစ်ဦးဖြစ်သည့် ကျိုင်းတုံမြို့၊ ကျိုင်းတုံတေးသံသွင်းပိုင်ရှင် ဦးစံမြ၊ ဒေါ်လှလွန်း၊ မိသားစုမှ ကြက်ဖငယ်တစ်ကောင်လာပို့လှူဒါန်းသွားခဲ့သည်။ များမကြာမီမှာ ထိုကြက်ဖလေးသည် ယောဂီများ တရားထိုင်ကြချိန်ရောက်သည်နှင့် ဆရာတော်ရှေ့မှောက်ရောက်လာပြီး ယောဂီများနှင့်အတူ တရားထိုင်တော့သည်။ တရားထိုင်ချိန်စေ့ပြီဆိုသည်နှင့် ထသွားလေ့ရှိသည်။ ယောဂီများက ထိုကြက်ဖလေးကို ချစ်ခင်သနားကာ မေတ္တာထားကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၈

**ကြောင်ကလေးတစ်ကောင် တရားအားထုတ်**

ထို့အပြင် ကြောင်လေးတစ်ကောင်သည်လည်း တရားအားထုတ်ခဲ့သည်ကို မမြင်ဖူး မတွေ့ဖူးကြသည့် ဒကာ၊ ဒါယိကာမ များလာကြည့်ခဲ့ကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၈

ထိုအခါများတွင် ဆရာတော်ဘုရားကြီးကကြောင်လေးကိုခေါ်ပြီး -

"ကဲပူစီ၊ မင်းကလိမ္မာပါတယ်၊ တရားအားထုတ်ပြလိုက်ကွာ၊ မလှုပ်မယှက်ငြိမ်သက်ပြီး မျက်စိလေးပိတ်၊ နားလေးဆိတ်၊ ပါးစပ်ကလေးပိတ်၊ ဘယ်လက်ကလေးပေါ် ညာဘက် လက်ကလေး တင်၊ ထွက်လေ ဝင်လေသိနေပါစေ။ ရှုပေး ရှုပေး နာနာလေးရှုပေးကွာ"

အမိန့်ရှိတော်မူလိုက်ရာ ကြောင်ကလေးသည် တကယ့်လူပုဂ္ဂိုလ်များနှင့်မခြား တရားအားထုတ်နေတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၈

http://www.dhammadownload.com



ဆရာတော်ဘုရားကြီးက

"ပူစီ အိပ်များပျော်နေသလား" ဟု သတိပေးလိုက်ပြီဆိုလျှင် အမြီးကလေးနှံ့ကာ ဝင်သက်ထွက်သက်ကို သိသိ သာသာရှုပြနေတတ်သလို တစ်ခါတလေ ဝေဒနာတွေတက်ပြီး ခါးကတွန့်၊ ပေါင်ကတွန့်၊ လက်ကလေးတွန့်ဖြစ်နေတတ်သည်။ ဆရာတော်ဘုရားကြီးက "တော်တော့ တရား ချတော့" ဟုမိန့်တော်မူမှသာ တရားထိုင်ခြင်းအလုပ်က ရပ်တော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၈

ဆရာတော်၏ မေတ္တာစွမ်းအားကြီးမားလွန်းလှသည်သာမက နတ်ကောင်းနတ်မြတ်များ လိုက်လံတရားနာယူလေ့ရှိသည်ကလည်း အထင်ကရဖြစ်စဉ်များအရ ရိပ်စားမိသူများက ရိပ်စားမိနေကြသည်။

**တစ်ရွာလုံးမွှေး**

ညတစ်ညတွင် မိတ္ထီလာမြို့နယ် ကြက်ကန်ရွာမှာ ဆရာတော်ဘုရားကြီး တရားဟောဖြစ်သည်။ တရားပွဲစ၍ ဆရာတော်တရားစဟောသည်နှင့် ရွာတစ်ရွာလုံးမွှေးနေတော့သည်။

တရားပွဲမလာဘဲနေသော သူများကလည်း မွှေးတယ်။ မွှေးတယ်ဆိုကာ တရားပွဲခွင် အတွင်းလာရောက်ကြကာ တရားနာကြရသည့်အဖြစ်နှင့် ကြုံရသည်။ ထိုညတစ်ညလုံး တစ်ရွာလုံးတွင် အမွှေးနံ့က ဖုံးလွှမ်းထားခဲ့သည်။

သူတို့ရွာတွင် တစ်ကြိမ်တစ်ခါမျှ ဤသို့သော ဆန်းကြယ်လှသည့်ဖြစ်ရပ်များမဖြစ်ပေါ်ခဲ့ပါဟု ရွာသူရွာသားတို့က ပြောကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၉

**ကြက်ဖကလေးတစ်ကောင် ထနောင်းပင်ပေါ်က ဆင်းလာ**

လသာသော ညတစ်ည ဆရာတော်ဘုရားကြီးတရားဟောနေစဉ်ကြက်ဖလေးတစ်ကောင် ထနောင်းပင်ပေါ်က ဆင်းလာကာ ဆရာတော်ဘုရားကြီး၏ဒူးပေါ်တွင် မေးတင်ပြီး တရားနာယူနေခဲ့သည်။ တရားဆုံးသွားသည်နှင့်သုံးချက်တွန်ကာ ထနောင်းပင်ပေါ်သို့ပြန်တက်ပြီး အိပ်တန်းဝင်သွားခဲ့သည်။

ထိုညတစ်ညလုံးနှင့် နောက်တစ်နေ့လုံး မိတ္ထီလာမြို့နယ်၊ ဒီးတုတ္တောင် တောင်ပေါ်တွင်နံ့သာများ ပက်ဖျန်းထားသလို တစ်တောင်လုံးမွှေးကြိုင်နေခဲ့တော့သည်။

**ဘာကြောင့် မွှေးသလဲ**

ယောဂီအတော်များများက ဒီအချိန်မှာ ဘာပန်းများပွင့်လေသလဲဟု လိုက်ရှာကြည့်ကြလျှင် တစ်တောင်လုံးမှာ ဘာပန်းပင်မှပွင့်တာ မတွေ့မြင်ကြရတော့ဘဲရှိနေသည်။ သာမန်လူများ မမြင်တွေ့နိုင်သည့် မဥ္ဇူသကနတ်ပန်းများဖြင့် တရားပူဇော်ကြသည်ဟု ထင်မြင်ယူဆနေမိကြလေ သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၉

လူမဆိုထားနှင့် တိရစ္ဆာန်သတ္တဝါလေးများသော်မှ လူနှင့်မခြားလိမ္မာရေးခြားရှိလာကြကာ အနာဂတ်တွင် ဒီထက်သာသည့်ဘဝ ကောင်းသောဘုံဌာနသို့ ရောက်ကြရမည်မှာမလွဲပင်ဖြစ်သည်။

**ဓန္ဓာဝန်ချတော်မူ**

အေဒီ ၁၉၈၇ ဆရာတော်ဘုရားကြီးသည် ၁၃၄၉ ခုနှစ်၊ သီတင်းကျွတ်လဆန်း ၉ ရက် နံနက် (၉)နာရီ (၂၇)မိနစ်အချိန်တွင် ဘဝနတ်ထံပျံလွန်တော်မူခဲ့သည်။

http://www.dhammadownload.com



**မပုပ်မသိုးသော ရုပ်ကလာပ်တော်မှ ဆံစကလေးများ ထွက်နေ**

တောင်ကုန်းပေါ်တွင် လှည့်ပတ်နေမိရာက ဆရာတော်ဘုရားကြီး ရုပ်ခန္ဓာလျှောင်းစက်ရာ ကျောင်းအတွင်း ဝင်ရောက်မိလိုက်သည်တွင် ပကတိကျိန်းစက်နေသည့်အလား ထင်မှတ်ရသည့် ဆရာတော်ကြီး၏ ရုပ်ခန္ဓာကိုယ်ကို ဖူးတွေ့လိုက်ရသည်။ ဆံစလေးများပင် ထွက်ပြူလျက် ရှိနေကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၉

**ခန္ဓာဝန်ချတော်မူခြင်း**

မပုပ်မသိုးမပျက်စီးဘဲ ရုပ်ခန္ဓာတည်ကျန်ရစ်လေအောင် ဆရာတော်သည် မည်သို့သစ္စာအဓိဋ္ဌာန် ပြုခဲ့သည်ကိုမူ သိရှိခွင့်ရနိုင်ကြမ[illegible] ပဟုတ်သော်လည်း ၉ ရက် ၉ နာရီ ၂၇ မိနစ်တွင် ရုပ်ခန္ဓာကို စွန့်ခွာထွက်သွားခဲ့သည်ဟု ခေတ်ပြိုင်မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ ထပ်တင်ကာ အောင်မြေကုန်းတော်မဟာမှာ လျောင်းစက်နေသည့် ဦးသာဂရ၊ အောင်သာကျော်၊ သူရဇ္ဇမဂ္ဂဇင်း၊ အတွဲ (၄)၊ အမှတ် (၇)၊ ၂၀၀၄ခုနှစ်၊ ဇူလိုင်လ၊ စာ-၃၈ ကိုကြည့်။

http://www.dhammadownload.com



မဇ္ဈိမပူရမြစ်တွင် အရိုးပြာ ရေမျှောပြီးမှ ဓာတ်တော် ပြန်ကြွတော်မူသည့်

ကျော်ရွာ တောကျောင်း ဆရာတော်

# အရှင်အရိယဝံသ မဟာထေရ်

၁၉၁၅ – ၂၀၀၆



http://www.dhammadownload.com



လုံးဝန်းသွားသော ဆံတော်အစအနများကို အကြောင်းပြု၍ ဆရာတော်ကြီးကို လာရောက်ဖူးမြော်သူတို့က ဦးစွာ ပထမဂရုပြုမိကြသည်။ ခန္ဓာဝန်ချပြီးသောအခါ ထူးခြားသော အကြောင်းစိမ်းများနှင့် အရိုးပြာရေမျှောပြီးမှ ဓာတ်တော် ပြန်ကြွလာသည်ကို အကြောင်းပြု၍ အထင်အရှား မှတ်တမ်းများ တွေ့လာရပါသည်။

ကျမ်းကိုး၊ စံထွန်းသာ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၂၀၀၈ ခုနှစ်၊ အောက်တိုဘာ၊ အမှတ်(၂၆၅)၊ စာ-၄၉

ဆရာတော်ကြီး ခန္ဓာဝန်ချခါနီးကာလ အဖြစ်အပျက်များကို ဆရာတော် ဦးဆန္ဒာဓိက ကဤသို့ ဆက်၍ ပြောပြသည်။

အေဒီ ၂၀၀၇ ၂၀၀၇ခုနှစ်၊ ဖေဖော်ဝါရီလဆန်း ဒုတိယပတ်...ကမှာ ခုနကပြောခဲ့သလို မိုးခိုဖို့အတွက် မန္တလေးကိုကြွတယ်။ ဘုန်းကြီးက အလုပ်အကျွေးသံဃာအနေနဲ့ လိုက်ပါပြုစုရတယ်။ မန္တလေး ရောက်ရောက်ချင်း "ငါသေတော့မှာ။ တစ်ခါတည်း ကျောင်းအပ်မယ် လက်ခံမလား" လို့ မိန့်ပါတယ်။ "ဆရာတော်ဘုရား အကောင်းကြီးပဲ ဝမ်းချုပ်တာ ဝေဒနာကြီးမှ မဟုတ်တာ မဖြစ်နိုင်သေးပါဘူး" လို့ ပြန်လျှောက်တော့ ပြုံးနေတယ်ဟု မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၀

**ခန္ဓာဝန်ချတော်မူခြင်း**

အေဒီ ၂၀၀၇ ဆေးရုံမှာတစ်လလောက်ကြာတယ်။ အထူးကုဆရာဝန်ကြီးတွေကစက်ကိရိယာအစုံအလင်နဲ့ စမ်းသပ်စစ်ဆေးပေးကြတယ်။ ဘာရောဂါမှ မတွေ့ကြပါဘူးတဲ့။ သက်တော်ကြီးရင့်တာမို့ ကိုယ်ခံအားကောင်းစေမယ့်အားဆေးတွေပဲ ဆက်ကပ်ကြပါတယ်။ ပျံလွန်တော်မူမယ့်နေ့ မနက် (၇)နာရီလောက်မှာ (၁၀. ၃. ၂၀၀၇ နေ့ဖြစ်သည်) "ငါအိပ်ချင်တယ် မောင်ပဥ္စင်း"
"ကျိန်းတော်မူပါ အရှင်ဘုရား"
"တကယ်အိပ်ရမှာလား"
အဲဒီလိုပြောပေမယ့် တကယ်မအိပ်ပါဘူး။ ဆွမ်းချိန်မှာ ပုံမှန်ဘုဉ်းပေးပြီး တစ်ပါးတည်း ငြိမ်ငြိမ်သက်သက် သီတင်းသုံးနေတယ်။ တရားအာရုံပြုနေတာသိရလို့ ဘယ်သူမှအနှောင့်အယှက် မပေးကြပါဘူး။ အဲဒီနေ့နေ့လယ်(၂)နာရီ (၁၅)မိနစ်မှာ ပကတိ ကျန်းမာနေရာကနေ ထွက်သက် ဝင်သက်ရပ်စဲပြီး ခန္ဓာဝန်ချတော်မူပါတယ်ဟု မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၀

အေဒီ ၂၀၀၇ ရုပ်ကလာပ်တော်ကို မန္တလေးပြည်သူ့ဆေးရုံကြီးကနေ ကျော်ရွာတောရ (ဓမ္မဝတီ)ကျောင်းကို ပြန်ပင့်ပြီး ၁၇. ၃. ၂၀၀၇ နေ့မှာ အန္တိမအဂ္ဂိစျာပန မီးသင်္ဂြိုဟ်ပွဲ ဆင်နွှဲပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၁

**အရိုးပြာများ မဏိပူရမြစ်ထဲမှာ ရေမျှောခဲ့**

အေဒီ ၂၀၀၇ လောင်တိုက်နေရာ အောက်ခံအင်္ဂတေခင်းပြီး တေဇောစျာပနပြီးတဲ့အခါ အရိုးပြာတွေကို ၁၈. ၃. ၂၀၀၇ နေ့မှာ မဏိပူရမြစ်ထဲ ရေမျှော ဥဒကပူဇာမင်္ဂလာဆင်နွှဲပူဇော်ပါတယ်။

**နီညိုရောင်အလုံးကလေးများ တွေ့ကြရ**

အရိုးပြာများရေမျှော၍ ထင်း၊ မီးသွေးစသည်တို့ကို သန့်ရှင်းလှည်းကျင်းထားခဲ့ကြရာ ရေမျှောသည့်အချိန်တွင် အောက်ခံအင်္ဂတေအခင်းပေါ်မှ နီညိုရောင်အလုံးကလေးများ မှန်ညှင်းစေ့အရွယ်ခန့်တွေ့ကြရသဖြင့် တပည့်ဒါယကာများက ယူငင်ပူဇော်ကြသည်။ သတင်းကြားသဖြင့် စုဝေးရောက်ရှိလာကြသော ဒါယကာများစွာ စေ့အောင် ပူဇော်ခွင့်ရကြသည်။

http://www.dhammadownload.com



**(၇)ရက်အတွင်းမှ ဓာတ်တော်များပေါ်လာ**

အေဒီ ၂၀၀၇ ၂၅. ၃. ၂၀၀၇ နေ့တိုင်အောင် (၇)ရက်တိတိကောက်ယူပူဇော်ခွင့် ရကြပြီး (၇)ရက် လွန်သောအခါ ထွက်ပေါ်ခြင်း မရှိတော့ပါ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၁

**ဓာတ်တော်များဖြစ်ကြောင်း အသိအမှတ်ပြုကြရ**

လက်ရှိဆရာတော်က ယင်းဓာတ်တော်ဟု ယူဆရသော နီညိုရောင်အလုံးကလေးများ အချို့ကို စုဆောင်းကာ သံဃနာယကဆရာတော်များနှင့် ကျွမ်းကျင်သူများထံသို့တင်ပြပေးသည်။ဓာတ်တော်ဖြစ်ကြောင်း သိရသည့်တွင်ရဟန္တာဓာတ်တော်များမှာ အဖြူရောင်ပဲစေ့အရွယ်ခန့် အလုံးကြီးများသာမြင်ရလေ့ရှိကြောင်း ပြန်လည်လျှောက်ထားရာ ဤဓာတ်တော်များမှာ အသွေးတော်မှ ဖြစ်သောဓာတ်တော်ဟု ကြားသိရလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၁

လှည်းကျင်းသန့်စင်ထားသော အင်္ဂတေအခင်းပေါ်မှ အလိုအလျောက်ဖွဲ့တည်လာကာ (၇)ရက်ပြည့်မြောက်ပြီး နောက်ထပ်မထွက်ပေါ်ခြင်းမရှိသော ဤဓာတ်တော်များမှာ အလွန်ထူးခြားလှပေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၁

**ကိုယ်တိုင်ရေးမှတ်တမ်း**

ဆရာတော်၏ ကိုယ်တိုင်ရေးမှတ်တမ်းစာအုပ်ငယ်၌ ပြည့်စုံစွာတွေ့ရှိရသည်။

**မွေးသက္ကရာဇ်နှင့် ဇာတိရပ်ရွာ**

အေဒီ ၁၉၁၅ ဆရာတော် လောင်းလျာကို ၁၂၇၇ ခုနှစ်၊ နတ်တော်လဆုတ်(၈)ရက်၊ ညနေအချိန်၌ စစ်ကိုင်းတိုင်း၊ ကလေးမြို့နယ်၊ ကန်လှကျေးရွာနေ ဦးအောင်ရ၊ ဒေါ်မုံးတို့မှဖွားမြင်ခဲ့သည်။

**ငယ်မည် မောင်အောင်သိန်း**

မွေးချင်းငါးဦးတွင် အထွေးဆုံးဖြစ်ကာ မိဘတို့ကမောင်အောင်သိမ်းဟု အမည်ပေးသည်။ နောင်တွင်ပတ်ဝန်းကျင်မှ မောင်ဘအုံးဟု အမည်ပေးခေါ်ဝေါ်ကြသည်။

အေဒီ ၁၉၂၄ ၁၂၈၆ ခုနှစ်တွင် မဏိပူရမြစ်(ခေါ်)နန်းက သဲချောင်းရေ တိုက်စားသဖြင့် ကန်လှကျေးရွာပြိုပျက်ရာ ကျော်ရွာကျေးရွာသို့ ပြောင်းရွှေ့ကြရသည်။ ထိုနှစ်တွင် မူလတန်းကျောင်းသို့ အပ်နှံရန် တိုင်ပင်ကြရာ မောင်ဘအုံးက. . .

"လူကိုဆရာမခေါ်ချင်၊ တပည့်လဲ မခံလိုပါ။ ဘုန်းကြီးကျောင်းမှာထားပါ" ဟု ငြင်းဆန်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၂

အေဒီ ၁၉၂၆ ၁၂၈၈ခုနှစ်တွင် ဖခင်ဦးအောင်ရကွယ်လွန်၍ မောင်နှမငါးယောက် မိခင်နှင့်အတူ ဆက်လက်နေထိုင်သည်။

အေဒီ ၁၉၂၈ ၁၂၉၀ပြည့်နှစ်တွင် မိခင်ကြီးက သင်္ကန်းဆီးပေးသဖြင့် ရှင်အရိယဝံသဘွဲ့အမည်ဖြင့် ပရိယတ္တိစာပေများကို သင်ယူခွင့်ရခဲ့သည်။

အေဒီ ၁၉၃၄ ၁၂၉၆ခုနှစ်၊ တပေါင်းလတွင် ဆရာတော်ဦးနာဂိန္ဒ ပျံလွန်တော်မူသဖြင့် မှီခိုရာ ဆရာမရှိတော့ချေ။

အေဒီ ၁၉၃၅ ထိုအခါ ၁၂၉၇ ခုနှစ်တွင် မန္တလေးမြတောင်တိုက်၊ စစ်ကိုင်းမြတောင်ချောင်များသို့ သွားရောက်ကာ ပရိယတ္တိ ပဋိပတ္တိအလုပ်များကြိုးစားဆည်းပူးရသည်။

http://www.dhammadownload.com



အေဒီ ၁၉၃၈ သုံးနှစ်အကြာ ၁၃၀၀ ပြည့်နှစ်တွင် ရွှေဘိုခရိုင် ရေဦးမြို့၊ ချမ်းသာကြီးတိုက်ဓမ္မဒေဒနီကျောင်းသို့ပြောင်း၍ အဘိဓာန်ကျမ်းနှင့် သောတတ္ထကီ ကျမ်းများ (၆)လကြာ သင်ယူသည်။

အေဒီ ၁၉၃၉ ထို့နောက် ကျော်ရွာကျောင်းသို့ပြန်လာကာ ၁၃၀၁ ခုနှစ်၊ ကဆုန်လဆန်း(၅)ရက်နေ့တွင် ကုက္ကိုဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဘောင်သို့ဝင်ရောက်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၂

အေဒီ ၁၉၄၆ ကျော်ရွာကျောင်းတွင်ပင် ဝိနည်း၊ အဋ္ဌကထာ ကျမ်းကြီးကျမ်းငယ်များဆက်လက်ဆည်းပူးကာ (၈)ဝါအရ ၁၃၀၈ ခုနှစ်တွင် ကျော်ရွာကျောင်းထိုင်ဆရာတော် ပရိသုဒ္ဓပြုသွားသဖြင့် သံဃာများဆန္ဒအရ ကျော်ရွာဆရာတော်အဖြစ် တာဝန်ယူရသည်။

အေဒီ ၁၉၅၈ ထိုမှ ၁၃၂၀ ပြည့်နှစ်တိုင် (၁၂)နှစ်တာအတွင်း စာဝါပို့ချခြင်းအပြင် စာသင်ကျောင်း၊ စာကြည့်တိုက်၊ ဆေးပေးခန်းစသည် ထူထောင်ပေးခြင်း၊ စာမတတ်သူ ပပျောက်ရေး အ,သုံးလုံး သင်တန်းများဖွင့်လှစ်ကျင်းပပေးခြင်း၊ ရပ်ရွာ ဖွံ့ဖြိုးကျန်းမာရေးအတွက် ဦးဆောင်ခြင်းတို့ကို ပြုလုပ်တော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၂

အေဒီ ၁၉၅၈ ဤကဲ့သို့ သာသနာရေး၊ လူမှုရေး၊ ပရဟိတ ကိစ္စအဝဝပြုလုပ်ပြီး၍ ၁၃၂၀ပြည့်နှစ်တွင် မိမိဘဝလွတ်မြောက်ရေးအတွက် မနီးမဝေးတောအုပ်တွင်း(ယခုဓမ္မဝတီကျောင်းနေရာ)သို့ တောထွက်ကျင့်ကြံတော်မူသည်။ အတန်အသင့်ပေါက်မြောက်သောအခါ တောရဝန်းကျင်တွင်လည်း ပြောင်းရွှေ့နေထိုင်သူများဖြင့် ပြန်လည်စည်ကားလာရာ တပည့်ဒါယကာများ ဆန္ဒအရသာ အလှူအတန်းကိစ္စ၊ အသုဘကိစ္စများနှင့် ရွာသစ်တည်ရေး၊ သိမ်သမုတ်ရေးကိစ္စ စသည်ဖြင့် ပါဝင်ဦးဆောင်ပေးရပြန်သည်။

အေဒီ ၂၀၀၆ ဆရာတော်ကြီးသည် သက်တော်(၉၁)နှစ်အထိ သာသနာအကျိုးသယ်ပိုးခဲ့ရာ. . .

* ကြယ်ပွင့်ပုံကြေးပြားဆု
* မြန်မာပြည်မြေပုံပါမြို့နယ်ပရဟိတတံခွန်စိုက်ဆု
* ရွှေကျင်ဂိုဏ်းကြီးမှ ရတ္တညုမဟာနာယကဘွဲ့တံဆိပ်တော် စသည်ဖြင့် ချီးမြှင့်ခံခဲ့ရ၏။

အေဒီ ၁၉၉၈ * ၁၉၉၈ ခုနှစ်တွင် မဟာသဒ္ဓမ္မဇောတိကဓဇဘွဲ့တံဆိပ်တော်

အေဒီ ၂၀၀၃ * ၂၀၀၃ ခုနှစ်တွင် အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ ဘွဲ့တံဆိပ်တော် တို့ကို ဆက်ကပ်အလှူခံရရှိခဲ့သည်။

**မန္တလေးမှာ စန္ဒာဝန်ချ**

အေဒီ ၂၀၀၆ ၁၃၆၈ ခုနှစ်၊ တပေါင်းလဆုတ်(၈)ရက်၊ မွန်းလွဲ(၂)နာရီ (၁၅)မိနစ်အချိန်၌ မန္တလေးပြည်သူ့ဆေးရုံကြီးတွင် ဘဝနတ်ထံပျံလွန်တော်မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၃

**မီးပူဇော်သောအခါ နဂါးဦးခေါင်းပုံထွက်လာ**

ပျံလွန်တော်မူပြီး (၇)ရက်အကြာတွင် မီးပူဇော်ခြင်း ဖြစ်သည်။ ထိုအချိန်ထိ ရုပ်ကလာပ်တော်မှာပျက်စီးခြင်းမရှိ။ ဦးခေါင်း၊ နားထင်တို့မှ အကြောစိမ်းများသည် သက်ရှိလူသားတစ်ဦး၏ ဖွဲ့စည်းပုံပမာ ထင်ရှားဖောင်းကြွလျက် ရှိသည်။ လောင်တိုက်ကို ရွာနှင့်အတန်လှမ်းသောလယ် ကွင်းပြင်တွင်ပြုလုပ်ကာမီးများစတင်လောင်ကျွမ်းသောအခါ မီးလျှံအတွင်းမှ နဂါးဦးခေါင်း ပုံသဏ္ဍာန်အရိပ်ထင်ရှားစွာ ထွက်ပေါ်လာသည်။ ယခုဖြစ်စဉ်တွင် ဆရာတော်ကြီး၏

http://www.dhammadownload.com



ဓာတ်တော်များအား နဂါးတို့ယူဆောင်ပြီးနောက် ခုနစ်ရက်သားသမီးတို့ ပူဇော်နိုင်ရန် ပြန်လည် ပို့ဆောင်ပေးသည်ဟုပြောဆိုကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၃

မီးပူဇော်သောနေ့သည် စနေနေ့ဖြစ်၍ပြန်လည်ထွက်ပေါ်လာသောဓာတ်တော်များကို နောက် တစ်ပတ် စနေမရောက်မီ သောကြာနေ့အထိသာ တွေ့ရှိပင့်ဆောင်နိုင်ကြသည်။ ခုနစ်ရက်သာ တွေ့ရှိပင့်ဆောင်ရွက်ရသည်။ ပုဂ္ဂိုလ်ထူးအနေဖြင့် ကျော်ရွာတောကျောင်းဆရာတော် အကြောင်း ဝေဝေဆာဆာကြားသိရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇

## ဓာတ်တော်များ ပွားလာခြင်း

ကလေးမြို့ပေါ်ရှိ နေအိမ်အတော်များများတွင် ထိုဆရာတော်၏ ဓာတ်တော်များပူဇော်ထားကြ သည်ကိုလည်း ဖူးတွေ့ရသည်။ စတင်ရရှိစဉ်က တစ်ဆူစ နှစ်ဆူစမျှသာဖြစ်သော်လည်း လပိုင်းအတွင်းပွားများလာသည်ဆိုကြသည်။ ဓာတ်တော်ပွားသကဲ့သို့ ပူဇော်သူတပည့် ဒါယကာတို့၏ စီးပွားဂုဏ်သိန်တို့လည်းပွားများတိုးတက်လာကြသည်ဟု သိရမြင်ခဲ့ရလေ သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇

## နှစ်ကိုယ်ခွဲ၍ ဆွမ်းခံကြွခြင်း

နှစ်ကိုယ်ခွဲ၍ ဆွမ်းခံကြွနေသည်ကို အမှတ်အသားရှိပါသည်။ ဖတ်ကြည့်တော်မူကြပါ။ ဂန့်ဂေါလမ်းခွဲအတိုင်း ခွဲထွက်လျက်(၁၀)မိုင်ကျော်ခန့်တွင် မြောက်စည်းရွာသို့ဝင်၍ခရီးတစ် ထောက်နားကြသည်။ ဆရာတော်သက်တော်ထင်ရှားရှိစဉ်ကအကြောင်း စုံစမ်းကြည့် သော အခါ မြောက်စည်းရွာသူတစ်ဦးက "အဲ့ဒီနေ့က ကိစ္စတစ်ခုနဲ့ ဟံသာဝတီရွာ (ကလေးမြို့နယ် နှင့် ဂန့်ဂေါမြို့နယ်အစပ်ရှိရွာ) ကနေ ဆိုင်ကယ်နဲ့ ပြန်လာတယ်။ ကျော်ရွာတောရကျောင်း ရောက်တော့ခရီးကြုံတာမို့ ဆရာတော်ကိုဝင်ဖူးတယ်။ ဆရာတော်ကျိန်းနေတာနဲ့ ဦးချပြီးပြန် လာတယ်။ မြောက်စည်းရွာလယ်မှာ ဆယ်တောရွာက သူငယ်ချင်းနဲ့ဆုံတယ်။ ဆရာတော်ကြီး ဆယ်တောရွာမှာဆွမ်းခံကြွနေတာတွေ့ခဲ့ရတယ်လို့ပြောပြတယ်။ သူတွေ့ရတဲ့တစ်ချိန်တည်း နီးနီးလောက်မှာ ကျွန်မလဲ ကျောင်းမှာဖူးခဲ့ရတာမို့အံ့ဩကြည်ညိုမိပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈

## မိုင် (၃၀) အကွာအဝေးသို့

မြောက်စည်း၊ စည်းဟောင်း၊ တောင်စည်း၊ ရွာစည်၊ ရွာသာစသောရွာစဉ်များကျော် ဖြတ်ပြီး နောက် "ကျော်ရွာတောရ" ကျောင်းသို့ရောက်ရှိသည်။ ကလေးမြို့မှ ကျောင်းအရောက် မိုင် (၃၀) ခရီးကွာဝေးလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈

အေဒီ ၁၉၅၈ ဆရာတော်သည် ကျော်ရွာကျောင်းကြီး၏ကျောင်းထိုင်ဆရာတော်အဖြစ် တာဝန်ယူ၍ စာဝါပို့ချ တရားကမ္မဋ္ဌာန်း ပြသပေးနေရာမှ ၁၃၂၀ပြည့်နှစ်၊ ဝါတော် (၂၀)အပြည့်တွင် မန္တလေး၌ ဓမ္မာစရိယ စာမေးပွဲဖြေဆိုပညာသင်ယူနေသူ အန္တေဝါသိကတပည့်ရင်းကိုခေါ်ယူ လွှဲအပ်လျက် ဤနေရာသို့ တောထွက် သီတင်းသုံးခဲ့၏။

မိမိကိုယ်ကျိုးကိစ္စအတွက် အလှူမလိုက်၊ အသုဘ မသွားဘဲ မျှတစွာ လှုံ့လစိုက်တော်မူခဲ့သည် ဟု ကိုယ်တိုင်ရေးမှတ်တမ်းတွင် တွေ့ရှိရလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

http://www.dhammadownload.com



တောရဆောက်တည်၍ မကြာမီမြစ်ရေတိုက်စားမှုကြောင့် လူနေအိမ်ခြေများ ရွှေ့ပြောင်းကြရာမှ တောရအနီးဝန်းကျင်တွင် အခြေချနေထိုင်သူတစ်စတစ်စရောက်ရှိလာကြသဖြင့် လူစည်ကားသော ရွာဖြစ်လာသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

ရွာသစ်ပေါင်းလေးရွာကို တပည့်ဒါယကာများနှင့်တိုင်ပင်၍ လမ်းကြီးလမ်းငယ်၊ အိမ်ကွက် စနစ်တကျဖြစ်အောင် ဦးဆောင်တည်ထောင်ပေးခဲ့ရသည်။

အေဒီ ၁၉၈၁ စေတီတည်၊ ဓမ္မာရုံဆောက်၊ ဆေးပေးခန်း၊စာသင်ကျောင်းများတည်ထောင်ပေးခဲ့ရသည်။ ရွာနီးချုပ်စပ်ဘွင်သာမက ကလေးမြို့၊ အောင်သစ္စာရပ်ကွက်တွင်လည်း မဟာသန္တာရုံစာသင်တိုက် ကို ၁၃၄၃ ခုနှစ်တွင် တည်ထောင်ပေးခဲ့ရသည်။

**ကျောင်းတိုက်အမည်မှာ ဓမ္မဝတီကျောင်းတိုက်ဖြစ်**

ဤသည်တို့မှာ တောရဆောက်တည်ပြီးမှ မလွှဲမကင်းသာသဖြင့် ဆောင်ရွက်တော်မူခဲ့သည်များ ဖြစ်ကြသည်။ ကျောင်းတိုက်အဝင်မုခ်ဦးတွင် ဓမ္မဝတီကျောင်းတိုက် ဟူသော ကမ္ပည်းစာတန်းကိုတွေ့ရပေသည်။ လူမျိုးဘာသာ၊ သာသနာနှင့် လူသားများဖွံ့ဖြိုးရေး အတွက် အတန်အသင့် ဆောင်ရွက်ပေးခဲ့ပြီးဖြစ်သောကြောင့် ကိုယ်ကျိုးအတွက် ပဋိပတ္တိလမ်းသို့ လိုက်ရန် တောထွက်ခဲ့သော်လည်း ဝေနေယျများအတွက် တစ်ဖန်ငဲ့စောင်းကြည့်ရှုတော်မူသော ဆရာတော်ကြီး၏ ကရုဏာကိုထင်ဟပ်စေသည့်ကျောင်းတိုက်ကမ္ပည်းဖြစ်သည်။

**သို့သော် ကျော်ရွာ တောကျောင်းဟုသာ ခေါ်ကြ**

ဒေသခံများက ဤအမည်ထက်"ကျော်ရွာတောကျောင်း"ဟူသောအမည်ကိုသာ ခေါ်ဝေါ်သုံးစွဲကြလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၀

**ဆံတော်များ ဓာတ်တော်များအဖြစ်သို့ ပြောင်းလဲခြင်း**

ရပ်နီးရပ်ဝေးပရိသတ်ဒါယကာများအကြား ရဟန္တာပုဂ္ဂိုလ်ထူးဟု ကျော်ကြားခဲ့သော ကျော်ရွာတောကျောင်းဆရာတော် အရှင်အရိယဝံသ သီတင်းသုံးနေထိုင်သွားခဲ့သည့် ကျောင်းတိုက်ဖြစ်သည်။ လက်ရှိဆရာတော်ကကျောင်းခန်းမတွင်းသို့ ခေါ်ဆောင်သွားကာ ပုလင်းငယ် တစ်ခု ယူပြသည်။

"ဆရာတော်ကြီးခန္ဓာဝန်မချမီတစ်လလောက်အလိုမှာ ဆံပင်ရိတ်ချင်တယ် ဆိုလို့ ဘုန်းကြီးက ဆပ်ပြာ၊ ရေခွက်၊ ဓားတွေပြင်ဆင်ပါတယ်။ ရေမဆွတ်နဲ့၊ အခြောက်အတိုင်းရိတ်ပါလို့ မိန့်ကြားတော့ဒီတစ်ခါ ထူးခြားတယ်လို့ အောက်မေ့ပြီးဆံတော်တွေ စုဆောင်းသိမ်းဆည်းခဲ့တယ်" ဟု သိရှိရ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၁

"ဆရာတော်ပျံလွန်တော်မူတဲ့အခါ သတိရလို့ယူကြည့်တော့ အခုလိုပဲ လုံးဝန်းသွားတာတွေ့ရပါတယ်။ ရေမပါ၊ အတိုအစလေးတွေက အလိုအလျောက်လုံးသွားတာပါ" ဟုလည်း မိန့်ကြားသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၁

**ကောင်းကင်တွင် ဈာန်ပျံနေသည်ကို ချင်းတိုင်းရင်းသားတို့ ဖူးမြော်ကြရခြင်း**

အေဒီ ၂၀၀၆ ဆယ်တောရွာ၊ သံဖိုရွာတွေဆိုတာ ချင်းတိုင်းရင်းသားရွာတွေ၊ မိရိုးဖလာနတ်လေ့နဲ့ ဘာသာ

http://www.dhammadownload.com



ခြား ကိုးကွယ်သူတွေပါ။ သူတို့တွေက ကျော်ရွာတောကျောင်းဆရာတော် လေမှာပျံနေတယ်လို့ ခဏခဏ လာပြောကြတယ်။ ကျော်ရွာတောကျောင်းဘုန်းကြီးကို ဝေဘူလ တောင်ပေါ်မှာ ပျံနေတာတွေ့ရသတဲ့။ ၂၀၀၆ ခုနှစ် မိုးတွင်းမှာ တွေ့ရတယ် ပြောကြပါတယ်။

ဆရာတော်ကြီးက မှတ်ဉာဏ်လဲအင်မတန်ကောင်းတယ်၊ လွန်ခဲ့တဲ့နှစ်လေးဆယ်ကျော်လောက်က တွေ့ခဲ့ဖူးသူနဲ့ ပြန်တွေ့တဲ့အခါ ဘယ်သူဘယ်ဝါ ဘယ်နေရာမှာ တွေ့ခဲ့ကြတယ်ဆိုတာ ချက်ချင်းပြောပြနိုင်ပါတယ်။ ပျံလွန်တော်မူတဲ့အထိ နား၊ မျက်စိ၊ သွား အားလုံးကောင်းတယ်။

ကျန်းမာရေးကိစ္စအတွက် လာလျှောက်ကြရင် ဝေဒနာနဲ့တည့်မယ့်ဆေးဝါးဖော်ဖို့နည်းပေးတယ်။ ရှောင်ရန်ဆောင်ရန်တွေလဲပြောပြတယ်။ လူသုံးများတဲ့ဆေးတချို့လဲ ကိုယ်တိုင်ဖော်ပြီး အာယုဒါန ကူညီပေးတယ်။

ဥပမာ အဆုတ်သန့်ဆေး၊ လေနာသက်သာ ပျောက်ကင်းဆေးဆိုတာမျိုးပေါ့။ ဆေးပညာကျွမ်းကျင်သလိုကိုယ်တိုင်လဲကျန်းမာရေးကောင်းမွန် ပြည့်စုံတယ်။ ဖျားနာတာ မပြောနဲ့၊ နှာစေးချောင်းဆိုးတောင် မဖြစ်ခဲ့ဘူးဟု မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၁

## တရားကျင့်ပုံကျင့်နည်း

တင်ပျဉ်ခွေ ဣရိယာပုတ်တစ်ခုတည်းကို (၆)နာရီ (၇)နာရီ ကြာအောင်မလှုပ်မယှက် ကျင့်ကြံနိုင်တယ်။ သိမ်းတာနဲ့ ညောင်းကိုက်ထုံကျဉ်တာမရှိ ချက်ချင်း ထနိုင်သွားလာနိုင်တယ်ဟု မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၁၈

ကျမ်းကိုး၊ စံထွန်းသာ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ်(၂၆၆)၊ ၂၀၀၈ ခု၊ စက်တင်ဘာလ၊ စာ-၁၇။

http://www.dhammadownload.com



မူလပထမ စွန့်လွှန်းဆရာတော်ဘုရားကြီးနှင့်
ရှေးဘဝက ကြက်တူရွေးညီနောင် ဖြစ်ခဲ့သည့်
ယနေ့တိုင် ရုပ်ကလာပ်တော် မပုပ်မသိုးတည်ရှိသော ဈာန်အဘိညာဥ်ရ

# မဟာသတိပဋ္ဌာန်ဆရာတော် ဦးလောကတိဿ

၁၉၁၅ – ၂၀၀၀



http://www.dhammadownload.com



စွန်းလွန်းဆရာတော်ဘုရားကြီး ရဟန္တာဖြစ်အောင် ကျင့်ကြံအားထုတ်ခဲ့သော မောင်ရင်ပေါ် ချောက်တွင် စွန်းလွန်းဆရာတော်ဘုရားကြီး၏ ရုပ်အလောင်းကဲ့သို့ပင် မပုပ်မသိုးသော ရုပ်ကလာပ်တော်တစ်ခု ယခုထက်တိုင် တည်ရှိနေလေသည်။

ကျမ်းကိုး။ ဗအုပ်ခိုင်၊ မဟာသတိပဋ္ဌာန်ဆရာတော်ကြီး၏ ဘဝဖြစ်စဉ်နှင့် ထူးခြားသည့် ရုပ်ကလာပ်တော်၊ သိဒ္ဓိမိုးမဂ္ဂဇင်း၊ အုတ်(၃၀) ပြည့် အထူးထုတ် ၊စာမျက်နှာ - ၁၅

**ယနေ့တိုင် မပုပ်မသိုး**

ထိုမပုပ်မသိုးသည့် ရုပ်ကလာပ်တော်မှာ မဟာသတိပဋ္ဌာန် ဆရာတော် ဦးလောကတိဏ္ဍ၏ ရုပ်ကလာပ်တော်ပင် ဖြစ်လေသည်။

သိဒ္ဓိမိုးမဂ္ဂဇင်း၊ အုတ်(၃၀) ပြည့် အထူးထုတ် ၊စာမျက်နှာ - ၁၅

**မဟာသတိပဋ္ဌာန်ဆရာတော်**

မဟာသတိပဋ္ဌာန် ဆရာတော် ဦးလောကတိဏ္ဍမှာ စွန်းလွန်းဆရာတော် ဘုရားကြီး၏ တပည့် တစ်ဦးဖြစ်၍ စွန်းလွန်းဆရာတော်ကြီး မရှိသည့်နောက်တွင် မောင်ရင်ပေါ်ချောက်၌ သာသနာပြုခဲ့သူလည်း ဖြစ်လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅

**အိပ်မက်ထူး**

ဆရာတော် လောင်းလျာ၏ မယ်တော် ဒေါ်ယုံသည် ဆရာတော်လောင်းလျာကို ပဋိသန္ဓေ မတည်မီ ညတစ်ညတွင် ထူးခြားသော အိပ်မက်တစ်ခုကို မြင်မက်လေသည်။ အိပ်မက်ထဲတွင် ၎င်းတို့နေထိုင်သော ယာတဲအရှေ့ဘက် ဆင်တဲဝချောင်းထဲမှ ဝတ်ဖြူစင်ကြယ်နှင့် ပုဂ္ဂိုလ် တစ်ဦးပေါ်လာပြီး ၎င်း၏ လက်ထဲ၌ ကိုင်ထားသော ဖြူဖွေးသည့် အဝတ်ဖြင့် ပတ်ထားသည့် အထုပ်တစ်ထုပ်ကို 'ဒီအထုပ်ကလေးကို သိမ်းထားပါ သမီးရယ်' ဟု ဆိုကာ ဒေါ်ယုံအား အထုပ်ပေးသွားသည်ဟု အိပ်မက်မြင်မက်လေသည်။ ထိုအိပ်မက်ကိုမြင်မက်ပြီး မကြာမီပင် ဒေါ်ယုံ၌ ပဋိသန္ဓေတည်ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆

**ဖွားသက္ကရာဇ်နှင့် မွေးရပ်ဇာတိ**

အေဒီ ၁၉၁၅

မြန်မာနှစ် ၁၂၇၆ ခု၊ တပေါင်းလပြည့်ကျော် (၁၁) ရက်၊ ဗုဒ္ဓဟူးနေ့ (၁၀-၃-၁၉၁၅) နေ့လယ် တစ်ချက်တီးကျော်အချိန်တွင်တော့ ဖခင်ဦးပေါ်နှင့် မိခင် ဒေါ်ယုံတို့မှ တောင်သာမြို့နယ် ဆည်ကုန်းရွာမြောက်ဘက် ညောင်ပင်ဝိုင်းရွာတွင် ဆရာတော်လောင်းလျာကို ဖွားမြင်တော်မူခဲ့ပါ သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆

**ငယ်မည် မောင်မူ**

ဆရာတော်၏ ငယ်နာမည်မှာ မောင်မူဖြစ်ပါသည်။ ညီအစ်ကို မောင်နှမ ခုနစ်ဦးရှိသည့် အနက် မောင်မူမှာ ပဋ္ဌမမြောက်သား ရတနာ ဖြစ်လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆

မိဘများဖြစ်ကြသည့် ဦးပေါ်နှင့် ဒေါ်ယုံမှာ ရေကြည်ရာ၊ မြက်နုရာ ဆိုသလို မြင်းခြံမြို့သို့ ပြောင်းရွှေ့နေထိုင်သောအခါ သားနှစ်ဦးဖြစ်သည့် ကိုရွှေဖျိုင်းနှင့် မောင်မူကို ဇာတိရွာအနီးရှိ ဦးကြီးဘုန်းကြီး သီတင်းသုံးရာ ထန်းပင်ခြံရွာကျောင်းတွင် စာပေပညာသင်ကြားရန် အပ်နှံခဲ့လေ သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇

http://www.dhammadownload.com



**ငယ်စဉ်ပုံ**

မောင်မှုသည် ကျောင်းတွင်နေထိုင်ရင်းတစ်ခါတစ်ရံ ဘုရားကြီး၏ ကိုယ်နေဟန်၊ ခြေ၊ လက်၊ မျက်စိ ပုံသဏ္ဌာန်တို့အတိုင်း အတုခိုး၍ တင်ပျဉ်ခွေ ထိုင်နေလေ့ရှိသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇

**ငှက်ပျောပင်ကြားက မောင်မှု**

တစ်နေ့ ညနေစောင်းတွင် အစ်ကိုဖြစ်သူ ထမင်းချက်နေစဉ် မောင်မှုတစ်ယောက် ငှက်ပျောပင်များအကြားတွင် တင်ပျဉ်ခွေထိုင်၍ ဘုရားကြီး၏ ကိုယ်၊ ခြေ၊ လက်၊ မျက်စိ ပုံသဏ္ဌာန်အတိုင်း အတုခိုးပြီး ထိုင်နေလေရာ အစ်ကိုဖြစ်သူက လှမ်းခေါ်သည်ကိုလည်း မကြားဘဲ မိမိဘာသာ တစ်ဦးတည်း ကျေနပ်နှစ်သက်မိနေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇

**သာမဏေဘဝ**

အေဒီ ၁၉၂၈

မြန်မာနှစ် ၁၂၉၀ ပြည့်နှစ်တွင် မြင်းခြံမြို့ရှိ မိဘညီအစ်ကို မောင်နှမများက မောင်ရွှေမျိုးနှင့် မောင်မှုတို့ကို သာမဏေဘောင်အတွင်း သွတ်သွင်းချီးမြှင့်၍ ထန်းပင်ခြံ ကျောင်းရှိ ဦးကြီး ဘုန်းတော်ကြီးထံ၌ပင် ဆက်လက်ပညာသင်ကြားစေခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇

ဆရာတော်လောင်းလျာ မောင်မှုသည် သာမဏေဘဝဖြင့် သင်ပုန်းကြီး၊ မင်္ဂလသုတ်၊ အတွင်းအောင်ခြင်း၊ အပြင်အောင်ခြင်း၊ ရတနာရွှေချိုင့်၊ နမက္ကာရ၊ လောကနီတိ၊ ပရိတ်ကြီး၊ ဇာတ်ကြီးဆယ်ဘွဲ့၊ သဒ္ဒါသင်္ဂြိုလ်တို့ကို သင်ကြားခဲ့ရလေသည်။

**တေမိဇာတ် ပတ်စဉ်က**

သာမဏေဘဝဖြင့် ဇာတ်ကြီးဆယ်ဘွဲ့ သင်ကြားစဉ် တေမိဇာတ်တော်တွင် တေမိမင်းသားကလေးအား စကားမပြောသဖြင့် ခမည်းတော် ဘုရင်ကြီးက နန်းတော်မှ နှင်ချ၍ သုသာန်သို့ စေလွှတ်သည့်အခန်းတွင် 'သားသမီးတောင်မှ စကားမပြောတာနဲ့ နှင်ချရသလား၊ စကားမပြောတာကိုပဲ အပြစ်ရှာနေပါလား' ဟု မောင်မှု၏ စိတ်ထဲတွင် ဘုရင်ကြီးအား မုန်းတီးသွားပြီး ညနေပိုင်း ဆရာတော်ထံ စာပြန်သော အခါ 'ဆရာတော်၊ ဒီစာဟာ တရားစာလား။ ကိုယ့်ဘာသာ စကားမပြောတာကို၊ အပြစ်ရှာပြီး သုသာန် နှင်ချတော့ ဒေါသဖြစ်တာပေါ့' ဟူ၍ ရဲရဲတွတ်တွတ်ဖြင့် ဆရာတော် ကို လျှောက်ခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇

**ကိုရင်လူထွက်**

အေဒီ ၁၉၃၁

ထိုသို့ ပညာသင်ကြားရင်း ဆရာတော်မှာ အောက်ပြည်အောက်ရွာသို့ သွား၍ ဝါကပ်နေသဖြင့် စာသင်ကြားပေးမည့်သူ မရှိဖြစ်ရာ မောင်မှုလည်း စာမသင်ရအတူတူ လူ့ဘောင်မှာနေတာက တော်ဦးမည်ဟုဆိုကာ သာမဏေ သုံးဝါအရတွင် လူထွက်၍ မိဘများရှိရာ မြင်းခြံမြို့တွင် ပြောင်းရွှေ့နေထိုင်ခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇

**မထေးနှင့် အကြောင်းပါ**

အေဒီ ၁၉၄၇

သာမဏေဘဝမှ ထွက်ပြီးနောက် မြင်းခြံမြို့ ဓာတ်အားပေးစက်ရုံ တွင် စက်မောင်းနှင့် မီးလိုင်းတာဝန်ခံအလုပ်ကို လုပ်ကိုင်ရင်း မိဘများကို လုပ်ကျွေးပြုစုနေရာမှ အသက် (၁၉) နှစ်

http://www.dhammadownload.com



အရွယ်တွင် မြင်းခြံမြို့ ဦးကြာခိုင်၊ ဒေါ်ဂွမ်းထုံတို့၏ သမီးဖြစ်သူ မသေးနှင့် အကြောင်းပါခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇

**၁၉-နှစ်သား အိမ်ထောင်သည်ဘဝ**

ထိုသို့ အိမ်ထောင်သည်ဘဝတွင် ကျင်လည်ရင်း တစ်ညသ၌ အိမ်ရှေ့ကွပ်ပျစ်ပေါ်တွင် လဲလျောင်းကာ ကောင်းကင်မှ လမင်းကြီးကို မော့ကြည့်နေစဉ် လမင်းအဝိုင်းထဲမှ ကျူပင်၊ ဝါးပင်များ ပေါ်လာပြီး ထိုကျူပင်၊ ဝါးပင်များအကြား၌ သန်စွမ်းကြံ့ခိုင်သော ခါးတောင်းကျိုက်နှင့်လူများ တစ်ဦးကိုတစ်ဦး ထိုးခုတ်သတ်ဖြတ် ပြေးလွှားနေသည်ကို မြင်တွေ့ရလေသည်။ ထိုမြင်ကွင်းကြောင့် ထိတ်လန့် တုန်လှုပ်သွားပြီး 'ဒီမြေကြီးပေါ်မှာ အကုသိုလ်တရားတွေ တယ်များပါလား၊ ငါတော့ဒုက္ခပဲ။ ဘာလုပ်ရမလဲ၊ လောကကြီးဟာ ပျော်စရာမကောင်းပါလား' ဟု တွေးမြင်ပြီး သံဝေဂဉာဏ်များ ဖြစ်ပေါ်လာလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇

**အမြဲ ပုတီးစိပ်**

ကိုမှူသည် ထိတ်လန့်သော သံဝေဂစိတ်တို့ကို သက်သာစေရန် ပရိတ်ကြီး (၁၁) သုတ် ရွတ်ဖတ်ခြင်း၊ မေတ္တာပို့ခြင်း၊ ဥပုသ်ရက်ရှည်စောင့်ခြင်း၊ ပုတီးစိပ်ခြင်းတို့ကို မပြတ် ပြုလုပ်နေလေတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇

ထိုသို့ ပုတီးစိပ်ရင်း (၆) လခန့်ကြာသောအခါ အာရုံနိမိတ်များကို မြင်လာလေသည်။

**ပုတီးစိပ်၍ (၆)လကြာသောအခါ**

တစ်ညတွင် ပုတီးစိပ်ရင်း မျက်စိရှေ့၌ ထူးခြားသော အလင်းရောင်ကြီးကို မြင်ရပြီး မိမိကိုယ်ခန္ဓာနှင့်တကွ တစ်အိမ်လုံး လင်းထိန်နေသည်။ မိမိနောက်ကျောဘက်တွင်ရှိ အိမ်အတွင်းမှ ပစ္စည်းများကိုလည်း ထင်ရှားပြတ်သားစွာ မြင်နေလေသည်။ ထိုအချိန်မှစ၍ လူ့ဘဝကြီးကို တစ်စတစ်စငြီးငွေ့လာပြီး ဘာမှ လုပ်ချင်ကိုင်ချင်စိတ်မရှိဘဲ ဖြစ်လာခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇

**အသက် (၃၀)အထိ ပုတီးစိပ်**

အေဒီ ၁၉၄၁

ကိုမှူ အသက် (၂၆) နှစ်မှ (၃၀) နှစ်အတွင်း ပုတီးကိုသာ တွင်တွင်စိပ်နေခဲ့လေသည်။ ကိုမှူသည် ဂုဏ်တော်ပုတီးကို နေ့စဉ် မပျက်မကွက် စိပ်နေသော်လည်း သူ၏ စိတ်တွင် အားရကျေနပ်မှု မရှိခဲ့။ မိမိငယ်စဉ်က ကြားဖူးသည့် နိဗ္ဗာန်ကို မြင်ဖူး၊ တွေ့ဖူးလိုသော စိတ်ဆန္ဒများ ပြင်းပြစွာ ဖြစ်ပေါ်နေမိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇

**စွန်းလွန်း ဦးကဝိကို သွားဖူးခဲ့စဉ်က**

ဦးမှူသည် အဖော်များနှင့် စွန်းလွန်းဆရာတော်ဘုရားကြီး ဦးကဝိကို သွားရောက် ဖူးမြော်ရာ ဆရာတော်ကြီးကို မြင်လိုက်သည်နှင့် သူ့စိတ်ထဲတွင် 'ဆရာတော် ဘုရားကြီးဟာ ဧကန်စင်စစ် ရဟန္တာ အရှင်မြတ်ကြီးပဲ။ ဘယ်သူမှ ပြောစရာ မလိုဘူး၊ ငါ့စိတ်ကကို သေချာပေါက် သိလေသည်' ဟု တစ်ထစ်ချ ယုံကြည်ဆုံးဖြတ်၍ အားကိုးမိလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇

http://www.dhammadownload.com



**စွန်းလွန်းအိပ်မက်**

စွန်းလွန်းဂူကျောင်းတိုက်မှ ပြန်လာပြီး မကြာမီ ညတစ်ညတွင် စွန်းလွန်း ဆရာတော် ဘုရားကြီး ဦးကဝိအား အိပ်မက်ထဲတွင် ဖူးတွေ့ရလေ၏။ ဆရာတော်ဘုရားကြီးက တပည့် သံဃာများအား 'ဒီကိုယ်တော်က ဒီနားနေ၊ သူက ဒီနားလေးမှာနေ' ဟု နေရာချထားပြီး 'ငါနေရမှာ မဟုတ်တော့ဘူး၊ ပရိနိဗ္ဗာန် ပြုရတော့မယ်' ဟု ပြောဆိုဆုံးမနေသည်ကို အိပ်မက်မြင်မက်လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈

**စွန်းလွန်းဦးကဝိ ပရိနိဗ္ဗာန်ပြုသော သတင်းကြောင့် တုန်လှုပ်**

အေဒီ ၁၉၅၂ ထိုသို့ အိပ်မက်ပြီး မကြာမီ ၁၃၁၄ ခုနှစ်၊ ကဆုန်လဆုတ် (၉) ရက် စနေနေ့တွင် စွန်းလွန်း ဆရာတော်ဘုရားကြီး ပရိနိဗ္ဗာန်ပြုသွားကြောင်း ကြားသိရ၏။

ဦးမူသည် ထိုသတင်းကိုကြားသိပြီး ထမင်းလည်း မစားနိုင်၊ အိပ်၍လည်းမရ၊ အလုပ်သို့လည်း မသွားချင်၊ မည်သူနှင့်မျှလည်း စကားမပြောလိုဘဲ ဆောက်တည်ရာမရ ဖြစ်နေလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈

ထိုသို့ရှိစဉ် "သူတို့တော့ ဆရာကောင်းနဲ့တွေ့ပြီး နည်းကောင်းရလို့ တရားအားထုတ်ပြီး ပရိနိဗ္ဗာန် ပြုသွားပြီ။ ငါ့မှာတော့ ဘယ်လမ်းသွားရမှန်းလဲမသိ၊ နောက်ကျပြီနဲ့ တူတယ်။ ဘယ်သူ့မှလဲ မေးမြန်းလို့ရတော့မှာ မဟုတ်ဘူး" ဆိုပြီး အားငယ်စိတ်များ ဝင်လာခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈

**စွန်းလွန်း ထေရုပ္ပတ္တိစာအုပ် ဝယ်ဖတ်**

တစ်ဆက်တည်းပင် ဆရာတော်ကြီး၏ တရားလမ်းစဉ်၊ ကျင့်စဉ်များကို စာအုပ်နဲ့ ရေးသားထားတာ ရှိနိုင်တာပဲဟု တွေးမိသဖြင့် မေးမြန်းကြည့်ရာ ရှိကြောင်း သိရ၍ စာအုပ်ကို ဝယ်လာခဲ့သည်။ ထိုစာအုပ်ကိုဖတ်ပြီး အချိန်ရတိုင်း စွန်းလွန်းဂူကျောင်း (ချောက်ကျောင်း) သို့သွား၍ တရားအားထုတ်လေတော့သည်။ အားထုတ်နေစဉ် တောတောင်များအကြား ရောက်လိုက်၊ ဘုရားများ ဖူးလိုက်၊ နတ်များနှင့် တွေ့လိုက် ဖြစ်ပြန်နေသည်။ ထိုသို့ အားထုတ်နေချိန် မိမိနားထဲ၌ 'ကြိုးစားဟ၊ ကြိုးစားဟ' ဟု ဘေးနားမှ ကပ်ပြောနေသကဲ့သို့ ကြားရလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈

ထိုသို့ တရားအားထုတ်ရင်းဖြင့် မီးစက်ဝင်းအတွင်းမှ မိမိလုပ်နေကျ အလုပ်တို့ကိုလည်း ငြီးငွေ့လာပြီး ဇနီးသည်နှင့်လည်း အတူမနေလိုတော့။ တစ်ညတွင် အိမ်ပြန်ရောက်၍ မောမောနှင့် အိပ်ပျော်သွား၏။

**လူထူးလူဆန်းတစ်ယောက် အလိုလိုရောက်လာ**

မကြာမီ နိုးလာပြီး အရပ်မြင့်မြင့်၊ ထွားထွားကျိုင်းကျိုင်းနှင့် လူတစ်ယောက် အိမ်ထဲဝင်လာပြီး ဦးမူကို သုန်သုန်မှုန်မှုန်ကြည့်နေ၏။ ဦးမူက ပြန်အိပ်မည်ပြုရာ ခေါင်းရင်းမှ တောက်ခေါက်သံကို ကျယ်လောင်စွာ ကြားရ၏။ ဤသို့ဖြင့် အိပ်ပျော်မည် ပြုလိုက်၊ တောက်ခေါက်သံကြားလိုက်ဖြင့် ဦးမူမှာ အသားတွေ တဆတ်ဆတ်တုန်လာ၏။ နားထဲမှလည်း လေများ ထွက်လာသည်။ အူတွေ၊ အသည်းတွေလည်း တောက်ခေါက်သံကြားတိုင်း ပြောင်းဆန်နေ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

**အရိုးစုကြီးကိုမြင်**

မိမိကိုယ်မိမိလည်း သေတော့မည်ဟု ထင်လိုက်မိ၏။ ဇနီးသည် ဒေါ်သေးကို ကြည့်လိုက်ရာ အရိုးစုကောင်ကြီးကိုသာ မြင်နေရသည်။ အသားများကလည်း မီးတောက်လို ချစ်ချစ်တောက် ပူလာ၏။

http://www.dhammadownload.com



**တောက်ခေါက်သံ ကြားရ**

ထိုအချိန်တွင် ခေါင်းရင်းဘက်မှ လူကြီးတစ်ယောက် ချောင်းထဲ ဆင်းသွားသည်ကို အာရုံထဲတွင် မြင်လိုက်လိုက်ရသည်။ 'ငါ့ကို အိမ်က ထွက်ခိုင်းနေတာကိုး။ ငါကမသိလို့ တောက်ခေါက်ပြီး ငါ့ကို ကြိမ်းနေတာကိုး' ဟု ဦးမူသဘောပေါက်ပြီး ဇနီးသည် မသေးကို ' ငါသက်န်းဝတ်ချင်လိုက်တာ' ဟု ပြောလိုက်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

**ကိုရင်ဘဝရောက်ခဲ့**

အေဒီ ၁၉၅၃

ဤသို့ဖြင့် ထိုနေ့ နံနက်လင်းအားကြီး ၁၃၁၅ ခု၊ ဝါခေါင်လဆန်း (၁၀) ရက် သောကြာနေ့ နံနက် အရုဏ်ဦးတွင် ရှင်လောကတိဿာဘွဲ့အမည်ဖြင့် ရှင်သာမဏေဘဝသို့ ရောက်လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

**မြင့်မြတ်သော ရဟန်းဘဝသို့ရောက်**

အေဒီ ၁၉၅၃

၁၃၁၅ ခု၊ ဝါခေါင်လပြည့် အင်္ဂါနေ့ ညနေ (၄) နာရီ (၁၅) မိနစ် အချိန်တွင်တော့ ကိုးဆောင်ကျောင်းတိုက် အလယ်တိုက် ဆရာတော်ဘုရားကြီး ဦးဣန္ဒြိယကို ဥပဇ္ဈာယ်ပြု၍ ပထမ ကမ္မဝါဆရာတော် စွန်းလွန်းဂူကျောင်းတိုက်အုပ် ဆရာတော် ဦးသောဘဏ၊ သုဓမ္မာတိုက်ဆရာတော်နှင့် ဆရာတော်သံဃာတော်များ ဝိုင်းဝန်းချီးမြှောက်မှုကြောင့် ကိုးဆောင်တိုက် ခဏ္ဍာသိမ်တော်၌ မြင့်မြတ်သော ရဟန်းဘဝသို့ ရောက်တော်မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

**လူ့ဘဝနှင့်ပင် တရားထူး တရားမြတ် ရခဲ့သည်**

မဟာသတိပဋ္ဌာန် ဆရာတော်မှာ ရဟန်းဘဝသို့ မရောက်မီ လူဝတ်နှင့် သတိပဋ္ဌာန် ဝိပဿနာတရားကိုအားထုတ်စဉ်ကပင် တရားထူး တရားမြတ်များကို ရရှိခဲ့ပါသည်။ သို့သော် လူ့ဘဝဖြင့် မည်သည့် မဂ်ဖိုလ်အဆင့်ထိ ရောက်ရှိခဲ့သည်ကိုတော့ တပ်အပ်သေချာ မသိရပါပေ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

**ကိုရင်လူထွက်**

ထို့အပြင် မဟာအောင်မြေရတနာ သတိပဋ္ဌာန်ကျောင်းနှင့် စွန်းလွန်းဆရာတော်ကြီး ရဟန္တာဖြစ်အောင် အားထုတ်ခဲ့သော မောင်ရင်ပေါ်ချောက်တို့တွင် ဘုရားစေတီပုထိုးများ တည်ထားကိုးကွယ်ခြင်း၊ ဇရပ်၊ တန်ဆောင်း၊ သိမ်ကျောင်း စသော သာသနိက အဆောက် အအုံများကိုလည်း ဆောက်လုပ်လှူဒါန်း သာသနာပြုတော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

**အဘိညာဉ်ရ ရဟန္တာတစ်ပါးဖြစ်တော်မူခဲ့သည်**

ဆရာတော် ဦးလောကတိဿာမှာ အဘိညာဉ်ရသော ရဟန္တာတစ်ပါးအဖြစ် ထင်ရှား တော်မူခဲ့ပြီး ဆရာတော်နှင့် ပတ်သက်သည့် ထူးဆန်းသော ဖြစ်ရပ်များ၊ ဒကာဒကာမများ၏ ကိုယ်တွေ့ပြောပြချက်များကား ရေး၍ပင် ကုန်နိုင်ဖွယ် မရှိပါ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

**ခန္ဓာဝန်ချတော်မူခြင်း**

အေဒီ ၁၉၉၉

ထိုသို့ သာသနာပြုရင်းဖြင့် မဟာသတိပဋ္ဌာန်ဆရာတော် ဦးလောကတိဿာသည် သက်တော် (၈၆) နှစ်၊ ဝါတော် (၄၇) ဝါသို့အဝင် မြန်မာနှစ် ၁၃၆၁ ခုနှစ်၊ တပေါင်းလပြည့် ကျော် (၁၂)

http://www.dhammadownload.com



ရက်၊ သောကြာနေ့၊ ည(၁၀)နာရီအချိန်တွင် မြင်းခြံမြို့ မဟာအောင်မြေရတနာ သတိပဋ္ဌာန် ကျောင်းတိုက်၌ ခန္ဓာဝန်ချတော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

**မပုပ်မသိုးသော ရုပ်ကလာပ်တော်**

မပုပ်မသိုးသော ရုပ်ကလာပ်တော်ကို စွန်းလွန်းဆရာတော်ကဲ့သို့ပင် အများ ဖူးမြော်နိုင်အောင် ထားတော်မူခဲ့သည်။ မဟာသတိပဋ္ဌာန် ဆရာတော်ဦးလောကတိဿ၏ ရုပ်အလောင်းသည် ကျေးဇူးရှင် စွန်းလွန်းဆရာတော်ကြီး၏ ရုပ်အလောင်းကဲ့သို့ မပုပ်မသိုးရှိကာ မတောင့်မတင်းဘဲ ပကတိ အိပ်ပျော်နေသကဲ့သို့ ပျော့ပျော့ပျောင်းပျောင်း ရှိတော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

**မောင်ရင်ပေါ်ချောက်မှာ ယနေ့တိုင် ဖူးနိုင်**

အေဒီ ၂၀၀၀

အန္တိမစျာပနကို ဆရာတော် ဆန္ဒပြုခဲ့သည့်အတိုင်းပင် ၁၃၆၂ ခု၊ တန်ခူးလဆန်း (၁) ရက်၊ အင်္ဂါနေ့ (၄-၄-၂၀၀၀) ညနေ (၃) နာရီအချိန်တွင် မောင်ရင်ပေါ်ချောက် ကျောင်းတိုက်အတွင်း ၌ ဂူသွင်းသင်္ဂြိုဟ်ခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

**သာသနာပြု သက်တမ်းမှာ ၄၇ နှစ် ရှိခဲ့သည်**

ဆရာတော်ကြီး ဦးလောကတိဿ သာသနာပြုခဲ့သော ကာလမှာ (၄၆) နှစ်၊ (၇) လနှင့် (၁) ရက် ဖြစ်ပါသည်။

**မောင်ရင်ပေါ်ချောက်က လွမ်းစေတီ**

အေဒီ ၂၀၀၀

သတိပဋ္ဌာန်ဆရာတော်ဘုရားကြီး၏ လွမ်းစေတီကို မောင်ရင်ပေါ်ချောက် ဆရာတော် ဦးဝါယမ နှင့် သတိပဋ္ဌာန်ဆရာတော် ဦးနာရဒတို့နှစ်ပါး ဦးဆောင်၍ မြန်မာနှစ် ၁၃၆၂ ခု၊ ပြာသိုလပြည့် ကျော် (၁၂) ရက် စနေနေ့ (၂၀-၁-၂၀၀၁)တွင် အုတ်မြစ်ချခဲ့ပြီး ၁၃၆၂ ခု၊ တပေါင်းလပြည့် ကျော် (၁၁) ရက်တွင် ထီးတော်တင်လှူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

**စွန်းလွန်းဆရာတော်နှင့် အတူ ကြေးညီနောင် ဖြစ်ခဲ့သည်။**
**ယခုအခါ နှစ်ပါးစလုံး အဘိညာဉ်ရ ရဟန္တာကြီးများ ဖြစ်ခဲ့ကြသည်။**

ဆရာတော် ဦးလောကတိဿ ခန္ဓာဝန်မချမီက တဘောင် တစ်ခုကို ရွတ်ဆိုပြပါသည်။

'ကျေးညီနောင် ရေဝယ်မျောစေ
မြကြောရယ်တဲ့ ရွှေမင်းဝံတောင်
လွဲတော့မရှောင်။
အာဏာဘောင်
ကြယ်ပြောင်ကွယ့် မြေမှာလူး။
ခင်ခင့်ကို မောင်မမုန်းတယ်
သုံးဘဝကူး' ။

ဟူ၍ ဖြစ်သည်။

တဘောင်၏ အဓိပ္ပာယ်မှာ -

(ကျေးညီနောင်)ဆိုသည်မှာ အတိတ် ကျေးသားဘဝက ညီအစ်ကိုဖြစ်ခဲ့သော စွန်းလွန်း

http://www.dhammadownload.com



ဆရာတော်ဘုရားကြီးနှင့် ဆရာတော် ဦးလောကတိက္ကဖြစ်ပြီး သံသရာရေယာဉ်ကြောမှာ မျောခဲ့ ကြပြီး (မြကြောရယ်တဲ့ မင်းဝံတောင်) ဆိုသည်မှာ မောင်ရင်ပေါ် ချောက်နေရာသည် ရှေး အတိတ်က မင်းဝံတောင်ကြီး ဖြစ်ခဲ့သည်ကို ဆိုလိုရင်း ဖြစ်သည်။

**အဘိညာဉ်ရ ဆရာတော်ကြီး၏ ဇနီးသည်မှာလည်း အရိယာကြီး ဘဝသို့ ရောက်ခဲ့ သည်မှာ အံ့ဩစရာဖြစ်သည်။**

**အဆင့်မြင့်သော အရိယာဘဝ ရောက်သွားသည့် ဇနီးသည်**

(ခင်ခင့်ကို မောင် မမုန်းတယ် သုံးဘဝကူး) ဆိုသည်က (ခင်ခင်) မှာ လူ့ဘဝက ဇနီးသည် ဒေါ်သေးသေးဖြစ်၍ ဒကာမကြီး (ဒေါ်သေးသေး) သည် ယောဂီဘဝဖြင့် တရားကို ကြိုးစား အားထုတ်ရင်း အဆင့်မြင့်သော အရိယာဘဝသို့ ရောက်ခဲ့ကြောင်း ဆရာတော်က ရှင်းပြခဲ့ ပါသည်။

ကျမ်းကိုး။ ယင်းကျမ်း၊ စာ-၁၉

**မောင်ရင်ပေါ် ချောက်မှာပင် ရဟန္တာဖြစ်တော်မူခဲ့သည်**

မောင်ရင်ပေါ်ချောက်ကို ဝင်လိုက်သည်နှင့် ကျောင်းတိုက်အဝင်ဝ လက်ဝဲဘက်တွင် မဟာ သတိပဋ္ဌာန်ဆရာတော် ဦးလောကတိက္က လွမ်းစေတီကို ကြည်ညိုလွမ်းဆွတ်ဖွယ်ရာ ဖူးမြော်နိုင် သည်။

**နောင်အခါ မိမိရုပ်ကလာပ်တော်ကို ဖူးရ၍ ရဟန္တာ ဖြစ်မည့်သူများ ရှိသေးသဖြင့် ထိုသူများဖူးနိုင်ရန် ရုပ်ကလာပ်တော် ထားရှိခဲ့ခြင်း ဖြစ်သည်။**

စေတီတော်မှာ အတွင်းမှ လိုဏ်ဂူခံထားသော စေတီတော်ဖြစ်ပြီး စေတီတော်၏ အောက်၊ လိုဏ်ဂူမုခ်ပေါက်မှ ဝင်လိုက်သည်နှင့် မှန်စီရွှေချ ခေါင်းတလားတွင် ပူဇော်ထားရှိသော ယခု ထက်တိုင် မပုပ်မသိုးတည်ရှိနေသည့် သတိပဋ္ဌာန်ဆရာတော် ဦးလောကတိက္က၏ အလောင်း တော်ကို ဖူးမြော်ကြည်ညိုနိုင်ကြောင်း ရေးသားဖော်ပြလိုက်ပါသည်။

ကျမ်းကိုး။ ဗအုပ်ခိုင်၊ မဟာသတိပဋ္ဌာန်ဆရာတော်ကြီး၏ ဘဝဖြစ်စဉ်နှင့် ထူးခြားသည့် ရုပ်ကလာပ်တော်၊ သိဒ္ဓိမိုးမဂ္ဂဇင်း၊ အုတ်(၃၀) ပြည့် အထူးထုတ် ၊စာမျက်နှာ - ၁၅။

**လျှို့ဝှက်ချက်**

**ဆရာတော်ကြီး လျှို့ဝှက်ထားသော အချက်ကို နောင်သောအခါ ပျောက်ကွယ်သွား မည်စိုးသဖြင့် ဆရာတော်ကြီး၏ခွင့်ပြုချက်အရ ထိုလျှို့ဝှက်ချက်ကို ဖော်ထုတ်ခြင်း ဖြစ်ပါသည်ဟု သက်ဆိုင်ရာ ပုဂ္ဂိုလ်များက ပြောကြားကြပါသည်။**

**လောက်ကိုင်မြို့မှ ရသော စော်ပြိုင်မှတ်တမ်း**

လောက်ကိုင်မြို့နေ စွန်းလွန်းယောဂီ တစ်ဦးဖြစ်သူ ဒေါ်မြင့်မြင့်ဦး ဆိုသူက အကောင်းမြင် ဖော်ကောင် ပြုလုပ် လိုက်သဖြင့် ကျွန်ုပ်တို့မှာ မမျှော်လင့်ထားမိသော ဗဟုသုတတစ်ခု ရရှိလိုက် သဖြင့် ဒေါ်မြင့်မြင့်ဦးကို ကျေးဇူးတင် မှတ်တမ်းပြုရပါတော့သည်။ ပြုထိုက် မပြုထိုက် အောက်တွင်ဖတ်ကြည့်ပါ။

**ဆရာတော် ခန္ဓာဝန်ချသော သတင်း**

အေဒီ ၂၀၀၀ ကျွန်မနှင့်တကွ စခန်းဝင် ယောဂီများသည် (၇-၄-၂၀၀၀) နေ့ ညနေပိုင်းတွင် စုံညီစွာ ရောက်၍ နေရာယူပြီး နေသားကျမှ မြင်းခြံစွန်းလွန်းဂူကျောင်း ဆရာတော်ကြီး ဦးလောကတိက္ကဘဝနတ် ထံ ပျံလွန်တော်မူကြောင်း မြင်းခြံသို့ သွားရောက်ဖူးမြော်ခဲ့သော ယောဂီများထံမှ သိရပါသည်။

http://www.dhammadownload.com



**ပခုံးပြောင်း တာဝန်**

အေဒီ ၂၀၀၀ ဒါပေမယ့် လားရှိုးမြို့ စွန်းလွန်းဂူကျောင်းဆရာတော် ဦးဒေဝိန္ဒမှ ဆရာတော်ကြီး ကျင့်ကြံအား ထုတ်သည့် စွန်းလွန်းဝိပဿနာ တရားတော် ဟောဖော်ညွှန်ပြမှုကို ပခုံးပြောင်း တာဝန်ယူရန် ရှိသဖြင့် ဆရာတော်ကြီး ဦးလောကတိဿ (၄-၄-၂၀၀၀) နေ့တွင် ခန္ဓာဝန် ချပေမယ့် (၈-၄-၂၀၀၀) နေ့တွင် နှစ်စဉ် ပြုလုပ်မြဲ ဝိပဿနာစခန်း အဓိဋ္ဌာန် (၉) ရက်ကို မပျက်စေဘဲ ဆရာတော် ရှိစဉ်ကကဲ့သို့ ပြုလုပ်ခဲ့ပါသည်။

**ဆရာတော် ဦးဒေဝိန္ဒ မိန့်ကြားချက်**

အေဒီ ၂၀၀၀ ဆရာတော် မောပေမယ့် မမောနိုင်ပါ။ နှစ်တိုင်းထက် တစ်မူ ထူးခြားစေခဲ့တာကတော့ သဗ္ဗပရိက္ခရ နိမ္မိတ်ဂါထာတော်ကြီးကို ဆရာတော် ဦးလောကတိဿ ဖော်ထုတ်၍ ရွတ်ဖတ် စေချင်သည့်ဆန္ဒကို ဆရာတော် ဦးဒေဝိန္ဒမှ အကောင်အထည်ဖော် ရိုက်နှိပ်၍ ဓမ္မဒါန လှူဒါန်းခဲ့၏။

**(၅၆)ခေါက် ရွတ်စေချင်**

ယောဂီများအား ည (၈) နာရီ တရားဖြုတ်ချိန်ပြီးလျှင် ဂါထာတော် (၅၆) ခေါက် ရွတ်ခြင်း၊ ဆုတောင်းခြင်း၊

**ဂြိုဟ်သက် အလိုက် ရွတ်စေချင်**

ဖြစ်တော်ပေါင်းချုပ် ဂါထာတော်ကို ဂြိုဟ်သက်အလိုက် ရွတ်ဆို၍ တရားပွဲ အဆုံးသတ်စေခဲ့ပါသည်။

**လျှို့ဝှက်ထားခဲ့သော ကိစ္စ**

ပထမ စွန်းလွန်းဆရာတော်နှင့် ဒုတိယ စွန်းလွန်းဆရာတော်တို့သည် တရားထူး တရားမြတ် ရရှိခဲ့သော်လည်း ဝိပဿနာကိုသာ အထူးဂုဏ်ထူးဆောင် ဖွင့်ဖော်နေသော ရဟန်းထူးများ ဖြစ်ရကား လျှို့ဝှက်ထားခဲ့သော ကိစ္စအချို့ရှိကြောင်း ဒေါ်မြင့်မြင့်ဦး၏ ဖော်ပြချက်အရ အထူး ဗဟုသုတရခဲ့ပါသည်။

ဒေါ်မြင့်မြင့်ဦး ဖော်ပြသော ဂါထာတော်များကို ရွတ်ဖတ်ရန် အာရုံထားသည့် စွန်းလွန်းယောဂီ မဟုတ်သည့် ပုဂ္ဂိုလ်များအတွက် ဖော်ပြရေးသားလိုက်ပါသည်ဟူ၍ ဒေါ်မြင့်မြင့်ဦးထံမှ သိရှိရပါသည်။ ဒေါ်မြင့်မြင့်ဦးညွှန်ပြသော ဂါထာတော်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

**သဗ္ဗပရိက္ခရ နိမ္မိတ် ဂါထာတော်ကြီး**

**ပုဒ္ဒေါ ပုဒ္ဒသ ၊ ဉာဏ်ဒ္ဒိပုဒ္ဒသ၊ နိမ္မိတ် တတုပုဒ္ဒေါ။**

**ဘဂဝါ တုမှာက် အတ္တဘာဝံ နိမ္မိတ် ပုဒ္ဒေါ။**

**ပုဒ္ဒေါ ပုဒ္ဒသ ၊ ဉာဏ်ဒ္ဒိပုဒ္ဒသ၊ နိမ္မိတ် စိတ္တံ ပုဒ္ဒေါ။**

**ပုဒ္ဒေါ ပုဒ္ဒသ ၊ ဉာဏ်ဒ္ဒိပုဒ္ဒသ၊ နိမ္မိတ် ကာယပုဒ္ဒေါ။**

**ပုဒ္ဒေါ ပုဒ္ဒသ ၊ ဉာဏ်ဒ္ဒိပုဒ္ဒသ၊ နိမ္မိတ် သညာထာပုဒ္ဒေါ။**

**ဆုတောင်းဂါထာတော်**

**သုနက္ခတ္တံ သုမင်္ဂလံ၊ သုပ္ပဘာတံ သုဟုဋ္ဌိတံ။**

**သုခဏော သုမုဟုတ္တော စ၊ သုယိဋ္ဌံ ဗြဟ္မ စာရိသု။**

**ပဒက္ခိဏံ ကာယကမ္မံ၊ ဝါစာကမ္မံ ပဒက္ခိဏံ။**

**ပဒက္ခိဏံ မနောကမ္မံ၊ ပဏိဓိတေ ပဒက္ခိဏော။**

**ပဒက္ခိဏာနိ ကတွာန၊ လဘန္တ တ္ထေ ပဒက္ခိဏော။**

http://www.dhammadownload.com



**တေ အတ္တလဒ္ဓါ သုခိတာ၊ ဝိရူဠှာ ဗုဒ္ဓသာသနေ။**
**အ,ရောဂါ သုခိတာဟောထ၊ သဟ သဗ္ဗေဟိ ဉာတိဘိ။**

အများသိပြီးသော ပရိတ်ကြီး (၁၁) သုတ်လာ ပါဠိတော်ဖြစ်သော်လည်း ဤသို့ ဤပုံ ကျင့်ကြံ အားထုတ်ရကြောင်း ဗဟုသုတအသစ်ရရှိပါသည်။ အဟောင်းထဲက အသစ်ဖြစ်ပါ၏။

ကျမ်းကိုး။ ဗဒုပ်ခိုင်၊ မဟာသတိပဋ္ဌာန်ဆရာတော်ကြီး၏ ဘဝဖြစ်စဉ်နှင့် ထူးခြားသည့် ရုပ်ကလာပ်တော်၊ သိဒ္ဓိမိုးမဂ္ဂဇင်း၊ အုတ်(၃၀) ပြည့် အထူးထုတ် ၊စာမျက်နှာ - ၁၅
ကျမ်းကိုး၊ စွန်းလွန်းသကြန်နှင့် သဗ္ဗပရိက္ခနိမ္မိတံ ဂါထာတော်ကြီး ဒေါ်မြင့်မြင့်ဦး၊ စွန်းလွန်း ယောဂီ၊ လောက်ကိုင်မြို့၏ ဆောင်းပါး။

http://www.dhammadownload.com



ရန်ကုန်တိုင်း၊ ရန်ကုန်မြို့၊ စော်ဘွားကြီးကုန်းတွင်

ယနေ့တိုင် ရုပ်ကလာပ်တော်ရှိသော

# ဆေးဝက်ဘာဆရာတော် ဦးသုရိယ

၁၉၁၅ – ၁၉၇၀



http://www.dhammadownload.com



မဟာဆေးဝက်ဘာ ဆရာတော်ဘုရားကြီး၏ မေတ္တာပို့သံများကို ကျွန်တော်တို့ ငယ်စဉ်က ကောင်းစွာ ကြားနာခဲ့ဖူးပါသည်။ အလွန် ကြည်ညိုဖွယ်ရာကောင်းသော အသံများဖြစ်၍လည်း ပြန်တွေးတိုင်း စိတ်ထဲတွင် ပြန်၍ ကြားယောင်ယောင် ဖြစ်မိပါသည်။

"မဟာဆေးဝက်ဘာအာလိန်ငါးဆင့်ကျောင်းတိုက်" ဟုဆိုသည်နှင့် မြန်မာပြည်တနံတလျား မှာ မသိသူမရှိသလောက်အောင် ထင်ရှားပေါ်လွင်လှပါ၏။

ကျမ်းကိုး၊ ကမ္ဘာ့အံ့ချီးဖွယ်ရာ ဆေးဝက်ဘာ၊ တက္ကသိုလ်စိုးယဉ်၊ မြစ်မခဝမ္ပစာသဝက် မဂ္ဂဇင်း၊ ၁၉၉၈ ခုနှစ်၊ ဇူလိုင်လ၊ စာ-၁၂

မဟာဆေးဝက်ဘာဆရာတော်ဘုရားကြီး ဦးသူရိယပျံလွန်တော်မူပြီးနောက် ယခုလက်ရှိပဓာန နာယကဆရာတော်ကြီးမှာ ဆရာတော်ကြီး၏တပည့်သာသနာပြုသိဒ္ဓိရှင် ဦးအဂ္ဂဓမ္မဖြစ်ပါ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၃

မဟာဆေးဝက်ဘာဆရာတော်ကြီး ဦးသူရိယဟာ ၅ -ဧကကျယ်ဝန်းတဲ့ကုန်းမြေမြင့်ပေါ်မှာ မဟာအောင်မြေမှန် ဘူမိနက်သန်အဖြစ် ရွေးချယ်သတ်မှတ်ခဲ့ပါ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၄

ဆရာတော်ကြီးဟာအကြိမ်ကြိမ်မက်ခဲ့တဲ့ အိပ်မက်အရ မြန်မာ့ယဉ်ကျေးမှုအနုပညာပန်း(၁၀) ဖြာနဲ့ ဒီမဟာဆေးဝက်ဘာ အာလိန်ငါးဆင့်ကျောင်းတော်ကြီးနဲ့စေတီရုပ်ပွားတော်များ၊ ဘုံ(၇)ဆင့်၊ ကပ်ကျော်လာဘ်ခေါ်အမြတ်ပေါ်စေတီတော်များ၊ ဆင်စီးမြင်းရံအောင်ပွဲခံရုပ်တု များ၊ ရဟန္တာအရှင်မြတ်တို့၏ ရုပ်တုတော်များ ပြဟ္မာနတ်ဒေဝါတို့ရဲ့ရုပ်တုတော်များစတဲ့ ရုပ်တုတော်များနဲ့ မဟာအောင်မြေစေတီတော်များကို အတိတ်ကောင်း၊ နိမိတ်ကောင်း ရက် ကောင်း၊ လကောင်း၊ အချိန်ကောင်းများရွေးချယ်ပြီး မင်္ဂလာပန္နက်တင်ပြီး ဆင်ယင် တည် ဆောက်တော်မူခဲ့ပါတယ်" ဟု မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၄

အိပ်မက်အရ တည်ခဲ့တာကိုး၊ ဒီလောက်ကြီးကျယ်ခံ့ညားတဲ့၊ ဆန်းပြားတဲ့အရာတွေကို တည် ဆောက်နိုင်တာတွေဟာ တော်ရုံပုဂ္ဂိုလ်တွေလုပ်နိုင်ဖို့ အလွန်ခက်ပါတယ်ဟု ဆိုကြ၏။

**မွေးသက္ကရာဇ်နှင့်ဇာတိ**

အေဒီ ၁၉၁၅ ဆရာတော်ကြီးဦးသူရိယကို ၁၂၇၇ ခုနှစ်၊ တော်သလင်းလပြည့်ကျော် (၈)ရက် သောကြာ နေ့ နံနက်(၉)နာရီအချိန်တွင် ခမည်းတော် ဦးဘစိန်၊ မယ်တော် ဒေါ်မယ်ဝတို့မှ ကွမ်းခြံကုန်းမြို့နယ်၊ တောကျောင်းရွာတွင် မီးရှူးသန့်စင်ဖွားမြင်ခဲ့ပါတယ်။

အေဒီ ၁၉၂၄ အသက်(၉)နှစ်အရွယ်မှာ ဆရာတော် ဦးစန္ဒိမာထံသာမဏေ ဝတ်ခဲ့၏။

အေဒီ ၁၉၃၄ ၁၂၉၆ ခုနှစ်၊ တပို့တွဲလဆန်း (၁၄)ရက်နေ့မှာ ရဟန်းအဖြစ်ရောက်တော်မူခဲ့ပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅

**ဆေးဝက်ဘာဆရာတော် ချီးမြှင့်ခဲ့သော သမထဝိပဿနာ ရွှေလမ်းစဉ်**

ရဟန်းဘဝနှင့်ပင်ဆရာကောင်းသမားကောင်းတို့ထံနည်းနာခံပြီး ပရိယတ် ပဋိပတ်နှစ်ရပ် သော ပညာပါရမီကို ဖြည့်ဆည်းတော်မူခဲ့ပြီးမှ မိမိကိုယ်တော်တိုင် ကျင့်ကြံကြိုးကုတ်ဖွဲလှုံ့လ ထုတ်ပြီး အနှစ်ကျကျ ရရှိခဲ့တဲ့သမထ ဝိပဿနာရွှေလမ်းစဉ်တရားတော်ကို ဟောပြောဆုံးမ နည်းလမ်းပြခဲ့တာဟာ ဘဝနတ်ထံပျံလွန်တော်မူတဲ့အချိန်အထိ နှစ်ပေါင်း (၃၆)နှစ် တိုင် တိုင် ဖြစ်ပါတယ်။

http://www.dhammadownload.com



**စန္ဒာဝန်ချတော်မူခြင်း**

အေဒီ ၁၉၇၀ ဆရာတော်ကြီး ဦးသူရိယဟာ သိက္ခာဝါတော် (၃၆)ဝါ၊ သက်တော် ၅၅ - နှစ်အရွယ်မှာ ဘုန်းကံတောက်ကြွားလူသိများနေစဉ် ငယ်ငယ်ရွယ်ရွယ်နဲ့ကွယ်လွန်တော်မူခဲ့ရှာပါတယ်" ဟု လက်ရှိ ဆရာတော်ကိုယ်တိုင် မိန့်တော်မူ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆

**သာသနာ့စရိုးရှည်**

ဆရာတော်ကြီးဟာ ဒီကျောင်းတိုက်ကြီးအတွင်းသာမကပါဘူး၊ မြို့ပေါင်း ၇၀မှာ စေတီပေါင်း (၁၃၀၆)ဆူကို အသစ်တည်ကာ အဟောင်းပြုပြင်တာများလဲပြုလုပ်ခဲ့ပါတယ်။ မြန်မာပြည် အနှံ့ သာသနာပြုခဲ့တာပါ။ ဘုရားစေတီအလီလီကို ရွှေထီးများတင်လှူခဲ့ပါတယ်။ ဘုရား စေတီပေါင်း (၁၃၀၆)ဆူကျော်၊ ရဟန်းအပါး (၃၀၀၀)ကျော်၊ ရှင်သာမဏေ (၅၀၀၀)ကျော်နဲ့ ကိုယ်တိုင်သိက္ခာထပ်မင်္ဂလာသဘင် (၁၃၃)ကြိမ်အထိ ပြုလုပ်ခဲ့၊ သာသနာပြုခဲ့တဲ့ ဆရာ တော်ကြီးပါဟု မှတ်တမ်းတင်ကြ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆

အေဒီ ၁၉၅၈ မြတ်စွာဘုရားသခင်အထွတ်အမြတ်သီတင်းသုံးတော်မူခဲ့တဲ့ အရပ်ဌာနအသီးသီးက မြင့်မြတ် တဲ့ မြေသန့်များကို အရဆောင်ယူတော်မူပြီး သာသနာအစွန့်ရှည်ကြာတဲ့ ကာလပတ်လုံး တည်တံ့ခိုင်မြဲနေစေဖို့ ဒီကျောင်းတိုက်ကြီးအတွင်းမှာ ကပ်ကျော်လာဘ်ခေါ် စေတီတော် (၁၂၆) ဆူတို့ကို ၁၃၂၀ခုနှစ်၊ ကဆုန်လဆန်း (၅)ရက်၊ အင်္ဂါနေ့ ညနေ(၅) နာရီအချိန်မှာ တည်ခဲ့ပါတယ်။ ကပ်ကျော်လာဘ်ခေါ် စေတီတော်များတည်ထားရာမှာ မြတ်စွာဘုရား သခင် ဝေဿန္တရာမင်းကြီးဘဝက နန်းစည်းစိမ်ကိုစွန့်ပြီး တောထွက်တော်မူခဲ့တဲ့ ဝင်္ကဘာ တောင်စောင်းကမြေများကို အိန္ဒိယနိုင်ငံက ယူဆောင်ပြီး အုတ်မြစ်ချခဲ့ပါတယ်ဟု ဆို၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆

ဒါ့ပြင် ဗောဓိပင်နဲ့ ရွှေပလ္လင်ရှိရာ အရပ်ကမြေများ၊ မြတ်စွာဘုရားသခင် ပရိနိဗ္ဗာန်ပြုတော် မူရာ မလ္လာမင်းတို့ရဲ့ အင်ကြင်းဥယျာဉ်မှမြေများစတဲ့မြေကောင်းမြေသန့်များကို အုတ်မြစ် ချတဲ့နေရာမှာ စေတီတော်များတည်ဆောက်ရာမှာ အသုံးပြုပြီး စေတီတော်(၁၂၆)ဆူအတွင်း မှာလည်း မြတ်စွာဘုရားသခင်ရဲ့ ဓာတ်တော်မွေတော်များကိုလည်းဌာပနာခဲ့ပါတယ်ဟု ဆို၏။ မဟာ ဆေးဝင်္ကဘာ ပဓာနဆရာတော်ဦးအဂ္ဂဓမ္မ၏ မိန့်တော်မူချက်ဖြစ်၏။

(ကျမ်းကိုး၊ ကမ္ဘာ့အံ့ချီးဖွယ်ရာ ဆေးဝင်္ကဘာ၊ တက္ကသိုလ်စိုးယဉ်၊ မြစ်မခဓမ္မစာသင်္ဂဏ် မဂ္ဂဇင်း၊ ၁၉၉၈ ခုနှစ်၊ ဇူလိုင်လ၊ စာ-၁၂)

ဆေးဝင်္ကဘာဆရာတော် အမွေပေးခဲ့သော အဓိဋ္ဌာန်အောင်စခန်း ရွှေလမ်းစဉ်ကို ပွားများကျင့် ကြံလိုက်ရ၍ အောင်ပွဲကြီးခံရလျှင် တစ်သက်မှာတစ်ခါ လက်ခမောင်းခတ်လိုက်ကြပါတော့။ ထိုမှတစ်ဆင့် ရှေ့သို့တိုးပြီး ဝိပဿနာလမ်းစဉ်ကို ကျင့်ကြံ ရှုပွားလိုက်ပါလျှင် စူဠသောတာပန်၊ မဟာသောတာပန်နှင့် (မဂ်) အဆင့်သာရှိတော့သည်။ ယောဂီ ဆက်၍ စဉ် ဆက်မပြတ် ကြိုးစားအားထုတ်လိုက်ပါက မကြာမီ တစ်မဂ် တစ်ဖိုလ်သို့ ဦးတည်သော ဒိဋ္ဌဓမ္မအောင်ပွဲကြီး ကို ပြည့်ပြည့်စုံစုံ ရပေတော့မည်မှာ မလွဲကေန်ပင်တည်းဟူ၍ ယခုလက်ရှိ ဆေးဝင်္ကဘာဆရာ တော် အရှင်အဂ္ဂဓမ္မက မိန့်ကြားတော်မူသော ရွှေလမ်းစဉ် ကျင့်စဉ်များ ရှိသေးသော်လည်း ယခုကျမ်းမှာ ထေရုပ္ပတ္တိကျမ်းဖြစ်သဖြင့် သီးခြားကျင့်စဉ်ကို အလိုရှိသူတို့ ရှာဖွေနိုင်ရန် သတင်း ပေးလိုရင်းသာ ဆန္ဒရှိပါသည်။ အလိုရှိက ရှာဖွေတော်မူကြပါ။

http://www.dhammadownload.com



ကျမ်းကိုး၊ ကမ္ဘာ့အုံချီးဖွယ်ရာ ဆေးဝက်ဘာ၊ တက္ကသိုလ်စိုးယဉ်၊ မြစ်မခမဂ္ဂဇင်း၊ ၁၉၉၈ခုနှစ်၊ ဇူလိုင်လ၊ စာ-၁၂

ကျမ်းကိုး၊ အောင်သာကျော်၊ ကျေးဇူးတော်ရှင် မဟာဆေးဝက်ဘာ ဆရာတော်ဘုရားကြီး လျှောင်းစက်ရာအောင်မြေ၊ သူရဇ္ဇမဂ္ဂဇင်း၊ ၂၀၀၄ ခု၊ အောက်တိုဘာလ၊ စာ ၁၀ - ၁၂၊

ကျမ်းကိုး၊ မောင်ပန်းမွှေး၊ သိဒ္ဓိပေါက်၊ သမထ၊ ဝိပဿနာ ရွေလမ်းစဉ်၊ အမွေခံကျင့်စဉ်ကို ပေးတော်မူသော ရဟန်းထူး မဟာဆေးဝက်ဘာဆရာတော်၊ ဝိဇ္ဇာမဂ္ဂဇင်း ၂၀၀၈ခု၊ ဧပြီလ၊ အတွဲ ၁၊ အမှတ် ၇၊ စာ ၆၇ - ၇၀၊

ကျမ်းကိုး၊ ယောနက ဘိုးထောင်၊ ဦးအဂ္ဂမွေနှင့် တွေ့ဆုံခြင်း၊ ပါရမီမဂ္ဂဇင်း၊ ၁၉၉၉ ခု၊ ဒီဇင်ဘာလ စာ ၂၉၊

ကျမ်းကိုး၊ အောင်ဇ LLB မဟာဆေးဝက်ဘာ အောင်မြေနှင့် စိတ်ဝင်စားဖွယ်ရာများ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ စာ ၇၈-၇၉၊

၁၉၇၀-ခုနှစ်တွင် မဟာဆေးဝက်ဘာဆရာတော်ကြီး ခန္ဓာဝန်ချတော်မူခဲ့ပါသည်။ နှစ်ပေါင်း (၄၀)ကျော် ကြာခဲ့ပြီဖြစ်သော်လည်း ယနေ့တိုင် မပုပ်မသိုးသော ရုပ်ကလာပ်တော်ကို ဖူးမြော်နိုင်ပါသေးသည်။ ရန်ကုန်တိုင်း၊ ရန်ကုန်မြို့၊ စော်ဘွားကြီးကုန်း၊ ဆေးဝက်ဘာဝင်းအတွင်း၌ အလွယ်တကူ သွားရောက်ဖူးမြော် ကုသိုလ်ယူနိုင်ပါသည်။

http://www.dhammadownload.com



စစ်ကိုင်းတိုင်း၊ ရွှေဘိုခရိုင်၊ ကန့်ဘလူမြို့နယ်၊ လွှတ်တိုက်ကျေးရွာ

# ဓာတ်တော်များတဖွားဖွားကျတော်မူသော
# ဆရာတော်ကြီး ဘဒ္ဒန္တကုမာရ

၁၉၁၃ – ၂၀၀၆



http://www.dhammadownload.com



စစ်ကိုင်းတိုင်း၊ ရွှေဘိုခရိုင်၊ ကျွန်းလှမြို့နယ်၊ လွှတ်တိုက်အုပ်စု၊ လွှတ်တိုက်ကျေးရွာ၊ မြို့နယ် ဩဝါဒါစရိယ၊ မြို့နယ် ဝိနည်းဓိုရ်၊ မြို့နယ် သံဃဝန်ဆောင်၊ အုပ်စုသံဃနာယက ဥက္ကဋ္ဌ ရွာဦး အောင်မင်္ဂလာကျောင်းတိုက်ကြီး၏ ဦးစီးပဓာန နာယက ဖြစ်တော်မူသော ဘဒ္ဒန္တ ကုမာရ ဘဝနတ်ထံ ပျံလွန်တော်မူရာတွင် ဓာတ်တော်များကျသည်ကို အံ့ဖွယ် တွေ့ရှိရသည်ဟု ခေတ်ပြိုင် မှတ်တမ်းတွင်ဖတ်ရပါသည်။ နောင်လာနောက်သားများအတွက် ဇဝေဇဝါ မရှိနိုင်ပါ။ ထို့ကြောင့် မှတ်တမ်းတင်ရခြင်းဖြစ်ပါသည်။

ကျမ်းကိုး။ စိန်မော်၊ မြတ်မင်္ဂလာ၊ အတွဲ ၂၃၊ အမှတ် ၁ ၊ ၂၀၀၇ ခု၊ ဇူလိုင်လ၊ စာ ၇။

**မွေးသက္ကရာဇ်နှင့် ဇာတိ**

အေဒီ ၁၉၁၇ ဆရာတော် ဘဒ္ဒန္တကုမာရသည် ကျွန်းလှမြို့နယ်၊ လွှတ်တိုက်ကျေးရွာ ခမည်းတော် ဦးဖိုးဆင် မယ်တော် ဒေါ်ဖွားယူတို့က မြန်မာသက္ကရာဇ် ၁၂၇၉ ခု၊ နယုန်လဆန်း ၁ ရက်၊ တနင်္လာနေ့ တွင် ဖွားမြင်တော်မူသည်။ သားသမီး ၄ ယောက်တို့အနက် သားဦးရတနာတစ်ပါး ဖြစ်သည်။

ကျမ်းကိုး၊ ယင်းစာ ၇။

**ငယ်စဉ်ဘဝ**

အေဒီ ၁၉၂၄ ဆရာတော်လောင်းလျာသည် အသက် ၇ နှစ်သားအရွယ်မှ စ၍ ရဟန်းဖြစ်သည်အထိ တောင် ကျောင်းကြီး ဆရာတော် ဘဒ္ဒန္တနန္ဒမာလာထံ၌လည်းကောင်း၊ မဒေါင်ကျောင်း၊ ပထမ ဆရာတော်ထံ၌လည်းကောင်း တောင်ယာဆိပ်ကျောင်းဆရာတော် ဘဒ္ဒန္တ ဥက္ကံသထံလည်း ကောင်း အခြေခံစာပေများကို သင်ကြားတော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၇။

**ကိုရင်ဘဝ**

အေဒီ ၁၉၂၉ ဆရာတော်လောင်းလျာသည် ၁၂၉၁ ခုနှစ်၊ ၁၂ နှစ်သားအရွယ်တွင် လွှတ်တိုက်ရွာတောင် ကျောင်းဆရာတော် ဘဒ္ဒန္တနန္ဒမာလာကို ဥပဇ္ဈာယ်ပြု၍ မိဘနှစ်ပါးတို့၏ ပစ္စယာနုဂ္ဂဟဖြင့် ရှင်သာမဏေ အဖြစ်သို့ ရောက်ရှိခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၇။

**စာသင်သားဘဝ**

ရဟန်းဖြစ်တော်ပြီးနောက် ကန့်ဘလူမြို့နယ်၊ ချပ်သင်းရွာ ပစ္ဆိမာရုံကျောင်း၊ ပရိယတ္တိစာသင် တိုက်၌ အခြေခံဖြစ်သော သဒ္ဒါ၊ သင်္ဂြိုလ်မှစ၍ ပါဠိတော် အဋ္ဌကထာ၊ ဋီကာတို့ကို သင်ယူ တတ်မြောက်ခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၈။

**ရဟန်း (၁၀)ဝါ အရ**

ဆရာတော်သည် ရဟန်း ၁၀ ဝါအရ၌ ကန့်ဘလူမြို့နယ်၊ ချပ်သင်းရွာ ပစ္ဆိမာရုံကျောင်း ပရိယတ္တိ စာသင်တိုက်ကြီး၏ ဦးစီးပဓာန နာယကဖြစ်တော်မူသော ဘဒ္ဒန္တဉာဏိန္ဒနှင့် တွဲဖက်၍ တိုက်ကြပ်တာဝန်ကို ထမ်းဆောင်လျက် သံဃာတော်အပါး ၃၀၀ကျော်တို့အား မိမိတတ်မြောက် ထားသော ပရိယတ္တိစာပေများကို ပြန်လည်သင်ကြားပို့ချပေးခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၈။

**ရဟန်း (၁၄)ဝါ ရသောအခါ**

ထိုမှ တစ်ဖန် ဆရာတော်သည် ရဟန်း ၁၄ ဝါအရတွင် ချပ်သင်းရွာမှ မိမိ၏ ဇာတိရွာဖြစ်သော

http://www.dhammadownload.com



လွှတ်တိုက်ရွာသို့ ပြန်လည် ကြွရောက်တော်မူခဲ့သည်။ ထို့နောက် ရွာဦးကျွန်းလည်ကျောင်းခေါ်ယခု အောင်မင်္ဂလာ ကျောင်းတိုက်ကြီးကို တည်ထောင်တော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၈။

ထိုကျောင်းတိုက်ကြီးတွင် ရဟန်းရှင် လူ တပည့်သားမြေးပေါင်း ၁၀၀၀ ကျော်တို့အား လောကီ၊ လောကုတ္တရာစာပေများကို အခြေခံမှုစ၍ ထိထိရောက်ရောက် သင်ကြားပို့ချပေးတော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၈။

**မိုးကုတ် ဝိပဿနာ စခန်းများ**

ဆရာတော်သည် ကိုယ်တိုင်လည်း တရားအားထုတ်၍ တစ်ဖက်ကလည်း မိုးကုတ်ဝိပဿနာ ဆရာတော်များကို ပင့်၍ တရားစခန်းများ အခါအခွင့်သင့်သလို ဖွင့်လှစ်ပေးခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၈။

**(၄၇) ဝါ ကာလပတ်လုံး**

ဆရာတော်သည် သက်တော် ၆၇ နှစ် ဝါတော် ၄၇ ဝါ အတွင်း ကျေးရွာအုပ်စု သံဃနာယက ဆရာတော်အဖြစ်လည်းကောင်း၊ ဝိနည်းဓိုရ်ဆရာတော်အဖြစ်လည်းကောင်း၊ မြို့နယ်သံဃ ဝန်ဆောင် ဆရာတော်အဖြစ်လည်းကောင်း ဆောင်ရွက်တော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၈။

**သက်တော် (၆၇)နှစ်မှာ ခန္ဓာဝန်ချတော်မူ**

အေဒီ ၂၀၀၆ ဆရာတော်ကြီးသည် ယင်းသို့ သာသနာပြုတော်မူရင်း ၁၃၆၈ ခုနှစ် တန်ဆောင်မုန်းလဆန်း ၁ ရက်၊ စနေနေ့ နံနက် ၃ နာရီ ၃၀ မိနစ်အချိန်တွင် ဘဝနတ်ထံ ပျံလွန်တော်မူသွားခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၇။

အေဒီ ၂၀၀၆ ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်ကို ၁၃၆၈ ခု၊ တပေါင်းလဆန်း ၈ ရက်၊ သောကြာနေ့ ည ၇ း ၃၀ နာရီအချိန်တွင် မီးသင်္ဂြိုဟ်တော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၈။

**ဓာတ်တော်များ တပွားပွား ကျတော်မူ**

အေဒီ ၂၀၀၆ ၁၃၆၈ ခု၊ တပေါင်းလဆန်း ၉ ရက်၊ စနေနေ့ နံနက် ၈ နာရီတွင် မီးသင်္ဂြိုဟ်သည့် လောင်စင် အောက်သို့ ကြည့်ရှုရာ အံ့ဖွယ်ဓာတ်တော်များကို တွေ့ရှိရသည်။

ကျမ်းကိုး၊ ယင်းစာ ၈။

လွှတ်တိုက်ကျေးရွာသူ၊ ကျေးရွာသားများအနေဖြင့် ပိုင်းခြားသိမြင်နိုင်ခြင်း မရှိသဖြင့် ကျွန်းလှ မြို့နယ် သံဃနာယက ဥက္ကဋ္ဌ အတွင်းရေးမှူးနှင့် အဖွဲ့ဝင် ဆရာတော်သုံးပါးတို့ကို ပင့်လျှောက် ပြသရာ ဓာတ်တော်များ အမှန်စင်စစ် ဖြစ်ကြောင်း သိရသည်။

ကျမ်းကိုး၊ ယင်းစာ ၈။

**ဓာတ်တော်များ ထပ်မံတွေ့ရ**

ရင်းဓာတ်တော်များကို ဌာပနာ၍ စေတီတည်ထားကိုးကွယ်နိုင်ရန် အောင်မင်္ဂလာကျောင်းဝင်း အတွင်း ပေ (၁၀၀×၁၀၀) နေရာ၌ စီစဉ်နေစဉ် မီးသင်္ဂြိုဟ်ရာနေရာ၌ ဓာတ်တော်များ ထပ်မံ တွေ့ရှိခဲ့ရပြန်ပါသည်။

ကျမ်းကိုး။ စိန်မော်၊ မြတ်မင်္ဂလာ၊ အတွဲ ၂၃၊ အမှတ် ၁ ၊ ၂၀၀၇ ခု၊ ဇူလိုင်လ စာ ၇။

http://www.dhammadownload.com



ညောင်ပင်အိုင်ဆရာတော်ကြီး မတိုင်မီကပင်လျှင် ရဟန္တာဟုကျော်ကြားတော်မူသည့်အပြင်

ဓာတ်တော်များ တဖွားဖွားကျတော်မူသော မကွေးတိုင်း၊ ရေစကြိုမြို့နယ်၊ အညာတောရွာ

# အညာတောဆရာတော် ဦးဝိလာသ

## ၁၉၁၉ - ၁၉၉၁

ရေစကြိုမြို့နယ် အညာတောရွာ၏ တောင်ဘက်ထန်းလက်တဲကျောင်းလေး အတွင်း၌ ဘာဝနာကမ္မဋ္ဌာန်း စီးဖြန်းခဲ့သော ဆရာတော်တစ်ပါး ရှိခဲ့သည်။ ဘွဲ့တော်မှာ ဦးဝိလာသ ဖြစ်၏။

(ချမ်းမြေ့ရိပ်မြိုင် ညောင်ပင်အိုင်၊ စေတနာလှိုင် - ရေစကြို၊ စာမျက်နှာ - ၇၁)

**ဇာတိ ဟသ်ာတသား**

အေဒီ ၁၉၁၉

ဆရာတော်လောင်းလျာကို ဟသ်ာတခရိုင် အဖျောက်မြို့နယ်၊ ရေပေါ်သောင်ရွာ ခမည်းတော် ဦးကြိုင် + မယ်တော်ဒေါ်ပုတို့မှ ၁၂၈၁ ခုနှစ်၊ နတ်တော်လပြည့်ကျော် ၁၃ ရက်၊ ဗုဒ္ဓဟူးနေ့၌ ဖွားမြင်ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၁

**ငယ်မည် မောင်ကြီးသောင်**

ငယ်မည်မှာ မောင်ကြီးသောင် ဖြစ်၏။ မောင်ကြီးသောင်၏ အထက်၌ ဦးသာအေး၊ ဦးပန်းအေး၊ ဦးပန်းမွှေး၊ ဒေါ်သိန်းရင်၊ ဒေါ်သိန်းခင်ဟူ၍ မွေးချင်း ၆ ယောက် ရှိသေးသည်။ ထို့ကြောင့် မောင်ကြီးသောင်မှာ အငယ်ဆုံး ဖြစ်၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၁

**ဖခင်က ငယ်ငယ်က သေ**

ဖခင်ဖြစ်သူ ဦးကြိုင်မှာ မောင်ကြီးသောင် လူလားမမြောက်မီကပင် ကွယ်လွန် ခဲ့သည်။ ထို့နောက် မောင်ကြီးသောင်သည် အရွယ်ရောက်လာသည်နှင့် မိခင် အိုကြီးအား ပင်ပန်းစွာ ရှာဖွေ၍ လုပ်ကိုင်ကျွေးခဲ့သည်။

**မိခင်က အသက် (၄၀)မှာ သေ**

ဤသို့ဖြင့် မောင်ကြီးသောင် အသက် ၄၀ ကျော်လာသည်။ ထိုနှစ်ထဲမှာပင် မိခင်ဖြစ်သူ ဒေါ်ပု ကွယ်လွန်ခဲ့ပြန်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၁

လူလွတ် စိတ်လွတ်ဖြစ်သော မောင်ကြီးသောင်သည် မိဘတို့ ကွယ်လွန်သဖြင့် တရား အသိဝင်ကာ သံဝေဂရလေ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၁

http://www.dhammadownload.com



**မြန်အောင်မှာ ရဟန်းဖြစ်**

အေဒီ ၁၉၆၀ ၁၃၂၃ ခုနှစ်၌မှ မြန်အောင်မြို့နယ် ကံ့ပလူရွာ ဦးတေဇ၏ ပစ္စည်းလေးပါး ထောက်ပံ့မှုဖြင့် ရဟန်းအဖြစ်သို့ ရောက်ခဲ့၏။

**ကနီဆရာတော်ထံ ပညာသင်**

အေဒီ ၁၉၆၃ ၁၃၂၅ခုနှစ်၌ ကနီဆရာတော်၏ တရားဓမ္မနည်းပြမှုကို ခံယူသည်။ ထိုမှတစ်ဆင့် အညာတောရွာ နွားထိုးကြီးတောင်တောရသို့ ကြွရောက်၍ တရား အားထုတ်သည်။ ထို့နောက် ထုံးကြီး ယာဘေး ကုန်းစပ်သို့ ရွှေ့ပြောင်း သီတင်းသုံးတော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၂

**နွားထိုးကြီးတောင်မှာ တရားကျင့်စဲ**

အေဒီ ၁၉၆၈ အထက်အညာသို့ ရောက်ရှိလာသော ဆရာတော် ဦးဝိလာသသည် ၅ နှစ်ခန့် အကြာ၌ ဆီးရောဂါဖြစ်လာသည်။ ထိုအချိန်မှစ၍ ရွာထဲသို့ အကြွအရောက် နည်းခဲ့သည်။ အသက်ကြီးလာသော်လည်း ကပ္ပိယမထား။ တစ်ပါးတည်း ဆွမ်းခံဘုဉ်းပေး၍ ဖြစ်သလို နေတော်မူခဲ့၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၂

**နောက်ဆုံး မိန့်ကြားချက်**

တစ်နေ့သော နံနက်ခင်းတွင် ဆရာတော်သည် အညာတောရွာအရှေ့ပိုင်း ဒေါ်အေးသင်၏ အိမ်ရှေ့၌ ဆွမ်းခံရပ်ရင်း "ဒကာမကြီး ထင်းတွေစုံပြီမို့ လိုချင်တာတွေ ပြည့်ပါပြီ" ဟု အဆက်အစပ်မရှိသော စကားကို မိန့်ကြားသည်။ ထို့ပြင် ဒေါ်နန်း၏ အိမ်ရှေ့အရောက်၌လည်း "ဒကာမကြီးရေ ဘုန်းကြီးတော့ ဒါနောက်ဆုံးကြွခြင်းပဲ" မိန့်တော်မူပြန်သည်။ ဆရာတော်၏ မိန့်ကြားစကားကို ကြားရသော ဒကာ၊ ဒကာမများမှာ အမျိုးမျိုးစဉ်းစားကာ ဝေခွဲမရအောင် ဖြစ်ကြလေ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၃

**ခန္ဓာဝန်ချတော်မူခြင်း**

အေဒီ ၁၉၉၁ ၁၃၅၃-ခုနှစ်၊ နတ်တော်လပြည့်ကျော် ၁၁ ရက်၊ ဗုဒ္ဓဟူးနေ့ ည ၁၀ နာရီ မိနစ် ၃၀ တွင် ဆရာတော် ဦးဝိလာသ ပျံလွန်တော်မူခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၃

**ရုပ်ကလာပ်တော်**

ဒကာ၊ ဒကာမများသည် ဆရာတော်၏ ရုပ်ကလာပ်ကို ရက်ရှည်ဆွဲ၍ အချိန်ကြာကြာ မထားခဲ့ကြ။ ဆရာတော်ပျံလွန်တော်မူပြီး ၃ ရက်မြောက် နတ်တော်လပြည့်ကျော် ၁၃ ရက်၊ ညနေပိုင်းတွင် ရုပ်ကလာပ်တော်ကို နံ့သာထင်းများဖြင့် အဂ္ဂိစျာပနသဘင် ဆင်ယင်ကျင်းပခဲ့ကြလေ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၄

**ဓာတ်တော်များ ကျတော်မူ**

ထိုစဉ် ဆရာတော်၏ ရုပ်ကလာပ်တော်မှာ အရှိန်ပြင်းစွာ လောင်ကျွမ်းနေသော မီးထဲ၌ ကွေးကောက်တွန့်လိမ်ခြင်းမရှိ။ ညှော်နံ့မနံ။ ထို့ပြင် မီးသဂြိုဟ်ပြီး ၅ ရက်ခန့်တွင် အရိုးများကို ကောက်ယူကြည့်ကြရာ ဓာတ်တော်များကို ဖူးတွေ့ကြရလေ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၄

http://www.dhammadownload.com



**ဓာတ်တော် အရွယ်အစား အမျိုးမျိုး တဖွားဖွားကျ**

ဓာတ်တော်များမှာ မြေသားနှင့် ရောကပ်နေသော ကျောက်စရစ်ခဲလေးများကဲ့သို့ အစုလိုက် အပြုံလိုက် ဖြစ်၏။ ပဲနောက်စေ့၊ မုံညင်းစေ့၊ မျက်သီးခန့်၊ ဆန်ကျိုးခန့် စသည်ဖြင့် အရွယ် အစား အမျိုးမျိုး ဖူးတွေ့ရ၏။ ထိုဓာတ်တော်များကို လက်ဖြင့် ချေမွကြည့်လျှင် အလုံးငယ် လေးများအဖြစ် တခြားစီ ဖြစ်သွား၏။ ထိုအခါမှ အညာတောဆရာတော် ဓာတ်တော်ကျ သည်ဆိုသော သတင်းစကားမှာ ရေစကြို တစ်နယ်လုံးသို့ ပျံ့နှံ့သွား၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၄

**သာမန်ရဟန်းဟု ထင်ခဲ့**

ယခင်က ဒကာ၊ ဒကာမများသည် ဆရာတော်၏ ရိုးသားသော အနေအထိုင် ပြောဆို ပုံတို့လောက်ကိုသာ အကဲခတ်၍ သာမန် ရဟန်းတစ်ပါးအဖြစ်ဖြင့် ကိုးကွယ်ခဲ့ကြ၏။ ဆရာ တော် ပျံလွန်တော်မူ၍ ဓာတ်တော်များကျလာမှ အံ့အားသင့်ကာ ကြည်ညို ဝမ်းမြောက်မဆုံး ဖြစ်ခဲ့ကြရ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၅

**ဓာတ်တော်ကျမှ ရဟန္တာမှန်း သိကြရ**

မြန်မာပြည်မှာ ရဟန္တာ ပုဂ္ဂိုလ်တွေ အဆက်မပြတ်ရှိနေပါတယ်။ ဒါပေမယ့် ငါရဟန္တာပါလို့ မပြောကြလို့ပါ။ ရဟန္တာဆိုပြီးတော့လည်း ဆိုင်းဘုတ်ဆွဲမထားလို့ပါ။ ဒါကြောင့် ရဟန္တာပုဂ္ဂိုလ် ရှိရာကို လက်ညှိုးညွှန်လို့ မဖြစ်နိုင်ပါ။ ထိုဆရာတော်တွေ ပျံလွန်တော်မူလို့ မီးသင်္ဂြိုဟ်လိုက်တဲ့ အခါ ဓာတ်တော်တွေကိုမြင်မှ အံ့သြပြီး ကြည်ညိုရတာ ခဏခဏပါပဲ" ဟု လေ့လာသိမှတ်ခဲ့ဖူး သည်။

ဤသို့အားဖြင့် အညာတောဆရာတော် ဦးဝိလာသ အရှင်မြတ်ကား ရဟန္တာဟု ကျော်ကြားကာ ထင်ရှားခဲ့လေသည်။

ကျမ်းကိုး။ ချမ်းမြေ့ရိပ်မြိုင် ညောင်ပင်အိုင်၊ စေတနာလှိုင် (ရေစကြို) တတိယအကြိမ်၊ စာ ၇၁ - ၇၅၊

http://www.dhammadownload.com



ကိစ္စရှိလျှင် နတ်တို့လာ၍ လျှောက်ထားသည်ဟု ကျော်စောသော
အရိုးပြာများ မြစ်ညာသို့ ကိုက်(၅၀)ခန့် ဆန်တက်သွားသော
ပဲခူးတိုင်း၊ နတ်တလင်းမြို့နယ်၊ မဟာစည်ရိပ်သာ

# ဘဒ္ဒန္တကောသလ

၁၉၁၉ - ၂၀၀၁



http://www.dhammadownload.com



ပဲခူးတိုင်း နတ်တလင်းမြို့ မဟာစည်သာသနာ့ရိပ်သာ၏ ဦးစီးပဓာန နာယကဖြစ်တော်မူသော "အဂ္ဂမဟာကမ္မဋ္ဌာနာစရိယ" ဘွဲ့တံဆိပ်တော်ရ ဆရာတော်ကြီး တစ်ပါးဖြစ်ပါသည်။

**ဖွားသက္ကရာဇ်**

အေဒီ ၁၉၁၉ ဘဒ္ဒန္တကေသရ မဟာထေရ်သည် ၁၂၈၁ ခုနှစ်၊ တပေါင်းလပြည့်ကျော် ၁၀-ရက် တနင်္လာနေ့ နံနက် ၁၀ နာရီအချိန်တွင် ဖွားမြင်တော်မူသည်။

**ခန္ဓာဝန်ချတော်မူသောနှစ်**

အေဒီ ၂၀၀၁ ၁၃၆၃ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၁၂ ရက် အင်္ဂါနေ့ နံနက် ၇ နာရီ ၁၅ မိနစ်အချိန်တွင် ပျံလွန်တော်မူသည်။ သက်တော် ၈၂ နှစ်၊ သိက္ခာတော် ၆၂ ဝါ၌ ပျံလွန်တော်မူခြင်းဖြစ်ပေသည်။

ကျမ်းကိုး၊ ထူးမြတ်အံ့ဖွယ် မဟာထေရ် ဦးသီလာစာရ (မဟာစည်)၊ မြတ်မင်္ဂလာစာစောင်၊ အတွဲ-၁၊ အမှတ်-၃၊ ၂၀၀၂ ခုနှစ်၊ စက်တင်ဘာလ စာ-၁၄။

**ရောင်ခြည်တော် ကွန့်မြူး**

အေဒီ ၂၀၀၀ ၁၃ ရက်နေ့ ညသန်းခေါင်ကျော် ၁ နာရီခွဲခန့်တွင် ကျောင်းတိုက်ဝင်းအတွင်းရှိ "လောကထွဋ်တင်မြတ်ဘုန်းရှင်"စေတီတော်မှ ထူးခြားတိုက်ဆိုင်စွာပင် ရောင်ခြည်တော်များကွန့်မြူးတော်မူပါသည်။

**သတိအလွန်ကောင်း**

မဟာထေရ်မြတ်သည် ဆေးရုံတက်ရောက်သည့်နေ့မှ ဘဝနတ်နန်း စံလွန်တော်မူသည်အထိ သတိအလွန်ကောင်းလှသည်။ ဖူးမြော်သူတိုင်းကိုမှတ်မိကာ စိတ်ချမ်း သာအောင် ပြောဆိုဆုံးမတတ်ပါသည်။ ပြင်းထန်သော ရောဂါဝေဒနာကိုခံစားရသော်လည်း ညည်းညူခြင်းအလျဉ်းမရှိပါ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၄

မဟာထေရ်မြတ်ဆေးရုံတက်သည့်နေ့မှ ဧရာဝတီမြစ်အတွင်း မဟာထေရ်မြတ်၏ အရိုးနှင့်ပြာများကို မျှောသည့်နေ့အထိ ထူးမြတ်အံ့ဖွယ်အချက် ၈ ချက်ကို မှတ်တမ်းတင်ထားရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅ ကိုကြည့်

ယင်းတို့မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

အေဒီ ၂၀၀၀ ရန်ကုန်မြို့၊ နန်းငွေတောင်ကျောင်းတိုက်၌ ခေတ္တသီတင်းသုံးတော်မူစဉ် သီတင်းကျွတ်လပြည့်ကျော် ၈ ရက်နေ့ ည ၁၁နာရီခန့်တွင် ဘုန်းကြီးအခန်း (နတ်တလင်းမြို့ မဟာစည် သာသနာ့ရိပ်သာ ဝါဆိုကျောင်းရှိ မဟာထေရ်မြတ်သီတင်းသုံးရာခန်း)ကို "သူခိုးနှစ်ယောက် ကပ်တယ်"ဟု နန်းငွေတောင်ဆရာတော်အား မိန့်ကြားပါသည်။

"ဘယ်နေရာကိုကပ်ပါသလဲ ဘုရား"ဟုမေးလျှောက်သောအခါ "တံခါးနားမှာ"ဟုမိန့်ကြားပါသည်။

"ဆရာတော်ဘယ်လို သိပါသလဲဘုရား"ဟုမေးလျှောက်သောအခါ ပြန်လည်မိန့်ကြားခြင်းမပြုတော့ပါ။

နောက်တစ်နေ့ သီတင်းကျွတ်လပြည့်ကျော် ၉ ရက်နေ့တွင် နတ်တလင်းမြို့ မဟာစည်သာသနာ့ရိပ်သာသို့ ပြန်လည်ကြွရောက်တော်မူခဲ့ပါသည်။

ဝါဆိုကျောင်းစောင့်ရှောက်ရန် တာဝန်ကျသော အရှင်ကုမာရ (မွှာစရိယတန်း)က ယမန်

http://www.dhammadownload.com



နေ့ ည ၁၁ နာရီခန့်တွင် သူခိုးတစ်ယောက်ကို ဆရာတော့်အခန်းရှေ့ ပထမသံဆန်ခါ တံခါးနှင့် လေးပေခန့်အကွာ ဒုတိယသစ်သားတံခါးအကြား၌ ဖမ်းမိကြောင်း သူခိုးတစ်ယောက်မှာ လွတ်မြောက်သွားကြောင်း ရောက်မဆိုက်ပင် နန်းငွေတောင်ဆရာတော်ကို လျှောက်ထားပါသည်။

"သူခိုးကပ်တာ ဘယ်လိုလုပ်ပြီး သိပါသလဲဘုရား" ဟုတပည့်များက မေးလျှောက်သောအခါ "ဘုန်းကြီးကို နတ်တွေလာလျှောက်ထားကြတယ်" ဟုမိန့်ကြားပါသည်။ "နတ်တွေက ဆေးကုပေးသွားပါသေးသလား ဘုရား" ဟု မေးလျှောက်သောအခါ "ဆေးတော့ကုမပေးဘူး၊ လက်တော့ကိုင်သွားတယ်" ဟုမိန့်ကြားပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅

အေဒီ ၂၀၀၀ တန်ဆောင်မုန်းလဆန်း ၂ ရက်နေ့မဟာထေရ်မြတ် ရောဂါသည်းနေချိန် ည ၇ နာရီခန့်မှ ၈ နာရီခန့်အချိန်အတွင်း ဝါဆိုကျောင်းအထက် အတောင်နှစ်ဆယ်ခန့်မျှအထိ "ဖြူနီညိုပြာ၊ စိမ်းဝါခရမ်း၊ ရောင်ပြွမ်းပြောထွေ ဖြာဝေလေင်းလက် ပြိုးပြိုးပြက်ကြယ်ပမာ ညာကျေအောက်ထက် ဆင်းသက်တက်တုံ အရောင်စုံ" ကိုကျောင်းတိုက်အနီးရှိ ကျူရှင်ကျောင်းသားများနှင့် တကွ ဒကာ၊ ဒကာမအချို့ ဖူးတွေ့ကြရပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆

အေဒီ ၂၀၀၀ တန်ဆောင်မုန်းလဆန်း ၁၂ ရက်နေ့ နံနက် ၄ - နာရီခန့်တွင် တစ်ကြိမ်၊ ၆ နာရီခန့်တွင် တစ်ကြိမ် "ဘုန်းကြီးပျံလွန်တော်မူတော့မယ်"ဟု နှစ်ကြိမ်မိန့်ကြားပါသည်။ တပည့်သံဃာတော်များနှင့် သီလရှင်များကမေတ္တသုတ်၊ ဇောဇ္ဈင်သုတ်၊ အာဋာနာဋိယသုတ်နှင့် ပုဗ္ဗဏှ သုတ်များကို ရွတ်ဖတ်ပူဇော်ပြီးသောအခါ သာဓုသုံးကြိမ်ခေါ်တော်မူပါသည်။ မဟာထေရ်မြတ်က မဟာသတိပဋ္ဌာနသုတ်ကိုရွတ်စေသဖြင့် တပည့်များက မဟာသတိပဋ္ဌာနသုတ် ရွတ်ဖတ်ပူဇော်သည်ကို နာကြားရင်းပင် နံနက် ၇ နာရီ ၁၅ မိနစ်အချိန်၌ ညာဘက်သို့ ဦးခေါင်းတော်စောင်းလျက် ညင်သာစွာပင် ပျံလွန်တော်မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆

အေဒီ ၂၀၀၀ အစိုးရိမ်ကြီးလွန်းသော တပည့်များက ရုပ်ကလာပ်တော်ကို တစ်လခွဲခန့်ခံ ဆေးထိုးထားသော်ငြားလည်း ထူးခြားစွာပင် ဆံတော်ရှည်လာခြင်း၊ လက်သည်းတော်၊ ခြေသည်းတော် ရှည်လာခြင်းတို့ကို ဖူးတွေ့ရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆

အေဒီ ၂၀၀၀ ပျံလွန်တော်မူသည်မှ ဈာပနရက်အထိ တစ်လနှင့် သုံးရက်ကြာကာလအတွင်း ကိုယ်ခန္ဓာ ပျော့ပျောင်းစွာရှိပြီး ခေါင်း၊ ခါး၊ ခြေ၊ လက် စသည်တို့မှာ ကွေးဆန့်၍ရပါသည်။ ပျံလွန်တော်မူသည့်နေ့မှာပင် ဟိတေသီအမျိုးသမီးများအဖွဲ့နှင့် ပရိသတ်ရှေ့မှောက်၌ မဟာထေရ်မြတ်၏ ခြေတော်လက်တော်များကို ကွေးဆန့်ကြည့်ကြပါသည်။ နောက်ပိုင်းတွင်၎င်းသို့ ကွေးဆန့်ကြည့်ကြသူ များပြားလာသဖြင့် ရုပ်ကလာပ်တော်ကို ကိုင်တွယ်ခြင်းမပြုရန် တားမြစ်ခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆

အေဒီ ၂၀၀၀ မီးသင်္ဂြိုဟ်သောအခါ၌ ရုပ်ကလာပ်တော်မှာ ကုန်းကွခြင်းမရှိပါ။ ညှော်နံ့လည်း လုံးဝ မထွက်ပါ။

http://www.dhammadownload.com



အေဒီ ၂၀၀၀ မီးသင်္ဂြိုဟ်သောအခါဝယ် စက္ကူတိုင်ဖုံး၊ စက္ကူပြာသာဒ်၊ ဝါး၊ သစ်သားတို့ဖြင့် ဆောက်လုပ်ထားသော ၉ ပေပတ်လည်ကျယ်ဝန်းသည့် လောင်တိုက်ကိုမီးမလောင်ပါ။ မီးပြင်းဟုန်းဟုန်းတောက်လောင်ကျွမ်းသည်မှာ သုံးနာရီခွဲခန့် ကြာပါသည်။ သို့သော်ငြား မီးကျွမ်းခြင်း၊ မီးခိုးမှိုင်းစွဲခြင်းပင်မရှိပါ။ မီးတောက်မီးလျှံတို့သည် စက္ကူပန်းဆွဲများနှင့်တွေ့ထိတိုင်း ပိုင်း၍ ပိုင်း၍ပြတ်သွားသည်မှာ ကြည့်၍ပင်ကောင်းလှပါသည်။ တစ်ခါတစ်ရံ စက္ကူပန်းပုံထွင်းထားသောအပေါက်ငယ်မှ မီးတောက်မီးလျှံများတိုးထွက်သွားပြီး မီးကူးမီးစွဲခြင်း မရှိသည်မှာ အံ့ဩဖွယ်ရာပင်ဖြစ်ပါသည်။ ဤတွင်ပင် တစ်လုံးမှာ နစ်မြုပ်သွားပါသည်။ ကျန် ၂ လုံးမှာ မြစ်ညာသို့ ကိုက် ၅၀ ခန့် ဆန်တက်သွားပြီးမှ မြစ်ခြေသို့ မျောသွားကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆

"ဆရာတော် ပျံလွန်တော်မူရင် ဘယ်ဘုန်းကြီးဆီကမှ ဝတ္ထုငွေမခန့်ခွဲနဲ့၊ လှူလိုကလှူပါစေ ရက်အကြာကြီးမထားနဲ့ ဆိုင်းတို့၊ ဗယင်ကျူးတာတို့နဲ့အကျယ်မချဲ့နဲ့ မြန်မြန်မီးသင်္ဂြိုဟ်ပြီး အရိုးပြာကို မြစ်ထဲသာမျှောလိုက်ကြ"ဟု လည်းကောင်း နိမိတ်ပြစကားများ မြွက်ကြားတော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆

အေဒီ ၂၀၀၀ "ဘုန်းကြီးအတွက်မပူနဲ့ ဘုန်းကြီးအားလုံးပြည့်စုံပြီ" ဟု မိန့်ကြားတော်မူကြောင်း နောက်ဆုံးသိရှိရပါသည်။

ကျမ်းကိုး။ မဟာထေရ်မြတ်ပျံလွန်တော်မမူမီနေ့ ၂ နာရီအချိန်ခန့်တွင် တပည့်သံဃာများနှင့် သီလရှင်များ ခေတ္တအနားယူခိုက် အနီးကပ်ပြုစုစောင့်ရှောက်နေသော တပည့်ရင်းဖြစ်သူ ဒကာကြီးဦးစိုးမြင့် (အငြိမ်းစားဒိုင်မှူး)အား မိန့်ကြားခဲ့ကြောင်း သိရှိရပါသည်။

ကျမ်းကိုး၊ ထူးမြတ်အံ့ဖွယ် မဟာထေရ်။ ဦးသီလာစာရ (မဟာစည်)၊ မြတ်မင်္ဂလာစာစောင်၊ အတွဲ-၁၊ အမှတ်-၃၊ ၂၀၀၂ ခုနှစ်၊ စက်တင်ဘာလ စာ-၁၄။

http://www.dhammadownload.com



ရဟန္တာဟု သမုတ်ကြသော ကနီဆရာတော်ဘုရားကြီးနည်းဖြင့် ကျင့်ကြံ၍
ဓာတ်တော်များနှင့်တကွ ထူးခြားဆန်းကြယ်ဖြစ်ရပ်များကြောင့်
ဟိုးဟိုးကျော်သော ရဟန္တာအရှင်မြတ်ကြီး

# မောင်းထောင် မြေဇင်းဆရာတော်

**၁၉၂၀ - ၂၀၀၄**



http://www.dhammadownload.com



**တည်နေရာ**

တောရကျောင်းကလေးတည်ရှိရာ ဒေသကား မိုးခေါင်ရေရှားသော မုံရွာခရိုင် ဘုတလင်မြို့နယ် ဝန်းကျင်၌ဖြစ်သည်။ ကျောင်းပတ်ဝန်းကျင် အရပ်လေးမျက်နှာ၌ ထန်းပင်များနှင့် တောင်ယာကွင်းပြင်များက ဝိုင်းရံထား၏။

ကျမ်းကိုး၊ ကျတ်တီးကုန်းမှာပွင့်သောပန်း။ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ရတနာမွန်မဂ္ဂဇင်း၊ အတွဲ ၁၆၊ အမှတ် - ၃၊ ၁၉၈၉၊ မတ်လ၊ စာ-၄၆

**ကျတ်တီးကုန်းအကြောင်း အစောကြီးသိနေသော ဦးဌေးလှိုင်**

၂ -ဧကခန့်ရှိသော ကျတ်တီးကုန်း ယာမြေကွက်မှာ မည်သည့်သီးပင်မျှ စိုက်ပျိုး၍ မရသဖြင့် တောရ ကျောင်းဝင်း ဖြစ်လာသည်။

အရိပ်အာဝါသကောင်းသော သစ်ကြီးဝါးကြီးမရှိ။ သန်းပင်၊ ဒဟတ်ပင်၊ ရှားပင်၊ တမာပင်နှင့် ဆူးချုံများသာရှိ၏။ နွေခါတွင် ထိုအပင်များမှာလည်း အရိုးနှင့်ကျဲကျဲ လေတဟဲဟဲနှင့် မွဲခြောက်နေ၏။

**ထန်းရွက်တဲကြီးသာရှိ**

ကျောင်းဝင်းအတွင်း၌လည်း တစ်ယောက်နေ ကမ္မဋ္ဌာန်းကျောင်းကလေးများနှင့် ထန်းရွက်တဲကြီး သာရှိ၏။ ထန်းရွက်တဲကြီးကား စုပေါင်း သီလယူ တရားထိုင်ရာ ဓမ္မာရုံတည်း။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၆

**ဆန်ပြုတ်ပဲ သောက်ရ**

တောကျောင်း၌ ဝေယျာဝစ္စလုပ်သောကိုရင်ငယ် ၂-ပါးနှင့် ကပ္ပိယကာရက တစ်ဦးရှိရာနံနက် အရုဏ်အတွက် ဆန်ပြုတ်သောက်ကြရသည်။ အဆီအစေးမရှိသော အညာဆန်ဖြင့်ပြုတ်ထား သော ဆန်ပြုတ်မှာကျဲတောက်တောက်၊ အရည်တခြား၊ အဖတ်တခြား။ ထိုသို့နေ့စဉ်ဆန်ပြုတ် ပြုတ်လောက်အောင် ဆန်အလျှင်မီနေသည်ကိုပင် "တရားတန်ခိုး" ဟုပြောစမှတ်ပြုနေကြ သည်။

**နေ့ဆွမ်းဆိုတာ**

နေ့ဆွမ်းအတွက် အစောပိုင်းနှစ်များက ဆရာတော်ကြီးကိုယ်တိုင် ပတ္တပိုဏ်ဆွမ်းခံစား၏။ ဟင်းများကို တူရာပေါင်းလိုက်လျှင် ၄ - ခွက်သာရှိ၏။ ချဉ်ရည်၊ ငရုတ်သီးဟင်း၊ ပဲကြားပြုတ် နှင့်အညာအသား ဟင်းခေါ်သောငါးပိကောင်ကြော်၊ ထိုငါးပိကောင်ကြော်မှာလည်း အနံ့ အသက်နှင့်တကွ ငန်လွန်းအားကြီးသဖြင့် အလွန်အစားခံ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၉

**မေတ္တာပြင့် ကုသော ဓာတ်လမ်းများ**

"ကရုဏာကတော့ ဒုက္ခိတ သတ္တဝါတွေ ကြုံတွေ့ရတဲ့အခါ သာပြီးပွားလို့ကောင်းတယ်။ ဘုန်းကြီးလက်တွေ့ပြောရရင် ငါးနှစ်လောက်ရှိရောပေါ့ကွာ၊

တောကျောင်းဒကာ ကိုဖိုးအောင်သား တင်ဝင်း၊ ဘာရောဂါလဲမသိပါဘူး။ တီဘီဆို ထင်ပါရဲ့၊ ဘုတလင်ဆေးရုံတက်ရတယ်။ တော်တော်ကြာတော့ ဆေးရုံကဆရာဝန်က "ဒီလူနာတော့မရ တော့ဘူး၊ အိမ်ပြန်ယူကြ" ဆိုလို့ လှည်းနဲ့တိုက်လာကြတယ်။

အိမ်ရောက်တော့ဘာတတ်နိုင်မှာလဲ၊ ဒီလိုပဲဝိုင်းကြည့်နေရတာပေါ့၊ ဒီအချိန်မှာ ကိုဖိုးအောင် ရဟန်းဦးဇာဂရလဲ အောက်ပြည်ကရောက်လာတယ်။ သူကမြန်မာဆေးဝါးတော်တော်နားလည် တယ်။ သူလဲလူနာကြည့်မေးစမ်းပြီး ကျောင်းရောက်လာလို့ 'ဦးဇာဂရလူနာအခြေအနေ

http://www.dhammadownload.com



ဘယ့်နှယ်လဲ' လို့မေးတော့ "လူနာကတော့ ဆရာဝန်တောင် လက်လွှတ်လိုက်ပြီပဲဟာ။ သူ့လက္ခဏာ ကြည့်ရတာလဲ သေဖို့များပါတယ်။ သေမှာပါပဲ"ဆိုတော့ ဘုန်းကြီးစိတ်ထဲမှာ တော်တော် စိတ်မချမ်းသာသွားဘူး။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၁

**ဆရာတော်ကြီး မေတ္တာပွားပုံ**

ဒါနဲ့ ဘုန်းကြီးကလူနာကို၊ လူနာနေတဲ့နေရာကိုမှန်းပြီးကရုဏာပွားတယ်။ စူးစူးစိုက်စိုက်ပွားတယ်။ ဘုန်းကြီးပွားပုံက ဒီလို . . . .

၁။ **ဒုက္ခပ္ပတ္တာစ နိဒ္ဒုက္ခာ၊**
**ဟောန္တု သဗ္ဗေပိ ပါဏိနော။**
ဆင်းရဲ ဒုက္ခရောက်နေတဲ့ သတ္တဝါတွေအားလုံးဆင်းရဲ ဒုက္ခက လွတ်ကင်းကြပါစေ"

၂။ **ဘယပ္ပတ္တာစ နိဗ္ဘယာ၊**
**ဟောန္တု သဗ္ဗေပိ ပါဏိနော။**
ဘေးရန်တွေ့နေတဲ့ သတ္တဝါတွေအားလုံးဘေးရန် ကင်းကြပါစေ"

၃။ **သောကပ္ပတ္တာစ နိသောကာ။**
**ဟောန္တု သဗ္ဗေပိ ပါဏိနော။**
စိုးရိမ်ကြောင့်ကြ၊ ပူပန်သောကရောက်နေတဲ့ သတ္တဝါ တွေ အားလုံး စိုးရိမ်ကြောင့်ကြ၊ ပူပန်သောကက လွတ်ကင်းကြပါစေ"

**စိတ်မျက်စိထဲ လူမမာပေါ်လာ**

မောင်တင်ဝင်း မိဘတွေကစပြီးတော့လဲ ခြေမကိုင်မိ၊ လက်မကိုင်မိ စိုးရိမ်ပူပန်နေကြရှာမယ်။ ဘုန်းကြီးက မြန်မာလိုမဆိုတော့ဘူး၊ ပါဠိလိုပဲတစ်လုံးချင်းတွဲပြီး အနက်အဓိပ္ပါယ်ပေါ်အောင် ဖြည်းဖြည်းကလေး တိုးတိုးကလေး ရွတ်ဆိုပြီးပွားများတယ်။ စိတ်နဲ့အကြာကြီးပို့လွှတ်ပွားများတယ်။ စုစုပေါင်း(၇)ကြိမ်ပွားများတော့ လူမမာကိုမျက်စိထဲမှာ ကွင်းကွင်းကွက်ကွက်ပေါ်လာတယ်။ ကရုဏာအာရုံအဖြစ် ပေါ်လာတယ်။

'ပွားရင်းပွားရင်းနဲ့ အာရုံထဲမှာ လူမမာဟာခြင်ထောင်ကိုဖွင့်ပြီး အိမ်တံခါးပေါက်အထိထ လာတာကိုတွေ့ရတာပဲ။

**မေတ္တာပရိတ်တန်ခိုးတော်ကြောင့် လူမမာကောင်းလာ**

ဒါနဲ့နောက်တစ်ရက်ရောက်တော့

"ဦးဇာဂရ၊ ကိုယ်တော့်လူနာမသေပါဘူး။ စိတ်ချပြီးသာ ပရိတ်ကိုသာအနားကရွတ်ပေးပါ" လို့ဘုန်းကြီးက ရဲရဲပဲပြောလိုက်တယ်။ တကယ်ပဲမောင်တင်ဝင်းဟာ အံ့သြလောက်အောင် နေကောင်းသွားတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၂

**နောက်တစ်ယောက် ကုပုံကုနည်း**

နောက်တစ်ယောက်ကတော့ ဘုန်းကြီးတူမ သိန်းကြွယ်၊ သူကတော့ဆေးရုံမတက်ရပါဘူး။ အိမ်မှာပဲဆရာဝန်နဲ့ဆေးထိုးနေရတယ်။ ရောဂါကသိပ်မသက်သာဘူး။ ရက်က တော်တော် ကြာလာတော့ စိုးရိမ်ရတဲ့အခြေအနေဖြစ်လာတယ်။

ဒါနဲ့ခုနကပြောတဲ့အတိုင်း ကရုဏာပွားပို့တာပါ။ တစ်ရက်နှစ်ရက်လောက်ဆိုရင်ပဲ စိုးရိမ်ရတဲ့

http://www.dhammadownload.com



အခြေအနေကလွတ်လာတယ်။ ဒါပေမယ့် မသက်သာလှသေးဘူး။ မောင်ချစ်ဖေတို့ မအေးရှင်တို့ မိဘတွေကတော့ ပူကြတာပေါ့လေ။

အေးရှင် ကျောင်းလာတော့

"နင့်သမီး မသေဘူးစိတ်ချ။ နင်က လူနာကိုအာရုံပြုပြီး မေတ္တာပို့၊ တရားကိုတိုးပြီးရှုမှတ်၊ မသေစေ ရဘူး၊ ငါတာဝန်ယူတယ်"လို့ပြောလိုက်တယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၂

ဘုန်းကြီးအာရုံထဲမှာက တစ်ရက်နှစ်ရက်လောက်ရှိတော့ လူနာကခြင်ထောင်ထဲမှာ ငုတ်တုတ်ထ ထိုင်တယ်။ ခြင်ထောင်ကိုပါ မ,တင်ပြီးထွက်ထိုင်နေတယ်။

အာရုံထဲမှာ အဲသလိုမလှုပ်ရှားဘူးဆိုရင် အဲဒီလူနာမရဘူးကွ။ ဘုန်းကြီး အတွေ့အကြုံမနည်း တော့ဘူး။

**နောက်တစ်ယောက် ကုပုံကုနည်း**

နောက်တစ်ယောက်က ရေကန်စုက ခင်မောင်ကြီး ဆေးရုံလဲအခေါက်ခေါက်အခါခါရှိနေပြီ၊ ဆင်းရဲရတဲ့ကြားထဲ ပိုက်ဆံက ကုန်၊ လူကမသက်သာ၊ ဆရာဝန်ကအရိုးတီဘီလို့ ယူဆပုံပေါ်ပါ တယ်။ ဒီရောဂါမျိုးက ကုရပိုခက်တယ်။ မေးလိုက်တိုင်း ကြားရတဲ့သတင်းက မကောင်းဘူး။ ရက်တွေလတွေလဲကြာလှပြီ။ အိပ်ရာထဲမှာပဲ နေရသတဲ့။

ဒါနဲ့ဘုန်းကြီး ကြိုးစားပြီးပွားပါတယ်။ ၂ ရက်၊ ၃ ရက်၊ ၄ ရက်၊ ၅ ရက် မထူးဘူး အာရုံထဲမှာ။ အင်း ဒီကောင်တော့ မလွယ်ဘူးထင်တယ်။ ဒါပေမယ့် မလျှော့ဘူး။ ၇ ခေါက်နှင့်မရ၊ ၇၇ ခေါက်၊ တစ်နေ့ ၂ ကြိမ်၊ ၃ ကြိမ်၊ သတိရတိုင်းပို့တာ၊ တစ်ပတ်လောက်ရှိလို့မေးကြည့်တော့ လူနာစားနိုင်သောက်နိုင်ရှိလာပြီ။ ထိုင်တောင်ထိုင်နိုင်ပြီ လို့ပြောတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၂

ဘုန်းကြီးလဲ တော်တော်အားတက်လာတယ်။ ဒါနဲ့ကရုဏာဆက်ပွား၊ ရက်တော်တော်ကလေး ကြာတော့ လူအတွဲနှင့်တောင်ဝေ့နှင့်တော့ နည်းနည်းသွားနိုင်ပြီလို့ဆိုတယ်။ ဒီကောင်မှာ နည်းနည်းခက်တယ်။ အာရုံထဲမှာအပေါ်ပိုင်းကပဲ သွက်သွက်လက်လက်လှုပ်ရှားနိုင်တယ်။ အောက်ပိုင်းက တုံ့နှေးနှေးကြီးဖြစ်နေတယ်။ အာရုံထဲမှာလဲ ဝါးနေတယ်။

"အဲ ခုဆို တစ်နှစ်လောက်ရှိပြီ နေကောင်းလာတာ။ ဒါတောင်မှ အောက်ပိုင်းကသွားတာ လာတာ ဆာတာတာ၊ ဆတ်တတ်တတ်၊ ချည့်နဲ့နဲ့ရှိနေတုန်းပဲ။ သတ္တဝါရဲ့ ကံတွေကလဲ ရှိဦးမှာ ပေါ့လေ"

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၃

တောရဆရာတော်ကြီး၏ ကိုယ်တွေ့မေတ္တာကရုဏာဖြစ်ရပ်များသည် စိတ်ဝင်စားဖွယ်ကောင်း သကဲ့သို့ မိန့်ကြားသော မေတ္တာ၊ ကရုဏာစကားတို့မှာလည်း သတိချပ်စရာပင်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၃

(ကျမ်းကိုး၊ ကျတ်တီးကုန်းမှာပွင့်သောပန်း၊ ဓမ္မာစရိယ ဦးဒွေးလှိုင်၊ ရတနာမွန်မင်္ဂဇင်း၊ အတွဲ ၁၆၊ အမှတ် - ၃၊ ၁၉၈၉၊ မတ်လ၊ စာ-၄၆)

မောင်းထောင်ယွန်းဆက်တိုက်မှ လက်ရှိဆရာတော်အရှင်ကုဏ္ဍာစာရက ဤသို့မှတ်တမ်းပြုထား သည်။

http://www.dhammadownload.com



**ကနီရွှေသိမ်တော် တောရဆရာတော် ဦးသောဘိတထံ တပည့်ခံ**

အေဒီ ၁၉၆၃ ၁၃၂၅ ခုနှစ်တွင် (မြေဇင်းဆရာတော်သည်) ဘုတလင်မြို့နယ်၊ အင်ချောင် ဆရာတော် အရှင်သီရိသုန္ဒရထံ၌ ဝါကပ်ပြီး ကမ္မဋ္ဌာန်းနည်းခံကာ ကနီရွှေသိမ်တော် တောရ ဆရာတော် အရှင်သောဘိတထံတွင် ကမ္မဋ္ဌာန်းတရားနည်းခံ အားထုတ်၏။

အင်ချောင် ဆရာတော်မှာလည်း ကနီရွှေသိမ်တော်တောရ ဆရာတော်၏ တပည့်ပင်ဖြစ်၍ ဆရာကဲ့သို့ပင် စရိယမဂ္ဂပါရဂူကျမ်းကို ပြုစုခဲ့သူဖြစ်သည်။

(ကျမ်းကိုး၊ မြို့ကနီဘို့မယ်ချောင်မှ မှို့သာခေါင် တောင်တော်တစ်လွှားဆီသို့ (၄)၊ ဇင်ညိုငယ်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း အမှတ် ၂၅၉ ၊ ဖေဖော်ဝါရီ ၂၀၀၈၊ စာ-၉၇)

**ကနီဆရာတော်ကြီးက မြေဇင်းဆရာတော်အား ပေးသော ဩဝါဒ**

"သင်္ကာယအရာ လိမ္မာအောင်လုပ်"ဟုဆုံးမတော်မူသည်။ ထို့အပြင် 'ထွက်တယ်၊ ဝင်တယ်၊ အာနာပါနကို သင့်လျော်တဲ့ ဣရိယာပုတ်နဲ့ အားထုတ်တဲ့ယောဂီဟာ နိဝရဏငါးပါးကို ပယ်ရာရောက်တယ်။ ဒါကြောင့်ကိုယ်၊ နှုတ်၊ စိတ်ကို စောင့်ရှောက်ရာလဲရောက်ပါတယ်။ ကာယကံသုံးပါး လုံခြုံတော့ လူ့ဘုံနတ်ဘုံလွတ်တယ်။ မနောကံလုံခြုံတော့ အနုသယ ကိလေသာတွေ ချုပ်ပြီးတောင်မှ သေခါနီးမှာ သမသီသီရဟန္တာဖြစ်နိုင်တယ်။ မဖြစ်ခဲ့သေးရင် ဒုတိယဘဝမှာ နတ်သားဖြစ်ပြီးဓမ္မကထိကနတ်သားရဲ့ တရားဒေသနာ နာကြားရပြီး ရဟန္တာဖြစ်နိုင်တယ်။ ဒီလိုမဖြစ်တောင်မှ နောင်ပွင့်မယ့် ဘုရားရှင်ထံမှာ သုခပဋိပဒါခိပ္ပါဘိည ရဟန္တာဖြစ်နိုင်တယ်။ အဲ့ဒီလောက် အကျိုးကြီးမားတယ်" ဟုဩဝါဒကထာ မြွက်ကြားတော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၈

**ကနီဆရာတော်နှင့် ဘွဲ့ချင်းတူနေ၍ အမည်ပြောင်းရ**

ကနီဆရာတော်ထံရောက်၍ ဘွဲ့မည်မေးသောအခါ ဆရာတော်၏ ဘွဲ့နှင့်တူနေသဖြင့် အဂါရဝ ဖြစ်မည်စိုးသောကြောင့် ဦးသုဇာတဟူ၍ ဘွဲ့မည်ပြောင်း၍လျှောက်ထားခဲ့သည်။

**ကနီဆရာတော်၏ နည်းပညာ**

ကနီဆရာတော်ကြီးက "မောင်းထောင်ဦးသုဇာတ၊ အိန္ဒိယ သီဟိုဠ် (သီရိလင်္ကာ) နိုင်ငံကို ဘုရားဖူး ရောက်ဖူးလား"

"မရောက်ဖူးပါဘုရား"

"ကျုပ်တို့တော့ နံနက် (၉)နာရီလောက်က ဘုရားဖူးပြီးပြန်ခဲ့တယ်"ဟုထူးခြားစွာ မိန့်တော်မူခဲ့သည်။

**နမောတဿ ရှိခိုးရုံနှင့် ကမ္ဘာတစ်သိန်း အပါယ်မလား**

ကနီဆရာတော်ထံသို့ရောက်ရှိလာကြသူတို့ကို အရပ်မျက်နှာများသို့လှည့်လည်ဦးချရခြင်းအကြောင်းကိုရှင်းလင်း မိန့်ကြားပြီး "နမောတဿ" သုံးကြိမ်ရွတ်ဆို ဦးချစေပါတယ်။ တစ်ကြိမ်တစ်ခါမျှ ရှိခိုးဦးချရုံမျှဖြင့် ကမ္ဘာတစ်သိန်း အပါယ်မလားနိုင်ကြောင့် မိန့်တော်မူလေ့ရှိသည်။

**နေ့စဉ် ဘုရားရှိခိုးပုံ ရှိခိုးနည်း**

မြေဇင်းတောရ ဆရာတော်သည်လည်း ကနီဆရာတော်ကြီး၏ အတုကိုယူကာ ၁၃၂၅ ခုနှစ်မှစ၍ အိန္ဒိယနိုင်ငံရှိ သံဝေဇနိယဌာနများ၊ သီရိလင်္ကာရှိ စွယ်တော်၊ ညုပ်ရိုးတော်၊ ဓာတ်တော်ဇောဓိပင်၊ ရွှေတိဂုံစေတီရှိ ဘုရားရှင်လေးဆူ၏ ဓာတ်တော်မွေတော်များအား နေ့စဉ်ရှိခိုးဦးချတော်မူလေ့ရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၈

http://www.dhammadownload.com



**မောင်းထောင် မြေဖင်းဆရာတော်ကိုယ်တိုင် မိန့်ကြားချက်**

အေဒီ ၁၉၆၃

ဘုန်းကြီး ၁၃၂၅ ခုနှစ်က ကနီဆရာတော်ကြီးထံသွားတရားအားထုတ်တော့ အဲဒီတုန်းက ကနီဆရာတော်ကြီးဘွဲ့နဲ့ဘုန်းကြီးဘွဲ့က တူနေတော့ ဆရာသမားဘွဲ့နဲ့ တူတာလျှောက်လို့ မကောင်းပါဘူး။ ဆိုပြီးဘုန်းကြီးဘွဲ့မေးတော့ သုဇာတပါဘုရားလို့ လျှောက်လိုက်တယ်။ ဒါနဲ့ ဆရာတော်ကြီးကခေါ်ပြီး ဩဝါဒပေးတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၉

**အရဟံ တန်ခိုး**

တချို့က ဒါလေးလွယ်ပါတယ် ဆိုပြီး အရဟံ၊ အရဟံလို့ပွားတာ အဓိပ္ပါယ်မသိတော့ ခပ်ပေါ့ပေါ့ လျော့ရဲရဲ လုပ်တတ်ကြတယ်။ မလုပ်ကြနဲ့။ အစကောင်းမှအနှောင်းသေချာဆိုတာ ဒါတွေ ပြောနေတာ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၉

**အားထုတ်ပုံ အားထုတ်နည်း**

ယောဂီတို့ ဒီကနီနည်းအားထုတ်တော့ဝါရမှတ်တယ် ဝါရရေတွက်တယ်။ ဒီနေ့ ဝါရဘယ် လောက်အပ်တယ်လို့ပြောကြတာ ဝါရဆိုတာ ပါဠိစကား။ မြန်မာလို ဝါရဆိုတာ အကြိမ်ကို ရေတွက်ခြင်းလို့ခေါ်တာ၊ ယောဂီ တို့ကနီနည်း သမထ စ,မှတ်တော့ မိမိရဲ့စိတ်ကလေးကို "နှာသီးဖျား ချည်တိုင်"မှာ "သတိကြိုး" ကလေးနဲ့ချည်ပြီးတော့

ထွက်သည်၊ ဝင်သည် တစ်
ထွက်သည်၊ ဝင်သည် နှစ်
ထွက်သည်၊ ဝင်သည် သုံး
ထွက်သည်၊ ဝင်သည် လေး
ထွက်သည်၊ ဝင်သည် ငါး
ထွက်သည်၊ ဝင်သည် ခြောက်
ထွက်သည်၊ ဝင်သည် ခုနစ်
ထွက်သည်၊ ဝင်သည် ရှစ် အဲသလို ရှစ်ခုကို တစ်ဝါရ။
တစ်ဝါရကို လက်ချောင်းကလေးရွှေ့ချိုးမှတ်။
ဆယ်ချောင်းပြည့်သွားရင် ညာလက်ကောက်ဝတ်မှာ စိတ်နဲ့မှန်းတင်ထား။
နောက် တံတောင်ဆစ်
နောက် ပခုံး
နောက် နားရွက်
နောက် ချိုစောင်း

ညာဘက် ငါးဆယ် ပြည့်သွားပြီ။ ဘယ်ဘက်လဲ ငါးဆယ်။ နှစ်ဖက်ပေါင်းတစ်ရာပေါ့။ အဲသလို မှတ်ပြီးအကြိမ်ရေတွက်တာကို ဝါရလို့ခေါ်တာ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၀၀

**မောင်းထောင် မြေဖင်းဆရာတော် ဟောသော နည်း**

ယောဂီတို့ ခုလိုရှုမှတ်အားထုတ်နေတာဟာ မြတ်စွာဘုရားရှင်ရဲ့ မဂ္ဂင်ရှစ်ပါးထဲက သမ္မာသတိ၊ သမ္မာဝါယမဆိုတဲ့ မဂ္ဂင်ဖောင်ကြီးပေါ်ရောက်နေတာ။ ကနီဆရာတော်ကြီးက ဒီမဂ္ဂင်ရှစ်ပါး ဟာ နတ်ပြည်၊ ဗြဟ္မာပြည်မှာဖြစ်တာမဟုတ်ဘူး။ ဤလူ့ပြည်မှာသာ ဖြစ်တာတဲ့။ လူ့ပြည်မှာ

http://www.dhammadownload.com



လဲ ဤစကြဝဠာဘုရားပွင့်တဲ့ခေတ်မှာဖြစ်တာ ကျွန်းကြီးလေးကျွန်းထဲကလဲ တောင်ကျွန်းမှာသာ ဖြစ်တာ။ တောင်ကျွန်းမှာလဲ မဇ္ဈိမဒေသဘုရားပွင့်ရာ မဟာဗောဓိပင်ရင်းကစဖြစ်တာ။ ဒါတောင် ဒီမဂ္ဂင်ရှစ်ပါးက လေးသချေင်္နဲ့ ကမ္ဘာတစ်သိန်းပါရမီတော်တွေဖြည့်ကျင့်ခဲ့တဲ့ ဘုရားရှင်ကမှကြံဆဟောပြောနိုင်တာ။ ဘုရားရှင်မဟောဘဲ လူပညာရှိ နတ်ပညာရှိ ဗြဟ္မာပညာရှိတွေမကြံဆ၊ မဟောပြောနိုင်ဘူး၊ ခုယောဂီတို့ကံကောင်းလိုက်တာ၊ ယောဂီတို့စီးဖို့ဘုရားရှင်က မျှောပေးခဲ့တာ။ ဒါကြောင့်ယောဂီတို့စီးနိုင်အောင် စီးဖြစ်အောင်ကြိုးစားကြ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၀၀

**ထွက်လေ ဝင်လေ အရဟံ**

ကနီနည်း အားထုတ်ခဲ့ကြတဲ့ယောဂီတွေဟာ အရဟံဂုဏ်တော်စ, ပွားရပါတယ်။ ဂုဏ်တော်တွေထဲမှာလဲ ဒီအရဟံဂုဏ်တော်ကြီးကလိုရင်းပါ။ နေ့စဉ်နေ့တိုင်း သက်တော်ထင်ရှားမြတ်ဘုရားကို စိတ်ကမှန်းပြီးပွားပါ။ အန္တရာယ်လဲကင်းတယ်။ လာဘ်လာဘလဲပေါတယ်။ အရဟံဂုဏ်တော်ပွားမယ်ဆိုရင် ထွက်လေဝင်လေ၊ ထွက်တိုင်းဝင်တိုင်း

ရှူတယ်၊ အရဟံ

ရှိုက်တယ် အရဟံ

ဘယ်လှမ်းတယ်၊ အရဟံ

ညာလှမ်းတယ်၊ အရဟံ

ရေသောက်တယ်၊ အရဟံ

စားတယ်, ဝါးတယ်၊ အရဟံ

ဣရိယာပုတ်လေးပါးလုံး တရစပ်မှတ်နေရတယ်။ ပါဠိရော အနက်ပါသိပြီးစူးစူးစိုက်စိုက်ဆင်ခြင်ပွားများ၊ ဘုရားတရားတော်တွေက မယုံနိုင်အောင်ဆန်းကြယ်တာ။ အင်မတန်လဲ အကျိုးများတယ်။ မကြာခင်ကိုယ်တွေ့ဖြစ်လာကြမှာ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၀၀

(ကျမ်းကိုး၊ ကျတ်တီးကုန်းမှာပွင့်သောပန်း၊ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ရတနာမွန်မဂ္ဂဇင်း၊ အတွဲ ၁၆၊ အမှတ် - ၃၊ ၁၉၈၉၊ မတ်လ၊ စာ-၄၆)

(ကျမ်းကိုး၊ မြို့ကနီဘို့မယ်ချောင်မှ မျို့သာခေါင် တောင်တော်တစ်လွှားဆီသို့ (၄)၊ ဇင်ညိုငယ်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် ၂၅၉ ၊ ဖေဖော်ဝါရီ ၂၀၀၈၊ စာ-၉၇)

**မွေးသက္ကရာဇ်နှင့်ဇာတိရပ်ရွာ**

အေဒီ ၁၉၂၀

ဆရာတော်လောင်းလျာသည် စစ်ကိုင်းတိုင်း ဘုတလင်မြို့နယ်၊ ရေကန်ရွာ ခမည်းတော် ဦးဖိုးကဲ၊ မယ်တော် ဒေါ်ပျော့တို့မှ ၁၂၈၃ ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော် (၈) ရက်၊ သောကြာနေ့ ဖွားမြင်တော်မူသည်။

**သာသနာပိုင်ကြီး၏ မြေးတော်စပ်**

မင်းတုန်းမင်းတရားကြီးလက်ထက် ဒုတိယမောင်းထောင်သာသနာပိုင် ဆရာတော်ကြီး အရှင်ဥေယျဓမ္မ၏ မြေးတော်ဖြစ်၍၊ မယ်တော်ကြီးမှာ သီပေါမင်းလက်ထက် သံတော်ဆင့်၊ သွေးသောက်ကြီး ဦးဆိုင်၏ တူမတော် ဖြစ်သည်။

ကျမ်းကိုး၊ မြေဇင်းတောရဆရာတော် ၊ စာမျက်နှာ - ၁၈

**ဆွေမျိုးများ**

ဆရာတော်၏ မွေးချင်းများမှာ (ဒေါ်အေးခန့်)၊ ဒေါ်အေးရှင်၊ ဦးဌေးလှိုင် တို့ ဖြစ်ကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈

http://www.dhammadownload.com



**ရဟန်းဖြစ်သောနှစ်**

အေဒီ ၁၉၃၈

မောင်းထောင်းရွာ ယွန်းဆက်ကျောင်းတိုက်တွင် ဦးလေးတော် ဦးရာဇိန္ဒထံ ပရိယတ္တိ စာပေများ သင်ယူ၍ ၁၃၀၀ ခုနှစ်၊ ပြာသိုလဆန်း (၁၂)ရက်နေ့တွင် သုဓမ္မာဂိုဏ်းထောက် တောရ ဆရာတော်ကြီး ဦးဇနိန္ဒကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈

**ပညာသင်ဘဝ**

မောင်းထောင်ယွန်းဆက် (စာသင်တိုက်) ပရိယတ္တိ ၂၇ နှစ်၊ အမရပူရ တူမောင်းတိုက် (မိုးကုတ် ဆရာတော်၏) မဂ်လာတိုက်၊ စစ်ကိုင်းတောင် လေးကျွန်းချမ်းသာချောင်၊ ပဌာန်း နည်းပြ တိုက်တို့၌ ဝိနည်းနှင့် အဘိဓမ္မာကို ဦးစားပေးသင် ယူ၍ ပထမကြီးတန်းသို့ရောက်လျှင် စာမေးပွဲ ဆက်၍ မဖြေဆိုတော့ဘဲ ပခုက္ကူ မဟာဝိသုတာရာမတိုက်၌ နိကာယ်ပါဠိတော်ကြီး များကို ကျမ်းပေါက် သင်ရိုးကုန် သင်ယူတော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈

ပခုက္ကူမြို့၌နေစဉ် နေ့အခါ စာလိုက်၍ ညအခါ ပခုက္ကူမြို့ မဟာစည်ရိပ်သာ၌ ညပိုင်း ယောဂီ အဖြစ် တရားဘာဝနာရှုပွား၍ ပရိယတ်နှင့် ပဋိပတ် တွဲစပ်အားထုတ်တော်မူခဲ့သည်။

နိဗ္ဗာနမဂ္ဂအာနာပါနဝိနိစ္ဆယ (ခေါ်) မေ့ပစက္ခုကျမ်း ၊ စာမျက်နှာ - ၁၈

**၂၇–နှစ်တိုင်တိုင်**

ထို့နောက် ယွန်းဆက်တိုက်၌ ၄၀ ခန့်ရှိသော စာသင်သားများအား မူလဓမ္မာစရိယ စာချ ဆရာတော်အဖြစ်လည်းကောင်း၊ ကျောင်းထိုင်ဆရာတော်အဖြစ် လည်းကောင်း ပရိယတ္တိ ၂၇ နှစ်တိုင်တိုင် သာသနာပြုတော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈

**မိုးညှင်း သမ္ဗုဒ္ဓေ ဆရာတော်ဘုရားကြီး၏ တိုက်တွန်းချက် တောမြန်မြန်ထွက်**

တစ်ခါက မုံရွာသမ္ဗုဒ္ဓေ မိုးညှင်းဆရာတော်ဘုရားကြီးထံရောက်စဉ် ဆရာတော် ဘုရားကြီး၏ ဩဝါဒစကားများမှာ

"မောင်းထောင်ဘုန်းကြီး၊ တောထွက်ဖြစ်အောင်ထွက်၊ အချိန်ဆွဲမနေနှင့်။ တပည့်တော် စာချ ဘုန်းကြီး ဘဝက တောထွက်မယ်ကြံရွယ်ပြီး သင်တုံးဓား၊ အပ်၊ အပ်ချည်၊ ရေစစ်၊ ပရိက္ခရာအစုံ ပါတဲ့ သပိတ်တစ်လုံးကို သပိတ်အိတ်ထဲထည့်ပြီး ကျောင်းတိုက်မှာ အသင့်ချိတ်ဆွဲထားတာ၊ သပိတ်အိတ်ကြိုး သံချေးစားလို့ ပြုတ်ကျတာ သပိတ်သုံးလုံးကုန်မှ တောထွက်ဖြစ်တယ်။ သူတော်ကောင်းအလုပ်ဆိုတာ အပြောလွယ်တယ် အလုပ်ခက်တယ်။ ဆန်းကြယ်တဲ့ အတား အဆီးတွေရှိတယ်။ သမ္မပ္ပဓာန်ဝီရိယနှင့် နေက္ခမ္မ ဓာတ်ပေါ်အောင် မနည်း ကြိုးစားယူမှ ဖြစ်တာ။ မောင်းထောင်ဘုန်းကြီး၊ အချိန်မဆွဲနှင့်။ မြန်မြန်တောထွက်ဖြစ်အောင် ထွက်နော်"

ကျမ်းကိုး၊ မြေဇင်းတောရဆရာတော် ၊ စာမျက်နှာ - ၂၀

**တောထွက်တော်မူခြင်း**

အေဒီ ၁၉၆၉

၁၃၃၁ ခုနှစ်ဝါဆိုဦးတွင် မောင်းထောင်ယွန်းဆက် စာသင်တိုက်ကြီးကို တပည့်ဖြစ်သူ သာသနဓဇ သိရီ ပဝရဓမ္မာစရိယ၊ မဟာဂန္ထဝါစကပဏ္ဍိတဘွဲ့တံဆိပ်တော်ရ စာချဆရာတော် ဘဒ္ဒန္တ ဣန္ဒာစာရအား လွှဲပြောင်းအပ်နှံ၍ မောင်းထောင်၊ တောင်ကုန်း ၈ ရွာ ဂေါ်စရဂါမ်နယ် အတွင်း မြေဇင်းတောရသို့ တောရဝါကပ်တော်မူခဲ့သည်။

http://www.dhammadownload.com



**ရွှေသိမ်တော် တောရဆရာတော်ထံ တပည့်ခံ**

အေဒီ ၁၉၆၉ ၁၃၂၅ ခုနှစ်တွင် ကမ္မဋ္ဌာန်းကျမ်းပြု အင်ချောင်ဆရာတော်ထံ နည်းခံဝါကပ်၍ ဝါကျွတ်လျှင် ကနီ (ကမ်းနီ)တောင်ပေါ်ရှိ ယောဂီပါရဂူ ကျမ်းပြု ရွှေသိမ်တော်တောရ ဆရာတော်ဘုရားကြီးထံမှာ နည်းခံသီတင်းသုံးသည်။

ကျမ်းကိုး။ ယင်းကျမ်း။ စာ-၂၂

**ဝေဘူဆရာတော်နှင့် အကြောင်းဆက်**

အေဒီ ၁၉၇၂ ၁၃၃၄ + ၃၅ နှစ်များတွင် ခင်ဦးမြို့ အင်ကြင်းပင် ကမ္မဋ္ဌာန်းတိုက်၊ ရွှေဘိုမဟာအောင်မြေရိပ်သာနှင့် ကျောက်ဆည်ဝေဘူချောင်တို့၌ လှည့်လည်သီတင်းသုံးတော်မူကြသော ဝေဘူဆရာတော်ဘုရားကြီးနှင့်အတူ သုံးဌာနလုံး လိုက်ပါနေထိုင်၍ တရားအဆုံးအမ ခံယူတော်မူခဲ့သည်။

ကျမ်းကိုး။ ယင်းကျမ်း။ စာ-၂၂

**ဝေဘူဆရာတော် အမိန့်တော်**

ထို၌နေစဉ် ဝေဘူဆရာတော်ဘုရားကြီးက နံနက်၊ နေ့ သီးခြားဆွမ်းကပ်လာသူများအား တစ်ဦးပြီးလျှင် တစ်ဦး 'မောင်းထောင်ဆရာတော်ကို သွားကပ်ချေကြဦး' ဟု အမိန့်ရှိသဖြင့် ဝေဘူဆရာတော်ကြီးနည်းတူ ဆွမ်းတော်ပွဲ သုံး/လေးဆယ်ကို ပွဲစေ့ဘုဉ်းပေး ချီးမြှောက်ရသည်။

ကျမ်းကိုး။ ယင်းကျမ်း။ စာ-၂၂

**မဟာကမ္မဋ္ဌာနာစရိယဘွဲ့**

အေဒီ ၁၉၉၃ ၁၃၅၄ ခုနှစ်တွင် နိုင်ငံတော် အစိုးရ၏ 'မဟာကမ္မဋ္ဌာနာစရိယ' ဘွဲ့တော် တံဆိပ်တော်ကို အပ်အပ် စပ်စပ် ဆက်ကပ်လှူဒါန်းခြင်း ခံယူတော်မူရသည်။

နိဗ္ဗာနမဂ္ဂအာနာပါနဝိနိစ္ဆယ(ခေါ်)ဓမ္မစကြာကျမ်း။ စာမျက်နှာ - ၂၃

**မြေးတော်စပ်**

မန္တလေးတိုင်း။ ပုသိမ်ကြီးမြို့နယ်၊ ရန်ကင်းတောင်ခြေ၊ ရန်ကင်းအေးငြိမ်းရိပ်သာ၏ ပဓာနနာယကဆရာတော် ဦးကေလာသ (သာသနဓဇဓမ္မာစရိယ) ကမ္မဋ္ဌာနာစရိယ (ဆရာတော်ကြီး၏ မြေး)

(လောကပါလ ဂမ္ဘီရသုတ စာစုံမဂ္ဂဇင်း၊ ကျော်နန္ဒအောင်၊ ၂၀၀၇ ခုနှစ် အမှတ် (၅)၊ စာမျက်နှာ - ၁၆၃)

**တူတော်စပ်**

ရန်ကုန် အင်းစိန်လမ်းမကြီးပေါ်တွင်တည်ရှိသည့် မဟာစည်သြဝါဒခံ ညောင်ကန် အေးရိပ်သာတွင် သီတင်းသုံးတော်မူသည့် ဦးသောပါက (သာသနဓဇ ဓမ္မာစရိယ) ဆရာတော်၏ တူတော်စပ်သည်ဟုလည်း သိရပါသည်။

(လောကပါလ ဂမ္ဘီရသုတ စာစုံမဂ္ဂဇင်း၊ ကျော်နန္ဒအောင်၊ ၂၀၀၇ ခုနှစ် အမှတ် (၅)၊ စာမျက်နှာ - ၁၆၃)

**ပရိနိဗ္ဗာန်ပြုတော်မူ**

အေဒီ ၂၀၀၆ သက်တော် (၈၇) နှစ်၊ သိက္ခာတော် (၆၆) ဝါအရ ၁၃၆၈ ခုနှစ် တော်သလင်း လဆန်း (၁၀) ရက် (၁-၉-၂၀၀၆) သောကြာနေ့မှာ ဘဝနတ်ကျောင်း ရွှေပြောင်းတော်မူခဲ့သည်။

http://www.dhammadownload.com



**ရုပ်ကလာပ်တော်မပုပ်မသိုး**

ကြားကာလ ၃ လအတွင်း ရုပ်ကလာပ်တော်သည် မပုပ်မသိုး တည်တော်မူပါသည်။

**ဓာတ်တော်များ တဖွားဖွားကျ**

အောဒီ ၂၀၀၆

၁၃၆၈ ခုနှစ်၊ နတ်တော်လဆန်း ၁၂ ရက် (၁-၁၂-၂၀၀၆) နေ့ ညနေ ၆ နာရီ အဂ္ဂိစျာပနကို ကျင်းပသောအခါမှာ မယုံနိုင်လောက်အောင် ဓာတ်တော်များ တဖွားဖွား ကျတော်မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆၄

**မီးသင်္ဂြိုဟ်သောအခါ ထူးခြားချက်များ**

လွန်တော်မူပြီး မီးမသင်္ဂြိုဟ်ခင် ထူးခြားတာကတော့ ဆရာတော်ကြီးရဲ့ ရုပ်ခန္ဓာကိုယ်ကြီးကို မှန်ခေါင်းထဲမှာ ပူဇော်ချန်ထားပါတယ်။ တပည့်တွေရဲ့ ဆုံးဖြတ်ချက်မဟုတ်ဘဲ ဒကာမကြီး တစ်ယောက်က ဆေးထိုးတယ်ပေါ့။ အပုပ်နံ့ထွက်ခြင်း၊ ပုပ်ခြင်း၊ သိုးခြင်း မရှိပါဘူး။ အသား အရေက ပျော့ပျောင်းပြီး ပကတိလူကောင်းလိုပါပဲ။ ထိုင်လို့ရလောက်အောင် ပျော့ပြောင်း နေပါတယ်။ မီးရှို့တဲ့အချိန်မှာ ဘာအညှော်နံ့မှ မထွက်ပါဘူး။ အချို့ လေအောက်က သွားပြီး အနံ့ခံကြည့် ကြတယ်ပေါ့။ တကယ်ဆိုရင် အညှော်နံ့တော့ ထွက်ရမှာပေါ့။ ဆေးထိုး ထားတဲ့ ညာဘက် ခြေထောက်က နည်းနည်းတော့သိမ်သွားတယ်။ အခြားဘာမှ မဖြစ်ပါဘူး။ အညှော်နံ့ မထွက်တဲ့ အပြင် ညနေ ၆ နာရီက ရှို့လိုက်တာ ည ၁၂ နာရီအထိပေါ့။ သနပ်ခါးတုံး တွေ ပြာကျလိုက်၊ ထပ်ပြီးထည့်လိုက်၊ ပြာကျလိုက်၊ ထပ်ပြီးထည့်လိုက်ပေါ့။ သုံးကြိမ်လောက် ပြာကျအောင်ရှို့ကြောင်း မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆၅

**စိစဉ်သူ ဦးဣန္ဒိဗလ**

ဒီနယ်တစ်ဝိုက်က ဆရာတော်ကြီးတွေ ပျံတော်မူရင်လိုက်ပြီး သင်္ဂြိုဟ်နေကျ ဦးပဥ္စင်း တစ်ပါးရှိပါ တယ်။ သူက ဘုန်းကြီးပျံ ၁၀ ပါးလောက် မီးသင်္ဂြိုဟ်ဖူးတဲ့ အတွေ့အကြုံ ရှိတယ်။ ဘွဲ့တော်က ဦးဣန္ဒိဗလတဲ့။ ငွေချောင်းရွာကျောင်းပါ။ ဆရာတော်ကြီးရဲ့ တပည့်ပါပဲ။ သူက စိစဉ်တာပေါ့ဗျာ။

**(၃)ကြိမ် ပြာကျ**

သုံးကြိမ်လောက် ပြာကျတော့ နားမယ်ဆိုပြီး နောက်ထပ် ထင်းထပ်မထည့်တော့ပါဘူး။ နည်းနည်းအေးသွားတဲ့အခါကျတော့ သူက ပြာတွေကို မွှေကြည့်သေးတယ်။ ပြာကတော့ အကုန်ကျနေပြီ ဖြစ်ပါတယ်။ လူတွေတော့ မရှိတော့ပါဘူး။ ပြန်ကုန်ကြပါပြီ။ သို့သော်လည်း တာဝန်ပေးထားတဲ့ သံဃာတွေနဲ့ ဒကာပေါင်းလိုက်ရင် ၁၀ ယောက်လောက်တော့ ရှိနေကြပါ တယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆၆

**မနက်လင်းသောအခါ**

မနက်မိုးလင်းတဲ့အခါကျတော့ စောစောက ဦးပဥ္စင်းပြောတဲ့ ဦးဆောင် ဦးပဥ္စင်းက ပြာတွေကို မွှေပြီး အရိုးတော်တွေကို အုန်းရည်နဲ့ဆေးပြီး မြသပိတ်ထဲကို ထည့်ပါတယ်။

**အရိုးကောက်**

အဲဒီအချိန်မှာ အရိုးကောက်နေတဲ့ ဦးပဥ္စင်းရဲ့အမေဆုံးလို့ဆိုပြီး လာခေါ်တာနဲ့ သူက ဆိုင်ကယ် နဲ့ ပြန်သွားတယ်။ သူက အခြားရွာကပါ။ ခရီးသုံးတိုင်လောက် ဝေးပါတယ်။ ကျန်တဲ့ဒကာတွေ ဆက်ပြီး အရိုးတွေကောက်ကြပါတယ်။

http://www.dhammadownload.com



**မျက်ခုံးမွေးနှင့် အသားစိုင်**

ဦးခေါင်းတော်ဘက်က တစ်လက်မကျော်လောက် အသားစိုင်ဖတ်လေးတစ်ခု တွေ့ရတယ်။ နီရဲနေပါတယ်။ ကိုင်ကြည့်တော့ ပျော့နေတယ်။ ဆွဲဆန့်ကြည့်တော့ နှစ်ပိုင်းဖြစ်သွားတယ်။ သေသေချာချာကြည့်လိုက်တော့ မျက်ခုံးမွေးနဲ့ အသားစိုင်တွဲနေတာ သွားတွေ့ရတယ်။ အမွေးတွေက ဖြူနေတယ်။ ဒီတော့ အားလုံးက အံ့ဩကုန်ကြတယ်။

**သတိထားကောက်ကြရ**

ဒါနဲ့ အရိုးတော်တွေကို သတိထားပြီး ကောက်ကြပါတယ်။ ဓာတ်တော်ကျနိုင်တယ်ဆိုပြီး သတိထားပြီး ကောက်ကျပါတယ်။

**မီးမ,ခတဲ့ သွားတော် ရ သူရ**

မုံရွာက ဒကာမကြီးတစ်ယောက်ကတော့ ဆရာတော် သက်တော်ထင်ရှားရှိစဉ်ကတည်းက သွားကျိုးရင်ပေးပါဆိုပြီး လျှောက်ထားဖူးသတဲ့။ ဒါပေမယ့် ဆရာတော်က ငါ့မှာသွားကျိုးတာ ပေးစရာမရှိဘူးဆိုပြီး မရခဲ့ဘူး။ အဲဒီ ဒကာမကြီး ပြာထဲကနေပြီး မီးမ,ခတဲ့ သွားတော် တစ်ချောင်း ကို ရခဲ့ပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆၆

**ဓာတ်တော်များ တဖွားဖွားကျ**

ဦးဆောင်တဲ့ဆရာတော်ကလည်း ရွာပြန်သွား၊ ကျန်တဲ့တပည့်တွေကလည်း ဓာတ်တော် ကျမယ်လို့ သိမထား။ ထင်မထားတော့ လူအများက ကောက်ယူသွားတာပေါ့ ဒကာကြီးရယ်။ အချို့လည်း ဓာတ်တော်များကို ကျောင်းမှာလာပြီး လှူကြပါတယ်။ ရသင့်သလောက်တော့ မရလိုက်ဘူးပေါ့။

**ဓာတ်တော်မပေးချင်လို့ အိမ်ပြန်သူ ပြန်**

ဒါနဲ့ ဦးပဥ္စင်းက ဆရာတော်ကြီးဘုရားကို ပူဇော်ခဲ့တဲ့ ရေမွှေးပုလင်းတွေ ကျန်ခဲ့တယ်။ ဓာတ်တော်တွေကို ရေမွှေးနဲ့ ပူဇော်ပေးမယ်။ ဦးပဥ္စင်းထံ လာပို့ကြပါဆိုပြီး လာပို့တဲ့သူတွေဆီက နေပြီး ကျောင်းအတွက် တစ်ဝက်လောက် အလှူခံရပါတယ်။ တချို့လည်း ဓာတ်တော်တွေ ခွဲပေးရမှာစိုးလို့ ပြန်သွားကြတဲ့သူတွေလည်း ရှိပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆၇

ကိုယ်တော်တွေ သင်္ဂြိုဟ်တဲ့နေရာသွားကြည့်တော့ ဦးခေါင်းတော်နေရာက ပြာနေရာမှာ ချိုင့်နေတာတွေ့ကြရတယ်။ ဦးခေါင်းတော်ကရတဲ့ ဓာတ်တော်ကို ဒကာမ တစ်ယောက်ရသွားတယ်။

**ဦးနှောက်တော်မှ ဖြစ်သော ဓာတ်တော် ဂုံညင်းတော် ပမာဏလောက်ရှိခြင်း**

နောက်အရက်သမားတစ်ယောက်ကတော့ သန့်ရှင်းရေးလုပ်ရင်းနဲ့ သံပြား ဆွဲထုတ်လိုက်တဲ့အခါ ဦးနှောက်ကဖြစ်သွားတဲ့ ဂုံညင်းဒိုးပမာဏလောက်ရှိတဲ့ ဓာတ်တော်ကို ရသွားတယ်။ အဲ့ဒီဓာတ်တော်က အရောင်တောက်နေတော့ သူက အိမ်ကို ပြန်ပြေးတာ။ ဘုရားစင်ပေါ် တင်ထားပြီး ဓာတ်တော်ရထားတယ်။ အရောင်တောက်တယ်ဆိုတာ ရွာထဲက သိသွားတော့ သူ့အိမ်သွားပြီး ဖူးကြတာပေါ့။ သူ့ဆီက ပြန်တောင်းတာ မပေးဘူး။ သူနဲ့ထိုက်လို့ ရတာဆိုပြီး ဓာတ်တော်ကို အသက်နဲ့လဲပြီး ကာကွယ်မယ်ဆိုတာနဲ့ အခုပုံမှာဖူးရတဲ့ ဓာတ်တော်ဟာ သူ့အိမ်သွားပြီး ဦးပဥ္စင်း တို့ ဓာတ်ပုံ ရိုက်ယူထားတာပါ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆၇

http://www.dhammadownload.com



**မျက်ခုံးတော် မီးမ,ခဘဲ ပကတိ ကျန်တော်မူခြင်း**

"မီးမ,ခဘဲ ကျန်ရစ်တဲ့ မျက်ခုံးတော်ဆိုတာကရော ဘုရား၊ ဘယ်လိုရတာလဲ။ ကျောင်းက ရတာ လား။ မျက်ခုံးတော်လို့ ဘယ်လိုလုပ်သိပါသလဲဘုရား"

ဒကာတွေ ဂရုတစိုက်ကောက်ရင်းကနေ တွေ့ကြရတာပါ။ ဘာမှန်းမသိလို့ ဆွဲဆန့်လိုက်တော့ ခါးက ပြတ်သွားခဲ့ပါတယ်။ ပြန်ပြီးတော့ ဆက်ထားပါတယ်။ ဆရာတော်ရဲ့ မျက်ခုံးတော်လို့ သိရတာက ကျောင်းမှာအမြဲ လိုလိုရှိကြတဲ့ သွားလာနေကြတဲ့ ဒကာတွေက မှတ်မိပါတယ်။ ညာဘက် မျက်ခုံးတော်နဲ့ မျက်ခုံးမွေးတော်ပါ။ ပုံမှာ ကြည့်ရင် သိနိုင်ပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆၈

မီးမသင်္ဂြိုဟ်မီ နတ်တော်လဆန်း ၅ ရက်ခန့်မှာ မုံရွာမြို့ ရှမ၀တိုက်မှာ အင်္ဂတေနဲ့ ထုလုပ်တဲ့ ဆရာတော်ကြီးရဲ့ ရုပ်တုကို အခမ်းအနားနဲ့ ပင့်ဆောင်ကြပါတယ်။

**သွားတော် ဆံတော်များ ဓာတ်တော် ဖြစ်တော်မူခြင်း**

နတ်တော်လဆန်း ၁၃ ရက်နေ့မှာတော့ ရသလောက် မျက်ခုံးတော်၊ သွားတော်၊ ဆံတော်စတဲ့ ဓာတ်တော်တွေကို မှန်ဘူးနဲ့ ထည့်ထားတဲ့ ရုပ်တုရဲ့ဘေးပတ်ပတ်လည်မှာ အများပြည်သူ ပူဇော်နိုင်ဖို့ ခေတ္တထားရပါတယ်။

**ဓာတ်တော်များ ပိုးစုန်းကြူးများကဲ့သို့ မှန်ပုံးထဲတွင် အထက်အောက် ဈာန်ပျံနေခြင်း**

အဲ့ဒီနေ့ည ၈း၄၅ နာရီလောက်မှာ အရိုးတော်တွေက ဖျတ်ခနဲ ဖျတ်ခနဲလက်ပြီး အသွေးအသား ဓာတ်တော်တွေကတော့ ပိုးစုန်းကြူးလို မှန်ပုံးထဲမှာပဲ အပေါ်တက် အောက်ဆင်း အရောင် တောက်ပါတယ်။

**ကုလားထိုင်ပေါ်မှာ ထိုင်ရင်း ပျံလွန်တော်မူ**

ကုလားထိုင်ပေါ်မှာ သီတင်းသုံးတယ်။ ယောဂီ ဦးပဥ္စင်းနှစ်ပါးက ဆရာတော်ကြီးရဲ့ ခြေသလုံးကို ဝတ်ပြုနှိပ်ပေးနေကြတယ်။ သူတို့ကတော့ ခြေသလုံးပဲ အာရုံရောက်နေတာပေါ့။ အပေါ်မှာ ဆရာတော်ကြီး ဇက်ကျိုးကျနေတာကို သူတို့ မသိလိုက်ဘူး။ နောက်ကျမှ ဆရာတော်ကြီး ပျံတော်မူမှန်း သိရတာပါ။ မွန်းလွဲ ၁ း ၅၅ မှာ ပျံလွန်တော်မူတာပါ ဟု အတွင်းကျကျ လက်ရင်း ကျကျ မှတ်တမ်းကို ဖတ်ရှုရ၏။

ကျမ်းကိုး၊ မြေဇင်းတောရဆရာတော် ၊ စာမျက်နှာ - ၁၈

ကျမ်းကိုး ဆရာကြီးရှိန်၊ မောင်းထောင်မြေဇင်းတောရ ဆရာတော်ဘဒ္ဒန္တ သောဘိတ မဟာ ထေရ်၏ အာနာပါန သမထ၊ ဝိပဿနာကျင့်စဉ်နှင့် ခန္ဓာဝန်ချကာ ဓာတ်တော်များမှ ရောင်ခြည်တော်ကွန့်မြူးသည့် အံ့ဖွယ်ဖြစ်ရပ်ဆန်း၊ သူရဋ္ဌမဂ္ဂဇင်း၊ ၂၀၀၈ ခုနှစ်၊ စက်တင်ဘာ လ စာ ၁၀၂-၁၀၉၊

ကျမ်းကိုး၊ ကျော်နန္ဒအောင်၊ လောကပါလ ဂမ္ဘီရ သုတစာစုံမဂ္ဂဇင်း၊ ၂၀၀၇ ခု၊ ဇွန်လ အမှတ် ၅၊ စာ ၁၆၃ - ၁၆၉၊

ကျမ်းကိုး၊ ဇင်ညိုငယ်၊ မြို့ကနီ ဘိုမယ်ချောင်မှ မှို့သာခေါင် တောင်တော်တစ်လွှားဆီသို့ ၄၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း အမှတ် ၂၅၉၊ ၂၀၀၈ ခု ၊ ဖေဖော်ဝါရီလ၊

ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၊ မြေဇင်းတောရ ဆရာတော်၊ နိဗ္ဗာနမဂ္ဂအာနာပါနဝိနိစ္ဆယ (ခေါ်) မွေ့စက္ကျကျမ်း၊ စာ ၁၇ - ၂၃၊

ကျမ်းကိုး၊ ဓမ္မာစရိယ ဦးဌေးလှိုင်၊ ကျတ်တီးကုန်းမှာ ပွင့်သောပန်း၊ ရတနာမွန်မဂ္ဂဇင်း၊ အတွဲ ၁၆၊ အမှတ် ၃၊ ၁၉၈၉ ခု၊ မတ်လ စာ ၄၆ - ၅၃။

http://www.dhammadownload.com



ရဟန္တာဟုကျော်ကြားတော်မူသော
မန္တလေးတိုင်း၊ ရမည်းသင်းမြို့နယ်၊ နဘူးကျင်းရွာအနီး ရန်ကင်းတောရကျောင်းနှင့်
လယ်ဝေးမြို့ ထန်းတပင်တောရကျောင်းဆရာတော် အရှင်ဝါသီ

# နဘူးကျင်း တောရဆရာတော် အရှင်တိဿရ

## ၁၉၂၁ – ၂၀၀၄



http://www.dhammadownload.com



နဘူးကျင်းဆရာတော်သည် နဘူးကျင်းရွာ၌ နေထိုင်သီတင်းသုံးသောကြောင့် နဘူးကျင်းတောရ ဆရာတော်ဟု အများထုံးစံအတိုင်း အလွယ်ပြောလိုက်ခြင်းသာ ဖြစ်ပါသည်။ ဆရာတော်၏ ဘွဲ့တော်အစစ်အမှန်မှာ အရှင်တိဿရထေရ်အရှင် ဖြစ်ပါသည်။ ပိုမို၍ အသေးစိပ်သိသူတို့ကား မူကား သာသနဓဇ သိရီပဝရ (ဓမ္မာစရိယ) ဂဏဝါစက အရညဝါသီ အရှင်တိဿရထေရ် အရှင်ဟု သုံးစွဲကြောင်း တွေ့ရှိရပါသည်။

**နဘူးကျင်း တည်နေရာ**

နဘူးကျင်းရွာဆိုသည်မှာ ပျော်ဘွယ်မြို့နယ်တစ်ဝိုက်တွင် ထင်ရှားသော ရွာတစ်ရွာ ဖြစ်ပါသည်။ နဘူးကျင်း ဆရာတော်ကြီးသည် နဘူးကျင်းရွာ ရန်ကင်းတောင် တောရကျောင်း၌ သီတင်းသုံးတော်မူလျက် ရှိပါသည်။

ကျမ်းကိုး။ ထိုအချက်အလက်တို့ကို ၁၉၉၆ ခု၊ အောက်တိုဘာလထုတ် ရတနာမွန်မဂ္ဂဇင်း၊ အတွဲ ၂၃၊ အမှတ် ၁၀၊ စာမျက်နှာ ၃၃၊ ၃၄ တို့တွင် ရေးသားသော သာသနာ့အကျိုး ဆောင် ဆရာတင်စိန် (ဥပဒေ) ကညွတ်ကွင်း၏စာမှ ရရှိခဲ့ပါသည်။

**အရညကင် ဓုတင်ဆောင်**

အေဒီ ၁၉၆၃ — ဆရာတော်ဘုရားကြီးသည် အေဒီ ၁၉၆၃ (၁၃၂၅ ခုနှစ်) မှ စ၍ တောရိပ် တောင်ရိပ်တို့တွင် လှည့်လည်ကာ အရညကင်ဓုတင်ဆောင်တော်မူလျက်ရှိကြောင်း သိရပါသည်။ ဧကစာရီ တစ်ပါး တည်းဖြင့် ပဋိပတ္တိဝန်ကို ကျင့်ကြံတော်မူကြောင်း သိရှိရပါသည်။

**လူမသိ သူမသိ နှစ်ပေါင်း (၄၀)**

အေဒီ ၁၉၆၃ — အေဒီ ၁၉၆၃ (၁၃၂၅ ခုနှစ်) မှ စ၍ တောဝင်တော်မူသည်ဟု သိရရာ နှစ်ပေါင်း သုံးဆယ် လေးဆယ် တိုင်တိုင် တောရများတွင် လှည့်လည်သီတင်းသုံးလျက်ရှိကြောင်း လူမသိ သူမသိ ရှိပေရာ သိရှိသူများကမူ အလွန်တရာ အံ့ဩကြည်ညိုကြကြောင်း စုံစမ်းသိရှိရပါသည်။

**ဧကစာရီ**

အေဒီ ၁၉၆၃ — အေဒီ ၁၉၆၃ (၁၃၂၅ ခုနှစ်) မှစ၍ မင်းဘူးခရိုင်၊ စကုမြို့နယ်၊ ရွှေစက်တော်ဘုရားဝန်းကျင် တောရိပ် တောင်ရိပ်တို့တွင် လှည့်လည်ကာ အရညကင်ဓုတင်ဆောင်တော်မူလျက် ဧကစာရီ တစ်ပါးတည်းဖြင့် ပဋိပတ္တိဝန်ကို ကျင့်ကြံတော်မူပါသည်။

**တောစဉ် တောင်စဉ် နှစ် (၃၀)ဝင်ခဲ့**

ရွှေစက်တော်တောရ မြောင်းဦးတောရ မင်းတုန်းတောရ ပျော်ဘွယ်မြို့နယ် ညောင်ကုန်း သုသာန်တောရ၊ လယ်ဝေးမြို့နယ် ထန်းတပင်တောရ၊ ရမည်းသင်းမြို့နယ်၊ ရွှေဒါး ရွှေမင်းဝံ တောရနှင့် နဘူးကျင်း ရန်ကင်းတောင် တောရများတွင် လှည့်လည်သီတင်းသုံးတော်မူခဲ့ရာ နှစ်ပေါင်း (၃၀) ကျော်ခဲ့ပြီဖြစ်သည်ဟု သိရပါသည်။

ဆရာတော်ကြီး၏မဟာထေရုပ္ပတ္တိကထာကို မရမက ရှာဖွေရာ ကံကောင်းသဖြင့် သိမှတ်ခွင့်ရခဲ့ ပါသည်။

အေဒီ ၁၉၉၆ — ထိုနဘူးကျင်းတောရဆရာတော်ဘုရားသည် ၁၉၉၆ ခုနှစ်တွင် သက်တော် ၈၅ နှစ်၊ ရှိပြီ ဖြစ်ကြောင်း သိရှိရပါသည်။

ကျမ်းကိုး။ ထိုအချက်အလက်တို့ကို ၁၉၉၆ ခု၊ အောက်တိုဘာလထုတ် ရတနာမွန်မဂ္ဂဇင်း၊ အတွဲ ၂၃၊ အမှတ် ၁၀၊ စာမျက်နှာ ၃၃၊ ၃၄ တို့တွင် ရေးသားသော သာသနာ့အကျိုး ဆောင် ဆရာတင်စိန် (ဥပဒေ) ကညွတ်ကွင်း၏စာမှ ရရှိခဲ့ပါသည်။

http://www.dhammadownload.com



ကျမ်းကိုး၊ သိမ်းဆောင် ရမည်းသင်း၊ နဘူးကျောင်းဆရာတော် အရှင်တိဿရထေရ် ၁၂၈၃-၁၃၆၆ ၏ ထေရုပ္ပတ္တိအကျဉ်း။

**ဖွားမြင်ခြင်း**

အေဒီ ၁၉၂၁ ၁၂၈၃ခုနှစ်၊သီတင်းကျွတ်လပြည့်ကျော်(၆)ရက် စနေနေ့ (၂၂-၁၀-၂၁)နေ့ (၂)နာရီ(၃၀) မိနစ် အချိန် မန္တလေးတိုင်း၊ ရမည်းသင်းမြို့နယ်၊ နဘူးကျောင်းကျေးရွာနေ ခမည်းတော် ဦးဘ၊ မယ်တော်ဒေါ်အေးမှန်တို့မှ ဖွားမြင်သော အတိဇာတ သားဦးရတနာဖြစ်သည်။

ကျမ်းကိုး၊ သိမ်းဆောင် ရမည်းသင်း၊ နဘူးကျောင်းဆရာတော် အရှင်တိဿရထေရ် ၁၂၈၃-၁၃၆၆ ၏ ထေရုပ္ပတ္တိအကျဉ်း စာ- ပထမ။

**ရှင်သာမဏေဘဝ**

အေဒီ ၁၉၃၁ ၁၂၉၇ခုနှစ်၊ ကဆုန်လပြည့်ကျော် (၃)ရက် တနင်္ဂနွေနေ့တွင် မိဘနှစ်ပါးတို့၏ ပစ္စယာနုဂ္ဂဟ ဖြင့် သရက်ကန်ကျောင်းဆရာတော် ဦးဥက္ကံသကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေဖြစ်လာ သည်။ ဘွဲ့တော်ရှင်တိဿရ ဖြစ်ပါသည်။

**ရဟန်းဘဝ**

အေဒီ ၁၉၅၀ ၁၃၀၂ ခုနှစ်၊ ကဆုန်လပြည့်ကျော် (၁၂)ရက် တနင်္ဂနွေနေ့ နံနက်(၇)နာရီ (၅၅)မိနစ် အချိန် ကြာပင်အင်းကျောင်းဆရာတော် ဦးစက္ကိန္ဒကို ဥပဇ္ဈာယ်ပြု၍ သရက်တောကျောင်း ခဏ္ဍသိမ်၌ ခမည်းတော်၊ မယ်တော်တို့၏ ပစ္စယာနုဂ္ဂဟဖြင့် ရဟန်းဖြစ်တော်မူသည်။

**ပညာသင် ဘဝ**

အေဒီ ၁၉၅၂ ၁၃၀၄ ခုနှစ် ရဟန်း(၂)ဝါရသည့်တိုင်အောင် သရက်ကန်ဆရာတော် ဦးဥက္ကံသ၊ ကံကြီး ဆရာတော် ဦးဝိမလ(ဦးရှင်) သက်ကယ်ကျင်း တောရဆရာတော် ဦးသီဟတို့ထံ၌ အခြေခံ ပိဋကတ်တော်များသင်ယူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-ပထမ

အေဒီ ၁၉၄၉ ၁၃၁၀ ခုနှစ်ပြာသိုလဆန်း (၁၀)ရက် ရန်ကုန်မြို့ ပုဇွန်တောင်မြို့နယ် ဘုရားဖြူကျောင်း တိုက်ဆရာတော်အရှင်ပညာဝံသ (အဂ္ဂမဟာပဏ္ဍိတ) ထံရောက်ရှိပြီး ပါဠိတော် အဋ္ဌကထာ ကျမ်းစာများ သင်ယူတော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-ပထမ

**ဝိနယကျော်နှင့် ဓမ္မာစရိယဘွဲ့ရရှိခြင်း**

၁၃၁၃ ခုနှစ် ဝိနယပိဿရဒရတန်း၌ အမှတ်အများဆုံး ပထမရ၍ "ဝိနယကျော်" ဘွဲ့ထူး ရတော်မူသည်။ ၁၃၁၅ခုနှစ်၊ နယုန်လနှင့်တပေါင်းလကျင်းပသော စာချတန်းတွင် (၉)ကျမ်း လုံးအောင်မြင်တော်မူ၍ သာသနဓဇသီရိပဝရ ဓမ္မာစရိယ"ဘွဲ့ထူးဆွတ်ခူးရရှိတော်မူသည်။

အေဒီ ၁၉၅၄ ၁၃၁၆ ခုနှစ်မှ ၁၃၂၄ ခုနှစ်ထိ (၉)နှစ် (၉)ဝါတိုင် ဘုရားဖြူကျောင်းတိုက်ကြီး၌ စာပေပို့ချ ဂဏဝါစက ဆရာတော်အဖြစ် သာသနာ့တာဝန်များကို ထမ်းဆောင်တော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-ပထမ

**အရညဝါသီ ဝိနယဂရုကပုဂ္ဂိုလ်**

အေဒီ ၁၉၆၃ ၁၃၂၅ ခုနှစ်၊ နယုန်လဆန်း(၅)ရက်နေ့တွင် ဘုရားဖြူကျောင်းတိုက်မှ သပိတ်တစ်လုံး သင်္ကန်းသုံးထည်ဖြင့် ထွက်ကာ မကွေးမင်းဘူးသို့ ဧရာဝတီမြစ်ကြောရေဆန်ခရီး သင်္ဘောစီး ၍ ကြွတော်မူရာ၊ ထိုနှစ် နယုန်လပြည့်နေ့ နံနက် (၉)နာရီ ရွှေစက်တော် ဗုဒ္ဓခြေတော်ရင်း

http://www.dhammadownload.com



အရပ်သို့ ရောက်တော်မူပြီး နှစ်ပေါင်း လပေါင်းများစွာက ဖြစ်လိုလှသော အရည်ဝါသီ ဝိနယဂရုကပုဂ္ဂိုလ်အဖြစ်သို့ ရောက်တော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-ဒုတိယ

**ကျင့်ကြံခဲ့သော တောစဉ် တောင်စဉ်**

ဆရာတော်သီတင်းသုံးဝတင်ဆောက်တည်ခဲ့သော တောရများမှာ မင်းဘူးခရိုင်၊ ရွှေစက်တော် တောရ စကုမြို့နယ် မြောင်းဦးတောရ၊ သရက်ခရိုင် မင်းတုန်းမြို့နယ် တောင်လတ်တောရ၊ မန္တလေးတိုင်း၊ ပျော်ဘွယ်မြို့နယ် ညောင်ကုန်းသုသာန်တောရ၊ လယ်ဝေးမြို့နယ် ထန်းတပင် တောရ၊ ရမည်းသင်းမြို့နယ်၊ ရွှေဒါးရွှေမင်းဝံတောရနှင့် နဘူးကျင်း ရန်ကင်းတောရများဖြစ် လေသည်။

**နဘူးကျင်းတောရ**

အေဒီ ၁၉၇၂ ၁၃၃၄ ခုနှစ်တွင် ရမည်းသင်းမြို့နယ်ရှိ ဇာတိရွာ နဘူးကျင်း၊ ရန်ကင်းတောရကို တည်ထောင် စတင်ဝါကပ်တော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-ဒုတိယ

**သုသာန်တောရ**

အေဒီ ၁၉၉၃ ၁၃၅၅ ခုနှစ်ပျော်ဘွယ်မြို့နယ် ညောင်တုန်းသုသာန်တောရတွင် သောသာနိကဓုတင်လည်း ဆောင်လို အရညကင်ဓုတင်လည်း မဖျက်လိုသည့်အတွက် ခြေလျင်ကြွ၍ ဝါကပ်တော်မူ သည်။ အပြန်လည်း ခြေလျင်ဖြစ်သည်။

**ခြေလျင် ခရီး**

မြတ်ဗုဒ္ဓသည် ခြေလျင်ခရီးများခဲ့သလို တောရဆရာတော်၏ ဓုတင်ဆောင်မထေရ် ဘဝတွင် လည်း တောကိုဖြတ်ကျော် သင့်လျော်ရာဆွမ်းခံ၊ သားရေနယ်ခင်းကာ ကြုံဆုံသလိုကျိန်းစက် ခြင်းနှင့် လိုရာခရီးခြေလျင်ချည်းဖြင့် မိုင်ပေါင်းများစွာ ကြိမ်ခါခါလျှောက်လှမ်းတော်မူခဲ့ဖူး လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-တတိယ

**ဓုတင်ဆောင် မထေရ်များ ပေါ်ထွန်းရန် ရည်သန်၍**

အေဒီ ၁၉၉၃ ၁၃၅၅ ခုနှစ်တွင် ဆုတောင်းပြည့်တောရကျောင်းတိုက်ကြီးကို အသစ်တည်ထောင်ပေးတော်မူ သည်။ ဤ သာသနာတော်၌ ဝိနယဂရုကဓုတင်ဆောင်မထေရ်များ ဆက်လက်ပေါ်ထွန်းနေ စေရန်ရည်သန်လျက် အထက်ဖော်ပြပါ နဘူးကျင်းရန်ကင်းတောရ လယ်ဝေးမြို့နယ် ထန်း တပင်တောရကြီးနှင့် ဆုတောင်းပြည့်တောရကျောင်းတိုက်ကြီးများကို မဟာရံတံတိုင်းများဖြင့် တင့်တယ်အောင် စီမံတော်မူပြီးဖြစ်သည်။

**ဝါတွင်း ၄ လလူမဝင်ရ**

နဘူးကျင်း ရန်ကင်းတောရနှင့် ထန်းတပင်တောရကြီးများသို့ ဝါတွင်း(၄)လ လူအဝင်အ ထွက်ခွင့်မပြု စည်းကမ်းသတ်မှတ်ထားတော်မူပါသည်။

နဘူးကျင်းတောရဆရာတော်၏ (ဒိဋ္ဌာနုဂတိ)သို့လိုက်၍ ဝိနယဂရုက ဓုတင်ဆောင် မထေရ် များ သီတင်းသုံးလျက်ရှိသော တောရကျောင်းပေါင်း (၂၈)ကျောင်းတွင် သံဃာတော်ပေါင်း (၅၀)ခန့် ဤသာသနာတော်၌ပေါ်ထွန်းလျက်ရှိပြီဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-တတိယ

http://www.dhammadownload.com



**ပြုစုခဲ့သော ကျမ်းများ**

သာသနာတော် အရှည်ခံရေးအတွက် သီလကိုချစ်မြတ်နိုးကြကုန်သော ရဟန်းရှင်လူတို့ အကျိုးငှာ သီလ၊ သမာဓိ၊ ပညာဆိုင်ရာ ကျမ်းအများကို ပါဠိ၊ မြန်မာနှစ်ဘာသာဖြင့် ရေးသားတော်မူခဲ့သည်။

**သမုတ်ခဲ့သော သိမ်များ**

ဒေသအနှံ့ သိမ်များကို သမုတ်တော်မူခဲ့ရာ သိမ်ပေါင်း (၁၇၀)လုံး သမုတ်တော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-တတိယ

**ဓုတင်ဆောင် ၄၁ ဝါကာလကြာ**

နဘူးကျင်းတောရဆရာတော်ဘုရားကြီးသည် သက်တော်အားဖြင့် ၈၃ နှစ်၊ ဝါတော်ပေါင်း ၆၃ ဝါ တောရဆောက်တည် ဓုတင်ဆောင်ရဟန်းဘဝ ဝါတော် ၄၁ ဝါကာလကြာအောင် စဉ်ဆက်မပြတ် တောမှာပျော်တော်မူခဲ့သည်။

**(၆)ကြိမ်တိုင်အောင် ဖတ်ခဲ့**

နိကာယ်ငါးရပ် ပိဋကတ်သုံးပုံ ပါဠိတော်နှင့် အဋ္ဌကထာတွဲ၍ ခြောက်ကြိမ်တိုင်အောင်ဖတ်ရှု တောရကျောင်းများ၌သာ ၄၁ နှစ်ကာလ စဉ်ဆက်မပြတ်သီတင်းသုံး၊ သိမ်အလုံးပေါင်း ၁၇၀ ဦးဆောင် သမုတ်တော်မူခဲ့သော ပုဂ္ဂိုလ်ဟု မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-တတိယ

**သက်တော် ၈၀ ကျော်ကို ထက်ဝက်စီခွဲ၍**

တောရဆရာတော်သည် သက်တော် ၈၃ခုနှစ်ကျော်ကို ထက်ဝက်စီခွဲလျက် ပရိယတ္တိဗေ့မှ စာသင်စာချတာဝန်ကို သက်တော် ၄၂ နှစ်အထိလည်းကောင်း၊ ပဋိပတ္တိဗေ့မှ ဝိပဿနာဓုရ တာဝန်ကိုဓုတင်ဆောင်ရဟန်းတော်ဘဝဖြင့် ဝါတော်ပေါင်း ၄၁ ဝါ ၄၁ နှစ်ကျော် ကာလ ကြာအောင် တောမှာပျော်ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-တတိယ

**လူသံ ရထားသံ ကင်းဆိတ်သည့် တောရကျောင်းမှာ**

နဘူးကျင်းတောရဆရာတော်သည် ဓုတင်ဆောင်မထေရ်၏ ဘဝကို လွန်စွာမြတ်နိုးသည်၏ အဖြစ်ကြောင့် သုံးထည်သောသင်္ကန်းကိုသာ ဝတ်ရုံတော်မူလျက် တစ်လုံးတည်းသော သပိတ်ထဲသို့ကျသည့်ဆွမ်းကိုသာ တစ်နေရာတည်း တစ်ထိုင်တည်း တစ်နေ့တစ်ကြိမ်တည်းသာ ရောင့်ရဲနှစ်သက်ခြင်းဖြင့် ဆိတ်ငြိမ်သောလူသူတို့နှင့် ရောနှောခြင်းမရှိသော အစွန်အဖျားဖြစ်သော လူသံ၊ ရထားသံ အသံကင်းဆိတ်သော တောရကျောင်းများ၌သာ လှည့်လည် သီတင်းသုံးတော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-စတုတ္ထ

**မကျန်းမာအသည်းကင်ဆာရောဂါ**

အေဒီ ၂၀၀၄

ဆရာတော်သည် မကျန်းမာ၍ ၂၂-၆-၂၀၀၄ ရက်နေ့ ရန်ကုန်မြို့၊ ဇီဝိတဒါန သံဃာ့ဆေးရုံကြီးသို့ ဆရာတော်ဘဒ္ဒန္တဇာဂရိယ၊ ဘဒ္ဒန္တစန္ဒောဘာသ၊ ဘဒ္ဒန္တကေဝလနှင့် ဦးအောင်ခ၊ ဦးစိုးနိုင်တို့ဦးဆောင်သော တပည့်ဒါယကာ၊ ဒါယိကာမများကပင့်ဆောင်ခဲ့ကြပြီး ရောဂါရှာဖွေကုသခဲ့ကြသည်။ "အသည်းကင်ဆာရောဂါ"ဖြစ်နေကြောင်း စစ်ဆေးတွေ့ရှိ၍ ဆေးရုံတွင် တစ်ပတ်ကြာကုသမှုခံယူခဲ့သည်။ ယော - တိပိဋကဓရဆရာတော်ကျောင်းသို့ ပြောင်း၍ ကုသခဲ့ကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-စတုတ္ထ

http://www.dhammadownload.com



အေဒီ ၂၀၀၄ ရန်ကုန်မြို့တွင် ၁၉ ရက်ကြာမျှ ဆေးကုသမှုခံယူစဉ် အပြင်းအထန်နာမကျန်းသည့်ကြားက နေ့စဉ်နံနက်တိုင်းအရဏ်ယူသည့်အရည်ကင် ဓုတင်ဆောင်ခြင်းကျင့်ဝတ်ကို နောက်ပါဓုတင်ဆောင်မထေရ်များဖြစ်ကြသည့် နဘူးကျောင်းရန်ကင်းတောရမှ ရန်ကုန်ဆရာတော် ဘဒ္ဒန္တဇာဂရိယ(မဟာစရိယ၊ ဂဏဝါစက၊ အရညဝါသီ)၊ သာဂရမြို့ မှန်တောင်တောရဆရာတော် ဘဒ္ဒန္တစန္ဒောဘာသ (မဟာစရိယ၊ အရညဝါသီ) နေပြည်တော်လယ်ဝေး ထန်းတပင်တောရမှ ဘဒ္ဒန္တကေဝလ(အရညဝါသီ)တို့နှင့်အတူ သန်လျင်မြို့သို့ နေ့စဉ်မပျက်မကွက် သွားရောက်အရဏ်ယူခဲ့ကြသည်။ အသက်နှင့်လဲ၍ ဓုတင်ဆောင်တော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-စတုတ္ထ

**မွေးရပ်မြေတောရကျောင်းမှာ ပျံလွန်တော်မူ**

အေဒီ ၂၀၀၄ နဘူးကျောင်းတောရ ဆရာတော်၏ ရောဂါမှာပြင်းထန်သဖြင့် အသက်ရှည်ရန် ၃ လခန့်သာ နေရတော့မည်ဟု သမားတော်ကြီးများ၏ စစ်ဆေးတွေ့ရှိချက် ထင်မြင်ချက်အရ နေပြည်တော် လယ်ဝေး ထန်းတပင်တောရကြီးသို့ ၁၁-၇-၂၀၀၄နေ့တွင် ပြန်လည်ပင့်ဆောင်ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-စတုတ္ထ

**နောက်ဆုံးပူဇော်ကန်တော့ကြခြင်း**

အေဒီ ၂၀၀၄ ပျံလွန်တော်မူပြီးနောက် ၅ ရက်မျှသာထား၍ ၂၆-၇-၂၀၀၄ နေ့အန္တိမအဂ္ဂိစျာပန ကျင်းပတော်မူကြရာ ပျော်ဘွယ်၊ ရမည်းသင်း၊ နေပြည်တော်တပ်ကုန်း၊ နေပြည်တော်ပျဉ်းမနား၊ နေပြည်တော်လယ်ဝေးမြို့များနှင့် တောရွာများပါ တပည့်ရဟန်း သံဃာများစွာသော ပုဂ္ဂိုလ်အပေါင်းတို့ မကြုံဖူးအောင် များပြားလှစွာ ဆန်ဆီဆား ငရုတ်ကြက်သွန်များ၊ နံ့သာထင်းအမွှေးတိုင်၊ ပန်းများ လှူဒါန်းပူဇော် တစ်ဆင့်စကားတစ်ဆင့်နားဖြင့် တိုးမပေါက်အောင်များပြားဖူးမြော်ကန်တော့ ခဲ့ကြလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-ပဥ္စမ

**အရိုးဓာတ်တော်များကို ဌာပနာ၍ အမှတ်တရ မဟာတိဿရ လွမ်းစေတီ**

နဘူးကျောင်း ရန်ကင်းတောရ မဟာတိဿရ ကုန်းမြေတွင် တောရဆရာတော်ဘုရားကြီး၏ ကျေးဇူးဂုဏ်များကို အမှတ်ရလျက် အရိုးဓာတ်များကို ဌာပနာကာ "မဟာတိဿရစေတီတော်" ဟူသော ဘွဲ့မည်တော်ဖြင့် တည်ထားကိုးကွယ်တော်မူသည်။

ကျမ်းကိုး။ ရန်ကုန်ဆရာတော် ဘဒ္ဒန္တဇာဂရိယထေရ်ဦးဆောင်၊ ရမည်းသင်းမြို့ဆီစက် (ဦးပေါလှိုင်၊ ဒေါ်မြရွှေ) တို့၏သား ဦးတင်မောင်ဝင်း ဇနီးဒေါ်သီတာမြင့်နှင့်ဦးတင်မောင်ဝင်း၏ညီမ ဒေါ်ရီဝင်းတို့မှ မ,တည်ငွေ ကျပ်သိန်း ၄၀ ကျော် ဘုရားဒါယကာအဖြစ်ခံယူပြီး အများသူငါ စုပေါင်းပါဝင် တည်ထားပူဇော်ခဲ့ကြပြီး ဖြစ်ပါသည်။

**ရောင်ခြည်တော်လွှတ်**

မဟာတိဿရ စေတီတော်တွင် ဦးတော်တင်၍ လိုရာဆုပန်ဆင်လျှင် ဆုတောင်းပြည့်သည့်အထောက်အထားများစွာရှိနေလေပြီဖြစ်သည်။ ထိုစေတီတော်မှ ရောင်ခြည်တော်လွှတ်သည်ကို အကြိမ်ကြိမ်ဖူးမြင်တွေ့ရှိသူ ရဟန်းရှင်လူတို့ သက်ရှိထင်ရှား ရှိသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-ပဥ္စမ

**ကျောက်စာတိုက်ကြီးတည်ထားသည်**

တောရဆရာတော်ရေးသားပြုစုသမျှကျမ်းစာများမှ ပါဠိစာများကို ကျမ်းအလိုက် ကျောက်

http://www.dhammadownload.com



ထက် အက္ခရာတင် ကျောက်စာချပ်ပေါင်း ၅၀ ချပ်စိုက်ထူထားသော ကျောက်စာတိုက်ကြီး ကိုလည်း တည်ထားပြီးဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-ဆ၄၅

**ကျေးငှက်အများတောရှိင်း တိရစ္ဆာန်များလည်းဖူးမြော်**

တောရဆရာတော်ဘုရားကြီး၏ သီလဂုဏ်၊ သမာဓိဂုဏ်နှင့် ထူးကဲသော ပညာဂုဏ်တို့ ကြောင့် ရဟန်းရှင်လူအပေါင်းတို့က ဆည်းကပ်ခိုလှုံ ဖူးမြော်မဝရှိခဲ့ကြသလို ကျေးငှက် အများ တောတိရစ္ဆာန်များကလည်း ဆရာတော်၏အရိပ်မှာ ခိုလှုံခဲ့ကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-ဆ၄၅

**ကျားသစ်မိသားစု လာရောက်ဖူးမြော်**

အေဒီ ၁၉၆၅ ၁၃၂၇ ခုနှစ် စကုမြို့နယ်၊ မြောင်ဦးရန်ကင်းတောရကျောင်းအနီးဝန်းကျင်တွင် ကျားသစ် မိသားစု လာရောက်နားခိုသည်ကို စာရေးသူကိုယ်တိုင်နှင့် ရဟန်းရှင်လူများစွာ တွေ့မြင်ကြရ ပါသည်။

**မျှားများ ပူဇော်**

အေဒီ ၁၉၉၅ ၁၃၅၇ ခုနှစ်၊ ရမည်းသင်းမြို့နယ် နဘူးကျင်းရန်ကင်းတောရကျောင်းဝင်းအတွင်းရှိ သစ်ပင် များနှင့် ကုဋီ ၂-လုံးတွင် ပျားအုံများစွာ အုပ်စုဖွဲ့ပျားစွဲ၊ ဘေးရန်မရှိရာ အရပ်တွင် လာရောက် ခိုလှုံကြသည်ကို စာရေးသူနှင့် ရဟန်းရှင်လူများစွာ မြင်တွေ့ကြရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-ဆ၄၅

**ကြက်တူရွေးများ ပူဇော်**

အေဒီ ၁၉၉၆ ၁၃၅၈ ခုနှစ် နေပြည်တော် လယ်ဝေးမြို့နယ် ထန်းတပင်တောရကြီးသည် ၁၅ ဧကခန့် ကျယ်ဝန်းသည်။ သစ်ပင်ကြီးများစွာရှိသည့် ထိုတောအုပ်ကြီးသို့ ဝါတွင်းကာလ ကြက်တူရွေး များစွာ နှစ်စဉ်တိုင်း ရောက်လာနားခိုကြသည်ကို စာရေးသူနှင့် ရဟန်းရှင်လူများစွာတို့ မြင်တွေ့ကြရသည်။

**ကြက်တူရွေးကောင်ရေ (၄၅၀၀၀)**

ကြက်တူရွေးကောင်ရေ ၄၅၀၀၀ ခန့်ဖြစ်ကြောင်း ဟိမဝန္တာမှ မိုးများလို့လာရောက် နားခို ကြတာဖြစ်ကြောင်းနှင့် ထိုဒေသဝန်းကျင် နေကြာစိုက်ခင်းများကို ဖျက်ဆီးစားသောက်ခြင်း မရှိ။ သစ်ရွက်နုများကိုသာစားကြောင်း ဆရာတော်ကမိန့်ကြားပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-သတ္တမ

**လက်ယာနွယ်ရစ် အောင်မြေတော**

အေဒီ ၁၉၇၂ ၁၃၃၄ခုနှစ် နဘူးကျင်းရန်ကင်းတောရကြီး ပထမနေရာတောအုပ်သည် လက်ယာနွယ်ရစ် အောင်မြေတောရဖြစ်သည်။ နဘူးကျင်းရန်ကင်းတောရကဲ့သို့ပင် အောင်မြေဖြစ်သည်။ တော တိုင်းရှိ သစ်ပင်တိုင်းလက်ယာနွယ်ခြင်း မရှိဟုဆရာတော်မိန့်ကြားပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-သတ္တမ

ကျမ်းကိုး၊ သိမ်းဆောင်(ရမည်းသင်း) မြန်မာနိုင်ငံစာပေနှင့် စာနယ်ဇင်းအဖွဲ့ဝင် (၇၃၅၉) ရက်စွဲ။ ၁၃၆၉ခုနှစ်၊ တပို့တွဲလပြည့် (၂၀-၂-၂၀၀၈)ကြာသပတေးနေ့ ၁၉၂၀-၂၀၀၄၊ ရမည်းသင်းမြို့နယ် နဘူးကျင်းရွာအနီး အရညဝါသီ အရှင်တိသရထေရ်ဆောင်ရွက်ချက် မှတ်တမ်း မှတ်တမ်းပြုစုသူ - သိမ်းဆောင်

http://www.dhammadownload.com



**ကံကောင်းထောက်မသဖြင့် အောက်ပါ မှတ်စုမှတ်တမ်းကို နဘူးကျောင်းဆရာတော်ကြီး၏ တပည့်ရင်းဖြစ်သူ ရမည်းသင်းသိမ်းဆောင် အမည်ခံ သာသနာပြု ကျမ်းပြု စာရေးဆရာကြီးက မှတ်တမ်းတင်ထားသဖြင့် ရရှိခဲ့ပါသည်။**

အေဒီ ၁၉၅၀ ၁၃၁၂ ခု အစိုးရပထမလတ်တန်းနှင့် ဝိနယဆေကတန်း အောင်တော်မူ။

အေဒီ ၁၉၅၁ ပထမကြီးတန်းကျ ဘုရားဖြူ ဝိနယဝိသာရဒ အမှတ်အများဆုံး "ဝိနယအကျော်" ပထမရ၏။ ၁၃၁၃ ခုနှစ် နတ်တော်လ ဇီးဖြူကုန်းသို့ခေတ္တပြန်။

အေဒီ ၁၉၅၂ ၁၃၁၄ နယုန်လကျင်းပသော အစိုးရပထမကြီးတန်း ဇီးဖြူကုန်းမှ ဖြေဆိုအောင်မြင်။

**သမ္မတကြီးအိမ်တွင်**

အေဒီ ၁၉၅၃ ၁၃၁၅ ခု နယုန်လတွင်ကျင်းပသော စာချတန်းဂုဏ်ထူးခြောက်ကျမ်း ပါရာဇိကဏ္ဍ ပါဠိ အဋ္ဌကထာ သီလက္ခန္ဓဝဂ္ဂ ပါဠိအဋ္ဌကထာကျမ်းရင်း(၂) ကျမ်းအောင်မြင်။

အေဒီ ၁၉၅၃ ၁၃၁၅ ခု တပေါင်းလကျင်းပသောစာချတန်း၌ ကျန်ရှိသည့်ဓမ္မသင်္ဂဏီအဋ္ဌကထာကျမ်းရင်း(၁)ကျမ်း အောင်မြင်၍ ကိုးကျမ်းအောင် "သာသနဓဇ သီရိပဝရ ဓမ္မာစရိယ" ဘွဲ့ကို နိုင်ငံတော်သမ္မတကြီး အဂ္ဂမဟာသီရိသုဓမ္မဒေါက်တာဦးဘဦးအိမ်တွင် ဆက်ကပ်သည်။

**ဝုတင် (၅)ပါးဆောင်**

အေဒီ ၁၉၅၅ ၁၃၁၇ ခုနှစ် သီတင်းကျွတ်လမှစ၍ ဆွမ်းဓုတင်(၅)ပါးဆောင်တော်မူသည်။

**ငွေ တစ်ပြားမှ မရှိ**

မူလက ငွေကိုကပ္ပိယကာရကဖြင့် ထားရာမှ ငဲ့ကွက်မှုကင်း အာလယပြတ်စွန့်လွှတ်၍ ငွေတစ်ပြားမရှိသော စာချဘုန်းကြီးဘဝရောက်တော်မူသည်။

အေဒီ ၁၉၆၁ ၁၃၂၃ တောရလိုက်ရှာရာ (၁)လခန့်ကြာသည်။

**နဂါး ဆီးကြိုခြင်းပေလော**

အေဒီ ၁၉၆၃ ၁၃၂၅ ခု၊ နယုန်လဆန်း (၅)ရက် ဘုရားဖြူမှထွက်၊ နယုန်လပြည့်နေ့ နံနက်(၉)နာရီ ရွှေစက်တော်ဘုရားခြေတော်ရင်း အုဌ်ဂူသို့ရောက်၊ဓုတင်ဝိနယဂရုကအဖြစ်သို့ ရောက်တော်မူသည်။ အုဌ်ဂူဝင် ထွက်ပေါက်ပေါ်မှ မြွေတစ်ကောင်က လျှာတစ်လစ်လုပ်နေ၍ သင်က အဆိပ်ရှိသူ ရဟန်းတို့နေရာဂူတွင် အတူနေ၍မဖြစ်ဟု မေတ္တာပို့လွှတ်ဖယ်ရှားတော်မူရသည်ဟု မိန့်သည်။

**စွန့်ပစ်ထားသော တောကြီးကိုဝင်ခဲ့ ကျင့်ခဲ့**

တောကြမ်းသည် ခြောက်လှန့်သည် သတင်းရှိသဖြင့် နှစ်(၂၀)ခန့်ဓုတင်ဆောင် ကင်းမဲ့နေသော တောရဟောင်းဖြစ်သည်။

**ကျားသစ်လာတာ တွေ့ရ၊ သမင်များလည်း လာကြ**

အတောင်(၃၀)ခန့်နက်သော ရေတွင်းပြန်ကြည်လာသည်။ တောသမင်များ တောရ ကျောင်းအတွင်း နေ့လယ်လာနေသည်ကို ဦးသိမ်းဆောင်တွေ့ရသည်။ ကျားသစ်များဆရာတော်ကျောင်းအနီး လာမွေးသည်ဟုမိန့်သည်။

အေဒီ ၁၉၇၃ ၁၃၃၅ ခုအထူးအားဖြင့် သောသာနိကဓုတင်ဆောင်လိုသည်။ အရညကင် ဓုတင်လည်း မဖျက်လိုသည့်အတွက် ညောင်တုန်းသို့ ကြွခြင်းဖြစ်သည်။

**ရွှေစက်တော်မှာ (၁၀) ဝါ**

အေဒီ ၁၉၇၈ မကွေးတိုင်း ရွှေစက်တော်ခြေတော်ရိပ်တွင် (၁၀)ဝါ ပြည့်အောင်ဖြည့်ခြင်းဖြစ်သည်။

http://www.dhammadownload.com



**ပျားစွဲသောနှစ်**

အေဒီ ၁၉၉၅ ရန်ကင်းတောရ ပရိဝုဏ်အတွင်း သစ်ပင်များနှင့်ကုဋီ(၂)လုံးတွင် ပျားများစွဲခဲ့သော နှစ်ဖြစ်သည်။

**သိမ် အများဆုံး သမုတ်သောနှစ်**

သိမ်(၁၆)လုံး လက်ရှိအများဆုံးသမုတ်သောနှစ်ဖြစ်သည်။

**ကြက်တူရွေးတွေ ညလာအိပ်**

လယ်ဝေးမြို့မှ ဦးခင်ဇော်+ဒေါ်ဝင်းရီတို့လှူဒါန်းသော ဆုတောင်းပြည့်ခဏ္ဍာသိမ်နှင့် မဟာသိမ် သမုတ်စဉ် ထန်းတပင်တောရ တောအုပ်သို့ကြက်တူရွေးများစွာ ညလာအိပ်သည်ကို တွေ့ရသည်။

**သိမ် (၇၇)သိမ်၊ သက်တော် (၇၇)နှစ်**

အေဒီ ၁၉၉၆ တစ်နေ့တည်း နံနက်၌သိမ် နှစ်ခုသမုတ်သည်။ သိမ်အစဉ် ၇၇ နှင့် သက်တော် ၇၇နှစ်ဖြစ်သည်။

တစ်ညတည်း၌ သိမ်နှစ်ခုသမုတ်သည်။

**လက်ယာရစ်နွယ်တွေ.**

အေဒီ ၁၉၉၈ ထန်းတပင်တောရတွင်လည်း လက်ယာနွယ်ရစ်အပင်များတွေ့ရကြောင်းမိန့်သည်။ (နဘူးကျင်း ရန်ကင်းတောရကဲ့သို့ပင်အောင်မြေတောဖြစ်သည်။)

အေဒီ ၁၉၉၉ ၁၃၆၁ ခု ထန်းတပင်တောရမဟာရံတံတိုင်းများနှင့် မုခ်ဦးတံခါးများပြုလုပ်ပြီး၍ (နဘူးကျင်း ရန်ကင်းတောရကျောင်းကဲ့သို့) ဝါတွင်းကာလ လူဝင်လူထွက်ခြင်းမပြုရန် စည်းကမ်းသတ်မှတ်တော်မူသည်။

အေဒီ ၁၉၉၅ ၁၅-၃-၉၅ နေ့ "သာသနာတော်မှာအလွန်ကြည်ညိုစရာကောင်းတဲ့ တောရဆရာတော်ကြီးပါဟု (ယော)ဆရာတော်က မိန့်သည်။

> ကျမ်းကိုး။ သိမ်းဆောင်(ရမည်းသင်း) မြန်မာနိုင်ငံစာပေနှင့် စာနယ်ဇင်းအဖွဲ့ဝင် (၇၃၅၉) ရက်စွဲ။ ၁၃၆၉ ခုနှစ်၊ တပို့တွဲလပြည့် (၂၀-၂-၂၀၀၈)ကြာသပတေးနေ့ ၁၉၂၀-၂၀၀၄ ရမည်းသင်းမြို့နယ် နဘူးကျင်းရွာအနီး အရညဝါသီ အရှင်တိဿရထေရ်ဆောင်ရွက်ချက် မှတ်တမ်း၊ မှတ်တမ်းပြုစုသူ - သိမ်းဆောင်။ မြေလတ်မြတ်သူ၏ကူညီမှုဖြင့် နဘူးကျင်း ဆရာတော်၏တပည့်ကြီး ဂုဏ်ထူးဆောင်ဦးသိမ်းဆောင်ထံမှ မှတ်တမ်းများ အတိအကျရ၍ နဘူးကျင်းအရှင်မြတ်ကြီး၏ မှတ်တမ်းကို ဤရွေ့ဤမျှ မှတ်တမ်းတင်နိုင်ခြင်း ဖြစ်ပါသည်။ အကယ်၍ ဆရာကြီး ဦးသိမ်းဆောင်ကဲ့သို့သော တပည့်ကြီးများသည် ရဟန္တာနှင့် ရဟန်းထူးကြီးများ အသီးသီးထံပါး၌ တောတောင်ရေမြေအနှံ့ မြေပေါ်မြေအောက်မကျန် ရှိနေပါလျှင် ဆရာကောင်းတပည့် ပန်းကောင်းပန်ဟူသော စကားအတိုင်း ဂါဝရပြုလိုက်ပါသည်။
>
> ကျမ်းကိုး။ ထိုအချက်အလက်တို့ကို ၁၉၉၆ အောက်တိုဘာလထုတ် ရတနာမွန်မဂ္ဂဇင်း အတွဲ ၂၃ ၊ အမှတ် ၁၀၊ စာမျက်နှာ ၃၃ ၊ ၃၄ တို့တွင် ရေးသားသော သာသနာ့အကျိုးဆောင် ဆရာတင်စိန် (ဥပဒေ) ကညွတ်ကွင်း၏စာမှ ရရှိခဲ့ပါသည်။

http://www.dhammadownload.com





မန္တလေးတိုင်း၊ မိတ္ထီလာခရိုင်၊ မလှိုင်မြို့နယ်

# စေတော်ဝင် ရွှေပေါက်ကျွန်းဆရာတော် အရှင်ဇေယျသိဒ္ဓိမဟာထေရ

## ၁၉၂၂ – ၁၉၉၇



http://www.dhammadownload.com



**တည်နေရာ**

ရွှေပေါ်ကျွန်းတည်နေရာသည် ဘယ်နေရာမှာ ရှိသနည်းဟု ရောထွေးနေတတ်၏။ ရွှေကူမြို့ ရွှေပေါ်ကျွန်း ဟူ၍အမည်တူ တစ်ခုရှိသေးသည်။ ယခု ရွှေပေါ်ကျွန်းဆရာတော်ကြီးကား မလှိုင် ရွှေပေါ်ကျွန်းဆရာတော်ဘုရားကြီးဖြစ်၏။ စေတော်ဝင်ဟု ထင်ရှား၏။

**ရွှေကူ ရွှေပေါ်ကျွန်း**

ရွှေကူ ရွှေပေါ်ကျွန်း ဆရာတော်မှာ ဦးသောဘိတ ဖြစ်၏။ ထိုဆရာတော်ကြီးနှင့် စပ်လျဉ်းသော ရွှေပေါ်ကျွန်း ရွှေကူမြို့ ရွှေပေါ်ကျွန်း ဖြစ်၏။

**စေတော်ဝင်**

ယခု ရွှေပေါ်ကျွန်းကား မိတ္ထီလာခရိုင်၊ မလှိုင်မြို့နယ်၊ ရွှေပေါ်ကျွန်း ဖြစ်၏။ ထိုကြောင့် စေတော်ဝင်ဟု ဝိသေသပြုထားခြင်း ဖြစ်၏။

**ခရီးစဉ် လမ်းညွှန်**

ရွှေပေါ်ကျွန်းသည် မန္တလေးတိုင်း၊ မိတ္ထီလာခရိုင်၊ မလှိုင်မြို့နယ်အတွင်းရှိ ရှေးရွာတစ်ရွာဖြစ်သည်။ မလှိုင်မြို့မှ အရှေ့မြောက်ဘက် ၁၈ မိုင်ဝေး၏။

> ကျမ်းကိုး၊ ကျေးဇူးရှင် အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ အရှင်ဇေယျသိဒ္ဓိမဟ္မညာဏိက၊ ရွှေပေါ်ကျွန်းဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိကျင့်စဉ်နှင့်ဩဝါဒမော်ကွန်း၊ မြေလတ်မြတ်သူ၊ ၂၀၀၂ခုနှစ်၊ ဒီဇင်ဘာလ၊ စာ-၅၇။

ရွှေပေါ်ကျွန်းသို့အဝင်လမ်းများမှာ ရောက်ဖူးသူတို့ မှတ်တမ်းအရ အောက်ပါအတိုင်းဖြစ်ပါသည်။

၁။ မလှိုင်မြို့သည် မိတ္ထီလာ-မြင်းခြံသွား ကားလမ်းမကြီးပေါ်တွင်ရှိ၏။ မလှိုင်မြို့မှ အရှေ့မြောက် ၁၈ မိုင် ခရီး ရှိ၏။

၂။ မန္တလေး-မြင်းခြံ လမ်းမကြီးပေါ်ရှိ ခက်လန်းရွာမှ တစ်ဆင့်တောင်ဘက် အဝင် ၁၅ မိုင်ခရီး

၃။ မိတ္ထီလာမြို့မှ ပင်းတလဲရွာလမ်း၊ ဤလမ်း၌ခရီးသည်တင်ကားရှိသည်။ ပင်းတလဲရွာမှ တစ်ဆင့် ခြေလျင်ခရီး ငါးမိုင်ခန့်ခြေကျင်ဝင်၍ရပါသည်။

၄။ ရန်ကုန်-မန္တလေးလမ်းမကြီးရှိ သဲတော-ဝမ်းတွင်းမှ တစ်ဆင့် ၂၀ မိုင်ဝန်းကျင် အနောက်ဘက်လမ်း။

၅။ နွားထိုးကြီးမြို့နယ် ဘုရားကြီးကျေးရွာမှ အရှေ့တောင်လမ်း ဤလမ်းငါးလမ်းတွင် အမှတ်(၁)နှင့် (၂)ဖြစ်သော မလှိုင်မြို့မှ အဝင်လမ်းနှင့် ခက်လန်းရွာမှ အဝင်လမ်းများ သာအသွား အလာများသည်။ မန္တလေးမြို့နှင့်အနီးဒေသများမှ လာကြလျှင် ခက်လန်းရွာက အဝင်များ၏။ ရန်ကုန်မြို့ဘက်မှသွားပါက မလှိုင်မြို့ကအဝင်များပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၇

ရွှေပေါ်ကျွန်းသို့ မရောက်ဖူးသူများအတွက် ရွှေပေါ်ကျွန်းပထဝီဝင်ကို အောက်ပါအတိုင်း ခရီးအကွာအဝေးနှင့် တကွမှတ်တမ်းတင်ထားသည်ကိုတွေ့ရှိရပါသည်။

**ရန်ကုန်မှ လမ်းညွှန်**

ရန်ကုန်မြို့မှ မိတ္ထီလာမြို့ထိ မိုင်ပေါင်း ၃၃၈ မိုင်၊ မိတ္ထီလာကိုဗဟိုပြု၍ ဝမ်းတွင်းသို့ ၂၈ မိုင်၊ အရှေ့လမ်းခွဲ သာစည်သို့ ၁၄ မိုင်၊ အနောက်တောင်ဘက် ကျောက်ပန်းတောင်းသို့ ၅၃ မိုင်၊ အနောက်မြောက် မလှိုင်မြို့သို့ ၂၂ မိုင်၊ တောင်သာမြို့သို့ ၄၄ မိုင်၊ မြင်းခြံမြို့နယ်အထိ ၅၆ မိုင် ဖြစ်ပါသည်။ ရွှေပေါ်ကျွန်းသည် မလှိုင်မြို့မှ ၁၈ မိုင် ဝေးသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၈

http://www.dhammadownload.com



ရွှေပေါ်ကျွန်းရွာ ဆိုသည်မှာ ရှေးဟောင်းသမိုင်း မကင်းသော သမိုင်းဝင် ရွာကြီးတစ်ရွာဖြစ်၏။

**ရှေးဟောင်း ရွာတစ်ရွာ ဖြစ်ခဲ့**

ရွှေပေါ်ကျွန်းရွာသည် အရှေ့မှအနောက်သို့ တန်းထားသော ရွာဖြစ်၏။ အိမ်ခြေ (၂၀၀) ကျော်ရှိပါသည်။ ရှေးရွာတစ်ရွာဖြစ်၏။ ရွာ၏အရှေ့ဘက်ထိပ်တွင် ပုဂံခေတ် အလောင်းစည်သူ မင်းကြီးလက်ထက် ဆောင်ရွက်ချက်ဖြစ်သော အလောင်းစည်သူဆည်ကြီးဖြစ်သည့် "စည်သူ ဆည်" ရှိသည်။ စပါး၊ ပဲ၊ ပြောင်း၊ ဝါ၊ စိုက်ခင်းများအတွက် အဓိကရဆည်ကြီး ဖြစ်ပါသည်။ (ရွှေပေါ်ကျွန်းကျေးရွာ၏ အရှေ့တောင်ဘက် ၃ ဖာလုံခန့်တွင် ရေငန်ရွာရှိသည်။ ရွှေပေါ် ကျွန်းရွာသည် ထိုရေငန်ရွာမှ ခွဲထွက်တည်ထောင်ထားသော ရွာဖြစ်ကြောင်းသိရပါသည်။) ရွှေပေါ်ကျွန်းရွာသည် ရေငန်ကျေးရွာ အုပ်စုဝင်ရွာတစ်ရွာဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၈

**ဆရာတော်ဘုရားကြီး၏ မိဘနှစ်ပါး**

အဘ ဦးဖိုးစ၊ အမိဒေါ်လယ်လှဲ့တို့သည် ရေငန်ကျေးရွာအုပ်စု၊ ရွှေပေါ်ကျွန်း ရွာသူရွာသား များဖြစ်ကြ၏။ ဆရာတော်ဘုရားကြီးအား ဤရွာမှာပင် မွေးဖွားသန့်စင်ပါသည်။ အစဉ်အလာ အားဖြင့် လယ်ယာစိုက်ပျိုးလုပ်ကိုင်ကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၉

**ရက်ချုပ်ဇာတာတော်**

အေဒီ ၁၉၂၂

မြန်မာသက္ကရာဇ် ၁၂၈၄ ခုနှစ်၊ ကဆုန်လပြည့်ကျော် ၁၃ ရက်၊ ခရစ်နှစ် ၁၉၂၂ ခု၊ မေလ ၂၃ ရက် အင်္ဂါနေ့၊ မြန်မာစက် ညဥ့်တစ်ချက်တီး (၁-နာရီ)အချိန်။ အင်္ဂါသား။ ရာသီအားဖြင့် ဓနုရာသီတွင် မီးရှူးသန့်စင်ဖွားမြင်တော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၉

မှတ်ချက်။ (ရက်ချုပ်ဇာတာကို သာယာဝတီခရိုင်၊ သုံးဆယ်မြို့၊ ပေပင်ကုန်းရပ်ရှိ အငြိမ်းစား ကျောင်းအုပ်ကြီး၊ နက္ခတ် လမ်းညွှန်ဆရာ ဦးတင်အေးမှ ၁၉၇၄ ခုနှစ်က ပထမဆုံးတွက်၍ ဆရာတော်ဘုရားအား ဆက်ကပ်အတည်ပြုပြီး ဖြစ်ပါသည်။ ဦးတင်အေးသည် သာသနာပြု စာရေးဆရာကြီး မြေလတ်မြတ်သူ၏ဖခင် ဖြစ်ပါသည်။)

**အတိတ်ထူးနိမိတ်ထူး**

ဆရာတော်ကြီးအား မမွေးဖွားမီ ၇ရက်က ဖခင်ဖြစ်သူ ဦးဖိုးစမှာ ကျန်းမာရေး အနည်းငယ် ချို့တဲ့ သဖြင့် နေ့လယ်အချိန်တွင် မြောက်အရပ်သို့ ခေါင်းထားအိပ်စက်စဉ် ကျီးတစ်ကောင် လာနား၍ အရှေ့အရပ်ပြန်သွားကြောင်း သိရ၏။

မွေးဖွားစဉ်ကာလအချင်းစလွယ်သိုင်း၊ အချင်းမှာ မိန်းမချီတစ်ချက်ပါကြောင်း လေ့လာသိရှိ ရပါသည်။

**ကျီး နှစ်ကောင်လာနားသော အတိတ်နိမိတ်**

မိခင်ကြီးသည် သားရတနာအား မမွေးမီက ထမင်းအိုးငှဲ့နေစဉ် မယ်တော်၏ ပခုံးနှစ်ဖက်သို့ ကျီး နှစ်ကောင် နားခိုကြောင်း သိရှိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၉

**မွေးချင်းများ**

အဘဦးဖိုးစ -အမိဒေါ်လှဲ့တို့မှ သားသမီး (၆)ယောက်ဖွားမြင်ပါသည်။ (၁) ဦးဘို (၂) ဦးချို

http://www.dhammadownload.com



(ရွှေပေါ်ကျွန်းဆရာတော်ဘုရားကြီး၏ လူ့ဘဝငယ်မည်) (၃) ဦးချိ (၄) ဦးဖူးညို (၅) ဒေါ်ထွန်း (၆) ဒေါ်လွန်း(ဒေါ်ခင်လွန်း) (၇) ဦးထွန်းလှိုင်တို့ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၀

**ငယ်မည်မောင်ချို**

ဆရာတော်ဘုရားကြီး၏ လူ့ဘဝငယ်မည်သည် "မောင်ချို" ဖြစ်၍ ဆရာတော်၏ အထက် အစ်ကို ဦးဘိုနှင့် ညီဦးချိတို့မှာ ကွယ်လွန်ခဲ့ပြီးဖြစ်၍မမီကြပါ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၀

**ငယ်စရိုက်**

ဆရာတော်လောင်းလျာ မောင်ချိုသည် ငယ်စဉ်ကတည်းက အနေအေး၍ စကားနည်းသည်။ ရဟန်းဝတ်သည်အထိ "သျှောင်ထုံး"ထားသည်။ လူမှန်းသိစမှစ၍ ခေါင်းအား မည်သူ့မှအကိုင် မခံ။ မိခင်ဖခင်သာအကိုင်ခံခဲ့၏။ နှစ်ပတ်သျှိုဆံထုံးကို ကိုယ်တိုင်ကျင်လည်စွာထုံးတတ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၀

**အနုပညာဗီဇ**

အစ်ကိုဦးဘိုသည် မြန်မာဆိုင်းဝိုင်းတည်ထောင်၏။ မြန်မာမှုအနုပညာတီးမှုတ်တတ်သည်။ သို့ဖြစ်၍ ညီမောင်ချို (ဆရာတော်လောင်းလျာ)သည်လည်း အခြေခံ မြန်မာ့ဂီတသင်ရိုးများ၊ မြန်မာမှုသီချင်း၊ ဂီတများ၊ နားယဉ်လျက် အခြေခံကောင်းခဲ့၏။ ဂီတဝါသနာရှိခဲ့သည်။ သီချင်း ဂီတမှ စာများ၊ စာသားများကို သဘောကျနှစ်ခြိုက်တတ်၏။ လေ့လာမေးမြန်းတတ်၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၀

**ကျောင်းသားဘဝ**

အေဒီ ၁၉၂၈ — မောင်ချိုအား အသက်(၆)နှစ်ခန့်တွင် ကျေးရွာသဘာဝ ရွာဦးဘုန်းတော်ကြီးကျောင်းမှာ စာသင် ရန် အပ်နှံခဲ့ပါသည်။ ထိုစဉ်က ရွာဦးကျောင်းဆရာတော်မှာ ဦးဇယ်ဟုအများခေါ်သော ဆရာတော်ဦးဇယန္တဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၅

**(၉)နှစ်သား ဘဝ**

အေဒီ ၁၉၃၁ — မောင်ချိုအား ဆရာတော်ဦးဇယန္တမှ အခြေပါဒသင်ဦးစမှ သင်ကြားပို့ချခဲ့ရာ နှစ်နှစ်အကြာမှာ အတော်ပင် ခိုင်လုံစွာ တတ်မြောက်၍ သုံးနှစ်အကြာ ၉ နှစ်သားအရွယ်ရောက်သော် ကွဲခြံရွာ၌ ကျင်းပသောစာပြန်ပွဲ၌ သင်္ဂြိုဟ် ၉ ပိုင်းကို အာဂုံဆောင်ကာ ပထမဆင့်မှ အောင်မြင်ခဲ့ပါသည်။

**သာမဏေဘဝ**

အေဒီ ၁၉၃၅ — ဆရာတော်လောင်းလျာ ကျောင်းသားမောင်ချိုသည် ရွာဦးကျောင်းဆရာတော် ဦးဇယန္တထံမှာပင် ပညာ ဆက်လက် သင်ကြား၏။ ခရစ်နှစ် ၁၉၃၅ ခုနှစ်၊ အသက် ၁၃ နှစ်အရွယ်တွင် မိဘ များဖြစ်သော ခမည်းတော်၊ မယ်တော်တို့မှ ထုံးတမ်းစဉ်လာ မင်္ဂလာအခါကြီးနှင့်ကြီးသဖြင့် သာသနာ့ဒါယကာခံယူကာ သားဖြစ်သူ မောင်ချိုအား ရှင်သာမဏေဘဝသို့ ဆရာတော် ဦးဇယန္တထံမှာပင် သွတ်သွင်းချီးမြှင့်ပေးကြပါသည်။ ဘွဲ့တော်မှာ ရှင်ဝါယမ ဖြစ်ခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၅

**မိုးပေါ်မှာ ဝါသဝ၊ လှူပြည်မှာဝါယမ**

ဆရာတော်လောင်းလျာ ရှင်ဝါယမသည် စာပေကြိုးစားမှုနှင့်အတူ အကျင့်အနေအထိုင် ကောင်းလှပါသည်။ သာမဏေဘဝမှာပင် ဤသို့အစစကောင်းခြင်း မင်္ဂလာသတင်းကြောင့်

http://www.dhammadownload.com



အချို့လူပုဂ္ဂိုလ်များနှင့် ဆရာတော်ကြီးများက "မိုးပေါ်မှာ ဝါသဝ၊ လူ့ပြည်မှာ ဝါယမ"ဟု ကျော်ကြားခဲ့သည်။ (ဝါသဝ ဆိုသည်မှာ သိကြားမင်းကြီး၏ဘွဲ့ဟုသိရ၏)

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၆

**စာသင်သားဘဝ**

အေဒီ ၁၉၃၈ မြင်းခြံမြို့ ကန်ဆင့်ရွာကျောင်းမှာ ပညာလိုလားစာသင်သားဘဝဖြစ်သော ဆရာတော် လောင်းလျာ ရှင်ဝါယမသည် ဆရာတော် ဦးဓမ္မိကထံတွင် ပညာသင်ရာ ၃ နှစ် ၃ မိုးကြာခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၆

**ရေနံမြေသပိတ်ကြီးနှင့် ခေတ်ပြိုင်**

အေဒီ ၁၉၃၉ မြန်မာသက္ကရာဇ် ၁၃၀၀ ပြည့်နှစ်၊ ခရစ်နှစ် ၁၉၃၉ ခုနှစ် ၁၆ နှစ်သားအရွယ်မှာ ပညာသင် ရှင်ဝါယမသည် ပထမငယ်စာဖြေပွဲတွင် ပထမအဆင့်ဖြင့် ထပ်မံ၍ပထမဆုရရှိ ပြန် ပါသည်။

**ရဟန်းဘောင်သို့တက်လှမ်းခြင်း**

အေဒီ ၁၉၄၂ ဆရာတော်လောင်းလျာ ရှင်ဝါယမသည် စာပေပညာသင်ကြားလျက် အသက် ၂၀ တွင်းသို့ ရောက်လာ၏။ သို့ဖြစ်၍ ၁၃၀၃ ခုနှစ်၊ တန်ခူးလပြည့်နေ့ အသက် ၁၉ နှစ်ကျော် အသက် ၂၀ တွင်းအရောက်တွင် နွားထိုးကြီးမြို့နယ်၊ ဇီးတောကျေးရွာမှာ နေထိုင်ကြသည့် ဦးဖိုးပြိုင်၊ ဒေါ်ဆယ်မိတို့က ပထမဆုံး ရဟန်းဒါယကာ ရဟန်းဒါယိကာမအဖြစ်ခံယူကာ မလှိုင်မြို့၊ လေး မျက်နှာကျောင်းတိုက်၊ ပါဠိတက္ကသိုလ် ဂိုဏ်းအုပ်ဆရာတော်ကြီး ဦးကုမုဒြကို ဥပဇ္ဈာယ်ပြု၍ မြင့်မြတ်သောရဟန်းဘဝသို့ တက်လှမ်းရောက်ရှိခဲ့ပါသည်။ ဘွဲ့တော်မှာ အရှင်ဝါယမ ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၇

**ရဟန်းဘဝ ပညာတော်သင် ရှင်ဝါယမ**

ပညာသင်ကြားရာကျောင်းတော်ကြီးမှာ ရွှေပေါ်ကွန်းရွာဦး ကန်ကြီးကျောင်းတိုက်၊ မြင်းခြံမြို့နယ်၊ ကန်ဆင့်တောင်ရွာ၊ မဟာဓမ္မိကာရာမ ကျောင်းတိုက်၊ မြင်းခြံကိုးဆောင်ကျောင်းတိုက်၊ မလှိုင်မြို့၊ လေးမျက်နှာကျောင်းတိုက်၊ ရှစ်မျက်နှာကျောင်း ပါဠိတက္ကသိုလ်ကျောင်းတိုက်၊ မန္တလေးမြို့မှ မဟာဝိသုဒ္ဓါရုံတိုက်၊ ဝါးတန်းကျောင်းတိုက်၊ မြင်းဝန်ကျောင်းတိုက်၊ ကုသိနာရုံတိုက်၊ ပျော်ဘွယ်ကျောင်းတိုက်နှင့် ဘုရားကြီးကျောင်းတိုက်တို့တွင် စာပေပညာ သင်ကြားခဲ့သည်။ ပထမကြီးတန်းကို အောင်မြင်ခဲ့ပြီး ဆက်လက်၍ သက္ကသီဟ ဓမ္မာစရိယ တန်းသို့တက်၍ စာပေသင်ကြားနိုင်လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၇

**ရည်ရွယ်ချက်နှင့်ဖြစ်ရပုံများ**

ပညာသင်ကြားအားကောင်းနေစဉ် ဂျပန်ခေတ်နှင့်ကြုံရခြင်း၊ မိမိ၏ ဇာတိရွာ၊ ဇာတိကျောင်း၊ ရွှေပေါ်ကွန်း ကန်ကြီးကျောင်းဆရာတော် ငယ်ဆရာဦးဇယန္တသည် အသက်အရွယ်အရ ပျံလွန်တော်မူခြင်း၊ ရွာရှိမိဘဆွေမျိုးများနှင့် ရွာ၏တောင်းဆိုမှုအားများလှခြင်း၊ ခေတ်ကာလ အခြေအနေအရ ဇာတိရွာသို့ပြန်သင့်ခြင်း၊ အမှန်တကယ်လည်း မိမိရွာတွင် ကျောင်းထိုင် ဆရာတော်တစ်ပါးလိုနေခြင်း၊ မိမိသည်ကျောင်းထိုင်နေရာမှာ ရပ်တည်ဝင်ရောက်ရန် အကြောင်းအချိန်ကြုံခြင်းတို့ကြောင့် မန္တလေးမြို့ စာသင်သားဘဝမှ ရွှေပေါ်ကွန်းရွာ၊ ကန်ကြီးကျောင်းသို့ ပြန်၍ ကြွခဲ့ရလေသည်။ သက္ကသီဟဓမ္မာစရိယတန်းပညာသင်ဘဝမှ စာမေးပွဲပင်မဖြေ

http://www.dhammadownload.com



လိုက်ရဘဲ အကြောင်းကြောင်းကြောင့် မဖြစ်မနေ ဇာတိရွာ ရွှေပေါ်ကျွန်းကန်ကြီးကျောင်းသို့ ပြန်လည် ရောက်ခဲ့ရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၈

**ဆွမ်းလောင်းသော သူတော်စင်**

ဆရာတော်ကြီးလောင်းလျာ ရှင်ဝါယမသည် မန္တလေးမြို့ မြင်းဝန်တိုက်မှာ စာသင်သား ဘဝက ဖြစ်၏။ နေ့စဉ် ဆွမ်းခံရသည်။ ဆွမ်းခံခရီး၌ ဇရပ်ကြီးတစ်ခုရှိ၏။ ထိုဇရပ်ကြီးမှ သူတော်စင် တစ်ဦး နေ့စဉ်ဆွမ်းဟင်းခွက်တစ်ခွက်စီ လောင်းလှူခဲ့လေသည်။ သူတော်စင်ကြီးက "မိမိနှင့် မတွေ့၍ ဆွမ်း၊ ဆွမ်းဟင်းခွက်များထွက်၍ မလောင်းလှူနိုင်ရင်တောင်မှ ကိုယ်တော် လေးကို လှူပြီးသားဖြစ်လို့ ကိုယ်တော်လေးအတွက် ကြိုတင်ပြီး တပည့်တော်စီစဉ်ထားရှိသည့် ဆွမ်းဟင်း ခွက်များအား အသင့်ထားခဲ့ပါမည်။ ကိုယ်တိုင်ဝင်၍အလှူခံယူတော်မူပါ" ဟု လျှောက်ထားလေ သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၈

**ဆံရှည်ဆရာတော် အမိန့်**

"စာသင်တာ ဒီကလောက်ဆိုရပြီလေ။ ဘယ်ဆုံးနိုင်တယ်ရှိမှာလဲ။ အကျင့်စရဏဘက် လျှောက် ပါဦး ကျင့်ပါဦး။ ကျင့်တော့" ဆိုသည်။ ဆံတော်များရှည်နေသည့် ရဟန်းအိုဆရာတော်ကြီး ဖြစ်နေပါ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၀

**ပညတ်တို့၏ထူးခြားသောအပြောင်းအလွဲများ**

ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိကို လေ့လာရာတွင် ထူးခြားသောအပြောင်းအလဲများဟု ဆိုအပ်သော ပြောင်းလွဲမှုများ ရှိခဲ့၏။

**စေတော်ဝင်**

(က) ရွှေပေါ်ကျွန်းရွာထိပ်ရှိ မိမိငယ်စဉ်က ကျောင်းနေခဲ့ပြီး သာမဏေဖြစ်ခဲ့သော ကန်ကြီး ကျောင်းသည် ယခုအခါ "စေတော်ဝင်ကျောင်း" အဖြစ်သို့ပြောင်းခဲ့သည်။

**ဝါယမမှ အရှင်ဉာဏိကသို့**

(ခ) မိမိ၏မွေးဖွားသောနေ့ကို မိဘခမည်းတော်၊ မယ်တော်တို့က ဗုဒ္ဓဟူးနေ့ဖွား ဗုဒ္ဓဟူး နေ့သား ဟုယူဆမှတ်သား၍ ရှင်ဝါယမဖြစ်ခဲ့ရသောဘဝမှ လမ်းညွှန်ဆရာကြီးများ၏ သတိပေး ပြောင်းလွဲစေမှုအရ အင်္ဂါနေ့သားဖြစ်သဖြင့် ရဟန်းရှင်ဝါယမမှ အရှင်ဉာဏိက" ဟုပြောင်း ခဲ့သည်။

**ဉာဏိကမှ အရှင်ဇေယျသိဒ္ဓိမွေ့ဉာဏိကသို့**

(ဂ) အရှင်ဝါယမမှ အရှင်ဉာဏိက သို့ဘွဲ့မည်တော်ပြောင်းခဲ့ပြီး အကျင့်သန်၊ အမြင်မှန်၊ ဉာဏ်အား ပြည့်လာသဖြင့် အရှင်ဇေယျသိဒ္ဓိမွေ့ဘွဲ့တော်ကို လမ်းညွှန်ဆရာတော်ကြီးမှ ထပ်မံ ချီးမြှင့်တော်မူရာမှ "အရှင်ဇေယျသိဒ္ဓိမွေ့ဉာဏိက"အထိ ဘွဲ့မည်တော်တည်ခဲ့လေ သည်။

**အဟောင်းမှ အသစ်သို့**

(ဃ) ကျောင်းဟောင်း၊ လမ်းဟောင်း၊ ကန်ဟောင်း၊ ရေတွင်းဟောင်းများကို အချိန်အခါအရ အသစ်တိုးချဲ့ပြောင်းလဲခဲ့လေသည်။

http://www.dhammadownload.com



**အောင်မြင်စွာနှင့် အကျွတ်အလွတ် ဘွဲ့တော်အပြောင်းအလဲ**

(င) မူလအောင်မြင်စွာ စေတီတော်နှင့် အကျွတ်အလွတ် စေတီတော် ၂ ဆူတို့အား စေတီမပြောင်းဘဲ ဘွဲ့တော် အပြန်အလှန်ပြောင်းလွဲခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၂

**ကုလားထိုင်တစ်လုံးဖြင့် နေမြဲ**

အိပ်ရာ ခုတင်ဖြင့် စတိုင်ကျကျ အိပ်စက်နားနေခြင်းမရှိ။ အများအိပ်ချိန်တိုင်းမှာ ဝါးပက်လက်ကုလားထိုင်တစ်လုံး(ဝါ) ထန်းလက် ကုလားထိုင်တစ်လုံးဖြင့် ချမ်းချမ်းအေးအေး ခြင်ကိုက်၊ မှက်ကိုက်ခံပြီး ဘာဝနာစရဏတစ်ခုခုရှိနေတော်မူ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၃

**ခုတင် (၁၃)ပါး အောင်တော်မူ**

အထူးသဖြင့် ခုတင်အကျင့်ကြောင့် အရိပ်အာဝါသနှင့် နေခြင်းနည်းပြီးသစ်ပင်ရင်းများ၊ တစ်ခါတစ်ရံလေဟာ ပြင်အရပ်စသည်တို့မှာ အချိန်ကုန်ရလေသည်။ ခုတင် ၁၂ ပါးအောင်တော်မူ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၃

အလွန်အေးသော ဆောင်းရာသီ၊ မိုးရာသီများမှာပင်လျှင် အကျင့်စရဏကို မလျှော့ဘဲ ကျင့်မြဲကျင့်သွားနိုင်ခြင်းသည် အလွန်အံ့သြဖွယ် ကောင်းလှပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၃

**မေတ္တာပါရမီ ခန္တီပါရမီ**

ရွှေပေါ်ကျွန်းဆရာတော်ဘုရားသည် မေတ္တာပဋိပတ်အကျင့်တရားကို အလွန်အားထားတော်မူသည်။ မေတ္တာအကျင့်ကြောင့် မိမိကိုယ်တိုင် ခန္တီပါရမီကို အစွမ်းကုန်ကျင့်တော်မူလေသည်။ ဆရာတော်ဘုရား ချီးမြှင့်သည့် ကျင့်စဉ်ခပ်များများတွင် ခန္တီကိုမေတ္တာပို့နှင့် တွဲပေးသည်က များသည်။

**စိတ်ယဉ်ကျေးအောင်**

ခြေလေးချောင်းအသား၊ ကုန်းသတ္တဝါအသား၊ သက်သတ်လွတ်စသည့် အဆင့် ဆင့်ကို အလိုက်လွယ်အောင် ခေါ်ဆောင်တော်မူသည်။ သေရည်အရက်၊ မူးယစ်ဆေးဝါး၊ လောင်းကစားစသည်များကိုပါ ပူးတွဲရှောင်စေခြင်းဖြင့် လောကလူသားတို့၏ ဖြစ်ပေါ်လေ့ရှိ သော အစားကြမ်း၊ စကားကြမ်း၊ အနေအထိုင်ကြမ်း၊ စိတ်ကြမ်း၊ စိတ်ရိုင်း၊ စိတ်မိုက်တို့ကို နူအောင်၊ ယဉ်အောင်၊ သိမ်မွေ့အောင် ခေါ်ဆောင်တော်မူလေသည်။

ဤသည့်နည်းနှင့် စရဏလမ်းပေါ်သို့ ဆွဲတင်ရာ များသောအားဖြင့် အောင်မြင်သဖြင့် ကျော်ကြား ထင်ရှားလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၅

**ခန္တီသည်အမိ၊ မေတ္တာသည်အဖ**

ရွှေပေါ်ကျွန်းဆရာတော်ဘုရားကြီးသည် ပါရမီဆယ်ပါးအကျင့်မြတ်လမ်းစဉ်တွင် "ခန္တီသည် အမိ၊ မေတ္တာသည် အဖ"ဟုမိန့်ကြားပြီးမိန့်သည့်အတိုင်းကျင့်တော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၅

http://www.dhammadownload.com



**ကျီးနှင့် ဇီးကွက် အတူနေ**

ရွှေပေါက်ကျွန်းကျောင်းတွင်းမှာ မိမိတို့ ရောက်စနှစ်များက နေ့ရောညပါ ကျီးနှင့်ဇီးကွက် ကမ္ဘာ့ရန်ဖက်တို့သည် အတူအိပ်အတူနေ အတူစားဖြစ်ကြသည်။

ကျမ်းကိုး။ ယင်းကျမ်း။ စာ-၇၅

**ကြောင်နှင့်ကြွက်တို့ အတူနေ**

ကြောင်နှင့်ကြွက် ကမ္ဘာ့ရန်ဖက်တို့သည် တစ်ခွက်တည်းစား၊ တစ်ချောင်တည်းနေ ရန်ပြုရမှန်းမသိ၊ ရန်မရှိ။

**ခွေးတို့ပြသော မေတ္တာသင်္ကေတ**

ရှေ့ကခွေးမကြီး၏သားကို နောက်ခွေးမက နို့တိုက်၍ ကြီးပြင်းစေသည်။ စသည့် ထူးခြားသောဖြစ်စဉ်တို့သည် ဆရာတော်၏ မေတ္တာအောင်နိမိတ်ပြ လက္ခဏာရပ်ကြီးများဟု အများကယုံကြည်ကြလေသည်။

ကျမ်းကိုး။ ယင်းကျမ်း။ စာ-၇၇

**ဆရာတော်၏အောင်မြင်မှု**

ဆရာတော်ဘုရားကြီးသည် ဆေး၊ အင်း၊ ဂါထာ စသည့် လောကီပညာအဝဝဖြင့် တိုးတက်အောင်မြင်လာသည်မျိုးမဟုတ်ဘဲ တရားဓမ္မအခြေခံကျင့်စဉ် စရဏကို ဆန္ဒ၊ ဝီရိယ၊ စိတ်၊ ပညာ(ဝီမံသ)စသည်ဖြင့် ကျင့်ကြံကြိုးကုပ် ဆင်းရဲခံအားထုတ်ပြီးမှ အကြောင်းလျော်စွာဖြစ်ပေါ် သင့်သော စခန်းမျိုးကို ထူထောင်အောင်မြင်တော်မူခြင်း ဖြစ်ပါသည်။

ကျမ်းကိုး။ ယင်းကျမ်း။ စာ-၁၅၉

ယခုကဲ့သို့ မိမိကိုယ်တော်တိုင် ဖြစ်ပေါ်ခံစားနေရသည့် အသက်အရွယ်တော်နှင့် ဖြစ်ပေါ်သောရောဂါဝေဒနာကိုမူ ပကတိတရားဖြင့် ဓမ္မဝိဇ္ဇာတို့သွားရာအတိုင်း အစဉ်မပျက် ခံယူကျင့်သုံးလျက်ရှိတော်မူလေသည်။

ကျမ်းကိုး။ ယင်းကျမ်း။ စာ-၁၅၉

**အကျင့်နှင့်လမ်းစဉ်**

ဓမ္မလမ်းခင်းကာ ထိုလမ်းကြောင်းပေါ်သို့ အဓိဋ္ဌာန်ဖြင့် ခေါ်ငင် ဆွဲတင်တော်မူလေသည်။ တပည့် ရဟန်းရှင်လူတို့ကိုလည်း သစ်ပင်ရင်းတွေမှာ ကျောင်းဝန်းကျင်တွင် ရုက္ခမူစုတင်အကျင့်နှင့်တကွ သင့်တင့်သော အခင်းခြုံထည်မျှဖြင့် မေတ္တာဘာဝနာ ပွားစေခြင်းအမှုကိုအထူးပြုစေ၏။ ဒွတ္တိံသကာယာနုပဿနာ ကမ္မဋ္ဌာန်းဘာဝနာကိုလည်း အခါအားလျော်စွာစီးဖြန်းအားထုတ်စေ၍ ဝိပဿနာဉာဏ်မျိုးစေ့ကို အစပျိုးခဲ့ပေသည်။

ကျမ်းကိုး။ ယင်းကျမ်း။ စာ-၁၆၀

**ဆည်းဆာသုံးချက်**

ဆရာတော်ဘုရားကြီးအနေဖြင့် မိမိ၏တပည့်သားဝေနေယျတို့အား ဘေးကင်းရန်ကွာ ကျန်းမာစေခြင်းအလို့ငှာ မေတ္တာဘာဝနာကို နံနက်၊ နေ့လယ်၊ ညနေအားဖြင့် ကာလပိုင်းခြား၍ ဆည်းဆာသုံးချက် ဘာဝနာယန္တရားစက်ဖြင့် ဖြန့်ကျက်ချမ်းသာစေလေသည်။

ကျမ်းကိုး။ ယင်းကျမ်း။ စာ-၁၆၀

**ဆရာတော်နှင့်လယ်တီဆရာတော်**

"လယ်တီဆရာတော်ကြီးရဲ့စာတွေကို အများပဲဖတ်တယ်။ ခု ဥတ္တမပုရိသဒီပနီကို ထပ်ဖတ်နေတယ်။ ဖတ်တိုင်း အားမရနိုင်ဘူး" ဟုခန္ဓာဝန်မချမီ နှစ်လခန့်ကမှ မိန့်ကြားခဲ့သည်။

ကျမ်းကိုး။ ယင်းကျမ်း။ စာ-၁၆၁

http://www.dhammadownload.com



**ဆရာတော်နှင့် ရာဇဝံသ**

"ရာဇဝံသဇာလိနီဆိုတဲ့ စာအုပ်ကို တွေ့ရင်ရှာခဲ့ပါ" ဟုလည်း မှာဖူးသည်။ စာရေးသူမှ ရှာဖွေကပ်လှူခဲ့ပါသည်။ ခန္ဓာကိုယ်တွေ့တရားအဖြစ် အချိန်မီရှာမှီးရမည့်အခါကို ရှေးဦးစွာကျင့်ဆောင် ခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆၁

**ဆရာတော်နှင့်သမထ ဝိပဿနာ**

သမထနှင့် ဝိပဿနာတရားသဘောကို ခွဲခြားထား၍မကျင့်ဘဲ တစ်စဆွဲနှစ်စပါ တစ်ချက်ခုတ်၊ နှစ်ချက်ပြတ်အားဖြင့် တစ်ပြိုင်နက် အားထုတ်တော်မူပါသည်။ ဤသည်တို့ကိုလည်း သမထက ဓာတ်ခဲဥပမာ၊ ဝိပဿနာကား မီးသီးဥပမာအားဖြင့် ရှင်းလင်းဟောကြားပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆၂

**ဆရာတော်၏လမ်းစဉ်**

ကိုယ်တိုင်ကျင့်သိ ဉာဏ်အမြင်ရှိသဖြင့် မဝင့်မဝါ မပလွှားစကားမပို အလိုနည်းစွာ ခန္တီအမိ မေတ္တာ အဘနှလုံးသွင်းသတိရှိစွာ ခိုင်မာကျင့်ကြံခြင်းကြောင့် အတက်လမ်းဖြောင့်တန်းတော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆၂

**မူးယစ်ဆေးဝါး အလှူခံ**

အေဒီ ၁၉၉၀

ဆရာတော်ဘုရားကြီး ကိုယ်တိုင်ရေးမှတ်ခဲ့သည့်မှတ်တမ်းအရ ၁၄ နှစ်အတွင်း သေရည်သေရက်နှင့် မူးယစ်ဆေးဝါးအမျိုးမျိုးမသုံးစွဲတော့ပါဟူ၍ ကတိကဝတ်ပြုခံယူခဲ့ပြီး လှူဒါန်းသူပေါင်း ၁၅. ၄. ၉၀နေ့ထိ ၁၇၇၀၄၈ နှင့် ရှေ့သုံးနှစ်မှ ၂၇၅၀ ယောက်နှင့်ပေါင်းလျှင် (၁၇၉၁၇၈) ယောက်ဟု ဖော်ပြသကဲ့သို့ ဤနှစ်ကာလမှသည် ဓမ္မသာလာကျောင်းဆောင်အတွင်း ဆရာတော် ဘုရားကြီးခန္ဓာဝန်မချမီအထိ စာရင်းအဆက်ဆက်တို့ကို စနစ်တကျမစုစည်းနိုင်သေးသော်လည်း ၃ သိန်းကျော်ရှိကြောင်းသိရသည်။ ဆရာတော်ကြီးသည် မူးယစ်ဆေးဝါးရှောင်ကြဉ်ရေးကို မည်မျှလိုလားကြောင်းသိသာလှပေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၆၃

**သာသနာပြုခြင်းအစ**

အေဒီ ၁၉၅၇

ဆရာတော်ဘုရားကြီးသည် ဗုဒ္ဓသာသနာပြုလုပ်ငန်းများကို ကောဇာသက္ကရာဇ် ၁၃၁၉ခုနှစ်၊ (ခရစ်နှစ် ၁၉၅၇ ခုနှစ်) သက်တော် ၃၅ နှစ် ဝါတော် - ၁၅ ဝါ အရတွင် သာသနာပြုခြင်းတာဝန်ကို စတင်ယူကာ ဆောင်ရွက်တော်မူသည်။

**နှစ်ပေါင်း(၄၀)ကျော်သာသနာပြု**

အေဒီ ၁၉၇၇

ဆရာတော်ဘုရားကြီးသည် ကောဇာသက္ကရာဇ် ၁၃၅၈ ခုနှစ်၊ ပြာသိုလပြည့်ကျော် ၁၃ ရက် (ခရစ်နှစ် ၁၉၉၇ ခုနှစ် ဖေဖော်ဝါရီလ ၅ ရက်)နေ့တွင် သီတင်းသုံးသာသနာပြုတော်မူရာ ရွှေပေါက်ကံ့၊ စေတော်ဝင်ကျောင်းတော်၌ ခန္ဓာဝန်စွန့်တော်မူသည်။ ဆရာတော်ဘုရားကြီး၏ သာသနာပြုနှစ် သက်တမ်းသည် နှစ် ၄၀ ကျော်ကျော်သာရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၆၄

http://www.dhammadownload.com



**ရွှေပေါ်ကျွန်းသာသနာ နှစ် (၅၀၀)**

ဇာတာတော်ပုံကျမ်းနှင့် နာနာနယပကိဏ္ဏကကျမ်းတို့အရ ကျေးဇူးရှင်ဆရာတော်ဘုရားကြီးသည် ရွှေပေါ်ကျွန်း သာသနာနှစ် "၅၀၀"ဟုမိန့်ကြားခဲ့သည်။ အဆိုပါကျမ်းအထောက်အထားအရ ရွှေပေါ်ကျွန်းသာသနာနှစ် "၅၀၀"ကို ဆရာတော်ဘုရားကြီးကိုယ်တော်တိုင်လည်း အသိအမှတ် ပြုတော်မူပါသည်။

အေဒီ ၁၉၈၃ ဤစာအမှတ်အသားတို့ကို ဝေနေယျများသိသာစေရန် ခွင့်ပြုခြင်း၊ ကဗျာ၊ စာ၊ တေးသီချင်းများဖြင့် မှတ်သားရ လွယ်ကူစေအံ့သောငှာ ရေးသားခွင့်ပြုသဖြင့် ၁၃၄၅-၄၆ ခုနှစ်များမှစ၍ ဓမ္မတေးပူဇာအဖြစ် ဓမ္မစာရေးဆရာကြီး မြေလတ်မြတ်သူက ရေးဖွဲ့၏။

**တဝစေတီတော်**

အေဒီ ၁၉၈၅ ၁၃၄၇ ခုနှစ် တဝစေတီတော်ကြီး ထီးတော်တင် လှူပူဇော်ပွဲတွင် ရန်ကုန်မြို့မှ စောင်းဦးသိန်းဖေ၊ အနုဂီတဝိုင်းဖြင့်လည်း အသံသွင်းမှတ်တမ်းပြုခဲ့ရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၆၅

**ညီအရင်းကို ဖိနပ်တစ်ရံသာပေးဖူး**

တစ်ပြည်လုံးရှိ ဝေနေယျများ၏ဆွမ်းဆန်တော်အလှူသည် ကျောင်းတော်မှာ ဂိုဒေါင်ကြီးငယ်များနှင့်ထားရလေ၏။ ဤဆန်များမှ "တစ်ပြည်--တစ်အိတ်ယူသွား" "သွားပို့"ဟု မပေးဝေခဲ့၊ မိမိ၏ သီးခြားဆွမ်းဆန်မှပင်ပေးစွန့်ခဲ့သည်။ ညီအရင်းဖြစ်သူ ဦးဖူးညို (ယခုလက်ရှိ)အား ဆရာတော်ကြီး ပျံလွန်တော်မမူခင်က မော်တော်ကားတာယာဖြင့် ချုပ်လုပ်ထားသော တာယာဖိနပ်တစ်ရံသာ ချီးမြှင့်ခဲ့ဖူးလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၇၁

**မိဘတို့အိမ်**

"ရွှေပေါ်ကျွန်းဆရာတော်"ဟုနာမည်ကျော်လာလျက် ပစ္စည်းလေးပါးပြည့်စုံနေသည့်တိုင် မိဘနှစ်ပါး၏ အိမ်ကလေးသည် ကျွန်ုပ်တို့စတင်မြင်တွေ့ရသည့် သာမန်အိမ်မှလွဲ၍ ပြုပြင်ခြင်းမရှိ။ မိမိအားသံဃာတော်အဖြစ် ဦးတည်လှူခြင်း၊ အဓိဋ္ဌာန်ဆုတောင်းတို့ဖြင့် လှူဒါန်းကြခြင်းများအပေါ် မစားသုံးတတ်က အပြစ်ဖြစ်မည်ကြွေးတင်မည်စိုးသဖြင့် ဤသို့ထားသည်ဟု ဩဝါဒအချို့ကို ကိုးကား၍ယူဆရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၇၂

**အမေရိကန်က စေတော်ဝင်**

အမေရိကန်ပြည်ထောင်စု ကာလီဖိုးနီးယားပြည်နယ် Sebastopol မြို့ရှိ စေတော်ဝင်တရားစခန်းကို (Sae Taw Win II Dhamma Foundation) ဆရာတော်ဘုရားကြီးကိုယ်တော်တိုင် စေတော်ဝင်(၂) အမည်ကို ချီးမြှင့်ပေးခဲ့သည်။ စေတော်ဝင် (၃)(၄)မရှိ၊ စခန်းခွဲအမှတ်(၁)ဖြစ်သော ရွှေပေါ်ကျွန်း စခန်းခွဲ(၁)ဒိုက်ဦးမြို့ဆိုသည်မှာလည်း ဆရာတော်ဘုရားကိုယ်တော်တိုင် အသိအမှတ်ပြုပေးခဲ့သည်။ ကျန်စခန်းများသည်လည်း ဆရာတော်ဘုရားအသိအမှတ်ပြုပြီးသော မြို့အမည်တွဲ စခန်းခွဲများဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၇၇

**အာနန္ဒာသူရိယ မေတ္တာထွန်းခေါင် ကမ္ဘာအေးစေတီတော်**
**(အမေရိကန်ပြည်ထောင်စု၊ ကာလီဖိုးနီးယားပြည်နယ်)**

အမေရိကန်ပြည်ထောင်စု၊ ကာလီဖိုးနီးယားပြည်နယ် Sebastopol မြို့တွင် စေတော်ဝင်(၂)

http://www.dhammadownload.com



တရားစခန်း (Sae Taw Win II Dhamma Foundation) ကို တည်ထောင်ဖွင့်လှစ်လျက် ဖော်ပြပါ စေတီကို တည်ထားပါသည်။ ဒေါက်တာ ဒေါ်သင်းသင်း ဦးဆောင်လျက် ခင်ပွန်းဖြစ်သူ အင်ဂျင်နီယာ ပါရဂူဘွဲ့ရ ဒေါက်တာဦးစံလင်းကလည်း ပါရမီဆု တူယှဉ်ပြုလျက် စေတီတော် တည်ဆောက်မှုအပိုင်းမှာ တာဝန်ခံဆောင်ရွက်လေသည်။

အေဒီ ၂၀၀၀ ၁၅-၆-၂၀၀၀နေ့တွင် ပန္ထက်တင် မင်္ဂလာကျင်းပသည်။ ပါမောက္ခဦးမင်းဝဏ်က ဦးစီးဆောင်ရွက်လျက် စေတော်ဝင်အဖွဲ့သားများက ပါဝင်ဆောင်ရွက်လေသည်။

အေဒီ ၂၀၀၀ ထို ၂၀၀၀ ခုနှစ်အတွင်း အောက်တိုဘာလမှာ မြေသန့်ခြင်းနှင့် မြေညှိပြုပြင်ခြင်းပြုလုပ်ပြီး ဒီဇင်ဘာလ ၁၃ ရက်တွင် အုတ်မြစ်စီ မင်္ဂလာပွဲကျင်းပသည်။

အေဒီ ၂၀၀၁ ၂၀၀၁ ခုနှစ်၊ ဇန်နဝါရီလ ၂ ရက်နေ့တွင် စေတီအောက်ခြေပိုင်း ပန်းတင်ခုံနှင့်ရင်ပြင်တော် စတင် ခင်းသည်။

အေဒီ ၂၀၀၁ ၂၀၀၁ ခုနှစ် ဇန်နဝါရီလလယ်ပိုင်းတွင် စေတီတော်၏ ပထမပစ္စယံ၊ မတ်လ ၄ ရက်တွင် ဒုတိယပစ္စယံနှင့် အဆင့်ဆင့်ဆောင်ရွက်ခဲ့ရာ ၂၀၀၁ ခုနှစ်၊ ဧပြီလ ၇ ရက်နေ့တွင် ထီးတော်တင်လှူနိုင်သည်အထိ ဖြစ်ပါသည်။ စုစုပေါင်းကုန်ကျသည့် ငွေမှာ ဒေါ်လာ "၂၅၀၀၀"ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၇၈

စေတီတော်အား တာဝန်ခံဦးစီးတည်ဆောက်မှုမှာ အင်ဂျင်နီယာ ပါရဂူဒေါက်တာဦးစံလင်း ဖြစ်ပြီး စေတီတော်ကြီးနှင့် အရံစေတီများအား ကြာမှောက်၊ ကြာလှန်၊ ကနုတ်ပန်း အနုလက်ရာများကို အာရုံခံစားပုံဖော်သူမှာ ခရစ်ယာန်ဘာသာဝင် အမေရိကန်လူမျိုးဖြစ်ကြောင်း၊ ရွှေတိဂုံစေတီတော်ကြီး၏ ဓာတ်ပုံကိုကြည့်ပြီးကာ အာရုံယူခံစားပုံဖော်ကြောင်း၊ ထိုသူ၏အိမ်မှာလည်း ဗုဒ္ဓရုပ်ပွားတော်ပုံတော်ကြီး တစ်ဆူထုထားကြောင်း၊ ပုံတော်အသေးရှိ၍ အားမရသဖြင့် ရုပ်ပွားတော်အကြီး ထုလုပ်ရကြောင်း သိရ၏။

ကျမ်းကိုး။ စာရေးဆရာမကြီးညိုယဉ်(ဒေါ်ညိုယဉ်)၏ ၂၀၀၂ခုနှစ်၊ ဇန်နဝါရီလထုတ် ရောင်ပြန်မဂ္ဂဇင်းဆောင်းပါးနှင့် ဒေါက်တာဒေါ်သင်းသင်း၏ မိမိထံသို့ ရေးသား ပေးပို့စာများအရ သိရ၏။

ဤစေတီတော်သည် အမေရိကန်ပြည်ထောင်စု ကာလီဖိုးနီးယား ပြည်နယ်မြောက်ပိုင်းတွင် ပထမဦးစွာ တည်ထားကိုးကွယ်နိုင်သော စေတီတော်တစ်ဆူအဖြစ် မှတ်တမ်းတင်ထားသည်။ စေတီတော်၏ဉာဏ်တော်အမြင့် ၁၈ ပေ၊ အရံစေတီ ဉာဏ်တော် အမြင့် ၆ ပေစီရှိ၏။ မှန်စီရွှေချသက်န်းကပ်လှူပူဇော်လျက်ရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၇၉

**ရဟန်းထူး**

ဆရာတော်ဘုရားကြီး၌ ထူးခြားသော ဝိသေသဂုဏ်ထူးစွမ်းအင်သတ္တိရှိ၍ပင်လျှင် ရဟန်းထူးဟု သမုတ်ကြလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆၅

**ဝီရိယကြီးမားသော ဆရာတော်**

အိပ်ချိန်၊ စားချိန်၊ နားချိန်မရှိလောက်အောင်လှ့လ ဝီရိယကြီးမားသည်။ ဆွမ်းစားလျှင် ဆွမ်းလုပ်ရေရှိခြင်း၊ ရေသုံးလျှင် ရေဖလားခွက်ရေရှိခြင်း၊ စကြံလျှောက်က ခြေလှမ်းရေရှိခြင်း သာသနာလုပ်ငန်းတစ်ခု ဆောင်ရွက်ချက်ကိုမရောက်ခင် ရက်ရှည်မှပင် နေ့စဉ်သတိတစ်ခုအနေဖြင့်

http://www.dhammadownload.com



ရေတွက်နေခြင်း၊ စက္ကူလမ်းကိုပုတီးပတ်၊ ခြေလှမ်း၊ အချိန်တို့ကို တစ်ထပ်တည်း၊ တစ်ညီတည်း ကျင့်ဆောင်ထားရှိခြင်း။ ခရီးတစ်ခုသွားလာလျှင် ထွက်ချိန်၊ ရောက်ချိန်တို့ကို သွားလာရင်း တစ်ရွာချင်း တစ်မြို့ချင်းရောက်ချိန် ထွက်ချိန်ကို စိတ်မှတ်ဖြင့်အမြဲမှတ်၍ထားခြင်း၊ ကျောင်းတော်တွင် အာရုံယူလှည့်ပတ်ခြင်းလုပ်ငန်းကိုပင် ဘုရားတစ်ဆူနှင့် တစ်ဆူ၊ တစ်နေရာနှင့် တစ်နေရာကို ရက်မှတ်မပြောဘဲနှင့် စိတ်မှတ်တည်၍အလှည့်ကျ ရက်မှန်မှန်သွားတတ်ခြင်း၊ (အနားနေသူမှ တွက်ကြည့်လျှင် သုံးရက်တစ်ပတ်မှန်တတ်ကာ အနားနေသူတို့မှတ်ထားသော်လည်း မေ့သွားတတ်သည်။ ဆရာတော်မှာ မည်မျှလောက်အလုပ်များတတ်စေကာမူ မိမိလုပ်ရမည့် သွားရမည့်နေရာကို သတိအမြဲဖြင့် စိတ်မှတ်တည် ထားနိုင်သည်မှာ ကိုယ်တွေ့ဖြစ်လေသည်။)

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇၁

## တစ်မိနစ် ၇၂၉ ကြိမ်

ယုတ်စွအဆုံး မိမိ၏အနားနေသည့် ကျောင်းသားငယ်များကို မေးတတ်ပါသည်။ "တစ်မိနစ်လျှင် အသက်ရှူတာ ဘယ်နှကြိမ်ရှိလဲ" ဟုမေးရာ ကလေးများက "ဘယ်ရေနိုင်မလဲဘုရား" ဟု ဖြေကြ၍ ဆရာတော်က "မှတ်ထား ၇၂၉ ကြိမ်" ဟု ဖြေကြားဖူးခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇၂

## မြစ်မှားရောဂါ

ဦးညိုလှရှိစဉ်ကပင်ဖြစ်သည်။ ပရိသတ်ထဲမှ တစ်ယောက်မှ ဝင်လျှောက်၏။ "တပည့်တော်ရဲ့ သားမှာ ဗိုက်အောင့်၊ ဗိုက်နာရောဂါဟာ ဘယ်ဆရာနဲ့မှမပျောက်နိုင်ဘူး ဘုရား။ အရှင်ဘုရား ညွှန်ကြားဆုံးမတော်မူပါဘုရား" ဟု လျှောက်ထားသောအခါ

"ဒကာကြီး ဒီကပြန်တဲ့အခါ အိမ်ရောက်တဲ့နေ့ကစပြီး ထမင်းစားပြီးတိုင်းလက်ကို အကြမ်းဆေး၊ ဆပ်ပြာနဲ့ဆေး ပြီးတော့ ဇလုံသန့်သန့်မှာ ရေကြည်ရေသန့်နဲ့လက်ထပ်ဆေး၊ အဲဒီလက်ဆေးရေကို ဒကာကြီးရဲ့သားကိုလောင်းခိုင်းပြီးတော့ အဲဒီသူလောင်းဆေးပေးတဲ့ရေကို သူ့ကိုပြန်သောက်ပါစေ။ ပြီးတော့ ဒကာကြီးက သားဖြစ်သူကို မေတ္တာပို့ပေးပါ။ သားသမီးအပေါ် မိဘထက်ကြီးမားတဲ့ မေတ္တာမရှိနိုင်ဘူး။ ဆရာတော်တို့လည်း အားလုံးအပေါ် မေတ္တာပို့သလျက်ပါ"။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇၄

## ရောဂါဆန်း

ထိုပုဂ္ဂိုလ်ပြန်လာသော် ဆရာတော်မိန့်မှာတဲ့အတိုင်း လုပ်သဖြင့် သားဖြစ်သူဗိုက်အောင့်ဗိုက်နာရောဂါ လုံးဝပျောက်သွားကြောင်း လာရောက်လျှောက်ထားကြောင်း၊ သားပါခေါ်လာ၍ ကန်တော့ကြောင်းနှင့် ဦးညိုလှ၏ လေ့လာချက်အရ ထိုသားဖြစ်သူသည် အရွယ်လေးရောက်လာသဖြင့်မိဘကလည်း ပိုက်ဆံငွေကြေးချမ်းသာသူဖြစ်၍ အလိုလိုက်ထားရာမှ အရက်သောက်သည်၊ အရက်မူးတော့ရမ်းသည်၊ မိဘကတားမြစ်သည်၊ တားမရတော့ကြိမ်းမောင်းသည်၊ ထိုစဉ်အမူးသမားသားကသူအား ဤသို့ကြိမ်းမောင်းရမည်လားဟု ဓားဆွဲ၍လိုက်ဖူးကြောင်း ဖခင်ဖြစ်သူက ရှောင်ပြေးခဲ့ရဖူးကြောင်း စသည့်ဖြစ်စဉ်ကိုပါ သိရသည်။

ဤဖြစ်စဉ်လျှောက်ထားချက်အရ မိဘအားဤသို့ပြစ်မှားခြင်းကြောင့် ဘယ်ဆရာ ဘယ်ဆေးမှ ကုမရသည့် ရောဂါဆန်းကို ပစ္စက္ခဘဝမှာကုပေးခြင်းဖြစ်ကြောင်း ဤဘဝ ဤဝဋ်ကို တိုတိုနှင့် ကျွတ်လွတ်စေတော့ဟု ဤကုထုံးနှင့် နည်းလမ်းညွှန်ချက်ကို ဆရာတော်ကြီးမှ ပေးရကြောင်းကိုကြားသိရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇၅

http://www.dhammadownload.com



**အလှူငွေသုံးပုံ စနစ်**

လှူသည့်အလှူငွေအတွက် ကျောင်း၊ ကန်၊ ဘုရား၊ လမ်း၊ တံတား စသည့်ခေါင်းစဉ်ဖြင့် အလှူငွေကြေးဝတ္ထုအား စာရင်းခေါင်းစဉ်ဖြင့် သီးခြားထားစေကာ သူ့စာရင်းအသုံးအတိုင်းသာ သုံးစေ၍ ငွေလဲလှယ်သုံးခြင်းမျိုးကိုပင် လက်မခံပေ။

**ကိုယ်တိုင်လမ်းဖောက်**

အထူးသဖြင့်လမ်းပြင်ခြင်း၊ လမ်းဖို့ခြင်း၊ တံတားဆောက်ခြင်းတို့ကို နေ့စဉ်နှင့်အမျှ ကိုယ်တော်တိုင် ကြီးကြပ်လုပ်ကိုင်လျက်ရှိသည်။ လမ်းများကို နွားလှည်းမောင်းကြသဖြင့် လျှောက်ထားသောအခါ "မူလက နွားလှည်းလမ်းပဲ မောင်းပါစေ၊ ပျက်လေပြင်လေ ကုသိုလ်ရလေပဲ" ဟုမိန့်ကြားပါသည်။

**အဗ္ဗောကာသိကစုတင်**

သဟာသေယျသိက္ခာပုဒ်မှကင်းလွတ်ရန် လူသာမဏေတို့နှင့်တစ်မိုးတရံတည်းသောကျောင်း၌ အိပ်စက်ကျိန်းလေ့မရှိ။ အမိုးအရံ မရှိသော လေဟာပြင်၌ အဗ္ဗောကာသိကစုတင်အကျင့်ကို ထာဝရ ကျင့်သုံးတော်မူခဲ့သည်။

**အစားကျွေး တရားပေး**

အထူးသဖြင့် လူကြီးများထက် ကလေးများနှင့်အနေများပြီးအစားကျွေး၊ တရားပေးဆိုသကဲ့သို့ တစ်လုံးစီသင် တစ်ပိုဒ်စီနှုတ်တိုက်ပေး၍ သင်တတ်သည်။ ဘုရားရှိခိုးပုံ၊ လက်ာ၊ ဆောင်ပုဒ်များအပြင် လောကီလူသားများလိုက်နာ ရမည့်စည်းကမ်းများ သံဝေဂလက်ာများ၊ တတ်သင့်တတ်ရာ ပညာများကို သင်ကြားပေးလေ့ရှိသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇၅

**နေ့စဉ် ဘုရားပန်းအိုး ၁၀၀-ကျော် ကိုယ်တိုင်ရေလဲ**

နေ့စဉ်ဘုရားပန်းအိုး ၁၀၀ ကျော်ကိုအရောင်လက်လက်ထနေအောင် ကိုယ်တိုင်တိုက်၍ နံနက်ည ပန်းကို ရေနှစ်ကြိမ်၊ တပေါင်းတန်ခူးလများတွင် သုံးကြိမ်၊ လေးကြိမ်အထိလဲပေးရာ ကိုယ်တိုင် အသက်ထက်ဆုံးဆောင်ရွက်တော်မူသည်။

**လျှို့ဝှက်သော အကျင့်များ**

ဆရာတော်ကြီးအား အများက သမထ လမ်းစဉ်တစ်ခုတည်းဟုပြောဆိုကြ၊ ဝေဖန်ကြသော်လည်း၊ သမာဓိ ဖြစ်ဖို့ရန် ကာယနုပဿနာ စသည့် သတိပဋ္ဌာန်ကမ္မဋ္ဌာန်းများကို အားထုတ်လေ့ရှိခြင်း၊ ကာယနုပဿနာ၊ ဓမ္မာနုပဿနာ၊ ဝေဒနာနုပဿနာ၊ စိတ္တာနုပဿနာ စသည့် တရားတော် များကိုအကျင့်ဆိုင်ရာကို အချိန်များစွာ ကျင့်ကြံခဲ့၊ ကျင့်ကြံလျက်ရှိတော်မူကြောင်း လေ့လာ သိရှိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇၉

**ဆရာတော်ကြီး ဉာဏ်တော်**

တစ်ခဏခြင်း၊ တစ်မုဟုတ်ခြင်း၊ အားလျော်စွာဖြစ်ပေါ်လာသည့်တခဏုပတ္တိဉာဏ်၊

**လျှင်မြန်ထက်မြက်စူးရှသော ဇဝနတိက္ခဉာဏ်**

အရာဟုတ်မဟုတ် အကြောင်းအကျိုးရှိမရှိ ပြောသင့်ပြောရာအခါအခွင့်ချင့်၍ သိတတ်သော

**ဌာနာ ဌာနာ ကောသလ္လဉာဏ်**

သိလိုသည်ကို စိတ်ကကြံစည်လျှင် ကြံစည်သည့်အတိုင်း သိနိုင်စွမ်းသော စိန္တာမယဉာဏ်

http://www.dhammadownload.com



တရားဟော စကားပြောသည့်အခါများတွင် မှတ်သားလောက်သော ဘုရားဟောကျမ်းများလာ အထောက်အထားအပြင် အချို့ဟာသဉာဏ်ဖြင့် လိုက်နာနိုင်ရန်ပင်ဆုံးမကာ ပညာပေးနိုင်သော ပညာဂုဏ်တို့ဖြင့် ပြည့်စုံတော်မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈၁

## ဘုရားအလောင်း သူတော်ကောင်းကြီးများ ကျင့်စဉ်

ဆရာတော်ဘုရားကြီး၏ ပါရမီအကျင့်ထူးလမ်းစဉ်သည် မြင်တတ်က ရိုးရှင်းလှသည်။ မြင့်မြတ်ကြီးကျယ်နက် ရှိုင်းလှပေသည်။ ပါရမီဆယ်ပါး၊ အပြားသုံးဆယ်၊ စွန့်ခြင်းကြီးငါးပါး၊ စရိယ သုံးသွယ်ဟူသော ဘုရားအလောင်းသူတော်ကောင်းကြီးများအကျင့်လမ်းအတိုင်းသာ ဖြစ်ပါသည်။ ဆေးဝါး၊ အင်းအိုင်၊ ဂါထာ၊ မန္တန်၊ ဓာတ်လုံး၊ ဓာတ်ခဲတို့ဖြင့် တစ်ပွဲတိုးတိုးတက် လာခြင်း မဟုတ်ပေ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈၃

## စရဏ ကျင့်စဉ်

ဆရာတော်ကြီးသည် မိမိအကျင့်သီလ စရဏတရားကိုသာ အားကိုးကျင့်ကြံပွားများတော်မူသည်။ မိမိအတွက် မဟုတ်သော်ငြား တပည့်သား ဝေနေယျတို့၏ တဒင်္ဂအကြောင်းအကျိုး အလို့ငှာ မိမိအားလှူဒါန်းရရှိသည့် ဆေး၊ အင်း၊ ဂါထာ၊ မန္တန်၊ ဓာတ်လုံးစသည်တို့ကို သင့်ရာ ရွေးချယ်၍ ပေးဝေချီးမြှင့်ဖူးပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈၃

## သီရိလင်္ကာက သတင်းစာဆရာကြီး

အေဒီ ၁၉၈၈

၁၉၈၈ ခုနှစ်အတွင်းက သီရိလင်္ကာနိုင်ငံမှ ဗုဒ္ဓဘာသာအကြောင်းပြုရောက်ရှိကြသည့် ပရိသတ် ဝေနေယျထဲမှ "မစ္စတာ ဝီရဝတနေ"ဆိုသည့် အငြိမ်းသားသတင်းစာဆရာကြီးတစ်ဦးပါလာရာ ထိုပုဂ္ဂိုလ်ကြီးက

"ဆရာတော်ဘုရားတပည့်တော်များတို့၏ လူသားဘဝသည် စားဝတ်နေရေး၊ လူမှုရေးကိစ္စများပြားလှပါတယ်ဘုရား။ သို့သော်လည်း တရားဓမ္မကိုလည်း ဦးထိပ်ထားကြပါတယ်ဘုရား။ ဒီတော့ တပည့်တော်တို့လူသားဘဝ တရားကျင့်ရာမှာ ဘယ်အချိန်ကျင့်လို့ အချိန်ဘယ်လောက် ယူကျင့်ရင်အကောင်းဆုံးပါလဲဘုရား" ဟုလျှောက်ထားလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈၃

## ၂၄ နာရီကိုအသုံးချနည်း

"တစ်နေ့မှာ ၂၄ နာရီရှိပါတယ်၊ အဲဒီ ၂၄ နာရီကိုရှစ်နာရီစီ သုံးပိုင်းပိုင်းလိုက်ပါ။ ဒီတော့ ပထမရှစ်နာရီကို ကျန်းမာရေးအရ ပြည့်ပြည့်ဝဝအိပ်ပါ။

ဒုတိယရှစ်နာရီကို စားဝတ်နေရေး အလုပ်လုပ်ကိုင်စားသောက်ဖို့စံချိန်မီလုပ်ကိုင်စားသောက်ပါလေ။

တတိယရှစ်နာရီကို အချိန်ဇယားထပ်ဆွဲပါ။ အဲဒီရှစ်နာရီကို နှစ်ပိုင်းထပ်ခွဲပြန်လျှင် ၄ နာရီ၊ ၄ နာရီ ရယ်လို့ နှစ်ချိန်ရမယ်လေ။ အဲဒီ ၄ နာရီနှစ်ချိန်ကိုမှ ကြိုက်တဲ့ လေးနာရီကို လူမှုရေး၊ သာရေး၊ နာရေး၊ ဆွေရေးမျိုးရေး၊ မကင်းရာမကင်းကြောင်းအလုပ်ကို လုပ်နိုင်ပါတယ်။ ကျန်နေတဲ့ လေးနာရီကိုမှ နံနက်နှစ်နာရီ၊ ညနေပိုင်း နှစ်နာရီကို ဗုဒ္ဓဝေယျာဝစ္စ ဆွမ်းပန်း ဆီမီး၊ နံ့သာကိစ္စ၊ သန့်ရှင်းရေးကိစ္စနဲ့ လိုအပ်တဲ့အကျင့်စရဏကိုကျင့်ပြီး အချိန်ဇယားဆွဲပြီး လုပ်သွားရင်ရပါတယ်။ တကယ်လုပ်ချင် ကျင့်ချင်ရင် အချိန်ကရှိပါတယ်။ မကျင့်ချင်

http://www.dhammadownload.com



မလုပ်ချင်သူ အတွက် အချိန်ဘယ်တော့မှ မရှိနိုင်ဘူး" စသည့်ဩဝါဒကိုမိန့်ကြားလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈၇

**ပုဂ္ဂိုလ်ထူးများ ခြောကြားချက်**

ဂန္ဓာရီပုဂ္ဂိုလ်တစ်ပါးဖြစ်သည့် အဘိုးဖြူဆိုသည့် ပုဂ္ဂိုလ်ထူးနှင့်တွေ့ကြုံခဲ့စဉ်က အကြောင်းကို အခြေပြုစဉ်းစားမိသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈၈

"အကျင့်ထူးရှိတဲ့ရုပ်ထူး၊ ကလာပ်ထူး၊ ဓာတ်ထူးကို အထူးစီစဉ်ရာမှာ မြေမှာမမြုပ်၊ ရေမှာမမျော၊ မီးနဲ့မထိ၊ ဓားနဲ့မခွဲ၊ မူလရုပ်အင်္ဂါမချွတ်ယွင်းစေဘဲစီစဉ်ရတယ်။ ဒီရုပ်ကြွင်းခန္ဓာကိုအုတ်ဖြစ်စေ၊ ကျောက်ဖြစ်စေ၊ အဖြစ်နိုင်ဆုံးသောအစီအစဉ်နဲ့ဂူသွင်းရတယ်။ ဂူရဲ့ဦးခေါင်းပိုင်း၊ ခြေရင်းပိုင်း တို့မှာ အပေါက်ဖောက်ပေးရမယ်။ ဒီရုပ်ကြွင်းကို မည်သူ တစ်ဦးတစ်ယောက်မှထိတို့ ကိုင်တွယ် ခြင်းမရှိစေရဘူး။ တချို့ပုဂ္ဂိုလ်ထူးတွေက မီးသင်္ဂြိုဟ်ရေမျှောကြတဲ့ အဓိဋ္ဌာန် အမှာလည်းရှိ တယ်။ မတူဘူး၊ အမှာရှိကအမှာအတိုင်းသာလုပ်သင့်တယ်"

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉၀

## ရုပ်ပြောင်း ရုပ်လွှဲ

ရာသီနက္ခတ်အချိန်နာရီကအစ မိမိတို့လုပ်လို့ရတဲ့ ဉာဏ်ကစားလို့ရတဲ့ အခြေအနေ၊ အချိန် အခါ၊ နေရာဒေသအကြိုက်ရွေးပြီးတော့ သစ္စာအဓိဋ္ဌာန်ဝင်တဲ့အခါ အသက်ဝိညာဉ်ကိုစောင့်တဲ့ တေဇောဓာတ်တစ်မျိုးတည်းနဲ့ နှလုံးသွေးကိုထိန်းသွားနိုင်ပြီး နှလုံးသွေးအလုပ်မလုပ်ပေမယ့် နှလုံးကိုထိန်းနိုင်စွမ်း၊ မပုပ်သိုးအောင် သိမ်းဆည်းနိုင်စွမ်းတဲ့အစောင့် တေဇောဓာတ်ကို ထားရှိနိုင် စွမ်းတာနဲ့ မပုပ်သိုးတော့ဘူးလို့သိဖူးတယ်။ ဒါဟာနိဗ္ဗာန်ရောက်တာမဟုတ်ဘူး။ ဆက်လက် ရပ်တည်ရမယ့်ဘဝကျန်နေသေးလို့ ရုပ်ပြောင်းပြီးအလုပ်ဆက်လုပ်တာပဲ"

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉၂

## ဒီရုပ်ကြွင်းကိုဘယ်လိုစီစဉ်ရမလဲ

"အကျင့်ထူး ပါရမီထူးရှိတယ်လို့ဆိုတဲ့ ပုဂ္ဂိုလ်ထူးများကို သူတို့မှာကမှာသလိုလုပ်။ မမှာက မြေမှာမမြုပ်၊ ရေမှာမမျော၊ မီးမထိ၊ မကိုင်တွယ်ရ၊ ဓားမခွဲရဆိုတဲ့ ပညတ်ချက်တွေ ဘာကြောင့် ဆိုတာ ရှင်းခဲ့ပြီးပြီလေ။ မတို့မထိရ ဆိုတဲ့အချက်မှာ တချို့အတွေ့အကြုံရှိတဲ့ ကြားဖူးကြတဲ့ လူတွေရှိမှာပါ။ တချို့လက်ဝဲလမ်းက ပုဂ္ဂိုလ်များဟာအခုလို မြင့်မြတ်တဲ့ ရုပ်ကြွင်းများကို ထိရုံ၊ တို့ရုံနဲ့ အဲဒီရုပ်ကြွင်းက သတ္တိထူးတွေကူးဆက်နိုင်ကြတယ်။ အဲဒီလို အယူခံရရင် အယူခံ ရတဲ့ ရုပ်ကြွင်းရဲ့သတ္တိလျော့ပြီး ဘေးလူမသိမမြင်ပေမယ့် ကာယကံရှင် အဲဒီရုပ်ကြွင်းပိုင်ရှင် အဖို့ အလုပ်ရခက်သွားပြန်တယ်။ အဲဒီနေရာမှာ ထပ်သတိထားဖို့က လက်ဝဲလမ်း၊ အောက်လမ်း၊ ခုလပ်လမ်း၊ စတဲ့လမ်းကပုဂ္ဂိုလ်တွေက နိဗ္ဗာန်ရောက်ကြောင်းမဟုတ်တဲ့ လောကီ ပညာ အစွမ်းအစတွေနဲ့ ရုပ်ခိုး၊ နာမ်ခိုးစတဲ့ မိမိတို့မတတ် နိုင်လို့ တတ်မြောက်ပြီးပုဂ္ဂိုလ်ထံမှ ရတဲ့နည်းနဲ့ ထိ၊ တို့၊ ဖြုတ်၊ နှုတ်၊ စိမ်ယူနိုင်ကြတယ်။ ဒါ့ကြောင့် တားမြစ်တာပဲ"

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉၃

ဒီတော့ မထိရ၊ မတို့ရ၊ မကိုင်ရဆိုတဲ့ သဘောမှာပင် အလွန်သိမ်မွေ့နက်နဲတဲ့ သဘောတွေ ပါဝင်နေတော့ မြေမမြုပ်ရ၊ ရေမမျောရ၊ မီးမသင်္ဂြိုဟ်ရ၊ ဓားမခွဲရဆိုတာတွေ ရှိ၏ဟု မိန့်တော်မူ ဖူး၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉၃

http://www.dhammadownload.com



**နောက်ဆုံးနေ့များ ပူဇော်မှု**

ကျေးဇူးရှင် ဆရာတော်ကြီး၏ရုပ်ကလာပ်တော်အား လိုဏ်ဂူတော်သို့ ပင့်ဆောင်နိုင်ရေး ရွေ့ပြေး အစီအစဉ်များ စီစဉ်ရပါသည်။

လိုဏ်ဂူတော်အားရေဖြင့် အကြမ်းဆေးကြော သုတ်သင်ခြင်း။

သနပ်ခါးရေဖြင့် ပက်ခြင်း၊ ထပ်မံဆေးကြောသုတ်သင်ခြင်း။

နံ့သာငါးပါးရည်ဖြင့် ထပ်မံဆေးကြောခြင်း၊ ပက်ဖျန်းခြင်း၊ အထပ်ထပ်ပြုလုပ်ကြပါသည်။

ပိတ်ဖြူမိုးခြင်း၊ ကာရံခြင်းများ။

ကန်တော့ပွဲဖြင့် အလင်းနံ့သာတိုင်များ ထွန်းညှိ၍ အပ်နှံပူဇော်ခြင်း။

ပိတ်ဖြူအုပ်တွင် လိုအပ်သောအစီအစဉ်ဆောင်ရွက်ရေးသားခြင်း

ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်တည်ကိန်းရာ ခုတင်၏အတိုင်းအရှည်နှင့်ဝင်လမ်း ခန့်မှန်းခြင်း

ခန္ဓာဝန်ချသည့်နေရာမှ လိုဏ်ဂူတော်သို့ပင့်ဆောင်ရာ ပင့်လမ်းတစ်လျှောက်အား သဲဖြူ ရာဇမတ် ကာရံခင်းကျင်းခြင်းတို့ကို ပြုလုပ်ခဲ့ကြောင်း မှတ်တမ်းတွေ့ရ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉၄

**လိုဏ်ဂူအတွင်း ပင့်ဆောင်ခြင်း ကိုယ်တွေ့မှတ်တမ်း**

လိုဏ်ဂူတော်အတွင်းသို့ ပင့်ဆောင်ရာအတွင်းမှ မူလကတည်းက နေမြဲဆောင်ရွက်မြဲရှိသူများ စောင့်ကြသည်တွင် မိမိပါဝင်နေရာ နေရာအတွင်းမှ ဆီးကြိုပင့်ဆောင်သည့်အခါ ခုတင်လိုက်မ ၍ပင့်ဆောင်ရသည်။ ကျေးဇူးတော်ရှင်ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်နှင့် အနီးကပ်ဆုံး တစ်ထွာတစ်တောင်မျှမှ ဂရုစိုက် ရှိသေစွာပင့်ဆောင်မယူရသည်တွင် ပိုမိုထူးခြားသည်မှာ အပုပ်နံ့ လုံးဝမထွက်ခြင်းနှင့် အညှီနံ့မထွက်ခြင်းအပြင် ယင်ကောင် လုံးဝမသန်းခြင်းဖြစ်ပါ သည် ဟု ကိုယ်တွေ့မှတ်တမ်းကို ဖတ်ရ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉၅

လိုဏ်ဂူတော်သည် အတွင်းဂငယ်ပုံစံတစ်ထပ်တရားထိုင်ရာ တစ်ပါးတည်းထိုင်နိုင်ရုံအတွက် ထိုခုတင်ပေါ်မှာ ခန္ဓာဝန်ချသွားသည့်အတိုင်း ခန္ဓာဝန်ချသည့်သက်နံဖြဲထည်နှင့်ပင် မပြင် လိုဏ်ဂူတစ်ထပ်၊ နှစ်ထပ်အပြင် အထက်မှ ဘုံခုနစ်ဆင့်ပြာသဒ်ကျောင်းဆောင်တို့ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉၆

**မြင်ပထူးခြားချက်**

(၁) ခန္ဓာဝန်မချမီ ၃ ရက် ရာသီမဟုတ်ဘဲ မိုးအထူး အုံ့မှိုင်းလျက် အေးစိမ့်လှသည်။ မိုးဖွဲကျ သည်အထိ ဖြစ်လာရာ ဓာတ်ရှင်းစေတီ၌ ရှင်ဥပဂုတ္တပွဲပင်ပြင်ဆင်ရသည်အထိ ရာသီပြောင်း နေခြင်း။

(၂) ခန္ဓာဝန်ချသည့်နေ့မှ ဓမ္မဂူဗိမာန်သို့ပင့်ဆောင်ရက်အတွင်း ထိုရက်များတွင် ဓမ္မဂူဗိမာန် တည်ဆောက် နေစဉ် သိသာထင်ရှားစွာ ထိုနေရာတစ်ဝိုက် မြေလျှောင်လှုပ်သွားခြင်း။

(၃) မာကြူရီမီးများထက်လင်းသော အလင်းတန်းအချို့ပျံသန်းနေသည်ကို ပရိသတ် ခပ်များ များ ညဥ့်ဦးပိုင်းတွင် တွေ့မြင်ကြရခြင်း။

(၄) ဓမ္မဂူဗိမာန်သို့ ပင့်ဆောင်၍ လိုဏ်ဂူအတွင်းသို့ဝင်ရောက်စဉ် လေပွေကြမ်းတစ်ခု သိသိ သာသာ ဝှေ့ရမ်းတိုက်ခတ်သွားခြင်း။

(၅) ခန္ဓာဝန်ချပြီးသော်လည်း ဓမ္မဂူဗိမာန်သို့ မပင့်ဆောင်မီကတည်းက ဆရာတော်ဘုရားထံ ရည်စူးထားသော ကံထပ်အလှူစသည့် အလှူရှင်များသည် ရည်ရွယ်ချက်အတိုင်း မိမိတို့

http://www.dhammadownload.com



ဆန္ဒအတိုင်း ဒါနပါရမီ အလှူကိစ္စများ လုံးဝရပ်ဆိုင်းမသွားဘဲ ဆက်လက်လှူဒါန်း ဒါနပြုနေကြခြင်း ဆက်လက်ပြု၍ သက်တော်ရှိစဉ်ကကဲ့သို့ ဆုတောင်းပြည့်နေခြင်း စသော ကိုယ်တွေ့မှတ်တမ်းကို ဆရာကြီး မြေလတ်မြတ်သူထံမှ ဖတ်မှတ်ရ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉၇

**တရားတော်၏ အစွမ်း**

ခန္ဓာဝန်ချပြီးမှ ရုပ်ကြွင်းခန္ဓာ၏ ထူးခြားချက်နှင့်ပတ်သက်၍ ရှေးဆရာတော်ကြီးများစွာနှင့် ပုဂ္ဂိုလ်အကျော် ဆရာတော်အချို့မှာလည်း ဤသို့ခန္ဓာရုပ်ကြွင်းထူးခြားချက်များရှိပါသည်။ ဤသို့ခန္ဓာ၏ ထူးခြားချက်သည် တရားတော်၏ အစွမ်းအရသာရိုးရိုးယဉ်ယဉ် တွက်ချက်နိုင်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉၇

**ထူးချင်ရင် ထူးပြီးကျင့်**

"ပုဂ္ဂိုလ်ထူးဆိုတာ သူလိုကိုယ်လိုထက်ထူးပြီး ကျင့်ကြံအားထုတ်သူများဖြစ်ကြောင်း" မိန့်မှာခဲ့ရာ ထူးချင်ကြသူတိုင်းထူး၍ ကျင့်ကြံအားထုတ်ကြရမည်တည်း။ "ကျုပ်ကျောင်း တံခါး ၇ ချပ်၊ တံတိုင်း အထပ်ထပ်ကာရံပြီး ကျုပ်ကိစ္စပြီးပါပြီ" ဟု မိန့်ခဲ့ဖူးသည်။

> မှတ်ချက်။ အကျိုးတော်ဆောင် ဦးသာဒင်က မှတ်သားခဲ့ပါသည်။ အနောက်ဘက်မှာ ရွှေတံခါး၊ တောင်ဘက်ကမြတဘက်စသည့် သတ်မှတ်ချက်များကိုမှတ်သားခဲ့သည်။ ဆရာတော်ဘုရားကြီး ခန္ဓာဝန်မချမီ တစ်လလောက်အချိန်တွင် ဦးသာဒင်ကပင် မှတ်တမ်းတင်စာအုပ်ကို ပြန်၍ဖတ်ရင်း တံခါးကိုရေတွက်ကြည့်သောအခါ တံခါး ၇ ချပ်တိတိပြီးနေပြီဖြစ်၍ စိုးရိမ်စိတ်ဖြစ်ခဲ့ရသည်။ များမကြာမီ ကျန်းမာရေးချို့တဲ့ရာမှ ရုတ်တရက် မမျှော်လင့်ဘဲ ခန္ဓာဝန်ချသွားသောအခါ အလွန်တိုက်ဆိုင်နေသည်ကို ရင်သပ်ရှုမော ပြောမဆုံးအောင် ဖြစ်ခဲ့ရလေသည်။

**ကြည့်လို့မြင်တာ နားထောင်လို့ကြားတာ ဟူ၍ မိန့်တော်မူခဲ့**

ပြီးခဲ့တဲ့ နှစ်နှစ်ဆယ်ကျော်ကျော် တစ်ချိန်က ရန်ကုန်မြို့မှ နာမည်ကျော် ဆရာတော်ကြီးတစ်ပါးသည် ရွှေပေါ်ကျွန်းဆရာတော်ဘုရားကြီးထံ ရောက်လာသည်။ ရွှေပေါ်ကျွန်းဆရာတော်ကြီး၏ ကျောင်းမှာ ကဆုန်လညောင်ရေသွန်းပွဲနှင့် ကြုံသဖြင့် ဇာတ်ပွဲ၊ အငြိမ့်ပွဲတွေ အသံချဲ့စက်၊ ရေဒီယို၊ ကက်ဆက်တို့မှ သီဆိုသံ၊ ပြောဆိုသံတွေဖြင့် ဆူညံနေသည်။ ထိုအခါ ဧည့်သည် ဆရာတော်ကြီးက ရွှေပေါ်ကျွန်းဆရာတော်ကြီးအား . .

"ဆိုင်းသံ၊ ဗုံသံ၊ သီဆိုကခုန်နေသံတွေနဲ့ လူတွေရက်ရှုည် ဒီလောက်များနေရင် ကိုယ်တော် ဘယ်အချိန် ဘယ်လို တရားကျင့်မလဲ"

ရွှေပေါ်ကျွန်းဆရာတော်ကြီးက "ကြည့်လို့မြင်တာ၊ နားထောင်လို့ကြားတာပါ" ဟုလိုရင်းတိုရှင်း ဖြေပြီး ရပ်ထားသည်။ ထိုဧည့်သည်ဆရာတော်ကြီးသည် ဖျပ်ခနဲစဉ်းစားပြီး အတူထိုင်နေရာမှ ဆင်းကာကန်တော့ပြီးတောင်းပန်တော် မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃၀

**မီးပုံကြားမှာ မီးမလောင်အောင်နေ**

မီးပုံကြားသွားလျက် မီးမလောင်အောင်နေနည်း၊ ရှောင်နည်း၊ တိမ်းနည်း၊ ပါရမီခရီးလမ်းဟု မှတ်သားမိသည်။ ကိလေသာ ရေအလျဉ်မှာ သူလိုကိုယ်လို သွားသလိုဖြင့် ရေမစိုအောင် ကူးနည်း ခတ်နည်းဟု ထပ်မံ ဝိဂြိုဟ် ပြုဖူးသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃၀

http://www.dhammadownload.com



**မေတ္တာဝါဒ**

ဆရာတော်သည် အနေအထိုင်ရိုးသားသည်။ ပကာသန မဖက်၊ မျက်နှာကြီး မျက်နှာငယ်မရွေး မည်သူကိုမဆို တစ်တန်းတည်းထားသည်။ ညီတူညီမျှ ဆက်ဆံသည်။ အလှူအတန်းကို မမက်မော။ မေတ္တာဝါဒနှင့် အသက်တမျှ ကြည်ညိုလေးစားကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၈၅

**ပြည်ပ သာသနာပြု**

ရွှေပေါက်ကံ့ကျွန်းဆရာတော်၏ဂုဏ်သတင်းကို မြန်မာနိုင်ငံနယ်နိမိတ် အပြင်ဘက်ကျော်ထွက်သွားအောင် ဆောင်ရွက်သူမှာ ဒေါက်တာဒေါ်သင်းသင်းဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၈၅

**သီရိလင်္ကာက သာသနာ့ တမန်တော်**

ဒေါက်တာဒေါ်သင်းသင်းနှင့် အဆက်ရပြီး သီရိလင်္ကာမှ ရွှေပေါက်ကံ့ကျွန်းဆရာတော်ကို သတင်းကြားနှင့် ကြည်ညိုနေသူများပေါ်များလာသည်။ ထိုအထဲတွင် ဒေါက်တာအေတီအရိယ ရတနေလည်းတစ်ဦးအပါအဝင်ဖြစ်သည်။ ဒေါက်တာအရိယရတနေသည် သီရိလင်္ကာနိုင်ငံရှိ နိုင်ငံရေးမဖက်လူမှုရေးနှင့် ငြိမ်းချမ်းရေးသက်သက်ဖြစ်သော "ဆရဗောဒယ"အဖွဲ့ကြီး၏ ဦးစီး ခေါင်းဆောင်ဖြစ်သည်။ ဒေါက်တာအရိယာရတနေသည် ရွှေပေါက်ကံ့ကျွန်းဆရာတော်၏ ဂုဏ်သတင်းကိုကြားရသောအခါသဒ္ဓါတရားထက်သန်လာပြီး ဗောဓိပင်နှင့် ဓာတ်တော်ကို ပင့်ဆောင်လာခြင်းဖြစ်သည်။ ဒေါက်တာအရိယရတနေက သူ၏ဆောင်ရွက်ချက်ကိုပြောပြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၈၆

**အိုင်အလယ်မှာ ဆိုင်တည်သတဲ့**

သဲတောမြို့၊ ဝမ်းတွင်းမြို့နှင့် မိတ္ထီလာ၊ မြင်းခြံ၊ မလှိုင်၊ နွားထိုးကြီး စသည့်မြို့များ၏ အလယ်ချက်မ တည့်တည့် တွင် ဗဟိုကျကျရှိရုံမျှမက မြန်မာပြည်အလယ်လောက် တည့်တည့် တွင်လည်းရှိနေပြန်ပါသည်။

သတ္တဝါဝေနေယျများကို "အိုင်အလယ်မှာ ဆိုင်တည်ပြီး ထိုင်ကယ်နေတယ်"ဟု ဆိုကြပါသည်။ ဆိုင်သူတွေကို တရားဓမ္မပြ၍ ကယ်မရန်ဖွင့်လှစ်ထားသော သာသနာပြုစခန်းကြီးဟုဆိုပါသည်။ ဆိုင်သူဆိုရာ၌ သာသနာတော်အား ယုံကြည်အားကိုးသူများ၊ သာသနာတော်နှင့် ဆက်နွယ်ပတ်သက်သူများ၊ သာသနာနှင့် သက်ဆိုင်သူများစသည့်သူများ ကိုကယ်သင့်ကယ်ထိုက်သူများအတွက် ကယ်မရန် အိုင်အလယ်မှ ထိုင်ကယ်ရသည်ဟုဆိုနိုင်ပါသည်။

ဤသို့ "အိုင်အလယ်မှ ဆိုင်တည်ပြီး ထိုင်ကယ်သည်"ဆိုသော စကားအတိုင်းလည်း သတ္တဝါဝေနေယျများကို အစားကျွေး၍ တရားပေးကာ ကယ်မခဲ့ပေါင်းများလှပါပြီ၊ ဤစခန်းသည် "မေတ္တာနှင့်သစ္စာ"အခြေခံ၍ မေတ္တာကို ခရီး၊ သစ္စာကို စည်းအဖြစ် အခြေခံစံနစ်ကျကျသွားသောပါရမီခရီးစခန်းကြီးဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၁၉

**စုတောင်အကျင့်မြတ်**

ရွှေပေါက်ကံ့ကျွန်း ဆရာတော်ကြီးသည် အကျင့်သီလ၊ စရဏတရားကို အလေးဂရုထားကြောင်း ရေးသားပြောဆိုကြပြီး၊ ဤအကျင့်တရားတွေထဲမှာ ဆရာတော်က ဘာတွေ ကျင့်ကြံသနည်း အဘယ်တရားအားထုတ်သနည်းသိလိုကြ၏။ ဆရာတော်၏ အကျင့်လမ်းသည် ရိုးသားဖြောင့်စင်းလွန်းပါသည်။ ဆေးဝါး မန္တန် အင်းအိုင် ခလှဲ့ စသည်တို့မပါဝင်။

http://www.dhammadownload.com



ရဟန်းသီလ၊ ဦးထိပ်ထား၏။ ဝိနည်းတရား ဦးထိပ်ထား၏။ သမထ ဝိပဿနာတရားကို အသက်ခန္ဓာမငဲ့ကွက်ဘဲကျင့်၏။ ဤကျင့်စဉ်များအတွင်း ဓုတင်အကျင့်ကို နှစ်ရှည်လများ အထူးကျင့်ခဲ့ပါ၏။ ဓုတင်အောင်ရဟန်း မေတ္တာအောင်ရဟန်းဟုခေါ်ဆိုကြပါသည်။ ဤသုသာန်အကျင့်ဓုတင်မှ တစ်ပါးကျန် ၁၂ ပါး ကိုထာဝရကျင့်သွားသည်။ နောက်ပိုင်း ၁၂ ပါးလုံး တစ်ပြိုင်နက်မဟုတ်သော်မှ အစပထမပိုင်းအားလုံးပြီးအောင် ကျင့်ပြီး၊ အစဉ်သဖြင့် မှုမပျက်အောင် အလျဉ်းသင့်သလိုကျင့် တော်မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၃၈

ရွှေပေါ်ကျွန်းဆရာတော်ကြီးသည် ဘုရားဟော တရားဓမ္မကိုသာ အဓိက ထားတော်မူသည်။ မေတ္တာခရီး၊ သစ္စာစည်းစသည့် ပါရမီကို အရှင်မြတ်လမ်းညွှန်တော်မူသည်။

ကျမ်းကိုး၊ စာ-၄၂၆၊ ဓမ္မသာလာစောင် တွဲ ၁၊ အမှတ် ၁ မှ

**ရွှေပေါ်ကျွန်းစေတော်ဝင်ကျောင်း ဗုဒ္ဓသာသနာပြုဆရာတော် အရှင်ဇေယျသိဒ္ဓိ ဓမ္မဉာဏိက၏ သေရည်သေရက်နှင့် မူးယစ်ဆေးဝါးသုံးစွဲမှုများကို ရှောင်ကြဉ်ရေးနှင့် ဆယ်စုနှစ်ဆောင်ရွက်ချက်များ**

အေဒီ ၁၉၅၇ ရွှေပေါ်ကျွန်းရွာ စေတော်ဝင်ကျောင်း ဆရာတော်အရှင်ဇေယျသိဒ္ဓိဓမ္မဉာဏိက မထေရ်မြတ်သည် ဗုဒ္ဓသာသနာပြုလုပ်ငန်းများကို ကောဇာသက္ကရာဇ် ၁၃၁၉ ခုနှစ်၊ (ခရစ်နှစ် ၁၉၅၇ ခုနှစ်)မှ စတင်၍ တာဝန်ယူဆောင်ရွက်ခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၁

**မာယကျောင်းဆောင်**

ထိုစဉ်ကကျောင်းနယ်မြေပရိဝုဏ်မှာ ဧကတစ်ဝက်စာမျှသာ ကျယ်ဝန်းခဲ့ပြီး တစ်ခုတည်းသော ကျောင်းဆောင် အဆောက်အအုံမှာ အလျားပေ ၂၀၊ အနံ ၁၀ ပေမျှသာကျယ်ဝန်းပြီး တစ်ထပ်ကျောင်းဆောင်အမြင့်ဖြစ်လျက် အမိုးမိုးထားသည်မှာ သက်ကယ်များသာဖြစ်ပေသည်။ ထိုကျောင်းဆောင်ကို "မာယကျောင်းဆောင်" ဟုအမည်နာမ ခေါ်ဆို၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၃

**ရွှေပေါ်ကျွန်း စတင် ပေါ်စဉ်က အခြေအနေ**

ထိုစဉ်ကာလက ဆရာတော်ကြီး ဆွမ်းတစ်နပ်စာဘုဉ်းပေး (စားသုံး)နိုင်ရန် ဆွမ်းဟင်းတစ်ခွက်စာ အသီးအနှံ (သို့မဟုတ်) သစ်ရွက်များ (ကန်စွန်းရွက်၊ ဘူးရွက်စသည်များ) ရရှိနိုင်ရေးအတွက် ကပ္ပိယဒါယကာတစ်ယောက်အဖို့ တစ်နေ့တာမျှ အချိန်ကုန်ဆုံးအောင် လိုက်လံရှာဖွေဆွတ်ခူးခဲ့ရဖူးလေသည်။ ကျေးရွာ၌ ဈေးဆိုင်များမရှိခဲ့သေးပေ။ ဈေးရှိသည့်မြို့ဆိုလျှင် ၁၈ မိုင်မျှကွာလှမ်းလေသည်။ ဆေးရုံ၊ ဆေးပေးခန်းများလည်း မရှိ။ ထိုစဉ်ကမူလတန်းစာသင်ကျောင်းပင် မရှိခဲ့ပေ။ လျှပ်စစ်ဓာတ်အားရရှိရေးဆိုသည်မှာလည်း ဝေးကွာလှပါသည်။ မြန်မာနိုင်ငံအရပ်ရပ်တွင် ထိုအချိန်က ထရန်စစ္စတာ ရေဒီယိုငယ်တစ်လုံးတလေမျှပင် မရှိခဲ့သေးပေ။ မြို့ငယ်များ၌ နေ့စဉ်သတင်းစာများရောက်ရှိနေပြီဖြစ်သော်လည်း ရွှေပေါ်ကျွန်းကျေးရွာသို့ ယနေ့တိုင် နေ့စဉ် သတင်းစာများမရောက်ရှိသေးပေ။ အနီးကပ်ဆုံးရဲစခန်းသည်ပင်လျှင် ၈ မိုင်မျှ ကွာလှမ်းလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၃

http://www.dhammadownload.com



**လမ်းစပေါ်ပြီ**

အေဒီ ၁၉၇၂

၁၉၇၂ တွင်ရွှေပေါ်ကျွန်းကျေးရွာနှင့် မလှိုင်မြို့ (ရွှေပေါ်ကျွန်း ကျေးရွာ၏မိခင်မြို့နယ် ရုံးစိုက်ရာမြို့) သို့ တိုက်ရိုက် ဆက်သွယ်သွားလာနိုင်မည့် မော်တော်ကားနှင့် မောင်းနှင်၍ ရနိုင်လောက်သော မြေလမ်းကြောင်းတစ်ခုကို စတင်ဖောက်လုပ်နိုင်ခဲ့လေသည်။ ထိုမြေလမ်းကြမ်းပွင့်သွားသည့်နှင့် မြင်းခြံ၊ မလှိုင်၊ မိတ္ထီလာ၊ သဲတော၊ ဝမ်းတွင်း၊ မြစ်သား အစရှိသော မြို့ကြီးမြို့ငယ်များမှ ကားကြီးကားငယ်များဖြင့် ရွှေပေါ်ကျွန်းဆရာတော်ထံသို့ လာရောက်ဖူးမြော်ကန်တော့ကြသူများ တစ်နေ့ထက်တစ်နေ့ တစ်နှစ်ထက်တစ်နှစ် တိုးပွားများပြားလာတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၅

**လက်ရေးနှင့် လိုက်ရေးရသည့် ကျင့်စဉ်များ**

အေဒီ ၁၉၉၃

ဆရာတော်၏အနီးတွင် ဦးညိုလှဆိုသူမှာ ကပ္ပိယအဖြစ်ဆောင်ရွက်နေသည်။ ထိုစဉ်က သူ၏တာဝန်မှာ ဆရာတော်၏ တစ်ယောက်တည်းသောအထွေထွေအကျိုးဆောင်ဖြစ်သည်ဆိုလျှင် မမှားပေ။ သူသည် ဆရာတော်က ချပေးသည့် ဓမ္မကျင့်စဉ်များကိုလည်း လက်ရေးဖြင့်ရေးယူရသည်။ ဖြန့်ဝေပေးရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၅

**ရှောင်ကြဉ်ရေး လမ်းစဉ်များ**

အေဒီ ၁၉၇၅

ကျွဲသား၊ နွားသား၊ ဝက်သား၊ သေရည်သေရက်နှင့် မူးယစ်ဆေးဝါးသုံးစွဲမှုရှောင်ကြဉ်ရေး လျှာဒါန်းကတိပြုခဲ့ကြသည့် အမည်၊ နေရပ်၊ ကာလအပိုင်းအခြားစသည်တို့ကို စာရင်း စာအုပ်ကြီးတစ်အုပ်ဖွင့်လှစ်ပြီး မှတ်ပုံတင်စာအုပ် ပုံစံမျိုးရေး၍ ၁၃၃၆ ခုနှစ်၊ နှစ်ဆန်းတစ်ရက်နေ့ (၁၉၇၅ ခုနှစ်၊ ဧပြီလ ၁၇ ရက်နေ့)မှ စတင်ပြီး မှန်မှန်ရေးသွင်း မှတ်တမ်းတင်ခဲ့ကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၆

**နေ့စဉ် အစားအသောက်**

စားရေးသောက်ရေးမှာလည်း အများပရိသတ်ကျွေးမွေးသည့်အတိုင်း နံနက်စာ (ယာဂုခေါ် ဆန်ပြုတ်နှင့် နေ့လယ်စာ ထမင်းနှင့် ဟင်းနှစ်ခွက် (အသီးအနှံ) သို့မဟုတ် ပဲစသည့် အချိုဟင်းတစ်ခွက်၊ အချဉ်ဟင်းတစ်ခွက်၊ ညစာထမင်းနှင့်ဟင်းနှစ်ခွက်ကို မိမိတို့စားသောက်နိုင်သလောက် အဝစားကျွေးမွေးလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၇

**စေတော်ဝင် စခန်း**

ဤရွှေပေါ်ကျွန်းစေတော်ဝင်သာသနာပြု စခန်းအနေဖြင့် မိမိကျောင်းသင်္ခမ်းသို့ ရောက်လာသမျှသော ရဟန်းရှင်လူပရိသတ်များကို အရေအတွက်အကန့်အသတ်မရှိ ကျောင်းတွင်နေထိုင်နိုင်သည်။ ခွင့်ပြုရက်အကန့်အသတ်မရှိ နေထိုင်သမျှကာလပတ်လုံး စားစရိတ်နေစရိတ်ဟူ၍ တောင်းခံခြင်းမရှိ။ ဆရာတော်က အခမဲ့ ကျွေးမွေးလျှုဒါန်းလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၈

**လမ်းညွှန်မှု**

ဆရာတော်အနေနှင့်လည်း ရဟန်းတော်များ စောင့်ထိန်း လိုက်နာရသည့် ဝိနည်းတော်အရ ကိုယ်တိုင် ဆေးဝါးကုသပေးခြင်းအမှုကို မပြုပေ။ တတ်ကျွမ်းနားလည်သော သို့မဟုတ် ဆေးပညာဘက်၌ ဝါသနာထုံသော တပည့်ဒကာများကိုသာ လမ်းညွှန်မှုပေးပြီး ကုစေလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၈

http://www.dhammadownload.com



**ဆရာတော့် မေတ္တာအစွမ်း**

အချို့မှာ ရွှေပေါ်ကျွန်း စေတော်ဝင်ကျောင်းတော်သို့ ရောက်လာခါစ၌ မိမိတို့သုံးစွဲနေကျ အရက် သို့မဟုတ် မူးယစ်ဆေးတစ်မျိုးမျိုးနှင့် ကင်းကွာဖြတ်တောက်စအချိန်တွင် ဆေးစွဲနေခဲ့ကြသူများအဖို့ ဝေဒနာပြင်းထန်စွာခံစားနေကြရပါလျှင် ဆရာတော်မေတ္တာပြုပေးသည့် ပျားရည် သို့မဟုတ် ရေ သို့မဟုတ် ကွမ်းယာစသည်တို့ကိုသာ ဆရာတော်က စွန့်ကြဲကျွေးမွေးလိုက်လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၈

**အရက်ပြတ်သူများ စာရင်း**

အေဒီ ၁၉၇၅

ကောဇာသက္ကရာဇ် ၁၃၃၇ ခုနှစ်နှင့် ၁၃၃၈ ခု၊ နှစ်နှစ်နှစ်တာကာလအတွင်း မကွေးတိုင်း၊ ပခုက္ကူခရိုင်တစ်ခုတည်းမှပင် လူဦးရေ ၇၀၀၀ ကျော်မျှ စေတော်ဝင်ကျောင်းသို့ ရောက်လာခဲ့သူများအနက် လူဦးရေသုံးပုံနှစ်ပုံခန့်မှာ အရက်စွဲနေခဲ့သူ အရက်သမားများဖြစ်ကြလေသည်။ သူတို့မှာ ရက်ပိုင်းကာလအတွင်းမှာပင် အရက်ပြတ်သွားခဲ့ကြလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၉

**လူဆိုးများ ဘဝသစ်သို့**

ထိုစဉ်ကာလက ပခုက္ကူမြို့နယ် တစ်ဝိုက်မှာရှိခဲ့ကြသော နာမည်ကြီးလူဆိုးလူမိုက်များပင် ရွှေပေါ်ကျွန်း စေတော်ဝင်ကျောင်းသို့လာရောက်၍ ဆရာတော်၏ ဩဝါဒကို ခံယူကြသည်။ သူတို့ တစ်တွေအရက်ပြတ်သွားသည်သာမက အခြားသော မကောင်းမှုဒုစရိုက်များကိုပါ စွန့်လွှတ်လိုက်ကြလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၉

**ရာဇဝတ်မှုကျဆင်း**

ထိုကျေးရွာနယ်မြေတစ်ဝိုက်တွင် ရာဇဝတ်မှုခင်းများ သိသိသာသာကြီးကျဆင်း လျော့နည်းသွားရသည်ကြောင့် ထိုအချိန်က ပခုက္ကူမြို့နယ်အုပ်ချုပ်သူ လူကြီးများအနေဖြင့် ရွှေပေါ်ကျွန်း စေတော်ဝင်ကျောင်းတော်သို့ သွားရောက်မည့်သူများအား ဓာတ်ဆီနှင့် ဆန်အစ ရှိသော စားနပ်ရိက္ခာများပံ့ပိုးကူညီမှုပင် ထုတ်ပေးခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၉

**လူမိုက်ဗိုလ်ဘဝမှ ဥပါသကာ ဘဝသို့**

တစ်ချိန်က ထိုနယ်မြေတစ်ဝိုက်တွင် လူမိုက်ဗိုလ်ဟုနာမည်ကြီးခဲ့ရသော မြို့ခင်းသာ ရွာသားတစ်ဦးသည် ယနေ့အထိ ဆရာတော်၏ သာသနာ့တာဝန်ကို ဆောင်ရွက်လျက်ရှိသော ဥပါသကာလူကြီးတစ်ဦးအနေဖြင့် အသက်ရှင်လျက်ရှိနေပေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၉

**ရွှေပေါ်ကျွန်းရောက်လျှင် အလိုလို အရက်ပြတ်ကြ**

ရွှေပေါ်ကျွန်းဆရာတော် ထံမှောက်ရောက်လျှင် အရက်ပြတ်သည်ဆိုသည့် သတင်းမှာလည်း မြန်မာနိုင်ငံအနှံ့ အပြားဟိုးလေးတကျော်ဖြစ်လာနေသည်။ အရက်ဖြတ်သည်ဆိုလျှင် မူးယစ်ဆေးဝါးကိုရော ဖြတ်နိုင်ပါမည်လားဆိုသည့် မေးခွန်းတွေလည်း မေးလာကြသည်၊

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၃၁

http://www.dhammadownload.com



## နယ်စပ်နှင့်တောင်တန်းဒေသ အပါအဝင်

### နှစ် (၄၀) သာသနာပြုစရိုး

ဆရာတော်၏ သာသနာပြုလုပ်ငန်းမှာ စတုတ္ထဆယ်နှစ်ခရီးသို့ တိုင်ခဲ့လေပြီ။ ရွှေပေါ်ကျွန်း စေတော်ဝင်ကျောင်းတော်သို့အရောက်လာနိုင်ရန် မော်တော်ကားမောင်းနှင်၍ရသည့် မြေလမ်းမ ၃ လမ်း၊ တံခါးပေါက်သုံးပေါက် ပွင့်ခဲ့လေပြီ။ မလှိုင်မြို့မှ ရွှေပေါ်ကျွန်းသို့ ပထမတစ်လမ်း၊ မြစ်သား၊ နွားထိုးကြီးမြို့ဘက် ခက်လန်းရွာမှ ရွှေပေါ်ကျွန်းသို့ ဒုတိယတစ်လမ်းနှင့် ဝမ်းတွင်းနှင့် မိတ္ထီလာမြို့မှ ပင်းတလဲရွာကြီးကိုဖြတ်ပြီးရွှေပေါ်ကျွန်းသို့ တတိယတစ်လမ်း ပွင့်ခဲ့လေပြီ။ သို့ကြောင့်လည်း ယခုအခါ၌ မြန်မာနိုင်ငံအရပ်ရပ် အရှေ့ဘက်မှ ရှမ်းပြည်နယ် တာချီလိတ်မြို့၊ ကျိုင်းတုံမြို့များမှသည် အနောက်ဘက်ချင်းပြည်နယ်၊ ဟားခါး၊ တီးတိန်မြို့များ၊ တောင်အရပ် မှသော် တနင်္သာရီတိုင်းအစွန်ရှိ ကော့သောင်းမြို့မှ မြောက်ဘက် ကချင်ပြည်နယ် ပူတာအိုမြို့အထိ ရွှေပေါ်ကျွန်းစေတော်ဝင်ကျောင်းဆရာတော်ဘုရား ထံမှောက်သို့ ဖူးမြော်ကန်တော့ရင်း ဩဝါဒခံယူသူတွေ ရောက်ရှိလာနေကြပြီဖြစ်လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၃၅

### နေ့စဉ် လူ (၁၀၀)

ကျောင်းတော်အတွင်း၌ အမြဲလိုသီတင်းသုံးနေကြသော ရဟန်းရှင်လူ ရသေ့ယောဂီ ပရိသတ်မှာလည်း နေ့စဉ် လူ ၁၀၀ ခန့်ထက်မနည်း တရားဘာဝနာပွားများအားထုတ်ရင်း သာသနာ့ဝေယျာဝစ္စများကို ဆောက်ရွက်လျက်ရှိရာ ဆရာတော်အနေဖြင့် ထိုပရိသတ်အား နေ့စဉ် ကျွေးမွေးစရိတ်နှင့် ခေတ္တယာယီရောက်လာသည့် ဧည့်ပရိသတ်များကိုပါ ကျွေးမွေးခဲ့ပေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၃၅

### မူးယစ်ဆေးပြတ်သူများစာရင်း

အေဒီ ၁၉၉၀

ဆရာတော်သာသနာပြုတာဝန်ကို စတင်သယ်ပိုးဆောင်ရွက်လာခဲ့သည့် သက်တမ်း ၃၂ နှစ်တာကာလအတွင်းမှ ကျွန်တော်တို့၏မှတ်တမ်းမှတ်ရာများထားရှိနိုင်ခဲ့သော ၁၄ နှစ်တာကာလပိုင်းရှိ သေရည်သေရက်နှင့် မူးယစ်ဆေးဝါးအမျိုးမျိုးတို့ကို သုံးစွဲခြင်းမပြုတော့ပါဟု ကတိကဝတ် ခံယူခဲ့ပြီး လူူဒါန်းကြသူလူဦးရေပေါင်းမှာ ၁၅-၄-၉၀ နေ့အထိ ၁၇၇၀၄၈ တစ်သိန်းခုနစ်သောင်း ခုနစ်ထောင်နှင့် လေးဆယ့်ရှစ်ယောက်ရှိခဲ့ပြီး စောစောက ၃ နှစ်ပိုင်းကာလဆရာတော်ကိုယ်တိုင် ရေးမှတ်ခဲ့သည့် မှတ်တမ်းအရ ၁၇၅၀ နှင့်ပေါင်းလျှင် (၁၇၉၇၉၈) ယောက်ရှိခဲ့လေပြီ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၃၆

### (၁၄)နှစ်အတွင်း အရက်ပြတ်သူများ

အထက်ဖော်ပြပါ ၁၄ နှစ်အတွင်းအရက်စွဲခဲ့သူ (၅၅၂၉)ငါးထောင့်ငါးရာ နှစ်ဆယ့်ကိုးယောက်ကို အရက်ဖြတ်တောက်ပေးရာ၌ လုံးဝပြန်လည်သောက်ခြင်းမပြုတော့သူ လုံးဝပျောက်ကင်းသူပေါင်း (၅၃၆၃)ငါးထောင့်သုံးရာခြောက်ဆယ့်သုံးယောက် ဆန်ကာတင်ကျန်ရှိ တည်တံ့ခိုင်မြဲလျက်ရှိနေခဲ့ကြပါသည်။ မူးယစ်ဆေးဝါးသုံးစွဲနေသူပေါင်း ၃၅၈ ယောက်ကိုဖြတ်တောက်ကုသပေးခဲ့ရာ၌ မူးယစ်ဆေးဝါးအမျိုးမျိုးသုံးစွဲ မှုနှင့်တကွ အရက်အမျိုးမျိုးသောက်သုံးမှုကိုပါ လုံးဝစွန့်ပယ်လိုက်သည်အထိ ဆန်ကာတင်ကျန်ရှိခိုင်မြဲသူပေါင်း ၂၁၅ ယောက် တွေ့ရှိရလေသည်။

ကျမ်းကိုး။ ဦးသန်းမောင်၊ ၁၉၉၂ ခုနှစ်၊ ဇန်နဝါရီလ အတွဲ -၁ အမှတ် ၁၊
ရွှေပေါ်ကျွန်း၊ မေ့သာလာမဂ္ဂဇင်း၊ စာ ၁၃၆၊

http://www.dhammadownload.com



**ဆရာပါရဂူ၏ အဆိုအမိန့်**

မလှိုင်မြို့နယ်နှင့် ၁၈ မိုင်အကွာတွင်ရှိသော အညာရွာကလေးတစ်ရွာဖြစ်သည်။ မလှိုင်မြို့မှ အရှေ့မြောက် သို့သွားပါက ရွှေပေါ်ကျွန်းသို့ရောက်သည်။ အညာရွာလေးတစ်ရွာဟုဆိုရသော်လည်း ရွှေပေါ်ကျွန်းအမည်သည် မြန်မာပြည်တွင်သာမက မြန်မာပြည်နယ်နိမိတ်အပြင်ဘက်ကို ၎င်ကျော်ထွက်နေပြီ၊ ယင်းသို့ရွှေပေါ်ကျွန်း အမည်နာမ နယ်အနှံ့ပျံ့နှံ့နေခြင်းမှာ ရွှေပေါ်ကျွန်း၌ သီတင်းသုံးနေသော ရွှေပေါ်ကျွန်းဆရာတော်အရှင်ဇေယျသိဒ္ဓိ ဓမ္မဉာဏိက ကြောင့်ဖြစ်သည်။

(ကျမ်းကိုး၊ ရွှေပေါ်ကျွန်းဓမ္မသာလာစာစောင်၁၉၉၂ ခုနှစ်၊ ဇန်နဝါရီလထုတ်၊ တွဲ ၁၊ အမှတ် ၁ မှဖြစ်ပါသည်။စာရေးဆရာကြီးပါရဂူ၏အမြင်ဆောင်းပါး အနုရာဓပူ ့မှ ရွှေပေါ်ကျွန်းသို့၊ စာ-၃၈၂)

**မီးထိန်ထိန်းလင်းသည်မှာ ရွှေပေါ်ကျွန်းကြောင့်**

ရွှေပေါ်ကျွန်းဆရာတော်သီတင်းသုံးသည့်အချိန်မှစ၍ ရွှေပေါ်ကျွန်းရွာသည် တစ်စတစ်စ တိုးတက်စည်ကားလာရာ ယခုအခါတွင် မြို့ကလေးတမျှဖြစ်နေပြီ။ ညဉ့်အချိန်၌ ရွှေပေါ်ကျွန်းကျောင်းတိုက်ပရိဝုဏ်အတွင်း၌သာမကဘဲ အနီးအနားပတ်ဝန်းကျင် ရွာနီးချုပ်စပ်များ၌ပင် လျှပ်စစ်မီး ထိန်ထိန်ညီးနေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၈၂

**တ၀ စေတီတော်**

ကျောင်းတိုက်၏ထူးခြားချက်မှာ ကျောင်းတိုက်အတွင်း၌ အဆူဆူသော စေတီပုထိုးများ ကိန်းဝပ်တည်ရှိနေကြခြင်းပင် ဖြစ်သည်။ ထိုစေတီပုထိုးများအနက် ဉာဏ်တော်အမြင့်ဆုံးမှာ "တ၀ စေတီတော်" ဖြစ်သည်။

အေဒီ ၁၉၇၆

တ၀စေတီတော်သည် ၁၉၇၆ ခုနှစ်၊ ဆရာတော်၏သက်တော် ၆၄ နှစ်တွင် ဆရာတော်ကိုယ်တိုင် ကြီးမှူးတည်သောစေတီဖြစ်သည်။ ဉာဏ်တော် ၆၄တောင်မြင့်သည်။ ဆရာတော်၏ သက်တော် ၆၄ နှစ်အထိမ်းအမှတ်အဖြစ် ဉာဏ်တော် ၆၄ တောင်မြင့်စေတီတည်ခြင်းဖြစ်လေသည်။ ရွှေပေါ်ကျွန်းမရောက်ခင် တစ်မိုင်လောက်ကပင် တ၀စေတီတော်ကိုလှမ်း ပြီးဖူးတွေ့နေရသည်။ စိမ်းစိုသောတောအုပ်အတွင်းက ဝေဟင်သို့သပ္ပာယ်စွာ ထိုးထွက်နေသော စေတီတော်ကို အဝေးမှ လှမ်းဖူးရသည်မှာ အလွန်တရာကြည်နူးဖွယ်ကောင်းလှသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၈၂

**ကျင့်စဉ်စာရွက် အမြဲဝေ**

ကျောင်းတိုက်၌ အမြဲတမ်းလာနေသူများသည် တစ်နေ့လုံး အားလပ်နေသည်ဟူ၍မရှိပေ။ ပန်းကပ် ဆီမီးပူဇော် စသော ဘုရားဝေယျာဝစ္စကိစ္စများအပြင် ပုတီးလည်းမှန်မှန်စိပ်ရသည်။ ပဋိပတ္တိကျင့်စဉ်ကိုလည်း ဝတ်ထားပြီးကျင့်ကြံအားထုတ်ရသည်။ ဆရာတော်သည် လစဉ် ရပ်နီးရပ်ဝေး တပည့်ဒကာ ဒကာမအားလုံးအတွက် ကျင့်စဉ်ကိုလမ်းညွှန်ပေးသည်။ လစဉ် စာရွက်ရိုက်နှိပ်ပေးရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၈၄

**စိတ်ဝင်စားစရာအကောင်းဆုံး အချက်**

ရွှေပေါ်ကျွန်းကျောင်း၏ စိတ်ဝင်စားစရာအကောင်းဆုံးမှာ ကျောင်းရောက်သွားသူ မှန်သမျှလိုလိုပင် အရက် ပြတ်သွားခြင်းဖြစ်သည်။ အရက်ပြတ်ပုံမှာ ညင်ညင်သာသာရှိလှသည်။

http://www.dhammadownload.com



ဆရာတော်ထံ၌ အရက်လှူပြီးသည်နှင့် တစ်ပြိုင်နက် ထိုပုဂ္ဂိုလ်သည် အရက်သောက်၍ မရတော့ပေ။ ငါးနှစ်အတွင်းစာရင်းအရ အရက်နှင့် ခြေလေးချောင်းသား ကုန်းသတ္တဝါ လှူသူ ပေါင်း တစ်သိန်းခြောက်သောင်း ငါးထောင့်လေးရာရှိသွားပြီး မူးယစ်ဆေးဝါးဖြတ်လိုသူများ ရွှေပေါ်ကျွန်းသို့ သွားစမ်းကြည့်ခဲ့လေသည်ဟု မှတ်တမ်းရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၈၄

**ဆရာတော်၏ စရိုက် ဓလေ့**

ဆရာတော်သည် အနေအထိုင်ရိုးသားသည်။ ပကာသနမဖက် မျက်နှာကြီးငယ်မရွေး မည်သူ့ကို မဆို တစ်တန်း တည်းထားသည်။ ညီတူညီမျှဆက်ဆံသည်။ အလှူအတန်းကို မမက်မော။ မေတ္တာဝါဒနှင့် ငြိမ်းချမ်းမှုကို အဓိကထားသည်။ သူတပည့်တပန်း ဒကာဒကာမများက သူ့ကို အသက်တမျှကြည်ညိုလေးစားကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၈၅

၁၉၈၄ ခုနှစ်၊ ဇူလိုင်လတွင် ရန်ကုန်မြို့ရှိ မိခင်ထံသို့ ဘန်ကောက်မြို့မှ အလည်အပတ်ရောက် ရှိခဲ့သော ဒေါက်တာ ဒေါ်သင်းသင်း၏ ကိုယ်တွေ့ဖြစ်ရပ်မှာအံ့ဖွယ်ရှိလှသည်။

**ကိုယ်တွေ့ဖြစ်ရပ်များ**

အေဒီ ၁၉၈၄ — ရန်ကုန်သို့အပြန်အမြန်ရထားပေါ်၌ တစ်လမ်းလုံးအိပ်မက်လိုလို အာရုံလိုလိုအသိထူးများ စတင် ပေါ်ပေါက်လာကာ ဆရာတော်ဘုရားထံမှ မှာစရာများဆိုသည် ထိုအချိန်ကစတင်ပါ တော့သည်။

ရန်ကုန်ပြန်ရောက်ပြီး ၂ ရက်အကြာတွင် အသိထူး အာရုံထူးများမမျှော်လင့်ဘဲ ဘွင်းဘွင်းကြီး ပေါ်ပေါက် ခဲ့ရာ အံ့မခန်းဖြစ်ရပ်များကို ကြုံတွေ့ခဲ့ရပါတော့သည်။ ထိုအချိန်တွင် ကျွန်မ၏ဘဝ သည် တစ်ခန်းတစ်ကဏ္ဍစတင် ရပါတော့မည်ကိုလည်း အတပ်သိရှိခဲ့၍ ထိုရက်ပိုင်းမှာပင် ၉ ပါးသီလဆောက်တည်ခြင်း။ ကုန်းသတ္တဝါလွှတ်စားခြင်းများကို စတင်ကျင့်ကြံအားထုတ်ပါ တော့သည်ဟု ကိုယ်တိုင် မှတ်တမ်းတင်ထား၏။

ကျမ်းကိုး၊ ဒေါက်တာသင်းသင်း၊ ရွှေပေါ်ကျွန်း၊ ဓမ္မသာလာစာစောင်၊ ၁၃၅၃ ခုနှစ်၊၁၉၉၂ခု၊ ဇန်နဝါရီလထုတ်တွဲ ၁ ၊ အမှတ် ၁ မှ စာ-၄၀၃။

အေဒီ ၁၉၈၄ — ဘန်ကောက်ပြန်ရောက်ပြီးချိန်မှစ၍ ၁၉၈၄ ခုနှစ်ဩဂုတ်လမှ စတင်ခဲ့သော ၉ ပါးသီလ ဥပုသ် ရက်ရှည်စောင့်ထိန်းခြင်းကို အဓိဋ္ဌာန်ဝင်ပြီး ဆရာတော်ဘုရား ချီးမြှင့်သောကျင့်စဉ်များ ကိုလည်း တိုး၍ပင်နေ့ရက်မပြတ်စတင် ကျင့်ကြံအားထုတ်ပါတော့သည်ဟု ကိုယ်တိုင် မှတ်တမ်း တင်ထား၏။

အေဒီ ၁၉၈၅ — ၁၉၈၅ ခုနှစ်တွင် သီရိလင်္ကာသာသနာနှင့်ပတ်သက်၍ အစပေါ်ခဲ့လေသည်။ ထိုနှစ်က သီရိလင်္ကာ အမျိုးသမီး တစ်ဦးဖြစ်သူ မစ္စစ်အီရိကာဒိုင်ယာစ် (Ms. Erika Dias)ဆိုသူနှင့် အကျွမ်း တဝင်စတင်ဖြစ်ခဲ့ရာမှ ၎င်းကဆရာတော် ဘုရားကြီးအားနာမည်ကြားရုံနှင့် ယုံကြည် သက်ဝင်ကာ ဆရာတော်ဘုရားကြီး၏ စရဏကျင့်စဉ်များကိုစတင်ကျင့်ခဲ့ ပါသည်။

ကျမ်းကိုး၊ စာ-၄၀၇

အေဒီ ၁၉၈၆ — ၁၉၈၆ ခုနှစ်၊ ကျွန်မနှင့်ကလေးနှစ်ယောက်သည် ဆရာတော်ဘုရားထံသို့ဖူးမြော်ရန် ရောက်ရှိခဲ့ သည်။

အေဒီ ၁၉၈၇ — ၁၉၈၇ ခုနှစ်ဖေဖော်ဝါရီလတွင်မှ ဘန်ကောက်မြို့သို့ အစည်းအဝေးတက်ရောက်လာသော ကမ္ဘာကျော်ပုဂ္ဂိုလ်ကြီး ဒေါက်တာအရိယာရတနေ (Dr. Ariyaratne)ကို မစ္စစ်ဒိုင်ယာစ်အိမ်

http://www.dhammadownload.com



တွင် တွေ့ဆုံခဲ့ပါသည်။ ၎င်းနှင့်တွေ့ရှိချိန်မှာပင် ဆရာတော်ဘုရားကြီး အကြောင်းနှင့် စေတီတော် တည်ဆောက်ရေးကိစ္စများပြောပြသည်။ ချက်ချင်းပင်၎င်းမှာ စိတ်ပါဝင်စားပြီး စေတီတော် တည်ဆောက်ရေးကိုတတ်အားသမျှ ကူညီမည်ဖြစ်ကြောင်း သီရိလင်္ကာနိုင်ငံရှိ မဟာဗောဓိပင်ကြီးမှ ဗောဓိပင်ပေါက်ကို ၎င်းကိုယ်တိုင်ဆရာတော်ဘုရားကြီးထံ အရောက်ပို့ပေးမည်ဟု ကတိပြုခဲ့လေသည်။

အေဒီ ၁၉၈၇ ထိုနှစ်မှာပင် ၁၉၈၇ ခုနှစ် ဇူလိုင်လတွင် ဒေါက်တာအရိယာရတနေ ကိုယ်တိုင်ဗောဓိပင်နှင့် ဓာတ်တော် ၂ ဆူကို ရန်ကုန်မြို့သို့လေယာဉ်ဖြင့်ပင့်ဆောင် သယ်ယူလာခဲ့ပါသည်။

ကျမ်းကိုး၊ စာ-၄၀၇

ဇူလိုင်လ (၂၃)ရက်နေ့တွင် မစ္စတာ အရိယာမှာ လေယာဉ်နှင့် ရောက်ရှိလာသဖြင့် မင်္ဂလာဒုံလေဆိပ်တွင် စည်ကားသိုက်မြိုက်စွာ ကြိုဆိုခဲ့ပါသည်။

ကျမ်းကိုး၊ စာ-၄၀၈

ဓာတ်တော်နှင့် ဗောဓိပင်ပေါက်ကို ဘူတာကြီးအရောက် ပင့်ဆောင်ကြပြီး သာစည်ဘူတာအထိ လူပေါင်း ၅၀ ခန့်ဖြင့် ရန်ကုန် - မန္တလေးအမြန်ရထားတွဲ တစ်တွဲလုံးငှားရမ်းကာ ပင့်ဆောင်ခဲ့ကြပါသည်ဟု မမေ့သင့်သော ခေတ်ပြိုင် မှတ်တမ်းတစ်ခုကို ဖတ်ခဲ့ရပါသည်။ အလွန် အောက်မေ့တသ ကြည်ညိုဖွယ်ဖြစ်ပါသည်။

**ရုပ်ကလာပ်တော်ထူးခြားချက်များ**

အေဒီ ၁၉၉၇ (၁) ရုပ်ကလာပ်တော်အား (၅. ၂. ၉၇) မှ (၂၀. ၂. ၉၇)အထိ ၁၆ ရက်ထားသော်လည်း မပုပ်မသိုး၊ မပွမဖောင်း ဘဲမူလအတိုင်းရှိနေခြင်း။

(၂) ရုပ်ကလာပ်တော်မှ အရည်စိမ့်ထွက်ယိုစီးမှုလုံးဝမရှိခြင်း။

(၃) ရုပ်ကလာပ်တော်မှ နောက်ဆုံးလိုဏ်ဂူတော်သို့ ပင့်ဆောင်ချိန်နှင့် လိုဏ်ဂူတော်အတွင်း ရောက်သည်အထိ အနံ့တစ်စုံတစ်ရာ မထွက်ခြင်း။

(၄) ဆံတော်များရှည်ထွက်ခြင်း၊ လက်ယာဘက်နဖူးအထက်နားမှ ၃ လက်မခန့် ဆံပင်တစ်ပင်တည်း ဆံတော်ရှည်ထွက်နေခြင်း။

(၅) မျက်ခုံးမွေးတော်များ မူလသိမ်းလျက်မှ ထောင်ထရှည်ထွက်နေခြင်း၊ မူလအဖြူရောင်မှ ဘော်ငွေရောင်သန်းနေခြင်း

(၆) ရံဖန်ရံခါ မျက်လုံးတော်တို့ဖွင့်ခြင်း၊ ပိတ်ခြင်း။

(၇) ရင်ဘတ်တော်၊ ဝမ်းဗိုက်တော်၏အထက်မှ သင်္ကန်းတော်အား အတွင်းမှလက်လှုပ်သကဲ့သို့ သိသာစွာလှုပ်ရှားခြင်း၊

(၈) ခန္ဓာဝန်ချသည့်အချိန်မှစ၍ လိုဏ်ဂူတော်တွင်းသို့ ပင့်သည်အထိ ခေတ်မီဆေးဝါးထိုးသွင်းစီမံခြင်းလုံးမရှိခြင်း။

(၉) ယင်စသည့် ပိုးမွှားများ လာမှုမရှိခြင်း။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈၁

ကျမ်းကိုး၊ ၁၉၈၉ ခုနှစ် ဇူလိုင်လကမူ မြန်မာနိုင်ငံဆိုင်ရာ သီရိလင်္ကာနိုင်ငံသံအမတ်ကြီး မစ္စတာ (Mr.S.W. Alawathuwala ) အာလာဝါသူဝါလာပင်လျှင် ဆရာတော်ဘုရားထံ သူ၏မိသားစု နှင့်အတူ ရောက်ရှိဖူးမြော်ခဲ့ပါသည်။ ထိုစဉ်က ရထားကိစ္စစီစဉ်ပေးသော သစ်တောဝန်ထမ်း ဦးအောင်မြင့် B.A , R.L ဥပဒေအကျိုးတော်ဆောင်၏ ပြန်ပြောချက်၊

http://www.dhammadownload.com



ကျမ်းကိုး၊ မြတ်ထူးထက်၊ မလှိုင်၊ ရွှေပေါ်ကျွန်းဆရာတော်ကြီး ချီးမြှင့်သည့် အထူးကျင့်စဉ် တစ်ခု ဂမ္ဘီရမဂ္ဂဇင်း၊ ၂၀၀၁ ခု၊ ဧပြီလ စာ ၈၃၊

ကျမ်းကိုး၊ သိန်းထွန်းကြည် အင်း၀၊ ရွှေပေါ်ကျွန်းဆရာတော်ကြီး ချီးမြှင့်သောကျန်းမာရေး အတွက် ယတြာနှင့် အထူးကျင့်စဉ်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် ၁၇၆၊ ၂၀၀၁ခုနှစ်၊ မတ်လ စာ ၁၅၃ ၊

ကျမ်းကိုး၊ အောင်ဇေ LLB ရွှေပေါ်ကျွန်းမှ စိတ်ဝင်စားဖွယ်ရာများ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၁၉၉၇ ခု၊ ဧပြီလ၊ စာ ၄၁ - ၄၈၊

ကျမ်းကိုး၊ အရှင်ကုမာရ စစ်ကိုင်းတောင်တန်း၊ ရွှေပေါ်ကျွန်းဆရာတော်ကြီး အမြဲတမ်းရွတ် ဖတ်သဇ္ဈာယ်လေ့ရှိသော အစွမ်းထက်သည့် အရှင်ကစ္စာယန မထေရ်မြတ်၏ ဆုတောင်း ဂါထာတော် နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ၁၉၉၇ ခု၊ ဩဂုတ်လ စာ ၁၂၁ - ၁၂၃၊

ကျမ်းကိုး၊ ဦးသိန်းထွန်းကြည် အင်း၀၊ ရွှေပေါ်ကျွန်းဆရာတော်ချီးမြှင့်သော န - ဝါ - ဝါ ၃ လကျင့်စဉ်၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်းအမှတ် ၁၉၃၊ ၂၀၀၂ ခု၊ ဩဂုတ်လ စာ ၁၈၅ - ၁၈၆၊

ကျမ်းကိုး၊ ဒေါက်တာသက်လွင် မေတ္တာရှင်တို့၏ နယ်မြေ၊ ဂမ္ဘီရ မဂ္ဂဇင်း၊ စာ ၇၆၊

ကျမ်းကိုး၊ အာသဝတီ၊ ငါးမတ်သား ပိုလေးသည့် အဓိဋ္ဌာန်ရေကြိုတွင်း နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ အမှတ် ၁၂၅၊ ဒီဇင်ဘာလ၊ စာ ၂၈၊

ကျမ်းကိုး၊ စံရွှေနန္ဒ၊ လက်တွေ့၊ အနှစ် ၂၀၀ ကျော်က သနပ်ခါးပင်ကြီး၊ မြတ်မင်္ဂလာမဂ္ဂဇင်း၊ အမှတ် ၉၊ ၁၉၉၈ ခုနှစ်၊ မတ်လ စာ ၉၊

ကျမ်းကိုး၊ မြေလတ်မြတ်သူ၊ ရွှေပေါ်ကျွန်းဆရာတော်ဘုရားနှင့် ရာဇဝံသ ဇာလိနီ၊ ဝိဇ္ဇာ မဂ္ဂဇင်း ၂၀၀၇ ခုနှစ်၊ စက်တင်ဘာလ စာ ၈၇ - ၉၃၊

ကျမ်းကိုး၊ ဒေါက်တာ သင်းသင်း ၁၀ နှစ်မြောက် စေတော်ဝင် (၂) ဓမ္မစခန်း U S A သိကောင်းစရာများ၊ ဝိဇ္ဇာမဂ္ဂဇင်း ၂၀၀၇ ခုနှစ်၊ အောက်တိုဘာလ စာ ၃၅- ၃၆၊

ကျမ်းကိုး၊ တိုင်းလုံ၊ ကောင်းသောဟင်းနှင့် ဟင်းကောင်း ၂၀၀၈ ခုနှစ်၊ ဇန်နဝါရီ

ကျမ်းကိုး၊ စိုးဟိန်း မန်းတက္ကသိုလ် စိစဉ်ညွှန်ကြား တည်းဖြတ်ပူဇော်သည်၊ ရွှေပေါ်ကျွန်း သာသနာ့မော်ကွန်း၊ ၂၆-၁၂-၂၀၀၃၊ ချစ်ချစ် ဗီဒီယိုထုတ်လုပ်ရေး၊ VIDEO CD။

http://www.dhammadownload.com



ဓာတ်တော်ကျတော်မူသော

# ဆင်ဖြူကျွန်းမြို့၊ မိုးကုတ်ဓမ္မရိပ်သာ ဦးဓမ္မသာရ

၁၉၂၃ – ၁၉၉၈



http://www.dhammadownload.com



ဧဒေီ ၁၉၉၈

ဆင်ဖြူကျွန်းမြို့ မိုးကုတ်ဝိပဿနာ ဓမ္မရိပ်သာမှ နာယကဖြစ်သော ဓမ္မကထိက ဆရာတော် ဦးဓမ္မသာရသည် ၁၃၅၉ ခု တပို့တွဲလပြည့်နေ့ ညနေ ၅ နာရီ ၃၇ မိနစ်အချိန်၌ ပျံလွန်တော်မူသွားပြီဆိုသည့် သတင်းမှာ တစ်မုဟုတ်ချင်းပင် မြို့ရောတောပါ ပျံ့နှံ့သွားခဲ့သည်။

ကျမ်းကိုး၊ မောင်အောင်မြင့်စိုး ဆင်ဖြူကျွန်း၊ အဣ္ဂမပ္ပဇာ၊ ပါရမီ မဂ္ဂဇင်း ၁၉၉၈ ခု၊ ဇွန်လ စာ ၃၉၊

ဆရာတော်သည် တစ်ချိန်က သာသနာ့ဘောင်မတက်မီက အိမ်ရာ တည်ထောင်လျက် သံယောဇဉ်နှင့် သမုဒယ အနှောင်အဖွဲ့ကြားမှ ခန္ဓာဝန်ထမ်းရသော ခရီးကြမ်းကို ငြီးငွေ့ခဲ့၍ ဘဝသံသရာ လက်လှမ်းမီရာ နည်းနိဿယနှင့် ကြိုးစားအားထုတ်ခဲ့သည်။

ကျမ်းကိုး။ လွန်ခဲ့သော ၁၅ နှစ်က ဆရာတော်၏ တပည့်ဒကာ အရင်းအချာဖြစ်သူ မော်ကွန်းဝင် ပထမဆင့်၊ အငြိမ်းစား ဗိုလ်ကြီး ဦးအေးသွင်က ဆရာတော်နှင့် စပ်လျဉ်း၍ ပြောပြဖူးပါသည်။ ယင်းစာ ၃၇။

ထိုအချိန်၌ မမျှော်လင့်ဘဲ ကျေးဇူးတော်ရှင် အဂ္ဂမဟာ ပဏ္ဍိတ မိုးကုတ်ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိနှင့်ကျင့်စဉ်ကို ဖတ်ရ၍ ဤသည်သာလျှင် နိဗ္ဗာန်ရောက်ကြောင်း လမ်းဖြောင့်အမှန်ဟု ဆုံးဖြတ်ပြီး လေ့လာကြိုးကုတ် နောက်မဆုတ်ဘဲ မဆုတ်မနစ် ဇွဲလုံ့လဖြင့် ကြိုးစားခဲ့ရာ တရားတော်က ထုတ်ဆောင်ပို့ခဲ့၍ သာသနာ့ဘောင်သို့ အပြတ်အသား တက်လှမ်းနိုင်ခဲ့သည် ဆို၏။

ယင်းစာ ၃၈။

ဆရာတော်သည် ပရိယတ်ထက် ပဋိပတ် အကျင့်ကို အားသာခဲ့၍ ကိုယ်တိုင်အားထုတ် ရရှိထားသည့် ဓမ္မအမြင်များကို ထက်သန်သော သဒ္ဓါစိတ်ဖြင့် ကျေးဇူးတော်ရှင် အဂ္ဂမဟာပဏ္ဍိတ မိုးကုတ်ဆရာတော်ဘုရားကြီး၏ ဥပနိဿယအတိုင်း ဓမ္မဂုဏ်ဆောင်၍ ဝေနေယျများကို လမ်းညွှန်ပြသ ဆုံးမတော်မူပါသည်။

ယင်းစာ ၃၈။

## ဦးအေးသွင် တရားရမည်ဟု ကြိုတင်၍ မိန့်တော်မူခဲ့

တစ်နေ့ ဆရာတော်က ဦးအေးသွင်ကို ခေါ်၍ တရားအားထုတ်ရန်နှင့် ထူးခြားမှု ရရှိမည်ဟု မိန့်ကြားခဲ့ရာ ဦးအေးသွင်ကလည်း ငြင်းဆိုခြင်းမပြုဘဲ ကြိုးစားပါမည့်အကြောင်း ကတိပေးလိုက်သဖြင့် ဆရာတော်က အချက် ၃ ချက်ကို ညွှန်ကြားမိန့်ဆိုခဲ့သည် ဆို၏။ ၎င်းအချက်များမှာ ၁။မသိသေးတာ သိအောင်လုပ်၊ ၂ ။ မရှိသေးတာ ရှိအောင်လုပ်၊ ၃ ။ မရသေးတာ ရအောင်လုပ်။

၁။ မသိသေးတာ သိအောင် လုပ်ဆိုသည်မှာ နိဗ္ဗာန်ရောက်ကြောင်း တရားစစ် တရားမှန်၊ လမ်းဖြောင့်လမ်းမှန်ကို သိအောင် ကြိုးစားရန်။

၂။ မရှိသေးတာ ရှိအောင်လုပ် ဆိုသည်မှာ ရုပ်နာမ် ခန္ဓာတို့၏ ဖောက်ပြန်မှုကို ဖြစ်ပျက်ခြင်း၊ ဖြစ်ပျက်မုန်း ဖြစ်ပျက်ဆုံး ဉာဏ်အမြင် ကိန်းတည်ခြင်း ဟုဆို၏။

၃။ မရသေးတာ ရအောင်လုပ် ဆိုသည်မှာ မိမိအားထုတ်ဆဲ ဖြစ်သော ဝိပဿနာဉာဏ်အားဖြင့် မဂ်ဖိုလ် နိဗ္ဗာန်ကို ရည်ရွယ်ချက်နှင့် မှန်းခြေပေါက် အရောက်လှောက်လှမ်းနိုင်ရမည်ဟု ဦးအေးသွင်က ရှင်းပြပါသည်။

ကျမ်းကိုး၊ ယင်းစာ ၃၈။

http://www.dhammadownload.com



**တပည့်ဖြစ်သူ ဦးအေးသွင်၏အခြေအနေ**

အေဒီ ၁၉၉၇

ဦးအေးသွင်မှာ အရာရာကို အမှုမဲ့ အမှတ်မဲ့နေသူ မဟုတ်၊ သူ လေ့လာအားထုတ်ထားသည့် တရားဓမ္မနှင့် စာပေဗဟုသုတို့ကိုအခြေခံ၍ ဆရာတော်ကို သုံးသပ် လေ့လာထားသူ ဖြစ်သည်။ ထိုသို့ တရားဓမ္မကို ကြိုးစားရင်းနှင့်ပင် လူသားတို့ မရှောင်လွှဲနိုင်သော သင်္ခါရ တရားဖြင့် ၁၃၅၉ ခုနှစ်၊ တော်သလင်းလပြည့်ကျော်၊ ၁၀ ရက်နေ့တွင် ကွယ်လွန်သွားခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းစာ ၃၈။

**ပြုံးသေ မဲ့သေ နှစ်မျိုးရှိ**

၎င်း၏ ရုပ်ကလာပ်မှာ တရားအားထုတ်ထားသူ တစ်ဦး၏ ထူးခြားသော လက္ခဏာများဖြင့် ကျေးဇူးတော်ရှင် မိုးကုတ်ဆရာတော်ဘုရားကြီး ဆုံးမ ဟောကြားတော်မူသော ပြုံးသေ၊ မဲ့သေ၊ တရားထဲမှ ပြုံးသေဖြင့် ကံကုန်သွားသူ တစ်ဦးဖြစ်လေသည်။

ရုပ်ကလာပ်မှာ ပျော့ပျောင်းခြင်း အကြည်ရုပ်လက္ခဏာများကို စိစစ်ကြည့်ရာမှ ကျေနပ် ဝမ်းမြောက်ဖွယ် တွေ့ရှိရပါသည်။

ကျမ်းကိုး၊ ယင်းစာ ၃၈။

**ဖွားသက္ကရာဇ်နှင့်ဇာတိ**

အဒီ ၁၉၂၃

ဆရာတော် ဦးဓမ္မသာရသည် မကွေးတိုင်း၊ စလင်းမြို့နယ်၊ ဆင်ဖြူကျွန်းမြို့၌ ခရစ်နှစ် ၁၉၂၃-ခုနှစ်၊ ဧပြီလ ၈-ရက်၊ စနေနေ့တွင် ဖွားမြင်ခဲ့သည်။

ကျမ်းကိုး၊ ဝင်းစုထက်၊ အုံ့ချီးဖွယ် ဆင်ဖြူကျွန်းဆရာတော် ဦးဓမ္မသာရ၊ မြတ်မင်္ဂလာ၊ အတွဲ ၂၃၊ အမှတ်၃ ၂၀၀၇ခုနှစ်၊ စက်တင်ဘာလ စာ၇။

**မိခင်ဖခင်**

အဖ ဦးဘဦး၊ ဒေါ်လှအုန်းတို့၏ သားရတနာဖြစ်သည်။ အမည် ဦးတင်အောင်ဖြစ်သည်။

ကျမ်းကိုး၊ ယင်းစာ ၈။

**ဆင်ဖြူကျွန်း ဓမ္မရိပ်သာ**

ဦးတင်အောင်သည် ၁၉၆၅-ခုနှစ်တွင် ဆင်ဖြူကျွန်း၌ မိုးကုတ်ဓမ္မရိပ်သာကို တည်ထောင်ခဲ့သည်။ ကုန်းဇောင်း၊ ရှောက်တော၊ ရန်ကုန်နှင့် မုံရွာမြို့များတွင် ဓမ္မကထိက ဦးတင်အောင် အဖြစ် လူဝတ်ကြောင်ဘဝဖြင့် ကိုယ်တိုင်လည်းကျင့်၊ သူတစ်ပါးကိုလည်း မိမိတွေ့သိသော တရားကို ဟောကြားခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၈။

**မြင့်မြတ်သော ရဟန်းဘဝ**

ထို့နောက် ကောဇာသက္ကရာဇ် ၁၃၅၅-ခုနှစ်၊ အသက် ၄၂-နှစ်အရွယ်တွင် မိုးကုတ်ဝိပဿနာ အဖွဲ့ချုပ်ကြီး၏ ဥက္ကဋ္ဌ ဦးသံဒိုင်+ဒေါ်တင်တင်၊ နာယကကြီး ဦးသန်းမောင်+ဒေါ်ကောက်တို့၏ ပစ္စယာနုဂ္ဂဟကို ခံယူကာ ရဟန်းပြုခဲ့သည်၊ ဥပဇ္ဈာယ်ဆရာတော်မှာ ရန်ကုန်မြို့၊ ကန်ဦး ကျောင်း ဆရာတော်ဖြစ်သည်။

ကျမ်းကိုး၊ ယင်းစာ ၈။

**လူဝတ်ကြောင် (၈)နှစ်၊ ရဟန်းဘဝ (၂၅)ဝါ**

ဆရာတော် ဦးဓမ္မသာရသည် လူဝတ်ကြောင် ဘဝဖြင့် ၈-နှစ်၊ ရဟန်းဘဝဖြင့် ၂၅-ဝါ၊ စုစုပေါင်း ၃၃-နှစ်တိုင် ပြည်တွင်းပြည်ပ တရားပွဲပေါင်း တစ်သောင်းတစ်ထောင် (၁၁၀၀၀) ကျော်

http://www.dhammadownload.com



ဟောပြောပြသ၍ သာသနာပြုတော်မူခဲ့သည်။ မိမိကိုယ်တိုင်လည်း အထူးတရားအားထုတ်ခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၈။

**နိုင်ငံခြား သာသနာပြု**

ဆရာတော်သည် ဒကာ၊ ဒကာမများ၏ ပင့်ဖိတ်ချက်အရ အမေရိကန်၊ နီပေါနှင့် ထိုင်းနိုင်ငံများသို့လည်း ကြွရောက်သာသနာပြုခဲ့သည်။

**ခန္ဓာဝန်ချတော်မူ**

ယင်းသို့ရှိရာမှ ခရစ်နှစ် ၁၉၉၈-ခုနှစ်၊ ဖေဖော်ဝါရီလ ၁၁-ရက်နေ့၊ သက်တော် ၇၅-နှစ်တွင် ခန္ဓာဇာတ်သိမ်းတော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၈။

အေဒီ ၁၉၉၈ — ဖေဖော်ဝါရီ ၁၁ ဗုဒ္ဓဟူးနေ့ မွန်းလွဲ ၂ နာရီထိုးပြီးသည်နှင့် ဆရာတော်၏ ရုပ်ကလာပ်တော်ကို ကျောင်းတိုက်တော်မှ ပင့်ဆောင်၍ အဖွားမြော်ခံကာ ဓမ္မရိပ်သာ ပရိဝုဏ်အပြင်ဘက် အရှေ့တောင်ထောင့် အုတ်ပလ္လင်၌ မီးသင်္ဂြိုဟ်ပါသည်။

မီးသင်္ဂြိုဟ်ရာ၌ နံ့သာတုံးများ အမွှေးတိုင်များဖြင့် လာရောက် ပူဇော်ကြပါသည်။

ထိုအချိန်၌ မီးခိုးလုံးကြီးမှာ မည်းမှောင်မနေဘဲ အဖြူရောင် အတန်းကြီးဖြစ်ပြီး ဆရာတော် သီတင်းသုံးတော်မူသော ကျောင်းတိုက်နှင့် ဓမ္မရိပ်သာကြီးဆီသို့ တည့်မတ်စွာ သွားရောက်၍ ရစ်သိုင်းဖုံးအုပ်ထားသည်မှာ အဝေးမှကြည့်လျှင် ဇာပဝါဖြူကြီးနှင့် လွှမ်းခြုံထားသကဲ့သို့ ရှိနေပါသည်။

အေဒီ ၁၉၉၈ — ဈာပနကို မှတ်တမ်းတင် ဗီဒီယိုရိုက်၍ မီးသင်္ဂြိုဟ်ပြီးသည့်တိုင် ရိုက်ယူကြပါသည်။ ဆရာတော် မီးသင်္ဂြိုဟ်စဉ်က ပြာများကို ဧရာဝတီမြစ်သို့ မျှောရန် ပြာအိုး ၂ ခုလုံးကို ဆရာတော်၏ မိန့်မှာခြင်းဖြင့် အေဒီ ၁၉၉၈ ခု၊ ဖေဖော်ဝါရီ ၁၁ ရက်၊ တပို့တွဲလပြည့်ကျော် ၇ ရက်နေ့ မွန်းလွဲ ၂ နာရီခွဲ၌ ပင့်ဆောင်၍ မျှောခဲ့ကြပါသည်။

ကျမ်းကိုး၊ ယင်းစာ ၃၉။

**ကြိုရေးထားသော သေတမ်းစာ**

ဆရာတော် ဦးဓမ္မသာရက ခန္ဓာဇာတ်သိမ်းခြင်းမပြုမီ တစ်နှစ်တင်ကြို၍ အောက်ပါသေတမ်းစာကို ၁၉၉၇-ခုနှစ်၊ မေလ ၃၀-ရက်နေ့တွင် ရေးသားမှာကြားခဲ့ပါသည်။

(၁) မိမိပျံလွန်တော်မူလျှင် သံဃာအပါး၁၀၀-ပင့်ပြီး ဝတ္ထုငွေနှစ်ရာကျပ်စီ လှူဒါန်းရန်။

(၂) လုံးဝ သပိတ်မသွတ်ရပါ။

(၃) မည်သည့်အဖွဲ့အစည်းကိုမှ အလှူငွေ အလှူ မခံရ။

(၄) မှာကြားထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရန်။

(၅) အတီးအမှုတ် ပွဲလမ်းသဘင်မထည့်ရ။

(၆) သေပြီးလျှင် ၇-ရက်အတွင်း သင်္ဂြိုဟ်ရန် ဆိုသော်လည်း အမြန်ဆုံး စီစဉ်နိုင်လျှင် ပို၍ ကောင်းမွန်ပါသည်။

(၇) သတင်းစာထဲ မထည့်ရ။

ကျမ်းကိုး၊ ယင်းစာ ၈။

http://www.dhammadownload.com



**မြစ်ရပ်ဆန်းများ**

ဆရာတော်မှာကြားသည့်အတိုင်း ရုပ်ကလာပ်တော်ကို (၃)ရက်ထားပြီးနောက် မီးသင်္ဂြိုဟ်တော်မူပါသည်။ ထိုအခါ အံ့ဖွယ်ဖြစ်ရပ်ဆန်းများကို တွေ့ရှိရပါသည် ဟု အတွင်းကျကျ မှတ်တမ်းကို ဖတ်ရှုရပါသည်။ ခေတ်ပြိုင် မျက်မြင်ကိုယ်တွေ့ မှတ်တမ်းများဖြစ်သဖြင့် နောက်လာနောက်သားများအတွက် အားကိုးဖွယ်ရာဖြစ်ပါသည်။ အောက်တွင်ကြည့်ပါ။

**အားကိုးလောက်သော ခေတ်ပြိုင်မှတ်တမ်းများ**

ထိုမှတ်တမ်းတင် ဗီစီဒီခွေတွင် ဆရာတော်ဦးဓမ္မသာရသည် ခန္ဓာဝန်ချပြီး ၃-ရက်ထားရှိသော်လည်း လူအရှင်ကဲ့သို့ တစ်ကိုယ်လုံးပျော့ပျောင်းနေသည်ကို အံ့ဖွယ်တွေ့ရှိရသည်။

**မျက်ခုံးမွေး**

ထို့ပြင် မီးသင်္ဂြိုဟ်နေချိန်၌ ဆရာတော်၏ မီးလောင်လွယ်သော မျက်ခုံးမွေးမှာ ၁၅-မိနစ်ကြာမှ မီးလောင်သည်။

**သွေးစိမ်းရှင်ရှင်ထွက်**

ထို့နောက် မိနစ် ၂၀-အကြာတွင် နှာခေါင်းပေါက်မှ သွေးစိမ်းရှင်ရှင် ယိုစီးလာသည်။

**ဦးနှောက်မှလည်း သွေးစိမ်းရှင်ရှင်ထွက်**

တစ်ဖန် မိနစ် ၆၀-အချိန်တွင် ဦးနှောက်အတွင်းမှ သွေးစိမ်းရှင်ရှင်ယိုစီးကျလာပြန်သည်။

**နှလုံးအိမ်မှလည်း ရေတံခွန်ကဲ့သို့ သွေးစိမ်းရှင်ရှင်ထွက်**

ထိုအချိန်တွင် ခန္ဓာကိုယ်မှာ ကောက်ခြင်း၊ ကွေးခြင်းလည်းမရှိပါ။ ၃-နာရီခွဲကြာသောအခါ နှလုံးအိမ်အတွင်းမှ ရေတံခွန်ကဲ့သို့ သွေးစိမ်းရှင်ရှင် ထွက်ပေါ်လာသည်။ ဗီစီဒီခွေတွင် အထင်အရှား တွေ့မြင်ရသည်။

**ခန္ဓာဝန်ချတော်မူသော သတင်း**

အေဒီ ၁၉၉၈

ဆင်ဖြူကျွန်းမြို့ မိုးကုတ်ဝိပဿနာ ဓမ္မရိပ်သာမှ နာယကဖြစ်သော ဓမ္မကထိက ဆရာတော် ဦးဓမ္မသာရသည် ၁၃၅၉ ခု တပို့တွဲလပြည့်နေ့ ညနေ ၅ နာရီ ၃၇ မိနစ်အချိန်၌ ပျံလွန်တော်မူသွားပြီဆိုသည့် သတင်းမှာ တစ်မုဟုတ်ချင်းပင် မြို့ရော တောပါ ပျံ့နှံ့သွားခဲ့သည်။

ကျမ်းကိုး၊ မောင်အောင်မြင့်စိုး ဆင်ဖြူကျွန်း၊ အန္တိမပူဇာ၊ ပါရမီ မဂ္ဂဇင်း ၁၉၉၈ ခု၊ ဇွန်လ စာ ၃၉၊

ထိုနေ့ တပို့တွဲလပြည့်ကျော် ၇ ရက်နေ့ တွင် ညနေ ၅ နာရီ ၃၇ မိနစ်အချိန် မိုးကုတ်ဝိပဿနာ ဓမ္မရိပ်သာ၏ အရှေ့မြောက်ယွန်းယွန်းနှင့် ဆရာတော် သီတင်းသုံးတော်မူသော ကျောင်းတိုက်အရှေ့ဘက် ခန့်မှန်းခြေအားဖြင့် ပေ ၁၀၀ ဝန်းကျင်အကွာ၌ စေတီတော် ၄ ဆူရှိပါသည်။ ၎င်းစေတီတော် ၄ ဆူအနက် တောင်ဖျားဆုံးမှာ ရှစ်မျက်နှာ စေတီတော်ဖြစ်ပြီး ကျန်စေတီတော် ၃ ဆူမှာ မုခ်တစ်ဝလိုက်ဂူစေတီတော်များ ဖြစ်ပါသည်။

ထိုစေတီတော် ၄ ဆူမှ မြောက်ဖျားဆုံး စေတီတော်ကြီး၏ ထီးတော်ကြီးမှာ ဆရာတော် ခန္ဓာဝန်ချချိန်နှင့် ထူးထူးခြားခြား ရောင်ခြည်တော်များ ပွင့်ပေါ် ကွန့်မြူးလျက် ရှိ၍ ဓမ္မရိပ်သာအတွင်းရှိ ယောဂီအားလုံးနှင့် မြို့သူ မြို့သားများ ကြည်ညိုသဒ္ဓါပွားကာ ဖူးမြော်မဆုံးနိုင်ရှိကြပါသည်။

ကျမ်းကိုး၊ ယင်းစာ ၃၉။

http://www.dhammadownload.com



ဓမ္မရိပ်သာ၌ ရှိကြသူများ အဆိုအရ ၄ ကြိမ်၊ ၄ ရက် ဆရာတော် ခန္ဓာဝန်ချတော်မူသော အချိန်နှင့် တစ်ချိန်တည်းမှာပဲ ရောင်ခြည်တော်များ ပွင့်ပေါ်ကွန့်မြူးသည်ဟု သိရပါသည်။

ကျမ်းကိုး၊ ယင်းစာ ၃၉။

မှတ်ချက်။ ဆရာတော်၏ ဈာပနသတင်းကို အစအဆုံး ဗွီဒီယိုရိုက်ကူး၍ ယခုအခါ မန္တလေးမြို့ မိုးကုတ် ဝိပဿနာ ပြန့်ပွားရေးအဖွဲ့ ဥက္ကဋ္ဌ ဦးသံဒိုင်ထံ၌ ကြည့်ညို ဖူးမြော်နိုင်သည်ဟု သိရှိရပါသည်။

ကျမ်းကိုး၊ မောင်အောင်မြင့်စိုး ဆင်ဖြူကျွန်း၊ အန္တိမပူဇာ၊ ပါရမီ မဂ္ဂဇင်း ၁၉၉၈ ခု၊ ဇွန်လ၊ စာ - ၃၉။

http://www.dhammadownload.com



ရက်ပေါင်း (၅၀) ကြာသော်လည်း မပုပ်မသိုးသော

ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင်၊ ဟိုပင်မြို့မှ ထူးခြားသည့်

# ဆရာတော် ဘဒ္ဒန္တဇိန မဟာထေရ်

၁၉၂၂ - ၂၀၀၂



http://www.dhammadownload.com



အေဒီ ၂၀၀၂ ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင်၊ ဟိုပင်မြို့၊ ဇိနာရာမ ဂါတ်ကုန်း ဘုန်းဂတ်ကြီးကျောင်း ကျေးဇူးရှင်ဆရာတော် နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် "မဟာသဒ္ဓမ္မဇောတိကဓဇ ဘဒ္ဒန္တဇိန မဟာထေရ်"သည် ၁၇. ၁၂. ၂၀၀၂ ရက် (မြန်မာသက္ကရာဇ် ၁၃၆၄ ခုနှစ်၊ နတ်တော်လဆန်း၊ ၁၃ရက်) အင်္ဂါနေ့ည ၉း၄၅ နာရီတွင် ဘဝနတ်ထံပျံလွန်တော် မူခဲ့ပါသည်။ ပျံလွန်တော်မူ ချိန်တွင် သက်တော်(၈၀)၊ သိက္ခာတော် (၆၁)ဝါဖြစ်ပါသည်။

(ကျမ်းကိုး၊ ဆုမြဲယွန်းယမုံအောင် ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် - ၂၀၂၊ မေလ၊ ၂၀၀၃၊ စာ-၈၉)

**ပျော့ပျော့ပျောင်းပျောင်း**

အေဒီ ၂၀၀၂ နိဗ္ဗာန်ကျောင်းချသောနေ့ (၂၄. ၁၂. ၂၀၀၂)ရက်နေ့တွင် ဆရာတော်၏ရုပ်ကလာပ်တော်အား မှန်ခေါင်းဖြင့် ထည့်သွင်းကြရာဝယ် ဆရာတော်၏ အသားအရေ၊ အရိုးအဆစ်များသည် သာမန် ကဲ့သို့ပျော့ပျောင်းလျက်ရှိကြောင်း ထူးခြားစွာတွေ့ရှိခဲ့ရပါသည်။

**အပုပ်နံ့မထွက်**

အေဒီ ၂၀၀၃ ဆရာတော်၏ ရုပ်ကလာပ်မှာ ၆. ၂. ၂၀၀၃ ရက်နေ့ထိ (၅၀)ရက်ကြာခဲ့သော်လည်း အပုပ်နံ့ မထွက်ပါ။

မှတ်ချက်။ မည်သည့်ဆေးဝါးမျှ မထိုးပါ။ ဗိုက်မခွဲပါဟု ဦးသုမင်္ဂလနှင့် ဒေါက်တာ မြင့်လွင်မှ ပြောကြားခဲ့ပါသည်။

**ကျင်ငယ်စွန့်**

အေဒီ ၂၀၀၂ ဆရာတော်သည် ၁၇. ၁၂. ၂၀၀၂ ရက်နေ့ ည ၉း၁၀ အချိန်တွင် ကျင်ငယ်စွန့် ထခဲ့သေးသည် ဟု ဦးသုမင်္ဂလကပြောခဲ့ပါသည်။

**ပျားများလာဖူးကြ**

ဆရာတော်၏အလောင်းတော် ပူဇော်ထားစဉ် အနီးတွင်ပျားကောင်များလာရောက် ဖူးမြော်ရင်း သေဆုံးနေကြောင်းလည်း ထူးခြားစွာတွေ့ခဲ့ရာဝယ် တစ်ရက်လျှင် လက်တစ်ဆုပ်ခန့် ပျားကောင် ရေ သေဆုံးသည်ဟု သိရသည်။ ပျားအုံမှာ ဘုန်းကြီးကျောင်းပေါ် ရှိ သက်န်းဗီရိုအတွင်း၌ စွဲနေခြင်းဖြစ်သည်။

အေဒီ ၂၀၀၃ ၆. ၁၂. ၂၀၀၃ ရက်နေ့ထိ ဆရာတော်၏ခြေလက်များအား ကွေးဆန့်၍ရနေသေးသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၉

**မွေးရပ်ဇာတိ**

အေဒီ ၁၉၂၂ ဆရာတော်၏ဇာတိမှာ ကချင်ပြည်နယ်၊ ဟိုပင်မြို့နယ်ခွဲ၊ တကွင်းကျေးရွာဖြစ်ပြီး အဖ ဦးရွှက်ဆိုင်၊ အမိ ဒေါ် ရွှက်ဆိုင်တို့မှ ကောဇာသက္ကရာဇ် ၁၂၈၄ ခုနှစ်၊ ပြာသိုလဆန်း (၉)ရက်၊ အင်္ဂါနေ့ညနေ (၄)နာရီအချိန်တွင် ဖွားမြင်ခဲ့ပါသည်။

**ဆွေမျိုးသားချင်းများ**

ငယ်နာမည်မှာ မောင်ဘဆိုင်ဟုခေါ်ပြီးမွေးချင်း (၅)ယောက်ရှိသည့်အနက် ဒုတိယမြောက် သားဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၉

**ဂျပန်ခေတ်အတွေ့အကြုံ**

ရဟန်းဖြစ်ပြီး မကြာမီ ဒုတိယကမ္ဘာစစ်ကြီးဖြစ်ပွားရာ စစ်ဘေးဒဏ်ကြောင့် တိမ်းရှောင်နေကြရ သဖြင့်(၄)နှစ် တာကာလအတွင်း မည်သည့်စာပေမျှပို့ချသင်ကြားခြင်း မရခဲ့ပါ။

http://www.dhammadownload.com



**ကမ္ဘာစစ်ကြီး အပြီး**

အေဒီ ၁၉၄၆ ဒုတိယကမ္ဘာစစ်ကြီးပြီးနောက် ၁၃၀၈ ခုနှစ်တွင် စစ်ဘေးဒဏ်ကြောင့် ပျက်စီးနေသော ဟိုပင် အရှေ့ကျောင်းကြီးအား ပြန်လည်ပြုပြင်ပြီး စာသင်သံဃာတော်(၁၅)ပါးနှင့်အတူ စာချ ဆရာတော် ဦးဇာနေယျထံတွင် ပါတိမောက် ကင်္ခါဋီကာကျော်ကျမ်းများ (၂)နှစ်ကြာ ပို့ချ သင်ကြားခဲ့ရပါသည်။

**အဘိဓမ္မာသင်တန်းများ**

စာချဆရာ ဦးဇာနေယျနှင့်အတူ ဂါတ်ကုန်းကျောင်းသို့ ပြောင်းရွှေ့ခဲ့ရပါသည်။ ဂါတ်ကုန်းကျောင်းဆရာတော် ဦးပညာထံတွင် စာသင်သား (၃၀) ကျော်နှင့် ဝိနည်းပါဠိတော်၊ သင်ရိုးသုတ်ပါဠိတော်များနှင့် ဇာတ်အဌကထာများသင် ကြားလေ့လာရင်း စာသင်ငယ်များအား သဒ္ဒါ၊ သင်္ဂြိုဟ်ပို့ချခြင်း၊ ကျောင်းစာမေးပွဲပြုလုပ်ခြင်း၊ ရပ်ရွာအတွင်းရှိ အမျိုးသား အမျိုးသမီးများအား (လယ်တီသံခိပ်မှုဖြင့်) သင်္ဂြိုဟ်(၉)ပိုင်း အဘိဓမ္မာသင်တန်းများဖွင့်လှစ်သင်ကြားခြင်းများ ဆောင်ရွက်ခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၀

**ဆဋ္ဌသင်္ဂါယနာတင်ပွဲနှင့် ကြုံခဲ့**

အေဒီ ၁၉၅၁ ၁၃၁၃ ခုနှစ်၊ စာချဆရာတော် ဦးဇာနေယျနှင့် ရန်ကုန်မဟာစည် ရိပ်သာသို့ သွားရင်း ဆဋ္ဌသင်္ဂါယနာတင် အစည်းအဝေးကိစ္စနှင့် ကြုံ၍မန္တလေးမြို့ မဟာနိန္ဒသေန ဆရာတော် နောက်သို့ လိုက်ပါသွားရာ မဟာစည်ရိပ်သာဝင်း အတွင်းရှိ ဆာဦးသွင်၏ ဖလယဉ်ဓမ္မာရုံတွင် (၃)ရက်တိုင် စည်းဝေးပြီး ဆဋ္ဌသင်္ဂါယနာတည်ဆောက်မည့်နေရာ ကမ္ဘာအေးကုန်းမြေ၊ ရော်ဘာခြံကြီး၌ ညောင်ရမ်းဆရာတော်အမှူးပြုသော သံဃာအပါး(၃၀၀) တို့နှင့်အတူ ပရိတ်ကြီး (၁၁) သုတ်နှင့် မဟာသမယသုတ်ပါဠိတော်ရွတ်ဖတ်ရာတွင် ပါဝင်ဆောင်ရွက်ခဲ့၏။

**မဟာစည်မှာ အားထုတ်ခဲ့**

အေဒီ ၁၉၅၁ မဟာစည်သာသနာ့ရိပ်သာတွင် (၂၄)ရက် ကြာရိပ်သာဝင်၍ တရားအားထုတ်ခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၀

**ပရဟိတ ဝါသနာဝလေ့**

အေဒီ ၁၉၇၈ ပရဟိတလုပ်ငန်းများကို ၁၉၇၈ ခုနှစ်ထိ (၂၀)နှစ်တိုင်တိုင်ဆောင်ရွက်ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၀

**နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်ဖြစ်ခဲ့**

အေဒီ ၁၉၈၀ ၁၃၄၂ ခုနှစ်၊ နယုန်လတွင် ကမ္ဘာအေးလိုဏ်ဂူ၌ ပထမအကြိမ်ကျင်းပပြုလုပ်သော သံဃာတော်အပါး(၁၂၀၀) ရှိသာသနာ သန့်ရှင်းတည်တံ့ပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီးသို့ မိုးညှင်းမြို့နယ်၊ သံဃာ့သမ္မုတိရ သံဃကိုယ်စားလှယ်(၄)ပါးအနက် (၁)ပါးအပါအဝင်တက်ရောက်ခဲ့ရာ (နိုင်ငံတော်ဗဟိုသံဃာ့ဝန်ဆောင်)အဖွဲ့ဝင်အဖြစ် ရွေးချယ်တင်မြှောက်ခြင်း ခံခဲ့ရပါသည်။

အေဒီ ၁၉၈၅ ၁၃၄၇ ခုနှစ်၊ နယုန်လတွင် (ဒုတိယ)အကြိမ် နိုင်ငံတော်ဗဟို သံဃာ့ဝန်ဆောင်အဖြစ် ရွေးချယ်ခံခဲ့ရပြန်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၀

http://www.dhammadownload.com



**ခန္ဒာဝန်ချတော်မူခြင်း**

၂၀၀၂ ဂါတ်ကုန်းကျောင်းတိုက် ဆရာတော်ကြီးသည် ၁၇-၁၂-၂၀၀၂ရက်၊ အင်္ဂါနေ့ည (၉)နာရီ (၄၅) မိနစ်တွင် တစ်ဘဝသာသနာ ဇာတ်သိမ်းခဲ့ပါသည်။

ကျမ်းကိုး၊ ဆုမြယွန်းယမုံအောင် ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် - ၂၀၂ မေလ၊ ၂၀၀၃၊ စာ-၈၉၊

http://www.dhammadownload.com



ပရိနိဗ္ဗာန်ပြုတော်မူသောအခါ ဓာတ်တော် (၉) မျိုးအပြင်
မွေးညင်းတော်များ ကြွင်းကျန်တော်မူသော
စစ်ကိုင်းတိုင်း၊ ဆားလင်းကြီးမြို့နယ်၊ တုံရွာ ဗိမာန်သာကျောင်းတိုက် ဆရာတော်ကြီး

# ဘဒ္ဒန္တ ကေလာသ

## ၁၉၂၂ – ၂၀၀၇

မူလက သာမန်အားဖြင့်သာ ပူဇော်ကန်တော့ခဲ့သော်လည်း ခန္ဓာဝန်ချသောအခါမှမှာ မိမိတို့ မြင်တွေ့နေကျ ဖူးနေကျ ဆရာတော်ဘုရားကြီးသည် အောက်ပါအတိုင်း ထူးခြားချက်များ မျက်မြင်ကိုယ်တွေ့ဖြစ်ကြသဖြင့် တအံ့တသြဖြစ်ကာ မဖူးရသူတို့ကလည်း ဝမ်းနည်းကြေကွဲခဲ့ကြပါသည်။

**ဖြစ်ရပ်ဆန်းများ**

အေဒီ ၂၀၀၇ ရုပ်ကလာပ်တော်သည် ၅ ရက်ကြာသော်လည်း မပုပ်မသိုးသည့်အပြင် ခြေလက်များ ပျော့ပျောင်းရုံသာမက ကွေး၍ဆန့်၍ပင် ရသည်ကို ဖူးမြင်ကြရသည်။

**အဖြူရောင်များထွက်**

ဓာတ်ပုံရိုက်သောအခါ အဖြူရောင်မီးခိုးစက်ဝန်းကြီး ပေါ်ထွက်နေသည်ကို ထင်ထင်ရှားရှား တွေ့မြင်ကြရသည်။

**အလင်းရောင်တွေပေါ်**

ဗီဒီယိုရိုက်ကူးသောအခါ ဘေးဘစ်ဖက်တစ်ချက်တွင် အလင်းရောင်များ ပေါ်ပေါက်နေသည်ကို တွေ့ကြရသည်။

**ကြိုးတွေ ပြတ်**

ခေါင်းတလား ချည်ထားသောကြိုးမှာ လျှပ်စီးလက်သကဲ့သို့ လင်းလင်းလက်လက်ဖြစ်၍ ကြိုးများ ပြတ်သွားပါသည်။

**ညှော်နံ့မထွက်**

မီးသင်္ဂြိုဟ်သောအခါ ခြေလက်ခါးများ ကွေးကောက်ခြင်း မရှိ။ ကော့တက်ခြင်းမရှိ။ ညှော်နံ့ အပုပ်နံ့ လုံးဝမထွက်ခြင်းသည် အလွန်ထူးခြားပါသည်။

**နီနီအလုံးကြီး**

ပြာကျသွားသောအခါ သပိတ်လုံးခန့် ကြီးသော နီနီအလုံးကြီး တစ်လုံးသည် အလိုလို ကွန့်မြူး လျက်ရှိပါသည်။

**သွေးစိမ်းရှင်ရှင် စွဲကပ်နေ**

နောက်တစ်နေ့ နံနက် ၆ နာရီမှ စ၍မီးကျီးခဲများကို အုန်းရည်ဖြင့် ပက်ဖျန်းသည့်အခါ အသားတော်နှင့် အရေတော်အချို့ကို သွေးစိမ်းရှင်ရှင် စွဲကပ်လျက်ရှိကြောင်း ဖူးတွေ့ရပါသည်။

http://www.dhammadownload.com



**ဦးနှောက်တော် ၊ မွေးညင်းတော်၊ သွားတော်၊ အရိုးတော်၊ အသားတော်၊ ဓာတ်တော်**

မွေးညှင်းတော် ကြွင်းကျန်၏၊ ဦးနှောက်တော်ကြွင်းကျန်၏၊ သွားတော် အရိုးတော် အကြော တော် အရေတော် အသားတော်တို့ ကြွင်းကျန်၏။ ဓာတ်တော်များ ကြွင်းကျန်၏။

(ကျမ်းကိုး၊ မောင်မောင်ထွန်း၊မုံရွာ၊ နက္ခတ္တရောင်ခြည်၊ အမှတ် ၂၆၂ မေလ ၂၀၀၈၊ စာ ၆၅)

ဤသို့သော အံ့ဖွယ်အထွေထွေကို တွေ့မြင်ကြရပါသည်။ မည်သူသည် မအံ့သြဘဲ နေမည်နည်း။ မည်သူသည် မကြည်ညိုဘဲ နေလိမ့်မည်နည်း။

**တည်နေရာ**

တုံရွာသည် မုံရွာမြို့၏ အနောက်ဘက်ကမ်းတွင် တည်ရှိသည့်အတွက် ချင်းတွင်းမြစ် တစ်ဖက် ကမ်း ညောင်ပင်ကြီးဆိပ်သို့ ကူးတို့စက်လှေဖြင့်ကူးကြပြီး ညောင်ပင်ကြီးဆိပ်မှ တုံရွာသို့ ဆိုင်ကယ်နှစ်စီးဖြင့် သွားကြပါသည်။ ညောင်ပင်ကြီး ဆားလင်းကြီးသို့ သွားသည့် ကားလမ်း အတိုင်း ဆိုင်ကယ်ကို စီးလာကြပြီး (၃) မိုင်ခန့်အရောက် ကားလမ်း၏ အရှေ့ဘက်ဘေး (ဘယ်ဘက်ဘေး) သို့ အနည်းငယ် စီးသွားပြီးမှ တုံရွာသို့ ရောက်ရှိကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၅

**ဖွားသက္ကရာဇ်နှင့် မျိုးရိုးဇာတိ**

အေဒီ ၁၉၂၂

စစ်ကိုင်းတိုင်း၊ ဆားလင်းကြီးမြို့နယ်၊ တုံရွာမတွင် နေထိုင်ကြသော ဖမခည်းတော် ဦးအေး ကြိုင်နှင့် မယ်တော် ဒေါ်အေးဝတို့မှ သက္ကရာဇ် ၁၂၈၄ ခု၊ တပို့တွဲလပြည့်ကျော် ၁၂ ရက်၊ တနင်္လာနေ့တွင် ဆရာတော် ကေလာသလောင်းလျာ မောင်နီတာကို ဖွားမြင်တော်မူခဲ့သည်။

**ငယ်မည် မောင်နီတာ**

မောင်နီတာ၏ အစ်ကို နှစ်ဦးဖြစ်သည့် (ဦးစံပေါ်) ဦးဇောတိက၊ (ဦးစံချော) ဦးသီရိနန္ဒတို့သည် လည်း သာသနာ့ဘောင်မှ ရဟန်းတော်များပင် ဖြစ်ကြလေသည်။ ဆရာတော်၏ အမည်ရင်း မှာ မောင်နီတာဖြစ်၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၆

**ငယ်စဉ်ဘဝ**

အေဒီ ၁၉၂၉

မောင်နီတာ အသက် ၇ နှစ်အရွယ်တွင် မိဘနှစ်ပါးက တုံရွာမှ ဗိမာန်သာကျောင်း ဆရာ တော်ထံတွင် ပညာများကို သင်ကြားစေရန် အပ်နှံခဲ့ကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၆

**စာသင်သားဘဝ**

ထိုမှ တစ်ဆင့် အထက်တန်းပညာများဖြစ်သည့် နိကာယ်ငါးရပ် ပါဠိ အဋ္ဌကထာ ဋီကာကျမ်း များကို သင်ယူနိုင်ရန်အတွက် ကနီမြို့ ရွှေသိမ်တော်တောရကျောင်း၊ မုံရွာမြို့ ခါးပန်းနီကျောင်း နှင့် မုံရွာမြို့ ပါဠိသိပ္ပံကျောင်းတို့တွင် ပညာများကို ဆက်လက်၍ သင်ယူခဲ့ပေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၇

**ဒုက္ခိတဘဝ**

ထိုသို့ ပညာများကို ဆက်လက် သင်ယူနေခိုက် ကန့်ကူလက်လှည့်ငယ် ဆရာတော်ကြီးမှာ မျက်စိရောဂါဝေဒနာကြောင့် ဒုက္ခိတဘဝသို့ ကျရောက်သွားသည့်အတွက် ပညာများကို ဆက်လက်မသင်ယူနိုင်တော့ဘဲ ဆရာတော်ကြီးအား အနီးကပ် ပြုစုစောင့်ရှောက်ပေးရန် တုံရွာ သို့ ပြန်လာခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၈

http://www.dhammadownload.com



### တပည့် တစ်လှည့်ဖြစ်

အေဒီ ၁၉၄၂

သက္ကရာဇ် ၁၃၀၄ ခုနှစ်တွင် တုံ့ရွာမ ရွှေဥမင်ကျောင်းရှိ ခဏ္ဍာသိမ်တော်မြတ်တွင် ငယ်ဆရာ ဘဒ္ဒန္တကောသလ္လကို ဥပဇ္ဈာယ်ပြု၍ တုံ့ရွာမမှ ပွဲစားကြီး ဦးချစ်လှိုင်၊ ပွဲကတော် ဒေါ်ဒေါ်ခ တို့၏ ပစ္စယာနုဂ္ဂဟကို ခံယူကာ မြင့်မြတ်သော ရဟန်းအဖြစ်သို့ ရောက်ရှိတော်မူခဲ့ပြီး ခန်းနေ ဦးပဥ္စင်းဘဝဖြင့် ဆရာတော်ကြီးကို အနီးကပ် ပြုစုစောင့်ရှောက်ပေးတော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၉

### ဦးစီးဦးဆောင်ဖြစ်

အေဒီ ၁၉၅၄

သက္ကရာဇ် ၁၃၁၅ ခုနှစ်တွင် ဆရာတော်ကြီး၏ ကျန်းမာရေးမှာ ချို့ယွင်းလာသည့်အတွက် အန္တေဝါသိက တပည့်ရင်းဖြစ်သော အရှင်ကေလာသအား ဒွိသန္တကအဖြစ် နှစ်ပါးပိုင် ကျောင်းတိုက်ကြီး၏ ဦးစီးဦးဆောင်အဖြစ် လွှဲအပ်ခြင်း ခံခဲ့ရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၉

### နာယက ဆရာတော်ဖြစ်

အေဒီ ၁၉၅၈

၁၃၂၀ ပြည့်နှစ်တွင် ဆရာတော်ကြီးမှာ ပျံလွန်တော်မူသွားသောကြောင့် အရှင် ကေလာသမှာ ကျောင်းတိုက်ကြီး၏ ဦးစီးဦးဆောင် နာယက ဆရာတော် ဖြစ်လာလေတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၉

### (၁၀)နှစ် ကြာသောအခါ

အေဒီ ၁၉၆၈

နာယက ဆရာတော်ဖြစ်လာပြီး ၁၀ နှစ်အကြာ သက္ကရာဇ် ၁၃၃၀ ပြည့်နှစ်မှ စ၍ ဆရာတော် ကေလာသသည် ပျက်စီးယိုယွင်းနေသော စေတီဘုရားဟောင်းများအား ပြုပြင် မွမ်းမံခြင်း ကျောင်းဆောက်ခြင်းနှင့် ရပ်ဝေးရပ်နီး အနယ်နယ်အရပ်ရပ်မှ တပည့်ယောဂီများကို နေ့ညဥ့် မပြတ် ခန္ဓာဉာဏ်ရောက် ဝိပဿနာ တရားများကို ဟောကြားပေးတော်မူခဲ့ပေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၉

### အဓိက အချက်

ယောဂီ ဦးရေနှင့် အချိန်နာရီတို့တွင် သတ်မှတ်ထားတော်မမူဘဲ ရှိသမျှယောဂီများကို ပင်ကို ကျင့်ကြံပွားများ အားထုတ်နိုင်သလောက်သာ ကျင့်ကြံပွားများ အားထုတ်စေလေသည်။ ဆရာ တော်၏ အဓိကအချက်မှာ ရုပ်ကမ္မဋ္ဌာန်းပင် ဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၉

### ဆရာတော်၏ မှာတမ်း

ဆရာတော်ကြီး မပျံလွန်မီက ခန္ဓာရုပ်ကြီးသည် အပုပ်ကောင်ဖြစ်သည့်အတွက် သေသည့် အခါ ဘာမှ တန်ဖိုးမရှိတော့ကြောင်း၊ ထို့ကြောင့် သူပျံလွန်တော်မူလျှင် သူ၏ ရုပ်အလောင်း ကို ၅ ရက်ထက် ပိုမထားရန်၊ သူ၏ သင်္ကန်းများကိုလည်း ပင့်သံဃာတစ်ပါးလျှင် သင်္ကန်း တစ်စုံကျ လှူဒါန်းရန်နှင့် ဈာပနပွဲ ပြုလုပ်သည့်အခါမှာလည်း ပွဲလမ်းသဘင်များ မထည့်ရန် တို့ကို မှာကြားခဲ့ကြောင်း သိရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆၉

### ခန္ဓာဝန်ချတော်မူခြင်း

အေဒီ ၂၀၀၇

တုံ့ရွာ ဗိမာန်ကျောင်းတွင် ခရစ်နှစ် ၂၀၀၇ ခုနှစ် ဒီဇင်ဘာလ ၁၈ ရက်၊ မြန်မာသက္ကရာဇ် ၁၃၆၉ ခုနှစ်၊ နတ်တော်လဆန်း၊ အင်္ဂါနေ့၊ နေ့လယ် ၁ နာရီ ၅ မိနစ်တွင် ဘဝနတ်ထံ ပျံလွန်တော်မူပါသည်။ သက်တော် ၈၆ ၊ ဝါတော် ၆၆ ဝါတွင် ပျံလွန်တော်မူခြင်း ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၀

http://www.dhammadownload.com



**မျက်လုံးဖွင့်၍ ကြည့်သတဲ့**

အေဒီ ၂၀၀၇ ပျံလွန်တော်မူပြီး ၄ ရက်ခန့်အကြာတွင် ဆရာတော်ကြီး ရုပ်ကလာပ်တော်အား ဖူးမြင်ရန် ရောက်ရှိခဲ့ပါသည်။ ဆရာတော်ကြီးမှာ အိပ်ပျော်နေသကဲ့သို့ ဖြစ်ပြီး၊ မျက်လုံးတော် အနည်းငယ်ပွင့်နေသည်ကို တွေ့ရှိ ဖူးမြင်ရပါသည်။မျက်လုံးတော်အား ဖွင့်၍ တပည့် ဒါယကာများအား နောက်ဆုံး ကြည့်ရှုတော်မူပါဟု မိဌာန်၍ မျက်လုံးတော်မှာ ပွင့်လာကြောင်း ပြောကြပါသည်ဟု မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၂

**ကွေး၍ ဆန့်၍ ရ**

ဆရာတော်ကြီး၏ လက်တော်၊ ခြေတော်များမှာ ကွေးခြင်း၊ ဆန့်ခြင်း ပြုလုပ်၍ရပြီး ပျော့ပျောင်းနေပါသည်။ ဆရာတော်ကြီး၏ ဗိမာန်သာကျောင်းမှ ဦးပဥ္စင်းမှ လက်တော်၊ ခြေတော်များကို ကွေးဆန့်ပြပြီး လာဖူးမြော်သော သူများကိုလည်း ကိုင်ကြည့်ခွင့်ပြုပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၂

**ဝန်ချတောင်းပန်နိုင်း၊ ကန်တော့စိုင်း**

ဆရာတော်ကြီး ရှိစဉ်က တရားထိုင်ရန်သွားလျှင် ဦးစွာ ငါးပါးသီလခံ ( သကြိန်ရက် တရားစခန်း ဖွင့်စဉ်က ကိုးပါးသီလ ပေးပါသည်။) ဘဝသံသရာ အဆက်ဆက်က တော်စပ်ခဲ့သော ဆရာသမား၊ မိဘဘိုးဘွား ဆွေမျိုးတော်စပ်သူများအပေါ် အပြစ်ပြုမိက ခွင့်လွှတ်ဖို့ ကန်တော့ကာ အမျှဝေကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၂

**မတ်တတ် ရပ်၍ မှတ်သောနည်း**

ပြီးမှ တရားစမှတ်သည့်အခါ မတ်တတ်ရပ်မှတ်ရ၍ ခြေဖဝါးမှ စ၍ မာသော သဘောကို စမှတ် စေရာ ဖြစ်ပျက်ကို ခြေဖဝါးမှ ခြေသလုံး စသည်ဖြင့် အထက်သို့ အနည်းငယ်စီ တိုး၍ တိုး၍ မှတ်သွားရာ ငယ်ထိပ်အထိ ရောက်အောင် မှတ်ရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၂

ငယ်ထိပ်၌ ကျပ်ဝိုင်းခန့်ထား၍ မှတ်နေရာမှ တဖြည်းဖြည်း အောက်ခြေဖဝါးတိုင်အောင် ပြန်ဆင်း မှတ်ပြီးမှ ဖြစ်ပျက်မြင်အောင် ရှုမှတ်ပြီးမှ မှတ်စိတ်ကို ရင်ဝ၌ ကပ်ထားရပါသည်။

**တဒိတ်ဒိတ် မြည်သံ ကြားရ**

မှတ်စိတ်များလာသည့်အခါ ရင်ဝမှ တဒိတ်ဒိတ် မြည်သောအသံကို နားမှ ပြန်ကြားရပါ သည်။ တချို့လည်း မကြားရပါ။ တချို့ပါရမီ ရှိသူများမှ စ, မှတ်သည့် အချိန်မှ တစ်နာရီ နှစ်နာရီ အတွင်း တချို့ (၁၅) မိနစ်အတွင်း တချို့ နေ့ဝက်ခန့်နှင့် အာရုံခြောက်ပါးချုပ်ငြိမ်းကာ ထူးသော တရားကို ရရှိသွားကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၂

**နတ်ပြည်၊ ငရဲပြည် စိတ်ကိုစေ**

ထိုသို့ ရရှိသူများကို ဆရာတော်ကြီးမှ နတ်ပြည်၊ ငရဲပြည်များသို့ အာရုံဖြင့် သွားရောက်ကာ ကြည့်စေခြင်း၊ ဘုရားများအားဖူးစေခြင်း အရင်ဘဝများကို ပြန်ကြည့် မြင်စေခြင်းများကို အဓိဋ္ဌာန်ဖြင့် ပြုလုပ်စေပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၃

**ခန္ဓာဝန်ချပြီးနောက်**

အေဒီ ၂၀၀၇ ဆရာတော်ကြီး၏ရုပ်ကလာပ်တော်ကို ငါးရက်မြောက်နေ့ ၂၂-၁၂-၂၀၀၇ စနေနေ့ ( ၁၃၆၉

http://www.dhammadownload.com



ခု၊ နတ်တော်လဆန်း ၁၃ ရက်နေ့ ) တွင် ပြင်ဆင်ခေါင်းသွင်းပြီး ကျောင်းအောက်သို့ ခေါင်းတော်ကို မ,ချကာ ကျောင်းရှေ့၌ ပြင်ဆင်ထားသော လှည်းတော်ပေါ်တွင် တင်၍ အပူဇော်ခံပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၃

### ရထားပေါ်က အဖြူလုံးကြီး

ကျောင်းဝင်းဝမှထွက်စဉ် ခေါင်းတော်တင်သည့် လှည်းကိုဆွဲကြသည့်အခါ ရုပ်ကလာပ်တော်တင် ရထား၏အထက်တွင် အဖြူလုံးကြီးများ လိုက်ပါလာသည်ကို တွေ့ရှိသူများ ရှိကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၃

### ဈိုင်းအုပ်ကြီး လိုက်လာ

ဖျိုင်းအုပ်များကလည်း ဆရာတော်ကြီး၏ ရုပ်ကလာပ်တော် ကျောင်းတော်မှ မထွက်ခွာမီ အုပ်စုလိုက် ပျံဝဲကာ ကျောင်းအတွင်းသို့ ဝင်သွားကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၃

### ဖြစ်ရပ်ဆန်းများ စတင်

ခြေဖဝါးတော်မှစ၍ မီးစလောင်ရာ ညှော်နံ့လည်း မထွက်၊ ကုန်း၍ထခြင်း၊ကွေးကောက်ခြင်းလည်းမရှိဘဲ ပကတိအိပ်စက်နေသကဲ့သို့ပင် ဖြစ်ပါသည်။ မီးတောက်များကြားတွင် ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်သည် ပုံမပျက်ဘဲ လောင်ကျွမ်းနေပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၃

### နံနက် စောစော အရိုးကောက်ပွဲ

ဆရာတော် အရှင်သူမြတ်၏ ရုပ်ကလာပ်တော်အား ညနေခြောက်နာရီကျော်သည်အထိ မီးသင်္ဂြိုဟ် သည့် နေရာအား ကြိုးဖြင့် ပတ်ဝိုင်းထားကာ နောက်တစ်နေ့ နံနက်စောစော ၅ နာရီခန့်တွင် အရိုးတော်များအား ကောက်ယူကြပါသည်။

ကျမ်းကိုး၊ စောမိသွင်၊ ရန်ကုန်၊ တုံရွာ ဗိမာန်သာကျောင်း ဘဒ္ဒန္တကေလာသ နှင့် ထူးခြားချက်များ တရားအားထုတ်နည်းများ၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း အမှတ် ၂၆၁၊ ၂၀၀၈ ခုနှစ်၊ ဧပြီလ ယင်းကျမ်း၊ စာ-၄၄။

### ဓာတ်တော်အမျိုးမျိုး ကြွင်းကျန်

ရုပ်ကလာပ်တော်မှ မီးမခဘဲကြွင်းကျန်ရစ်သော ဓာတ်တော်ကိုးမျိုးကို ရရှိခဲ့ပါသည်။ ၁။ အရိုးတော်၊ ၂။ သွားတော်များ၊ ၃။ အရေတော်များ၊ ၄။ အသားတော်၊ ၅။ ဦးနှောက်တော်၊ ၆။ အကြောတော်၊ ၇။ မွေးညင်းတော်၊ ၈။ သွေးခဲတော်၊ ၉။ အရေတော် သွေးစွန်းသည်များနှင့် အဖြူလုံး ၁ ခု ကွမ်းရွက်တို့ကို မီးမခဘဲ ရရှိခဲ့ပါသည်။ ဆရာတော် အရှင်သူမြတ် လက်ဝဲဘက် မေးတွင် မွေးညှင်းတော် မီးခခြင်း မရှိခဲ့ပါ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၇

### ဓာတ်တော်တွေ ကျောင်းသို့ ပြန်ရောက်

ဆရာတော် အရှင်သူမြတ်တို့၏ ဓာတ်တော်အချို့ကို ကောက်ယူသွားကြသော သူများရှိရာ ဗိမာန်သာကျောင်းတွင် ဆရာတော်ကြီး ကျိန်းစက် သီတင်းသုံးရာ အခန်းအား ဓာတ်တော်ပြခန်းပြုလုပ်ထားမည်ဖြစ်၍ ပြန်လည်ရောက်ရှိပါစေဟု ဆရာတော်ကြီး၏ တပည့် ဦးပဥ္စင်းမှ အဓိဋ္ဌာန်ပြုသောအခါ ဖြစ်ရပ်ဆန်းများ ဖြစ်ခဲ့ပါသည်။ ဖြစ်ပုံမှာ ဤသို့ ဖြစ်သည်။
ငွေရောင်ဓာတ်တော် အလုံးအား ကောက်ယူသွားသူမှာ ရွာထဲ လျှောက်ပြရာမှ ကျောင်းတော်သို့ ပြန်လည်ရောက်ရှိလာပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၅

http://www.dhammadownload.com



**တုံ့ရွာ၊ ဘယ်မှာရှိသလဲ**

ဓာတ်တော်များ ဖူးမြော်လိုပါက တုံ့ရွာ ဗိမာန်သာကျောင်းသည် မုံရွာမြို့မှ ချင်းတွင်းမြစ်ကို ဖြတ်ကျော်ကာ မုံရွာသို့ အနောက်ဘက်ကမ်း ညောင်ပင်ကြီးမှ ၄ မိုင်ခန့် အကွာတွင် တည်ရှိ၏။ ယခုတိုင် ရဟန္တာ ဓာတ်တော် များရှိ၏။ သွားရောက်ဖူးမြော်၍ ကြည်ညိုနိုင်ပါသည်။

ကျမ်းကိုး၊ စောမိသွင်၊ ရန်ကုန်၊ တုံ့ရွာ ဗိမာန်သာကျောင်း ဘဒ္ဒန္တကေလာသ နှင့် ထူးခြားချက်များ တရားအားထုတ်နည်းများ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း အမှတ် ၂၆၁၊ ၂၀၀၈ ခုနှစ်၊ ဧပြီလ ယင်းကျမ်း၊ စာ-၄၄။

ကျမ်းကိုး၊ မောင်မောင်ထွန်း၊မုံရွာ၊ နက္ခတ္တရောင်ခြည်၊ အမှတ် ၂၆၂ မေလ ၂၀၀၈၊ စာ ၆၅။

http://www.dhammadownload.com



မာတ်တော်တဖွားဖွားကျတော်မူသော

ရဟန္တာအရှင်မြတ်ကြီး

# ရွာမွန်သုသာန် ဆရာတော်ကြီး ဦးဝိစာရ

၁၉၂၃ - ၂၀၀၈



http://www.dhammadownload.com



**ဇာတိရပ်ရွာ**

အေဒီ ၁၉၂၃ ရွာမွန်သုသာန်ဆရာတော်ဘုရားကြီး ဦးဝိစာရကို စစ်ကိုင်းတိုင်း၊ ဒီပဲယင်းမြို့နယ်၊ ပိတ်ချင်းတောရွာ၌ အဘဦးကျော်၊ အမိ ဒေါ်ဖွားသိန်းတို့မှ သက္ကရာဇ် ၁၂၈၅ ခုတွင် ဖွားသန့်စင်ပါသည်။

**ငယ်မည် မောင်မှန်တင်**

သားသမီး (၇) ယောက်အနက် ပဉ္စမမြောက် သားရတနာဖြစ်ပြီး ငယ်မည်မှာ "မောင်မှန်တင်" ဖြစ်ပါသည်။

**ဆွေမျိုးများ**

ဆရာတော်လောင်းလျာ မောင်မှန်တင်၏ အစ်ကိုနှမများမှာ (၁) ဦးကြီးမြင့် (၂) ဦးကောက် (၃) ဦးဖိုးဒန်၊ (၄) ဦးမြ (၅) မောင်မှန်တင် (ဆရာတော်လောင်းလျာ) (၆) မလှရီ၊ (၇) ဦးတင်မောင်တို့ ဖြစ်ကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၀

**သစ်ခွဲသမား ဘဝ**

မောင်မှန်တင် အရွယ်ရောက်လာသောအခါ တောင်သူအလုပ်နှင့် လွှတိုက် (သစ်ခွဲသမား) အလုပ် များကို လုပ်ကိုင်ပါသည်။

**အိမ်ထောင်သည် ဘဝ**

ဒီပဲယင်းမြို့နယ် အိုင်ရှည်ရွာသူ ဒေါ်လှတင်နှင့် အိမ်ထောင်ပြုပြီး သားသမီး (၂) ဦး မွေးဖွားသော်လည်း ငယ်ရွယ်စဉ်မှာပင် ဆုံးပါးသွားကြ ပါသည်။

**မုဆိုး ဘဝ**

အားလပ်သောအချိန်တွင် တောလိုက် မုဆိုးအလုပ်ကို ဝါသနာ အရလုပ်ကိုင်လေ့ ရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၀

**သံဝေဂ**

တစ်နေ့တွင် ကိုမှန်တင် တောလိုက်ထွက်ခဲ့ရာ ချေမကြီးတစ်ကောင်ကို တွေ့မြင်ပြီး ချေမကြီးမှာ မွေးဖွားလုအချိန်ရောက်သောကြောင့် လှုပ်လှုပ်ရွရွသာ သွားနေပါသည်။ "ဒီချေမကြီးကို ချေကလေးမွေးသည် အထိ စောင့်ကြည့်ပြီး ဒီနေ့တော့ ချေကလေးအသားကို စား၍ နောက်တစ်နေ့မှ ဂျီ (ချေ) မကြီးကို ငါပစ်တော့မည်" ဟု စိတ်ကူးလျက် ချေမကြီး မွေးချိန်ဖွားချိန်ကို စောင့်လင့်နေလိုက်ပါသည်။ ချေမကြီးမှ မွေးဖွားလိုက်သောအခါ ချေပေါက်စကလေးကို ပြေး၍ ကောက်ယူ သတ်ဖြတ်ပစ်လိုက်ပါသည်။ ထိုနေ့မှာတော့ ချေကလေးကို ချက်ပြုတ်စားသောက် လိုက်ကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၀

**ကိုယ်ချင်းစာ တရား**

နောက်တစ်နေ့မှာတော့ ချေမကြီးအလာကို ချောင်း၍နေခိုက် ချေမကြီးမှာ သားဇောဖြင့် သားသေရာမြေကို နှုတ်ခမ်းဖြင့် နမ်းလိုက်၊ ခွာဖြင့်ယက်လိုက်၊ မြေပေါ်တွင် ဘယ်ညာလူးလိမ့်လိုက်ဖြင့် အပူမီးတွေ တောက်နေရှာပါသည်။ "သြော်-တိရစ္ဆာန်ပင် ဖြစ်သော်လည်း သားသမီးဇောကြောင့် သူ့အသက်အန္တရာယ်ကို မသိမမြင်ရှာပါကလား၊ ငါ့သားသမီးတွေ သေတုန်းက ငါပူပင်လိုက်ရသလို သူလဲ ပူပင်နေရှာတာ၊ ငါမှားသွားပြီ၊ ဒီချေမကြီးအသက်ကိုတော့ ငါ မသတ်တော့ပါဘူး" လို့ ဆုံးဖြတ်ပြီး သံဝေဂတရား ရသွားပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၀

http://www.dhammadownload.com



**တရားစခန်းသို့ဝင်**

မုံရွာမြို့ ဇေတဝနကျောင်းတိုက်မှ စာချဆရာတော် ဦးကုန္ဒောဘာသသည် အိုင်ရှည်ရွာ ဇာတိဖြစ်၍ ဆရာတော်ထံ ချဉ်းကပ်လျက် တရားအားထုတ်မှုများကို မေးမြန်းလျှောက်ထားပြီး လွှတိုက် (သစ်ခွဲ) နေစဉ်မှာပင် တရားအလုပ်ကို စတင် လုပ်ဆောင်ပါတော့သည်။တရားစခန်းတွင် တရားအားထုတ်ပြီး အိမ်ပြန်ရောက်သောအခါ ပါရမီဖြည့်ဖက်ဖြစ်သူ ဇနီးသည် မလှတင်အား ခွင့်တောင်း၍ သာသနာ့ဘောင်သို့ အပြီးတိုင်ဝင်ရောက် လိုက်ပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၁

**နွားများကို အိမ်ပြန်လွှတ်**

သာသနာ့ဘောင်သို့ မဝင်မီ သစ်ခွဲလွှတိုက် အလုပ်လုပ်ရင်း တရားရှုမှတ်ခြင်း အလုပ်ကိုသာ အချိန်ရတိုင်း ကျင့်ကြံအားထုတ်ပြီး ခွဲပြီးသစ်များကို လှည်းဖြင့်ပို့ဆောင် ၍အပြန်တွင် လှည်း၊ နွားများကို ဖြုတ်လျက် အိမ်ပြန်လွှတ်လိုက်ပါသည်။

**ငါးရက် မြောက်သော နေ့မှာ တရားထူးရ**

အေဒီ ၁၉၄၇ ဆုံကုန်းရွာကျောင်းတွင် ကိုရင်ကြီးဝတ်၍ တရားအားထုတ်လျက် (၅) ရက်မြောက်သောနေ့မှာပင် အတိတ်ပါရမီအရ တရားထူးကို ရရှိသဖြင့် ဥပနိဿယ ဆရာ ဦးကုန္ဒောဘာသက ရဟန်းဘောင်တက်ရန် တိုက်တွန်းတော်မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၁

**ရဟန်းဘောင်သို့ဝင်**

အေဒီ ၁၉၄၇ ဆရာတော်လောင်းလျာကို မှန်တင်သည် ၁၃၀၉ ခု ၊ တပို့တွဲလဆန်း (၂) ရက်နေ့တွင် ပလ္လင်တိုက်ရွာကျောင်း ခဏ္ဍသိမ်တွင် ဆရာတော်ဦးပညာအား ဥပဇ္ဈာယ်ပြု၍ ရဟန်းဘောင် သို့ စတင် ဝင်ရောက်လိုက်ပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၁

**အချိန်ပြည့်အားထုတ်**

အေဒီ ၁၉၅၆ အိုင်ရှည်ရွာကျောင်းတွင် (၉) ဝါ သီတင်းသုံးနေစဉ် နေ့စဉ်ဆွမ်းခံကြွတော်မူသော အချိန်မှလွဲ၍ တရားကိုသာ အချိန်ပေးအားထုတ်တော်မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၁

**မုဆိုးထောင်ချောက်မှာမိ**

ဆရာတော် ဦးဝိစာရသည် နေ့စဉ် ဆွမ်းခံကြွတော်မူပါသည်။ တစ်ရက်တွင် ဆွမ်းခံကြွတော်မူလာစဉ် မုဆိုး၏ ထောင်ချောက်မှာ ခြေတော်တွင်မိ၍ နေရာမှ လုံးဝရွေ့လျား ဆက်လက်ကြွတော်မူနိုင်ခြင်းမရှိဘဲ ထောင်ချောက်မိသောခြေတော်မှ ပြင်းထန်သော နာကျင်မှုဝေဒနာကို အာရုံစူးစိုက် ရှုမှတ်ရင်း ရပ်လျက်ပင် နေလိုက်ပါသည်။

**မုဆိုးက တောင်းပန်**

ထောင်ချောက် ဆင်ထားသော မုဆိုးသည် သားကောင်မိ၊ မမိ လာရောက်ကြည့်ရှုသောအခါ ဆရာတော်၏ ခြေထောက်ကို ထောင်ချောက်မိ နေခြင်းအတွက် ပြေးလွှား၍ ဆရာတော်ခြေထောက်တွင် မိနေသော ထောင်ချောက်ကို ဖြုတ်ရန် အားထုတ်ပါသည်။

ဆရာတော်က "ငါ့ဝဋ်ကြွေးရှိလို့ ဆပ်ရတာ မဖြုတ်ပါနဲ့" လို့ မိန့်သဖြင့် "တပည့်တော် ထောင်ထားတာပါဘုရား၊ တပည့်တော်ကို ခွင့်လွှတ် သနားတော် မူပါဘုရား၊ တပည့်တော်ဖြုတ်ပေးခွင့်

http://www.dhammadownload.com



ပေးတော်မူပါဘုရား၊ ဒီနေ့အချိန်ကစ၍ ဘုရားတပည့်တော် တောလိုက်မှုဆိုးအလုပ်ကို စွန့်လွှတ်ပါတော့မည်ဘုရား၊ ဘုရားတပည့်တော်ကို သနားသဖြင့် ခွင့်လွှတ်တော်မူပါဘုရား" ဟု လျှောက်ထားလိုက်တော့ ဆရာတော်က ထောင်ချောက်မိနေသော ခြေထောက်ကို ဖြုတ်ခွင့်ပြုလိုက်ပါသည်။ ထောင်ချောက်မိနေသော ခြေထောက်သည် ထိုစဉ်ကစ၍ ခန္ဓာဝန်ချသောနေ့အထိ ကောင်းစွာ လှမ်းကြွနိုင်ခြင်းမရှိတော့ဘဲ ထော့နဲ့ ထော့နဲ့ဖြင့်သာ ကြွလှမ်းနိုင်ပါတော့သည်။ ထိုနေ့အတွက် ဆွမ်းဘုဉ်းမပေးရဘဲ ရေဆွမ်းကိုသာ ဘုဉ်းပေးရပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၁

**တောရကျောင်းသို့ ပြောင်း**

ဆရာတော်သည် အိုင်ရှည်ရွာကျောင်းမှ ဘုတလင်မြို့နယ် ကတိုးတောရကျောင်းသို့ ပြောင်းရွှေ့သီတင်းသုံးတော်မူပါသည်။

**ရေအိုင်တစ်အိုင် အလိုလိုဖြစ်**

ကတိုးတောရတွင် တဲကျောင်းကလေးဖြင့် သီတင်းသုံးတော်မူသောအခါ ကျောင်းအနီး၌ အလိုလို ရေအိုင်တစ်အိုင် ဖြစ်ပေါ်လာပြီး ဆရာတော် အလိုရှိသလို ရေသုံးသပ်နိုင်သည်မှာ ယနေ့ ယခုအချိန်တိုင် ရေအပြည့်အလျှံနှင့် တည်ရှိနေပါသည်။ ဆရာတော်၏ ကျောင်းနေရာတွင် ယနေ့တိုင် မည်သည့်အပင်မှ ပေါက်ရောက်ခြင်း မရှိသည်ကို တွေ့မြင်ရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၁

**ခွေးစိမ်းကြီးတစ်ကောင် ဝင်လာ**

ဆရာတော် တရားထိုင်သည့်အခါတိုင်း ဆရာတော်၏ ရင်ခွင်ထဲသို့ ခွေးစိမ်းကြီး တစ်ကောင် လာရောက်၍ ဝပ်,ဝပ်နေသောကြောင့် တရားထိုင်ပြီးသောအခါ မေတ္တာပို့ အမျှဝေ လုပ်ဆောင်ရကြောင်း၊ မေတ္တာပို့ အမျှဝေလုပ်ဖန်များလာတော့မှ ထိုခွေးစိမ်းကြီး ပျောက်ကွယ်တော့ကြောင်း အမိန့်ရှိဖူးပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၂

**ဆည်ကြီးတောရမှာ (၆)နှစ်**

အေဒီ ၁၉၆၇ — ၁၃၂၉ ခု ဝါဆိုလဆန်း (၈) ရက်နေ့တွင် ရွာမွန်ရွာနှင့် (၉) မိုင်ခန့်ဝေးသော ဆည်ကြီးတောရသို့ ပြောင်းရွှေ့တရားကျင့်ကြံအားထုတ်တော်မူပြီး (၆) နှစ်တိုင် သီတင်းသုံးတော်မူပါသည်။

**ရွာမွန်သို့ ပြောင်း**

အေဒီ ၁၉၇၃ — တောရဆောက်တည်စဉ် ကျန်းမာရေး ချို့ယွင်းလာသဖြင့် ရွာမွန်ရွာ (မြောက်ကျောင်း) သာသနာ့ဟိတကာရီကျောင်းတိုက်သို့ ၁၃၃၅ ခု၊ ကဆုန်လဆန်း (၁၀) ရက်မှစတင်၍ (၈) ဝါတိုင်တိုင် သီတင်းသုံးတော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၂

**ရွာမွန်ရွာ သုသာန်ဇရပ်သို့ ပြောင်း**

အေဒီ ၁၉၈၁ — ၁၃၄၃ ခု ကဆုန်လပြည့်နေ့တွင် ရွာမွန်ရွာ သုသာန်ဇရပ်သို့ ပြောင်းရွှေ့ သီတင်းသုံးတော်မူပါသည်။

**သင်္ကန်းတော် ရေမစွတ်**

သုသာန်မှ ရွာမွန်ရွာလမ်းခရီးတွင် ချောင်းကလေးက ခြားနေပေသည်။ မိုးတွင်းကာလတွင်

http://www.dhammadownload.com



ချောင်းရေတွေ လျှံနေသောရက်များ၌ ဆရာတော်၏ သက်န်းတော်အစတွင် ရေစွတ်စိုခြင်း မရှိသည်ကို ဖူးတွေ့ရသဖြင့် တစ်စထက်တစ်စ ဆရာတော်၏ ဂုဏ်သတင်း ပျံ့လွင့်လာရာမှ မြန်မာပြည်အရပ်ရပ်ရှိ ရဟန်းတော်များ၊ လူပုဂ္ဂိုလ်များ ဆရာတော့်ထံ လာရောက်ဖူးမြော် ကန်တော့ကြရာ ဆရာတော်သီတင်းသုံးရာ ရွာမွန်သုသာန်မှာ အထူးစည်ကား လူသိများလာပါ တော့သည်။

**ဆရာတော်ပေးတဲ့ဆု**

လာရောက်ဖူးမြော်သူများကိုလည်း "မိမိတို့တောင်းတဲ့ဆုနဲ့ ပြည့်စုံကြသတည်း"ဟု ဆုပေးတော် မူလေ့ရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၂

**အမျှ (၃)ခါ ဝေကြပါမှ ညွှန်ကြား**

ဆရာတော်ဘုရားကြီးသည် လာရောက်ဖူးမြော်လှူဒါန်းသူတို့အား "အမျှ (၃) ခါ ဝေကြပါ" အမျှ . . အမျှ . . အမျှ ယူတော်မူကြပါကုန်လော့ (သာဓု . . သာဓု . . သာဓု) အမျှဝေတော့ ဘုရားပွင့်မှ ဆွေဆက်မျိုးဆက် ဆက်ပေးလို့ ဆွေတွေမျိုးတွေကို အမျှဝေရတာ၊ ခုလို အမျှဝေ တာကို နတ်ပြည် (၆) ထပ်ထိ ကြားရတယ်၊ အားလုံး သာဓု ခေါ်နိုင်ကြတယ်၊ သူတို့မှာလည်း ထပ်တူထပ်မျှ ကုသိုလ်တွေရကြတော့။ အေးအေး ဘာကုသိုလ်လုပ်လုပ် အမျှဝေကြကွယ်။

**(၁)ဆူပဲ ကျန်တော့တယ်**

သမ္ဗုဒ္ဓေဘုရား ဖူးဖူးကြတယ်မဟုတ်လား။ သမ္ဗုဒ္ဓေဘုရားရောက်လျှင် ဘုရားတွေနဲ့ ဘယ် လောက်လွဲခဲ့ကြတယ်ဆိုတာ ကြည့်ကြစမ်း။ ယခု ဘဒ္ဒကမ္ဘာမှာ (၅) ဆူပွင့်မှာ (၄) ဆူ ပွင့်ပြီး သွားပြီ။ တစ်ဆူကျန်တော့တာ။

**ဒီတစ်ခါလွဲရင် သုညကမ္ဘာရောက်လိမ့်မယ်**

"ပါပ" တွေနဲ့ မွေ့လျော်မနေကြနဲ့။ ဒီတစ်ခါလွဲရင် သုညကမ္ဘာတွေကို ရောက်ကြလိမ့်မည်။ ကိုယ့်ကိုယ်ကိုယ် ရွှေထုပ်ကြီးလုပ် ထင်မနေကြနဲ့။ မစင်ထုပ်ကြီးပဲ။ အဝိဇ္ဇာဖုံးထားလို့သာ ရွှေထုပ်ကြီးလို့ ထင်တာ။ ကိုယ့်အရှိကို ဉာဏ်မျက်စိနဲ့ ကြည့်ကြစမ်း။ အရေပြား အောက်မှာ အရိုးတွေ၊ အကြောတွေ၊ သွေးတွေ၊ သံတွေကို မစင်ထုပ်ကြီးပါလားဆိုပြီး ဆင်ခြင်လိုက်ရင် ဓမ္မစက်ထဲပါတော့တာပေါ့။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၂

**သတိ**

"သေနယ်ထဲမှာ ပျော်မနေကြနဲ့၊ ပြုံး၊ မဲ့ လွတ်အောင်နေ၊ ပြုံးတာက "လောဘ" မဲ့တာက "ဒေါသ" ဒါတွေကို သတိနဲ့ ဉာဏ်နဲ့ရှုကြ"

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၂

**ဆုတောင်းပုံ ဆုတောင်းနည်း**

"ယခု လှူရသော ဒါနသည် မသေရာနိဗ္ဗာန်သို့ရောက်သည့်တိုင် မရှိဟူသောစကားမသုံးပါရ စေနှင့် ဆုတောင်း၊ ဉာဏ်ရှိမှ တောင်းတတ်တာ၊ ခုနေခါတောင်းထားမှ နိဗ္ဗာန်ဝင်တဲ့အခါကျ တော့ လပြည့်လို ပြည့်ပြည့်ဝဝနဲ့ ဝင်ရမှာ၊ ဇောတိက၊ ဇဋိလသူဌေးကြီးတွေ အပြင်ပန်းပစ္စည်း လှူပြီး တောင်းခဲ့ကြတာ"

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၃

http://www.dhammadownload.com



**(၇)ရက် ကျောင်းတံခါးပိတ်ထား**

အေဒီ ၂၀၀၈ ဆရာတော်ဘုရားကြီးသည် (၂၆. ၁. ၀၈) နေ့နံနက် အရုဏ်တက်တွင် ဆန်ပြုတ် ဆွမ်းလာကပ်သူ ကပ္ပိယအား "တို့များ ဆန်ပြုတ်ဘုဉ်းမပေးတော့ဘူးကွယ့်၊ ဒီနေ့ကစပြီး (၇) ရက် ကျောင်းတံခါး ပိတ်ထားဦးမယ်" ဟု ပြတင်းပေါက်မှ ပြောကာ အပေါက်ပိတ်လိုက်ပါသည်။

**(၈)ရက်မြောက်နေ့မှာ ခန္ဓာဝန်ချ**

အေဒီ ၂၀၀၈ (၇) ရက်ပြည့်၍ (၈) ရက်မြောက် (၂. ၂. ၀၈) နေ့တွင် တပည့်သာဝကများ ဖူးမြော်ကြည်ညိုရန် စောင့်ဆိုင်းနေကြရာ ဆရာတော်မှ အပေါက်မဖွင့်၍ တပည့်သာဝကများမှ တံခါးဖွင့်ကြည့်သောအခါ ရုပ်ကလာပ်တော်သည် တောင်အရပ်သို့ ဦးခေါင်းပြုလျက် လက်ျာနံထောင်းစောင်းခါ အရှေ့အရပ်သို့ မျက်နှာမူပြီး ခန္ဓာဝန်ထုပ်ကြီး ချသွားတော်မူသည်ကို ဖူးတွေ့ရလေသတည်း။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၃

**မျက်လုံးတော် မီးမခ**

မျက်လုံးတော်တစ်ဖက် မီးမခဘဲ ဓာတ်တော်အဖြစ်နှင့် ရွှေရောင် ရောင်ခြည်တော် ကွန့်မြူးခြင်း၊ ရုပ်ကလာပ်ပေါ်တွင် ပိတ်ရက်ထားသော ပိတ်ဖြူကြီးသည် သင်္ကန်းတော်အဖြစ် ချုပ်ရိုးကြောင်းများပါ ပေါ်လွင်ထင်ရှားစွာ ဖူးမြော်ပူဇော်၍ ဓာတ်တော်များကို ဆရာတော် များက စုစည်း၍ သေချာ ကျနစွာ လူအများ ဖူးမြော်ကြည်နိုင်ရန် စီစဉ်ဆောင်ရွက်လျက် ရှိပါသည်။

**ကားထက် မြန်အောင်ကြွသော ပုဂ္ဂိုလ်ထူး**

ရွာမွန်သုသာန်ကို သွားတဲလမ်းက ဘယ်လောက်ကြမ်းတယ်ဆိုတာ အစ်ကိုတို့သွားရင် လက်တွေ့သိရပါလိမ့်မယ်။ ဒီလောက်ဝေးတဲ့ ကြမ်းတဲ့ခရီးမှာ ကား ထက်မြန်အောင် ကြွတင်ကြွနှင့်တာကြောင့် ပုဂ္ဂိုလ်ထူးလို့ သမုတ်ကြပါတယ်ရှင်။

ကျမ်းကိုး၊ စစ်ကိုင်းတိုင်း၊ ဘုတလင်မြို့နယ်၊ ရွာမွန်သုသာန်ကျောင်း ဆရာတော်ကြီး အရှင်ဝိစာရနှင့် ထူးထွေဖြစ်အင်များ (၁)၊)နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ ဧပြီလ၊ ၂၀၀၇၊ အမှတ် ၂၄၉ ၊ စာမျက်နှာ - ၂၅

**ကိုယ်တွေ့ ပြစ်ရပ်ဆန်း တစ်ခု**

အေဒီ ၁၉၉၅ လွန်ခဲ့သော (၁၁) နှစ်၊ ၁၃၅၇ ခုနှစ်က ဘုတလင်နယ် သန်းတောရ ဆရာတော်ကြီး ဦးသုပါကဌဆီမှာ သံဃာ့ကိစ္စတွေ ဝိုင်းဝန်းကူညီပြီး သီတင်းသုံး တယ်။ အဲ့ဒီအချိန်မှာ ရွာမွန်သုသာန် ကျောင်းဆရာတော်ရဲ့ ကျော်ကြားတဲ့ သတင်းတွေ ကြားရလို့ သွားဖူးချင်တယ်။

"ဦးပဥ္စင်းလေး တပည့်တော်ဆီကို ညက ဆရာတော်တစ်ပါး ကြွလာတယ်။ ဘွဲ့မည်သီတင်းသုံးရာ ကျောင်းတွေတော့ မမိန့်ဘူး။ လမ်းကြုံလို့ ဝင်လာတာပါလို့ ဆိုတယ်။ ရေနွေးကြမ်းကပ်ပြီး အချိန်အတော်ကြာ စကားပြောဆိုကြပြီးမှ "ကဲ အရှင်ဘုရား မိမိ ရဟန်းအလုပ်ကိုသာ အားထုတ်ရစ်ပါ" လို့ မိန့်ပြီး ပြန်ကြွသွားတယ်။

ထူးခြားတဲ့ ဉပမိရှိနေလို့ အရှင်ဘုရား ဆွမ်းဘုဉ်းပြီးရင် ဘုတလင်ကို ကြွပေးပါ။ ရွာမွန် ဆရာတော်ရဲ့ ဓာတ်ပုံတစ်ပုံလောက် ရှာပေးစေလိုပါတယ်" လို့ မိန့်ပါတယ်။

ဒါနဲ့ ကျုပ်လဲ ဘုတလင်ကို သွားပြီး ရွာမွန်ဆရာတော်ပုံ လိုက်ရှာရတာနဲ့ နေ့မွန်းတည့် (၁၂) နာရီအချိန်ကြီး နေပူကျဲကျဲအောက်မှာ ချက်ချင်းကျောင်းပြန် ပို့ပေးရတယ်။ ဓာတ်ပုံကို မြင်တော့ ဆရာတော်က

"ဟုတ်လိုက်လေ ညတုန်းက ကြွလာတဲ့ ကိုယ်တော်ကြီးပါပဲ" လို့ အားရဝမ်းသာ ဆိုရှာတယ်။

http://www.dhammadownload.com



သူတစ်ပါးရဲ့ စိတ်အကြံကိုသိပြီး ချီးမြှင့်ထိုက်သူကို ကြွရောက် ချီးမြှင့်တယ်လို့ ကျုပ်သဘော ပေါက်မိပါတယ်"

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၇

## ငွေကြေး အလှူမခံ

ဖူးမြော်လိုသူ ရပ်နီးရပ်ဝေး ဒါယကာများအတွက် နံနက် (၆) နာရီမှ နေ့လယ် (၁၁) နာရီအထိ ခွင့်ပြုထားသည်။ အသားလွတ်ဆွမ်းများကပ်နိုင်၍ ဝတ္ထုငွေကြေး အလှူခံခြင်း မပြုပါ။ သက်နီးများ ကပ်လှူနိုင်သည်ဟု သိရပေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၈

## စရိုးလမ်းညွှန်

မောင်းထောင်ရွာမှ (၄) မိုင်ဝေးသော ကူတောရွာသို့ ရောက်သော် (၁၁) နာရီ ခွဲလုပြီ။ ကူတောမှ တစ်ဖာလုံသာသာအကွာတွင် ရွာမွန် ရွာဦးသုသာန်သို့ ရောက်လေသည်။ ရွာမွန်ရွာလမ်းမကြီးမှ ယာခင်းများကို ကျော်ကာ မြင်တွေ့ရသည်ကား သရဏဂုံ ဇရပ်ကြီးပေ တည်း။ ထိုဇရပ်အနီးရှိ ကျောင်းငယ်ကား ဆရာတော်သီတင်းသုံး၊ တရားကျင့်ရာဌာနဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၈

## သုသာန်အုတ်ခုံကြားမှာ သီတင်းသုံး

ထိုမှ ကွက်လပ်ရှိ သရဏဂုံ ဇရပ်အတွင်း၌ အခေါင်းတလားထားရန် အင်္ဂတေဖြင့် ပေါင်လုပ် ထားသည့် နေရာတစ်ခုနှင့် အင်္ဂတေအုတ်ခုံရှည်ကြီးတို့ ပြုလုပ်ထားသည်။

ကွယ်လွန်သူ၏ အ,သုဘ ရုပ်အလောင်းကို အမှီပြုကာ တရားသံဝေဂ ယူကြရန်၊ သရဏဂုံ တည်ကြရန် ဟောကြား အသိပေးရာဌာနဖြစ်ပေသည်။ ကပ်လျက်တွင် ဆရာတော်ကြီး၏ တစ်ပါးကျောင်းငယ်ရှိ၍ ကျောင်းအနီး၌ စားပွဲနှင့်ခုံတန်းတစ်ခု မြင်ရသည်။ သာမန်စားပွဲ၊ ခုံတန်းများမဟုတ်ပါ။ ရုပ်အလောင်းမြှုပ်နှံရာ အုတ်ခုံများကို စားပွဲ၊ ခုံတန်းအဖြစ် အသုံးပြု ထားခြင်း ဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၈

## ဆွမ်းဝေလေ့

ဆွမ်းဖြူ သုံး၊ လေးဇွန်းမျှကို ရေဖြင့် ရောကာ ဘုဉ်းပေးတော်မူသည်။ ပြီးနောက် ကပ်ထားသော လိမ္မော်သီး သုံးမြွာခန့်ကိုလည်း ဆက်၍ ဘုဉ်းပေးသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၉

## လူနည်းမှ ကြိုက်တယ်

'ဘုန်းကြီးကို ဖူးဖို့လာတာ မဟုတ်လား။ ကဲ အခုဖူးရပြီ ပြန်ကြပေတော့။ လူများနဲ့နေသူက အသေစောတယ်။ အဲအချိန်မရွေးကျ ရောက်မယ့် မရဏဘေးကြီး သတိမလွတ်ကြနဲ့။ ကျုပ်က လူနည်းမှကြိုက်တယ်။ ဒါကြောင့် တစ်ပါးတည်းနေတာ။ ကဲ ဘုရားသွားဖူးပြီး ပြန်ကြပေတော့' ဟု မိန့်တော်မူပါသည်။

## စိတ်ထဲမှ လျှောက်ထား

လိုအပ်သည်များကို စိတ်တွင်းမှပင် လျှောက်ထားနိုင်သည်ဟု ဒါယကာရင်းများက ပြောပြထား သဖြင့် ဆရာတော်မှ အာလာပသလ္လာပ မိန့်ကြားစဉ်အတွင်း စေ့စေ့ဖူးကာ ထေရ ပ္ပတ္တိအကျဉ်း သိလိုပါကြောင်း စိတ်တွင်းမှ လျှောက်ထားသည်။ ထိုအခါ မိမိအား စူးစိုက်ကြည့်ကာ 'ဦးပဉ္စင်းကြီး ဦးဝိစာရ ခေါ်သကွယ်။ တို့များမှာ စာမတတ် ပေမတတ် ပရိယတ္တိ မရှိဘဲ

http://www.dhammadownload.com



ကျင့်ကြံခဲ့ ရလို့ ပရိယတ္တိအရာစွမ်းနိုင်တဲ့ ဆရာတော်တွေလို "တော်" မတပ်ဝံ့ဘူးကွယ်။ ရွာမွန်သုသာန် ကျောင်း ဦးပဥ္စင်းကြီးပေါ့' ဟု အလိုလို မိန့်တော်မူသည်ဟု မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၉

၎င်းနောက် ဆက်လက်၍ ဤသို့ မိန့်ပါသည်။

အေဒီ ၂၀၀၆ — သက်တော် (၈၃) နှစ်၊ ဝါတော် (၄၈) ဝါ ရှိပြီ။ လူ့သမားဘဝကနေ တောထွက်လာတာ။

အေဒီ ၁၉၅၄ — ၃၁ နှစ်မှာ သေဘေးကြောက်လို့ ကိုရင်ကြီးဝတ် ကျင့်ကြံတယ်။

အေဒီ ၁၉၅၈ — ၃၅ နှစ်မှာ ရဟန်းဖြစ်တယ်။

အေဒီ ၁၉၅၂ — ၂၉ နှစ်ကစလို့ အသားလွတ်စားတယ်။

အေဒီ ၂၀၀၆ — ခု ဆွမ်းဖြူ ရေဖျော်စားတာ (၆) နှစ် ရှိပါပြီ ဟု မိန့်ကြားပြီးနောက် ပရိသတ်တို့ဘက်လှည့်ကာ ဝိပဿနာ အကြောင်းများ ဟောကြား ဆုံးမတော်မူလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၉

## ဆုမတောင်းဘဲ မပြည့်ဘူးဟု မိန့်တော်မူခဲ့

ထို့နောက် -

"ကဲ လိုရာဆုတောင်းကြ၊ မတောင်းဘဲနဲ့ မပြည့်ဘူး" ဟု မိန့်ပြီး 'ဆုတောင်း မမှားကြနဲ့လေ။ ဒီလို အလျှုခံထိုက်၊ လှူသင့်လှူထိုက်တဲ့ ပုဂ္ဂိုလ်တွေပေါ်တဲ့ သာသနာတွင်း အခါ အလိုအပ်ဆုံး နိဗ္ဗာန်ဆုကိုသာ တောင်းပါ' ဟု မိန့်လေသဖြင့် လက်လျှော့ခဲ့ရလေသည်။

## စုတင် (၄)မျိုး

ဆရာတော်ကြီးသည် သုသာန်တွင် တစ်ပါးတည်း သီတင်းသုံးနေထိုင်၍ သုသာန်ဓုတင် တစ်မျိုးတည်း မဟုတ်တော့ဘဲ ဓုတင်လေးမျိုးကို ကျင့်ဆောင်နေကြောင်း သိရ၏။

## ဆွမ်းခံကြွသောအခါ

ဆွမ်းခံကြွရာတွင်လည်း ရွာထဲသို့ ဝင်၍ အိမ်စဉ်ဆွမ်းခံခြင်းမပြု၊ ရွာထိပ်မှသာရပ်၍ ဆွမ်းခံတော်မူ၏။ ရွာမွန်မှ လေးမိုင်ကျော်ခန့်ဝေးသော မောင်းထောင်ရွာဆေးရုံသို့တစ်ခါ၊ မောင်းထောင် ရွာရှိ ဇောတိကကျောင်း သို့တစ်ကြိမ်သာရပ်ဝေးကြွတော်မူ ဖူး၏။

## ဒေသစုံမှ လာဖူး

ဆရာတော်အား ရပ်ဝေးမှ ပရိသတ်များက လာရောက်ဖူးမြော်ကန်တော့ကြ၏။ ဒေသစုံမှ ရှမ်းပြည်နယ်၊ ကလောမိုးကုတ်၊ မန္တလေး၊ ကလေးဝ၊ ကသာ၊ ရန်ကုန်၊ မော်လမြိုင်၊ မုံရွာ၊ စစ်ကိုင်း၊ ရွှေဘိုနှင့် ကနေဒါမှဘုန်းကြီးတစ်ပါး၊ အမေရိကန်မှ ဘုန်းကြီးနှစ်ပါးလာရောက်ကြ၏။

## မည်သည့်အရပ်သို့မှမကြွ

အခြားအရပ်ဒေသများမှ ဆရာတော်အား လာရောက်ပင့်ဆောင်ကြသော်လည်း မည်သည့် အရပ်ဒေသကိုမျှ ကြွရောက်လိုက်ပါခြင်းမရှိပေ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၅

## ရွှေကျိုးသာစေတီတော်

ဆရာတော်ကြီး၏ကျောင်းနှင့် မနီးမဝေးတွင်ဆရာတော်တည်ထားသောရွှေကျိုးသာ စေတီတော် ရှိ၏။ ဘုရားမ တည်မီထိုနေရာတွင် ကျီးသတ္တဝါများစုရုံးဝိုင်းဖွဲ့သာနေကြ၍ တွေ့မြင်သူတချို့က ၎င်းနေရာသို့သွားရောက်ကြည့်ရှုရာ ခရုအဖြူများတွေ့ရှိရ၏။ ထိုခရုများမှာ ခရုလုံးကြီးဖြစ်နေ၏။ ၎င်းနေရာတွင် ဆရာတော်ကဘုရားတည်ရန် အစီအစဉ် ပြုခဲ့ရခြင်းဖြစ်၏။

http://www.dhammadownload.com



ဘုရားထီးတင်မည့်အချိန်တွင် ကျီးများအကောင်များစွာ ပျံဝဲ၍ ဘုရားပေါ်၌ ထူးခြားစွာသာ နေကြသောကြောင့် ဘုရားအား ရွှေကျီးသာဟု ဘွဲ့အမည် ဆရာတော်က ခေါ်စေပါသည်။

အေဒီ ၁၉၅၇

အင်း ဘုန်းကြီးလည်း ဒီရွာရောက်တာအတော်ကြာပေါ့။ သုသာန်မှာ အနှစ်(၂၀)ကျော် ပြီလေ။ အသက် (၃၄)နှစ်က ဒိပဲယင်းမြို့ အိုင်ရှည်ရွာမှာ နေစဉ်ကသောင်းကျန်းသူ ကွန်မြူနစ်တွေ ကြီးစိုးနေတဲ့ကာလပေါ့။ ရွာမှာအစိုးရဘက်က လူကြီးခန့်ရင် (၂)ရက်၊ (၃)ရက်အတွင်း သူပုန် ကလာသတ်တော့တာပဲ။

**သေမှာကြောက်လို့ ဘုန်းကြီးဝတ်တာ**

ဆရာတော်ကိုလူကြီးခန့်မယ်သတင်း ကြားတာနဲ့သေမှာ ကြောက်လို့ ရဟန်းဝတ်လိုက်တာ။ အဲဒီကစပြီး သေခြင်းတရားဆိုတာ သူပုန်သတ်မှ မဟုတ်ဘူး။ ဘယ်နေရာနေနေ သေခြင်းနဲ့ မလွတ်နိုင်ဘူးဆိုတာ အသိတရားရပြီး မသေမီ လူ့ဘောင်သမုဒယအထုပ်ကြီးဟာ ရွှေထုပ်ကြီး မဟုတ်ဘူး။ အပုပ်ထုပ်ကြီးသာဖြစ်တယ်။ ဒါကို လူ့ဘဝရတုန်းရခိုက် ဘုရား သာသနာနဲ့ ကြုံကြိုက် တုန်း ရဟန်းဘဝနဲ့ ဝိပဿနာတရားကျင့်ကြံအားထုတ်ခဲ့တာပဲ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၅

**ကိုယ့်အလုပ် ကိုယ်လုပ်**

ဒကာတို့ကလည်း ဘုန်းကြီးဆီကို ငွေကုန်လူပန်းခံပြီးခရီးဝေးမလာကြနဲ့ ကိုယ်လုပ်စရာရှိတာ အချိန်ရှိတုန်း ကျင့်ကြံအားထုတ်ကြနော်။ ဆင်းရဲတာကံ ချမ်းသာတာလည်းကံပဲ။ အရုပ်ဆိုးတာ လည်းကံပါပဲ။ အတိတ်ကံပို့လိုက်တာဖြစ်တယ်။ အေးယခုဘဝကောင်းတာ ဘုရားစကားကို နားထောင် လိုက်နာကျင့်ကြံတဲ့သူကို ဘုရားကစားဝတ်နေရေးအားလုံးကိုပေးလိမ့်မယ်။

**ဘုရားပေးတဲ့အလုပ်**

ဘုန်းကြီးတို့ကိုကြည့် ဘာအလုပ်မှမရှိဘူး။ စီးပွားရေးလည်းမရှိဘူး။ ဒါပေမယ့်ဘုရားပေး တဲ့အလုပ်လုပ်နေတယ်။ ဘုရားစကားကို နားထောင်လိုက်နာကျင့်ကြံ အားထုတ်နေတော့ ဘယ်မှာနေနေ ဆွမ်းကွမ်းကိစ္စ ဘာမှမပူရဘူး။ ဘုရားက ကျွေးမွေးပေးထားတာ၊ ဘုန်းကြီး ပြောတာကို သေသေချာချာ စဉ်းစားပြီး သဘောပေါက်ကာကိုယ့်အတွက် ကိုယ်အလုပ်လုပ်ကြ ပေတော့" ဟုမိန့်တော်မူ၏။

**ဖွက်ထားတဲ့ ထန်းရည်များ**

တစ်ခါက မုံရွာမှ ဆရာတော်ထံသို့လာရောက်ကြသော လူတစ်စုသည် ဆရာတော်ထံမရောက်မီ ရွာမွန်ရွာဝရှိ ချုံပုတ်ထဲ၌ လမ်းမှသယ်ယူလာခဲ့သည့် ထန်းရည်များဖုံးအုပ်ထားခဲ့၏။ ဆရာတော် ထံသို့ ၎င်းတို့ ရောက်ရှိလာသောအခါ ဆရာတော်အား ကန်တော့ကြပြီး ဆရာတော်ဆွမ်းဘုဉ်း ပေးမည်ကို စောင့်ဆိုင်းနေကြခိုက် ဆရာတော်က -

"ကဲ ကဲ ဒကာတို့ပြန်ကြ ပြန်ကြ ဒကာတို့ဖုံးအုပ်ခဲ့တဲ့ ပစ္စည်းတွေ ပျက်စီးကုန်ပါ့မယ်" ဟု မိန့်တော်မူလိုက်ရာ ထိုသူများ အံ့ဩသွားကြ၏။

**သက်န်း (၃)ထည်သာရှိ**

သက်န်းသုံးထည်မျှသာရှိ၏။ အခြားဘုဉ်းပေး စားသောက်ဖွယ်ရာများလည်း ရွာထဲက ကလေး ငယ်များအား စွန့်လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇၆

ကျမ်းကိုး၊ စစ်ကိုင်းတိုင်း၊ ဘုတလင်မြို့နယ်၊ ရွာမွန်သုသာန်ကျောင်း ဆရာတော်ကြီး အရှင် ဝိစာရနှင့် ထူးထွေဖြစ်အင်များ (၁)၊နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ဧပြီလ၊ ၂၀၀၇၊ အမှတ် ၂၄၉ ၊ စာမျက်နှာ - ၂၅

http://www.dhammadownload.com



ကျမ်းကိုး၊ သံသရာ ခရီးသည်တစ်ဦး ရွှာမွန်သုသာန်ကျောင်းဆရာတော်ကြီး၏ နောက်ဆုံး ခရီးနှင့် ဖြစ်တော်စဉ်တချို့ (၁)၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် ၂၆၅၊ ၂၀၀၈ ခုနှစ်၊ ဩဂုတ်လ၊ စာ ၂၅ - ၂၉။
ကျမ်းကိုး၊ သံသရာ ခရီးသည်တစ်ဦး ရွှာမွန်သုသာန်ကျောင်းဆရာတော်ကြီး၏ နောက်ဆုံး ခရီးနှင့် ဖြစ်တော်စဉ်တချို့(၂)၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် ၂၆၆၊ ၂၀၀၈ ခုနှစ်၊ စက်တင်ဘာ လ၊ စာ ၆၅ - ၆၉။
ကျမ်းကိုး။ လေးစိုး မုံရွာ၊ ရွှာမွန်သုသာန်ဆရာတော်ကြီး၊ ဝိဇ္ဇာမဂ္ဂဇင်း၊ ၂၀၀၈ ခုနှစ်၊ ဩဂုတ်လ စာ ၁၂၀ - ၁၂၃။
ကျမ်းကိုး၊ ကိုစိုးဆန်း၊ စစ်ကိုင်းတိုင်း ဘုတလင်မြို့နယ်၊ ရွှာမွန်သုသာန်ကျောင်း၊ ဆရာတော် ကြီး အရှင်ဝိစာရနှင့် ထူးထွေဖြစ်အင်များ (၁)၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ် ၂၄၉၊ ၂၀၀၇ ခုနှစ်၊ ဧပြီလ ၂၅ - ၂၉။
ကျမ်းကိုး၊ မောင်သွေးချွန်၊ ကျေးဇူးတော်ရှင် ရွှာမွန်သုသာန်ကျောင်း၊ ဦးပဉ္ဇင်း ဦးဝိစာရ၏ ထူးခြားဆန်းကြယ်သော ဘဝဖြစ်တော်စဉ်နှင့် အံ့ဖွယ်ကျင့်စဉ်များ၊ ဝိဇ္ဇာမဂ္ဂဇင်း ၂၀၀၈ ခုနှစ်၊ စက်တင်ဘာလ၊ အမှတ် ၁၂ အုပ်မြောက်၊ စာ ၁၂၉ - ၁၄၆။
ကျမ်းကိုး၊ မင်းကြည်၊ ရွှာမွန်၊ သုသာန်ကျောင်း ဦးပဉ္ဇင်းကြီး ဦးဝိစာရ၏ တစ်ဘဝ ဖြစ်တော် စဉ်နှင့် ကျင့်စဉ်များ၊ ပထမအကြိမ်၊ ၂၀၀၇ ခုနှစ်၊ ဇန်နဝါရီလ။

http://www.dhammadownload.com



ယနေ့တိုင် မပုပ်မသိုး ရုပ်ကလာပ်တော် တည်ရှိသော
ရောဝတီတိုင်း၊ ပုသိမ်ခရိုင်၊ သာပေါင်းမြို့နယ်၊ မကျီးစင်ကျေးရွာ
သီရိမင်္ဂလာတိုက်ကျောင်းဆရာတော်

# ဘဒ္ဒန္တ နန္ဒမာလာ

## ၁၉၂၃ – ၂၀၀၄

တစ်နေ့သောအခါ ကျွန်ုပ်ထံသို့ မိတ်ဆွေတစ်ဦး ရောက်လာ၍ ရဟန္တာနှင့်ရဟန်းထူးများ စာအုပ်ကြီးဖတ်ရ၍ ကူညီလိုသောကြောင့် စာတွေ့မဟုတ် ငါတွေ့ဖြစ်သော မိမိ ဆရာတော်ကြီး အကြောင်းကို မှတ်တမ်းနှင့်တကွ အပြည့်အစုံယူ၍ပေးအပ်ခဲ့ပါသည်။ ကျွန်ုပ်မှာ ထိုသူ၏ လိပ်စာကဒ်ပြားပျောက်သွားသဖြင့် သူလာမှသာ တွေ့ရပါ၏။ သူမလာလျှင် ဘယ်ကိုရှာ ရမှန်း မသိပါ။ သူ့မှတ်တမ်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

ဆရာတော်ကြီး၏ ထေရုပ္ပတ္တိ အကျဉ်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

အေဒီ ၂၀၀၄ ဆရာတော်ကြီးအား အဂ္ဂမဟာ သဒ္ဓမ္မဇောတိကဓဇဘွဲ့တော်ကြီးကို ၂၀၀၄ ခုနှစ်က နိုင်ငံတော်က ဆက်ကပ်ခဲ့ပါသည်။ သက်ရှိထင်ရှားရှိစဉ်က သာမန်မျှသာထင်ကြရပါသည်။ ခန္ဓာဝန်ချပြီး သောအခါမှ လောကဓာတ်ပညာဖြင့် ဆေးထိုးခြင်း စသည်တို့ကို ဘာမှမလုပ်ဘဲ ရုပ်ကလာပ် တော်ကြီးသည် ယနေ့တိုင် မပုပ်မသိုး တည်ရှိကြောင်း အသေအချာ သိရှိကြောင်း ရှာခံလူများက အာမခံကြပါသည်။ ထို့ကြောင့်လည်း ရဟန်းထူးဟု မူလက မသိခဲ့ဘဲ ခန္ဓာဝန်ချပြီးမှ သိခဲ့ကြရ ပါသည်။

**ဇာတိ**

အေဒီ ၁၉၂၃ ၁၂၈၅ ခုနှစ်၊ တပို့တွဲ လပြည့်ကျော် (၁၀) ရက်၊ စနေနေ့တွင် ဖွားတော်မူ၏။ ဇာတိမှာ ရခိုင် ပြည်နယ်၊ ဂွမြို့နယ်၊ ဒွဲချောင်းရွာ ဖြစ်၏။

**မိခင် ဖခင်**

မိခင် ဖခင်တို့မှာ ဦးလှထင် + ဒေါ်အေးသွယ် တို့ ဖြစ်ကြ၏။

**၁၃–နှစ်သားဘဝ**

အေဒီ ၁၉၃၆ ဆရာတော်သည် (၁၃) နှစ်သားအရွယ်တွင် ဂွမြို့၊ ဒုတိယကင်း ရုံးဂိုဏ်းချုပ်ဆရာတော် ဘဒ္ဒန္တ ဇာဂရကို ဥပဇ္ဈယ်ပြု၍ မိဘနှစ်ပါးတို့၏ ပစ္စယာနုဂ္ဂဟကို ခံယူကာ ရှင်သာမဏေအဖြစ်သို့ ရောက်ရှိခဲ့ပါသည်။

**ရဟန်းအဖြစ်သို့ ရောက်တော်မူ**

အေဒီ ၁၉၄၃ ၁၃၀၅ ခုနှစ်တွင် ဂွမြို့၊ ဆပ်သွားအလယ်ရွာကျောင်း ဆရာတော်ကို ဥပဇ္ဈယ်ပြုလျက် မိဘ နှစ်ပါးနှင့် ဆွေမျိုးများ၏ ပစ္စယာနုဂ္ဂဟကို ခံယူကာ ဒွဲချောင်းရွာ၊ ဥဒကုက္ခေပသိမ်၌ ရဟန်း အဖြစ်သို့ ရောက်ရှိခဲ့ပါသည်။

http://www.dhammadownload.com



**စာသင်သားဘဝ**

ဝွမြို့နယ်၊ ကင်းရုံးကျောင်းဆရာတော် ဘဒ္ဒန္တဇာဂရ၊ ဘဒ္ဒန္တ တေဇိန္ဒ၊ ဘဒ္ဒန္တဝိမလာစာရ၊ ညောင်တုန်းမြို့ သာသနဇောတိပါလ ပခုက္ကူတိုက်ရှိ ဆရာတော်များထံတွင် စာပေပရိယတ္တိများကို ကျမ်းကြီးပေါက် သင်ယူခဲ့ပါသည်။

**သာပေါင်း မကျီးဇင်သို့ ကြွလာ**

အေဒီ ၁၉၄၇

ဆရာတော်သည် ၁၃၀၉ ခုနှစ်မှ စတင်၍သာပေါင်းမြို့နယ်၊ မကျီးဇင်ကျေးရွာသို့ ကြွရောက်ပြီး ရဟန်း သာမဏေများအား အခြေခံ ကျမ်းစာများကို သင်ကြားပေးခြင်း ကျေးရွာတွင် မူလတန်းကျောင်းမရှိသေးသဖြင့် စတုတ္ထတန်းအထိ ဘုန်းတော်ကြီးသင်ပညာရေးကျောင်းအဖြစ် ဖွင့်လှစ်သင်ကြားခြင်း ဗုဒ္ဓဘာသာ ယဉ်ကျေးမှုသင်တနးများကိုလည်း သင်ကြားပို့ချ ပေးခဲ့ပါသည်။

**သာသနာရေးဆောင်ရွက်ချက်များ**

အေဒီ ၁၉၄၇

ဆရာတော်သည် ၁၃၀၉ ခုနှစ်မှ စတင်၍ သာပေါင်းမြို့နယ် မကျီးဇင်ရွာ၊ သီရိမင်္ဂလာတိုက်ကျောင်းတွင်နေထိုင်ပြီး ကလေးသူငယ်များနှင့် ကျေးရွာရှိ ဒါယကာ၊ ဒါယိကာမတို့အား ဘာသာရေး အသိဉာဏ်တိုးတက်ပြီး ယဉ်ကျေးသိမ်မွေ့လိမ္မာအောင် သွန်သင်ဆုံးမ ဩဝါဒပေးတော်မူပါသည်။

**သောင်းကျန်းသူများ ထကြွစဉ်**

အေဒီ ၁၉၄၈

၁၃၁၀ ခုမှ စတင်၍ ရောင်စုံသောင်းကျန်းသူများ ထကြွနေစဉ် နေထိုင် လျက် သူငယ်တန်းမှ စတုတ္ထတန်းအထိ ဘုန်းတော်ကြီးသင် ပညာရေးကျောင်းအဖြစ် ဖွင့်လှစ်သင်ကြားပေးခဲ့ပါသည်။

**ဘုန်းကြီးကျောင်း ပညာရေး**

အေဒီ ၁၉၇၂

၁၃၃၄ ခုနှစ်တွင် ကျေးရွာတွင် အစိုးရမူလတန်းကျောင်းဖြစ်ပေါ်လာအောင် ဆောင်ရွက်နိုင်သည့်အပြင် ယခုအချိန်တွင် တွဲဖက် အထက်တန်းကျောင်းအဖြစ် ဖွင့်လှစ်သင်ကြားနိုင်အောင် ကြိုးပမ်းဆောင်ရွက်ခဲ့ပါသည်။

**ဝိပဿနာပွဲ ရှင်ပြုပွဲ ပဋ္ဌာန်းပွဲ**

ဆရာတော်သည် စေတီဟောင်းများကို ပြုပြင်ခြင်း၊ ဝိပဿနာတရားစခန်းများကို ဖွင့်လှစ်၍ ဝိပဿနာတရားများကို ပြသ လျက်ရှိခြင်း၊ ရှင်အပါး (၁၀၀) ပြုပွဲများကို ပြုလုပ်ခဲ့ခြင်း ပဋ္ဌာန်းရွတ်ဖတ်ပူဇော်ပွဲများကို နှစ်စဉ်ပြုလုပ်ဆောင်ရွက်ခဲ့ပါသည်။

**သာပေါင်း မကျီးဇင်မှာ စာသင်ပေး**

အေဒီ ၁၉၈၂

ဆရာတော်သည် ၁၉၈၂ ခုနှစ်မှ စတင်၍ ဗုဒ္ဓဘာသာယဉ်ကျေးမှုသင်တန်းများကို မကျီးဇင်ရွာ၊ သီရိမင်္ဂလာတိုက်ကျောင်းတွင် နှစ်စဉ်ဖွင့်လှစ်သင်ကြားပေးခဲ့ရာ သင်တန်းသား/ သူများ တပည့်ပေါင်း သုံးထောင်ကျော်ထိ အောင်မြင်ခဲ့ပါသည်။

**သံဃနာယက**

ဆရာတော်သည် သံဃာအဖွဲ့အစည်းအဆင့်ဆင့်တွင် အနောက်ဘက် ကမ်းခြေ (၅) အုပ်စု သံဃနာယက ဥက္ကဋ္ဌ တာဝန်၊ မကျီးဇင်ကျေးရွာအုပ်စု သံဃနာယကအဖွဲ့ ဥက္ကဋ္ဌနှင့် မြို့နယ်ဩဝါဒါစရိယတာဝန်များကို ထမ်းဆောင်ခဲ့ပါသည်။

**ခန္ဓာဝန်ချတော်မူခြင်း**

အေဒီ ၂၀၀၄

ဆရာတော် ဘဒ္ဒန္တနန္ဒမာလာ (အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ) ဆရာတော်ဘုရားကြီးသည် သက်တော် (၈၃) နှစ်ဝါတော် (၆၃) ဝါ ၂၀၀၄ ခုနှစ်တွင် ဘဝနတ်ထံပျံလွန်တော်မူခဲ့သည်။

http://www.dhammadownload.com



**မပုပ်မသိုးသော ရုပ်ကလာပ်တော်**

ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်မှာ ယခုအချိန် (၂၀၀၈) ခုနှစ်အထိ မပုပ်မသိုးဘဲ ဆရာတော် လဲလျောင်းနေသကဲ့သို့ ပုသိမ်ခရိုင် သာပေါင်းမြို့နယ် မကျီးဇင်ကျေးရွာ သီရိမင်္ဂလာ တိုက်ကျောင်းတွင် ရှိနေပါကြောင်း မှတ်တမ်းတင်ထား၏။

ဆရာတော်ကြီး၏ ထူးခြားချက်ကိုလည်း သူကပင်ပြောပါ၏။ သူကိုယ်တွေ့ဖြစ်၏။ ယခုလက်ရှိ ဒကာလည်း ဖြစ်၏။

**(၁)လ တစ်ခါ သင်္ကန်းလဲပေး**

ဆရာတော်ကြီး ရုပ်ကလာပ်တော်၏ အသားအရေမှာ ခြောက်သွေ့သွားခြင်းမရှိ၍ တစ်လ တစ်ခါ သင်္ကန်းလဲပေးနေရသည်။ သင်္ကန်းလဲပေးသူမှာ သူကိုယ်တိုင်ဖြစ်ကြောင်း ဝန်ခံပြောဆို ပါသည်။

http://www.dhammadownload.com



ထူးခြားဆန်းကြယ်သော ဖြစ်ရပ်များနှင့်အတူ သာမညဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် ငါနှင့် အတူတူပဲဟု မိန့်ခွန်းတော်ခြွေခဲ့သော ကရင်ပြည်နယ်၊

# မြဝတီမြို့ မြို့သစ် ဘဒ္ဒန္တစန္ဒာသီရိ

၁၉၂၇ - ၁၉၉၉



http://www.dhammadownload.com



သာမညဆရာတော်ကြီး သက်တော်ထင်ရှားရှိစဉ်က မြဝတီနယ်မှ ဆရာတော်ကြီးထံ အဖူးအမြော်လာရောက်ကြသူများကို "တကူးတကများ သာမညကိုလာရတယ်လို့ကွယ်၊ မြဝတီမှာလည်း တို့လိုဘုန်းကြီး ရှိပါတယ်။ တောရကျောင်းဆရာတော်ကြီးကို ဖူးလျှင် တို့ဆီ လာတာနဲ့ အတူတူပါပဲ" ဟု မိန့်ကြားလေ့ရှိသည်။ ထိုဆရာတော်မှာ မြဝတီ ဦးစန္ဒာသီရိ ဖြစ်ပါသည်။

ကျမ်းကိုး၊ ဂန္တိရမဂ္ဂဇင်း၊ ၂၀၀၆ ခု၊ ဇူလိုင်၊ အမှတ် ၁၃၂၊ စာ ၂၈

## သာမညဆရာတော် မကြာခဏကြွရောက်

သာမညဆရာတော်ကြီးဘဒ္ဒန္တဝိနယ သာမညတောင်မှ မြဝတီ မဲဆောက်ဘက်သို့ သာသနာပြုခရီးကြွလေ့ရှိတိုင်း တောရကျောင်း ဆရာတော်ကြီး၏ ကျောင်းကို ခေတ္တခဏ ဝင်ရောက်လေ့ရှိသလို မြဝတီတွင် စေတီဘုရား ထီးတင်ပွဲများအား သာမည ဆရာတော်ကြီး ဦးစီးကျင်းပတိုင်း တောရကျောင်းဆရာတော်ကြီးကို ဖိတ်ကြားလေ့ရှိသည်ဟု သိရသည်။

ကျမ်းကိုး ယင်းစာ၊ စာ ၂၈

## တောရကျောင်းဆရာတော်ကြီးဟု အများကခေါ်

တောရကျောင်းဆရာတော်ကြီးမှာ ကရင်ပြည်နယ် မြဝတီမြို့ မြို့သစ် အမှတ် (၄) ရပ်ကွက်၊ တောရကျောင်းပရိယတ္တိ စာသင်တိုက်ကျောင်း ဆရာတော် ဘဒ္ဒန္တစန္ဒာသီရိဖြစ်ပြီး အများက တောရကျောင်းဆရာတော်ကြီးဟု ခေါ်ဝေါ်ကြပါသည်။

ကျမ်းကိုး ယင်းစာ၊ စာ ၂၈

## မြဝတီက အောင်သုခစေတီ

အေဒီ ၂၀၀၅

မြဝတီမြို့ပေါ်မှာ ရှိမနေ၊ ထီးချားရားရွာတွင် ဉာဏ်တော် (၃၇)တောင်ရှိ အောင်သုခစေတီတော်ကို တည်လျက်ရှိသည်။ ၁၃၆၇ ခုနှစ်၊ နယုန်လပြည့်နေ့တွင် ထီးတော်အပြီးတင်လှူနိုင်ရန် ကိုယ်တော်တိုင်ဦးစီးလျက် ထီးချားရားရွာမှာ သီတင်းသုံးနေခြင်းဖြစ်ပါသည်။

ကျမ်းကိုး ယင်းစာ၊ စာ ၂၈

## ဆရာတော်ကြီး တည်ခဲ့သော ဘုရားများ

ထိုအချိန်အထိ တောရကျောင်းဆရာတော်ကြီးတည်ထားခဲ့ပြီး စေတီပုထိုးများမှာ (၁) ရေပူကျေးရွာတွင် ဉာဏ်တော် (၂၈)တောင်ရှိ အေးငြိမ်းချမ်းသာ စမ်းသီတာစေတီတော်၊ (၂) ရေပူကျေးရွာတွင် လေးမျက်နှာ အာနန္ဒာစေတီတော်၊ (၃) ကလူးကုန်းတွင် စိန်ရောင်ခြည်စေတီတော်၊ (၄) ကပ်ပလူးကုန်းတွင် ဉာဏ်တော် ၁၅ တောင်ရှိ မြရောင်ခြည် စေတီတော်၊ (၅) အေးချမ်းသာရွာတွင် ဉာဏ်တော်၂၈ တောင်ရှိ အေးငြိမ်းချမ်းသာစေတီတော်၊ (၆) ထီးမူးထကျေးရွာအနီး တဒန်ကူးလမ်း၊ ဘုရားတောင်ပေါ်တွင် အဓိကရသိဒ္ဓိအောင်တော်မူစေတီတော်၊ (၇) ထီးချားရားရွာတွင် ဉာဏ်တော် ၃၇ တောင်ရှိ အောင်သုခစေတီတော်တို့ ဖြစ်ကြသည်။

ကျမ်းကိုး ယင်းစာ၊ စာ ၂၈

## သက်လွတ်သာ ဘုဉ်းပေးတော်မူ

သက်လွတ်သာ ဘုဉ်းပေး၍ လာသမျှ ဧည့်သည်များကိုလည်း သတ်လွတ်ဟင်းများနှင့်သာ ကျွေးမွေးလေ့ရှိသည်။

ကျမ်းကိုး ယင်းစာ၊ စာ ၂၈

http://www.dhammadownload.com



**ဇာတိရပ်ရွာ**

တောရကျောင်းဆရာတော်ကြီး ဘဒ္ဒန္တစန္ဒာသီရိသည် မြန်မာ-ထိုင်းနယ်စပ် ကရင်ပြည်နယ် အတွင်း ထင်ရှားသော်လည်း ဇာတိမှာ ဧရာဝတီတိုင်း ဟင်္သာတမြို့နယ် ဓမ္မိကျေးရွာ ဇာတိ ဖြစ်သည်။

**ဖွားသက္ကရာဇ်**

အေဒီ ၁၉၂၂ မြန်မာသက္ကရာဇ် ၁၂၈၃ ခုနှစ် တပေါင်းလပြည့်ကျော် ၂ ရက်နေ့တွင် ခမည်းတော် ဦးမောင်ဟန် မယ်တော် ဒေါ်မယ်ကန်တို့မှ မွေးဖွားခဲ့၏။

**သာမဏေ ဘဝ**

အေဒီ ၁၉၂၈ ဆယ့်ခြောက်နှစ်အရွယ်တွင် သာမဏေပြု၏။

**ရဟန်း ဘဝ**

အေဒီ ၁၉၄၁ ၁၃၀၃ ခုနှစ် ဝါဆိုလဆန်း ၈ ရက်နေ့တွင် ဧရာဝတီတိုင်း ရေကြည်မြို့ မင်္ဂလာကျောင်းတိုက် ခဏ္ဍသိမ်၌ မြင့်မြတ်သောရဟန်းဘဝသို့ ရောက်ခဲ့သည်။

ကျမ်းကိုး ယင်းစာ၊ စာ ၂၈

**စာသင်သား ဘဝ**

အရှင်စန္ဒာသီရိသည် ဟင်္သာတဓမ္မိကျောင်း၊ ရန်ကုန်မြို့ အရှင်အာဒိစ္စဝံသကျောင်း၊ ပဌာန်း ကျောင်း၊ ခြောက်ထပ်ကြီးဘုရားကျောင်း၊ မန္တလေးမြို့ဘုရားကြီးတိုက် အမရပူရကျောင်း၊ စစ်ကိုင်းမြို့ ပဌာန်းသိပ္ပံကျောင်း၊ ထားဝယ်မြို့ မောင်းမကန်ကျောင်း၊ ကော့ကရိတ်မြို့ တောင် ပေါ်ကျောင်းတို့တွင် ပိဋကတ်အခြေခံမှစ၍ ပါဠိ၊ အဋ္ဌကထာဋီကာကျမ်းပေါက်အောင် သင်ယူခဲ့သည်။

ကျမ်းကိုး ယင်းစာ၊ စာ ၃၁

**စစ်တောင်းတံတားကြီး ဖွင့်စဉ်က**

အရှင်စန္ဒာသီရိသည် မန္တလေးမြို့တွင် ပညာသင်ကြားလျက်ရှိစဉ် စစ်တောင်းတံတားကြီးဖွင့် သဖြင့် စစ်တောင်းတံတားတွင် အလုပ်လုပ်ကိုင်နေကြသော ညီအစ်ကိုတော်များအား တွေ့ဆုံ ရန်နှင့် ကျိုက်ထီးရိုးဘုရားဖူးရန် လာရောက်ခဲ့ရာ မပြန်ဖြစ်တော့ဘဲ မွန်ပြည်နယ်နှင့် ကရင် ပြည်နယ်တို့တွင် လှည့်လည်နေထိုင်ဖြစ်ခဲ့သည်။

ကျမ်းကိုး ယင်းစာ၊ စာ ၃၁

**ထီးချားရေးရွာမှာ (၂၅)နှစ်**

အေဒီ ၁၉၆၆ ကရင်ပြည်နယ်၊ မြဝတီမြို့နယ်၊ မဲပလဲကျေးရွာအုပ်စု၊ ထီးချားရေးရွာတွင် (၂၅) နှစ်၊

**မြဝတီမှာ နှစ် (၂၀)**

အေဒီ ၂၀၀၅ မြဝတီ တောရကျောင်းကြီးတွင် (၂၀) နှစ် သာသနာပြုခဲ့၏။

**တောရကျောင်းတိုက်ကြီး တည်ထောင်**

အေဒီ ၁၉၈၅ မြဝတီမြို့ တောရကျောင်းတိုက်ကြီးကို စတင်တည်ထောင်သောနှစ်မှာ ၁၃၄၇ ခုနှစ် ဖြစ်ပါ သည်။

ကျမ်းကိုး ယင်းစာ၊ စာ ၃၁

**သိမ် (၄၀)ခန့် သမုတ်**

မြဝတီခရိုင်အတွင်း ထီးချားရေးရွာ၊ သဲပုံရွာ၊ ကော့ကော်ရွာ၊ ဖားကလူးရွာ၊ မဲပလဲကျေးရွာ၊

http://www.dhammadownload.com



မဲကနယ်ရွာ၊ တအုပ်ရွာစသည့် ရွာပေါင်းများစွာတွင် သိမ်ပေါင်း ၄၀ ခန့် သမုတ်ပေးခဲ့ပြီး ဖြစ်၏။

ကျမ်းကိုး ယင်းစာ၊ စာ ၃၂

**နတ်ကိုးကွယ်သူများ ဗုဒ္ဓဘာသာ ဖြစ်လာ**

အခြားဘာသာနှင့် နတ်ကိုးကွယ်သူ ကရင်တိုင်းရင်းသားများထဲမှ ရှစ်ဆယ်ရာခိုင်နှုန်းမှာ ထေရဝါဒ ဗုဒ္ဓဘာသနာပြုရဟန်းတော်များ ဖြစ်လာခဲ့သည်။

ကျမ်းကိုး ယင်းစာ၊ စာ ၃၂

**ကရင်တိုင်းရင်းသားများကို စာသင်ပေး**

တောရကျောင်းတော်ကြီးသည် စာပေမသင်ကြားနိုင်သော ကရင်တိုင်းရင်းသားကလေးများကို ကျောင်းသား ကိုရင်အဖြစ် ဗုဒ္ဓဘာသာသို့ သွတ်သွင်းကာ ကိုယ်တိုင်တည်ထားသော ဘုန်းတော်ကြီးသင် ပညာရေးကျောင်းတွင် ပညာသင်ကြားစေပါသည်။

ကျမ်းကိုး ယင်းစာ၊ စာ ၃၂

**မနာလိုသူများက လုပ်ကြံကြသော်လည်း**

တောရကျောင်းဆရာတော်ကြီး၏ ဗုဒ္ဓသာသနာပြုနေခြင်းအပေါ် မရှုစိမ့်မနာလိုသူများက မိုင်းထောင်ခြင်း၊ ချောင်းမြောင်းပစ်ခတ်ခြင်း၊ အနီးကပ်လုပ်ကြံခြင်းတို့ အကြိမ်ကြိမ်ပြုလုပ်ကြသော်လည်း ဘေးမသီရန်မခချေ။

ကျမ်းကိုး ယင်းစာ၊ စာ ၃၂

**နိုင်ငံတော်က**

အေဒီ ၁၉၉၅

တောရကျောင်း ဆရာတော်ကြီးကို နိုင်ငံတော်အစိုးရက ၁၉၉၅ ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော် ကပ်လှူ ပူဇော်ခဲ့ပါသည်။

ကျမ်းကိုး ယင်းစာ၊ စာ ၃၂

**ကရင်ပြည်နယ်က လမင်းကြီးတစ်ဆူ**

တောရကျောင်းဆရာတော်ကြီး ဘဒ္ဒန္တစန္ဒာသီရိကို ကရင်တိုင်းရင်းသားများက သာမည ဆရာတော်ကြီးနောက် ထပ်မံပေါ်ပေါက်လာသည့် သာသနာ့လမင်းကြီးတစ်ဆူအဖြစ် မှတ်ယူလေးစား ကြည်ညို အားထားကြပါသည်။

ကျမ်းကိုး ယင်းစာ၊ စာ ၃၂

**ခန္ဓာဝန်ချတော်မူခြင်း**

အေဒီ ၂၀၀၉

တစ်ဘဝ ခန္ဓာဝန်ချတော်မူသည်။

http://www.dhammadownload.com





သက်တော်ထင်ရှားရှိစဉ်ကာလက ချီးမြှင့်ထားသော

ဆံတော်များ လုံးခဲ၍သွားတော်မူသော အရှင်မြတ်ကြီး

ကချင်ပြည်နယ်၊ မြစ်ကြီးနားမြို့၊ ဝိုင်းမော်မြို့နယ်၊ ခါ့တန်ကျောင်းတိုက်ကြီး

# ခါ့တန်ဆရာတော် ဦးကဏ္ဍာစက္က

၁၉၂၇ - ၂၀၀၇



http://www.dhammadownload.com



**ဘာကြောင့် ခါ့တန်ဆရာတော်ဟုခေါ်**

သက်တော်ရှည် ခါ့တန်ဆရာတော်ကြီး၏ ဘွဲ့တော်မှာ ဘဒ္ဒန္တ ကန္ဒာစက္က ဖြစ်ပါသည်။ ကချင်ပြည်နယ်၊ မြစ်ကြီးနားမြို့၊ ဝိုင်းမော်မြို့နယ်၏ မြောက်ဘက် ခါ့တန်ရပ်ကွက်၊ ခါ့တန် ပရိယတ်ပဋိပတ်ကျောင်းတိုက်၏ ပဓာန နာယကဆရာတော်ဖြစ်သောကြောင့် ခါ့တန် ဆရာတော်ကြီးဟူ၍ ထင်ရှားပါသည်။

**ဝေဘူဆရာတော်ကြီးထံ နည်းနာခံ**

ခါ့တန်ဆရာတော်ကြီးသည် ဝေဘူဆရာတော်ကြီးထံတွင် ကမ္မဋ္ဌာန်းနည်းနာခံ၍ နှစ်ရှည်လများ ဝိပဿနာ တရားအားထုတ်ခဲ့သည်။

**ကေစာရီ ဓုတင်အကျင့်မြတ်**

စစ်ကိုင်းတိုင်း ကျွန်းလှမြို့နယ်ရှိ ပေကုန်းရွာ၊ ကံပေါက်ရွာနှင့်၊ လယ်လှရွာ သုံးရွာဆိုင်၏ အလယ်ကြားဖြစ်သည့် တောင်ညိုညိုကုန်းတော်ပေါ်တွင် ကေစာရီတောရ ဆောက်တည်ကာ ဓုတင်အကျင့်မြတ်ကို ကျင့်ကြံရင်း တရားကို တရစပ်ရှုမှတ်ခဲ့ပါသည်။

**နှစ် (၂၀)ကျော်မှာ ပေါက်မြောက်အောင်မြင်ခဲ့**

အနှစ် (၂၀)ကျော်ကျော်တွင် ပေါက်မြောက်အောင်မြင်ခဲ့လေသည်။

**တိုင်းရင်းသားများကို ဝိပဿနာ အမွေပေး**

ကချင်ပြည်နယ်၊ မြစ်ကြီးနားမြို့နယ်၊ ဝိုင်းမော်မြို့တွင် ခါ့တန်ကျောင်းကို တည်ထောင်၍ တပည့်ရဟန်းတို့ကိုစာဝါလိုက်စေကာ ရှမ်း၊ ကချင် စသော တိုင်းရင်းသားတို့ကို ဝိပဿနာ အမွေဖြန့်ဝေသာသနာပြုတော့သည်။

ကျမ်းကိုး၊ ခေတ္တရာဆရာကျော် ၊ စာ-၂၅၈

**စိတ်ကို ကြိုတင်သိ**

စိတ်ဖြင့် လျှောက်ထားပါက သိလိုသမျှကို သွယ်ဝိုက်ဟောကြားလေ့ရှိခြင်းအပြင် လာရောက်ဖူးတွေ့သူ၏ စိတ်ကိုကြိုတင်သိနေတတ်ခြင်းများရှိခြင်းပင်ဖြစ်ပါလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၅၈

အေဒီ ၁၉၉၈ — ၁၃၅၉ ခု တပို့တွဲလဆန်း(၈)ရက်နေ့တွင် ဆရာတော် ဦးစိန္တာမဏိမှ ပင့်ဆောင်ခဲ့ပါသည်။

ကျမ်းကိုး၊ မြန်ပြည်မြောက်ဖျားကပုဂ္ဂိုလ်ထူးတစ်ပါး၊ ဆွေမြိုင်း (အင်းတော်မြေ)၊ ရတနာမွန်မဂ္ဂဇင်း၊ စာ-၅။

အေဒီ ၁၉၉၇ — သက်တော် (၇၄)နှစ်ရှိပြီဖြစ်သော ဆရာတော်ဘုရားကြီးသည် ကျန်းမာရေးကောင်းမွန်၏။ အသားအရေကိုယ်ခန္ဓာပါးလျပြီး လျင်မြန်ဖျတ်လတ်ဆဲပင်ဖြစ်၏။ အသံဩဇာကောင်း၏။

**ဆုံးမစကား**

"အမှတ်တမဲ့ မလုပ်ကြနှင့် အမှတ်တရဖြစ်အောင်လုပ်ကြ" ဟုဆုံးမပြီး ဩဝါဒမွေကထာများ ချီးမြှင့်လေ့ရှိ၏။ နေ့တရားပွဲ၊ ညတရားပွဲတစ်နေ့နှစ်ကြိမ် ခန္ဓာဉာဏ်ရောက် ဝိပဿနာတရားတော်များ ဟောကြားချီးမြှင့်လာခဲ့ရာ အင်းတော်နယ်တစ်ဝန်းမှ တရားနာပရိသတ်များ တဖွဲဖွဲ ရောက်ရှိလာကြသောကြောင့် ခုနစ်ရက်တရားပွဲမှ အံ့ဖွယ်ထူးကဲစွာ တစ်လတိတိ တရားပွဲကျင်းပရတော့၏။ ဆရာတော်ဘုရားကြီးသည် တရားပွဲကျင်းပတိုင်း၊ သရဏဂုံသီလဆောက်တည်ချိန်၌ ဗုဒ္ဓနိမိတ်၊ ဓမ္မနိမိတ်၊ သံဃနိမိတ်များ မိမိအာရုံထဲ အမြဲလွှမ်းထုံနေတတ်အောင် သတိပေးလေ့ ရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆

http://www.dhammadownload.com



**ဆရာတော်ကြီးပေးတဲ့နည်း**

သစ်ပင်ကြီးတစ်ပင်ဟာတစ်ဖက်ကို ညွတ်ကိုင်းနေခဲ့ရင် သူလဲတော့ ညွတ်ကိုင်းတဲ့ဘက် ကျမှာပဲ၊ ဒါယကာ၊ ဒါယိကာမတွေ ဗုဒ္ဓနိမိတ်ပုံတော်နှင့်ဂုဏ်တော်ကို အာရုံထဲမှာပုံဖော်ပြီး နေတတ်အောင်ကြိုးစားကြပါ။ သရဏဂုံနိမိတ်တွေနှင့်နေရင် ချမ်းသာတယ်။ သမာဓိထူထောင်နည်းအဖြစ် အပ်ချည်နှင့်အပ်နဖား ဥပမာကိုပေး၏။

"အပ်ချည်နှင့် အပ်နဖားထည့်အောင် အဲဒီအပေါ်မှာသတိကပ်ပြီးနေတာက သမ္မာသတိပဲ၊ အပ်ချည်ထိုးဖို့ အားထုတ်နေတာက သမ္မာဝါယာမပဲ၊ အဲဒီအာရုံအပေါ်မှာ စူးစိုက်တည်နေတာက သမ္မာသမာဓိပဲ"

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၆

**ဆရာတော်ကြီး သီတင်းသုံးခဲ့သော နေရာ**

ဆရာတော်ဘုရား သီတင်းသုံးသာသနာပြုတော်မူသောနေရာဒေသမှာ ကချင်ပြည်နယ် ဝိုင်းမော်မြို့၊ ဗုဒ္ဓဘာသာဝင် ရှမ်းတိုင်းရင်းသား အိမ်ခြေ ၇၀၊ ကချင်တိုင်းရင်းသား အများစု နေထိုင်သော ခါ့တန်ရပ်ကွက်၌ဖြစ်၏။

**ကချင်ပြည်နယ်ရောက်တော်မူခြင်း**

အေဒီ ၁၉၉၇ — ကချင်ပြည်နယ်သို့ကြွရောက်သာသနာပြု တော်မူသည်မှာ ၁၃၅၉ ခု၊ ၁၃၆၀ ပြည့် (၂)နှစ်ခရီး မျှသာရှိသေး၏။

**မူလ တရားအားထုတ်ရာနေရာ**

မူလက စစ်ကိုင်းတိုင်း၊ ယခင်ကန့်ဘလူမြို့နယ်၊ ယခုကျွန်းလှမြို့နယ် ပေကုန်း၊ ကံပေါက်၊ လယ်လှ သုံးရွာဆုံကြား၌တည်ရှိသော "တောင်ညိုညို"ဟုအမည်ရသည့် ကုန်းတော်ပေါ်၌ ပဋိပတ် ဘာဝနာအလုပ်ကို နှစ်ပေါင်း ၂၀ ကျော် အားထုတ်တော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇

**လိပ်စာအပြည့်အစုံ**

အေဒီ ၂၀၀၂ — ကချင်ပြည်နယ်၊ မြစ်ကြီးနားမြို့၊ ဝိုင်းမော်မြို့နယ်၏ မြောက်ဘက်ဒေသရှိ ခါ့တန်ရပ်ကွက်၊ ခါ့တန်ပရိယတ္တိ ပဋိပတ္တိကျောင်းတိုက်၏ ပဓာနနာယက၊ ကမ္မဋ္ဌာနာစရိယ၊ နယ်လှည့်ဓမ္မကထိက ဘဒ္ဒန္တကုက္ကုဋ္ဌာစက္ကဟု ပြောမှ ပြည့်စုံပါသည်။

**ရန်ကုန်ရောက်စဉ်က**

နာဂလိုဏ်ဂူ ကလေးဝတောရ စာသင်တိုက်တွင် ယာယီစံကျောင်းအဖြစ် သီတင်းသုံးပြီး ရန်ကုန်မြို့၊ ဗဟန်းမြို့နယ်၊ ရွှေတိဂုံစေတီတော်ကြီးအနီးရှိ ကြေးသွန်းဘုရားကြီး၊ တောင်ဥက္ကလာပမြို့နယ်နှင့် တာမွေမြို့နယ်များ၌ ဝိပဿနာအလုပ်ပေးတရားပွဲများကို ဟောကြားပြီးနောက် ၁၈-၂-၂၀၀၂ နေ့နံနက်ပိုင်းတွင် ပုံမှန်သီတင်းသုံးတော်မူရာ ခါ့တန် ကျောင်းတိုက်သို့ ပြန်လည် ကြွရောက်သွားခဲ့သည်။

(ကျမ်းကိုး၊ ခါ့တန်ကျောင်းဆရာတော်ကြီး၏ အောင်မြင်စေကြောင်း နည်းလမ်းကောင်း၊ တင်တင်(အဝေးသင်)၊နကွတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ်-၁၉၀၊ ၂၀၀၂ ခုနှစ်၊ မေလ၊စာ-၂၃

**ဆရာတော်ကြီး ထူးခြားချက်များ**

တရားဟောကြားသောအခါ ပရိသတ်ကိုအမိကမထားဘဲတရားကိုသာ အာရုံစိုက်၍ ရိုသေလေးစားစွာ ဟောကြားလေ့ရှိခြင်း၊ အစားအစာ ဘုဉ်းပေးမှုနည်းပါးခြင်း၊ သာသနာပြု စိတ်ဓာတ်

http://www.dhammadownload.com



ပြင်းထန်ခြင်း၊ အလိုနည်းတော်မူခြင်း၊ ကိစ္စဟူသမျှတို့တွင် မေတ္တာကို ဦးဆောင်ရှေ့ရှု၍ ဆောင်ရွက်လေ့ရှိခြင်းတို့ဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃

**ထူးခြားချက် အချို့**

ဆံတော်များကို အဓိဋ္ဌာန်ပြု၍ ပူဇော်ပါက စေတီတော်ပုံသို့ ပြောင်းလဲသွားတတ်၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃

ကျမ်းကိုး။ အမှတ်(၁၆၈)၊ ၂၀၀၀ ပြည့်နှစ်၊ ဇူလိုင်လထုတ်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ စာ (၄၉၊ ၅၀)မှာ အင်းတော်မြေမောင်ဆွေမှိုင်းရေးသား ပူဇော်သည့် မြန်မာပြည်မြောက်ဖျားမှ အံ့ဖွယ်ထူးခြား ဆရာတော်တစ်ပါး။

(ကျမ်းကိုး၊ မြစ်ကြီးနားဝိုင်းမော်မြို့ ခါ့တန်ဆရာတော်ကြီး၏လက္ခဏာတော်အား လေ့လာပူဇော်ခြင်း၊ ခေတ္တရာဆရာကျော်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း အမှတ်-၁၇၃၊ ၂၀၀၁-ခု၊ ဇန်နဝါရီလ၊ စာ-၃၀)

ရဟန်းဒါယကာ ဦးချစ်ဆွေ၊ ဒေါ်မိမိခိုင်တို့အိမ်တွင် ဆရာတော်ကြီး၏ဆံတော်များအား တောင်းယူ၍ ဖန်ပုလင်းငယ်၌ထည့်ကာ ပထမဆုံးပူဇော်ခဲ့၏။ "ဆရာတော်ကြီးသည် ထူးခြားသော ပုဂ္ဂိုလ်အမှန်ဖြစ်ပါက ဤဆံတော်များသည် ထူးခြားမှုဖြစ်ပါစေသတည်း" ဤကဲ့သို့ အဓိဋ္ဌာန်ပြုမှုကြောင့် ဆရာတော်၏ ဆံတော်များသည် ထူးခြားအံ့ဩဖွယ် ကြီးစဉ်ငယ်လိုက် (၆)လုံး လုံးခဲတော်မူ၏။

ကျမ်းကိုး။ မှတ်ချက် ဤဆံတော် ပထမဆုံး လုံးခဲမှုအကြောင်းအား ၁၉၉၈ ခု၊ စက်တင်ဘာလထုတ်၊ ရတနာမွန်မဂ္ဂဇင်း၌ ရေးသားဖော်ပြခဲ့ပြီးဖြစ်ပါသည်။

**နတ်တွေ မနေနိုင်လို့ အသိပေး**

ယခုနောက်ပိုင်း ထူးခြားမှုများသည် ပို၍ပင်များလွန်းနေပါသည်။ နိုင်ငံတော်၏ ဖွံ့ဖြိုးမှုဆောက်လုပ်ရေးတာဝန်တစ်ရပ်ဖြင့် မြစ်ကြီးနား-ဝိုင်းမော်လမ်းဖောက်လုပ်ရေးမှ အငယ်တန်း အင်ဂျင်နီယာ (မြို့ပြ) ဦးဖိုးပြည့်သည် ဆရာတော်ကြီးအား ဆည်းကပ်ကိုးကွယ်၍ကျောင်း၌ လိုအပ်သမျှကို ဖြည့်ဆည်း ပေးသူဖြစ်၏။ တစ်ညတွင် ဦးဖိုးပြည့် အိပ်မက်ထဲ၌ ခါ့တန် ဆရာတော်ကြီးသည် ဆန်ကာတစ်ချပ်ကိုင်၍ ခေါင်းပေါ်တည့်တည့်မှ ဝိုင်းပြပြီး "ကျောင်းမှာ သဲလိုတယ် သဲပို့လိုက်ဦး" ဟု ပြောသွားသည်ကို မြင်မက်လေ၏။ နံနက်မိုးလင်းချိန်တွင် အိပ်မက်ထဲ၌ ပြောဆိုမိန့်ကြားသည့်အတိုင်း သဲကားနှစ်စီးတိုက်ပို့၍ ဆရာတော်ကြီးအား အကြောင်းစုံလျှောက်ထားရာ "နတ်တွေမနေနိုင်လို့ နတ်တွေအသိပေးတာဖြစ်ပါလိမ့်မယ် ဒကာကြီး" ဟုအမိန့်ရှိတော်မူ၏။

**အမှတ်တမဲ့ မလုပ်ကြနဲ့**

ဆရာတော်ကြီးသည် တပည့်ဒါယကာ၊ ဒါယိကာမအပေါင်းတို့အားလာရောက်ဖူးမြော် ကန်တော့တိုင်း "အမှတ်တမဲ့မလုပ်ကြနှင့်။ အမှတ်တရဖြစ်အောင်လုပ်ကြ" ဟုအမြဲ ဆုံးမလေ့ရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅၀

**ဆရာတော်ကြီး ဟောကြားသော စကား**

ဆရာတော်ကြီးသည် သမထယာနိကသမာဓိဦးစီးသောနည်းထက် ပညာဦးစီးသောနည်းကို ဟောကြားလေ့ရှိ၏။ ဝိဇ္ဇာဦးစီး၍ ငါးဒွါရ၌ ကျရောက်လာသော အကြောင်းတရားများကို သတိကပ်လျက် ပညာဖြင့် ဆင်ခြင်ပွားများ၍ မနောကိုထိန်းသိမ်းကြရန် အမြဲသတိပေး ဟောကြား

http://www.dhammadownload.com



လေ့ ရှိ၏။ ဝိဇ္ဇာဦးစီးပြီးနေသော ပုဂ္ဂိုလ်အား နိဝရဏတရားများ ကင်းစင်နေကြောင်း လည်း အမိန့်ရှိဖူးပါသည်။

မှတ်ချက်။ ၂၂-၁-၂၀၀၂ ခုနှစ်တွင် ရန်ကုန်တိုင်း လှည်းကူးမြို့ ငါးဆူတောင် ကျေးရွာ၌ မြွက်ကြားမိန့်ဆိုခဲ့ သော ဟောစဉ်တရားများဖြစ်ပါသည်။ ကျမ်းကိုး၊ မြစ်ကြီးနား၊ ဝိုင်းမော်မြို့၊ ခါ့တန်ဆရာတော်ကြီး၏ တရားလမ်းညွှန်၊ ဦးကျော်(ပြည်)၊ ပါရမီမဂ္ဂဇင်း ၊စာ-၈၅ ကိုကြည့်။

**ခန္ဓာဝန်ချတော်မူခြင်း**

အေဒီ ၂၀၀၃

ကျေးဇူးတော်ရှင် ခါ့တန်ဆရာတော်ကြီးသည် (၂-၂-၂၀၀၃) မနက်(၃)နာရီ (၁၅)မိနစ်တွင် ရုပ်နာမ်ဓမ္မသင်္ခါရတို့၏ ဖြစ်လျှင်ပျက်မြဲ ဓမ္မတာအတိုင်း ခန္ဓာတော်ပြတ်ငြိမ်း၍ ဘဝဇာတ်သိမ်းတော်မူခဲ့ပါသည်။

(ကျမ်းကိုး၊ မြစ်ကြီးနား၊ ဝိုင်းမော်မြို့၊ ခါ့တန်ဆရာတော်ကြီး၏ တရားလမ်းညွှန်၊ ဦးကျော်(ပြည်)၊ ပါရမီမဂ္ဂဇင်း (စာ-၈၅)

ကျမ်းကိုး၊ မြန်မာပြည်မြောက်ဖျားကပုဂ္ဂိုလ်ထူးတစ်ပါး၊ ဆွေမှိုင်း(အင်းတော်မြေ)၊ ရတနာမွန် မဂ္ဂဇင်း၊ စာ-၅

ကျမ်းကိုး၊ မြစ်ကြီးနားဝိုင်းမော်မြို့ ခါ့တန်ဆရာတော်ကြီး၏လက္ခဏာတော်အား လေ့လာ ပူဇော်ခြင်း၊ ခေတ္တရာဆရာကျော်၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း အမှတ်-၁၇၃၊ ၂၀၀၁-ခု၊ ဇန်နဝါရီလ၊ စာ-၃၀

ကျမ်းကိုး၊ဘေးကင်းလာဘ်ရွှင်၊ခါ့တန်ဆရာတော်ကြီး၏ဂုဏ်တော်ကျင့်စဉ်၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း အမှတ်(၇၇)၊ ၂၀၀၀ ပြည့်နှစ်၊ ဧပြီလ၊ စာ-၁၁။

http://www.dhammadownload.com



ဓာတ်တော်များ တဖွားဖွားကျတော်မူသော

# ပြင်ဦးလွင်မြို့ ဘဒ္ဒန္တ စန္ဒောဘာသ

၁၉၂၂ - ၂၀၀၇



http://www.dhammadownload.com



"အခုတော့ ဓာတ်တော်တွေ သာမက ရည်မှန်း လျှာဒါန်းတဲ့ ပတ္တမြားတွေကပါ ဓာတ်တော်လိုပဲ အထက်ဆန် ပျံလွင့်နေတာ မြင်ရလို့ ပူဇော်ခွင့်ရမယ့် နိမိတ်ပဲ ဆိုပြီး ဝမ်းမြောက်နေမိပါတယ်" ဟူသော စကားသည် အလွန်ထူးဆန်းသဖြင့် ထိုဆရာတော်ကြီး၏ ထေရုပ္ပတ္တိကို မဖြစ်မနေ ရှာရပါတော့သည်။

ကျမ်းကိုး၊ မိုးကုတ်မြို့ မင်းတံတားရပ်မှ ဓာတ်တော်ကျသည်ဆိုသော ခါတော်မှီကျောင်း ဆရာတော်၊ ထက်မင်းကျော်စွာ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ စက်တင်ဘာလ၊ ၂၀၀၇ ခု၊ အမှတ် ၂၅၄၊ စာမျက်နှာ - ၁၂၁ ကိုကြည့်။

**ဇာတိရပ်ရွာနှင့် ဖွားသက္ကရာဇ်**

အေဒီ ၁၉၂၅ ဆရာတော်လောင်းလျာ၏ ငယ်နာမည်မှာ မောင်စောပုဖြစ်၍ ပဲခူးတိုင်း၊ ညောင်လေးပင်မြို့နယ်၊ ပြွန်တန်ဆာတိုက်နယ်၊ ဝဲဝင်းရွာနေ ခမည်းတော် ဦးချို၊ မယ်တော်ဒေါ်ပုမတို့မှ ၁၂၈၆ ခုနှစ်၊ တပေါင်းလဆုတ် (၉) ရက်၊ အင်္ဂါနေ့တွင် ဖွားမြင်ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၁

**၁၃-နှစ်သားဘဝ**

အေဒီ ၁၉၃၈ အသက် (၁၃)နှစ်အရွယ်တွင် ရေပေါ်သောင်ကျောင်းဆရာတော် ဦးနန္ဒမာလာထံ ရှင်သာမဏေ ပြုသည်။ ရှင်စန္ဒောဘာသ ဘွဲ့မည် ရှိသည်။

**ရဟန်း ဘဝ**

အေဒီ ၁၉၄၄ ၁၃၀၆ ခုနှစ်၊ ဝါဆိုလပြည့်တွင် ညောင်လေးပင်မြို့နယ်၊ ရေပေါ်သောင်ကျောင်း ဥဒကုက္ခေပ သိမ်၌ ကျောင်းရွာဆရာတော် ဦးပုညိန္ဒကို ဥပဇ္ဈာယ်ပြုကာ ရဟန်းဘောင်သို့ ရောက်ရှိသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၁

**စာသင်သားဘဝ**

ရေပေါ်သောင် ဆရာတော်ထံတွင် စတင်ပညာသင်ယူကာ ညောင်လေးပင်မြို့နယ် ကန်ကလေး ရွာကျောင်း၊ ကျောင်းရွာကျောင်း၊ ရွှေတိဂုံသွေးဆေးကန်အနီးရှိ မဒေါက်ကျောင်း၊ မန္တလေး ဘုရားကြီးကျောင်းတိုက်တို့၌ ပရိယတ္တိစာပေများ ဆည်းပူးခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၁

**ဆရာတော်ကိုယ်တိုင် ရေးသားထားသော မှတ်တမ်း**

ဆရာတော် သီတင်းသုံးခဲ့ရာ နေရာများကို အိပ်ခန်းတွင်းရှိ ကိုယ်တော်တိုင် ရေးသားခဲ့သော မှတ်တမ်းအရ

| | | |
|---|---|---|
| အေဒီ ၁၉၄၈ | ကျောင်းရွာကျောင်း | ၄ ဝါ၊ |
| အေဒီ ၁၉၅၁ | ရေပေါ်သောင်ကျောင်း | ၃ ဝါ၊ |
| အေဒီ ၁၉၅၃ | ကျောင်းရွာကျောင်း | ၂ ဝါ၊ |
| အေဒီ ၁၉၅၈ | ကန်ကလေးကျောင်း | ၃ ဝါ၊ |
| အေဒီ ၁၉၆၃ | ရန်ကုန်၊ မဒေါက်ကျောင်း | ၅ ဝါ၊ |
| အေဒီ ၁၉၇၃ | မန္တလေး၊ ဘုရားကြီးကျောင်း | ၁၀ ဝါ၊ |
| အေဒီ ၁၉၉၄ | မိုးကုတ်၊ ရွှေကူကျောင်း | ၂၁ ဝါ၊ |
| အေဒီ ၂၀၀၈ | မိုးကုတ်၊ ခါတော်မှီကျောင်း ၁၄ ဝါ (ပျံလွန်သည် အထိ) ဟူ၍ သိရှိရသည်။ | |

ကျမ်းကိုး၊ နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ အောက်တိုဘာ ၂၀၀၇၊ အမှတ် ၂၅၅၊ စာ - ၁၂၁

http://www.dhammadownload.com



အေဒီ ၁၉၆၀ ရွှေကူကျောင်းတိုက်သို့ ၁၃၂၂ ခုနှစ်တွင် ရောက်ရှိ၏။

အေဒီ ၁၉၈၂ ၃၈ ဝါအရ ၁၃၄၄ ခုနှစ်၌ ခါတော်မှိကျောင်းသို့ ဒုတိယနာယက ဆရာတော်အဖြစ် ပြောင်းရွှေ့သွားသည့် အကြောင်း မှတ်တမ်းရှိ၏။

ကျမ်းကိုး။ ရွှေကူကြီးစေတီ ရင်ပြင်၌ ရွှေကူကျောင်းတွင် သီတင်းသုံးခဲ့ကြသော ဆရာတော်များ၏ ထေရုပ္ပတ္တိအကျဉ်းကို ကျောက်စာကမ္ပည်းရေးထိုး စိုက်ထူထားရာ ဆရာတော်ဦးစန္ဒောဘာသ၏ ထေရုပ္ပတ္တိအကျဉ်း။

**ပဓာန ဆရာတော်**

ခါတော်မှိကျောင်းသို့ ရောက်ရှိ၍ မကြာမီပင် ဆရာတော် ဦးသုနန္ဒက ခါတော်မှိကျောင်းကို ဦးစန္ဒောဘာသအား လွှဲအပ် သာသနာပြုစေသဖြင့် ပဓာနနာယက ဆရာတော် ဖြစ်လာသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၂

**မေတ္တာ ဘာဝနာ ပဋ္ဌာန်း**

ဆရာတော်သည် ဆွမ်းခံဝတ်ကို ဖြည့်ကျင့်၍ ဥပုသ်ပဝါရဏာပြုခြင်း ကိစ္စ၌ မြဲမြံစွာ ကျင့်တော်မူသည်။ ကြီးလေးသော ဂရုက အာပတ်များကို စင်ကြယ်စေတော်မူသည်။ မေတ္တာဘာဝနာကို နေ့ည မပြတ် ထုံမွှမ်း၍ ပဋ္ဌာန်းပရိတ်ရွတ်ဖတ် သရဇ္ဈာယ်ခြင်းကိုလည်း လေ့ကျက်တော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၂

**အမြဲ ပုတီးစိပ်**

အမြဲတစေ ပုတီးစိပ်၍ ရွှေတိဂုံ၊ ကျိုက်ထီးရိုး၊ မဟာမြတ်မုနိဘုရားများအား မကြာခဏ အဖူးအမြော် ထွက်ကာ ဆွမ်း၊ ပန်း၊ ရေချမ်းကပ်လှူခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၂

**နှစ်စဉ် တရားစခန်း ဖွင့်**

နှစ်စဉ် သင်္ကြန်ကာလ (၇) ရက် တရားစခန်းဖွင့်၍ တရားဓမ္မ ပြသတော်မူသည်။ နှစ်စဉ် မွေးနေ့ရက်ရောက်တိုင်း ဝိဇာတပူဇော်ပွဲ ကျင်းပ၍ မိမိရရှိထားသော လာဘ်လာဘများကို ပေးစွန့် လှူဒါန်းသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၂

**စူဠာမဏိ စေတီတော် ဘာကြောင့် တည်သည် လူတိုင်းမသိ**

ကျောင်းဝင်းအဝင်ဝ၌ ဖူးတွေ့ခဲ့ရသော စူဠာမဏိစေတီမှာ ဆရာတော်ကြီး သာမဏေဘဝကပင် ဆန္ဒရှိတော်မူခဲ့သည့်စေတီဖြစ်သည်။ အလောင်းတော် သိဒ္ဓတ္ထမင်းသား တောထွက်သောအခါ နေရဥ္စရာမြစ်၊ အနော်မာသောင်အနီး ကမ်းခြေ၌ အဓိဋ္ဌာန်ပြုကာ ပစ်တင်လိုက်သော ဆံတော်အား သိကြားမင်းခံယူ၍ စူဠာမဏိစေတီတည် ဌာပနာပြုခဲ့ခြင်းကို အကြောင်းပြု တည်ဆောက်ခြင်း ဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၃

**တာဝတိံသာ နတ်ပြည်က စေတီ**

အေဒီ ၂၀၀၆ ၁၃၆၈ ခုနှစ်၊ ကဆုန်လပြည့်နေ့ နံနက်တွင် ပန္တက်တင် မင်္ဂလာ ကျင်းပတည်ဆောက်ကာ ၁၃၆၈ ခုနှစ်၊ တပေါင်းလပြည့်နေ့ နံနက်တွင် ဌာပနာပိတ်ပွဲ ဆင်ယင် ကျင်းပရန် စီစဉ်ခဲ့သည်။ စေတီတော်မှာ တာဝတိံသာနတ်ပြည်၌ ကိန်းဝပ်တော်မူသည်ကို ရည်ညွှန်း၍ တံခွန်တိုင်ခံ၍ တိုင်ထိပ်တွင် စေတီပေါက်ထားသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၃

http://www.dhammadownload.com



အေဒီ ၂၀၀၆ ဥပုသ်ပိတ်ရန် အစီအစဉ်ကို ညွှန်ကြားပြီးနောက် ဥပုသ်တော်များ ပင့်ဆောင်ရန် တပေါင်း လဆန်း (၅) ရက်နေ့၌ ဆရာတော်ကိုယ်တိုင် မန္တလေးသို့ ကြွတော်မူသည်။

**အမည်မသိ ဒါယိကာမ**

မန္တလေး ဘုရားကြီးအနီး နန္ဒိသေနာရာမတိုက် အဋ္ဌမအုတ်ကျောင်း၌ တည်းခိုသီတင်းသုံးကာ ဥပုသ်အတွက် ဘုရားကြီးစောင်းတန်းဈေးသို့ ကြွရာ၌ အမည်မသိ ဒါယိကာမ တစ်ဦးက ရုပ်ပွားတော်တစ်ဆူ လှူဒါန်းစဉ် ဆိုင်ရှင်ကလည်း ထိုနည်းတူ လှူဒါန်း လေသည်။

**ဥပုသ်များ မိုးကုတ်သို့ ပင့်**

အေဒီ ၂၀၀၆ တပေါင်းလဆန်း (၁၀) ရက်နေ့တွင် ဥပုသ်ပစ္စည်းများကို မိုးကုတ်သို့ ပင့်ဆောင်ရန် မင်းတဲတား ရပ်နေ ဦးမောင်ငယ်အား အပ်နှံစေခိုင်းသည်။

**နောက်တစ်နေ့ ခန္ဓာဝန်ချ**

အေဒီ ၂၀၀၆ ဆရာတော်က ပြန်လည် လိုက်ပါသွားခြင်းမရှိဘဲ နောက်တစ်နေ့ တပေါင်းလဆန်း (၁၁) ရက်နေ့ နံနက် (၈) နာရီတွင် ခန္ဓာဝန်ချ၍ ဘဝဇာတ် အဆုံးသတ်တော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၄

**ကြိုသိ**

ဆရာတော်ကြီး၏ နောက်ဆုံး နေ့ရက်များ၌ မိန့်ကြားချက်များအရ ပျံလွန်မည့်အချိန်ကို ကြိုတင် သိရှိကာ မရဏာနုဿတိ ကမ္မဋ္ဌာန်းကို နှလုံးသွင်း စီးဖြန်းတော်မူကြောင်း တပည့်အရင်းများက ခန့်မှန်းကြသည်။

**ကြိုသိ၍ မိန့်ကြားသော စကားများ ထူးဆန်း**

အေဒီ ၂၀၀၆ မန္တလေးသို့ မကြွမီ ရက် (၂၀) ခန့်အလို ၁၃၆၈ ခုနှစ်၊ တပို့တွဲလဆန်း (၁၄) ရက်နေ့တွင် ကျောင်းရှိ ရဟန်း သာမဏေ ကျောင်းသားများအားလုံး စုဝေးစေလျက် တစ်ဦးလျှင် နဝကမ္မ (၃၀၀၀) ကျပ်၊ သက်န်းတစ်စုံ ထီးတစ်လက်၊ ဖိနပ်တစ်ရန်စီ လှူတော်မူ၍ "ဦးပဥ္စင်းတို့ ကျောင်းတိုက်ကိုလဲ လွှဲအပ်ပြီးပြီ။ ငါ့မှာ ကိုယ်ခန္ဓာနဲ့ သက်န်းတစ်စုံသာ ရှိတော့တယ်။ ငါက ပြောမှားဆိုမှားရှိရင် ခွင့်လွှတ်ကြ။ မင်းတို့ ပြောတာဆိုတာ မှားခဲ့ရင်လည်း ငါက ခွင့်လွှတ်ပါ တယ်။ ငါ့မှာ ဘာသံယောဇဉ်မှ မရှိတော့ဘူး" ဟု မိန့်ကြားသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၅

ထို့နောက် မြို့မရပ်မှ ဦးဝင်းထိန်၏ ကားဖြင့် ကသည်း အနောက်ကျောင်းသို့ သွားကာ ကသည်း ဆရာတော်ကြီးအား ကန်တော့သည်။

**နောက်ဆုံးကန်တော့ခြင်းဆိုသော စကား ထူးဆန်းစွာ မိန့်ကြား**

"တပည့်တော် နောက်ဆုံး လာရောက် ကန်တော့ခြင်းပါ ဘုရား။ တပည့်တော်ကျန်းမာရေး မကောင်းလှပါ" ဟု လျှောက်တင်သည်။ အလားတူပင် လင်းရောင်ခြည်ဆရာတော်နှင့် တပ်ဦး ကျောင်း ဆရာတော်တို့ကိုလည်း သွားရောက်နှုတ်ဆက်ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၅

**စူဠာမဏိစေတီအတွက် စီစဉ်ခဲ့**

စူဠာမဏိစေတီ ဥပုသ်ပိတ်ရန် စီစဉ်ပေးပြီး မန္တလေးသို့ ကြွချီကာ ဥပုသ်ပစ္စည်းများ ပင့်ဆောင်ရာတွင်လည်း တပေါင်းလဆန်း (၁၀) ရက်နေ့၌ ဥပုသ်ပစ္စည်းကို လူလွှဲ၍ ပို့ဆောင် ကာ ကိုယ်တော်တိုင် လိုက်ပါခြင်းမရှိသဖြင့် မိုးကုတ်မှ တပည့် ဒါယကာများ ဖုန်းဖြင့် မေး

http://www.dhammadownload.com



လျှောက် ကြရသည်။ ထိုအခါ ဆရာတော်က "ငါ နေကောင်းတယ်။ ငါတော့ မိုးကုတ်ကို ပြန် မလာတော့ဘူး။ မင်းတံတားရွာက စည်ကားတော့မယ်။ ဌာပနာတော်ကို တပေါင်းလပြည့်နေ့မှာ အပြီး ပိတ်လိုက်ကြ" ဟူ၍ ပြန်ဖြေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၅

**ထူးဆန်းသော စကား(၁)လုံး**

ဆရာတော်ကြီး၏ အခန်း၀ ၊ အ၀င်၀ တံခါးထိပ်တွင် ရေးထားသည့်စာမှာ အလွန်ထူးခြားလေသည်။

**"သိ"**

**ထူးဆန်းသော အချက်တစ်ချက်**

အေဒီ ၂၀၀၃ — ၁၃၆၅ ခု၊ ဝါခေါင်လပြည့်ကျော် (၁၀) ရက်၊ သောကြာ၊ ရက်ရာဇာနေ့။ နေ့ (၃) နာရီ၊ (၃၀) မိနစ်၊ အချိန် (၄) ချက်သိ။

အေဒီ ၂၀၀၃ — သိ - လဆန်း (၁) ရက်၊ နေ့ (၁) နာရီ (၃၅) မိနစ် ဆုတောင်းဆုံး၊ (၈) ရက်နေ့ (၂) နာရီ ရုပ်နာမ် ပြန်ကြည့်။

**ထူးဆန်းသော စကားများ**

အေဒီ ၂၀၀၃ — ၁၃၆၅ ၊ သိ-ဆန်း (၉) ရက်၊ နံနက် (၆) နာရီ (၃၀) မိနစ်၊ စနေနေ့။

ဖြစ်၊ ပျက်၊ ချုပ်၊ ငြိမ်၊ သိ (၅) ချက်သိ။

ဖြစ်၊ ပျက်၊ ချုပ်၊ ငြိမ်း၊ ကုန်၊ မရှိ၊ သိ (၁၂) နာရီနေ့။

၁၊ ၂၊ ၃၊ ၄၊ ၅၊ ၆၊ ၇ ချက်သိ။

အေဒီ ၂၀၀၃ — သီတင်းကျွတ်လဆန်း (၁၄) ရက်၊ ည (၁) နာရီ (၃၅) မိနစ်၊ ကြာသပတေး။

(ကျမ်းကိုး၊ ရတနာမြေ တောင်ယံကြောမှ မဟာထေရ် အရှင်စန္ဒော ထံတော်ပါးဆီသို့ (၄)ဆရာတော်အခန်းမှ မှတ်တမ်းစာများ၊ (နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ ဒီဇင်ဘာ ၂၀၀၇၊ အမှတ် ၂၅၇ ၊ စာမျက်နှာ - ၉၇)

**ကျောင်းတံခါးအတွင်းမှာလည်း ထူးဆန်းသော စကားများရှိ**

ဆရာတော် သီတင်းသုံးသောကျောင်းတွင် တံခါးအတွင်းဘက်ရှိစာမှာ အောက်ပါအတိုင်းဖြစ်၏။

အေဒီ ၂၀၀၀ — ၁၃၆၂ ခု၊ တန်ခူးလ အရဟံသိဒ္ဓိ အောင်ပြီ။

အေဒီ ၂၀၀၁ — ၁၃၆၃ ခု၊ နတ်တော်လဆန်း (၁၃) ရက်၊ ည (၁၂) နာရီ (၃၅) မိနစ် ရဟန္တာ အောင်စေရမည်။

**နံနက် အိပ်မက်**

ကဆုန်လဆန်း (၃) ရက်၊ အင်္ဂါနေ့။ မွှိတွေ အများကြီး ရတယ်။

အေဒီ ၂၀၀၂ — ၁၃၆၄ ခု၊ နတ်တော်လပြည့်ကျော် (၄) ရက်၊ တနင်္လာနေ့၊ ည (၁၁) နာရီ (၂၂) မိနစ် သိဒ္ဓိစာတ်လုံး ရသည်။ အာဘုဇိတ္တာ ထိုးထွင်း။ န လ ဘတိ ပညာ။ ရုပ်နာမ် အကျန်ပေါ်

အေဒီ ၂၀၀၃ — ၁၃၆၅ ခု၊ ကဆုန်လဆန်း (၃) ရက်၊ စနေနေ့၊ နံနက် (၄) နာရီ မထိုးမီ အကျန်ပေါ် ရက်ရာဇာ၊ စနေနေ့။ ဉာဏ်ပေါ် ပွင့်။

ဝါခေါင်လဆုတ် (၆) ရက်။ သောကြာနေ့ (၄) နာရီ။ ပထဝီ ၄ သိပျက်၊ အာရုံ ၆ ပါး၊ သိပျက်၊ ဓာတ် ၆ ပါး သိပျက်။ အာယတန ၆ ပါး သိပျက်။ လ အားလုံးပေါ် ရာ သိပျက်။ ရုပ်နာမ် သိပျက်။

http://www.dhammadownload.com



**မသိသူကျော်သွား သိသူဖော်စား စကားများ**

စာရွက်အချို့မှ ရရှိသော မှတ်တမ်းမှာ အောက်ပါအတိုင်း အထူးအဆန်း ဖြစ်၏။ သိသူ ဖော်စား မသိသူ ကျော်သွား ပါပဲဟု ဆိုသင့်၏။

အေဒီ ၁၉၆၆ ၁၃၂၈ ခု၊ တော်သလင်းလဆန်း (၃) ရက်၊ ညဦး (၁၂) နာရီခွဲ ကြာသပတေးနေ့။

အိပ်မက်ရ ဂါထာ

**အ ဣ တ ရ ဿ ဝေ ဝေါ သု လော စ**

အေဒီ ၁၉၆၆ ၁၃၂၈ ခု၊ တပေါင်းလဆန်း (၁) ရက်၊ စနေနေ့ (၂) ချက် ထိုးဖို့ (၅) မိနစ်အလို မီးကျီးခဲပေါ် အစွမ်းပြ ရသည်။

ဖြစ် ပျက် သိ

ရှေ့က ဖြစ်ပျက် နောက်က မင် နာမ်ရုပ်သုဉ်းလျှင် နိဗ္ဗာန်ပင်။

ခန္ဓာငါးပါးကို သာယာခဲ့လို့ ရှိရင်ဖြင့် သမုဒယနဲ့ ဒုက္ခဖြစ်မယ်။

ဒီခန္ဓာငါးပါးကို အပြစ် ရှုနိုင်လို့ရှိရင် နိရောဓနဲ့ မဂ္ဂဖြစ်မယ်။

အထက်ပါတို့မှာ ဆရာတော်၏ အိပ်ရာခုတင်အနီးတွင် ဆရာတော်လေ့လာ ဖတ်မှတ်ခဲ့သော စာအုပ်များကို ယခင်အတိုင်း အပြည့်အစုံ ပြသထားသည်။

**ဆရာတော် ဖတ်ခဲ့သော စာအုပ်များ**

ကနီဆရာတော်၏ ပါရဂူကျမ်းများ၊ မိုးကုတ် ဆရာတော်၏ ဝိပဿနာ အလုပ်တရားများ စာအုပ်များ၊ ကြောင်ပန်းတောရ ဆရာတော်၏ ခန္ဓာပူရဟောစဉ်၊ လယ်တီ ဆရာတော်ကြီး၏ တပည့် ဦးနန္ဒိယရေးသည့် ဝိပဿနာ လက်စွဲ၊ တောင်ငူ ဦးမင်္ဂလ၏ ဝိဇ္ဇာ အလင်းရောင် ဝိပဿနာကျမ်း စသည်ဖြင့် နည်းနာ စုံလင်လှပါသည်။

ကျမ်းကိုး၊ ရတနာမြေ တောင်ယံကြောမှ မဟာထေရ် အရှင်စန္ဒော ထံတော်ပါးဆီ သို့ (၄) ဆရာတော်အခန်းမှ မှတ်တမ်းစာများ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ဒီဇင်ဘာ ၂၀၀၇၊ အမှတ် ၂၅၇ ၊ စာမျက်နှာ - ၉၈။

**ဆရာတော့် အလေ့အထများ**

ဆရာတော်သည် ခန်းမအတွင်းရှိ ဘုရား၊ ရုပ်ပွားတော်များကို ဆွမ်း၊ ရေချမ်း၊ ပန်းများ ဆက်ကပ်သည် သာမက ခုတင်ခေါင်းရင်းတွင်လည်း ဘုရားစင်လုပ်ကာ နေ့စဉ် ဝတ်မပျက် ဆည်းကပ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၈

**ဆုံးမခဲ့သော စကားများ**

"အကြောင်းကိစ္စရှိလို့ အိမ်ကထွက်ရင် ဘုရားကို ကန်တော့ပြီးမှ သွားကြ။ ခရီးက ပြန်ရောက် လာရင်လည်း ဘုရားကို အရင်ဦးတိုက်ကြ" ဟု အမြဲ မှာလေ့ရှိလေသည်။

**ကျိုက်ထီးရိုးဘုရား သွားဖူးကြဟု တိုက်တွန်းခဲ့**

ဆံတော်ရှင် ကျိုက်ထီးရိုး စေတီကိုလည်း အကြိမ်ကြိမ် ဖူးမြော်ရန် တိုက်တွန်းတတ်သေးသည်။ ထိုမျှမကသေး မိမိကိုယ်တိုင်လည်း မည်သို့ မည်ပုံ အကျိုးထူးပုံကို ဖွင့်ဟ မိန့်ကြားခဲ့ပါသေး သည်။

"ငါ ငယ်ငယ်လေးကတည်းက ကျိုက်ထီးရိုးဘုရားကို မကြာမကြာ သွားရောက်ဖူးမြော်တယ်။ ကျိုက်ထီးရိုးက ပြန်လာရင် နေကောင်းသွားတော့တာပဲ" ဟု မိန့်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၈

http://www.dhammadownload.com



**ဆရာတော်၏ နည်း**

အေဒီ ၂၀၀၆ ဆရာတော်၏ သကြံန် (၈) ရက် တရားစခန်း၌ ပထမ (၃) ရက်ကို သမထနည်းဖြင့် ရှုမှတ်ပြီးမှသာ ကျန်လေးရက်တွင် ဝိပဿနာစခန်းသို့ တက်လှမ်းရသည်ဟု သိရသည်။

**ဆရာတော်၏ အဆုံးအဖြတ်**

ဆရာတော်၏ မှတ်တမ်းတစ်ခုအရ ဆရာတော်၏အဆုံးအဖြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

အေဒီ ၂၀၀၇ "ငါတို့ သမထလမ်းက ကြာတယ်။ ရှည်တယ်။ အရှည်ကို ကြောက်လာပြီ"

**ခန္ဓာဝန်ချတော်မူခြင်း**

အေဒီ ၂၀၀၆ ၂၀၀၆-ခုနှစ်၊ မတ်လ (၉)ရက်၊ ၁၃၆၇-ခုနှစ်၊ တပေါင်းလဆန်း (၁၁) ရက်၊ ကြာသပတေးနေ့ နံနက် (၈) နာရီတွင် ခန္ဓာဝန်ချ၍ ဘဝဇာတ် အဆုံးသတ်တော်မူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၄

ကျမ်းကိုး၊ မိုးကုတ်မြို့ မင်းတံတားရပ်မှ ဓာတ်တော်ကျသည်ဆိုသော ခါတော်မှိကျောင်းဆရာတော်၊ ထက်မင်းကျော်စွာ၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ စက်တင်ဘာလ၊ ၂၀၀၇ ခု၊ အမှတ် ၂၅၄၊ စာမျက်နှာ - ၁၂၁

ကျမ်းကိုး၊ ရတနာမြေ တောင်ယံကြောမှ မဟာထေရ် အရှင်စန္ဒော ထံတော်ပါးဆီသို့ (၄) ဆရာတော်အခန်းမှ မှတ်တမ်းစာများ၊နက္ခတ္တရောင်ခြည် မဂ္ဂဇင်း၊ ဒီဇင်ဘာ ၂၀၀၇၊ အမှတ် ၂၅၇ ၊ စာမျက်နှာ - ၉၈

ကျမ်းကိုး၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အောက်တိုဘာ ၂၀၀၇၊ အမှတ် ၂၅၅ ၊ စာ- ၁၂၁

ကျမ်းကိုး၊ လျှပ်တစ်ပြက်ဂျာနယ်၊ စာမျက်နှာ ၃၅၊ စိုးမြင့်အောင်၊ ပြန်/ဆက်။

စွန်းလွန်း ရဟန္တာအရှင်မြတ်ကြီး ထေရုပ္ပတ္တိစာအုပ်ကို ဖတ်မိ၍ ကျင့်ကြံခဲ့သောကြောင့်
သက်တော် (၃၀) ကျော်တွင် ရဟန္တာဖြစ်တော်မူသည်ဟု
ဝေဘူဆရာတော် အရှင်မြတ်နှင့် မဟာစည်ဆရာတော် အရှင်မြတ်တို့ ကိုယ်တော်တိုင်
အသိအမှတ်ပြုတော်မူသော ဓာတ်တော်များ ထူးခြားဆန်းကြယ်စွာ တဖွားဖွားကျတော်မူသည့်

# ဆားတောင် ရဟန္တာအရှင်မြတ် ဦးပညာဇောတိက

**၁၉၂၅ – ၂၀၀၇**



http://www.dhammadownload.com



သက်တော်(၃၀)မှာ ရဟန္တာ ဖြစ်တော်မူသတဲ့၊ သက်တော် (၈၃)မှာ ခန္ဓာဝန်ချတော်မူသတဲ့။ ပရိနိဗ္ဗာန်ပြုတော်မူသတဲ့၊ ဒီတော့ ရဟန္တာဖြစ်တော်မူတာ နှစ်ပေါင်း (၅၀)ကျော်ကျော် ကာလပတ်လုံး မဖူးလိုက်ရတာ နာတယ်လို့ ဟိုနေရာ ဒီနေရာမှာ ပြော၍ ပြော၍ နေကြသော ကြောင့် လိုက်လံ မေးမြန်း စုံစမ်းကြသော ဆရာတော်ကြီးဖြစ်ပါသည်။

**ခေတ်ပြိုင် မှတ်တမ်းများ**

ကြည်း ၁၂၆၇၄ ဒုတိယဗိုလ်ချုပ်ကြီး ဆန်းဆင့်၊ စစ်ရာထူးခန့်ချုပ်၊ ကာကွယ်ရေးဝန်ကြီးဌာနမှ မေတ္တာလက်ဆောင် မှတ်တမ်းများရရှိသဖြင့် ဆရာတော်ကြီး၏ ထေရုပ္ပတ္တိကို ပြည့်ပြည့်စုံစုံကြီး သိရပါသည်။

ဆရာတော်ဘုရားကြီး၏ ဓာတ်ပုံ (၃)ပုံ၊ ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိကျင့်စဉ် (၃)အုပ်၊ ဆုတောင်းပြည့်ဆရာတော်ဘုရားကြီးအကြောင်း (၂)အုပ်၊ ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ နှင့်ကိုယ်တွေ့ဖြစ်ရပ်များ (၁)အုပ်၊ မုံလယ်ဆရာတော်ဘုရားကြီး ခန္ဓာဖွဲ့၊ သစ္စာဖွဲ့၊ ပဋိစ္စသမုပ္ပါဒ် တရားတော် (၂)အုပ်၊ ဆရာတော်ကြီး ဦးကိတ္တိဝရ၏ ပုံတော် (၁)ပုံ၊ နိဗ္ဗိန္ဒကျောင်းတိုက် အမျှဝေ နည်း (၁)ရွက်၊ ဆုံးမသြဝါဒလက်ကမ်းစာစောင် (၁၅)စောင်၊ ပိပိပြင်ပြင် ဗုဒ္ဓဝင် (၁)ရွက်ကို ၂၈-၁၀-၂၀၀၈ ခုနှစ်တွင် လက်ခံရရှိသဖြင့် ဆားတောင်ဆရာတော်ဘုရားကြီးအကြောင်းကို အားရပါးရကြီး ရေးခွင့်ရပါတော့သည်။

**ဆားတောင်ကျောင်းတိုက် တည်ရာဌာန**

ဆားတောင်ကျောင်းတိုက်သည် ကသဲကုန်းကျေးရွာတွင်ရှိသည်။ ထိုသို့ရှိသော်ငြား ကသဲကုန်း သွားမည်မပြော၊ ဆားတောင် သွားမည်ဟုသာပြောသည်။ ဆရာတော်ဘုရားကြီး၏ ဆားတောင် ပဋိပတ္တိကျောင်းတိုက်ကြီးကို အစွဲပြုပြီး ထိုသို့ပြောကြခြင်း ဖြစ်သည်။

> ကျမ်းကိုး၊ ကျေးဇူးတော်ရှင် ဆားတောင်ဆရာတော်ဘုရားကြီး သို့မဟုတ် ကြည်လင်အေးမြ နွေးလှစွာသော အရိပ်အဝန်းတစ်နေရာ၊ တက္ကသိုလ်တင်ဟန်ကျော်၊ သူရဋ္ဌမဂ္ဂဇင်း၊ ၂၀၀၈ ခုနှစ်၊ စက်တင်ဘာလ ၊ စာ - ၇၇။

**ငယ်မည် မောင်လတ်ဟုခေါ်**

ဆားတောင် ဆရာတော်ဘုရားကြီး၏ ငယ်နာမည်သည် မောင်လတ်ဖြစ်သည်။

**မွေးသက္ကရာဇ်နှင့် မိဘနှစ်ပါး**

အေဒီ ၁၉၂၅ ဆားတောင် ဆရာတော်ဘုရားကြီး အလောင်းအလျာမောင်လတ်အား ခမည်းတော် ဦးငွေဒင်၊ မယ်တော် ဒေါ်ပြောင်းမယ်တို့မှ မြန်မာနှစ် ၁၂၈၇ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၁၄ ရက် ကြာသပတေးနေ့ နေ့လယ် နှစ်နာရီအချိန်တွင်မွေးဖွားသန့်စင်သည်။

**ဇာတိရပ်ရွာ**

မန္တလေးနှင့် ရွှေဘိုကားလမ်းရှိ ဆားတောင်မ ငါးရွာ၊ မုဋ္ဌောလေးဆူ၊ ဘူးကန်လေးဆင့် ရွှေယင်ဆည်ဘုရားတို့ နှင့် သာယာအေးချမ်းသော ဆားတောင်ရွာသည် ဆရာတော်ဘုရား ကြီး၏ ရွှေချက်တော်သိုရာ ဇာတိဖြစ်သည်။

**ထူးဆန်းသော အိပ်မက်**

ဆရာတော်လောင်းလျာ ပဋိသန္ဓေ နေအုံဆဲဆဲတွင် အမိ ဒေါ်ပြောင်းမယ်၌ ထူးခြားသော အိပ်မက်မြင်မက်ခဲ့သည်မှာ -

အေဒီ ၁၉၂၅ တစ်ခုသော နံနက် အရုဏ်တက်ချိန်တွင် အမိဒေါ်ပြောင်းမယ်ထံသို့ ဆင်မကြီးနှင့် ဆင်ထီးလေး

http://www.dhammadownload.com



တစ်ကောင် ရောက်လာခဲ့သည်။ ဆင်မကြီးက 'သားပြန်ကြစို့ရဲ့' ဟု ဆင်ထီးလေး ကို ခေါ်ရာ ဆင်ထီးလေးက 'ပြန်မလိုက်နိုင်တော့ဘူး။ ကျုပ်ဒီမှာပဲ နေခဲ့တော့မယ်' ဟု ပြောပြီး မိခင်ဒေါ်ပြောင်းမယ်၏ လက်ယာနံပါးက ဖောက်လျက် ဝမ်းကြာတိုက်မှာ ဝင်နေခဲ့သည်ဟု အိပ်မက် မြင်မက်ခဲ့သည်။ ထို့နောက် နတ်သားတစ်ပါး ရောက်လာပြီး ဝမ်းကြာတိုက်အတွင်းသို့ ပတ္တမြား သွတ်သွင်းလိုက်သည်ဟုဆိုကာ ပျောက်ကွယ်သွားပုံအိပ်မက်မြင်မက်ပြန်သည်။ ထိုအိပ်မက်များ မြင်မက်ပြီးနောက် ဆရာတော်လောင်းလျာကို ပဋိသန္ဓေတည်ခဲ့သည်ဟု ဆိုပါသည်။

ကျမ်းကိုး၊ ဝိဋ္ဌာ၊ ၂၀၀၈ ၊ မတ်လ ၊ စာမျက်နှာ - ၈၃

**ရှစ်နှစ်သားအရွယ်က**

အေဒီ ၁၉၃၃ — မောင်လတ် ရှစ်နှစ်သားအရွယ်ရောက်သော် သင်းတွဲရွာထိပ်ရှိ ကြာကန်ဆရာတော်ဘုရားထံ ပညာသင်ကြားရန် အပ်နှံသည်။

**၁၂-နှစ်သား အရွယ်က**

အေဒီ ၁၉၃၇ — (၁၂)နှစ်သားအရွယ်တွင် ကြာကန်ဆရာတော်အား ဥပဇ္ဈာယ်ပြု၍ သာမဏေဝတ်သည်။ သာမဏေ နှစ်ဝါအရတွင် လူထွက်သည်။ မိဘများကို ကူညီလုပ်ကိုင်ပေးလို၍ဖြစ်သည်။

**သာမဏေ ဘဝ**

အေဒီ ၁၉၄၀ — ၁၅နှစ်သားအရွယ်တွင် ဆားတောင်ရွာမစိုးရိမ်ကျောင်းတိုက် ဆရာတော်ဦးဇဋိလထံ သာမဏေ ဝတ်ပြန်သည်။

**၁၇-နှစ်သား ဘဝ**

အေဒီ ၁၉၄၂ — ၁၇နှစ် အရွယ်၌ ပထမငယ်တန်းအောင် မြင်သည်။

**ရဟန်း ဘဝ**

အေဒီ ၁၉၄၅ — မြန်မာနှစ် ၁၃၀၇ ခုနှစ်၊ ဝါဆိုလတွင် ဆားတောင်ရွာ ရွာဦးကျောင်းဆရာတော် ဦးတေဇအား ဥပဇ္ဈာယ်ပြု၍ မြင့်မြတ်သော ရဟန်းဘဝသို့ ရောက်တော်မူသည်။ ဘွဲ့တော် အရှင်ပညာဇောတက ဖြစ်သည်။

**ကျန်းမာရေးမကောင်း၍ စာမကျက်နိုင်တော့ချေ**

အေဒီ ၁၉၅၄ — ၁၃၁၆ ခုနှစ်တွင် ကျန်းမာရေးကြောင့် စာဝါများ ဆက်မလိုက်နိုင်တော့ချေ။

**စွန်းလွန်းမဟာထေရုပ္ပတ္တိဝယ်ဖတ်၍ အားတက်ခဲ့**

စွန်းလွန်းဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိနှင့် ကျင့်စဉ်စာအုပ်ကိုဖတ်မိရာမှ သမ္ပဓာန် ကျင့်စဉ် အတိုင်း ပဋိပတ္တိသာသနာ့ဝန်ထမ်းဆောင်တော်မူသည်။ မလျှော့သောဇွဲဖြင့် တရား ဘာဝနာ ကိုသာမပြတ် အားထုတ်တော်မူသည်။

**ဝါဒပြန့်**

အေဒီ ၁၉၅၅ — ၁၃၁၇ ခုတွင် အရှင်ပညာဇောတကသည် ဆားတောင် ပဋိပတ္တိသာသနာ့ရိပ်သာတွင် တရားပြကာ ပဋိပတ္တိကျင့်စဉ်သာသနာကို ပြန့်ပွားအောင်ဆောင်ရွက်တော်မူသည်။

**ကျောင်းပြောင်း**

အေဒီ ၁၉၆၉ — ၁၃၃၁ ခုနှစ်တွင် စဉ့်ကိုင်မြို့နယ် ကသဲကုန်းကျေးရွာ မင်းရွာကုန်းကျောင်းသို့ပြောင်းရွှေ့ သီတင်းသုံးတော်မူသည်။

ကျမ်းကိုး၊ ကျေးဇူးတော်ရှင် ဆားတောင်ဆရာတော်ဘုရားကြီး သို့မဟုတ် ကြည်လင်အေးမြ ရွေးလှစွာသော အရိပ်အဝန်းတစ်နေရာ၊ တက္ကသိုလ်တင်ဟန်ကျော်၊ သူရဋ္ဌမဂ္ဂဇင်း၊ ၂၀၀၈ ခုနှစ်၊ စက်တင်ဘာလ ၊ စာ - ၁၀။

http://www.dhammadownload.com



ဆရာတော်ဘုရား စတင်အားထုတ်စအချိန် အားထုတ်ပုံအားထုတ်နည်းသည် ကြည်ညို အားကျဖွယ်ဖြစ်ပုံမှာ ဤသို့ဖြစ်သည်။

**စတင်အားထုတ်ပုံ**

ဆရာတော်ဘုရားသည် နေ့ဘက်အချိန်၌ အမှတ်သတိဖြင့် ကျင့်သုံးနေထိုင်၍ ရဟန်းငယ်၊ သာမဏေငယ်များအတွက် ပရိယတ္တိတာဝန် ထမ်းဆောင်တော်မူသည်။

**(၆)နာရီကစ**

ညဘက်အချိန် (၆)နာရီမှစ၍ တင်ပျဉ်ခွေ ထိုင်တော်မူလျက် ဘာဝနာစခန်းသို့ တက်လှမ်းတော်မူရာ နံနက်လင်းသည်အထိပင်။

**မိုးလင်းမှ ပြီး**

နံနက်လင်းသော် ဘာဝနာစခန်းဖြုတ်တော်မူ၍ ထမ်းဆောင်ဖွယ် ခန္ဓာဝန်တို့ကို ထမ်းဆောင်ပြီး သောအခါ သက်နှံရုံပြီး ဆွမ်းခံကြွတော်မူသည်။ ဆွမ်းခံကြွရာတွင်လည်း အမှတ်သတိဖြင့်သာ လှမ်းကြွတော်မူခြင်းဖြစ်သည်။

**ဝီရိယ အရှင်သခင် ဖြစ်ခဲ့**

ဤကျင့်စဉ်အတိုင်း နှစ်ချီကျင့်သုံး အားထုတ်တော်မူသည်။ ထို့ကြောင့်ပင် ကျေးဇူးတော်ရှင် ဝေဘူဆရာတော်ဘုရားကြီးသည် ဆားတောင်ဆရာတော်ဘုရားနှင့် စပ်လျဉ်း၍ ခေါ်ဝေါ်သုံးစွဲရာ၌ "ဝီရိယအရှင်သခင်"ဟူ၍ တင်စားသုံးနှုန်းတော်မူခဲ့ခြင်း ဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၁

**မဟာစည် ဆရာတော် ကြွလာခဲ့**

အေဒီ ၁၉၅၆ — မြန်မာနှစ် ၁၃၁၈ ခု၊ ဝါဆိုလဆန်း ၁၃ ရက်၊ နံနက် (၈)နာရီအချိန်တွင် ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးသည် ဆားတောင်ဆရာတော် ဦးပညာဏိက၏ အဖူးအမြော်ကို ခံယူတော်မူရန်ဆားတောင်ရွာသို့ ကြွရောက်တော်မူလာသည်။

အေဒီ ၁၉၅၇ — ထိုစဉ်က ဝယ်ယူရရှိသော စွန်းလွန်းထေရုပ္ပတ္တိ စာအုပ်ကလေးမှာ တန်ဖိုးနှစ်ကျပ်မျှသာ ရှိ၏။ ရန်ကုန်မြို့ အထက် ပုဇွန်တောင် ရေကျော်လမ်းမှ ထုတ်ဝေ၏။ ထုတ်ဝေသူမှာ ဘောက်ထော်ဂူကျောင်းဒါယကာ ဦးတင်ဖေ ဆိုသူဖြစ်၏။ ထိုနှစ်ကျပ်တန် စာအုပ်ကလေးကို ဖတ်ပြီး ရဟန္တာ ကိုယ်တော်မြတ်ကြီး ဖြစ်သွားတော်မူ၏။ သာသနာတော်ကြီး ၅၀၀၀ ဆိုသော စကားသည် ဘုရားရှင် ဗျာဒိတ်တော် ဖြစ်၏။ မှန်နေကြောင်း မသိသူတို့ သိစေရန် သက်သေဖြစ်၏။

**အရိယာဘဝ ပထမအဆင့်ရောက်**

အေဒီ ၁၉၅၇ — ၁၃၁၆ ခု၊ ဝါဆိုလမှ စတင်အားထုတ်တော်မူရာ တန်ဆောင်မုန်းလတွင် ပုထုဇဉ် အနွယ်ကို ဖြတ်တောက်၍ အရိယာဘဝ၏ ပထမအဆင့်သို့ တက်လှမ်းရောက်ရှိခဲ့သည် ဟု သိမှတ်ရပါသည်။ ထူးဆန်းသောအိပ်မက်များဖြင့် တရားလမ်းသည် ဆက်၍ဆက်၍ ပွင့်လင်းလာခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၃

**နတ်မင်းကြီး (၄)ပါး ကြွလာ**

စတုမဟာရာဇာ နတ်မင်းကြီးလေးပါးပင် ကြွရောက်လာပြီး တရားအဆင့် မြင့်သထက် မြင့်အောင် ကျင့်ဆောင်ပါရန် တောင်းပန်လျှောက်ထားကြသည်။

http://www.dhammadownload.com



**(၁)နှစ် ကြာသောအခါ ရဟန္တာကြီး ဖြစ်တော်မူခဲ့**

ဤသို့ဖြင့် တစ်နှစ်ပတ်လည် အချိန်ကြာသောအခါ မြတ်သော အကျင့်၏ ထူးသောအမြင်ဖြင့် ဇာတိဘေးကြီးကို အပြီးအပိုင် ဖြတ်တောက်နိုင်ခဲ့ပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၄

အေဒီ ၂၀၀၇ — ၁၃၂၃ ခုနှစ်မှာ ပုပ္ပားဦးပဏ္ဍဝက ပင့်လျှောက်လို့ ပုပ္ပားမှာ သီတင်းသုံးတော် မူခဲ့သေးတယ်။ တပေါင်း၊ တန်ခူး၊ ကဆုန် သုံးလကြာတယ်။ အဲဒီတုန်းက ပုပ္ပားမယ်တော်က လူ့အသွင် ဖန်ဆင်းပြီး ဆရာတော်ကြီးကို သစ်သီးဆွမ်း နေ့စဉ်လာကပ်တယ်။ ပြီးတော့ ဆရာတော်ကြီးကို ဝက်သား မစားစေဖို့လည်း ပုပ္ပားမယ်တော်က အလှူခံတယ်လို့ သိရတယ်။ ဆရာတော်ကြီးလည်း ပုပ္ပားမယ်တော်အကြိုက် လိုက်လျောခွင့်ပြုလိုက်ပြီး အဲဒီအချိန်ကစပြီး ဝက်သားမစားတော့ဘူး။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၉

အေဒီ ၂၀၀၇ — ကျေးဇူးတော်ရှင် ဆားတောင်ဆရာတော်ဘုရားကြီးသည် (၁၄. ၁၁. ၂၀၀၇) နေ့တွင် ခန္ဓာဝန်စွန့်ပျံလွန်တော်မူကြောင်း မြန်မာ့အလင်းသတင်းစာတွင် ဖတ်မှတ်ခဲ့ရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၁

**ခန္ဓာဝန်ချတော်မူသောအခါ**

ကျောင်းတိုက်အတွင်း၌ ဆရာတော်ဘုရားကြီးသက်တော်ထင်ရှားရှိတော်မူစဉ် သီတင်းသုံးတော်မူခဲ့သည့်အတိုင်း ခင်းကျင်းထားရှိသည်။

**အမှတ်တရ**

ဆရာတော်ဘုရားကြီးခန္ဓာဝန်ချတော်မူစဉ် ရင်ခွဲရန် အသုံးပြုခဲ့သော ခုတင်ကိုလည်း အမှတ်တရ ထိန်းသိမ်းပူဇော်ထားသည်။

**သွေးစိမ်းရှင်ရှင် ထွက်**

ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်အား ရင်ခွဲသောအခါ သွေးစိမ်းရှင်ရှင်များ ထွက်ကျလာသည်။

**သွေးတော်က ဓာတ်တော်ဖြစ်**

ထွက်ကျလာသော သွေးတော်များကို ရေသန့်ဘူး သန့်သန့်ဖြင့် ခံယူထားရာ မကြာမီမှာပင် ထို ရေသန့်ဘူးအတွင်း ဓာတ်တော်များ ဖြစ်ပေါ်နေသည်ကို ဖူးတွေ့ကြရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈၄

**ငယ်စဉ်ဘဝက မဟာထေရုပ္ပတ္တိကို လေ့လာခြင်း**

**(၃)တန်းအထိ ပညာသင်**

ငယ်စဉ်က သင်းတွဲရွာ၊ မြူနီစပါယ်မူလတန်းကျောင်း ဆရာကြီး ဦးစံတင်ထံတွင် (၃)တန်းအထိ ပညာသင်ကြားခဲ့ပြီးနောက် ကြာကန်ဆရာတော်ကျောင်းသို့ ပြောင်းရွှေ့ ပညာသင်ကြားခဲ့သည်။

**၁၂-နှစ်သားမှာ ကိုရင်ဖြစ်**

အေဒီ ၁၉၃၇ — ၁၂ နှစ်သားအရွယ်တွင် ဦးဌေးဒင်၊ ဒေါ်ပြောင်းမယ်တို့၏ ပစ္စယာနုဂ္ဂဟဖြင့် သင်းတွဲရွာ၊ ကြာကန် ဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေအဖြစ်သို့ ရောက်ခဲ့သည်။ ဘွဲ့မည်မှာ ရှင်ပညာဏိက ဖြစ်သည်။

**လူထွက်ပြီး တောင်သူဘဝရောက်**

အေဒီ ၁၉၃၉ — ရှင်ပညာဏိက ကြီးစားသင်အံ စာကျက်လို့ကောင်းဆဲ အရှိန်ရနေစဉ် (၂)ဝါအရတွင် အခွင့်မသာတော့၍ ရှင်လူထွက်ပြီး မိဘများနှင့်အတူ မိရိုးဖလာတောင်သူဘဝဖြင့် လုပ်ကိုင်နေထိုင်

http://www.dhammadownload.com



သည်။ ပေါင်းသင်၊ ဂျုံရိတ် အစရှိသည့် အရွယ်နှင့်မမျှသော အလုပ်များကို အချိန်မလပ် လုပ်ကိုင်သည်။ မိဘများ စိတ်ချမ်းသာမှုဖြစ်စေရန် မညည်းမညူ ဝိုင်းကူလုပ်ကိုင် ပေးလေသည်။

ကျမ်းကိုး၊ ထိ - သိ - သတိ ဆားကောင်ဆရာတော်ဘုရားကြီး၏ထေရုပ္ပတ္တိနှင့် ကိုယ်တွေ့ဖြစ်ရပ်များမနောမယပတ္တမြား၊ သာသနာ ၂၅၅၀၊ ကောဇာ ၁၃၆၈၊ ခရစ်နှစ် ၂၀၀၆၊ စာ၁၀

**၁၅-နှစ်သားမှာ ကိုရင်ပြန်ဝတ်**

အေဒီ ၁၉၄၀ ၁၅ နှစ်သားအရွယ်တွင် ဆားဘောင်ရွာ ၊ မစိုးရိမ်တောကျောင်းဆရာတော် ဦးဇဋိလထံတွင် ရှင်သာမဏေ ပြန်ဝတ်ခဲ့သည်။

**၁၇-နှစ်သားမှာ ပထမငယ်အောင်**

အေဒီ ၁၉၄၂ မစိုးရိမ်တောကျောင်းနှင့် မန္တလေးတောင်ပြင် ပခန်းကျောင်း၌ စာဝါ သင်ကြားပြီး ၁၇ နှစ်အရွယ်တွင် ပထမငယ်တန်း အောင်မြင်ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁

**၂၀-မှာ ရဟန်းဖြစ်**

အေဒီ ၁၉၄၅ အသက် (၂၀)ပြည့်သောအခါ မြင့်မြတ်သောရဟန်းဘဝသို့ ကူးပြောင်းရန် ဆုံးဖြတ်ပြီး ဖခင်ကြီးထံ ရဟန်းခံပေးရန် ခွင့်ပန်ပြောကြားခဲ့သည်။ သားကို မြင့်မြတ်သည့် ရဟန်းဘဝသို့ ချီးမြှင့်ပေးရန် ဆားတောင်ရွာဦးကျောင်းဆရာတော်ကို လျှောက်ထား တောင်းခံခဲ့သည်။ ဆားတောင်ရွာဦးကျောင်းဆရာတော် ဦးတေဇက ဥပဇ္ဈာယ်ပြု၍ ချီးမြှင့်ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂

**ဦးပညာဏိက ဘွဲ့တော်ရ**

အေဒီ ၁၉၄၅ ၂၂-၆-၁၉၄၅၊ ၁၃၀၇ ခုနှစ်၊ ဝါဆိုလဆန်း (၁၃)ရက်၊ နံနက် (၈)နာရီ အချိန်တွင် ဆားတောင်ရွာ၊ ရွာဦးကျောင်း ဆရာတော် ဦးတေဇ ဥပဇ္ဈာယ်ပြု ချီးမြှင့်မှုဖြင့် မြင့်မြတ်သော ရဟန်းအဖြစ်သို့ ရောက်ရှိခဲ့သည်။ ဘွဲ့တော်အမည် ဦးပညာဏိကဟုပင် ဆရာတော်က မိန့်ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၃

**အသက် (၃၀)မှာ မယ်တော်ကွယ်လွန်**

အေဒီ ၁၉၅၃ (၁၃-၂-၁၉၅၃) ၁၃၁၄ ခုနှစ် ၊ တပေါင်းလဆန်း (၁)ရက်နေ့တွင် မယ်တော်ဒေါ်ပြောင်းမယ် ကွယ်လွန်ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၃

**အသက် (၂၉)မှာ ခြေတရွတ်ဆွဲ ရောဂါဖြစ်**

အေဒီ ၁၉၅၄ ၁၃၁၆ ခုနှစ် မှစ၍ စာဝါများ သင်ကြားနေစဉ် ရဟန်း ၉ ဝါအရတွင် ပရိယတ္တိအရှိန် ရပ်တန့်ရန် ဘဝအကြောင်းက ဖန်လာခဲ့ပြီး ခြေတရွတ်ဆွဲရောဂါ ဖြစ်ပေါ်ခဲ့သည်။

**စာ ဆက်မသင်နိုင်တော့ဘဲ လမ်းစဉ်ပြောင်း**

စာဝါများ ဆက်မလိုက်နိုင် တော့ဘဲ ဝေဒနာနှိပ်စက်မှုကြောင့် စာဆက်သင်ရန် မဖြစ်နိုင်တော့သဖြင့် ပရိယတ္တိမှ ပဋိပတ္တိသို့ ပြောင်း၍ ကြိုးစားရန် ဆရာတော် စဉ်းစားရတော့သည်။

**စွန်းလွန်း ထေရုပ္ပတ္တိဖတ်ရ၍ အားကျ**

အေဒီ ၁၉၅၄ ဦးပြုံးချို၏ တိုက်တွန်းချက်အရ (၁၆-၇-၁၉၅၄) ၁၃၁၆ ခုနှစ် ၊ ဝါဆိုလပြည့်ကျော် (၁)ရက်နေ့မှ စ၍ စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိနှင့်ကျင့်စဉ်များကို

http://www.dhammadownload.com



ကြည့်ရှု၍ လည်းကောင်း၊ မဟာဗောဓိရိပ်သာ ကျင့်စဉ်နည်းကို ကြည့်ရှုလေ့လာ၍လည်းကောင်း ဆက်လက် ကြိုးစား ကျင့်ကြံအားထုတ်တော်မူသည်။

**စာအုပ် (၁)အုပ်၏ တန်ဖိုး**

အေဒီ ၁၉၅၄

ငွေတန်ဖိုး မဟုတ်ပါ။ စိတ်ဓာတ်တန်ဖိုး ဖြစ်ပါသည်။ ပါရမီ တန်ဖိုးဖြစ်ပါသည်။ စွန်းလွန်း ဆရာတော်ဘုရား၏ ထေရုပ္ပတ္တိနှင့် ကျင့်စဉ်စာအုပ်ကို ဖတ်ရှုပြီး ထိုသို့ကြိုးစား လျှင်ဖြစ်နိုင်သည်ကို ဖတ်ရင်းဖတ်ရင်း သိရှိအားတက်လာခဲ့သည်။ မဖြစ်မနေ ကြိုးစားမည်ဟု သန္နိဋ္ဌာန်ချကာ ကြိုးစားအားထုတ်တော့သည်။

**ည (၆)မှ နံနက် (၆)အထိ အားထုတ်**

ညနေ (၆)နာရီမှစ၍ ဣရိယာပုထ် လုံးဝမပြောင်းလဲဘဲ တစပ်တည်း သတိကပ်အောင် ကြိုးစား၍ နောက်တစ်နေ့နံနက် (၆)နာရီအထိ အားထုတ်တော်မူသည်။ တရားဖြုတ်သည့် အချိန်တွင်လည်း ရွာထဲဆွမ်းခံကြွသည်မှအစ အထွေထွေအမှတ် သတိကပ်၍ တစပ်တည်း အားထုတ်ခဲ့သည်။

ပထမ သမာဓိဖြစ်သော အာနာပါနနည်းဖြင့် (၁၀)ရက်တိုင်တိုင် အားထုတ်တော်မူပြီး ဝိပဿနာတရားကို ကူးပြောင်း၍ အားထုတ်တော်မူသည်။

ကျမ်းကိုး။ ယင်းကျမ်း၊ စာ-၁၄

**ဆရာတော့် နည်း**

သမာဓိတရား ပြည့်စုံသည်နှင့် နှာသီးဖျားမှာ ထိသိ နေရာမှ ၊ မှတ်စိတ်ကလေးကို ဦးခေါင်းအလယ် ဗဟိုဖြစ်သော ငယ်ထိပ်ပေါ်သို့ ပြောင်းကာ ရှုမှတ်လျက် ဖြစ်ပျက်သဘောကို ဆင်ခြင်သည်။ ငယ်ထိပ်မှနေ ရှုမှတ်ရင်း၊ ခန္ဓာကိုယ်တစ်ခုလုံး ခြေဖျားသို့ကျအောင်၊ ခြေဖျားမှ ဆံဖျားသို့ အပြန်ပြန်အလှန်လှန် အထက်၊ အောက် ဖြစ်ပျက်သဘောနှင့် ဝိပဿနာတရားကို ကူးပြောင်းလျက် နေ့ညမပြတ်တရစပ်အားထုတ်လေသည်။

**တရစပ် အားထုတ်ခဲ့**

အသက်ကို ဘုရားထံမှာ စွန့်လွှတ် လှူဒါန်းလျက်၊ အရိုးကျေကျေ၊ အရေခန်းခန်း၊ မလျှော့တမ်းဟူသော ဇွဲ၊ တရားမရလျှင် မနေဟူသော သတ္တိထူးဖြင့် အသက်ကို ပဓာနမထားဘဲ ကမ္မဋ္ဌာန်းတရားကို တစ်ရက်မှ မလစ်လပ်စေရဘဲ အားထုတ်တော်မူခဲ့ပါသည်။

> ကျမ်းကိုး။ ပင်းသင်းရပ် ရွှေပန်းထိမ်ဆရာကြီး ဦးရင်မောင်စုဆောင်းပြုစုထားသည်များကို တင်ပြထားသည့်အပြင် ကျင့်ကြံအားထုတ်မှုနှင့်စပ်၍ ရန်ကုန်ရှိ ဆရာတော်ဘုရားကြီး၏ ဒါယကာများဖြစ်ကြသော ဦးမောင်ဒွေး၊ ဦးနီတွတ်၊ စဥ့်ကိုင်ကသဲကုန်းရွာရှိ (ဦးကုလား) တို့က မေးလျှောက်ထားကြသည့် အသံသွင်းတိတ်ခွေမှ ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆။

**ထိုင်ရင်းနဲ့ လဲကျသွား**

ဆရာတော်ဘုရားက မဟာပလ္လင်နဲ့ ထိုင်ရင်းနဲ့အားထုတ်တာ လဲကျသွားတာတောင်မဖြုတ်ဘူးတဲ့။

ကျမ်းကိုး။ ဆားတောင်ရွာက အရိုးမြပြောချက်။ ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆

**ကိုယ်တိုင် ပြောကြားချက်**

အင်း အားထုတ်တာကတော့ နေ့မှာတော့ အမှတ်နဲ့ပဲ နေတာများပါတယ်။ ကလေးတွေကို စာပြခိုင်းတာ ပြီးတဲ့အချိန်မှာ ညမှာတော့ (၆)နာရီခွဲ (၇)နာရီလောက်ကနေပြီး၊ တင်ပျဉ်ခွေ ထိုင်ပြီး အားထုတ်တာ ကျိန်းတယ်လို့ မရှိပါဘူး။

http://www.dhammadownload.com



**မနက်လင်းတော့**

နံနက်လင်းသည်နှင့် တစ်ပြိုင်နက်တည်း ကိုယ်လက်ဆေးကြောသုတ်သင်ချင်လို့သာပဲ မျက်နှာသစ်တာ၊ မျက်နှာသစ်စရာတယ်မလိုဘူး။

**ဆွမ်းခံထွက်**

အဲဒီကနေပြီး ဆေးကြောသုတ်သင်ပြီး မကြာခင်ပဲ၊ သပိတ်သက်နန်းရုံပြီး ဆွမ်းခံထွက်တယ်၊ အမှတ်နဲ့ပဲသွား ပြန်လာသည့်တိုင်အောင် အမှတ်နဲ့ပဲ၊ ဘုရားပါ ဆွမ်းတော်ကပ်ပြီး ကလေးတွေစာပြ၊ တစ်နေ့လုံး လိုလိုပဲဆိုပါတော့၊ ဒီလိုပဲအမှတ်နဲ့ ပဲနေတယ်။

**(၁)နှစ် တိတိအားထုတ်ခဲ့**

"အရှင်ဘုရား ဘယ်နှနှစ်လောက် အားထုတ်ခဲ့ရပါသလဲ ဘုရား" ဟု လျှောက်ထားသောအခါ "အားထုတ်တာကပေါ့ (၁)နှစ် ကျော်ကျော်ပါပဲ" ဟု ကိုယ်တော်တိုင် မိန့်တော်မူခဲ့၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆

**ရဟန္တာကြီး (၂)ပါး ကြွလာခဲ့**

အေဒီ ၁၉၅၆ ဝေဘူဆရာတော်နှင့် မဟာစည်ဆရာတော်သို့ ကြွရောက်သည့် (၂၀-၇-၁၉၅၆) ၁၃၁၈ ခုနှစ်၊ ဝါဆိုလဆန်း (၁၃)ရက် အကြောင်းအရာကို မှတ်တမ်းတော်များများတွင် တွေ့ရှိရပါသည်။

**ဝေဘူဆရာတော် ကြွလာခဲ့**

ဝေဘူဆရာတော်ဘုရားကြီး၏ ဒါယကာများက ဝေဘူဆရာတော်ဘုရားကြီး ကြွလာမည့်အကြောင်း စာရေးအကြောင်းကြားရာ ယင်းစာကို ဆရာတော်ဘုရား၏ ဒါယကာများက ဆားတောင်ဆရာတော် ဘုရားကြီးအား ပြသကြပါသည်။

စာကိုဖတ်ပြီး ဆားတောင်ဆရာတော်ဘုရားကြီးက "ဝေဘူဆရာတော်ဘုရား သာမက မဟာစည် ဆရာတော်ဘုရားလည်း ကြွလာလိမ့်မယ်၊ ဒါယကာတို့ ပြင်ဆင်ထားကြ" လို့ မိန့်ကြားတော် မူပါသည်။

ဒါယကာများက "နှစ်ပါးအတူတူ ကြွလာတော်မူကြမှာလားဘုရား" လို့ ပြန်လျှောက်ကြရာ ဆရာတော် ဘုရားကြီးက "မဟုတ်ဘူး၊ တစ်ပါးစီ လာကြလိမ့်မယ်" ဟု မိန့်တော်မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈

ဝေဘူဆရာတော်ဘုရားကြီး၏ တပည့်ထံမှသာ စာရပြီး မဟာစည်ဆရာတော်ဘုရားကြီး၏ တပည့်ထံမှ စာမရပါ။ သို့သော် ဆရာတော်ကြီး မိန့်သဖြင့် ပြင်ဆင်ထားကြပါသည်။

**တစ်နေ့တည်း ရဟန္တာကြီး (၂) ပါး ကြွလာ**

အေဒီ ၁၉၅၆ ထို့နေ့ ၁၃၁၈ ခုနှစ်၊ ဝါဆိုလဆန်း (၁၃)ရက်နေ့တွင် ဝေဘူဆရာတော်ဘုရားကြီးနှင့် မဟာစည် ဆရာတော် ဘုရားကြီးတို့ ဆားတောင်ဆရာတော်ဘုရားကြီးထံ ကြွလာကြရာ တစ်ချိန်တည်း မဟုတ်ပေမယ့် တစ်နေ့တည်း တစ်ပါးနှင့်တစ်ပါး အဝင်အထွက်လွဲရုံလောက်သာ ကြွလာပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈

**ဆဋ္ဌသင်္ဂါယနာ တင်ချိန်ဖြစ်**

ထိုအချိန်သည် ဆဋ္ဌသင်္ဂါယနာ တင်နေသောအချိန်ဖြစ်သည်။ ထို့ကြောင့် ထူးခြားပါသည်။

**အသက် (၃၀)မှာ ရဟန္တာဖြစ်**

အေဒီ ၁၉၅၅ ဆားတောင်ဆရာတော်သည် သက်တော်ငယ်ငယ် ၃၀ အရွယ်တွင် ရဟန္တာကြီးအဖြစ် တရားထူးရကာ သာသနာတော်ကြီး ပွင့်ပေါ်ထွန်းခဲ့၏။

http://www.dhammadownload.com



**ညှော်သည်တွေများလွန်းလို့**

အဝေးမှ လာရောက် ဖူးမြော် ကန်တော့သူများ များပြားလွန်းသဖြင့် မဏ္ဍပ်ကြီးများထိုးကာ အဖူးမြော် ခံနေရလေသည်။

**ပွဲဈေးတန်းတောင်ပြစ်**

ဖူးမြော်သူများ တစ်နေ့တခြား များပြားလှပေသည်။ ထိုအချိန်က ဆားတောင်ရွာကြီးတွင် လနှင့်ချီ၍ ပွဲလမ်းသဘင်ရှိသကဲ့သို့ ပွဲဈေးတန်းမှာ စည်ကားနေတော့၏။

**မဟာစည်ဆရာတော် ကြွလာတော်မူခဲ့**

အေဒီ ၁၉၅၆ — ၁၃၁၈ ခုနှစ်၊ ဝါဆိုလဆန်း ၁၃ရက်၊ နံနက် (၈)နာရီအချိန်တွင် မဟာစည်ဆရာတော်ဘုရားကြီးသည် ဆိပ်ခွန်ကျေးရွာမှ ရန်ကုန်မဟာစည်ရိပ်သာသို့ ဝါဆိုရန်အကြွတွင် ဆားတောင်ဆရာတော်ဦးပညာဏိကထ တပည့်နောက်ပါ သံဃာတော်များနှင့် ကြွရောက်လာ၏။

**ဆားတောင်က သတင်းထူး**

အေဒီ ၁၉၄၅ — ၁၃၁၇ ခုနှစ်၊ နှစ်ကုန်ခါနီးအချိန်မှစ၍ ဆားတောင်ဆရာတော်ဘုရားကြီး၏ ဂုဏ်သတင်းမှာ တစ်ဆင့်စကား တစ်ဆင့်ကြားဖြင့် ကျော်ကြားလာခဲ့ရာ ဆားတောင်နယ်တစ်ခွင် စည်ပင်၍ ရပ်ဝေး ရပ်နီးမှ လှည်းများ၊ ကားများနှင့် လာရောက်ဖူးမြော်သူများဖြင့် စည်ကားနေခဲ့ပါသည်။

**ရွှေဘိုဆားတောင်က ရဟန္တာတဲ့ သတင်းစာထဲပါ**

အေဒီ ၁၉၅၇ — (၁၁-၆-၁၉၅၇) ၁၃၁၉ ခု၊ နယုန်လဆန်း (၁၄)ရက်နေ့တွင် ဘုန်းကြီးဦးမာယသည် စွန်းလွန်းရိပ်သာသို့တရားစခန်း သွားရောက်ဝင်စဉ်က ရွှေဘိုဆားတောင်တွင် အသက်(၃၀) အရွယ် ရဟန္တာဟု သမုတ်သည့် ရဟန်းတစ်ပါးရှိကြောင်း သတင်းစာထဲတွင် ပါသည်ကို ဖတ်ရှုခဲ့ရကြောင်း။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၃

**ရဟန္တာက ဆေးလိပ်သောက်သတဲ့**

ထိုအခါက ရဟန္တာဟု ကျော်ကြားသော ထိုဆားတောင်ဆရာတော်သည် ဆေးလိပ်လှူဒါန်းသည်ကို ဆေးလိပ်သောက်သဖြင့် ရဟန္တာဆေးလိပ်သောက်ကြောင်း မမြင်ဖူးသောကြောင့် အကျော်တစောဖြစ်ကာ ရဟန္တာ ဆေးလိပ်သောက်သတဲ့ဟု အချို့က ပြောကြကြောင်း ဝန်ခံချက် ဖတ်ရှုရပါသည်။

ကျမ်းကိုး။ ယခု သက်တော် ၉၀ရှိ သီလရှင်ဆရာကြီး၏ ဝန်ခံပြောဆိုချက် ဖြစ်သည်။

**ကိုယ်တွေ့ ပြောပြချက်**

ကသဲကုန်းရွာတွင် ပြန်ပြောပြသဖြင့် ရွာမှ သွားရောက်ဖူးလိုသူများ တစ်ယောက်နှစ်ကျပ်ဖြင့် ငွေစုပြီး ကား(၅)စီး ငှားကာ သွားရောက်ခဲ့ကြပါသည်။ ထိုစဉ်က ဆရာတော် ဘုရားအား လာရောက်ဖူးသူ များပြားလှ၍ ဆားတောင်ရွာတွင် မဏ္ဍပ်များ၊ ပွဲဈေးတန်းများဖြင့် စည်ကားနေသည်။

**ဝန်ကြီးချုပ်ဟောင်း ဦးနုနှင့် ဗိုလ်ချုပ်အောင်ဆန်း၏ ဇနီး ဒေါ်ခင်ကြည် လာဖူး**

ဆရာတော်ထံတွင် ဒေါ်အေးမယ် သီလရှင်ဝတ်နေစဉ် ဝန်ကြီးချုပ်ဦးနုနှင့် ဒေါ်ခင်ကြည် (ဗိုလ်ချုပ်အောင်ဆန်း၏ ဇနီး) ဆားတောင်သို့ လာရောက်ဖူးမြော်ပြီး ရန်ကုန်သို့ ပင့်ကြောင်း ဝန်ကြီးချုပ်က ထိုစဉ်က တစ်လ ၅၀၀ ကျပ် လှူဒါန်းခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၄

http://www.dhammadownload.com



**ပဋိပတ္တိသာသနာ ထွန်းကားအောင် ဖြန့်ဖြူးခဲ့**

အေဒီ ၁၉၆၃

ဆရာတော်သည် ၁၃၂၅ ခုနှစ်မှ ၁၃၅၇ ခုနှစ်အထိ ဆားတောင်၊ ရန်ကုန်၊ မော်လမြိုင်၊ ခရမ်း၊ ဘိုကလေး၊ တောင်ကြီး၊ မန္တလေး၊ ရန်ကင်းတောင်ရိပ်သာ၊ စဥ့်ကိုင်မြို့နယ်၊ ကသဲကုန်းကျေးရွာ၊ မင်းရွာကုန်းကျောင်း စသည့် မြန်မာပြည်အနှံ့ တစ်လှည့်စီ ဝါဆိုသီတင်းသုံးလျက်ရှိပြီး ပဋိပတ္တိသာသနာကို ဖြန့်ဝေခဲ့ပါသည်။

**သာသနာပြု ခရီးစဥ် တချို့**

ဆားတောင် ဆရာတော်ဘုရားကြီး ဦးပညာဇောတိက သည် မူလက စစ်ကိုင်းတိုင်း၊ စစ်ကိုင်းမြို့နယ်၊ ဆားတောင်မှာ သီတင်းသုံးပြီးနောက် မန္တလေးတိုင်း၊ စဥ့်ကိုင်မြို့နယ်၊ ကသဲကုန်း မင်းရွာကုန်းကျောင်း ရိပ်သာ၊ မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ ရန်ကင်းတောင်ခြေ ဆားတောင် ပဋိပတ္တိသာသနာ့ရိပ်သာ စသည်တို့မှာ သီတင်းသုံးတော်မူပြီး၊ ရန်ကုန်မြို့သို့လည်း ရံဖန်ရံခါ ကြွတော်မူသည်။

**ဆရာတော့်တရားပွဲများ**

အေဒီ ၁၉၇၁

၁၃၃၃ ခုနှစ် ဝန်းကျင်တွင် ဆရာတော်သည် ဦးစိန်မင်း ဦးဆောင်ပင့်၍ ရန်ကုန်မြို့ ရုပ်ရှင်ကောင်စီဝင် ဒေါ်ခင်မျိုးချစ်၏ အေဝမ်းခြံ၊ ကမ္ဘာအေး စွန်းလွန်းကျောင်း၊ မြို့မကျောင်းလမ်း ဦးစိန်မင်း၏တိုက်၊ သစ်တောဓမ္မာရုံ၊ မီးရထားဓမ္မာရုံ၊ ဦးစန်းယုဓမ္မာရုံ၊ အင်းလေးဓမ္မာရုံ စသည်တို့အပြင် မော်လမြိုင်၊ ဘိုကလေး၊ လားရှိုး၊ ကသာ၊ ထီးချိုင့်၊ ကောလင်း တို့သို့လည်း ကြွရောက်တရားချီးမြှင့်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၅

**မော်လမြိုင်လည်းရောက်ခဲ့**

အေဒီ ၁၉၇၄

၁၉၆၈ ခုနှစ် နှင့် ၁၉၇၄ ခုနှစ်တွင် ရန်ကုန်မြို့ (၇)မိုင်စွန်းလွန်းရိပ်သာမှ ဆရာတော်ဦးဝိနယ၏ ပင့်လျှောက်ချက်အရ မော်လမြိုင်မြို့ ဈေးချိုတောင်ဝိုင်းရပ် စွန်းလွန်းဂူကျောင်းသို့လည်း ကြွရောက်ချီးမြှင့်ပေးခဲ့သည်။

**ရွှေတိဂုံဘုရား ခြေရင်း**

အေဒီ ၁၉၈၈

၁၉၈၈ ခုနှစ်၊ မတ်လတွင် ဒေါ်သန်းသန်းတင်နှင့် ဒေါ်မြတ်ဆွေတို့၏ ပင့်လျှောက်ချက်အရ ရွှေတိဂုံဘုရားခြေရင်းရှိ ပင်လည်ဘူးဓမ္မာရုံသို့ တစ်ပတ်ခန့် ကြွရောက်ချီးမြှင့်ပေးခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၅

**သက်တော်ကြီး၍ ဆေးကုစခဲ့အခါက**

အေဒီ ၁၉၉၄

၁၉၉၄ နှင့် ၁၉၉၆ ခုနှစ်အတွင်း ဦးတင်နွယ်နှင့် ဒေါ်ချိုတို့၏အိမ်၊ ဒေါ်အေးအေးဝင်း၏ ပင့်လျှောက်ချက်အရ ဦးစံငြိမ်း၏ နေအိမ်များသို့ UHC နှင့် စစ်ဆေးရုံတို့တွင် ဆေးကုသ စစ်ဆေးမှုခံယူရန်အတွက် ကြွရောက်သီတင်းသုံးခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၆

**နှလုံးသွေးကြော (၃)ချောင်း ခွဲစိပ်ခဲ့**

အေဒီ ၁၉၉၆

၁၃၅၈ ခုနှစ်၊ သီတင်းကျွတ်လဆန်း (၂)ရက်နေ့၊ ၁၉၉၆ ခုနှစ် အောက်တိုဘာလ (၁၄)ရက်နေ့၊ တနင်္လာနေ့က စင်္ကာပူနိုင်ငံမှ ဒေါက်တာ မစ္စတာဂျိုးဇက်ရှီးရား ဦးဆောင်ပြီး (၁၇)ဦးအဖွဲ့နှင့် ရန်ကုန်မြို့၊ မင်္ဂလာဒုံစစ်ဆေးရုံမှ နှလုံးအထူးကု ဆရာဝန်ကြီး ဒုတိယဗိုလ်မှူးကြီး ဒေါက်တာ အောင်ကျော်ဇေ (ယခု ဗိုလ်မှူးကြီး)၊ နှလုံးခွဲစိပ်ကု ဆရာဝန်ကြီး ဒုတိယဗိုလ်မှူးကြီး ဒေါက်တာ

http://www.dhammadownload.com



တင်မောင်အေး (ယခုဗိုလ်မှူးကြီး) ဒေါက်တာဒေါ်မူရာ၊ မေ့ဆေးဆရာဝန်ကြီး ဒုတိယဗိုလ်မှူးကြီး ဦးမောင်မောင်မြင့်၊ စက်ာပူမှ မေ့ဆေးဆရာဝန်ကြီး ဒေါက်တာဂျော့လင်းတို့အဖွဲ့က ဆရာတော်ဘုရားကြီး၏ နှလုံးသွေးကြောကျဉ်းနေသော သွေးကြောသုံးချောင်းကို ခွဲစိပ်ကုသပေးခဲ့ကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၆

ဆရာတော်ဘုရားကြီး၏တူ ဦးသန်းဆွေ (မင်းဆယ်တင်)၊ ယနေ့တိုင် နေ့ဆွမ်းမပျက် ကသဲကုန်းရွာသို့ ဆွမ်းကပ်ဝေယျာဝစ္စကုသိုလ်ယူနေသော ကိုအောင်ထွန်းခိုင် (စဉ့်ကိုင်မြို့)၊ ဦးစိုးသောင် (ပန်းချီဝါသနာရှင်)၊ ဦးဇော်သိန်း (ခေတ်လွန်ပရိဘောဂ မန္တလေး)နှင့် ကိုကျော်ကျော် (ဦးခင်ကျော်၊ ကထိက၊ ရူပဗေဒဌာန၊ ဆေးတက္ကသိုလ် (၂) တို့က ဆရာတော်ဘုရားကြီး ဆေးရုံ၌ သီတင်းသုံးစဉ် ရက်လများအတွင်း ပြုစုကုသိုလ်ယူခွင့်များ ရရှိခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၆

အေဒီ ၁၉၉၈ ၂-၁၂-၁၉၉၈ ရက်နေ့တွင် ရန်ကုန်မြို့ မင်္ဂလာဒုံလေယာဉ်ကွင်းအနီးရှိ ဗိုလ်မှူးကြီးကိုကိုမောင် (လေ)၏ နေအိမ်အသစ်သို့ ဆရာတော်ဘုရားကြီး ကြွရောက်ချီးမြှင့်သီတင်းသုံးခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၈

**သက်န်းရိုက်ခတ်သံ လေဟပ်**

ဆရာတော်ဘုရားကြီး သီတင်းသုံးစဉ်ရက်အတွင်း ဆရာတော်ဘုရားကြီး၏တပည့်ဖြစ်သော ဦးမောင်ဌေးမှ သူ၏အိမ်တွင် ကိုးကွယ်ထားသော ဆရာတော်ဘုရားကြီးချီးမြှင့်ထားသည့် ဆံတော်ပုလင်းအား စာရေးသူ၏အိမ်သို့ ခေတ္တပူဇော်ခွင့်ပြုသဖြင့် ပင့်ဆောင်ခဲ့ရာ ထိုနေ့ည စာရေးသူ၏ သမီးကြီး၊ သားကြီး၊ သမီးငယ်(၃)ဦးတို့က ဆံတော် ကို ဝိပဿနာတရားဖြင့်ပူဇော်ပြီး ဆရာတော်ဘုရားကြီးကြွရောက်ချီးမြှင့်ရန် အဓိဋ္ဌာန်ကြရာ ထိုင်နေစဉ်အတွင်း သားကြီးမောင်သက်ဆွေ၏နံဘေးမှ ဖြတ်လျှောက်သွားသကဲ့သို့ သင်္ကန်းရိုက်ခတ်သံ၊ လေဟပ်သကဲ့သို့ ခံစားရပြီးနောက် တရားဖြုတ်ပြီးချိန်တွင် သမီးငယ်မှ ဆံတော်ထည့်ထားသောပုလင်းအား ထောင့်ပေါင်းစုံမှ ဓာတ်ပုံရိုက်ခဲ့ပါသည်။

**ဓာတ်ပုံထဲက ပုံရိပ်**

နောက်တစ်နေ့ ဓာတ်ပုံရရှိသည့်အခါတွင် ဓာတ်ပုံထဲတွင်တွေ့ရသော အနီရောင်ပုံရိပ်အား ဆရာတော်ဘုရားကြီးအားပြသ၍ "ဘုန်းဘုန်း တပည့်တော်တို့အိမ်ကို မနေ့ညက ကြွရောက်ချီးမြှင့်ပေးပါသလားဘုရား" ဟု လျှောက်ကြည့်ရာ "ဟုတ်ပါ တယ်"ဟု ပြန်လည်မိန့်ကြားခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၈

**ကိုယ်တွေ့ ထူးခြားချက်များ**

ဒေါ်လှကြည်၏ညီမ ဒေါ်လှရီ၊ ယခုအသက် (၇၂)နှစ်ကလည်း သူ၏မျက်မြင်ကိုယ်တွေ့ ထူးခြား ဖြစ်ရပ်တစ်ခုကိုပြောပြပါသည်။

**ရေကန်ထဲ ခုန်ချစဉ်က နောက်မှလှမ်းခေါ်**

အေဒီ ၁၉၇၂ လွန်ခဲ့သော (၃၃)နှစ်ခန့်က ဆားတောင် ဆရာတော် ဘုရားကြီးထံတွင် တရားနာ၊ တရားလျှောက်နေစဉ် တူမဖြစ်သူ ဒေါက်တာနန္ဒာမောင်(ခ)ခင်နွဲ့သည် မလှမ်းမကမ်းရှိ ရေကန်ဘက်ဆီသို့ လျှောက်သွားပြီး ရေကန်ထဲခုန်ချမည်ပြုနေစဉ် ဆရာတော်ဘုရားကြီးမှ တူမအမည်ကို

http://www.dhammadownload.com



ခေါ်၍ "လာခဲ့" ဟု ခေါ်လိုက်၍ ဒေါ်လှရီ တရားလျှောက်နေသည့် ဆရာတော်ရှိရာ နေရာသို့ရောက်လာပြီး "ဆရာတော်ဘုရား တပည့်တော်ကိုခေါ်ပါသလား" ဟု လျှောက်လိုက်ရာ "အင်း" ဟု ခေါင်းညိတ်လိုက်သဖြင့် တအံ့တသြဖြစ်ကြရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၇

ဒေါ်လှရီမှာလည်း ၎င်းအားတရားချီးမြှင့် နေစဉ် အချိန်တစ်ခုအတွင်း တူမဖြစ်သူကို ရေကန်ထဲ ခုန်မချဖြစ်အောင် တစ်ချိန်တည်း၊ တစ်ပြိုင်တည်းဆောင်ရွက်လိုက်ခြင်းကို ထူးခြားအံ့ဖွယ်ဖြစ်၍ လွန်စွာကြည်ညိုခဲ့ရကြောင်း ပြောပြပါသည်။

**ဆရာတော့် ဆံတော်များ**

ဆားတောင်ဆရာတော်ဘုရားကြီး ဆံချသည့်အခါတိုင်း ဆရာတော်၏ဆံပင်တော်များကို တပည့် များ မျှဝေယူကြပြီး ပုလင်းများအတွင်း ထည့်သွင်းပူဇော်ထားကြပါသည်။ ပုလင်းတွင်း၌ ဆရာတော်၏ ဆံပင်စများစုလုံးနေပြီး အချို့မှာ ဓာတ်တော်များဖြစ်နေသည်ကို မြင်တွေ့နေရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၇

**ဆုတောင်းသလိုဖြစ်**

အချို့ဒါယကာ၊ ဒါယိကာမများ၏ နေအိမ်ရှိ ဆံတော်တို့သည် တစ်လုံးတည်း ဖြစ်ပါစေဟု ဆုတောင်းသည့်အခါ တစ်စုတစ်လုံးတည်း ဖြစ်သွားပြီးနောက် ထပ်ပြီး (၂)လုံးခွဲပါစေဟု ဆုတောင်းသည့်အချိန်တွင် (၂)လုံးခွဲသွားသည်များရှိသည်ကို ကိုယ်တွေ့ဒါယကာ၊ ဒါယိကာမ များက ထူးခြားမှု၊ တရား၏အစွမ်းသတ္တိကိုလည်း ကြားသိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၇

အေဒီ ၁၉၉၅

၁၉၉၅ခုနှစ် ဆားတောင်ဆရာတော်ဘုရားကြီး UHC ဆေးခန်းသို့ တက်ရောက်ဆေးကုသမှု ခံယူစဉ် ဆေးရုံ ၌ ဆံတော်ချရာ (၇)ရက်သားသမီးများအလှူမှုရာမှ ဆံတော်အချို့ကိုရရှိခဲ့ပါသည်။

**ဆံတော် တချို့ဖြစ်စဉ်များ**

သက်တော်အလိုက် ဆံတော်မှာ အဖြူတစ်ဝက်၊ အမည်းတစ်ဝက်ဖြစ်ရာ ဆံပင်မွေးတို့၏ သဘာဝအတိုင်းထည့်ထားသလို ပုလင်းထဲတွင်ရှိနေသည်ကို ဖူးတွေ့ရပါသည်။ ဆံတော်ပုလင်းကို တရိုတသေ ဘုရားစင်တွင်တင်ထား လိုက်ပါသည်။

**ဘောလုံးလို လုံးလုံး**

ရက်သတ္တပတ် တစ်ပတ်ခန့်ကြာသော် ဘုရားရှိခိုးရင်း ဆံတော်ပုလင်း၌ မျက်စိရောက်သွား၍ ကြည့်မိရာ ဆံတော်များအားလုံးစုပြီး ဘောလုံးတစ်လုံးလို လုံးလုံးလေးဖူးမြော်ရပါသည်။

တစ်လုံးမှ နောက်တစ်လုံးပွား

အံ့သြစွာဖူးတွေ့ရပြီး စိတ်ထဲ စိတ်ကူးတစ်ခုပေါ်လာ၍ (စမ်းကြည့်လိုသည့် သဘောလည်း ပါသဖြင့်) ဆံတော်ပုလင်းကို လက်အုပ်ချီ၍ အရှင်ဘုရား ဆံတော်လုံးကြီးကို နောက်တစ်လုံး ထပ်ခွဲလုံးပြပါဘုရားဟု လျှောက်ထားပြီးနောက် (၃)၊ (၄)ရက်လောက်အကြာတွင် ဆံတော် ပုလင်းကိုသတိထားကြည့်မိရာ မိမိမျက်လုံးကို မယုံကြည်နိုင်လောက်အောင် ဆံတော်ကို အံ့သြစွာ ဖူးမြော်ရပါသည်။

http://www.dhammadownload.com



**အမျိုးမျိုးဖူးရ**

သည့်နောက်တွင် "တစ်လုံးတည်းလုံးပါဘုရား" ဟု လျှောက်ထားရာ တစ်လုံးတည်းဖြစ်လိုက်၊ "နှစ်လုံးပြပါ" လျှောက်ထားလျှင် နှစ်လုံးဖြစ်လိုက်များကို ဖူးမြော်ရခြင်းဖြင့် ဆံတော်ရှင်နှင့် ဘုန်းဘုန်း၏တန်ခိုးကြီးမှုကို ကျွန်မ မျက်ဝါးထင်ထင် ဖူးတွေ့ရပါကြောင်း ကိုယ်တွေ့ဖြစ်ရပ်ထူးကို တင်ပြအပ်ပါသည်ရှင်။

ကျမ်းကိုး။ ဦးတင်နွယ်+ဒေါ်ချို၊ အမှတ် (၄၇)၊ သစ္စာလမ်းမကြီး၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့၏ ကိုယ်တွေ့ဖြစ်ရပ်။ ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၈။

**ဖြစ်ရပ်ဆန်းတစ်ခု ကိုယ်တွေ့**

ဆားတောင်ဆရာတော်ဘုရားကြီးသည် ရန်ကုန်မှ မော်လမြိုင်သို့ကြွရောက် တရားချီးမြှင့်တော်မူသည်။ မန္တလေးသို့ပြန်ရန် ရန်ကုန်မြို့ရှိ သစ်တောဓမ္မာရုံ၌ ယာယီသီတင်းသုံး၊ တရားပြချီးမြှင့်စဉ် ဆရာတော်ဘုရား၏ အံသကိုင်မှုကို လျှော်ခွင့်ရခဲ့ပါသည်။

**သွား အတု**

ယင်းအိတ်အတွင်းမှ စိုက်သွားတစ်ချောင်းတွေ့ရှိသဖြင့် ဆရာတော်ဘုရားထံအပ်နှံသောအခါ ဆရာတော်ဘုရားက "လိုချင်က ယူ၊ မလိုချင်ကထားခဲ့" ဟု မိန့်ပါသည်။ ကျွန်မလည်းစိတ်ထဲမှ သွားအတုအစား အစစ်ရလိုသော ဆန္ဒဖြင့်ယူဆောင်ခဲ့ပါသည်။

**မင်္ဂလာဒုံက ဖြစ်ရပ်ဆန်း**

အေဒီ ၁၉၉၆

၁၉၉၆ခုနှစ် ဆားတောင် ဆရာတော်ဘုရားကြီး မင်္ဂလာဒုံစစ်ဆေးရုံ၌ နှလုံးခွဲစိပ်ဆေးကုသခံယူစဉ် ထိုနှစ် တန်ဆောင်မုန်းလပြည့်နေ့၌ ဆရာတော်ဘုရားကြီး၏တပည့်သာဝကများက ဆရာတော်ဘုရားကြီးအား ပူဇော်ကန်တော့ကြပါသည်။

**ပတ္တမြားကလေးတွေစွန့်**

ဤအစဉ်အလာသည် နှစ်စဉ်ပြုလုပ်ပါသည်။ဆရာတော်ဘုရားကြီးကလည်း လာရောက်ပူဇော်ကန်တော့ကြသော တပည့်များအား ပတ္တမြားအရိုင်းတုံး ကလေးများစွန့်ပါသည်။ အကျွန်ုပ်လည်း အများနည်းတူ တစ်ရှူးအဖြူခင်းထားသော လက်ဝါးနှစ်ဖက်ဖြန့်၍ ဆရာတော်ထံမှ ပတ္တမြား ခံယူရရှိခဲ့ပါသည်ဟု ကိုယ်တွေ့ ပြောပြသူရှိ၏။

**ကိုယ်တိုင် ပြောပြချက်**

အိမ်ရောက်သောအခါ သန့်စင်သောပုလင်းထဲထည့်၍ ဗီရို၌သိမ်းထားခဲ့ပါသည်။ ဆရာတော်ဘုရားကြီး ဆေးရုံမှဆင်း၍ မန္တလေးသို့ပြန်ကြွပြီး နောက်နေ့၌ ယင်းပတ္တမြား ပုလင်းကို ဘုရားကျောင်းဆောင်၌ထား၍ပူဇော်ရန် ဗီရိုမှထုတ်ယူသောအခါ ပုလင်းထဲ၌ အဖြူရောင် ပစ္စည်းတစ်ခု မြင်ရပါသည်။ သေချာစေရန် ပတ္တမြားကို ထုတ်ယူကြည့်သောအခါ မယုံနိုင်အောင် သွားတစ်ချောင်းတွေ့ရပါသည်။

**ဆရာတော့် စကားတစ်ခွန်း**

အလွန်ထိတ်လန့် အံ့ဩမိ၍ ဓမ္မမိတ်ဆွေ မအိတင်အား အကြောင်းစုံဖုန်းဆက်ပြောပြပါသည်။ မအိတင်ကတစ်ဆင့် ဆရာတော်ဘုရား၏ ကျောင်းမှ ဆွမ်းအစ်မဒေါ်အေးမယ်ထံ ပြောပြပါသည်။ ဒေါ်အေးမယ်မှ ဆရာတော်ဘုရားအား လျှောက်ထားသောအခါ ဆရာတော်က "ပါးစပ်မှ ထုတ်ပေးလိုက်တာ သူမှမမြင်တာ" ဟုမိန့်ကြောင်း ပြန်ပြောပြပါသည်။ သာမန်သွားတစ်ချောင်းကို နုတ်က သွေးထွက်မလွန်အောင်ပင် ဆရာဝန်က ဂရုပြုပေးရပါသည်။

http://www.dhammadownload.com



**ပါးစပ်ထဲက သွားတစ်ချောင်း ထုတ်ပေးလိုက်ခြင်း အံ့ဖွယ်**

ဆရာတော်က ခံတွင်းမှ လတ်တလောသွား တစ်ချောင်းဆွဲထုတ်စဉ် အံ့ဩစရာသွေးတစ်စက်မှ မတွေ့ရပါ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉၉။

ကျမ်းကိုး။ ဒေါ်မြတ်ဆွေ၊ အမှတ် (၁၄)၊ ကျောင်းကုန်းလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့၏ ကိုယ်တွေ့ဖြစ်ရပ်။

**ဆွမ်းကပ်သူ တစ်ဦး၏ ကိုယ်တွေ့ ပြောပြချက်**

အေဒီ ၁၉၆၂

၁၉၆၂ခုနှစ်၊ (၉)တန်းကျောင်းသူဘဝတွင် ရဟန္တာဟုသမုတ်ကြသော ဆားတောင်ဆရာတော်ဘုရားကြီးကို ကမ္ဘာအေး စွန်းလွန်းဂူကျောင်းသို့ပင့်ဆောင်ကြ၍ ကြွရောက်လာသောကြောင့် မိသားစုအားလုံးသွား ရောက်ဖူးမြော်ခဲ့ပါသည်။

အသိကပ်ကာ တရားမှတ်၍ တစ်လုံးစီရွေးကာ ဆွမ်းချက်ပါသည်။ ဤသို့ ဆွမ်းချက်နေ၍ ဆွမ်းကပ်ချိန်မမီဖြစ်သွားပါသည်။

**စိတ်ဖြင့် ကြိုတင်လျှောက်ထားသည်ကို သိ**

ထို့ကြောင့် ဆရာတော်ဘုရားကြီးအား စိတ်ဖြင့်ပင် "ဤသို့ ဆွမ်းချက်နေ၍ နည်းနည်းနောက်ကျသည်ကို သည်းခံပြီးစောင့်ပေးပါ ဘုရား" ဟု လျှောက်ထားမိပါသည်။ ဆွမ်းသွားကပ်သောအခါ ဆရာတော်ဘုရားကြီးသည် မည်သည့်ဆွမ်းမှ ဘုဉ်းမပေးသေးဘဲ စောင့်နေသည်ကိုတွေ့ရပါသည်။

ကျမ်းကိုး။ ဒေါက်တာနန္ဒာမောင်၊ အမှတ် (၅၂)၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း၊ ဖျာပုံမြို့၏ ကိုယ်တွေ့ ဖြစ်ရပ်၊ ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၀၂

**ဖြစ်ရပ်ဆန်း**

ဦးသန်းဆွေ အိမ်တွင် ရေပုလင်းမှ ပူစီဖောင်းများ ထနေသည်ကို တွေ့ရပါသည်။

ဦးခင်ကျော်၊ ကထိက၊ ရူပဗေဒဌာန၊ ဆေးတက္ကသိုလ်အမှတ်(၂)၊ တိုက်အမှတ်-၁၂၆၉၊ အခန်း (၂၀၄)၊ စပါယ်လမ်း၊ မေတ္တာညွန့်၊ တာမွေမြို့နယ်၏ ကိုယ်တွေ့ဖြစ်ရပ် (စာ - ၁၁၀)၊ (ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၁)

**ဆေးရုံက ဖြစ်ရပ်ဆန်း**

အေဒီ ၁၉၉၆

၁၉၉၆ ခုနှစ်၊ ရန်ကုန် မင်္ဂလာဒုံ စစ်ဆေးရုံကြီးတွင် ဆရာတော်ဘုရားကြီး နှလုံးသွေးကြောကျဉ်းရောဂါကို စက်ဘာပူဆရာဝန်များအဖွဲ့နှင့် ခွဲစိပ်ကုသမှုခံယူပြီးစဉ်က ဆေးရုံတွင် (၃)လ သီတင်းသုံးခဲ့၏။

တစ်နေ့တွင် ဒေါက်တာညီညီ၏ သားဖြစ်သူမှ "ဆရာတော်ဘုရား သမာပတ်ဝင်စားသော ရေတော် ချီးမြှင့်ပါ" ဟု လျှောက်သည်ကို ပထမဦးစွာ ကြားခဲ့ရပါသည်။ ဆရာတော်ဘုရားကြီးက ရေပုလင်းကိုကိုင်၍ ဝင်သက်ကိုပြင်းစွာ တစ်ချက်ရှူပြီး အတော်ကြာကြာကြီး အသက်ရှူရပ်နေပြီးမှ ထွက်သက်ကိုထုတ်၍ ရေပုလင်းကို လက်ဖြင့်သပ် နှုတ်တော်မှ လေဖြင့်မှုတ်၍ ပြန်ပေးပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၂

**မြန်မာပြည်က ရဟန္တာများ အကြောင်း**

တစ်ညတွင် ဦးဇော်သိန်း (ခေတ်လွန် ပရိဘောဂ၊ မန္တလေး) ဦးသန်းဆွေ (ဆရာတော်၏တူ) ကိုအောင်ထွန်းခိုင် (စဥ့်ကိုင်)၊ ဦးစိုးသောင် (ပန်းချီဝါသနာရှင်) နှင့် ကျွန်တော်တို့ရှိစဉ်

http://www.dhammadownload.com



ဆရာတော်ဘုရားကြီးအား "ယခုအခါ ရဟန္တာ ဘယ်နှပါးရှိပါသလဲ" ဟု လျှောက်ထားရာ၊ "(၅)ပါး ရှိပါတယ်" ဟု ဖြေကြားပါသည်။

**လောလောဆယ် ရဟန္တာ (၅)ပါးရှိကြောင်း မိန့်ကြား**

တစ်ပါးစီ သီတင်းသုံးရာကို မေးလျှောက်ရာ -

၁။ မြန်မာပြည်မြောက်ပိုင်းမှ တစ်ပါး၊

၂။ အလယ်ပိုင်းမှာ တစ်ပါး၊

၃။ တောင်ပိုင်း ရန်ကုန်မှာ မြစ်မကူးရဘူး တစ်ပါး၊

၄။ တစ်ပါးက ဟိမဝန္တာ ကြွသွားပြီ ဟု မိန့်ပြီး

၅။ နောက်တစ်ပါးကိုမူ လျှောက်၍ မဖြေဘဲနေပါသည်။ (အမှန်မှာ ဆရာတော်ဘုရားကြီး ကိုယ်တော်တိုင်ဖြစ်သဖြင့် ဖွင့်၍မမိန့်ခြင်းသာ ဖြစ်ပါသည်။)

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၃

ပထမဆုံးဆေးစစ်ခံယူရန် ရန်ကုန်သို့ ကြွစဉ်က ဒေါ်ချို၏ အိမ်သစ်တွင် သီတင်းသုံးပါသည်။ ဒုတိယဆေးစစ်ခံယူရန် ကြွရောက်စဉ်က ဗိုလ်မှူးကြီး ကိုကိုမောင်၏ အိမ်သစ်တွင် သီတင်းသုံးပါသည်။ တတိယဆေးစစ်ခံယူရန် ကြွရောက်စဉ်က ဒေါ်မြတ်ဆွေ၏ အိမ်သစ်တွင် သီတင်းသုံးပါသည်။

**နာမည်ခေါ်လိုက်၍ ကြက်သီးထသွားခဲ့**

ကျွန်တော်အာနာပါန ပြင်းပြင်းရှုစဉ် နှာသီးဝနှင့် လေပွတ်တိုက်မှုတွင် ထူးထူးခြားခြား မိနေရာမှ သတိလွတ်၍ စိတ်ထွက်သွားစဉ် (မိမိကိုယ်တိုင် ဘယ်အာရုံသို့ ထွက်မှန်းမသိ) စိတ်ထွက်သည်နှင့် ဆရာတော်ဘုရားကြီးက လူများစွာ တရားထိုင်သည့်ကြားမှ ကျွန်တော်အား နာမည်ခေါ်၍ သတိပေးပါသည်။ "ကိုကျော် စိတ်ဘယ်မှာထားတုံး" ဟု မိန့်ရာ ခေါင်းနားပန်းကြီးသွားသည်။ ဆံပင် ထောင်သည်ဆိုသော စကားကို အဲဒီကျမှ လက်တွေ့သိရပါသည်။ တကယ်ကို ကြက်သီးထစရာအဖြစ်ပါ။ စိတ်လွတ်သည်နှင့် တန်း၍နာမည်ခေါ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၄

> ကျမ်းကိုး။ တပည့်များက ဆရာတော်အား ဝင်၍ဟောပြောစေရန် တစ်ခါတရံ အငြင်းအခုံလုပ်၍ စကားဝိုင်းကို ဖန်တီးမှ ဆရာတော်က ဝင်၍ရှင်းပေးတတ်ပါသည်။ ဝိနည်းလွတ်ရန် စကားဝိုင်းဖြင့် ဖန်တီးကြခြင်းဖြစ်ပါသည်။ အလွတ်လျှောက်သော် ဆရာတော်မှာ ဝိနည်းကြောင့် တစ်ခါ တစ်ရံ မမိန့်တတ်ပါ။
> ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၅။

**တစ်ခါတုန်းက ပြစ်ရပ်ဆန်း**

စစ်ကိုင်းမြို့ ကသဲကုန်းရွာ မင်းရွာကုန်းကျောင်းတွင် မန္တလေးတိုင်း ဥပဒေရုံးနှင့် သွားဘက်ဆိုင်ရာ ဆေးတက္ကသိုလ် (မန္တလေး) တို့ စုပေါင်း၍ ဘုံကထိန်မကျင်းပမီ အကြိုညတွင် မိုးများအုံ့၍ တစ်မိုးလုံးမည်းမှောင်နေပါသည်။

ဆရာတော်အား ထားခဲ့ပြီးအပြန်၊ ကျွန်တော်မှာ ဆရာတော်လဲမည် စိုး၍ တံခါးကြားမှ ချောင်းကြည့်ရာ ကောင်းကင်မှ မည်းမှောင်နေသော မိုးသားများကို မြေပြင်လက်ဖြင့် ဖယ်ရှားသည့် ဟန်ဖြင့်တွန်းဖယ်ရင်း ပါးစပ်မှလည်း တဖူးမှုးမှုတ်နေသည်ကို တွေ့ရပါသည်။ ခဏအကြာ ကောင်းကင်မှ မိုးသားများ ကင်းစင်၍ လပေါ်ထွက်လာသည်ကို မျက်မြင်ကိုယ်တွေ့ တွေ့မြင်ခဲ့ရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၅

http://www.dhammadownload.com



**ကျောနှင့် ခုတင် လွတ်နေသော ဖြစ်ရပ်ဆန်း ကိုယ်တွေ့**

သွားဘက်ဆိုင်ရာဆေးတက္ကသိုလ် ဆေးရုံကြီးဝင်းအတွင်းရှိစဉ်က ငွေစာရင်းမှူး ဦးကျင်စိန်ထံ ကိစ္စတစ်ခုဖြင့် သွားခဲ့စဉ်က ကျောနှင့် ခုတင်လွတ်နေပုံကို အံ့စဖွယ် ဖူးတွေ့ခဲ့ရကြောင်း သိရပါ သည်။

**မန္တလေးက ဖြစ်ရပ်ဆန်း**

ဆရာတော်ဘုရားကြီးအား ထိုငွေစာရင်းမှူးက မန္တလေးဆေးရုံကြီးတွင် ဖူးရစဉ်က ခုတင်နှင့် ကျော လွတ်နေတာ ဖူးရကြောင်း ပြောပြဖူးပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၅

**စိတ်က လျှောက်သည်ကို အဖြေပေး**

ထိုငွေစာရင်းမှူးသည် "ဘုရားတည်ရာ (၉)ဆူ ပြီး၍ နောက်ဆုံး (၁၀)ဆူမြောက် ဘယ်တော့ပြီး မလဲ" ဟု စိတ်ဖြင့်လျှောက်ရာ ဆရာတော်က နှုတ်ဖြင့်ဖွင့်၍ ပြီးမည့်ရက်ကို မိန့်တော်မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၅

**ရှင်မဟာဥပဂုတ္တ ရှိကြောင်း သက်သေပြခဲ့**

"ရွှေခေတ်ရဟန္တာများဟာ မိုးရွာလို့ ရေမစိုစေချင်ရင် ခေါင်းပေါ်လက်နဲ့သပ်လိုက်တာနဲ့ မိုးရေ မစိုဘူးပေါ့။ ရှင်ဥပဂုတ္တကိုလည်း မိုးမရွာစေချင်လျှင် ရှင်ဥပဂုတ္တ အဟံဝန္ဒာမိပါဘုရားလို့ ဆိုပြီး ငှက်ပျောပွဲထိုးလျှင် မိုးမရွာပါ။ သို့မဟုတ် ထီးကိုပက်လက်လှန်ထားလျှင် မိုးမရွာဘူးပေါ့" လို့ မိန့်ခဲ့ပါသည်။

**ဆရာတော် ပေးခဲ့သော နည်း**

လိုချင်တဲ့ပန်းတိုင်ကို ရောက်ရန် မပြတ်မလပ် အားထုတ်ပါဟူသော ဆုံးမစကားသည် ပေါက် မြောက်အောင် မကျင့်နိုင်သေးသူများအတွက် နည်းလမ်းကောင်းဖြစ်ကြောင်း အမှတ်မဲ့နေသူ များပါသည်။ မသိကြပါ။ သိသူ နည်းပါသည်။

**ဆရာတော်မိန့်ကြားခဲ့သော ဆရာတော်၏ နည်း**

ဆရာတော်ဘုရား အသက် (၃၀)အရွယ် ကျင့်ကြံအားထုတ်ပုံကိုလည်း မိန့်ကြားခဲ့ပါသည်။ တရား အားထုတ်ချိန်မှာ ညနေ (၆)နာရီမှ နောက်တစ်နေ့မနက် (၆)နာရီအထိ မဟာပလ္လင် (ညာဘက်ပေါင်ပေါ် ဘယ်ခြေတင်၊ ဘယ်ဘက်ပေါင်ပေါ် ညာခြေ တင်ပြီး) တစပ်တည်း ထိုင်ပါတယ်။ မျက်နှာသစ်၊ ဆွမ်းဘုဉ်းပြီး အမှတ်နဲ့ စင်္ကြံလျှောက်၊ တစ်ချိန်လုံး အသိနဲ့ နေခဲ့ပါတယ်။ နောက်ဆုံး ဒုက္ခခပ်သိမ်းပြီးရာသို့ ရောက်ခဲ့ပါတယ်လို့ ပြောကြားမိန့်ကြား ခဲ့ပါတယ်။

> ကျမ်းကိုး၊ ထိ - သိ - သတိ ဆားတောင်ဆရာတော်ဘုရားကြီး၏ထေရုပ္ပတ္တိနှင့် ကိုယ်တွေ့ ဖြစ်ရပ်များ မနောမယပတ္တမြား၊ သာသနာ ၂၅၅၀၊ကောဇာ ၁၃၆၈၊ခရစ် ၂၀၀၆၊ စာ-၁၀။
> ကျမ်းကိုး၊ ကျေးဇူးတော်ရှင် ဆားတောင်ဆရာတော်ဘုရားကြီး သို့မဟုတ် ကြည်လင်အေးမြ မွေးလှစွာသော အရိပ်အဝန်းတစ်နေရာ၊ တက္ကသိုလ်တင်ဟန်ကျော်၊ သူရဇ္ဈမဂ္ဂဇင်း၊ ၂၀၀၈ ခုနှစ်၊ ဧက်တင်ဘာလ ၊ စာ - ၇၇။

**သီလရှင်မယ်တော်ကြီး ကိုယ်တိုင် ပြောပြချက်**

ဆားတောင် ဆရာတော်သည် သက်တော် (၃၀) အရွယ်၌ ရဟန်းကိစ္စပြီးပြီဟု ကျော်ကြားသဖြင့် ရပ်နီးရပ်ဝေးမှ လာရောက်ဖူးမြော်သူ အလှုန်များပြားသဖြင့် မဏ္ဍပ်ကြီးများထိုးကာ အဖူးအမြော်

http://www.dhammadownload.com



ခံနေရလေသည်။ ထိုစဉ်က ဆားတောင်ရွာကြီးတွင် ပွဲလမ်းသဘင်ကြီးပမာ လနှင့်ချီ၍ စည်ကားနေလေသည်။

(ကျမ်းကိုး၊ တင်ကူးရည်မြော် ပူဇော်ခွင့်ရခဲ့သည့် ဆားတောင်ဆရာတော်ကြီး (၁)၊ စံထွန်းသာ)
နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ ဧပြီလ ၊ ၂၀၀၇၊ အမှတ် ၂၄၉ ၊ စာမျက်နှာ - ၃၃)

**တစ်ခါတုန်းက**

အေဒီ ၁၉၇၉ စစ်ကိုင်းတိုင်းတွင် ခေတ္တနားရစဉ် မိုးညှင်းချောင်မှ သီလရှင် မယ်တော်ကြီး ဒေါ်သုမင်္ဂလအား ဝင်ရောက်ဂါရဝပြုရာ မယ်တော်ကြီးက ဆားတောင်ဆရာတော်နှင့် တွေ့ဆုံလျှောက်ထားခဲ့သည် တို့ကို ပြန်ပြောပြသည်။ "၂၈ နှစ် ကျော်ပြီပေါ့။ ဆရာတော်ကို စပြီး ဖူးမြော်ရချိန်မှာ ပြစ်မှားမိတယ်။ စီးကရက်ကပ်လဲ ဘုဉ်းပေးလိုက်ဟာပဲ။ ဘယ်လိုလူကြီးပါလိမ့်" လို့ စိတ်ထဲမှာ အပြစ်တင်နေမိတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၅

**မှားခဲ့တဲ့ နောင်တ**

"ဆရာတော်က သုံးခွန်းမိန့်မှ ငါက တစ်ခွန်း ပြန်ဖြေတယ်။ သုံးနာရီကြာသကွယ့်။ ဆရာတော်က (၂၁) ခွန်း၊ ငါက (၇) ခွန်းပဲ ပြန်လျှောက်တယ်။ ကျေးဇူးရှိတယ်။ ဒါကြောင့် ပုံတော်ကူးပြီး ကိုးကွယ်ထားတာပေါ့" ဟု ဆိုကာ မိုးကုတ် ဆရာတော်၊ ဝေဘူဆရာတော်တို့နှင့်အတူ ယှဉ်တွဲပူဇော်ထားသော ဆားတောင် ဆရာတော်ကြီး၏ ပုံတော်ကို ညွှန်ပြလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၆

**ထူးခြားသော ဆံတော်များမှ ရောင်စုံကျောက်များ ထွက်ပေါ်လာသော မြစ်ရပ်ဆန်း**

ကိုကျော်နိုင်က သွားရောက်ပြောဆိုပြီးနောက် စောင့်ဆိုင်းနေစဉ်အတွင်း ဆရာတော်၏ ဆံတော်များအား ကိုးကွယ်ထားရာမှ ဓာတ်တော်များ၊ ရောင်စုံကျောက်မျက်များ ကျဆင်း ထွက်ပေါ်လာကြောင်း ပြောပြသဖြင့် ဘုရားခန်းဆီသို့ သွားရောက်ကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၆

**ရိတ်ထားသော ဆံပင်များမှ အနီရောင် ကျောက်တုံးကလေးများ ထွက်ကျလာ**

ဆရာတော်၏ ရိတ်သင်ထားသော ဆံတော်များကို ပုလင်းငယ်တွင် ထည့်၍ ဘုရားစင်၌ ပူဇော်ထားရာ ရက်အနည်းငယ်အတွင်း အဖြူရောင် အလုံးကလေးများ ထွက်ပေါ်လာသည်ဟု ဆိုသည်။ ဓာတ်တော်များဟု ခေါ်ဝေါ်ကြသည်။ အခြားတစ်ပုလင်း အတွင်းရှိ ဆံတော်များမှာမူ အနီရောင် ကျောက်တုံးကလေးများ ထွက်ကျနေသည်။ ပတ္တမြားဟု ယူဆကြသည်။အဖြူရောင် ဓာတ်တော်များမှာ လုံးဝန်း၍ အနီရောင် ပတ္တမြားခဲများမှာ ကျောက်မျက်တုံးသဖွယ် မညီညာသော ပုံသဏ္ဌာန်နှင့်တောက်ပ ယှက်သန်းသော အရောင်များ ထွက်ပေါ်နေလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၇

**အလင်းတန်းကြီး ထွက်လာ၍ အော်ပြီးပြေးသွား**

သူတို့က ခြံစည်းရိုးနားမှာ ရေချိုးခန်းလေး ဖွဲ့ထားတယ်။ အကာအရံလေးပေါ့။ အဲဒီအချိန်က ကွမ်းယာဆိုင်ကနေ အိမ်ပြန်ပြီး အပေါ့စွန့်ရာမှာ အိမ်သာထိ မသွားတော့ဘဲ ရေချိုးခန်းကလေး ထဲဝင်ပြီး ထိုင်လိုက်တယ်ဆိုရင်ပဲ စူးရှတဲ့ အလင်းတန်းကြီးတစ်ခု ကျလာတယ်။ မော့ကြည့်လိုက်တော့ ကျွန်တော့်အိမ် ဘုရားစင်က လာတာတွေ့ရသတဲ့။ ဒီတော့ ကြောက်အားလန့်အားနဲ့ "ကြောက်ပါပြီဘုရား လန့်ပါပြီဘုရား" လို့ အော်ပြေးသွားတာတဲ့'ဟူ၍ ဦးဗိုခင်က ပြောပြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၉

http://www.dhammadownload.com



**ဝေဘူဆရာတော် ကိုယ်တိုင် အသိအမှတ်ပြုခဲ့**

ရဟန္တာဟု ကျော်ကြားတော်မူခဲ့သော ကျောက်ဆည်မြို့ ဝေဘူတောရဆရာတော် ဘုရားကြီး သက်တော်ထင်ရှားရှိစဉ်က ကြွရောက်ချီးမြှင့်ပြီးလျှင် အရေးတယူ အလေးမူ၍ အသိအမှတ် ပြုတော်မူသဖြင့် သက်တော်ငယ်ငယ် ၃၀ ကျော် အရွယ်ကပင်လျှင် ရဟန္တာ ဟူ၍ အကျော် တစောရှိခဲ့ကြောင်း သတင်းကောင်း ကြားရသဖြင့် ကျွန်တော်သည် ဆားတောင် ဆရာတော် အကြောင်းကို ဆက်လက် စုံစမ်းခဲ့ရပါသည်။

**မဟာစည်ဆရာတော်ဘုရားကြီး ကိုယ်တိုင် ကြွရောက်ချီးမြှင့်ခဲ့**

ထိုနည်းမှာပင် မဟာစည်ဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် ကြွရောက်တော်မူ၍ အရေးတယူ အလေးမူ၍ အသိအမှတ်ပြုတော်မူသဖြင့် ဆားတောင်ဆရာတော် ဦးပညာဏိက ကိုယ်တော် မြတ်ကြီးသည် ရပ်ဝေးရပ်နီး ကျော်စောတော်မူခဲ့သည်ဟု သိရှိရပါသည်။

**ခြေတရှုတ်ဆွဲနေသူက ရဟန္တာဖြစ်အောင် ကြိုးစားတာကို အတုယူစရာ**

ထိုသို့ အံ့သြဖွယ် ကြည်ညိုဖွယ်ရာဖြစ်သော ဆားတောင် ဆရာတော်ဘုရားကြီးမှာ ခြေတရှုတ်ဆွဲ ရောဂါဖြစ်နေလျက်ကပင် စိတ်ရှည် သည်းခံ ဖွဲသန်သန်ဖြင့် ကြိုးပမ်းအားထုတ်တော်မူခဲ့ကြောင်း သတင်းကောင်းများ ကြားသိရသဖြင့် များစွာကြည်ညိုမိပါသည်။

**ဤစာရေးသူ ငယ်ငယ်က**

အေဒီ ၁၉၆၂

ကျွန်ုပ်တို့ ရန်ကုန်တက္ကသိုလ်တွင် တက္ကသိုလ်ဆရာပေါက်စဘဝ ရှိစဉ် ၁၉၆၂ ခု ပတ်ဝန်းကျင် လောက်ကပင်လျှင် ဆားတောင်ဆရာတော်ကြီးအကြောင်းကို သတင်းအစအန ရရှိခဲ့ဖူးပါ သည်။ ထိုစဉ်ကာလက ဆရာတော်ကြီးမှာ သက်တော် ၃၆ နှစ်အရွယ်မျှသာ ရှိပါသေးသည်။ ရဟန္တာဟူသော စကားလုံးသည် အထွဋ်အမြတ်ဖြစ်ရုံသာမက ကြားရသူအဖို့မှာလည်း နားတွင် ချို၍ အလွန်ပင်အရသာထူးသောကြောင့် ယခုလို မျက်မှောက်ခေတ်မှာ လောလောလတ် လတ်ကြီး ရဟန္တာဖြစ်ကြောင်း ကြားလိုက်ရသောအခါ မကြုံစဖူးသဖြင့် ထူးသည်သာမက ကိုယ့်နားကိုယ်ပင် ကိုယ်မယုံနိုင်အောင် ရှိပါတော့သည်။

သို့သော် ဆားတောင်ဆရာတော်က ပုဂ္ဂိုလ်ထူးဖြစ်သဖြင့် အတွေးလည်း ထူးပေသည်။ အကြံ လည်းထူးပေသည်။ လုပ်ဆောင်ပုံလည်း ထူးပေသည်။

**ကျွန်ုပ် မှတ်မိသမျှ ငွေ ၂-ကျပ်တန် စာအုပ်ကလေး တစ်အုပ်**

ထိုအချိန်တွင် သက်တော် ၂၇ နှစ်အရွယ်တော်သာသာ ရဟန်းတော်ကလေးသည် စာအုပ်ထူး တစ်ခု ကို ဖတ်ရလေသည်ဟု ဆိုပါသည်။ ထိုစာအုပ်မှာ ရဟန္တာဟု ကျော်စောသော စွန်းလွန်း ဆရာတော်ဘုရား ကြီး၏ မဟာထေရုပ္ပတ္တိနှင့် ကျင့်စဉ်ဖြစ်ပါသည်။

ကျွန်ုပ်ကောင်းစွာ မှတ်မိသည်မှာ ထိုစာအုပ်ကို ရန်ကုန်ဘောက်ထော်က ဦးတင်ဖေ ဆိုသူက ပြုစု သည်လား ထုတ်ဝေသည်လား ဝိုးတဝါး ဖြစ်ပါသည်။ စာအုပ်တန်ဖိုးမှာ အလျှုငွေ ၂ ကျပ် ဖြစ်ကြောင်းတော့ ကောင်းစွာ မှတ်မိပါသည်။ ထိုစာအုပ်ကို ဖတ်ရ၍ အလင်းရောင် ရသကဲ့သို့ ဖြစ်သွားသည်ဟု ဆိုရပါမည်။

**သေလျှင်သေ မသေလျှင် တရားရ ဟူသော ဖွဲ**

အဘယ်ကြောင့်ဆိုသော် သေလျှင် သေ၊ မသေလျှင်လည်း တရားရဟူသော သဘောဖြင့် ခြေတရှုတ်ဆွဲရောဂါကြီး ဖြစ်နေသည့်ကြားကပင်လျှင် အသားကြွင်းစေ အကြောကြွင်းစေ သေချင်သေ ဟူသော စိတ်ဓာတ်ဖြင့် နေ့ ညမပြတ် တရစပ်မပြတ် အားထုတ်တော်မူခဲ့ကြောင်း သိရှိရပါသည်။

http://www.dhammadownload.com



**ဝီရိယ သခင်**

အေဒီ ၁၉၅၄ ဝီရိယအကျိုးပင် ဖြစ်ပါသည်။ ၁၃၁၆ ခု၊ ( ၁၉၅၄ ခု ဝါဆိုလ) က စတင်အားထုတ်သည်မှာ ဝါခေါင်လ သို့ရောက်၊ တော်သလင်းသို့ရောက်၊ သီတင်းကျွတ်သို့ရောက်၊ တန်ဆောင်မုန်းသို့ ရောက်သောအခါ အရိယာဘ၀၏ ပထမအဆင့်သို့ ရောက်တော်မူသည်ဟု မှတ်သားရပါသည်။ နတ်မင်းကြီးလေးပါး ကိုယ်တိုင် လာရောက်လျှောက်ထားသည်ဟု သိရှိရပါသည်။

**တစ်နှစ်ကြာမှာ ရဟန်းကိစ္စပြီးခဲ့**

ဤရွှေ့ဤမျှ ထူးခြားတော်မူသော ရဟန်းတော်ကလေးသည် တစ်နှစ်ပတ်လည် ကြာသောအခါ ဇာတိဘောကြီးကို အပြီးအပိုင် ဖြတ်တောက်တော်မူခဲ့နိုင်ပါသည်ဟု သိရှိရပါသည်။

**စွန့်လွှတ်နည်း (သို့မဟုတ်) စွန်းလွန်းနည်း**

"တပည့်တော် လောဘ ဒေါသ မောဟ စွန့်လွှတ်နိုင်တာဆိုတော့ စွန့်လွှတ်နည်းပဲ ဆိုဆို၊ စွန်းလွန်း နည်းပဲဆိုဆို အားထုတ်ရတာကတော့ စွန့်လွှတ်နည်းပါပဲဘုရား" ဟု မဟာစည်ဆရာတော် ဘုရားကို လျှောက်ထားခဲ့သည်ကို မှတ်သားမိပါသည်။

**ဝေဘူဆရာတော် အမိန့်တော်သံ**

ထိုအခါ ဝေဘူဆရာတော်ဘုရားကြီးကလည်း "အရသာမရှိဘူးလားဗျာ၊ မချမ်းသာဘူးလားဗျာ ကျုပ်တို့ တစ်သံသရာလုံး ရှာခဲ့ကြတာ အခုမှပဲ အားရပါးရကြီး ခံစားကြရတာ မဟုတ်လားဗျာ ဆရာတော်ကလေးက တယ်ပါရမီထူးကိုး အသက်ငယ်ပါသေးတယ် အသက်ငယ်ငယ်နဲ့ ကိစ္စပြီး တယ်ဆိုတော့ တယ်ပါရမီထူးတာကိုး သာသနာအတွက် အားထားပါတယ်။ ဝေနေယျတွေကို ကယ်ပါ ချွတ်ပါ တရားပြပါ ကျွတ်ထိုက်တဲ့ပုဂ္ဂိုလ်တွေ အများကြီးရှိပါသေးတယ်။ ဆရာတော် ကလေးက အမှိုက်ရှင်းရမှာဆိုတော့ သာသနာ့ခရီးမှာ သာသနာ့အကျိုး စီးပွားအတွက် သာသနာ ပြုပေးပါဦး" ဟု ရဟန္တာဟု ကျော်စောသော ဝေဘူ ဆရာတော်ဘုရားကြီးက မိန့်တော်မူခဲ့ကြောင်း သိရှိရပါသည်။

**၁၉၅၅-ခုလောက်ကတည်းက ရဟန်းကိစ္စ ပြီးသော ရဟန္တာကြီး**

ထိုထို ဤဤ အလီအလီသော သတင်းထူးများနှင့်တကွ ၁၉၅၅ ခုနှစ်လောက်က တည်းက ရဟန်းကိစ္စပြီးသည်ဟု ကျော်စောတော်မူသော ဆားတောင်ဆရာတော်ဘုရားကြီးသည် မကြာသေးမီကပင်လျှင် ရန်ကုန်မြို့သို့ ကြွတော်မူကြောင်း သတင်းရသဖြင့် ဝမ်းသာရပါသည်။

**သက်တော်(၉၀)အထိ နေခဲ့**

ယခုအခါ ထိုဆရာတော်ကြီးမှ သက်တော် ၉၀ အရွယ်တော်သို့ ချဉ်းကပ်လာပြီ ဖြစ်ကြောင်း သိရသဖြင့် နှစ်ပေါင်း ၆၀ ကျော်ကျော် ကျွန်တော် မသိဘဲနေခဲ့ရသဖြင့် မိမိကိုယ်ကိုမိမိ မချင့်မရဲ ဖြစ်မိပါသည်။

**ထို့ကြောင့် ရဟန္တာပေါင်းချုပ်ကြီးကို ပြုစုခဲ့**

ပုဂ္ဂိုလ်ထူးကြီးများကို ဖူးမြော်ချင်သောဆန္ဒမှာလည်း အမြဲမပြတ် ရှိခဲ့ပါသည်။ နောက်လူတွေ မသိရမရှိ လေအောင် ပြန်လည်ပြောချင်သော ဆန္ဒမှာလည်း စိတ်ဝယ် အမြဲမပြတ် ရှိခဲ့ပါသည်။ ထို့ကြောင့်လည်း အသစ်ဖြည့်စွက်ချက်များနှင့်အတူ ပုဂ္ဂိုလ်ထူးများ ပေါင်းချုပ်ကြီးကို ပြုစုရခြင်း ဖြစ်ပါသည်။

**ရဟန္တာပေါင်းချုပ်ကြီးဖြင့် ပူဇော်ခွင့်ရခဲ့**

ပြုစု စုဆောင်းရသည်မှာ မသက်သာမလွယ်ကူလှသော်လည်း အသင့်မှီဝဲ စားသုံးရ သူတို့အဖို့ ကား လောကီလောကုတ် အကျိုးကြီးမားကြောင်း သိရှိရသဖြင့် ပြုစုရခြင်း ဖြစ်ပါသည်။

http://www.dhammadownload.com



ထို့ကြောင့်လည်း မချင့်မရဲစိတ်ဖြင့် မသိသူကျော်သွား သိသူဖော်စားဟု ရေးသားရခြင်း ဖြစ်ပါသည်။

**ဝေဘူဆရာတော် မှတ်ကျောက်**

ယခု ရေးသားမည့် ဆားတောင်ဆရာတော်ကြီးမှာ ငယ်စဉ်ကတည်းကပင်လျှင် ရဟန္တာဟူ၍ ဟိုးလေးတကြော်ကြော် ရှိတော်မူခဲ့သော ဝေဘူဆရာတော်ဘုရားကြီးကိုယ်တော်တိုင်နှင့် တွေ့ကြုံ မေးမြန်း စုံစမ်းစစ်ဆေး အတည်ပြုခဲ့ကြောင်းကို နားလည်သူများက တစ်ဆင့်ပြောကြား သဖြင့် သိရပါသည်။

**မဟာစည် ဆရာတော် မှတ်ကျောက်**

တစ်ဖန်လည်း မဟာစည်ဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် ကြွရောက် ချီးမြှင့်တော်မူခြင်း ကိုလည်း ခံယူတော်မူခဲ့ ရပါသည်။ ထိုအကြောင်းတို့ကို သိလေလေ ရေးချင်ဇောက ပိုလေလေ ဖြစ်ပါသည်။

**ရန်ကုန်ကြွလာတော်မူသော အခွင့်ထူး**

အေဒီ ၂၀၀၆ — သက်တော် ၈၀ ကျော်ပြီးဖြစ်သော ဆားတောင်ဆရာတော်ဘုရားကြီး ဦးပညာဏိက ကိုယ်တော်ကြီးသည် ၂၀၀၆ခု၊ ဇန်နဝါရီလ ၅ ရက်၊ ကြာသပတေးနေ့က ရန်ကုန်မြို့ သယ်န်းကျွန်း မေဃဝတီကျောင်းတိုက်သို့ ကြွရောက်တော်မူပြီးလျှင် ၁၂ ရက်တိုင်တိုင် သီတင်းသုံးသွား ကြောင်း၊ ၉ရက် တိုင်တိုင် တရားစခန်း ဖွင့်လှစ်သွားခဲ့သေးသည်။

မှတ်ချက်။ စာရေးဆရာကြီး မြေလတ်မြတ်သူထံမှ သတင်းစကားကြားသိရပါသည်။

အေဒီ ၁၉၉၆ — ဆရာတော်ကြီးသည် ဆေးစစ်ရန်လာခြင်း ဖြစ်ကြောင်း သိရပါသည်။ ၁၉၉၆ ခုနှစ်၊ နိုဝင်ဘာလ ၁၁ ရက်၊ အချိန်ကလည်း မင်္ဂလာဒုံတပ်မတော်ဆေးရုံကြီး ခွဲစိပ်ဆောင်၌ ဆရာဦးသိန်းထွန်းနှင့် တပည့်ဆရာဝန်များက ဆားတောင်ဆရာတော်ဘုရားကြီးအား ဖူးမြော်လျှောက်ထားကြသဖြင့် ဆားတောင်ဆရာတော်ဘုရားကြီး၏ ဩဝါဒ တရားတော်ကိုလည်း ကြားနာခဲ့ရဖူးပါသည် ဟု တရား စကားကြားနာရသူတို့က ပြန်ပြောပြကြပါသည်။

(ကျမ်းကိုး၊ ရန်ကုန်မြို့ လသာမြို့နယ်၊ လသာလမ်းနေ မင်းထင်ပဲငံပြာရည်စက်ရုံပိုင်ရှင် ဦးအောင်လင်း + ဒေါ်စန်းစန်းမြင့်တို့၏ ကောင်းမှုကြောင့် ဆရာတော်ကြီး၏ ထေရုပ္ပတ္တိနှင့် တရားကျင့်စဉ် စာအုပ်ကလေးကို ရရှိခဲ့ပါသည်။ စာမျက်နှာ ၅၂ ရှိပါသည်။ ထိုစာအုပ်ကို ဆရာဦးမြတ်သူထံမှ တစ်ဆင့်ရခြင်းဖြစ်ပေရာ၊ ၂ ဆင့်မြောက်ဝေငှသောအားဖြင့် ကျွန်တော်က ထပ်ဆင့်၍ ဓမ္မဒါနပြုပါသည်။ အောက်တွင် ဖတ်ကြည့်ပါ)

**ဘဝဖြစ်စဉ် အကျဉ်း**

အေဒီ ၁၉၃၇ — အေဒီ ၁၉၃၇ (၁၂၉၉ ) ခုနှစ် ၁၂ နှစ်သားအရွယ်တွင် သင်တွဲရွာ၊ ကြာကန်ဆရာတော်ထံတွင် ရှင်သာမဏေပြုခဲ့သည်။ ရှင်သာမဏေ နှစ်ဝါအရတွင် လူထွက်၍ မိဘများအား ကူညီလုပ်ကိုင် ပေးခဲ့သည်။

၁၉၄၁ — အေဒီ ၁၉၄၁ (၁၃၀၂) ခုနှစ် ၁၅ နှစ်သားအရွယ်တွင် ဆားတောင်ရွာ၊ မစိုးရိမ်တောကျောင်း ဆရာတော် ဦးဇဋိလထံတွင် သာမဏေ ဝတ်ခဲ့သည်။

၁၉၄၆ — အေဒီ ၁၉၄၆ (၁၃၀၇ ) ခုနှစ် ဝါဆိုလတွင် ဆားတောင်ရွာ၊ ရွာဦးကျောင်း ဆရာတော် ဦးတေဇအားဥပဇ္ဈာယ်ပြု၍ ဘွဲ့တော်ဦးပညာဏိက အမည်ဖြင့် ရဟန်းဘောင်သို့ တက်ခဲ့သည်။

၁၉၄၂ — အေဒီ ၁၉၄၂ (၁၃၀၄ ) ခုနှစ် သက်တော် ၁၇ နှစ်အရွယ်တော်တွင် ပထမတန်း အောင်မြင်ခဲ့ပါသည်။ ထိုနှစ်သည် ၁၃၀၄ နှစ် ဖြစ်သည်။

http://www.dhammadownload.com



၁၉၄၅ ထို့နောက် အသက် ၂၀ ပြည့်သောအခါ မိဘနှစ်ပါး၏ ပစ္စယာနုဂ္ဂဟဖြင့် ရွာဦးဆရာတော် ဦးတေဇ ကို ဥပဇ္ဈာယ်ပြုကာ အေဒီ ၁၉၄၅ ခုနှစ်၊ ဇွန်လ ၂၂ ရက်၊ သောကြာနေ့ (၁၃၀၇ ခု ဝါဆိုလဆန်း ၁၃ ရက်နေ့) တွင် မြင့်မြတ်သော ရဟန်းဘဝသို့ ရောက်တော်မူခဲ့ကြောင်း သိရှိရ ပါသည်။ ဘွဲ့တော်မှာ ဦးပညာဇိက ဖြစ်ပါသည်။

၁၉၅၂ အေဒီ ၁၉၅၂ (၁၃၁၄ ခုနှစ်) တွင် မယ်တော်ကြီး ကွယ်လွန်သွားခဲ့ပါသည်။

၁၉၅၄ အေဒီ ၁၉၅၄ ခုနှစ်၊ ဇူလိုင်လ (၁၃၁၆ ခု ဝါဆိုလ) မှာ စတင် အားထုတ်၏။

၁၉၅၄ အေဒီ ၁၉၅၄ ခု၊ အောက်တိုဘာလ (၁၃၁၆ ခု၊ တန်ဆောင်မုန်းလ) တွင် ပထမအဆင့်သို့ တက်လှမ်း နိုင်ခဲ့ကြောင်း သိရှိရပါသည်။

ထိုလတွင် ပုထုဇဉ်အနွယ်ကို ဖြတ်တောက်ခြင်း၊ အရိယာဘဝ၏ ပထမအဆင့်သို့ ရောက်ရှိခြင်းဖြစ်သည်ဟု သိရပါသည်။

ထိုအခါ စတုမဟာရာဇ်နတ်မင်းကြီး လေးပါးကြွရောက်လာကြပြီးလျှင် တရားအဆင့် မြင့်သထက်မြင့်အောင် ကျင့်ကြံအားထုတ်ပါရန် လျှောက်ထားခြင်း ဖြစ်ကြောင်း သိရပါသည်။

၁၉၅၅ ဤသို့ဖြင့် တစ်နှစ်ပတ်လည် အချိန်ကြာသောအခါ ဇာတိဘေးကြီးကို အပြီးအပိုင် ဖြတ်တောက်နိုင်ခဲ့သည်ဟု သိရှိရပါသည်။ ထိုအချိန်က ဆားတောင်ဆရာတော်မှာ သက်တော် ၄၄/၄၅၊ အရွယ်တော် ၃၀ မျှသာ ရှိသေးကြောင်း သိရှိရပါသည်။ ထိုနှစ်သည် အေဒီ ၁၉၅၅ ၁၃၁၇ ခုနှစ် ဖြစ်၏။

၁၉၅၅ အေဒီ ၁၉၅၅ ခု (၁၃၁၇ ခုနှစ်) တွင် ဆရာတော်သည် ဆားတောင် ပဋိပတ္တိသာသနာ့ ရိပ်သာ၌ ကိုယ်တွေ့ ကျင့်စဉ်အတိုင်း ကိုယ်တိုင် တရားပြလျက် ပဋိပတ္တိသာသနာကို ပြန့်ပွားစေခဲ့သည်။

၁၉၆၉ အေဒီ ၁၉၆၉ (၁၃၃၁ ခုနှစ်) တွင် ဆားတောင်မှ စဉ့်ကိုင်မြို့နယ်၊ ကသဲကုန်းကျေးရွာ၊ မင်းရွာကျောင်းသို့ ပြောင်းရွှေ့သီတင်းသုံးနေထိုင်ခဲ့သည်ဟု သိရှိရပါသည်။

ဆားတောင်ရိပ်သာ ရန်ကင်းတောင်ရိပ်သာ စဉ့်ကိုင်ရိပ်သာ (စဉ့်ကိုင်မြို့)၊ မင်းကုန်းရိပ်သာ (ကသဲကုန်းရွာ)၊ စဉ့်ကိုင်မြို့နယ်တို့တွင် တစ်လှည့်စီ ဝါဆိုသီတင်းသုံးလျက်ရှိပြီး ပဋိပတ္တိသာသနာကို ဖြန့်ဝေလျက်ရှိပါသည်ဟု သိရပါသည်။

**ဝေဘူဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် ကြွရောက်တွေ့ဆုံခြင်း**

**စေတ်ပြိုင်မှတ်တမ်း**

၁၉၅၆ ဝေဘူတောင်ဆရာတော်ဘုရားကြီး သက်တောင်ထင်ရှားရှိတော်မူစဉ်က ဆားတောင်ဆရာတော်ဘုရားကြီး၏ သာဝက တစ်ဦးသည် ဝေဘူဆရာတော်ဘုရားကြီး ကျောက်ဆည် ဝေဘူတောင်မှာ သီတင်းသုံးတော်မူစဉ်သွားရောက် ဖူးမြော်ကြသည်ဟု ဆိုပါသည်။ ထိုအချိန်သည် အေဒီ ၁၉၅၆ (၁၃၁၈ ခု) ပတ်ဝန်းကျင် ဖြစ်ပါသည်။

ထိုအချိန်မှာ ဆရာတော်ဘုရားကြီး အနားယူချိန်ဖြစ်သဖြင့် ဆရာတော်ကြီး သီတင်းသုံးရာကျောင်းတိုက်၏ အပြင်ဘက် တံခါးအနီး ဖူးမြော်ကန်တော့နေကြပါသည်။ ထိုအခိုက် တံခါးဖွင့်သံ ကြားရပြီး ဝေဘူဆရာတော်ဘုရားကြီးအား ဖူးတွေ့ကြရပါသည်။

ဝေဘူဆရာတော်ဘုရားကြီးက -

"ဒါယကာကြီးတို့က ဘယ်ကတုံးဗျ" ဟု မိန့်ရာ

"တပည့်တော်တို့က ဆားတောင် ဆရာတော်ဘုရားကြီးရဲ့ တပည့်သာဝကတွေပါဘုရား" ဟု လျှောက်ကြရာ ဝေဘူဆရာတော်ဘုရားကြီးက

http://www.dhammadownload.com



"ဩော် ဒါယကာကြီးတို့က ဝီရိယအရှင်သခင်ရဲ့ သာဝကတွေကိုးဗျာ" ဟု မိန့်ကြားတော်မူပါသည်။ ထို့နောက်

"တပည့်တော်တို့ ဆရာတော်ဘုရားကြီး ရဟန်းကိစ္စပြီးပါပြီလားဘုရား' ဟု လျှောက်ကြရာ

"ဒါယကာကြီးရဲ့ ဆရာတော် ရဟန်းကိစ္စပြီးပါပြီဗျာ၊ ဒါယကာကြီးတို့ အရတော်ပါပေ့ဗျာ၊ ကံထူးကြပါပေ့ဗျာ" ဟု ပေဘူဆရာတော် ဘုရားကြီးက မိန့်တော်မူပါသည်။

"အရှင်ဘုရားရော ရဟန်းကိစ္စပြီးပါပြီလားဘုရား" ဟု လျှောက်ကြရာ

"ကျုပ်ကတော့ လျှောက်ဆဲပါဗျာ" ဟု မိန့်တော်မူပါသည်။

ဤအကြောင်းအရာတွေကို ဆားတောင်ဆရာတော်ဘုရားကြီးအား ပြန်လည် လျှောက်ထားကြပြီး

"ဝေဘူ ဆရာတော်ဘုရားကြီး ရဟန်းကိစ္စပြီးပါပြီလားဘုရား" ဟု လျှောက်ကြရာ ဆားတောင်ဆရာတော် ဘုရားကြီးက

"အင်း၊ ဆရာတော်ကြီး ရဟန်းကိစ္စပြီးပါပြီ" ဟု မိန့်ကြားတော်မူပါသည်ဟု ဆိုပါသည်။

"အရှင်ဘုရားရော ရဟန်းကိစ္စပြီးပါပြီလားဘုရား" ဟုလျှောက်မေးမြန်းကြပြန်ရာ ဆားတောင်ဆရာတော်ဘုရားကြီးက

"ကျုပ်ကတော့ လျှောက်ဆဲပါ" ဟု မိန့်ကြားတော်မူပါသည်။

မြတ်စွာဘုရားတို့၏ ဝိနည်းတော်ကို လေးစားကြည်ညိုကြသည့် အရှင်မြတ်ကြီးတို့၏ ပြောဆိုမိန့်ကြားပုံမှာ အတုယူဖွယ်ရာဖြစ်ပါသည်ဟု မှတ်တမ်းတွင် ပါရှိပါသည်။

(ကျမ်းကိုး၊ )

**မဟာစည်ဆရာတော်ဘုရားကြီး**

**ပရိနိဗ္ဗာန်ပြုသွားသည်ဟူ၍ မိန့်ကြားတော်မူခဲ့ခြင်းမှတ်တမ်း**

ဒကာတစ်ယောက်သည် ဆားတောင်ဆရာတော်ဘုရားကြီး သီတင်းသုံးရာ စဉ့်ကိုင်မြို့နယ်က သဲကုန်းကျေးရွာ၊ မင်းရွာကုန်းကျောင်းရိပ်သာသို့သွား၍ လျှာဒါန်းဖူးမြော်ပြီးနောက် စကားအလျဉ်းသင့်သဖြင့် အောက်ပါအတိုင်း လျှောက်ထားသည်ဟု ဆိုပါသည်။

'မနေ့က မဟာစည်ဆရာတော်ဘုရားကြီး ပျံလွန်တော်မူသွား ပြီးဘုရား' ဟူ၍ လျှောက်ထားရာ ဆားတောင်ဆရာတော်ဘုရားကြီးက ထိုစကားကို မနှစ်သက်သဖြင့် ပြန်လည်၍မိန့်ကြားပုံမှာ 'မဟာစည်ဆရာတော်ကြီး ပျံလွန်တော်မူတာ မဟုတ်ပါဘူး၊ ပရိနိဗ္ဗာန်ပြုသွားတော်မူတာပါ' ဟု မိန့်ကြားတော်မူပါသည်ဟု သိရှိရပါသည်။

နားလည်သူများကလည်း ရဟန္တာအရှင်မြတ် အချင်းချင်းမို့ သိခြင်း ဖြစ်ဟန်တူပါသည်ဟု ဆိုကြပါသည်။

**မဟာစည် ဆရာတော်ဘုရားကြီး ပရိနိဗ္ဗာန်ပြုတော်မူကြောင်း စကားလုံးပြင်ဆင်ခဲ့**

မဟာစည်ဆရာတော်ဘုရားကြီးကို ကျမ်းတတ်အကျော်ဆရာတော်ကြီး တစ်ပါးအဖြစ်သာ ရဟန်းရှင် လူအသိများကြပါသည်။ ရဟန္တာဖြစ်ကြောင်း ရဟန်းရှင်လူ အသိနည်းကြပါသည်ဟု သိရပါသည်။ ဆားတောင်ဆရာတော် ဘုရား ကြီး၏ မိန့်တော်မူချက်အရ မဟာစည်ဆရာတော်ဘုရားကြီးသည် ရဟန္တာကိုယ်တော်မြတ်ကြီးဖြစ်ကြောင်း ခိုင်လုံစွာ သိရှိရသဖြင့် ပိုမို၍ ကြည်ညိုမိပါသည်။

(ကျမ်းကိုး၊ ဤနေရာတွင် စာရေးဆရာ မောင်ချမ်းမြေ့၏ ဆားတောင်ဆရာတော် ဘုရားကြီး၏အကြောင်း ရေးသားသည့် စာအုပ်အမှတ် (၂) ' လောကကို လွန်မြောက်ခြင်း စာအုပ်မှ စာ- (၂၂)မှ (၂၇) ထိ ထပ်ဆင့်ဖော်ပြလိုက်လျှင် ကျွန်ုပ်တို့အဖို့ ပိုမိုကြည်ညိုဖွယ်ရာ ဖြစ်လာမည်ဖြစ်သဖြင့် ဖြည့်စွက်ဖော်ပြပါမည်)

http://www.dhammadownload.com



**မဟာစည် ဆရာတော်ဘုရားကြီး ကြွရောက်တော်မူခြင်း**
**ခေတ်ပြိုင်မှတ်တမ်း**

၁၉၅၆

အေဒီ ၁၉၅၆ ခု၊ ဇူလိုင်လ ၂၀ ရက်၊ သောကြာနေ့ (၁၃၁၈ ခုနှစ်၊ ဝါဆိုလဆန်း ၁၃ ရက်) နံနက် ၈ နာရီအချိန်တွင် မဟာစည်ဆရာတော်ဘုရားကြီးသည် ဆိပ်ခွန် ကျေးရွာမှ ရန်ကုန် မဟာစည်ရိပ်သာသို့ ဝါဆိုရန်အကြွတွင် ဆားတောင်ဆရာတော် ဦးပညာဇိကထံ တပည့် နောက် ပါသံဃာတော်များနှင့် ကြွရောက်ပြီး ဆားတောင်ဆရာတော်ကြီး၏ အဖူးအမြော်ခံရင်း အောက်ပါစကားရပ်များကို မေး မြန်းလျှောက်ထားမှုများ ပြုလုပ်ပါသည်။

(မဟာစည်တော်။) ဘယ်နည်းနှင့် တရားအားထုတ်ပါသလဲ။

(ဆားတောင်ဆရာတော်။) တပည့်တော် စွန်းလွန်း ဆရာတော်ဘုရား၏ ထေရုပ္ပတ္တိနှင့် ကျင့်စဉ် စာအုပ်ကို ဖတ်ရှုလေ့လာပြီး သမ္မပ္ပဓာနကျင့်စဉ်အတိုင်း အားထုတ်ပါတယ် ဘုရား။

(မဟာစည်ဆရာတော်။) စွန်းလွန်းဦးကဝိ၏နည်းကလည်း အလွန်ကောင်းတဲ့နည်းပါပဲ၊ ဦးကဝိ လိုကော ပြင်းပြင်းထန်ထန် အားထုတ်နိုင်ပါရဲ့လား။

(ဆားတောင်ဆရာတော်။) မှန်လှပါ၊ တပည့်တော် စွန်းလွန်းဆရာတော် ဘုရားလိုပဲ အားထုတ် နိုင်ပါတယ် ဘုရား၊ အမှန်က စွန်းလွန်းဆရာတော်နည်းအတိုင်းပဲ တပည့်တော် လောဘ၊ ဒေါသ၊ မောဟ စွန့်လွှတ်နိုင်တာဆိုတော့ စွန့်လွှတ်နည်း ဆိုဆို၊ စွန်းလွန်းနည်းဆိုဆို အား ဆုတ်ရတာ ကတော့ စွန့်လွှတ်နည်းပါပဲ ဘုရား။

(မဟာစည်ဆရာတော်။) တရားအားထုတ်ရတာ အားရပါးရရှိပါရဲ့လား။

(ဆားတောင်ဆရာတော်။) အားထုတ်ရတာ အားရပါးရရှိပါတယ်ဘုရား

(မဟာစည်ဆရာတော်။) တရားအရသာ အားရပါးရခံစားရပါသလား။

(ဆားတောင်ဆရာတော်။) မှန်လှပါ၊ အားရပါးရ ခံစားရပါတယ်ဘုရား။

(မဟာစည်ဆရာတော်။) ဒီအတိုင်းဆို မလွဲပါဘူး၊ အသက်လည်ငယ်ပါသေးတယ်၊ ရှေ့ဆက်ပြီး ကိုယ်ခံစားရသလို ဝေနေယျတွေကိုလည်း တရားစခန်းဖွင့်ပြီး တရားပြပေဦးဟုဆို ကာ ဘုရားကို ကန်တော့ပြီး မဟာစည်ဆရာတော် ဘုရားကြီးနှင့်တကွ နောက်ပါသံဃာတော် များသည် မိမိတို့စီးလာသောကားများဖြင့် ရန်ကုန်သို့ ကြွတော်မူကြသည်။

ထိုအချိန်တွင် ရွာသူရွာသားများနှင့်တကွ ဧည့်သည်အများအပြားတို့သည် ကြက်ပျံမကျ တိုးဝှေ့၍ တအုန်းအုန်းနှင့် စုရုံး သွားလာနေကြသည်။

ဖူးမြော်ရန်ခဲယဉ်းလှစွာသော ရဟန်းတော်အကျော်အမော် မဟာစည်ဆရာတော် ဘုရားကြီးကို ဖူးတွေ့နေရ သောကြောင့် ပွင့်ပေါ်စ ဆားတောင်ဆရာတော်ကို အားရကျေနပ် ကြည်ညိုသဒ္ဓါ ပွားမိနေကြသောအချိန် ဖူး၍ မဝဖြစ် ကြရပါသည်။ ဂုဏ်ယူလို့မဆုံး ဖြစ်ကြရပါသည်။

ထိုအချိန်တွင် နောက်ထပ် အံ့ဩဖွယ်ရာ သတင်းတစ်ခုက ထပ်မံ ဖြစ်ပွားလာပြန်ပါသည်။ ဝေဘူဆရာတော် ဘုရားကြီး ကြွလာပြီတဲ့ ဟူသော သတင်းစကားသည် ပရိသတ်အများထဲတွင် ပြန့်နှံ့သွားခြင်း ဖြစ်ပေသည်။

ထိုအခါ ပရိသတ်တို့သည် သူ့ထက်ငါ ရှေ့ကရောက်အောင် အတင်းတိုးဝှေ့ ဖူးမြော်ကြရင်းဖြင့် မဏ္ဍပ်ထဲအထိ ရောက်လာကြသည်။ မဏ္ဍပ်ထဲတွင် ဝေဘူဆရာတော်ကြီး သီတင်းသုံးရန်အ တွက် ကြွချီတော်မူရာသို့ နောက်မှ ကပ်လိုက်လာကြခြင်း ဖြစ်သည်။ ပါးစပ်ကလည်း တတွတ် တွတ်နှင့် ဆုတောင်း၍ ပီတိအဟုန် သဒ္ဓါစုံဖြင့် လက်စုံမိုး၍ ရှိခိုးကန်တော့နေကြသည်ဟု မျက်မြင် ပုဂ္ဂိုလ်တို့က ပြောဆိုကြပါသည်။

http://www.dhammadownload.com



ဆားတောင်ဆရာတော်ဘုရားကြီးက ဝေဘူဆရာတော်ဘုရားကြီးအား တရားပလ္လင်ရှေ့မှောက် တည့်တည့်တွင် အရိုအသေပြုလျက် ဖူးမြော်ပြီး သီတင်းသုံးနေသည်ဟု ဆိုပါသည်။

ထူးခြားသော အကြောင်းအရာတစ်ခုမှာ ဝေဘူဆရာတော်ဘုရားကြီးမှာ တရားပလ္လင်ပေါ်တွင် ရောက်လျှင် ရောက်ခြင်း ဘာစကားတစ်ခွန်းမှ မိန့်ကြားပြောဆိုခြင်း မပြုသကဲ့သို့ ဆားတောင် ဆရာတော်ကလည်း ဘာစကားတစ်ခွန်းမှ လျှောက်ထားခြင်းမရှိဟု ဆိုပါသည်။

ကိုယ်တော်ကြီး နှစ်ပါးစလုံး စကျွန္တကြွေချ၍ သီတင်းသုံးနေစဉ် သမာပတ်ဝင်စားနေစဉ်မှာ ပင် ဆားတောင်ဆရာတော်ဘုရားကြီးမှာလည်း ဝေဘူဆရာတော်ဘုရားကြီးကဲ့သို့ပင် စကျွန္တကြွေ ချ၍ သီတင်းသုံးနေတော်မူသည်ဟု သိရပါသည်။

ထိုအချိန်တွင် အလွန်များပြားလှသော ပရိသတ်အားလုံးတို့သည်လည်း အပ်ကျသံပင်မကြား ရောက်အောင် ငြိမ်သက် နေကြသည်ဟု သိရပါသည်။ ဤသို့ဖြင့် နောက်ထပ် နာရီဝက်ခန့် အကြာတွင် ဆရာတော်နှစ်ပါးသည် တစ်ပြိုင်တည်း မျက်လုံးများ ဖွင့်တော်မူကြသည်ဟု ဆိုပါသည်။ ထိုအချက်သည်လည်း မှတ်သားဖွယ်ရာ ဖြစ်ပါသည်။ ရဟန္တာဆရာတော်ကြီး နှစ်ပါးအချင်းချင်း မေးမြန်း ပြောဆို မိန့်ကြားကြသည်မှာလည်း မှတ်သားဖွယ်ရာ ဖြစ်ပါသည်။ အောက်တွင် ဖတ်ကြည့်ပါ။ ဦးစွာပထမ ဝေဘူဆရာတော်ဘုရားကြီးက မိန့်ကြားတော်မူ၏။

(ဝေဘူဆရာတော်။) အရသာမရှိဘူးလားဗျ၊ မချမ်းသာဘူးလားဗျာ၊ ကျွန်ုပ်တို့ တစ်သံသရာလုံး ရှာခဲ့ကြတာ အခုမှပဲ အားရပါးရကြီး ခံစားကြရတာ မဟုတ်လားဗျာ။ ဆရာတော်လေးက တယ်ပါရမီထူးတာကိုးဗျ၊ အသယ်ငယ်ငယ်နှင့် ကိစ္စပြီးတယ်ဆိုတာတော့ တယ်ပါရမီထူးတာကိုး၊ သာသနာအတွက် ကျွန်ုပ်တို့တော့ အားထားပါတယ်။ ဝေနေယျတွေပါ ချွတ်ပါ။ တရားပြပါ။ ကျွတ်ထိုက်တဲ့ ပုဂ္ဂိုလ်တွေ အများကြီးရှိပါသေးတယ်ဗျာ၊ ဆရာတော်ကလေးက အမိုက်ရှင်း ရမှာဆိုတော့ သာသနာခရီးမှာ သာသနာအကျိုးစီးပွားအတွက် သာသနာပြုပေးပါဦး။

(ဆားတောင်ဆရာတော်။) မှန်လှပါဘုရား။

(ဝေဘူဆရာတော်။) ကြွလာကြတဲ့ ပရိသတ်တွေကလည်း တယ်များသကိုးဗျာ၊ ပါရမီထူးပါပေ့ ဗျာ၊ မသေမီတရား ဦးအောင်လုပ်ကြဗျာ။ ဖုဋ္ဌဿ လောကဓမ္မေဟိ၊ စိတ္တံ ယဿ နကမ္ပတိ၊ အသောကံ ဝိရဇံ ခေမံ၊ ဧတံ မင်္ဂလ မုတ္တမံ။ (လောကဓံတရား ရှစ်ပါးတို့နှင့် တွေ့ကြုံရသော ရဟန္တာ၏စိတ် သည် မတုန်မလှုပ်၊ စိုးရိမ်ကြောင့်ကြခြင်း လည်း မရှိ၊ ကိလေသာရမ္မက်ဟူသော မြူလည်းမရှိ၊ ကြောက်ထိတ်လန့်တွေးဘေးလည်း မရှိ။)

ဘုရားဟောတဲ့ မင်္ဂလာတရားနှင့် ညီပါပေတယ်ဗျာ၊ သူတော်ကောင်းအပေါင်းတို့ သာဓုခေါ်ကြ ဗျာ၊ သာဓုခေါ် ကြဟု မိန့်တော်မူလိုက်သောအခါတွင် ကြွရောက်လာကြသည့် အားလုံးသော ပရိသတ်တို့သည် အထက်ဘဂ်၊ အောက်အဝီစိတိုင်အောင် သာဓုသံများ လွှမ်းမိုးသွားပေသည်ဟု မှတ်တမ်းတင်ထားကြောင်း ဖတ်ရှုရပါသည်။

တချို့သော လူတို့မှာ ဆရာတော်ချာန်ကြွတာ ဖူးကြရသည်ဟု ဆိုကြပါသည်။ အချို့တို့က လည်း ပြန်လည်ပြောကြားသည်မှာ ဆားတောင်ဆရာတော်ကြီးသည် ဒိပ်လျက်နှင့် ခါးနှင့် ခုတင်မထိဘဲ တစ်တောင်လောက်မြောက် နေတာမျိုးဖူးရသည်ဟု ဆိုကြပါသည်။ ကုဋီကြွတာ မြေကြီးနဲ့ ခြေတော်မထိတာမျိုး ဖူးရသည်ဟုလည်း အချို့က ဆိုကြပါသည်။ ဆရာတော်အခန်းမှ သန်းခေါင်ယံချိန်တွင် ဝင်းဝင်းလက်လက် တွေ့ရဖူးသည်ဟုလည်း အချို့က ပြောဆိုကြပါ သည်။ မေတ္တာရေမှ ရေပွက်ပြီး ပုလင်းအပြင်သို့ ရေများ စီးကျလာမျိုး ဖူးရသည်ဟုလည်း အချို့ကပြောဆိုကြပါသည်။

http://www.dhammadownload.com



ဆားတောင်ဆရာတော်ဘုရားကြီးသည် မန္တလေးမြို့လယ် မဟာသကျသီဟဘုရားတွင်းရှိ ဝေဇယန္တာ ဓမ္မာရုံကြီးတွင် (၃) ကြိမ် တရားချီးမြှင့်ဖူးပါသည်။ ရန်ကုန်၊ မော်လမြိုင်၊ လားရှိုး၊ ကသာမြို့ကြီးများတွင်လည်း တရားချီးမြှင့်ဖူးသည်ဟု သိရပါသည်။

ဆရာတော် အဓိက တရားချီးမြှင့်ခဲ့သည့်နေရာတို့မှာ - (၁) မန္တလေးတိုင်း၊ စဉ့်ကိုင်မြို့နယ်၊ ကသဲကုန်း ကျေးရွာ၊ မင်းရွာကုန်းကျောင်းရိပ်သာ (၂) ဆရာတော်ဘုရားကြီး၏ ဇာတိ (စစ်ကိုင်းတိုင်း၊ စစ်ကိုင်းမြို့နယ်)၊ ဆားတောင် ပဋိပတ္တိ သာသနာ့ရိပ်သာ။ (၃) မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ ရန်ကင်းတောင်ခြေမြောက်ဘက်ရှိ ဆားတောင် ပဋိပတ္တိ သာသနာ့ရိပ်သာ။ (၄) မန္တလေးတိုင်း၊ စဉ့်ကိုင်မြို့နယ်၊ 'ရွှေကျီးနားဘုရား' တောင်ဘက်ရှိ ' ထိ သိ သတိ' ဆားတောင်ရိပ်သာ စသည်တို့ဖြစ်ကြောင်း သိရှိရပါသည်။

(ကျမ်းကိုး၊ ဆရာတော်အကြောင်း ပိုမိုသိရှိသူတို့က ဤစာကို ဖြည့်စွက် ရေးသားကြလျှင်ဆိုပါလျှင် ဆားတောင်ဆရာတော်ကြီး၏ ထေရုပ္ပတ္တိ ရုပ်ပုံလွှာသည် ကြည်ညိုဖွယ် အားကျဖွယ် ပိုမိုရှိလာမည်ဖြစ်ပါသည်။ ယခုကား ဖတ်ရှုရသမျှကိုသာ ထပ်ဆင့်ကူးယူ တင်ပြရပါသည်။ အကျယ်ကြည့်လိုလျှင် ကျေးဇူးရှင် ဆားတောင်ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိနှင့် တရားကျင့်စဉ်စာအုပ်ကိုလည်းကောင်း၊ ဆားတောင် ဆရာတော်ဘုရားကြီး၏ဝိပဿနာတရားအားထုတ်နည်း အစဉ်ကိုလည်းကောင်း ကြည့်ရှုရန် ဖြစ်ပါသည်။ ဦးအောင်လင်း ဒေါ်စန်းစန်းမြင့် ၁၂၅၊ လသာလမ်း၊ ရန်ကုန်၏ ဓမ္မဒါန၊ ဦးသိန်းထွန်း ဆေးတက္ကသိုလ် ဒေါ်ခင်လှရီတို့ မိသားစုတို့၏ ဓမ္မဒါန ဖြစ်ပါသည်။)

ကျမ်းကိုး။ မသိသူကျော်သွား သိသူဖော်စား ကျွန်တော်ဆက်ရေးချင်သော ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများပေါင်းချုပ်ကြီး ဆားတောင်ဆရာတော် အရှင်ပညာဇောတိက (၁) အချစ်ဂျာနယ်၊ အတွဲ ၄ ၊ အမှတ်၅၀၊ ၁၃-၃-၂၀၀၆ တွင် ပါခဲ့ပြီဖြစ်ပါသည်။ ဆားတောင်ဆရာတော် အရှင်ပညာဇောတိက (၂) အချစ်ဂျာနယ်၊ အတွဲ ၄၊ အမှတ် ၅၁၊ ၂၀-၃-၂၀၀၆ တွင် ပါခဲ့ပြီဖြစ်ပါသည်။

ဆားတောင်ဆရာတော်ဘုရားကြီး၏ နည်းပေးလမ်းပြ ဆိုဆုံးမသော ဩဝါဒများကို ပုသိမ်ကြီးမြို့၊ မြေစာရင်းဦးစီးအရာရှိ ဦးတင်ဝင်း၊ ဇနီး ဒေါ်စောမြင့်တို့၏ တိုက်တက်မင်္ဂလာတွင် ကုသိုလ်ပြုသော ဓမ္မဒါန စာအုပ်မှ ရရှိပါသည်။

၁။ တရားနှင့်အိပ်စက်ခြင်း၊ တရားနှင့် နိုးထခြင်း၊ တရားနှင့် မွေ့လျော်ခြင်း ဒါအပ္ပမာဒတရားပဲ၊

၂။ တောထဲလွတ်ကျောင်းတဲ့ နွားတွေဟာ နေ့တိုင်း ဒီစားကျက်ပဲ စားနေကြတာပဲ။ စားစရာမရှိဘူး ထင်ရပေမယ့် ကိုက်ပါများတော့လည်း ဗိုက်ပြည့်တာပဲ။ တရားဆိုတာ လည်း ဒီအတိုင်းပါပဲ၊ ဒီခန္ဓာပဲ နေ့စဉ်ရှုမှတ်နေရမှာပဲ။

၃။ ဘာမဆိုအတွင်းက အေးနေအောင် လုပ်ရတယ်။ အပြင်က ဘယ်လောက်ပူပူ အတွင်းက အေးနေတော့ အေးတာပဲ။ အပြင်က ဘယ်လောက်အေးအေး အတွင်းက ပူတော့ လည်း ပူတာပဲ။

၄။ အားကိုး မများစေနဲ့၊ မိမိကိုယ်ကို အားကိုးရမယ်။

၅။ ခန္ဓာရှိသရွေ့ အမြဲတမ်း ဆင်းရဲနေမှာပဲ၊ ဆင်းရဲတွင်းက လွတ်ဖို့တရားအားထုတ်ပါဆိုတော့ မထုတ်ချင်ကြဘူး။

၆။ ဘယ်ပုဂ္ဂိုလ်ပဲဖြစ်ဖြစ် တရားကတော့အားထုတ်ရမှာပဲ။ အားထုတ်ခွင့်ကြုံတုန်း အားထုတ်ထားကြ၊ သာသနာပပြီဆိုတော့ ဝိပဿနာနှင့် တွေ့ရမှာမဟုတ်ဘူး၊ ဒီတော့ ပိုနစ်နာတယ်။

http://www.dhammadownload.com



၇။ သစ်ရိပ်ဝါးရိပ်ထက် မိဘရိပ်က အေးတယ်။ မိရပ် ဘရိပ်ထက် ဘုရားရိပ်၊ တရားရိပ်၊ ဆရာ့အရိပ်က အေးတယ်။ အေးတဲ့နေရာကျတော့ လူတွေ မရှိကြဘူး။ ပူမှာပေါ့ ပူတဲ့ နေရာနေကြတာကိုး၊ ပူမှာပေါ့ ပူတာ ရှုနေကြတာကိုး။

၈။ တရားအားထုတ်တယ်ဆိုတာ အားနဲ့ မာန်နဲ့ ထုတ်ရတယ်။ မသေချာ၊ မရေရာတဲ့ အလုပ်တွေတောင်မှ ဟုတ်နိုးနိုး တော်နိုးနိုးနဲ့ သက်စွန့်ဆံဖျား လုပ်နေရတာပဲ။ သေချာ ရေရာတဲ့အလုပ် ဘာမလုပ်ရဲစရာရှိသလဲ၊ ဆင်းရဲတစ်ဘဝပေါ့၊ တစ်ဘဝတောင်မှ ခဏလေးပါ။

၉။ ကိုယ့်ခန္ဓာကိုယ်ရှု၊ သူများအပြစ် သွားရှုမနေနဲ့၊ သူများအပြစ်ကိုရှုတော့ အမှုပွေတာပေါ့။

၁၀။ စိတ်ဆိုတာ မြင်းမိုရ်တောင်နှင့် ကြိတ်လို့ကြေတာ မဟုတ်ဘူး၊ ဝိပဿနာနှင့်ကြိတ်မှ ကြေတယ်။

၁၁။ မိမိစိတ်ကို မိမိဆုံးမနေဖို့ပဲ လိုတယ်။ မိမိစိတ်ကို မိမိဆုံးမနေတဲ့ ပုဂ္ဂိုလ်က မိမိကိုယ်ကို စောင့်ရှောက်နေသလို၊ လောကကြီးကိုလည်း စောင့်ရှောက်ပြီးသား ဖြစ်ပါတယ်။ တရား အားထုတ်ဖို့ပဲ လိုပါတယ်။

၁၂။ လောဘ၊ ဒေါသ၊ မောဟ ကင်းအောင် ပြုတ်အောင်လုပ်ကြ။ ဖြစ်အောင်မလုပ်နဲ့၊ ပျက်အောင်လည်း မလုပ်နဲ့၊ ဖြစ်တာ ပျက်တာ အမြဲသိနေတာ၊ ဖြစ်အောင်လုပ်တာ လောဘ၊ ပျက်အောင် လုပ်တာက ဒေါသ၊ ဖြစ်တာ၊ ပျက်တာ မသိတာက မောဟ။

၁၃။ မခံသာတာမှန်သမျှ တရားကြီးပဲ။

၁၄။ ထိတိုင်း ထိတိုင်း သိနေပစေ။ ကိလေသာ ကြားမခိုစေနဲ့။

၁၅။ ချမ်းသာမှုဆိုတာ ဆုတောင်းနေလို့ ရတာမဟုတ်ဘူး၊ လုပ်ယူမှ ရတာ၊ ဖြစ်သဘော ပျက် သဘောသိတော့ လောဘ၊ ဒေါသ၊ မောဟ၊ မရောတော့ဘူး၊ ဒီတော့ ကြည်လင် မြေ လွတ်ငြိမ်းချမ်းသာတာပေါ့။

၁၆။ ဝိပဿနာ တရားအားထုတ်ရတာ အလွန်ကောင်းပါတယ်။ အဝတ်လည်း ပြောင်းစရာ မလိုဘူး၊ ဂူလည်း အောင်းစရာ မလိုဘူး၊ ပုထုဇဉ်စရိုက် မှုပြောင်းဖို့ လိုတယ်။

၁၇။ မိမိခန္ဓာက ဖြစ်ပေါ်နေတဲ့ ဝေဒနာကို သည်းခံရှုနိုင်မှ၊ ပတ်ဝန်းကျင်ရဲ့ လောကဓံကို လည်း ခံနိုင်ရည် ရှိမှာပဲ။

၁၈။ လူအများ မချီးမြှောက်ရင်နေ၊ အရိယာ သူတော်ကောင်းတွေ မျက်ကွယ်မပြုစေနဲ့။

၁၉။ လူမိုက်ကတော့ သူ့အလုပ် သူလုပ်မှာပဲ၊ ကိုယ်က ခံနိုင်ရည်ရှိဖို့သာ လိုတယ်။ တရား အားထုတ်တဲ့အခါ ပြင်းထန်တဲ့ ဝေဒနာကို သည်းခံနိုင်ခဲ့သေးတာပဲ၊ ပြင်ပ လေတိုက် တော့ ဘာမခံနိုင် စရာရှိလဲ။

၂၀။ ဘုရားစကား နားလည်အောင်လုပ်၊ ဘုရားစကား နားလည်ရင် လောကစကားတွေ အားလုံး နားလည်တယ်။

၂၁။ တို့ ဘုရားကတော့ သတ္တဝါတွေ အားလုံးကို ချမ်းသာအောင် ထားခဲ့ပြီးသားပဲ၊ သတ္တဝါ တွေက ဉာဏ်မမီတော့ မကြည်လင်တာ ဖြစ်နေကြတာပဲ။

၂၂။ ဝိပဿနာတရားဆိုတာ စွန့်လွှတ်တဲ့ တရား။ လောဘ၊ ဒေါသ၊ မောဟ တို့ကို ကျွတ် လွတ်အောင် စွန့်လွှတ်နေတာ။ ဒီတော့ ပြင်းပြင်းထန်ထန် အားထုတ်ကြ။ တုံးတိုက် တိုက်၊ ကျားကိုက်ကိုက် နောက်မဆုတ်တမ်း အားထုတ်ကြ။

(ကျမ်းကိုး၊ ဦးချစ်သန်း၊ ရန်ကင်းတောင်တော်သမိုင်း၊ ၁၉၉၅ ခု၊ စက်တင်ဘာလ၊ ပထမအကြိမ်၊ လူထုကြီးပွားရေးပုံနှိပ်တိုက်၊ မန္တလေး စာ ၁၄၃ - ၁၄၇)

http://www.dhammadownload.com



**ဖြစ်ရပ်ဆန်းများ ထောင့်အမျိုးမျိုးမှ ပေါ်ထွက်လာ**

ဆားတောင်ရိပ်သာ၏ အတွင်းရေးမှူးလည်းဖြစ်၊ ဘဏ္ဍာရေးမှူးလည်းဖြစ်သည့် ဦးဗိုလ်ခင် (ယခုဥက္ကဋ္ဌ)သည် နေ့တရားထိုင်ချိန်အပြီး၊ ဆရာတော်ဘုရားကြီး၏ သီတင်းသုံးသည့် တိုက်ခန်းထဲ၊ ဆရာတော်ဘုရားကြီးနံဘေးမှာထိုင်လျက် ယပ်ပူဇော်ရင်းထိုင်နေပါသည်။ ထိုင်ပြီး ယပ်လှူနေရင်း စိတ်ထဲမှ ဆရာတော်ဘုရားကြီးအား မိမိအိမ်အတွင်း ဂျုံးအိတ်၊ နှမ်းအိတ်၊ ပဲအိတ်တွေ ပျောက်ပျောက်နေပြီး၊ မည်သူခိုးယူမှန်းလည်း မသိဘဲဖြစ်နေသည့် အကြောင်း လျှောက်နေပါသည်။

**မေတ္တာဆေး**

ခဏအကြာ ဆရာတော်ဘုရားကြီးအား ကန်တော့လျက် ထပြန်မည်အလုပ်၊ ဆရာတော် ဘုရားကြီးက"နေဦး"ဆိုပြီး ထိုင်ခုံ၏နံဘေး စားပွဲပေါ်ရှိမေတ္တာဆေးကျောက် (၄)လုံးယူကာ၊ အာရုံပြုပြီး "ရော့-မင်းအိမ်ထောင့် (၄)ထောင့်မှာမြှုပ်ထား" လို့မိန့်ပြီး၊ ဦးဗိုလ်ခင်ကို ပေးလိုက်ပါသည်။

ဦးဗိုလ်ခင်သည် ဝမ်းသာစွာဖြင့် ဆရာတော်ဘုရားကြီး စွန့်သည့်မေတ္တာဆေးကျောက်(၄)လုံး ယူခဲ့ပြီး အိမ်အရောက် အိမ်၏ (၄)ထောင့်တွင် မြှုပ်ထားလိုက်ပါသည်။

နေ့ရောညပါ ဘယ်လိုဖမ်းဖမ်း မမိသည့်သူခိုးကား၊ ဒီတစ်ခါတော့ အမိဖော်မည်ဟု စိတ်ဆုံးဖြတ်ချက်ချလိုက်ပါသည်။

**ထွက်ပြေးသွားသော သူခိုး**

နောက်မကြာမီ တစ်ည နံဘေးအိမ်မှ "သူခိုး၊ သူခိုး" ဟု အော်သံကြားသဖြင့် လက်နှိပ်ဓာတ်မီးနဲ့ထိုးပြီးကြည့်လိုက်ရာ သူခိုးသည် ဝင်းထရံပေါ်မှ ခုန်ချကာ ထွက်ပြေးသွားပါတော့သည်။ ပစ္စည်းလည်း ပါမသွားပါ။

**နောက်တစ်ကြိမ် မလာတော့ကြောင်း ကိုယ်တွေ့**

နောက်လည်း ယင်းသူခိုး ဘယ်တော့မှ မလာတော့ကြောင်း ကျွန်တော့်အား ဦးဗိုလ်ခင်က ပြောပြလို့သိရပါသည်။

(ကျမ်းကိုး၊ ကျေးဇူးတော်ရှင် ဆုတောင်းပြည့် ဆားတောင်ဆရာတော်ဘုရားကြီး၏ အကြောင်း။ "ပြဒါးရှင်လုံးကြီး"(သို့မဟုတ်)"သိသူဖော်စား မသိသူကျော်သွား၊ အမှတ် (၂)၊ စာ-၃၊ ကြည်း ၁၂၆၇၄ ဒုတိယဗိုလ်ချုပ်ကြီး ဆန်းဆင့်၊ စစ်ရာထူးခန့်ချုပ် ကာကွယ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် ရရှိခဲ့ပါသည်)

**မီးချောင်း အစိမ်းရောင်နှင့် ဖြစ်ရပ်ဆန်း ကိုယ်တွေ့**

လွန်ခဲ့တဲ့ (၂၅)နှစ်ကျော်လောက်က ဖြစ်ပါသည်။ ဦးကျော်ငွေး (ယခု မန္တလေး၊ ပုသိမ်ကြီး မြို့နယ်၊ ရန်ကင်းတောင်ခြေရှိ ဆရာတော်ဘုရားကြီး၏ရိပ်သာတွင် သီတင်းသုံးလျက်ရှိသည့်ဦးဝေပုလ္လသည် သူ့ရွာ ဝက်လက်မြို့သို့ မပြန်ခင် ရက်ပိုင်းအလိုလောက် ဆရာတော်ဘုရားကြီးက သူ့အား မီးချောင်းအစိမ်းရောင်ကို ပို့ခိုင်းပါသည်။

ဦးကျော်ငွေးကလည်း ဆရာတော်ဘုရားကြီးမိန့်သည့်အတိုင်း မီးချောင်းအစိမ်းရောင်ကို ရှာဝယ်ပြီး ဆရာတော်ဘုရားကြီးအား လှူပါသည်။ ဆရာတော်ဘုရားကြီးက "ဘယ်လောက်ပေးရမှာလဲ" ဟုမိန့်ရာ ဦးကျော်ငွေးက "တပည့်တော် လှူတာပါဘုရား" ဟု လျှောက်လိုက်ပါသည်။

http://www.dhammadownload.com



လှူပြီးနောက် မကြာခင် ဝက်လက်မြို့သို့အပြန် မိမိစီးလာသည့်ကားမှာ ဂျစ်ကား အစိမ်းရောင် ဖြစ်မှန်းသတိထားမိပါသည်။

လမ်းခရီးတစ်ဝက်ကျော်လောက် အရောက်တွင် ကားကခွေးကို ရှောင်လိုက်ရာ ဂျစ်ကားမှာ မှောက်သွားပါသည်။ မိမိပေါင်ပေါ်သို့ ဂျစ်ကားဒေါင်လိုက် ကားဘော်ဒီကျလာသည်ကို သတိထားမိလိုက်ရာ ပေါင်တော့ပြတ်ပါပြီလို့ အောက်မေ့လိုက်ပါသည်။ ဒါပေမဲ့ ဆရာတော်ကြီး၏ မေတ္တာကြောင့် ပေါင်ကျသည့်နေရာမှာ မြေကြီးက ချိုင့်နေကြောင်း နောက်မှသိရပါသည်။ ဒါကြောင့်မို့ ပေါင်မပြတ်ဘဲ ပေါင်မှာဒဏ်ရာအနည်းငယ်သာရကြောင်း သိရသဖြင့် "ြော်-ဆရာတော်ကြီးက ဒါကြောင့် ငါ့ကို မီးချောင်းအစိမ်းရောင် ယတြာခြေတဲ့အနေနဲ့ လှူခိုင်းတာကိုး" လို့ ဆရာတော်ဘုရားကြီးက ဒုက္ခိတဘဝမှ လွတ်မြောက်အောင်ကယ်တဲ့ ဆရာတော်ဘုရားကြီးပါလားဆိုတာ မိမိကိုယ်မိမိ သိလိုက်ရတယ်ဆိုတဲ့အကြောင်း ကျွန်တော့်အား ပြောပြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄

## ခြေထောက်ဖြတ်ရမည့် ဖြစ်ရပ်ဆန်း ကိုယ်တွေ့

တစ်နေ့ မောင်အောင်လင်းသည် မိုးကုတ်မြို့နေသူ၏ အဒေါ် ဒေါ်မြတင်မှာ ဆရာတော်ဘုရားကြီးအား တစ်ခါမှမဖူးဖူးသဖြင့် ရန်ကင်းတောင်ရိပ်သာသို့ ခေါ်လာခြင်းဖြစ်ပါသည်။ ဒေါ်မြတင်သည် ခြေထောက်တစ်ဖက် ထော့နဲ့ထော့နဲ့နှင့် တွဲပြီးလျှောက်ရပါသည်။

ဒေါ်သိန်းတင်ကျောင်းမှာ နှစ်ထပ် အသားကျောင်းဖြစ်သဖြင့် ဆရာတော် ဘုရားကြီး သီတင်းသုံးသည့် အပေါ်ထပ်သို့ လူနှစ်ယောက်တွဲပြီး လျှောက်ရပါသည်။ ဒေါ်မြတင်အား ဆရာတော် ဘုရားကြီး၏ ခြေတော်ရင်းအရောက် တွဲသူများက ပို့ပေးကြပါသည်။

ဒေါ်မြတင်သည် ဆရာတော်ဘုရားကြီးအား ဖူးမြော်ကန်တော့ပြီး "ဆရာတော် ဘုရား တပည့်တော် ရန်ကုန်ကို ကိစ္စတစ်ခုနဲ့ သွားရမှာပါဘုရား။ အဲဒီကအပြန် ဆရာဝန်တွေက တပည့်တော်ရဲ့ခြေထောက်ကို ဖြတ်ရမယ်လို့ ပြောပါတယ်ဘုရား။ တပည့်တော်ကို စောင့်ရှောက်တော်မူပါဘုရား" လို့ လျှောက်ပါသည်။ ဆရာတော်ဘုရားကြီးသည် ဆိတ်ဆိတ်နေတော်မူပြီး အာရုံပြုကြည့်ကာ "ဒကာမကြီး ဖြတ်စရာ မလိုပါဘူး၊ ရန်ကုန်က ပြန်လာရင် နှမ်းဆီစစ်စစ်ယူလာခဲ့ပါ" ဟုမိန့်လိုက်ပါသည်။ နောက်ဒေါ်မြတင် ရန်ကုန်မှ ပြန်လာပြီး ဆရာတော်ဘုရားကြီးဆီသို့ ဒုတိယအခေါက်လာဖူးသည့်အခါ နှမ်းဆီစစ်စစ်ထည့်ထားတဲ့ပုလင်း ယူလာပါသည်။

ဆရာတော်ကြီးသည် ထိုနှမ်းဆီပုလင်းနှင့် မေတ္တာဆေးကျောက် (ဆားတောင်မှ သစ္စာဂူဘုရားတောင်ပေါ်ရှိ သံဓာတ်ပါသည့် ကျောက်တုံးလေးများ) တို့ကိုအာရုံပြုပြီး နှမ်းဆီနှင့် မေတ္တာဆေးကျောက် သွေးလိမ်းဖို့ မိန့်လိုက်ပါသည်။

## ခြေထောက် မဖြတ်ရတော့ကြောင်း ဝန်ခံချက်

ဆရာတော်ဘုရားကြီး အာရုံပြုပေးသည့် နှမ်းဆီနှင့် မေတ္တာဆေးကျောက်သွေးလိမ်းသဖြင့် အခုအချိန်အထိ ဒေါ်မြတင်ခြေထောက်မဖြတ်ရတော့ပါ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၅

## ဘောလုံးသမားနှင့် ဖြစ်ရပ်ဆန်း ကိုယ်တွေ့

ဘောလုံးသမား ကိုတင်ငွေ(ဆိပ်ကမ်း)သည် ဘောလုံးပြိုင်ပွဲနေ့တိုင်း၊ နေ့ခင်းပိုင်း ဆရာတော်ကြီးဆီ တရားလာအားထုတ်ပါသည်။ တရားကို ပြင်းပြင်းရှူသူလည်းဖြစ်ပါသည်။

http://www.dhammadownload.com



ညနေပိုင်း ဘောလုံး ပြိုင်ရာတွင် နိုင်လေ့ရှိသည်။ နောက်ဆုံး ဖိုင်နယ်ဗိုလ်လုပွဲပြိုင်ရမှာ အခြားပြိုင်ဖက် အသင်း(လပခ) အလယ်ပိုင်းတိုင်းစစ်ဌာနချုပ်မှာလည်း နာမည်ကြီး အသင်းဖြစ်နေသဖြင့် မနိုင်မှာလည်း စိုးရိမ်နေမိပါသည်။ နေ့ခင်းပိုင်းတရားအားထုတ်ပြီး ဆရာတော်ကြီးအား အထူးစောင့်ရှောက်ဖို့ လျှောက်ထားခဲ့ပါသည်။

ညနေတွင် ဘောလုံးပြိုင်ရာ မိမိသွင်းသည့် မထင်မှတ်သည့် ဘောလုံးများ၊ တစ်ဖက်အသင်းဘက်သို့ ဂိုးများဝင်သွားကြောင်း သိရသဖြင့် မိမိကိုယ်တိုင်အံ့ဩမိကြောင်း ပြောပြပါသည်။ ထိုနေ့က ဒိုင်းရသဖြင့် အပျော်ကြီးပျော်မိကြောင်းလည်း ပြောပြပါသည်။

**တရားအားထုတ်သူများကို စောင့်ရှောက်သော လို့တရ ပြဒါးရှင်လုံးကြီး**

နောက်နေ့တွင် ဆရာတော်ကြီးအား "တပည့်တော်သွင်းသည့် ဂိုးများမယုံကြည်နိုင်လောက်အောင်တစ်ဖက် အသင်းဂိုးထဲသို့ လေနဲ့ဝေ့ပြီး ဂိုးများဝင်သွားကြောင်း၊ တစ်ဖက်အသင်းမှရှူးသောဝင်နိုင်သော ဂိုးများမဝင်ကြောင်း" ကို လျှောက်ရာ ဆရာတော်ကြီးက "ခင်ဗျားရှူးတဲ့ဂိုးတွေဝင်မှာပေါ့၊ ကျုပ်ကဒီကနေ "ဖူး" ဆိုပြီး လေနဲ့မှုတ်သွင်းလိုက်တာ တစ်ဖက်အသင်းကသွင်းတဲ့ဂိုးတွေကိုလည်း မဝင်နိုင်အောင် ကျုပ်ကလက်နဲ့တောက်လိုက်တာ" လို့ပြောမှ ဆရာတော်ကြီးသည်တရား အားထုတ်သူကို ကိုယ်လိုချင်တာရအောင် စောင့်ရှောက်ပေးသည့် တကယ့် "ပြဒါးရှင်လုံးကြီး" ဆိုတာ သိရပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၇

**အရက်လှူသူများနှင့် ဖြစ်ရပ်ဆန်း**

ဆရာတော်ကြီးထံ အရက်လှူသူများ မိမိလှူထားသည့် လမစေ့ဘဲ နှစ်မစေ့ဘဲ ပြန်သောက်မိသူများ သွေးအန်ပြီး ဒုက္ခရောက်တတ်ပါသည်။

မိမိက မသောက်ချင်ဘဲနှင့် အပေါင်းအသင်းများက အတင်းတိုက်လျှင် အရက်ဖန်ခွက်မှာအလိုလိုကွဲသွားကြောင်း သိရပါသည်။ ထိုဘောလုံးသမား ကိုတင်ငွေသည် ဆရာတော်ကြီးအားအရက်လှူထားသဖြင့် ဘောလုံးပွဲနိုင်လို့ စားပွဲရုံတွင် အသင်းလိုက် စားသောက် ကြသည့်အခါ အရက်မသောက်ဘဲ ဘီလပ်ရည်သာ သောက်ပါသည်။ ကိုတင်ငွေသည် အပြင်သို့နှပ်သွားညစ်ခိုက် သူ့သူငယ်ချင်း ဘောလုံးသမားတစ်ဦးက သူ့ဖန်ခွက်ထဲ အရက်ထည့်ပြီး ဘီလပ်ရည် ရောထားပါသည်။

ကိုတင်ငွေသည် ရောထားမှန်း မသိဘဲနှင့်သောက်မလို့ ဖန်ခွက်ကိုကိုင်မှ ဖန်ခွက်မှာ အလိုလိုကွဲသွားကြောင်းအံ့ဩစွာ ပြောပြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၈

**ကြွေးတင်သူ တစ်ယောက်၏ ဖြစ်ရပ်ဆန်း**

ဘောလုံးသမားကိုတင်ငွေသည် သူ့မိန်းမ သူများတွေဆီမှ ယူသုံးထားသောငွေမှာ သိန်းလေးဆယ်လောက် ရှိနေပါသည်။ သူသည် ဦးနှောက်ခြောက်ပြီး ဘယ်လိုဆပ်ရမှန်းမသိ ဖြစ်နေပါသည်။

ဦးနှောက်ခြောက်ခြောက်နဲ့ ဆရာတော်ကြီးအား ထီဆုကြီးပေါက်ဖို့ရယ်၊ ချဲအောဂဏန်းပေါက်ဖို့လျှောက်မိရာ ဆရာတော်ကြီးက "ခင်ဗျားကို ကျုပ် (မေတ္တာဓာတ်)နဲ့ နေ့တိုင်းကျွေးနေတာ ခင်ဗျား မသိဘူးလား" လို့ မိန့်မှ သူလောဘကြီးသွားကြောင်း သိရပါသည်။

ဒါပေမဲ့ တစ်နေ့ဆရာတော်ကြီး နေ့ဆွမ်းဘုဉ်းပေးနေချိန် ရောက်သွားရာ ဆရာတော်ကြီးကကြည်ဥ အနှစ် အလုံးကို ဖွန်းနှင့်ခပ်ပြီး "ကျုပ်ခင်ဗျားရဲ့ အကြွေးတွေကို ဆပ်ပေးရတာပေါ့"

http://www.dhammadownload.com



လို့ပြောပြီး သူ့ကိုပေးပါသည်။ သူက လက်နဲ့ယူပြီး စားမလို့ပြင်ရာ ဆရာတော်ကြီးက "လက်နဲ့ မယူနဲ့ ရှေ့တိုး" ဆိုပြီး ကိုယ်တော်တိုင် သူ့ပါးစပ်ထဲ ခွံ့ကျွေးပါသည်။

သည့်နောက်ပိုင်း ပိုက်ဆံတွေဘယ်လိုကနေ ဘယ်လိုဝင်မှန်း မသိဘဲ အကြွေးတွေ ပြေလုနီးပါး ဖြစ်သွားကြောင်း ပြောပြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၉

**သွေးလွန်တုပ်ကွေးဖြစ်စဉ်က ဖြစ်ရပ်ဆန်း**

စဥ့်ကိုင်ရိပ်သာ မတည်ထောင်ခင် လွန်ခဲ့တဲ့ (၁၅)နှစ်ကျော်လောက်က အဖြစ်အပျက်တစ်ခုကို စဥ့်ကိုင်မြို့နေ ကိုအောင်ထွန်းခိုင်မှ ပြောပြပါသည်။

ထိုအချိန်က စဥ့်ကိုင်ပြည်သူ့ဆေးရုံတွင် ကလေးတွေ "သွေးလွန်တုပ်ကွေး"ဖြင့် အသေအပျောက် တော်တော်များနေပါသည်။ အဲဒီအချိန်တုန်းက ကိုအောင်ထွန်းခိုင်သည် စိတ်မကောင်းစွာဖြင့် ဆရာတော်သီတင်းသုံးရာ ကသဲကုန်းရိပ်သာတွင်ညအိပ် သွားပါသည်။ ဆရာတော်ကြီးက သိတော်မူသဖြင့် သူ့အား "ဘာကိစ္စလာတာတုံး"လို့ မေးပါသည်။ ဒါနဲ့ ကိုအောင်ထွန်းခိုင်က "စဥ့်ကိုင်ဆေးရုံမှာ သွေးလွန်တုပ်ကွေးကြောင့် ကလေးတွေ တစ်နေ့ တစ်နေ့ တော်တော်များများ သေနေကြကြောင်း" လျှောက်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅

**ဆွမ်းဆန်စိမ်း အလှူခံကြွသော ဖြစ်ရပ်ဆန်း**

ဒါနဲ့ ဆရာတော်ကြီးက အဲဒီလိုဆိုရင် "ကျုပ်ဆွမ်းဆန်စိမ်း အလှူခံကြွမယ်"လို့ မိန့်ပါသည်။ အဲဒီအချိန်တွင် စဥ့်ကိုင်မြို့မှာ ဆရာတော်ကြီးရိပ်သာလည်း မရှိသေးပါ။ ကိုအောင် ထွန်းခိုင်မှာလည်း အသက်ကငယ်ငယ် (၂၀)ကျော်လောက်ဆိုတော့ ဆရာတော်ကြီးပင့်ရမှာ ခက်ခက်ခဲခဲဖြစ်နေပါသည်။ ဒါကို ဆရာတော်ကြီးက သိတော်မူလို့ "ဘာပဲဖြစ်ဖြစ်၊ ပင့်ဖြစ်အောင်ပင့်" လို့ မိန့်တော်မူလို့ ကိုအောင်ထွန်းခိုင်သည် နောက်ရက်မနက် စဥ့်ကိုင်ပြန်ကာ သူငယ်ချင်း သန်းအေးနှင့်တိုင်ပင်၍ ဆရာတော်ကြီး ပင့်ဖို့အစီအစဉ်တွေ ပြုလုပ်ပြီး နောက်တစ်ရက် ဆရာတော်ကြီးအား ဆွမ်းဆန်စိမ်း အလှူခံကြွဖို့ ပင့်ဖြစ်ပါတော့သည်။ စဥ့်ကိုင်လမ်းဆုံမှ ဆေးရုံအထိ ဆရာတော်ကြီး ဆွမ်းဆန်စိမ်း အလှူခံကြွတော်မူပါသည်။

အဲဒီနေ့မှစပြီး ကလေးတွေ "သွေးလွန်တုပ်ကွေး" ဖြင့် အသေအပျောက် မရှိတော့ ကြောင်း ကိုအောင်ထွန်းခိုင် ပြောပြသဖြင့် သိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၆

**မီးလောင်သည့် ကိစ္စဖြစ်ရပ်ဆန်း**

တစ်ခါကလည်း ဆရာတော်ကြီး ရန်ကင်းတောင်ရိပ်သာမှာ သီတင်းသုံးနေစဉ်ကဖြစ်ပါသည်။ အမေ့အိမ်၏ အနောက်ဘက်ကအိမ်သည် ဓာတ်ဆီမှောင်ခိုရောင်းသည့်အိမ် ဖြစ်ပါသည်။

အေဒီ ၁၉၉၆ — ၁၉၉၆ ခုနှစ် ဖေဖော်ဝါရီလဆန်းလောက်က ထင်ပါသည်။ နေဝင်ပြီးခါစအချိန်တွင် ၄င်း ဓာတ်ဆီမှောင်ခိုအိမ်မှ မီးစတင်လောင်ပါတော့သည်။ ဓာတ်ဆီရောင်းသည့် အိမ်မီးလောင်တော့ အိမ်နီးနားချင်းက အိမ်တွေ မလွယ်တော့။ အားလုံးလောင်ကုန်မှာ သေချာပါသည်။

အေဒီ ၁၉၈၂ — ထိုအချိန်တုန်းကလည်း ကျွန်တော်သည် ဆရာတော့်အနားမှာ ဝေယျာဝစ္စဆောင်ရွက်နေပါသည်။ ဆရာတော်ကြီးသည် ဇာတိဆားတောင်ရိပ်သာသို့ ဆားတောင်မှ လူကြီးတွေ ပင့်လျှောက်ထားချက်အရ ၁၃၄၄ ခုနှစ် ဝါဆိုဦးမှ စပြီး တစ်နှစ်တွင်သုံးကြိမ်ကြွပြီး တရားစခန်း ချီးမြှင့်လေ့ရှိပါသည်။

http://www.dhammadownload.com



သကြံန်တွင်း အပါအဝင် တန်ခူးလတွင် ဆားတောင်သင်းတွဲမှ ဦးဘမောင်+ဒေါ်အိ (ဇနီး မောင်နှံနှစ်ဦးလုံး မရှိတော့) တို့ မိသားစုက ပင့်ပါသည်။ ဝါဆိုဖြစ်က တစ်ဝါတွင်းလုံး ဝါမဆိုခင် တစ်လကို ဆားတောင်ရိပ်သာအဖွဲ့မှ အလှူခံပြီး တာဝန်ယူပင့်ပါသည်။

ပြာသိုလတွင် ဆားတောင်ကားလမ်းနေ ဦးသုခ+ဒေါ်ဝက် (အခုနှစ်ဦးလုံးမရှိတော့) တို့ကပင့် ပါသည်။

ဆားတောင်သို့ တရားစခန်းချီးမြှင့်ဖို့ ကြွသည့်အခါတိုင်း စဥ့်ကိုင်မြို့နယ်၊ ကသဲကုန်း ရိပ်သာမှ အာရုံဆွမ်းဘုဉ်းပေးပြီး ကြွအလာ၊ မန္တလေး အမေ့အိမ်တွင် တစ်ထောက်နားပြီး အမေက နေ့ဆွမ်းကပ်လေ့ရှိပါသည်၊

တစ်ခါတစ်ရံမှသာ သာယာကုန်းမှ မခင်မကြီး၏ အမေ့အိမ်က နေ့ဆွမ်း ကပ်ပါသည်။

မီးလောင်သည့်ညက ကိုကျော်ဝေ သူ့သူငယ်ချင်းကားနဲ့ ရန်ကင်းတောင်ရိပ်သာသို့ ရောက် လာပြီး "ကိုသန်းဆွေ၊ ခင်ဗျားအမေ့အိမ် မီးထဲပါသွားပြီ၊ မီးခိုးလုံးတွေမှ နည်းတာမဟုတ်ဘူး၊ ကျွန်တော်တို့ဝင်လို့မရတာနဲ့ ခင်ဗျားဆီ အခုလာပြောတာ"လို့ ပြောပါသည်။ "ခင်ဗျားသွား မယ်ဆိုရင် ဒီကားနဲ့လိုက်ပို့မယ်" လို့ ဆက်လက် ပြောပါသည်။

ဆရာတော်ကြီးရှေ့ပြောသဖြင့် ကျွန်တော်က ဆရာတော်ကြီးအား "တပည့်တော် သွားရမလား ဘုရား"လို့ လျှောက်တော့ ဆရာတော်ကြီးက "နောက်နေ့မှ သွားပါ"လို့ မိန့်ပါသည်။

ဒါနဲ့ နောက်ရက် ဆရာတော်ကြီး အရုဏ်ဆွမ်းဘုဉ်းပေးပြီးသည့်အချိန် ဆရာတော်ကြီးအား လျှောက်ကာ အမေ့အိမ်သို့ လိုင်းကားနဲ့သွားပါသည်။ ခပ်လှမ်းလှမ်းမှ အမေ့အိမ် မြင်ရတော့ ကျွန်တော်အံ့ဩဝမ်းသာ ဖြစ်ရပါသည်။

အမေ့အိမ်သည် ဆရာတော်ကြီးသာ မစောင့်ရှောက်ပါက ပြာအတိပြာပုံဖြစ်ရမည့် အိမ်ဖြစ်ပါ သည်။ အခုတော့ မဆိုစလောက် မပြောပလောက်အောင် မီးဟပ်တယ်ဆိုရုံသာ လောင်သည့် သဘော မျိုးဖြစ်ပါသည်။

ကျွန်တော် ရန်ကင်းတောင်ပြန်ရောက်တော့ ဆရာတော်ကြီးက ကျွန်တော့်အား "ဘယ့်နှယ်တုံး ကျေနပ်ရဲ့လား"လို့ မိန့်ပါသည်။

ဆရာတော်ကြီး၏ မေးခွန်းကို ကျွန်တော်က အံ့အားသင့်စွာဖြင့် ဆရာတော်ကြီးအား "ဆရာ တော်ကြီး၏ မေတ္တာတော်ကြောင့် အမေ့အိမ် မီးထဲမပါပါဘူးဘုရား။ ကျေးဇူးကြီးမားလှပါ တယ်ဘုရား"လို့ လျှောက်ထားရပါသည်။

ကျမ်းကိုး။ ယင်းကျမ်း၊ စာ-၃၉

**ဆရာတော်ကြီးနှင့် အမေးအဖြေ**

တစ်ခါက ဆရာတော်ကြီးသည် တပည့်တွေအား အောက်ပါအတိုင်း မေးခွန်းထုတ်ဖူးပါသည်။

ဆရာတော်-ကဲ မင်းတို့ ပြောကြစမ်း၊ ကံရယ်၊ ဉာဏ်ရယ်၊ ဝီရိယရယ် ဒီသုံးမျိုးမှာ ဘယ်သူက အရေးကြီးဆုံး ပထမဖြစ်သလဲ။

တပည့်များက စဉ်းစားကြပြီး မိမိထင်ရာ လျှောက်ကြပါသည်။ တစ်ယောက်က ကံက ပထမ၊ ဉာဏ်က ဒုတိယ၊ ဝီရိယက တတိယဖြစ်ပါတယ်ဘုရားလို့ လျှောက်ပါသည်။

တစ်ဦးကဉာဏ်က ပထမ၊ ကံက ဒုတိယ၊ ဝီရိယက တတိယဖြစ်ပါတယ်ဘုရားလို့ လျှောက်ပါ သည်။

နောက်တစ်ယောက်က ဝီရိယ ပထမ၊ ဉာဏ်က ဒုတိယ၊ ကံက တတိယ ဖြစ်ပါတယ်ဘုရား လို့ လျှောက်ပါသည်။ တစ်ယောက် တစ်ပေါက် ဖြေကြခြင်း ဖြစ်ပါသည်။

http://www.dhammadownload.com



ဒီတော့ ဆရာတော်ကြီးက "ကဲကဲ တော်ကြတော့" ဆိုပြီး အောက်ပါအတိုင်း မိန့်ပါသည်။ "ကံက နံပါတ်တစ် အရေးကြီးဆုံး၊ ဉာဏ်က ပထမအရေးအကြီးဆုံး၊ ဝီရိယက ထိပ်ဆုံးက အရေးအကြီးဆုံး" လို့ သုံးမျိုးစလုံး နံပါတ်တစ်နေရာမှာ အရေးအကြီးဆုံးချည်း ဖြစ်နေကြောင်း အဖြေ ပေးသိရှိရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၁

**ခန္ဓာဝန်ချသောနှစ်**

အေဒီ ၂၀၀၇ ဆားတောင်ဆရာတော်ဘုရားကြီး ဦးပညာဏိကသည် သက်တော် (၈၃)နှစ်၊ သိက္ခာတော် (၆၄)ဝါအရ ၁၃၆၉ ခု၊ တန်ဆောင်မုန်းလဆန်း ၄ ရက်၊ ခရစ်နှစ်အလို(၁၂၊၁၁၊ ၂၀၀၇) အင်္ဂါနေ့၊ နံနက် (၁၀)နာရီ (၄၅)မိနစ်တွင် သီတင်းသုံးတော်မူရာ ဆားတောင် ပဋိပတ္တိကျောင်းတိုက်ကြီး၌ ခန္ဓာဝန်ချတော်မူခဲ့ပါသည်။ သံသရာတွင် တစ်ခါပြန်၍ ဆုံနိုင်စရာ အကြောင်းမရှိတော့ပါ ဟူ၍သာ ဆိုရပါတော့မည်။

http://www.dhammadownload.com



ဇနီးမောင်နှံ နှစ်ဦးစလုံးအတူတကွ တောထွက်ပြီးနောက်
ဇနီးကလည်း တရားထူးရ၍၊ ခင်ပွန်းသည်ကလည်း ဓာတ်တော်တဖွားဖွား ကျတော်မူသော
ပဲခူးတိုင်း၊ အုတ်ဖိုမြို့နယ်၊ ရဟန္တာအရှင်မြတ်ကြီး

# စလူမြောင်တောရ မုတင်ဆောင် ဆရာတော်
# ဦးသီလာစာရ

၁၉၂၈ – ၁၉၉၈



http://www.dhammadownload.com



**တည်နေရာ**

စလူမြောင်တောရသည် ပဲခူးတိုင်း၊ အုတ်ဖိုမြို့ တာဆုံမှ အရှေ့ဘက်ခြောက်မိုင်ခွဲ ကွာဝေးသော တိမ်ညွန့်ကျေးရွာ၌ တည်ရှိသည်။ စလူမြောင်တောင်၊ စလူမြောင်တောတွင် ရှေးယခင်က ဆရာတော်သုံးပါး လာရောက်သီတင်းသုံး နေထိုင်ခဲ့ဖူးလေသည်။

**ယခင်က ကျွတ်တောကြီး**

ကျွတ်စသော မကောင်းမိစ္ဆာအစိမ်းသရဲများ ပျော်ပါးခိုအောင်းရာ ဒေသဖြစ်သဖြင့် "ကျွတ်တောကြီး" ဟု အနီးအနားရွာများက ခေါ်ဝေါ်ခဲ့ကြသည်။ အနီးအနားရွာများမှ နေထိုင် မကောင်းသူရှိပါက ၎င်းတော၌ ကျွတ်စာကျွေးခြင်း၊ ရွာစာချခြင်းပြုလုပ်မှ ရောဂါဝေဒနာ သက်သာပျောက်ကင်းကြောင်း အစွဲရှိခဲ့ကြလေသည်။

**အရိုးများ တောင်လိုပုံ**

သို့ကြောင့် စလူမြောင်တောအတွင်း၌ ကြက်၊ ဘဲ စသည့် တိရစ္ဆာန်အမွေးများ၊ အရိုးများ ပြန့်ကျဲနေလေသည်။ ထို့အပြင် တောဝက်၊ ခွေးအ၊ တောကြောင်၊ ချေ၊ ကြက်၊ ငှက် တောတိရစ္ဆာန်များ ကျင်လည်ကျက်စားရာ နေရာဒေသတစ်ခုဖြစ်လေသည်

(ကျမ်းကိုး၊ စံသူမြတ် (သုံးဆယ်)၊ ဝိဇ္ဇာ ၊ ရသစုံမဂ္ဂဇင်း၊ ၂၀၀၈ ခုနှစ်၊ ဇူလိုင်လ၊ စာမျက်နှာ - ၁၁၃)

**သရက်နှစ်ပင်မှာ တစ်ဝါ**

နေ့အချိန်၌ပင် ကြက်သီးထလောက်စရာကောင်းသော အရပ်ဒေသတစ်ခု ဖြစ်ပါသည်။ ဆရာတော် ဦးသီလာစာရ ရဟန်းဘဝ ရောက်ရှိပြီးသည့်အခါ သရက်နှစ်ပင် တောရ ဆရာတော်ကျောင်း၌ တစ်ဝါသီတင်းသုံးခဲ့ပါသည်။

**စလူမြောင်တောသို့ ဝင်လို၍ သစ္စာပြု**

ထို့နောက် ဆရာတော်သည် စလူမြောင်တောသို့ ရွှေ့ပြောင်းပြီး တရားဘာဝနာ ပွားများချင် စိတ်ပေါ်ပေါက်ခဲ့လေသည်။ သရက်နှစ်ပင် ဆရာတော် ညွှန်ပြခဲ့သော နေရာ၌ ဖယောင်းတိုင်များကိုင်ဆောင်ပြီး မေတ္တာတရားလက်ကိုင်ထားကာ အောက်ပါအတိုင်း သစ္စာတိုင်တည်ခဲ့ပါသည်ဟု သိရှိရပါသည်။

ဒီတောင် ဒီနေရာမှာ နေထိုင်ကြတဲ့ တောစောင့်နတ်၊ တောင်စောင့်နတ်၊ ဘုမ္မစိုး၊ ရုက္ခစိုး၊ အာကာသစိုး စတဲ့နတ်အပေါင်းတို့ သင်တို့ကိုလည်းပဲ ငါတို့ မမြင်ရပါ။ အကယ်၍ ရှိခဲ့ကြလို့ရှိရင် ငါတို့သည် ဒီတောင်ဒီနေရာ၌ သီတင်းသုံးနေထိုင်၍ မြတ်ဘုရားရဲ့ သာသနာတော် အဆုံးအမများကို လိုက်နာပြီး တရားဘာဝနာပွားများ သာသနာပြုမည်ဟု ရည်ရွယ်ပါသည်။ ငါတို့သည် လူ့ဘောင် လူ့လောကကို ငြီးငွေ့လျက် စည်းစိမ်ဥစ္စာတို့ကို စွန့်ကြလှူဒါန်းကာ တောထွက်လာခဲ့တာ မှန်ပါသည်။ သင်တို့ မြတ်စွာဘုရားအား ရည်မှန်း၍ လှူဒါန်းနိုင်ရန်အတွက် ငါတို့က သင်တို့ကို ဖယောင်းတိုင်များ စွန့်ကြပေးကမ်းပါ၏။ ငါတို့ပေးသော ဖယောင်းတိုင်ဆီမီးကို ဘုရားမှာ လှူဒါန်းပြီး လိုရာဆုတောင်းလျက် ကျွတ်တမ်းဝင်နိုင်ကြပါစေ။ တို့လည်းပဲ ဒီတောင်မှာ သီတင်းသုံးပြီး သာသနာပြုသောအခါ တို့ လိုလားသော တရားများကို လွယ်ကူစွာရအောင် တို့ကိုလည်း ကူညီစောင့်ရှောက်ပါ။ ငါတို့ ပြုခဲ့တဲ့ ဒါန၊ သီလ၊ ဘာဝနာ ကုသိုလ်တို့ကိုလည်း သင်တို့အား 'အမျှပေးဝေပါ၏။ အမျှ . . အမျှ . . အမျှ သင်တို့လည်း သာဓုခေါ် ဆို နိုင်ကြပါစေသော်' ဟု မေတ္တာပို့ အမျှဝေကာ ဖယောင်းတိုင် မီးထွန်းညှိပေးပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၄

http://www.dhammadownload.com



**ဇနီးက သာသနာ့အနွယ်ဝင်သီလရှင်**

ဆရာတော်ကျောင်းနှင့် မလှမ်းမကမ်း၌ ဆွမ်းစားဇရပ်တစ်ဆောင် ဆောက်လုပ်၍ ဆရာတော်၏ လူဝတ်ကြောင်ဘဝက ဇနီးသည် တော်စပ်ခဲ့ဖူးသော သီလရှင် ဒေါ်သုမနစာရီ နေထိုင်ပါသည်။ စလူမြောင်တောရသည် ဆရာတော်တို့၏ သန့်ရှင်းစင်ကြယ်သော မေတ္တာဓာတ်လွှမ်းခြုံရစ်သိုင်းကာ တရားဘာဝနာပွားများရာ ဒေသတစ်ခု ဖြစ်လာခဲ့ပါတော့သည်။

**လူ့ဘဝက ဇာတ်လမ်းဟောင်း**

ဆရာတော် ဦးသီလာစာရ၏ လူအမည်မှာ မောင်သန်းမြင့် ဖြစ်သည်။

**မွေးသက္ကရာဇ်နှင့် ဇာတိရပ်ရွာ**

အေဒီ ၁၉၂၀ — ပဲခူးတိုင်း၊ အုတ်ဖိုမြို့၊ အလယ်ကုန်း ကျေးရွာ၊ အဘဦး ဖိုးသင်၊ အမိဒေါ်မယ်ကြန်တို့မှ ခရစ်နှစ် ၁၉၂၀ ခုနှစ်၊ နတ်တော် လဆန်း (၈) ရက်၊ သောကြာနေ့တွင် မွေးဖွားခဲ့ပါသည်။ မွေးချင်းသုံးဦးအနက် အထွေးဆုံး ဖြစ်သည်။

**ငါးနှစ်သားအရွယ်တုန်းက**

အေဒီ ၁၉၂၅ — အသက်ငါးနှစ်သားအရွယ်၌ ရွာဦးကျောင်း ဒုတိယဆရာတော် ဦးကုသထံ၌ သင်ပုန်းကြီးအပြင် အောင်ခြင်း၊ သဒ္ဒါ၊ သင်္ဂြိုလ်စသည်တို့ကို သင်ကြားခဲ့သည်။

**၂၂ နှစ်သားမှာ အိမ်ထောင်ပြု**

အေဒီ ၁၉၄၂ — ၂၂နှစ်သား အရွယ်၌ တစ်ရွာတည်းသူ မဟန်နှင့် အိမ်ထောင်ပြုခဲ့လေသည်။ သားနှစ်ယောက် ဖွားမြင်ခဲ့ပြီး လူလားမမြောက်မီမှာပင် ဆုံးပါးခဲ့ကြသည်။

**ဇနီးမောင်နှံ အဗြဟ္မစရိယ**

အိမ်ထောင်သက်ရလာပြီးနောက် ဇနီးမောင်နှံ တိုင်ပင်ကာ သက်သတ်လွတ်ဟင်းလျာစားခြင်း၊ ငါးပါးသီလစောင့်ထိန်းခြင်းအပြင် အဗြဟ္မစရိယ သိက္ခာပုဒ်ကိုလည်း စောင့်ထိန်းခဲ့ကြသည်။ ဇနီးမောင်နှံနှစ်ဦး အိပ်မက်ထူးများမြင်မက်ခဲ့၍ လောကီလမ်းမှလောကုတ္တရာလမ်းသို့ ကူးပြောင်းရန် ဒုကုလနှင့် ပါရိကာထုံး နှလုံးမူကာ တောထွက်ခဲ့ကြလေသည်။

**တောမထွက်မီ ရှိသမျှ အကုန်လှူ**

ထိုသို့ တောမထွက်မီ၌ သူတို့ပိုင်ဆိုင်ခဲ့ကြသော ရွှေ၊ ငွေ၊ လက်ဝတ်လက်စား ငါးကျပ်သား၊ အိမ်ကြီးတစ်လုံး၊ သွပ်မိုးပျဉ်ကာ နွားတင်းကုပ်ကြီး တစ်လုံး၊ ခြံမြေလယ်ဧက (၂၀)၊ နွားကောင်ရေ (၁၂) ကောင်၊ မြင်း (၁) ကောင်၊ လှည်းကြီး တစ်စီး၊ လှည်းငယ်တစ်စီးတို့ကို သာသနာ့ဘောင်သို့ မကူးပြောင်းမီ အလှူခံသူများအား အလှူပေးခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁၄

**နှစ် (၄၀) က အတုယူဖွယ် ဇာတ်လမ်းတစ်ခု**

လွန်ခဲ့သော နှစ်ပေါင်း ၄၀ ခန့်က ပဲခူးတိုင်း၊ အုတ်ဖိုမြို့နယ်၊ စလူမြောင်တောင်၊ စလူမြောင်တောရ တပ်ဦးကျောင်းဆရာတော် ဘဒ္ဒန္တသီလာစာရဟူ၍ ထူးမြတ်သော အရှင်မြတ် တစ်ပါး ပေါ်ထွန်းခဲ့ဖူးပါသည်။ ထိုအရှင်မြတ်သည် လူတို့ မွေ့တာ အိမ်ထောင် ကျခဲ့ပါသော်လည်း ပါရမီနိုးချိန်တန်သောအခါ အိုးပစ်အိမ်ပစ် ဘဝစည်းစိမ်တို့ကို စွန့်ပစ်ကာ ရဟန်းဘဝဖြင့် တောထွက်၍ ကျင့်ကြံအားထုတ်တော်မူခဲ့သည်။ ထိုသို့ တောထွက်ရာတွင် ဇနီးသည်ကိုယ်တိုင်လည်း သီလရှင်ဘဝဖြင့် လိုက်ပါ၍ အားထုတ်ခဲ့လေရာ ဤခေတ် ဤသာသနာမှာ ရှာမှရှား ထူးခြားသော မှတ်တမ်းတစ်ပုဒ် ဖြစ်လာခဲ့ပါသတည်း။

http://www.dhammadownload.com



**ကိုရင်ဘဝ**

အေဒီ ၁၉၃၅ မောင်သန်းမြင့်သည် ကိုရင်သာမဏေဘဝဖြင့် တစ်ဝါဆိုခဲ့ပြီး အသက် ၁၅ နှစ်တွင် ကျောင်းထွက်၍ မိဘရပ်ထံ ပြန်လာခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၇၉

**လယ်သမားဘဝ**

မိဘစကား မြေဝယ်မကျ နားထောင်ရင်း မောင်သန်းမြင့်သည် လယ်ယာ လုပ်ငန်းခွင်၌ ကြိုးစားပျော်မွေ့ခဲ့ပါသည်။

**အိမ်ထောင်သည်ဘဝ**

အေဒီ ၁၉၄၄ ထို့နောက်မှာတော့ မောင်သန်းမြင့်၏ ဖခင်ကြီးလည်း ကွယ်လွန်သွားခဲ့ပြီ။ မောင်သန်းမြင့်သည့် လယ်ယာအလုပ်များကို ကြိုးစားလုပ်ကိုင်ရင်း အသက် ၂၂ နှစ်သို့ ရောက်သောအခါ တစ်ရွာတည်းသူ ဆွေမျိုးလည်း မကင်းသော 'မဟန်' ဆိုသူနှင့် အိမ်ထောင်ကျသည်။

**ဇနီးအလိမ္မာ**

မဟန်မှာလည်း ဘာသာသွေးပါလာသူဖြစ်၍ ယဉ်ကျေးလိမ္မာသူ ဖြစ်လေသည်။ မောင်သန်းမြင့်ကို ဦးသုံးကြိမ်ချ ကန်တော့ပြီးမှ အိပ်လေ့ရှိပြီး စားဦးစားဖျား ဆို၍ ဟင်းမြည်းတာတောင် မလုပ်ခဲ့ပေ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၇၉

အိမ်ထောင်သက်လေးနှစ်အတွင်းမှာ စီးပွားတက်လာပြီး အမွေဆိုင်အိမ်ကြီးကို ကိုယ်ပိုင်အိမ်ဖြစ်အောင် အမ်းယူလိုက်နိုင်သည်၊ သမ္မာအာဇီဝ၌ ယုံကြည်သက်ဝင် ကြိုးစားခဲ့ရာ ရေမြင့်ကြာတင့် ဘဝအခြေမြင့်မားခဲ့ပါသည်။ နောက်ထပ်လယ် ၁၂ ဧက တိုးချဲ့ ဝယ်ယူနိုင်ခဲ့သည်အထိ စီးပွားတက်ခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၈၀

**နွားမေတ္တာစာ**

"မင်းတို့လုပ်အားနဲ့ ရုန်းကန်ပြီး ရတဲ့စပါးနဲ့ ငါတို့လှူခဲ့ကြတာပါကွာ၊ ဒီရှင်ပြု အလှူ မင်္ဂလာပွဲကြီးကို မင်းတို့ အလှူလို့ သဘောထားပါ။ နွားတိရစ္ဆာန်ဘဝက လွတ်ပြီး နတ်ပြည် ရောက်ရပါလို၏လို့ ဆုတောင်းကြကွာ၊ ကဲ . . ငါတို့ အမျှဝေမယ်၊ သာဓုခေါ်ကြ. . " ခိုင်း နွားကြီးနှစ်ကောင်မှာ လူစကားနားလည်ဟန်ဖြင့် ဘူး. . ဘဲ အော်ကြလျက် မျက်ရည်များပင် ဝေ့ဝဲ အသည်းခိုက်အောင် ရှင်မြူးသွားခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၈၀

**နွားကြီးသေ၍ သံဝေဂ ရခဲ့**

၂၂ နှစ်တိုင် လုပ်ကိုင်ကျွေးမွေးခဲ့တဲ့ နွားကြီးထီအောင်ရဲ့ အသုဘ၊ မရဏကို ကြည့်ပြီး ကိုသန်းမြင့်နဲ့မဟန် အကြီးအကျယ် သံဝေဂရခဲ့ပါသည်။ ဒါကြောင့် ဒါနသီလ ဘာဝနာ အလုပ်တွေ ယခင်ကထက် ကြိုးကုတ်ပြီး လုပ်ဆောင်လာခဲ့ပါသည်။

သို့သော်လည်း တရားအားထုတ်တဲ့ဘက်က သိသာထူးခြားတဲ့ တိုးတက်မှု မရခဲ့ပါချေ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၈၁

**ထူးဆန်းသော အိပ်မက်များ**

မကြာမီမှာပင် ကိုသန်းမြင့်နှင့်မဟန် မေ့လမ်းပွင့်ခဲ့ရပါသည်။ ထိုအိပ်မက်များမှာ တစ်ညတည်း

http://www.dhammadownload.com



တစ်ကြိမ်တည်း အိပ်မက်များ ဖြစ်ပါသည်။ ဓမ္မနိမိတ် အိပ်မက်များ ဖြစ်လေရာ သာမန်လူတွေ မက်နေကျ အိပ်မက်ထက် အလွန်အမင်း ထူးဆန်း၍ နေပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၈၁

**မောင်သန်းမြင့်၏ အိပ်မက်**

မောင်သန်းမြင့်၏ အိပ်မက်များအလွန်ထူးလေသည်။ အောက်ပါအတိုင်း မှတ်တမ်းရှိ၏။ သိသူတို့ ဖော်ယူကြပါလော့။

၁။ သမုဒ္ဒရာကို ကူးမည်ဟု ကမ်းစပ်ရောက်သည်ဟု မက်ခြင်း။

၂။ သမုဒ္ဒရာကို သံတံတားကြီးဖြင့် ကူးရာ အလယ်လောက်တွင် တံတားမဆက်မိဘဲ (၁၂) တောင်ခန့် ပြတ်နေပြီး ထိုအပြတ်ကို ကျွန်းသစ်မျောသားလေး မခိုင့်တခိုင်ကို သေချာစွာ တုပ်နှောင်မထားဘဲ တလှုပ်လှုပ်နှင့် အောက်ကိုကြည့်ပြန်တော့လည်း သမုဒ္ဒရာရေလှိုင်းကြီး တွေက ကြောက်စရာ၊ နောက်သို့ လှည့်မကြည့်ဘဲ ကူးလေရာ တစ်ဖက်တံတားပေါ် တက်ပြီး ဟိုဘက်ကမ်းသို့ ရောက်သွားသည်။ နောက်မှ လိုက်လာသော မဟာန်လည်း ထိုသစ်သားတုံးပေါ် မှ တုန်တုန်ရီရီ ကူးလာပြီး ရောက်လာတော့ မောင်သန်းမြင့်ကို "သူတောင်မစောင့်ဘူး၊ ကံကောင်းလို့ အောက်ကို မကျတယ်" ဟု ပြောသည်ကိုမက်ခြင်း။

၃။ သမုဒ္ဒရာကို ကူးရန် ကမ်းစပ်သို့ ရောက်သည်ဟု ထပ်မံမက်ခြင်း။

၄။ သမုဒ္ဒရာတစ်ဖက်ကမ်း အောင်မြင်စွာ ကူးပြီး သာယာစွာ တရားဟောရသည်ဟု မက်ခြင်း။

၅။ ရဟန်းဘဝရောက်သည်ဟု မက်ခြင်း။

၆။ ခြေထောက်၊ မြေကြီးမထိဘဲ ခရီးသွားရသည်ဟု မက်ခြင်း။

၇။ ငါးရှဉ့် နှစ်ကောင်တွေ့သည်ကို လူတစ်ယောက်က အသတ်ခိုင်းရာ မသတ်ဘူးလို့ ပြောသည် ဟု မက်ခြင်း။

၈။ သမုဒ္ဒရာကို ကူးမည်လို့ ထပ်မံ မက်ခြင်း။

၉။ သက်သတ်လွတ် စားရသည်ဟု မက်ခြင်း။

၁၀။ ဘုရား၏ ကျောင်းတော်ကို မြင်၍ မဟာန်ကိုသွားမည်ဟု ပြောရာ မဟာန်က သူလည်း လိုက်မယ် စောင့်ပါဦးလို့ ပြောသည်ဟု မက်ခြင်း။

၁၁။ ကျောင်းဆောက်လုပ်လှူဒါန်းရသည်ဟု မက်ခြင်း။

၁၂။ ဆင်စီးရသည်ဟု မက်ခြင်း။

၁၃။ တရားဟောရသည်ဟု မက်ခြင်း။

၁၄။ သင်္ကန်းဆီးရသည်ဟု ထပ်မံမက်ခြင်း။

၁၅။ ဦးရေအေး - ဒေါ်အေးအိမ် ဆွမ်းကျွေးအလှူသွားရာ ရဟန်းတစ်ပါးက သူနောက်ကို အကြည့်ခိုင်း၍ ကြည့်ရာ စာလုံးတွေ တွေ့ရသည်ဟု မက်ခြင်း။

၁၆။ ရဟန်းတစ်ပါး အိမ်သို့ ကြွလာ၍ သက်သတ်လွတ်ဆွမ်း ကပ်ရသည်ဟု မက်ခြင်း။

၁၇။ မဟာန် သီလရှင်ဝတ်တော့မည်ဟုပြောသောအခါ အသက် ၂၀ခန့် မိန်းကလေး နှစ်ယောက် က မောင်သန်းမြင့်ကို မြှူဆွယ်ရာ မတုန်လှုပ်ဟု မက်ခြင်း။

၁၈။ ဖိုးသူတော်ကလိုလို၊ ရဟန်းကလိုလို "မြောက်ကျောင်း ဦးခေမိန္ဒနှင့် ဦးဝံသတို့ တရားအား ထုတ်နေကြပြီလို့ ပြောသည်" ဟု မက်ခြင်း။

၁၉။ ရဟန်းဘောင်ရောက်ပြီး ထူးခြားသော အသိအမြင်များရသည်ဟု မက်ခြင်း။

http://www.dhammadownload.com



၂၀။ အလယ်ကုန်းရွာ သုသာန်သို့ ညအချိန်သွားပြီး လူသေအလောင်း လေးလောင်းကို ဖော်သောအခါ ယောကျ်ားအလောင်းတစ်လောင်းက "သက်န်းဆီးပါ" လို့ ပြောသည် ဟု မက်ခြင်း။

၂၁။ အနောက်နိုင်ငံ တိုင်းပြည်တစ်ပြည်သို့ မဟာန်နှင့်အတူ ရောက်သွားပြီး ဘုန်းကြီး ကျောင်းတစ်ကျောင်းတွေ့၍ ဝင်သွားရာ အောက်ထပ်၌ သံဃာတစ်ပါးတွေ့သဖြင့် ဦးချသောအခါ မဟာန်ကိုခေါ်ပြီး သူရာ မေရယက် လုံရဲ့လားဟုမေးလျှင် လူတော့ မမြင်ရဘဲ အပေါ်ထပ်မှ လူတစ်ယောက်က "မေးမနေပါနဲ့ လုံပါတယ်" ဟု ပြောသောအခါ အောက်ထပ်သံဃာက ကျောက်ပျဉ်မှ ဆေးသွေးပြီး မောင်သန်းမြင့်နှင့် မဟာန်တို့မျက်နှာကို ကိုယ်တိုင်လိမ်းပေးကာ "ငါ့တပည့်များ အထွေထွေ အောင်မြင်ကြပါစေ" ပြောလျက် ကိုယ့်တိုင်းပြည်ပြန်ဖို့ လမ်းလိုက်ပြသည် ဟု မက်ခြင်း။

၂၂။ ရှေးတုန်းက သေသွားသော သိုက်ဝါချောင်းရွာမှ ဦးဖိုးမြစ်ဆိုသူက ငါးပါးသီလ တရားအဟောခိုင်း၍ ဟောပြီး ရုပ်နာမ်တရားတွေဟောသောအခါ သာခုခေါ်ပြီး ရပါပြီလို့ ပြောသည် ဟု မက်ခြင်း။

၂၃။ အသက် ၂၀ အရွယ်ခန့် စလွယ်ပေါင်းတွေနှင့် အမျိုးသမီးများက ဦးချပြီး ကြောက်ပါပြီလို့ ပြောသောအခါ "သင်တို့က ဘာတွေလဲ" ဟုမေးရာ နတ်မိစ္ဆာ နတ်ဘီလူးတွေဟု ပြော၍ တရားဟောပြီး ချွတ်လိုက်ရသည်ဟု မက်ခြင်း။

၂၄။ ရန်သူတွေက ဓားနှင့်လိုက်၍ အနိစ္စ၊ ဒုက္ခ၊ အနတ္တဟု တရားဆင်ခြင်လိုက်သောအခါ ရန်သူများက မိမိကို မမြင်ရဟု မက်ခြင်း။

၂၅။ ရဟန်းဘောင်ရောက်၍ ကျောင်းတစ်ကျောင်းတွေ့သောအခါ သံဃာ အစည်းအဝေးရှိ၍ လူဝတ်ကြောင်တစ်ယောက်က တန်းလျားတစ်ခုကို လက်ကိုင်ပြီး သံဃာတွေ တရားဟောနေစဉ် ဒကာတစ်ယောက်က သံဃာများ ဆွမ်းစားရန် လာပင့်ရာ သံဃာအချို့ ခပ်မြန်မြန်ကြွသော်လည်း သံဃာတစ်ပါးက လက်ညှိုးထောင်လျက် " ဒီအထဲမှာ သံဃာတော်တစ်ပါး ပါသည်" ဟု ပြောလျှင် မောင်သန်းမြင့်မှာ ရဟန်းဝတ်နှင့် ဖြစ်နေပြီး ဆွမ်းစားသောအခါ တစ်ယောက်ကို ခေါ်ပြီး "ဆွမ်းအဖြူတစ်ပွဲကပ်ပါ။ သက်သတ်လွတ် စားပါသည်" ဟု ပြော၍ လာကပ်သော ဆွမ်းအဖြူမှာ ဘယ်လိုအရသာနှင့်မှ မတူသော ထူးကဲသော အရသာရှိသည်ဟု မက်ခြင်း။

ဇနီးဖြစ်သူ မဟာန်၏ အိပ်မက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။ သိသူတို့ နှိုင်းနှိုင်းယှဉ်ယှဉ် စဉ်းစား စေချင်ပါသည်။

**ဇနီးဖြစ်သူ၏ ထူးဆန်းသော အိပ်မက်များ**

၁။ တရားအားထုတ်ခါစတွင် နတ်ပြည်သို့ ရောက်သွားပြီး နတ်တွေနှင့် စကားပြောရသည် ဟု မက်ခြင်း။

၂။ ကျောင်းသို့ သီလစောင့်သွားရာ ကောင်းကင်တစ်ခုလုံး မည်းမှောင်လျက် ဗုံးသံ၊ အမြောက်သံတွေ ဆူညံစွာကြားရပြီး အလင်းရောင်ပြန်ပြီးလင်းလာသောအခါ ကောင်းကင်၌ မဟာမြတ်မုနိ ဘုရားနှင့် ၃၁ ဘုံက နတ်ပြဟ္မာတွေ ဝိုင်းရံပြီး ကြွလာသဖြင့် နတ်ပြဟ္မာတွေကို အကုန်မြင်ရသည်ဟု မက်ခြင်း။

၃။ ကိုသန်းမြင့်က ငါတံတား ဆောက်ထားသည် လိုက်မလားဟု ခေါ်ရာ "အတူတူ နေတာတောင် မပြောဘူး၊ ဘယ်တုန်းကများ ဆောက်ထားပါလိမ့်" ဟု တွေးလျက် လိုက်သွားရာ ပင်လယ်ကြီးကို တံတားအကြီး အကျယ်ဆောက်ထားတာ တွေ့ရပြီး မောင်သန်းမြင့်၏ နောက်မှ တံတားပေါ်လိုက်သွားသောအခါ အလယ်က တုံးလေး နှစ်တုံးပေါ်တွင် အောက်ကျမှာစိုးလို့

http://www.dhammadownload.com



ဖြည်းဖြည်းသွားရကာ ဟိုဘက်ရောက်တော့လည်း ပင်လယ်ကမ်းမမြင်ရသေးပါ။ စားအိုး စားခွက် များနှင့် ဆက်ပြီး ဆောက်တုန်းလို့ ပြောသည်ဟု မက်ခြင်း။

၄။ အဖော်များနှင့် ဘုရားဖူးသွားရာ မျက်စိလည်လမ်းမှားပြီး လူတော့ တစ်ယောက်မှ မရှိဘဲ လမ်းတွေက ကျယ်၊ အဆောက်အဦတွေကြီးနှင့် ဘယ်လို အလင်းရောင်နှင့်မှ မတူသော အလင်းရောင်တွေကို မြင်ရတဲ့အခါ လန့်ပြီး လက္ခဏာရေးတရား သုံးပါးကို ဆင်ခြင်လေလျှင် ကျောင်းတစ်ကျောင်းကို တွေ့ရကာ ရဟန်းတစ်ပါးက လက္ခဏာရေးတရားသုံးပါးနှင့် လု လူ လူးဆိုတဲ့တရား ထပ်ပြီးဟောတော့မှ အလုပ်သမားတွေမြင် ရပြီး "ဟုတ်ပါလား၊ လူဖြစ်အောင် ရုန်းရတုန်းပါလား" လို့ အောက်မေ့တွေးတော ရသည်ဟု မက်ခြင်း။

၅။ တောရကျောင်းတစ်ကျောင်း ဥပုသ်စောင့်ရန် သွားသောအခါ ဘယ်လို အလင်းရောင်နှင့် မှမတူသော အလင်းရောင်ကို တွေ့ရ၍ စိတ်ကြည်လင်သွားပြီး ရွာဘက်သို့ ပြန်ကြည့်သော အခါတွင်မူ အမှောင်ကြီးကျနေသည်ကို မြင်ရသည်ဟု မက်ခြင်း။

၆။ ဟိမဝန္တာတောကြီးအလယ်၌ တရားအားထုတ်ရပြီး သစ်ပင်တွေကလည်း စိမ်းစိုကာ ဘယ်လို အလင်းရောင်နှင့်မှ မတူသော အလင်းရောင်ကလည်း လင်း၊ ရွာက လူတွေကလည်း ကြောက်ပြီး လိုက်လာတာ တွေ့ရတော့ ဝမ်းသာပြီး အစားအစာတွေကို ကျွေးရပြီး ဘုရားကလည်း တရား ဟောလို့ ကျွတ်တမ်းဝင်တဲ့ သူတွေများသည်ဟု မက်ခြင်း။

၇။ တရားအားထုတ်ခါစတွင် နတ်သားတစ်ပါးက သူ့အို သူနာ နိမိတ်တွေ ပြသည်ဟု မက်ခြင်း။

၈။ မြို့ဆင်ခြေဖုံး ရွာတစ်ရွာကို ရောက်သွားပြီး ဘုရားအလောင်း ဖွားမြင်သည်ကို ဖူးတွေ့ရ လျက် ဉာဏ်တော်တစ်ထောင့်ထွာခန့်ရှိ ဖွားမြင်စ ဘုရားအလောင်းက တင်ပျဉ်ခွေ ထိုင်ကာ နှုတ်ခမ်းတော်သာလှုပ်လျက် အသံကတော့ မထွက်ဘဲ တရားဟောနေသည်ကို တွေ့ရ၍ ဘုရားအလောင်းထိုင်နေသော တင်ပါးအောက်ကို အောက်ခံ အခင်းအနှီး ယူပေးရသည်ဟု မက်ခြင်း။

၉။ အသက် ၅၀ ခန့် သီလရှင်တစ်ပါးက "ချစ်သမီး၊ အဝတ်လဲရအောင်" ဟု ပြောပြီး ချီခေါ်သွားသည်ဟု မက်ခြင်း။

၁၀။ အသက် ၅၀ ခန့် လူတစ်ယောက်က မဟန်ထံလာပြီး တရားညှိချင်လို့ဟု ပြောသော အခါမဟန်က "ဖြစ်ပြီးပျက် မမြဲသည့်အတွက် အနိစ္စဖြစ်ခြင်း ပျက်ခြင်း၊ နှိပ်စက်သည့် အတွက် ဒုက္ခ၊ အစိုးမရ အနှစ်သာရ မရှိသည့်အတွက် အနတ္တဟု ဟောသော အခါ အစစ်အမှန်ပါပဲ" ဟု ပြောပြီး သာဓုခေါ်ကာ ပြန်မည်ပြော၍ မဟန်က လမ်း စရိတ်ငါးကျပ် ကန်တော့လိုက်ရ သည်ဟု မက်ခြင်း။

၁၁။ ဒူးသာသာလောက်နက်သော မစင်ချောင်းကြီး၏ ဒီဘက်ကမ်းမှနေပြီး ဟိုဘက်ကမ်း သို့ ပစ္စည်းများသယ်ပို့ရာ မစင်နည်းနည်းလေးမှ မပေကျံ၊ အနံ့လည်း မနံဟု မက်ခြင်း။

၁၂။ မောင်သန်းမြင့်နှင့်အတူ တောကြီးထဲသို့ လှည်းနှင့် သွားရာ နှစ်ယောက်စလုံး သရက်သီး စားရသည်ဟု မက်ခြင်း။

၁၃။ လူသေကောင်ထည့်ထားသော ခေါင်းနှစ်လုံးကို ဆင့်လျက် ခေါင်းနှင့်ရွက်ပြီး တောချုံတွေ ရေတွေထဲဖြတ်သွားကာ ပို့ရ၍ ဟိုဘက်ရောက်သောအခါ ကျောင်းသို့ ရောက်လျက် ခေါင်းကို ဖွင့်ရာ ခေါင်းထဲ၌ ရဟန္တာနှစ်ပါးနဲ့ သီလရှင်နှစ်ပါး စကားတွေ ပြောနေတာ တွေ့ရပြီး သံဃာ တွေကလည်း များစွာနှင့် အရသာထူးသော ဆွမ်းအဖြူကို စားရသည်ဟု မက်ခြင်း။

http://www.dhammadownload.com



၁၄။ အဆိပ်ပြင်းသော မြွေပွေးအပုံကြီးကို ပွေ့ယူပြီး မီးရှို့သည်ဟု မက်ခြင်း။

၁၅။ လူတွေအများကြီးနှင့် အမျိုးသမီးကြီးတစ်ယောက်က "မဟန် .. လာ၊ သွားမည်" ဟုပြောပြီး မြင်းလှည်း၊ ကားတွေနှင့် ခေါ်သွားကာ ဟိုဘက်ကမ်းကို သူကိုယ်တိုင် လှေနှင့် ပို့သည်ဟု မက်ခြင်း။

၁၆။ အဖော်လေးငါးယောက်နှင့်အတူ ကိုသန်းမြင့်နှင့် မဟန်တို့သည် တောတောင်ကြီးထဲ ရောက်သွားကြပြီး လူအများရှိသော ကျောင်းကြီးတစ်ကျောင်းတွေ့သောအခါ မဟန်က ဘာကျောင်းလဲဟု မေးလျှင် ရဟန္တာတွေနေတဲ့ ပုပ္ပါရုံကျောင်းဟု ပြောလျက် တချို့ လူတွေက မောင်သန်းမြင့်ကို ကြည့်ပြီး ရဟန်းလောင်းလာတယ်ဟု နှစ်ကြိမ် ဆူညံစွာ ပြော၍ အပေါ်ကို ကြွပါ။ အပေါ်မှာ ရဟန္တာတွေရှိသည်လို့ ပြောသည်ဟု မက်ခြင်း။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၈၄

## နတ်မင်းကြီးများ ပေးအသာအိပ်မက်ဟု ယုံကြ

မကြုံစဖူး ထူးကဲသော ထိုအိပ်မက်များသည် မိမိတို့၏ သစ္စာအဓိဋ္ဌာန်ကြောင့် သာသနာစောင့် နတ်မင်းကြီးများက အလေးအနက် ဖော်ပြသော အိပ်မက်များ ဖြစ်သည်ဟု ကိုသန်းမြင့် အကြွင်းမဲ့ ယုံကြည်ပါသည်။

## တောထွက်ကြစို့

"တောထွက်ပြီးအားထုတ်တယ်ဆိုတာ နိဗ္ဗာန်မပါရမီဖြည့်တာပဲ၊ ငါတို့ နောက်ကြောင်း ပြန်မလှည့်နိုင်အောင် ရှိတဲ့ ပစ္စည်းတွေ အကုန်လုံး အိုးအိမ်ကအစ စွန့်လှူခဲ့ကြစို့"

## ပိုင်ဆိုင်သမျှ

သူတို့မှာ ရွှေငွေ လက်ဝတ်လက်စား ငါးကျပ်သားခန့်၊ အိမ်ကြီးတစ်ဆောင်၊ သွပ်မိုး ပျဉ်ကာ နွားတင်းကုတ်ကြီးတစ်လုံး၊ ခြံမြေလယ်ဧက ၂၀ ခန့်၊ နွား ၁၂ ကောင်၊ စီးမြင်း တစ်ကောင်၊ လှည်းကြီးတစ်စီး၊ လှည်းငယ်တစ်စီး စသည်တို့ကို ပိုင်ဆိုင်ထားပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၈၄

## အကုန်လှူမည်ဟု ဓိဋ္ဌာန်

သင့်တော်ရာ လက်ဝတ်လက်စား၊ နွားလှည်း၊ မြေများ စသည်တို့ကိုလည်း လက်ဖွဲ့ပေးလှူခဲ့ပါသည်။ ထို့နောက်မှ သူတို့တောထွက်မည့်ကိစ္စကို ရွာလူကြီးများ၊ ကာလသားခေါင်းများ၊ ဆွေမျိုး မိတ်သင်္ဂဟများကို ဖွင့်ဟကြေညာ တိုင်ပင်ခဲ့လေသည်။ အားလုံးသည် အံ့သြဝမ်းနည်းစွာဖြင့် ကျွေးတာလည်းမစား စကားလည်းမပြော၊ သူတို့တောထွက်ပြီး တရားအားထုတ်မည်ဆိုတာ ကို အသံတိတ် ကန့်ကွက်ကြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၈၅

## ရှိသမျှ အကုန်လှူ

တကယ်တော့ သူတို့မှာ ရှိသမျှ ပစ္စည်းများ ပေးလှူရန် စည်းစိမ်ဥစ္စာများကို စွန့်လွှတ် ပေးလှူရန် ဆုံးဖြတ်ခဲ့ပြီး ဖြစ်သည်။ "တောင်းတာပေးမည်" ဟု နှလုံးပိုက်ထားသည့်အတိုင်း ယောကျ်ားသုံး ပစ္စည်းများ လာတောင်းလျှင် ကိုသန်းမြင့်က ပေး၍ မိန်းမသုံးပစ္စည်းများ လာတောင်းလျှင် မဟန်က လက်မတွန့်ဘဲ ပေးဝေလေသည်။

## နောက်ဆုံးလက်ကျန်အိမ်ကြီး

နောက်ဆုံးတွင် အိမ်ကြီး တစ်ဆောင်၊ နွားလေး တစ်ကောင်နှင့် ခွေးလေးကောင်မှာ တောင်းသူ ယူသူမရှိဘဲ ဖြစ်နေလေသည်။ အိမ်ကြီးကို ဘယ်သူမှ မတောင်းတာကလည်း အိမ်ကြီးက

http://www.dhammadownload.com



ကောင်းလွန်းလို့ မတောင်းရဲတာပဲ ဖြစ်မှာပါ။ ကိုသန်းမြင့်အဖို့မှာကား တောင်းသူမရှိလည်း လှူရမှာပဲ၊

**အိမ်ကိုဖျက်၍ ကျောင်းဆောက်**

နောက်ဆုံးတွင် အိမ်ကိုဖျက်၍ ကျောင်းအဖြစ် လှူရန် ဆုံးဖြတ်လိုက်သည်။ ရွာသူကြီးက သေချာစဉ်းစားပြီးမှ လှူဖို့ အကြံပေးသေးသည်။ ရဟန်းဘဝ သီလရှင်ဘဝမှာ မပျော်လို့ ပြန်လာရင် နေစရာမရှိ ဖြစ်နေမယ်ဟု ဆို၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၈၅

ဤသို့လျှင် သက်ရှိသက်မဲ့ မှန်သမျှကို စွန့်လွှတ်လှူခဲ့ပါသည်။

**တစ်ရွာလုံး လှုပ်လှုပ်ရွရွဖြစ်**

အေဒီ ၁၉၅၀ ဤသို့ဖြင့် မြန်မာသက္ကရာဇ် ၁၃၁၂ ခု၊ တပေါင်းလဆန်း ၁၂ ရက် ညကတည်းက အလှူမဏ္ဍပ်ကြီးထဲမှာ တစ်ရွာလုံး လှုပ်လှုပ်သည်းသည်း ဖြစ်နေသည်။

ငယ်သူငယ်ချင်း ကိုတင်မောင်က ကိုသန်းမြင့်ကို လာကန်တော့သည်။ ဘဝချင်း ဝေးကွာခြားရတော့မည်မို့ ကိုတင်မောင် ချုံးပွဲချ ငိုသည်။ ကိုသန်းမြင့်ကပင် နှစ်သိမ့်ခဲ့ရပါ၏။ နောက်တစ်နေ့ အလှူပွဲကြီးနေ့တွင်ကား ရွာလုံးကျွတ်မျှ ပရိသတ်က စည်ကားလှပါသည်။ သံဃာတော်များလည်း ကြွလာပြီ။ တရားဓာတ်ပြားကလည်း အသံချဲ့စက်ကြီးဖြင့် ဖွင့်ထားသည်။ မိမိတို့၏ ရွှေငွေလက် ဝတ်လက်စားတို့ကို ချွတ်ပြီး နောက်သို့ လှည့်မကြည့်ဘဲ "ရထိုက်သူယူစေဆိုပြီး ပရိသတ်ထဲ ကြဲချလိုက်သည်။ ဤကား ကိုသန်းမြင့် + မဟန်တို့၏ နောက်ဆုံး အလှူတည်း။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၈၆

**ကိုသန်းမြင့်သည် ဦးသီလာစာရဖြစ်**

**မဟန်သည် မသုဓမ္မစာရီဖြစ်**

ထို့နောက်တွင်ကား ကိုသန်းမြင့်သည် 'ဦးသီလာစာရ' ၊ မဟန်သည် 'မသုဓမ္မစာရီ' ဟူသော ဘွဲ့အမည်များဖြင့် ရဟန်းဘဝ၊ သီလရှင်ဘဝများသို့ ရောက်ရှိခဲ့ကြပါတော့သည်။

**တောထွက်ခဲ့ကြ**

အေဒီ ၁၉၅၀ မြန်မာသက္ကရာဇ် ၁၃၁၂ ခု၊ တပါင်းလဆန်း ၁၄ ရက် ၊ နံနက်ရှစ်နာရီမှာ တစ်သက်လုံး နေထိုင်ကြီးပြင်းခဲ့ရာ မွေးဇာတိ အလယ်ကုန်းရွာကို ခွဲခွာခဲ့ရပါပြီ။

ကျမ်းကိုး။ ၁၉၉၄ ခုနှစ်ထုတ်၊ ဘဒ္ဒန္တသေဋ္ဌိလ(သာသနဓဇ သီရိပဝရ ဓမ္မာစရိယ ဒီဃဘာဏက) ပြုစုသော ဆရာတော် ဘဒ္ဒန္တ သီလာစာရ ထေရုပ္ပတ္တိအကျဉ်း။

ကျမ်းကိုး၊ မောင်သွေးချွန်၊ စလူမြောင်တောရဆရာတော်ဘုရားကြီး၏ ရှေ့ပိုင်းဘဝ၊

ကျမ်းကိုး။ မောင်သွေးချွန်၊ စလူမြောင်တောရမှ ဓမ္မအလင်းရောင် ဆရာတော်ဘဒ္ဒန္တ သီလာစာရ၏ အံ့ဖွယ်ထူးခြားကျင့်စဉ်များ။

တောင်ကုန်းပေါ်မှ ကမ္မဋ္ဌာန်းကျောင်းလေးတွင် ဆရာတော်က သီတင်းသုံး၍ တောင်ခြေဆွမ်းစားဇရပ်တွင် သီလရှင်က နေထိုင်ပြီး သန့်ရှင်းစင်ကြယ် ကြည်ဖြူစွာသော မေတ္တာဓာတ်တို့ဖြင့် ဆရာတော်က မိမိကိုယ်တိုင်လည်း တရားဘာဝနာပွားများ၊ သီလရှင်ကိုလည်း နည်းလမ်းညွှန်ပြလျက် သူတော်စင်တို့ တရားဘာဝနာပွားများရာ အေးရိပ်သာ တောရရိပ်မြိုကလေးပင် ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၁၅

http://www.dhammadownload.com



## ရဟန်းဘဝရောက်

အေဒီ ၁၉၆၇ ဆရာတော်နှင့် သီလရှင်တို့သည် မြန်မာသက္ကရာဇ် ၁၃၂၉ ခုနှစ်၊ တပေါင်းလဆန်း ၁၃ ရက်နေ့တွင် ရဟန်းဘဝ၊ သီလရှင်ဘဝသို့ တစ်နေ့တည်းရောက်ရှိခဲ့သည်။
ထိုနေ့ည အလယ်ကုန်းကျောင်း၌ တစ်ညဥ့် ကျိန်းစက်ပြီး ၁၄ ရက်နေ့တွင် သရက်နှစ်ပင်တောရ ဆရာတော်ကျောင်းသို့ ပြောင်းရွှေ့သီတင်းသုံးလျက် ထိုနှစ်ထိုကျောင်းမှာပင် ဝါဆိုဝါကပ်တော်မူပါသည်။ သီလရှင် ဒေါ်သုဓမ္မစာရီလည်း သရက်နှစ်ပင်တောရ ဆရာတော်၏ မယ်တော်ကြီး ဒေါ်ခွေးမနှင့်အတူ နေပေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၁၆

## ကျင့်စဉ်

နံနက် ၄ နာရီ အိပ်ရာထ၊ ကိုယ်လက်သန့်စင်ပြီး ၅ နာရီမှ ၉ နာရီအထိ တရားထိုင်၊ ရေချိုး ၁၀ နာရီမှာ နေ့ဆွမ်းဘုဉ်းပေးကာ ဆက်လက်ပြီး ညနေ ၄ နာရီထိ တရားထိုင်၊ ညနေ ရေချိုးပြီး ၅ နာရီမှ ည ၁၂ နာရီထိ တရားထိုင် ၁ နာရီမှာ ကျိန်းစက်ကာ နံနက် ၄ နာရီတွင် ထ . . .
ဤသို့ ဆရာတော်သည် ဒီဘဝ တစ်မင်တစ်ဖိုလ်မရမနေဟူသော ဇွဲလုံ့လ ဝီရိယတို့ဖြင့် နေ့စဉ် အားထုတ်ခဲ့ရာ နယုန်လသို့ ရောက်ခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၁၆

## ကျတ်ကြီးတောသို့ဝင်

ထိုစလူမြောင်တောင်၊ စလူမြောင်တောသို့ ယခင်က ဆရာတော် သုံးပါး လာရောက် သီတင်းသုံး နေထိုင်ခဲ့ဖူးပါသည်။ သို့သော် အကြောင်းအမျိုးမျိုးကြောင့် အောင်မြင်မှု မရှိဘဲ တောအတိသာ ဖြစ်မြဲ ဖြစ်နေလေသည်။ ထိုတောင် ထိုတောကား သာမန်တောတောင် ရိုးရိုးတော့ မဟုတ်ပါ။ ကျတ်စသော မကောင်းမိစ္ဆာအစိမ်းသရဲများ ပျော်ပါးခိုအောင်းရာ ဒေသဖြစ်၍ "ကျတ်ကြီးတော" ဟုပင် အမည်တွင်ခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၁၇

## သစ္စာပြု စည်းချ

နောက်သုံးရက်ခန့်ကြာသောအခါ ဆရာတော်ဦးသီလာစာရသည် ညနေ ၆ နာရီ လောက်တွင် ဖယောင်းတိုင်များကို ယူသွားပြီး စလူမြောင်တောရ ကျောင်းဆောက်မည့် နေရာ၌ ရပ်လျက် သစ္စာပြု၏။ စည်းချ၏။
"ဒီတော ဒီနေရာမှာ နေထိုင်ကြတဲ့ တောင်စောင့်နတ်၊ တောစောင့်နတ် ဘုမ္မစိုး၊ ရုက္ခစိုး၊ အာကာသစိုးစတဲ့ နတ်အပေါင်းတို့၊ သင်တို့ကိုလည်းပဲ ငါတို့ မမြင်ရပါ။ အကယ်၍ ရှိခဲ့ကြလို့ရှိရင် ငါတို့သည် ဒီတောင်ဒီနေရာ၌ သီတင်းသုံးနေထိုင်ပြီး မြတ်ဘုရားရဲ့ သာသနာတော်အဆုံးအမများကို လိုက်နာပြီး တရားဘာဝနာပွားများ သာသနာပြုမည်ဟု ရည်ရွယ်ပါသည်။ ငါတို့သည် လူ့ဘောင်လူ့လောကကို ငြီးငွေ့လျက် စည်းစိမ်ဥစ္စာတို့ကို စွန့်ကြဲလှူဒါန်းကာ တောထွက်လာခဲ့တာ မှန်ပါသည်။ သင်တို့သည် မြတ်စွာဘုရားအား ရည်မှန်းလှူဒါန်းနိုင်ရန် အတွက် ငါတို့က သင်တို့ကို ဖယောင်းတိုင်များ စွန့်ကြဲပေးကမ်းပါ၏။ ငါတို့ပေးသော ဖယောင်းတိုင်ဆီမီးကို ဘုရားမှာ လှူဒါန်းပြီး လိုရာဆုတောင်းလျက် ကျွတ်တမ်း ဝင်နိုင်ကြပါစေ။ တို့လဲပဲ သည်တောင်မှာ သီတင်းသုံးပြီး သာသနာပြုသောအခါ တို့လိုလားသော တရားများကို လွယ်ကူစွာရအောင် တို့ကိုလဲ ကူညီစောင့်ရှောက်ပါ။ တို့ပြုခဲ့တဲ့ ယခု ဒါန၊ သီလ၊ ဘာဝ

http://www.dhammadownload.com



နာကုသိုလ်တို့ကိုလည်း သင်တို့အား အမျှပေးဝေပါ၏။ အမျှ အမျှ အမျှ . . သင်တို့လဲ သာဓုခေါ်နိုင်ကြပါစေသော်ဝ်" ဟု မေတ္တာပို့ အမျှဝေပြီး ဖယောင်းတိုင်များကို မီးထွန်းညှိပေးလျက် ပြန်ခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၁၇

**မေတ္တာ သစ္စာ အခြေခံ**

ဆရာတော်၏ ကျင့်စဉ်သည် မေတ္တာစာတ်၊ သစ္စာတရားနှင့် သီလလုံခြုံမှုကို အခြေခံ ထား၍ လယ်တီဆရာတော်၊ မိုးကုတ်ဆရာတော်စသော ဆရာတော်ကြီးများ၏ ကျင့်စဉ် နည်းများနှင့် ဝိသုဒ္ဓိမဂ်စသော ကျမ်းဂန်တို့၌ ရေးသားညွှန်ပြသော နည်းများယူပြီး အဿာသ ပဿာသ ခေါ်သော အာနာပါန ဝင်လေထွက်လေ သမာဓိ လုပ်ငန်းစဉ်တို့ကို အဓိကထား၍ ကျင့်စဉ် တစ်ခု အနေဖြင့် နေ့စဉ် ပွားများ အားထုတ်ခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၁၈

**အနှောင့်အယှက်များ**

ကျောင်းပတ်ဝန်းကျင် သစ်တောကလည်း အားကြီး၊ ညဆိုလျှင် ဆရာတော်၏ ကမ္မဋ္ဌာန်း ကျောင်းလေးအောက်မှ ဖုံးပေါက်ကွဲသံကြီးလို မြည်ဟည်းလျက် ကျောင်းလေးကို ဆွဲလှုပ် လိုက်သလို တုန်ခါသွားပြီး ကြောက်လန့်စရာ ဖြစ်လာသည်။ ၁၅ ရက် အရက် ၂၀ ခန့် ဆက်ပြီး ဖြစ်လေသည်။ နောက်တစ်နေ့ မိုးလင်း၍ သီလရှင်ကို -"ညက ဖုံးပေါက်ကွဲတဲ့ အသံမျိုးကြီး မကြားမိဘူးလား" မေးတော့ "မကြားပါဘူး" ဟု ပြောပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၁၈

**ခြောက်လှန့်မှုများ**

တစ်ခါတရံ ညမှာ တရားထိုင်နေစဉ် နောက်နားကကပ်ပြီး လူသွားသလို ခြေသံတရှပ်ရှပ် ကြားနေရပြီး တစ်ခါတလေတော့ ညဆိုရင် ကျောင်းခေါင်းရင်းဘက်မှ နေပြီး လူဝတ်တုန်းက နာမည်ခေါ်လိုခေါ် ဦးဇင်းဟု ခေါ်လိုခေါ်နှင့် ကြောက်လန့်ဖွယ်ရာများ ဖြစ်လာသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၁၈

**မေတ္တာက ခရိုး**

ထိုသို့ မေတ္တာပို့ အမျှဝေပြီး မကြာခင်မှာပင် ည ၉ နာရီခန့်အချိန်၌ "ရှီး" ဆိုသော အသံကြီး ကြားရပြီး အပြင်ဘက်တွင် စလူမြောင်တစ်တောင်လုံး သုံးမိနစ်ခန့်အလင်းရောင်ကြီး လင်းထိန် လျက် ပျောက်ကွယ်သွားပါသည်။ နောက်တစ်နေ့ သီလရှင်ကို ပြောပြရာ သီလရှင်က လည်း သူလည်း "ရှီး" ဆိုသော အသံကြီး ကြားလိုက်ရကြောင်း ပြောသဖြင့် နောက်ကို အသံကြားလျှင် အပြင်ကို ထွက်ကြည့်ဖို့ မှာကြားထားလိုက်ရာ နောက်လည်း မကြာခဏ ဆိုသလို ဖြစ်ပြီး၊ ဖြစ်တိုင်း သီလရှင်ထွက်ကြည့်ရာ သီလရှင်ပါ ထိုအလင်း ရောင်ကြီးကို မြင်ရလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၁၉

**အချင်းချင်း အားပေး**

ဆရာတော်ကို မကောင်းမိစ္ဆာတွေက အမျိုးမျိုးခြောက်လှန့်၍ မရသဖြင့် သီလရှင်ကို တစ်လှည့် သီလ သမာဓိစမ်းသလားတော့ မသိပေ။ ဆရာတော်နှင့် သီလရှင်တို့သည် တစ်ကျောင်းစီ နေကြသည့်အတွက် တစ်ဦးနှင့်တစ်ဦး အရေးကြီး ထူးခြားသော အကြောင်းကိစ္စရှိလျှင် ကြမ်းပြင်ကို တုတ်ဖြင့် တဒုန်းဒုန်း မြည်အောင်ထုပြီး အသံပေးရန် ပြောထား ကြလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၂၀

http://www.dhammadownload.com



### သစ္စာက စည်း

ဆရာတော်သည် နေ့စဉ် နံနက်ပိုင်း မျက်နှာသစ်သည့်အခါတွင် မျက်နှာသစ်ရေခွက်၌ ညာလက်ကိုနှစ်ပြီး ရေကို လက်ဖြင့် ဆုပ်နယ်သကဲ့သို့ ပြုကာ -"အသင်နေမင်းကြီး ကျေးဇူးတင်ပါ၏။ အသင်နေမင်းကြီး ထွက်ပေါ်ပေး၍သာ အလင်းရောင်ရပြီး ကမ္ဘာသူကမ္ဘာသားများ သွားလာလှုပ်ရှား လုပ်ကိုင်နိုင်ပါ၏။ ရဟန်းတော်များလည်း သာသနာပြုနိုင်ပါ၏။ အသင်လမင်းကြီးကိုလည်း ကျေးဇူးတင်ပါ၏။ အသင် လမင်းရဲ့ အလင်းရောင်ကို ကြည့်မြင်ရသည်မှာ စိတ်ကိုချမ်းမြေ့စေပါ၏။ ညဥ့်အခါ အလင်းရောင်လည်း ရပါ၏။ အသင်နေမင်းကြီးကဲ့သို့ ထွန်းလင်းတောက်ပပါစေ။ လမင်းကြီးကဲ့သို့ အေးမြကြည်လင်ပါစေ" ဟု အာရုံပြုလျက် စိတ်ပါပါဖြင့် အရပ်ဆယ်မျက်နှာကို လက်ညှိုးညွှန်ကာ - "အပြင်မှ တိုက်လာသောလေသည်လည်း ရုပ်တရား၊ မိမိခန္ဓာကိုယ်အတွင်း အဇ္ဈတ္တမှာ ရှိသောလေသည်လည်း ရုပ်တရား၊ သိမှုသဘောတရားလေးသည် နာမ်တရား" ဟူ၍-"ဤမျက်နှာသစ်ရေ အေးသကဲ့သို့ အားလုံး ကမ္ဘာသူ ကမ္ဘာသား သတ္တဝါအများ လည်း အေးမြချမ်းသာကြပါစေ" ဟု မေတ္တာပို့ပြီး - "အကျွန်ုပ်သည် ဤမှန်ကန်သော ကာယကံ၊ ဝစီကံ၊ မနောကံ၊ သစ္စာမေတ္တာ တို့ကြောင့် သူတစ်ပါးအား လောကီရေးရာတို့၌လည်းကောင်း၊ လောကုတ္တရာရေးရာတို့၌ လည်းကောင်း ပြောဆိုသည့်အခါ မှန်ကန်စွာ ပြောနိုင်ဟောနိုင်ရပါလို၏" ဟု ဆုတောင်းပြီးမှ မျက်နှာသစ်လေ့ရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၂၀

### လက်နှစ်ဖက်ဖြင့်ကိုင်၍ စိပ်လေ့မရှိ

ဆရာတော်ပုတီးစိပ်သည့်အခါမှာလည်း လက်နှစ်ဖက်ဖြင့်ကိုင်၍စိပ်လေ့မရှိပါ။ ရပ်လျက်သော်လည်းကောင်း၊ ထိုင်လျက်သော်လည်းကောင်း ပုတီးစိပ်သည့်အခါတိုင်း ဘယ်ဘက်လက်ကို ဣရိယာပုတ်အားလျော်စွာ သင့်သလိုထားပြီး ညာဘက်လက်ဖြင့် ပုတီးစိပ်လေ့ရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၂၀

### အရပ်ရှစ်မျက်နှာ မေတ္တာပို့

အရှေ့အရပ်ဆိုလျှင် "အရှေ့အရပ်မှာ နေကြတဲ့ လူမင်း၊ နတ်မင်း၊ ဗြဟ္မာမင်းနှင့်တကွ အားလုံးသော သတ္တဝါ အနန္တတို့ ကျန်းမာချမ်းသာကြပါစေ။ ကျွန်ုပ်၏ မှန်ကန်သော ကာယကံ၊ ဝစီကံ၊ မနောကံ သစ္စာကြောင့် ကိုယ်စိတ်နှစ်ဖြာ ကျန်းမာချမ်းသာ ကြပါစေ" ဟု စူးစူးစိုက်စိုက် မေတ္တာပြုပြီး ပစ္စည်းဝတ္ထုတစ်ခုခုကို ပို့လွှတ်သကဲ့သို့ မေတ္တာ အလုံးဓာတ်ကို ပို့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၂၀

ဤကဲ့သို့ အရပ်ဆယ်မျက်နှာရှိ သတ္တဝါအနန္တတို့အား မေတ္တာဓာတ်ပို့လွှတ်ပြီးမှ ပုတီးစိပ်လေ့ရှိပါသည်။

### ပုတီးစိပ်နည်း နိဿရည်း

ပုတီးစိပ်သည့်အခါမှာလည်း ဗုဒ္ဓေါမေသရဏံ အညံနတ္တိ၊ နာမရူပံ အနိစ္စံ၊ ဒုက္ခံ၊ အနတ္တာ စသည်ဖြင့် ရတနာသုံးပါးတို့၏ ဂုဏ်တော်တို့ကို အာရုံပြု၍ စိပ်သောအခါ တွင် ဗုဒ္ဓဂုဏ်တော်ကို စိတ်မနောဖြင့် မြင်အောင်ကြည့်ပြီး ထိုပုံတော်၏အပေါ်မှာ ဂုဏ်တော်တွေ လွှမ်းခြုံလျက် ပုတီးတစ်လုံးချပါသည်။ ထိုပုံတော်မှ အာရုံမှာ မထင်ပေါ်သေးလျှင် ပုတီးလုံးကို ချလေ့မရှိပါ။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၂၀

http://www.dhammadownload.com



## သမာဓိရအောင် အားထုတ်နည်း

တစ်ခါသော် ဆရာတော်သည် တောအတွင်းသို့ အညောင်းပြေလမ်းလျှောက် ကြွသွားပြီး ချော၊ သမင်စသော တောကောင်သတ္တဝါတို့၏ ခြေရာလမ်းကြောင်းအတိုင်း ကြွကာ မိမိကိုယ်ကို မိမိ လမ်းလျှောက်ရင်း သမာဓိရအောင် ပွားများလျက် သမင်ငယ်၊ ယုန်ငယ်တို့ မြက်စားနေစဉ် သူတို့ အနားသွားကြည့်ရာ တိရစ္ဆာန်ငယ်တို့သည် ကြောက်လန့်ပြီး ထွက်ပြေးမသွားကြဘဲ အနီး ကပ်ခံသည်ကို တွေ့ရပါသည်။ လက်နှင့်ကိုင်သော အခါတွင်မူ အကိုင်မခံသေးသည်ကို တွေ့ရ၍ "ငါရဲ့မေတ္တာ၊ သမာဓိစွမ်းအား လိုသေး၍ ဖြစ်မှာပဲ" ဟု ဆုံးဖြတ်ပြီး မေတ္တာစာတ်နှင့် သမာဓိစွမ်းအား ပိုမိုများပြားလာအောင် ဆက်လက်ပွားများ အားထုတ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၂၁

## ပြိတ္တာတို့၏ သဘောသဘာဝ

တစ်နေ့တွင် ဆရာတော်ကို ဖူးမြော်ရန်လာရောက်ကြသော ဒကာ၊ ဒကာမအချို့တွင် လူကို မူးအောင် စိတ်တွေဝေအောင် စသည်ဖြင့် ပြုလုပ်သော ပြိတ္တာများ လူကိုမှီခိုကပ်ပြီး ပါလာ တတ်ပါသည်။ အကယ်၍ ထိုပြိတ္တာများ စလူမြောင်တောရအတွင်းသို့ ပါလာခဲ့သော် ဖယ်ရှား လို၍ ဆရာတော်သည် အမိဌာန်တင်ထားသော သက်န်းကို ဖြန့်ပြီး ကျောင်းသားနှစ်ယောက် အား တစ်ဖက်စီကိုင်စေလျက် ဒကာ၊ ဒကာမများ၏ ခေါင်းများကို ထိစေကာ ပိုက်စိပ်တိုက်ခိုင်း ရာ ပြိတ္တာပါလာသော သူတို့သည် သက်န်းဖြင့် တိုက်ရန်ပြင်ဆင်စဉ်ကပင် ခန္ဓာကိုယ်နတ်ပူး သလို တုန်လာပြီး အနားရောက်လာလျှင် ထွက်သွားလေသည်။

## ပြိတ္တာတို့ တောင်းဆိုချက်

အမျိုးသမီး နှစ်ယောက်ကို တွယ်ကပ်နေသော ပြိတ္တာနှစ်ကောင်မှာမူ ထွက်ခွာမသွားဘဲ ဘုရားလည်း ဦးမတိုက်၊ ဆရာတော်ကိုလည်း ဦးမချနှင့် ဖြစ်နေသည့်အတွက် ဆရာတော်က "ဘာဖြစ်လို့ ဦးမတိုက်သလဲ" ဟု မေးမြန်းရာ "သူတို့ကို မေတ္တာသီးသန့် မပို့လို့" ဟု ပြောသဖြင့် သူတို့ကို မေတ္တာသီးသန့်ပို့ပေးရာ သည်တော့မှ ဦးတိုက်ပါတော့သည်။ ဆရာတော်က ထွက်ခွာ သွားရန် မေတ္တာရပ်ခံသောအခါ ပူးကပ်သော ဒကာမများကိုပါ ခေါ်သွားသဖြင့် ဆရာတော်က လူကို ခေါ်မသွားရန်၊ သင်တို့ဘာသာ သင်တို့ ထွက်ခွာသွားကြရန် ပြောတော့မှ ထွက်ခွာ သွားလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၂၁

## ဆရာတော်၏ သစ္စာပြုပုံ ပြုနည်း

ဆရာတော်၏ သစ္စာပြုပုံ ပြုနည်းမှာ နောင်လာ နောက်သားများအတွက် အတုခိုးစရာဖြစ်ပါ သည်။ လောကီကိစ္စ ဖြစ်သော်လည်း လောကုတ္တရာ၏ အကျိုးကျေးဇူးကြောင့် လောကီမှာ ဖြစ်ထွန်းရပုံကို အောက်ပါအတိုင်း အထင်အရှားတွေ့ရှိရပါသည်။

စလူမြောင်တောင်၌ ယခင်က သီတင်းသုံးခဲ့ကြသော ဆရာတော်များ တောင်ကုန်းပေါ်တွင် ရေတွင်းတူးခဲ့ဖူးရာ ရေမထွက်သဖြင့် အောက်အနိမ့် ချိုင့်ဝှမ်းထဲ၌ တူးရလေသည်။ ယခု ဆရာတော်သည် ဆွမ်းစားဇရပ်အနီးတောင်ကုန်းပေါ်မှာပဲ တူးလိုသဖြင့် သစ္စာတရားကို အားကိုးပြုလျက် မိဌာန်၏။

"ငါတို့သည် ရဟန်းဘဝ တစ်ဝါရခဲ့ပါပြီ။ ယနေ့အထိ သီလမပျက်ခဲ့ပါ။ သစ္စာမဖောက်ပြန်ခဲ့ဖူး ပါ။ သက်ရှိသတ္တဝါတို့၏ အသားကို မစားဘဲ သက်သတ်လွတ်ဟင်းလျာကိုသာ ဘုဉ်းပေး၍ တရားကျင့်ကြံအားထုတ်ခဲ့ပါသည်။ ယခုလည်း ဗုဒ္ဓရဲ့တရားတော်များကို ကျင့်ဆဲ၊ နောင်လည်း

http://www.dhammadownload.com



ကျင့်လတ္တံ ဟု ငါတို့စလူမြောင် တောင်တောရ၌ နေသင့်ထိုင်သင့်ပါက တောင်ပေါ်အစွန်း ဆွမ်းစားဇရပ်အနီးမှာ ရေထွက်ပါစေသတည်း" ဟု သစ္စာအဓိဋ္ဌာန်ပြု၍ ရေတွင်းတူးရာ ခြောက်တောင်ခန့်ဖြင့် ရေထွက်ပြီး ရေတွင်းကို အောင်မြင်စွာ တူးဖော်နိုင်ခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၂၄

**ဓုတင်ကျင့်ဆောင်ခြင်း**

ဤသို့ အရှင်မဟာကဿပမထေရ်မြတ်ကြီးအား စိတ်မနောဖြင့် ဆရာမှီးကာ သစ္စာဓိဋ္ဌာန်ပြုပြီး ဓုတင် (၁၃) ပါးကို ကျင့်ဆောင်လာခဲ့ရာ (၁၃) ပါးစလုံး အောင်မြင်ခြင်းသို့ ရောက်တော်မူခဲ့ပါသည်။

**အလောင်းတော် ကဿပ ကို ဆရာတင်ခြင်း**

အေဒီ ၁၉၉၁

မြန်မာသက္ကရာဇ် ၁၃၅၃ ခုနှစ်၊ တပေါင်းလဆန်း (၁၄) ရက်နေ့၊ ညနေ ၅ နာရီခန့်တွင် အလောင်းတော်စံရာ ဝေဘာရတောင်တော်သာသို့ ရောက်ပါသည်။

"ဘုရားတပည့်တော် လျှောက်ထားခဲ့သော မှန်ကန်သော သစ္စာစကားကြောင့် နောင်တော်ကြီး၏ အလောင်းတော် အစစ်အမှန်ကို ဧကန်ပင် ဖူးတွေ့ရပါလို၏ဘုရား" သစ္စာပြုလိုက်သောအခါ ဆရာတော်၏ စိတ်မနောမှာ ပီတိဇောဖြာလျက် အခါခါပင်ဖူးမဝ၊ ကြည်နူးလို့မဆုံး ပီတိ အပြုံးတွေ တဝေဝေဖြင့် ငါသော် သေက သေပျော်လှပေါ့ဟု စိတ်တွင် ထင်မှတ်လိုက်ပါ တော့သည်။ မပြန်ခင်အချိန်တွင် ထပ်ကာပင်ဖူးမဝ ဖြစ်ခဲ့ရပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၂၆

တစ်ခါသော် လူပရိသတ်များ ရောက်လာကြသည့်အခါ ဆရာတော်က "ဘာကိစ္စများရှိ၍ လာကြ သလဲ" ဟု ပဋိသန္ထာရပြုပြီး မေးမြန်းသည်တွင် ဒကာ၊ ဒကာမများ မိမိတို့၏ အကြောင်း အား လျော်စွာသော အခက်အခဲများကို တင်ပြလျှောက်ထား၏။

"ဆရာတော်ဘုရား၊ တပည့်တော်မှ အခက်အခဲလေးများ ရှိနေပါ၍ အောင်မြင် ကျော်လွှန်နိုင် ရန်အတွက် ဆရာတော် ဘုရားက မေတ္တာဓာတ်ဖြင့် တားဆီးကျော်လွှန်အောင် မြင်အောင် ပြုပေးတော်မူပါဘုရား" ဟု လျှောက်ထားရာ ဆရာတော်က "ဒကာ၊ ဒကာမတို့ ဘုန်းဘုန်းက ဗေဒင်လည်းမတွက်တတ်၊ ဓာတ်ရိုက်ဓာတ်ဆင် ယတြာလည်း နားမလည်၊ ဆေးဝါးမန္တရား အတတ်လည်း မသင်ဖူး၊ ရေမန်း ဆီမန်းလည်း မကျွမ်းကျင်၊ ဘုန်းဘုန်းအနေနဲ့ကတော့ သစ္စာ မေတ္တာဘာဝနာကိုသာ အားကိုးအားထား ပွားများထားသည့်အတွက် သစ္စာပြုမေတ္တာပဲ ပို့ပေးစရာ ရှိပါတယ်" ဟု အမိန့်ရှိတော်မူခဲ့ကြောင်း မှတ်တမ်းရှိ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၂၆

**ဆရာတော် သစ္စာပြု၍ မေတ္တာလှိုင်းများ လွှတ်ပုံလွှတ်နည်း**

"ဘုန်းဘုန်းသည် တတ်သိနားလည်သည့် အရွယ်မှစ၍ ယနေ့ထိ မှန်ကန်သော ကာယကံ၊ ဝစီကံ၊ မနောကံ သစ္စာတရားနှင့် အများ သတ္တဝါ ဝေနေယျတို့အပေါ် ကောင်းကျိုးချမ်းသာကို လိုလားသော မေတ္တာဓာတ်အမြဲမပြတ် ပွားများခဲ့ပါပြီ။ ဤမှန်ကန်သော သစ္စာစကား၊ ခိုင်မြဲ သော မေတ္တာဓာတ်တို့ကြောင့် ယခုလာရောက်ကြသည့် ဒကာ၊ ဒကာမတို့ အသီးသီး ကိုယ်စီ ကိုယ်စီ စိတ်ဆင်းရဲနှင့် အခက်အခဲများ ပြေလည်ပြီး ကိုယ်စိတ်နှစ်ဖြာ ကျန်းမာ ချမ်းသာကြ ပါစေသတည်း" ဟု သစ္စာပြု မေတ္တာဓာတ်များ ပို့လွှတ်ပေးလိုက်ပါသည်။

ကျမ်းကိုး။ ၁၉၉၄ ခုနှစ်ထုတ်၊ ဘဒ္ဒန္တသေဋ္ဌိလ(သာသနဇော သီရိပဝရ မဟာဓမ္မာစရိယ ဒီဃဘာဏက) ပြုစုသော ဆရာတော် ဘဒ္ဒန္တ သီလာစာရ ထေရုပ္ပတ္တိအကျဉ်း။

http://www.dhammadownload.com



ကျမ်းကိုး။ မောင်သွေးချွန်၊ စလူမြောင်တောရဆရာတော်ဘုရားကြီး၏ ရှေ့ပိုင်းဘဝ၊ ကျမ်းကိုး။ မောင်သွေးချွန်၊ စလူမြောင်တောရမှ ဓမ္မအလင်းရောင် ဆရာတော်ဘဒ္ဒန္တ သီလာစာရ၏ ဒုံ့ဖွယ်ထူးခြားကျင့်စဉ်များ။

**ပထမ (၁၁)ဝါနှင့် နောက်ပိုင်း ဝါများ ခြားနားချက်**

အေဒီ ၁၉၇၇ ဆရာတော် ကျင့်ကြံခဲ့သောနည်းမှာ ရဟန်း (၁၁) ဝါရသည်အထိ သမထယာနိက နည်းကို အားထုတ်၍ (၁၁) ဝါနောက်ပိုင်း၌ သုဒ္ဓဝိပဿနာယာနိကနည်း ဖြစ်လေသည်။

**သမထမှ ခွဲထွက်ခြင်း**

ဆရာတော်သည် မိုးကုတ်ဆရာတော်ကြီး တရားတော်အတိုင်း လိုက်နာကျင့်ကြံခဲ့လေသည်။ ရုပ်နာမ်တို့ကို ပိုင်းခြားသိပြီးနောက် ဈာန်လမ်းဆိုသော သမထလမ်းမှ ခွဲထွက်ခဲ့လေသည်။

**ဓုတင် (၁၃)ပါး ကျင့်ဆောင်ခြင်း**

ဆရာတော်သည် ဓုတင် (၁၃) ပါးကို ဆောက်တည်ခဲ့ရာ ခုနစ်နှစ်အကြာ၌ အောင်မြင်စွာ ဆောက်တည်နိုင်ခဲ့ပါသည်။

**မေတ္တာပို့ခြင်း အမျှဝေခြင်း**

စလူမြောင်တောရ၌ ဆရာတော်သီတင်းသုံးခဲ့ပြီးနောက် မေတ္တာပို့ခြင်း၊ အမျှဝေခြင်းများဖြင့် ဝွေးပင်ချောင်းတောင်သို့ သွားရောက် နေထိုင်ကြရန် မေတ္တာရပ်ခံခဲ့ပါသည်။

**ထူးဆန်းသော ဖြစ်ရပ်များ ဖြစ်ပေါ်ခြင်း**

အေဒီ ၁၉၉၄ ၁၃၅၆ ခုနှစ်၊ တပို့တွဲလ၌ စလူမြောင်တောရကျောင်း မဏ္ဍာရုံရှေ့၌ ပေါက်နေသော သရက်ဖြူ ပင်ညာဘက်ခြမ်းမှ အင်ကြင်းပွင့်များ ဖူးပွင့်ခဲ့လေသည်။ အင်ကြင်းပန်းရနံ့များ တောရကျောင်း ဝင်းအနှံ့ မွှေးကြိုင်ခဲ့ပါသည်။

**စန္ဒာဝန်ချတော်မူခြင်း**

အေဒီ ၁၉၉၈ စလူမြောင်တောရ ဆရာတော် ဘဒ္ဒန္တ သီလာစာရသည် ၁၃၆၀ ပြည့်နှစ်၊ ဝါဆိုလပြည့်ကျော် (၂) ရက်၊ (၁၀. ၇. ၉၈) သောကြာ နေ့ ညနေ ၅း၂၀ နာရီတွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့ ပါပြီ။ ပျံလွန်တော်မူစဉ်က သက်တော် (၇၀)၊ ဝါတော် (၃၁) ဝါ ရရှိနေပြီ ဖြစ်သည်။

ကျမ်းကိုး။ စံသူမြတ် (သုံးဆယ်)၊ ဝိဇ္ဇာ ၊ ရသစုံမဂ္ဂဇင်း၊ ၂၀၀၈ ခုနှစ်၊ ဇူလိုင်လ၊ စာမျက်နှာ - ၁၁၃။

http://www.dhammadownload.com



# ရခိုင်ပြည်နယ်၊ စစ်တွေမြို့ အာဂျက်တော်ကုန်းမှ တိစီဝရိက်ဓုတင်ဆောင် မပုပ်မသိုးသော ရုပ်ကလာပ်တော် ကြွင်းကျန်တော်မူသော

# အသျှင်ဓမ္မပါလ

## ၁၉၂၉ – ၁၉၉၆

**တရားထူး ရခဲ့သော စစ်တွေသား**

ယခင် ယခင့်ကလည်း ရခိုင်ပြည် စစ်တွေမြို့နယ်မှ နာမည်ကျော် ဆာပေါ်ထွန်း၏ အစ်ကို ဖြစ်သော ရွှေတောင်ဆရာတော် ဦးတိက္ခိန္ဒြိယမှာလည်း တရားထူး တရားမြတ် ရခဲ့ဖူးကြောင်း မှတ်တမ်းရှိခဲ့ပြီး ဖြစ်ပါသည်။ ထိုဆရာတော်မှာ တရားရေးဝန်ကြီးချုပ် ဆာပေါ်ထွန်း၏ အစ်ကို ဖြစ်ပါသည်။

**ဓာတ်တော်ကြွင်းကျန်သော ကံကလေး တောရဆရာတော်**

ထိုရွှေတောင်ဆရာတော်နှင့် စပ်လျဉ်း၍ ကံကလေးတောရဆရာတော်ဘုရားလည်း ဓာတ်တော် များ တဖွားဖွားကျတော်မူသော ရဟန္တာဖြစ်ကြောင်း သက်သေပြခဲ့ပြီး ဖြစ်ပါသည်။

**နာမည်ကျော် နာဇီဆရာတော်**

ယခင်က စစ်တွေတွင် တရားထူးရသော နာဇီဆရာတော်ဟူ၍ ရှိပြန်၏။ ယခင်လည်း တစ်ဖန် စစ်တွေ တွင် အရှင်ဓမ္မပါလ ကိုယ်တော်မြတ်ကြီး ပေါ်ထွန်းလာပြန်သဖြင့် သာသနာတော်ကြီး သည် အလွန်ထူးခြားစွာ ပွင့်လင်းခဲ့ကြောင်း သက်သေပြပြီး ဖြစ်နေပေတော့သည်။ မြန်မာပြည် အရပ်ရပ်တွင် ရဟန္တာမဆိတ်သုဉ်းဟူသော တောင်တန်းသာသနာပြု ပရိတ်ရေဆူ ဆရာတော် ကြီး ဦးဥတ္တမသာရ၏ စကားကို သတိရဖွယ် ဖြစ်ပါသည်။

**သင်္ချိုင်းကုန်းမှာကျင်းတူးပြီး တရားအားထုတ်ခဲ့သော ရဟန်းထူးတစ်ပါး ပေါ်ပေါက်ခြင်း**

ငွေကြေးဝတ္ထုကို လုံးဝကိုင်တွယ်ခြင်းမပြုဘဲ သင်္ချိုင်းကုန်းမှာ သဲကျင်းတူးပြီးတရားအားထုတ် ခြင်း၊ မြေတွင်းတူးကာ ဝါဆိုခဲ့ခြင်းစတဲ့ ခြိုးခြံချွေတာစွာ ကျင့်တော်မူပြီး ကိုယ်တွေ့ဉာဏ်မြင် သုညတ ဝိသနာကမ္မဋ္ဌာန်းကိုကျင့်ကြံအားထုတ်ခဲ့သည်။

(ကျမ်းကိုး၊ စစ်တွေမြို့ အာဂျက်တော်ကုန်းမှ တိစီဝရိက်ဓုတင်ဆောင်၊ အသျှင်ဓမ္မပါလ ဆရာတော်ကြီး စောနောင်နောင် (တောင်စွန်း)၊ ဂန္ထီရမဂ္ဂဇင်း၊ ၂၀၀၆၊ ဇွန်လ၊ အမှတ် - ၁၃၂ စာ - ၃၂)

**ဇာတိရပ်ရွာနှင့် မိဘာမျိုးရိုး**

အေဒီ ၁၉၂၉ ဆရာတော် အသျှင်ဓမ္မပါလကို ၁၂၉၁ ခုနှစ်မှာ အဘ ဦးခူးရွှေ၊ အမိ ဒေါ်မယောက်တို့မှ မွေးဖွားပါသည်။ စနေသားဖြစ်ပေမယ့် သူ့အစ်ကိုက အောင်စံထွန်းဖြစ်လို့ သူ့ကိုအောင်စံကျော် လို့ အမည်ပေးခဲ့ကြပါတယ်ဟု ခေတ်ပြိုင်မှတ်တမ်းရှိ၏။

http://www.dhammadownload.com



**ဆွေမျိုးများ**

ညီအစ်ကို သားချင်း(၅)ယောက်ရှိတဲ့အနက် အောင်စံကျော်က ဒုတိယမြောက်သား ဖြစ်၏။

**အိမ်ထောင်သည်ဘဝ**

အေဒီ ၁၉၄၇ ဆရာတော်လောင်းလျာ မောင်အောင်စံကျော်ဟာ ၁၃၀၉ ခုနှစ်မှာ စစ်တွေသူ မသန်းနဲ့ အိမ်ထောင်ကျခဲ့၏။ အိမ်ထောင်ကျစဉ်က အောင်စံကျော်က (၁၈)နှစ်သား၊ မသန်းက (၁၇)နှစ် သမီး အရွယ်သာ ရှိကြပါသေး၏။

**အိမ်ထောင်သက် နှစ် (၂၀)**

အေဒီ ၁၉၆၇ ဒီလိုနဲ့ ဘဝကိုရုန်းကန်ရင်း အိမ်ထောင်သက် အနှစ်(၂၀)ကြာလာတဲ့အခါ သားသမီး(၈)ယောက် ထွန်းကားခဲ့ပါတယ်။ ဒါပေမယ့် ဒေါ်ကြီး သူရဟန်းတက်တဲ့ဆီမသွားဘူး သူ့အဖေနဲ့အမေကပဲ ရဟန်း ဒကာခံကြတယ်ဟု ဖတ်ရ၏။

(ကျမ်းကိုး၊ စစ်တွေမြို့ အာဂျက်တော်ကုန်းမှ တိစီဝရိက်ခုတင်ဆောင်၊ အသျှင်ဓမ္မပါလ ဆရာတော်ကြီး စောနောင်နောင် (တောင်စွန်း)၊ ဝဏ္ဏိရမဂ္ဂဇင်း၊ ၂၀၀၆ ဇွန်လ အမှတ် - ၁၃၂ စာ - ၃၂ ကိုကြည့်။)

ဆရာတော်၏ ဘဝဖြစ်စဉ်ကို သားဖြစ်သူ ကိုကျော်သန်းက ပြောပြသဖြင့် အောက်ပါမှတ်တမ်း ကိုရရှိကြောင်း သိရ၏။

"အဲဒီတုန်းက ကျွန်တော်က လေးနှစ်သားလောက်ရှိပြီ။ အဖေကကျွန်တော့်ကို သူသွားတဲ့ ဘုန်းကြီးကျောင်းကို ခေါ်ခေါ်သွားလေ့ရှိတယ်။ အဲဒီမှာပဲ ညအိပ်တယ်။ ကျွန်တော်တစ်ရေးနိုး တော့ ကျွန်တော့်အနားမှာ အဖေမရှိဘူး၊ ကျွန်တော်ကငိုတော့ ဘေးကဦးကြီးတစ်ယောက်က အခု ပြန်လာတော့မယ်။ အိပ် အိပ်ဆိုပြီးချော့တယ်။ ကျွန်တော်ပြန်အိပ်ပျော်သွားတယ်။ မနက် (၅) နာရီလောက်မှအဖေပြန်လာတာ။ နောက်မှ ကျွန်တော်သိတာက ကျွန်တော် အိပ်နေ တုန်း ညသန်းခေါင်လောက် အဖေတစ်ယောက်တည်း သချိုင်းကုန်းကို သွားတယ်။ ကျောင်းနဲ့ သချိုင်းကုန်းကနီးနီးလေးရယ်။ သချိုင်းမြေပုံတွေကြားမှာ အဖေတရားထိုင်တာတဲ့။ တစ်ခါ တလေသဲကျင်းတူးပြီး သဲကျင်းထဲအိပ်ပြီး တရားအားထုတ်တာတဲ့"

**စစ်တွေမြို့ ကျားရုပ်တုကျောင်း ဆရာတော်ကြီး၏ ပြန်လည်မိန့်ကြားချက်**

စစ်တွေမြို့ရဲ့ ယခုလက်ရှိ ကျားရုပ်တုကျောင်းဆရာတော်ကြီးဖြစ်တော်မူသော မဟာဂန္ထဝါစက ပဏ္ဍိတ၊ အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇဘွဲ့တံဆိပ်တော်ရ အသျှင်ဘဒ္ဒန္တဇယန္တဆရာတော်ကြီးက အသျှင်ဓမ္မပါလနှင့် ပတ်သက်ပြီး ဤသို့ မိန့်တော်မူကြောင်း သိရ၏။

"ဒီဓမ္မပါလဆရာတော်ဟာတော်တော်ထူးခြားတဲ့ပုဂ္ဂိုလ်ဖြစ်တယ်။ ရဟန်းဘဝရောက်အောင် သုံးကြိမ် သုံးခါကြိုးစားရတယ်။

ရဟန်းဘဝရောက်တော့လည်း ခန္ဓာဉာဏ်ရောက် ကိုယ်တွေ့ဉာဏ်မြင် ဝိပဿနာတရားကို မဆုတ်မနစ်ဇွဲရှိရှိ ကြိုးစားခဲ့တယ်။ သူရဟန်းဝတ်စဉ်က သူ့ရဲ့ဥပဇ္ဈာယ် ဆရာတော်ကတော့ ဘုန်းကြီးတို့ဆရာဖြစ်တဲ့ နိုင်ငံတော်ဩဝါဒါစရိယ အဂ္ဂမဟာပဏ္ဍိတ ကျေးဇူးတော်ရှင်အရှင် ဘဒ္ဒန္တနရသီဟဖြစ်တယ်။ ဘုန်းကြီးကတော့ အဲဒီတုန်းကသူ့ရဲ့ အနုသာန ဆရာတော်ဖြစ်တယ်။ ဦးဓမ္မပါလရဟန်းဖြစ်တဲ့ သိမ်မှာ သုဒ္ဓိဇေယျဘုရားများ သိမ်ဖြစ်တယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ - ၃၇

http://www.dhammadownload.com



**သက်န်း (၃)ထည်၊ သပိတ် (၁)လုံး**

နောက်တော့ တိစီဝရိက်ခုတင်ဖြစ်တဲ့ သက်န်းသုံးထည်၊ သပိတ်တစ်လုံးဆောင်ကာ ဝတ္ထု ငွေကြေး တစ်ပြားတစ်ချပ်မှမကိုင်ဘဲ မြန်မာပြည်အနှံ့လှည့်လည်ကာ တရားများ ဟောကြားခဲ့ကြောင်း သိရ၏။

မှတ်ချက်။ ဆရာတော်ရဲ့သားဖြစ်သူ ကိုကျော်သန်းက စာရေးသူကို ခုလို ဖော်ပြခဲ့ပါသည်။

**ဆရာတော်ရဲ့ထူးခြားဖြစ်ရပ်များ**

တစ်နေ့တော့ ဆရာတော် [illegible] စစ်တွေကနေ ရန်ကုန်သွားမယ်ဆိုပြီး ငွေကြေးတစ်ပြား တစ်ချပ်မှ မကိုင်ဘဲ သင်္ဘောဆိပ်ကိုထွက်လာပါတယ်။ သင်္ဘောဆိပ်ရောက်တော့ ဆိပ်ကမ်းမှာ ရပ်နေတုန်း ဒကာတစ်ဦးရေ [illegible] ပြီး "အရှင်ဘုရား ဘယ်ကြွမှာလဲဘုရား" လို့ မေးလျှောက်တော့ "ဆရာတော်က ရန်ကုန်ကြွမယ်" လို့ အမိန့်ရှိပါတယ်။

ဒီတော့ အဲ့ဒီဒကာက သင်္ဘောကပ္ပတိန်ဆီသွားပြီး ဆရာတော်ရဲ့အကျင့်စရဏကို ပြောပြကာ ဆရာတော် ရန်ကုန်ရောက်တဲ့အထိ အိပ်ခန်းအပါအဝင် အရှက်ဆွမ်း၊ နေ့ဆွမ်းသက်သတ်လွတ် စရိတ်အားလုံးအတွက် ဆောင်ရွက်ပေးရန် ကပ္ပတိန်ကို ငွေများပေးအပ်ခဲ့ပြီး ဆရာတော်ကို ရန်ကုန်ကြွရန် သင်္ဘောပေါ်ပင့်ဆောင်ခဲ့တယ်လို့ သိရတယ်။

တစ်ခါကရန်ကုန်မြို့ ဗိုလ်တထောင်ဘုရားမှာ တရားဟောဖို့အတွက် မနက်(၅)နာရီလောက်ထပြီး ခြေလျင်လျှောက်ခဲ့ဖူးကြောင်းပြောပြတယ်။

ဆရာတော်လူဝတ်ကြောင်ဘဝက ပါရမီဖြည့်ဖက်ဇနီးဖြစ်သူ ဒေါ်မသန်းကလည်း ဆရာတော်ရဲ့ ထူးခြားစွာဖြစ် ခဲ့တဲ့ဖြစ်ရပ်တစ်ခုကိုပြောပြပါတယ်။

ဆရာတော်ရဲ့ လက်ရှိဓမ္မပါလကျောင်းတိုက် တရားဟောဓမ္မာရုံမှာ ဆရာတော် တရားဟောနေရင်းသူရဲ့မူလရုပ်ပုံပျောက်ကာ အရွယ်အိုသွားသလိုဖြစ်ပြီးမေ့သွားရာ ဒကာတွေက ကျောင်းပေါ်တွဲခေါ်ပြီး အိပ်ရာမှာသိပ်ထားရတယ်။ နောက်တော့ သတိရလာပြီးအရင် ရုပ်အတိုင်းပြန်ဖြစ်သွားတယ်။ အဲဒီလိုမျိုး သူမ သုံးခါလောက်မြင်ခဲ့ရကြောင်း ပြောပြပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ - ၃၈

**ထူးဆန်းသော ဖြစ်ရပ်များနှင့် ရေကန်ကြီး၏ ရာဇဝင်**

အသျှင်ဓမ္မပါလကျောင်းရောက်တော့ အများသောက်သုံးနေတဲ့ ရေကန်တစ်ကန်ကို ကိုကျော်သန်း လိုက်ပြတယ်။ ဘေးပတ်လည်မှာတော့ သစ်ပင်တွေ၊ ငှက်ပျောပင်တွေစိုက်ထားပေးတယ်။ ဒီရေကန်က ဘာထူးခြားလို့လဲမေးတော့ စစ်တွေမြို့က ကျောင်းဆရာမကြီးတစ်ဦး (နာမည်မမှတ်မိတော့) ဆရာတော်ဘုရားကြီးတရားနာကြားပြီး ဆရာတော်ရှေ့မှာ မျက်စိမှိတ် တရားထိုင်နေစဉ် (၁၅)မိနစ်ခန့်အကြာမှာ မျက်စိဖွင့်ပြီးဆရာတော်ကို ရုတ်တရက်ကြည့်လိုက်မိရာ သူမအမြင်မှာ ဆရာတော်ဟာ သူထိုင်နေတဲ့ တရားဟောပလ္လင်နဲ့ တစ်ထွာခန့်ကွာနေတာကို အံ့သြစွာဖူးတွေ့ရတဲ့အတွက် တရားထိုင်ပြီးပြီးချင်းကျောင်းခြံစည်းရိုးနဲ့ကပ်နေတဲ့ မြေကွက်တစ်ကွက်ကို ထိုစဉ်က ငွေကျပ်နှစ်သောင်းပေးဝယ်ပြီး ဆရာတော်ကမ္မဋ္ဌာန်းကျောင်းအတွက် ယောဂီများသောက်သုံးရန် လိုအပ်နေတဲ့အများသုံးရေကန်အဖြစ် တူးဖော်လှူဒါန်းခဲ့ကြောင်းနဲ့ ဒီရေကန်ဟာ အခုအထိ ယောဂီများသုံးနေကြောင်း ပြောပြပါတယ်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ - ၃၈၊ သားဖြစ်သူ၏ပြောပြချက်မှတ်တမ်း

http://www.dhammadownload.com



**အသက် (၄၀)မှ ဘုန်းကြီး ဝတ်ခဲ့**

အေဒီ ၁၉၆၈ အသက်အရွယ် လေးဆယ်ရောက်မှ ဘုန်းကြီးဘဝ ရောက်ခြင်းဖြစ်သည်။ ထို့ကြောင့် ဝါတော် (၂၈) ဝါ ရှိ၏။

**(၂၈)နှစ်ကျင့်ခဲ့**

အေဒီ ၁၉၉၆ ဆရာတော် အသျှင်ဓမ္မပါလဟာ သက်တော်(၆၈)နှစ်၊ ဝါတော်(၂၈)ဝါအရောက်မှာ ၂၂. ၁၁. ၉၆ နေ့တွင် ရန်ကုန်မြို့၊မြောက်ဥက္ကလာပမှာ ကိုယ်တွေ့ဉာဏ်မြင် သုညတဝိပဿနာ ကမ္မဋ္ဌာန်း တရားချီးမြှင့်တော်မူရင်း မြောက်ဥက္ကလာပဆေးရုံကြီးမှာ တက်ရောက်ဆေးကုသခံခဲ့ရာ အဲဒီ နေ့ညက ညဉ့်ဦးယံမှာပဲ ပျံလွန်တော်မူခဲ့၏။

**လေယာဉ်စင်းလုံးငှား၍ သယ်ခဲ့ခြင်း**

ဆရာတော်ကြီး၏ ရုပ်ကလာပ်တော်ကို စစ်တွေသို့ ပြန်လည်သယ်ဆောင်ရာတွင် သက်ဆိုင်ရာ ၏ ခွင့်ပြုချက်အရ လေယာဉ်စင်းလုံးငှားခွင့်ရခဲ့ပါတယ်။ ထိုစဉ်က လေယာဉ်ခမှာ (၁၂၄၀၀၀) ကျပ် ပေးရကြောင်း ကိုကျော်သန်းက ပြောပြပါတယ်ဟု ဖတ်ရှုရ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ - ၄၀

**စစ်တွေလေယာဉ်ကွင်းမှဆရာတော် ရုပ်ကလာပ်တင်ဆောင်မှုအစီအစဉ်**

ဆရာတော်ရဲ့ဒကာရင်းဖြစ်သူ စစ်တွေမြို့က ဦးအောင်ကျော်ညွန့်က ဆရာတော်ရဲ့ရုပ်ကလာပ် ကို စစ်တွေကောလိပ်လေဆိပ်ကနေ အသျှင်ဓမ္မပါလကျောင်းကို ပင့်ဆောင်သယ်ယူရာမှာ သာမန် လူပုဂ္ဂိုလ်တို့တင်တဲ့ နိဗ္ဗာန်ယာဉ်နဲ့ မတင်လိုပါ။ ဒါကြောင့်မြို့နယ်ကြက်ခြေနီကားကို သွားရောက် ငှားရမ်းပါတယ်။

**စစ်တွေတစ်မြို့လုံး အုန်းအုန်းကြွက်ကြွက်ဖြစ်**

ဒါပေမဲ့တာဝန်ရှိသူက ကြက်ခြေနီကားဟာ လူနာသာတင်ကြောင်း၊ လူသေ မတင်ကြောင်းပြော တဲ့အတွက် ဦးအောင်ကျော်ညွန့်က ဟိုင်းလပ်ပစ်ကပ်တစ်စီးကို မိမိငွေနဲ့ဝယ်ပြီး ဆရာတော် ရဲ့ရုပ်ကလာပ်ကို တင်ဆောင်ဖို့စီစဉ်နေစဉ် ဆရာတော် ရုပ်ကလာပ် မရောက်ခင် တစ်ရက် အလိုမှာ ဆရာတော်အသျှင်ဓမ္မပါလ ရုပ်ကလာပ်တော် ရန်ကုန်ကနေ စစ်တွေ လေဆိပ်ကို အထူးလေယာဉ်နဲ့ (၂. ၁၂. ၁၉၉၆)နေ့မှာရောက်မယ့်အကြောင်း စစ်တွေမြို့ကိုပတ်ပြီး အသံချဲ့ စက်နဲ့လိုက်လံကြေညာခဲ့ပါတယ်ဟု မှတ်တမ်းတင်ကြ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ - ၄၀ကိုကြည့်

စစ်တွေကိုအထူးလေယာဉ်ရောက်တဲ့အခါ မှန်စီရွှေချခေါင်းနဲ့ ဆရာတော်ရုပ်ကလာပ်ကို ကြက်ခြေနီကားပေါ် တင်ပြီး စစ်တွေမြို့သူမြို့သားများအားလုံး ဖူးမြော်နိုင်ရန် စစ်တွေမြို့ကို (၂)ပတ် ပတ်ပြီးမှ ဆရာတော်သီတင်းသုံးခဲ့တဲ့ ကျောင်းတိုက်မှာ ရုပ်ကလာပ်ကို ပူဇော်ခံထားပါ တယ်ဟု မှတ်တမ်းတင်ကြ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ - ၄၀ကိုကြည့်

**ဆရာတော်၏ရုပ်ကလာပ်တော်မှ ကဏ္ဍိပါ မှိုပွင့်ကြီးငါးပွင့်ထွက်လာခြင်း**

ဆရာတော်၏ ရုပ်ကလာပ်တော်နှင့် စပ်လျဉ်း၍ ဖြစ်ရပ်ဆန်းများကို ပြည်မြန်မာဂျာနယ်တွင် ဖတ်ရှုရခဲ့ဖူးကြောင်း ကောင်းစွာ သတိရပါသည်။ ရှာဖွေသောအခါ အောက်ပါအတိုင်း တွေ့ရ ပါသည်။

http://www.dhammadownload.com



စစ်တွေရောက်ပြီး ဆရာတော်၏ ရုပ်ကလာပ်တော်ကို စံကျောင်းမှာ ပူဇော်ထားစဉ်(၅) ရက်မြောက်နေ့ပျံလွန်တော်မူပြီး (၁၆)ရက်အကြာ ၇. ၁၂. ၉၆ နေ့မှာ ဆရာတော်ရဲ့ ရုပ်ကလာပ်တော် လက်ဝဲလက်မောင်းရင်း သက်န်းပေါ်မှာ အလွန်ထူးကဲတဲ့ အလျား(၆)လက်မခန့်ရှိ အနက်ရောင် ကတ္တီပါ မှိုပွင့်ကြီးငါးပွင့် ပေါ်ထွန်းခဲ့ပြီး ဆရာတော်ကြီးရဲ့မျက်နှာတော်ဘက်ကို ထူးထူးခြားခြား ညွှတ်တွားပူဇော်နေကြကြောင်း သတင်းများပါရှိလာပါသည်။

ကျမ်းကိုး ။ ယင်းဖြစ်ရပ်ကို ၂၁. ၂. ၉၇ နေ့ထုတ် ပြည်မြန်မာသတင်းဂျာနယ်မှ ဆရာတော်ကြီး ရုပ်ကလာပ်တော်မှ မှိုကတ္တီပါငါးပွင့်ထွက်လာသည့် ခေါင်းစဉ်နဲ့သတင်းအောင်ကျော်ဝင်း (အမြင်သစ်)၊ ဓာတ်ပုံမောင်ဖြူသီး(အမြင်သစ်)တို့က ဆရာတော်ကြီး မြောက်ဥက္ကလာပ မကြွမီ စစ်တွေမြို့ မေ့ပါလကမ္မဋ္ဌာန်းရိပ်သာမှ တရားချီးမြှင့်နေတဲ့ပုံနဲ့ ပျံလွန်တော်မူပြီး ရုပ်ကလာပ်တော် လက်ဝဲလက်မောင်းရင်းသက်န်းပေါ်မှ ထွက်ပေါ်လာတဲ့ကတ္တီပါ အနက်ရောင်မှိုပွင့်များ ဆရာတော်ကို ညွှတ်တွားပူဇော်နေပုံကို သတင်းဓာတ်ပုံအဖြစ် ဖော်ပြခဲ့ပြီး ဖြစ်သည်။

နောက်ဆက်တွဲသိရတာကတော့ အဲဒီသတင်းပါပြီးနောက် ဆရာတော်ရုပ်ကလာပ်ထားရာ စံကျောင်းပြတင်းပေါက် တံခါးဘောင်တွေပေါ်မှာလည်း မှိုတွေပေါက်လာကြောင်း နောက်ဆက်တွဲ သိရှိရပါသည်။

**ထူးဆန်းသော ဗန္ဓုရသရက်ဝင်**

ကျောင်းဝင်းထဲစိုက်ထားတဲ့ ဗန္ဓုရသရက်ပင်ကလည်း အညှာတစ်ခုထဲမှာ သရက်သီး (၁၈)လုံး သီးခဲ့ပါတယ်ဟု မျက်မြင်များက ပြောဆိုကြပါသည်။

**မပုပ်မသိုးသော ရုပ်ကလာပ်တော်**

ဆရာတော်ရုပ်ကလာပ်မှာ တစ်လကျော်အထိ ရောင်ရမ်းပုပ်သိုးခြင်းလုံးဝမရှိ။ ဒကာ၊ ဒကာမများရဲ့ ဆန္ဒအရ ဂူသွင်းခြင်း၊ မီးသင်္ဂြိုဟ်ခြင်း မပြုတော့ဘဲ ဂူဗိမာန်ဆောက်လုပ်ပြီး သလွန်ပေါ်မှာ မှန်စီရွှေခေါင်းနဲ့ စံကျောင်းချခဲ့ကြပါသည်။

**တစ်လတစ်ကြိမ် သင်္ကန်းလဲခြင်း**

နောက်ပိုင်းမှာ ဆရာတော်ကို တစ်လတစ်ခါ သင်္ကန်းအသစ်လဲလှယ်ခဲ့ကြပါတယ်။ နောက်တော့ သုံးလတစ်ခါ၊ ခြောက်လတစ်ခါ၊ သင်္ကန်းလဲလှယ်ပေးကြပါတယ်။ ယခုတော့ တစ်နှစ်တစ်ခါ သင်္ကန်းလဲလှယ်ပေးပါတယ်။

**ရုပ်ကလာပ်တော်သည် ကျောက်သားအသွင် ဖြစ်လာခြင်း အံ့ဖွယ်**

ယခုဆိုရင် ဆရာတော့်ရုပ်ကလာပ်မှာ နားရွက်များမှအစ ဘာတစ်ခုမှကြွေကျခြင်းမရှိဘဲ အသားများမှာကပ်ပြီး ကျောက်သားအသွင်ဆောင်နေပါတယ်။ အသားရောင်ကတော့ ပယင်းရောင်လို ညိုနေပါတယ်။

**ရုပ်ကလာပ်တော် တည်ရှိရာ ဗိမာန်**

ဆရာတော်ရုပ်ကလာပ်ထားရာ ဂူဗိမာန်မှာ ဆရာတော်သက်တော်ထင်ရှားရှိစဉ်က တရားအားထုတ်ခဲ့တဲ့ သချိုင်းအနီး ဆရာတော်ကျောင်းဝင်းနဲ့ ကပ်နေတဲ့နေရာမှာ ရှိပါတယ်ဟု ခေတ်ပြိုင်ဓမ္မစာရေးဆရာများက မှတ်တမ်းတင်ကြပါသည်။

ကျမ်းကိုး။ လက်ရှိကျားရုပ်ကျောင်းဆရာတော်ကြီး မဟာဂန္ထဝါစကပဏ္ဍိတ အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ အသျှင်ဘဒ္ဒန္တ ဇယန္တမထေရ်မြတ်အားလည်းကောင်း၊ ဆရာတော်ရဲ့ ပါရမီဖြည့်ဖက်ဖြစ်ခဲ့တဲ့ ကျောင်းတက်လမ်းရပ်ကွက်၊ ဦးဥတ္တမလမ်းက အမေကြီးဒေါ်မသန်း၊ မိသားစု

http://www.dhammadownload.com



ကိုးကွယ်နေတဲ့ ဆရာတော်ရဲ့ဓာတ်ပုံကို တကူးတကန့်ကူးပေးပြီး ပို့ပေးခဲ့တဲ့ ဆရာတော် မြေးတော်သူ ကျောင်းတက်လင်းရပ်ကွက်၊ ဦးဥတ္တမလမ်းမှ ဦးသိန်းဝင်းတို့ မိသားစုအား လည်းကောင်း ဆရာတော်ရဲ့ ရုပ်ကလာပ်တွင် မှိုပွင့်များပေါက်တဲ့ပုံနဲ့ (၁၉၉၇)ခုနှစ်၊ ပြည် မြန်မာသတင်းဂျာနယ်ပါ သတင်း ဆောင်းပါးဖြတ်ပိုင်းများ၊
ကျမ်းကိုး၊ စစ်တွေမြို့ အာဂျက်တော်ကုန်းမှ တိစိဝရိက်ဓုတင်ဆောင်၊ အသျှင်ဓမ္မပါလ ဆရာတော်ကြီး ဓောနောင်နောင် (တောင်စွန်း)၊ ဂမ္ဘီရမဂ္ဂဇင်း၊ ၂၀၀၆ ဇွန်လ အမှတ် - ၁၃၂ စာ - ၃၂။

http://www.dhammadownload.com



ဖြစ်ရပ်ဆန်းများနှင့်အတူ

# အင်းလေး ဝက်သကင်ဆရာတော်

၁၉၂၈ - ၂၀၀၃



http://www.dhammadownload.com



၁၄၊ ၁၂၊ ၂၀၀၃ မြန်မာ့အလင်းသတင်းစာတွင် အင်းလေးအိုင်မှ သာမညဟူ၍ ကြည်ညိုသူများက တင်စားခေါ်ဝေါ်ကြသော ဝက်သကင်ဆရာတော်ဘုရားကြီးသည် ရန်ကုန်မြို့တွင် ပျံလွန်တော်မူကြောင်း သတင်းထူးပါလာသဖြင့် အလွန်အံ့သြ ကြရပါသည်။ ဝက်သကင်ဆရာတော်ကို အချို့ကလည်း ဝက်သားကင် ဟူ၍ စာလုံးပေါင်းကြပါသည်။ သို့သော်လည်း အများကမူကား ဝက်သကင်ဆရာတော် ဟူ၍သာ ခေါ်ဝေါ်လေ့ရှိပါ သည်။

မှတ်ချက်။ ဆရာတော်၏သတင်းကို ၁၄၊ ၁၂၊ ၂၀၀၃ မြန်မာ့အလင်းသတင်းစာတွင် တွေ့ရှိရပါသည်။

**ပိဋကတ်တစ်ပုံအောင် ဆရာတော်ဖြစ်ခဲ့**

အေဒီ ၁၉၄၇ ၁၃၁၉ ခုနှစ်တွင် ပိဋကတ်သုံးပုံ ဖြေဆိုရာ တစ်ပုံအောင်မြင်တော်မူကြောင်း အံ့ဖွယ်သိရှိရပါသည်။

**ဖခမည်းတော်၊ မယ်တော်**

ဆရာတော်၏ ဘွဲ့အမည်မှာ ဦးအာစာရာနန္ဒ ဖြစ်ကြောင်း၊ ဖခမည်းတော်မှာ ဦးပြုံး၊ မယ်တော်မှာ ဒေါ်သန်း ဖြစ်ကြောင်း သားသမီး ၇ ယောက်တွင် အကြီးဆုံးဖြစ်ကြောင်း သိရှိရပါသည်။

**အဘယ်ကြောင့် ဝက်သကင်ဆရာတော်ဟု ခေါ်ရသနည်း။**

အဘယ့်ကြောင့် ဝက်သကင်ရွာဖြစ်ရကြောင်းသည်လည်းကောင်း၊ အဘယ်ကြောင့် ဝက်သကင်ဆရာတော် ဖြစ်ရခြင်းသည် လည်းကောင်း၊ အလွန်အံ့ဖွယ်ကောင်းလှပါသည်။

**ဝက်သကင်ဇာတ်လမ်း**

လွန်ခဲ့သော နှစ်ပေါင်းရာကျော်လောက်က တောင်ထိပ်ပေါ်တွင် သဘာဝ ကျောက်သား ပကတိ ဝက်ရုပ်ကြီးတစ်ရုပ် ရှိခဲ့ကြောင်း၊ မျက်လုံးများမှာ ပြဒါးရှင် ဖြစ်ကြောင်း၊ လပြည့်နေ့ည ရောက်တိုင်း ရောက်တိုင်း သိဒ္ဓိဝင် ပြဒါးရှင်လုံးသည် အရောင်နီနီရဲရဲ တောက်လောင်လာကြောင်း၊ ထိုအခါ ကျောက်သားပကတိ ဝက်ရုပ်ကြီးသည် သက်ဝင်လှုပ်ရှားလေ့ရှိကြောင်း သိရပါသည်။ ထိုအခါ ရပ်ထဲရွာထဲတွင် ရပ်စကားရွာစကား ပြောလေ့ပြောထရှိသည်မှာ နွားကျောင်းသားကလေးများသည် ကျောက်ဝက်ရုပ်ကြီးကို တက်စီး၍ ကစားလေ့ရှိကြောင်း ပြောလေ့ ပြောထ ရှိပါသည်။ သိုက်ဆရာများ၏ လောဘကြောင့် ဝက်ရုပ်ကြီးသည် ယခင်နေရာမှာ မနေတော့ဘဲ ဘယ်ကို ထွက်ခွာသွားမှန်းမသိတော့ကြောင်း ရပ်စကား ရွာစကားပြောလေ့ရှိကြောင်း သိရပါသည်။ ရှေးအခါက ၄င်းရွာကို ဝက်ဆားကျင်းရွာဟု ခေါ်ကြောင်း နောင်အခါ ဝက်သားကင်ရွာဟု ခေါ်ကြကြောင်း သိရပါသည်။

**သပိတ်တစ်လုံး၊ သင်္ကန်းသုံးထည်**

ဝက်သကင်တောရကျောင်းသို့ ဆရာတော် ရောက်ရှိလာသောအခါ သပိတ်တစ်လုံးနှင့် သင်္ကန်းသုံးထည်သာပါကြောင်း သိရပါသည်။

**နှစ် (၂၀) မဟာဂန္ဓာရီ**

ရန်ကုန်မြို့၊ ရဲမွန်တပ်မြို့တည်ရာတောတွင်းသို့ ဆရာတော်သည် တောထွက်ခဲ့ကြောင်း၊ ပြည်ရွာအနှံ့မဟာဂန္ဓာရီ လှည့်ခဲ့ကြောင်း၊ ဝက်သကင်တောကျောင်းသို့ ရောက်ရှိလာသည်မှာ နှစ်ပေါင်း ၂၀ နီးပါးရှိပြီ ဖြစ်ကြောင်း သိရပါသည်။

**ပဲခူး နာရဏီတောရ**

ပဲခူးမြို့တွင် နာရဏီတောရ ဟူ၍ ရှိပါသည်။ ထိုနာရဏီတောရသို့ ပထမဦးဆုံး တောထွက်ခဲ့

http://www.dhammadownload.com



ကြောင်း သတိပဋ္ဌာန် တရားအားထုတ်ခဲ့ကြောင်း ဓာတုမနသိကာရပဗ္ဗ ဟူသော သတိပဋ္ဌာန် အားထုတ်နည်းကို အထူး နှစ်သက်ကြောင်း သိရှိရပါသည်။

**ပရိတ်တော်အစွမ်း**

ဆရာတော် ပရိတ်ရွတ်လိုက်သောအခါ မြတ်စွာဘုရား ကိုယ်တော်မြတ်ကြီး၏ တန်ခိုးတေဇော် အာနုဘော်ကြောင့် အလွန်ထူးခြားကြောင်း သိရှိရပါသည်။ ရေမွှေးများ၊ ရေများ၊ ဆီများတို့သည် သိသိသာသာ ပေါ်ပေါ်လွင်လွင် ထူးခြားထင်ရှားကြောင်း သိရပါသည်။

**ဆွံ့အနေသူများ ပရိတ်တန်ခိုးကြောင့် စကားပြောကြောင်း အံ့ဖွယ်ဖြစ်**

ဝက်သကင်ဆရာတော်ကြီး၏ ပရိတ်တန်ခိုးတော်ကြောင့် နှစ်ပေါင်းများစွာ စကားမပြောနိုင်ဘဲ ဆွံ့အနေသူများပင်လျှင် စကားပြောလာကြကြောင်း၊

**ကိုယ်တစ်ခြမ်းသေသူများ ပြန်ကောင်းခဲ့**

ကိုယ်တစ်ခြမ်းသေနေသူများသည် အကောင်းပကတိဖြစ်လာကြောင်း သိရှိရပါသည်။

**တရားလည်းပေး အစားလည်းကျွေး**

ဝက်သကင်ဆရာတော်ထံ သွားရောက် ဖူးမြော်သူတို့အတွက် စားရေး၊ သောက်ရေး၊ နေရေး၊ ထိုင်ရေး ဘာမှ ပူပင်စရာမလို အိပ်စရာလည်း ပေး၏။ စားစရာလည်း ကျွေး၏။ တရားရေအေး လည်း တိုက်ကျွေး၏။

**ခရီးသွားလမ်းညွှန်**

ထို့ကြောင့်လည်း ဝက်သကင် တောရကျောင်းကို အင်းလေးတောင်ပေါ်က သာမည ဖြစ်ကြောင်း ပြောဆိုကြကြောင်း သိရပါသည်။ ညောင်ရွှေမြို့မှ တစ်ဆင့် စက်လှေဖြင့် သွားလျှင် ရောက်ရှိ နိုင်ကြောင်း သိရှိရပါသည်။

**တောင်ပေါ်က သာမညဟု ခေါ်ကြ**

လာရောက်ကြသော ပရိသတ်အပေါင်းတို့ကို စံကျောင်း၏ အောက်ထပ်တွင် စတုဒိသာ ထမင်း ဟင်း ကျွေးမွေးလှူရှိသဖြင့် သာမည ဆရာတော်ဘုရားကြီးကဲ့သို့ပင် အုံးအုံးကြွက်ကြွက် အလှူ ကြီးပေးနေကြောင်း တင်စားကြကာ အင်းလေးက သာမညဟူ၍ ပြောဆိုကြကြောင်း တစ်ဆင့် စကား ကြားရပါသည်။

**ဈေးဆိုင်များ စည်ကားခြင်းအကြောင်းရင်း**

ဆရာတော်ကြီး သီတင်းသုံးတော်မူသည့် နေရာသို့ ရပ်ဝေး ရပ်နီးမှ စက်လှေများဖြင့် လာ ရောက်ကြသည်မှာ ပွဲတော်တမျှ ဖြစ်သည်ဟု ဆိုပါသည်။ ကျောင်းအတွင်းအဝ အင်းစပ်၌ စက်လှေဆိုက်ကပ်သည်ဖြစ်ရာ စက်လှေဆိပ်၌ အစားအသောက်ဆိုင်များ စည်ကားလျက် ရှိနေပေသည်။

**ကောင်းမှုတော် စေတီများ**

တောင်ထိပ်ပေါ်တွင် စေတီကြီးနှစ်ဆူရှိ၏။ ထိုစေတီများမှာ ၇ ရက်သားသမီးတို့၏ ကောင်းမှု ကြီးဖြစ်သဖြင့် ကမ္ပည်းထိုးထားသည်မှာ မှတ်သားဖွယ် ဖြစ်၏။ ပြည်တွင်း ပြည်ပ ဘာသာမျိုးစုံ လူမျိုးစုံ စစ်ဘက်နယ်ဘက် တက္ကသိုလ် ကောလိပ် စက်မှုသိပ္ပံ အထက အလက အမက အများစုကောင်းမှု စေတီတော်ဟူ၍ မော်ကွန်းကမ္ပည်းစာ ရေးထိုးကြောင်း ဖတ်ရှုရပါသည်။ စေတီနှစ်ဆူမှာ ညီတော်စေတီနှင့် နောင်တော်စေတီ ဟူ၍ ဖြစ်ပါသည်။

http://www.dhammadownload.com



**တောင်ကြီး ဘိန်းဖြတ်ဆေးရုံ**

ဝက်သကင် ဆရာတော်ဘုရား၏ တရားဟောပြော ကြိုးပမ်းမှုများကြောင့် တောင်ကြီး ဘိန်းဖြတ်ဆေးရုံ နန်းပန်ရာသံယာဆေးရုံ ကေလာရာဘုန်းတော်ကြီး စသည်အားဖြင့် လှူမှုရေး၊ အောင်မြင်မှုများ ဖြစ်ထွန်းလာရကြောင်း ပြောဆိုကြပါသည်။

**(၂၄) နာရီ စတုဒိသာ**

ဝက်သကင် ဆရာတော်အား လာရောက်ဖူးမြော်သူများ မည်ရွေ့ မည်မျှ များပြား သည်ဆိုသည် ကာမူ ညအိပ် ညနေ အတွက်လည်းကောင်း၊ အစားအသောက်အတွက် လည်းကောင်း ဘာမှ ပူစရာမလို၊ အခမဲ့ စတုဒိသာ အချိန်မရွေး ကျွေးမွေးလျက်ရှိကြောင်း အံ့ဖွယ်သိရပါသည်။

(ကျမ်းကိုး။ ထိုဝက်သကင် ဆရာတော်ဘုရားကြီး၏ အကျိုးအကြောင်းတို့ကို ပြော၍ မကုန်နိုင်အောင် ရှိပါ၏။ ကိုယ်တွေ့ကြုံသူများ၏ အံ့ဖွယ်ဖြစ်ရပ်တို့မှာလည်း များပြားလှပါသည်။ ထိုအထဲတွင် အထူးမှတ်သားလောက်သော အချက်တစ်ခုမှာ ဒေါ်ခင်သန်းလွင် (မန်းဆရာ အတတ်သင်) ဆိုသူ၏ ကိုယ်တွေ့တင်ပြချက်တစ်ခုဖြစ်ပါသည်။

ထိုတစ်ချက်တည်းနှင့်ပင် ဝက်သကင်ဆရာတော်ဘုရား၏ သီလ သမာဓိ ပညာတို့ကို ရှုထောင့်အထွေထွေမှ သိခွင့်ရရှိပါသည်။ ဒေါ်ခင်သန်းလွင်၏ အတင်အပြကောင်းမှုကြောင့် ကျွန်ုပ်တို့မှာ ဝက်သကင် ဆရာတော်ဘုရားကြီးကို နဂိုကတည်းက ကြည်ညိုရင်း ရှိနေပေရာ၊ ယခုအခါ ပို၍ကြည်ညိုမိပါတော့သည်။ ဒေါ်ခင်သန်းလွင်၏ အရေးနှင့်အပြောကို ယခုပြန်၍ ပြောပါမည်။ အကျယ်သိလိုသူတို့သည် ၁၉၉၁ခု၊ မတ်လထုတ်၊ မြတ်မင်္ဂလာမဂ္ဂဇင်း အတွဲ ၆၊ အမှတ် ၉၊ စာမျက်နှာ ၃၄-၃၅-၃၆ တို့ကို ဖတ်ရှုစေချင်ပါသည်။)

**ကိုယ်တွေ့ ခေတ်ပြိုင်မှတ်တမ်း တင်သူများ ရှိ**

ထိုဆရာတော်မှာ ရှမ်းပြည်နယ်တောင်ပိုင်း၊ အင်းလေးကန်မှ ဝက်သကင်ဆရာတော်ဖြစ်သည်။ ဝက်သကင်ရွာတွင် သီတင်းသုံး နေထိုင်တော်မူသော ထိုဆရာတော်ကို အင်းလေးကန်ရှိ လူအများက သိကြပါသည်။ ကျွန်မတို့သည် အင်းလေးကန်သို့ အလည်ရောက်ခိုက်ရွာရှိ အိမ်ရှင်က ဆရာတော်ကို ဖူးသွားကြပါဦးဟုဆိုကာ လိုက်ပို့သဖြင့် ဆရာတော်ကို ဖူးတွေ့ခဲ့ကြ သည်။ နေ့စဉ် နေ့လယ်ပိုင်းတွင် ဆရာတော်သည် ပရိတ်တရားတော်များ ရွက်ဖတ်သည်။ ကျွန်မတို့ ရောက်သည့်နေ့တွင်လည်း ကြုံကြိုက်သဖြင့် ပရိတ်တရားတော်များ နာကြားခဲ့ကြရသည်။ ကြည်လင် ပီသသည့် ဆရာတော်၏ အသံတော်ကို အာရုံစူးစိုက်၍ တရားနာနေပါသည်။ ထိုအခိုက် နံဘေးရှိ လူများ လှုပ်လှုပ်ရွရွနှင့် တွတ်တွတ် တွတ်တွတ် ပြောနေကြသဖြင့် မျက်စိဖွင့်ပြီး နံဘေးမှ မိန်းမကို လှည့်ကြည့်လိုက်သည်။

**ပူစီဖောင်းများ ထလာသော ပရိတ်ရေအိုး**

ထိုသူက ပရိတ်ရေအိုး (ရေအပြည့် ထည့်ထားသော သောက်ရေအိုး) ကို လက်ညှိုးထိုးပြသဖြင့် လှမ်းကြည့်လိုက်သည်။ ပရိတ်ရေအိုးအတွင်းရှိ ပရိတ်ရေများသည် ရေနွေးဆူခါစတွင် ပူစီဖောင်း ထသကဲ့သို့ ရေမျက်နှာပေါ်တွင် ပလုံစီထနေသလို ဖြစ်လာကြောင်းတွေ့ရသည်။ ဆရာတော်၏ သီလ၊ သမာဓိ၊ ပညာဂုဏ်တို့ကြောင့် ပရိတ်တော်၏ အစွမ်းထက်၍ ပရိတ်ရေ ပွက်သည်ကို ကျွန်မ တစ်သက်တွင် ပထမဦးဆုံး ဖူးတွေ့ရခြင်းဖြစ်ပါသည်။

**ရဟန္တာပုံတော်များ ဖူးရခြင်း**

ကျွန်မတို့လည်း အိမ်ရှင်ထံမှ ပုလင်းတစ်လုံးတောင်းကာ ထိုပရိတ်ရေကို ယူဆောင်လာခဲ့သည်။ ထို့နောက် ဆရာတော်ဘုရား တည်ထားသော ဘုရားအတွက် စိန်ဖူးတော်ကို ကြုံကြိုက်တုန်း

http://www.dhammadownload.com



ဖူးသွားကြပုံ ဆိုသဖြင့် ဖူးကြရာ စိန်ဖူးတော်ထဲတွင် ရဟန္တာများ (သပိတ်၊ ယပ်တောင်များဖြင့်) ကြွလာသည်ကို ထူးခြားစွာ ဖူးတွေ့ကြရသည်။ ပထမတွင် သဲသဲကွဲကွဲ မမြင်ရသဖြင့် အနီးသို့ ကပ်၍ ဖူးကြရာ ထင်ထင်ရှားရှားပင် မြင်တွေ့ခဲ့ကြရသည်။

**ရောင်ခြည်တော် လွှတ်ခြင်း**

ယခုအခါတွင် ထိုစိန်ဖူးတော် တင်ပြီးဖြစ်ရာ ညတွင် ထိုဘုရား စိန်ဖူးတော်မှ ရောင်ခြည်တော်များ ကွန့်မြူးကြောင်း ကြားသိရသည်။ ထိုဘုရားသည် ဝက်သကင် ဆရာတော် စံကျောင်းအနီး ရှိ တောင်ထိပ်တွင် တည်ထားသည်။ ဆရာတော်ကျောင်းမှပင် ထိုစိန်ဖူးတော်ရောင်ခြည် ကွန့်မြူးသည်ကို ဖူးတွေ့နိုင်သည်။

**ထူးဆန်းသော ခွတ်လုံးကြီး**

အခြားထူးခြားချက်တစ်ခုမှာ ဆရာတော်ကျောင်းတွင်ရှိသော ခွတ်လုံး ဖြစ်သည်။ ထိုခွတ်လုံး မှာ သံလုံးဖြစ်၏။ ယောက်ျားကြီး လက်သီးဆုပ်ခန့် ရှိသည်။

**ရေပေါ်သော ခွတ်လုံး**

ရွာသားတစ်ယောက် ငါးဖမ်းရင်း ထိုခွတ်လုံး ရေထဲမျောနေသည်ကို တွေ့၍ ဆရာတော်ထံ လာလှူထားကြောင်း သိရသည်။ ဆရာတော်က ကျွန်မတို့ကိုခေါ်၍ ခွတ်လုံးကို ကိုင်ကြည့်ခိုင်းရာ အတော်လေးကြောင်း သိရသည်။ ပြီးမှ ဆရာတော်က ရေခွက်တွင် ရေထည့်၍ ထိုခွတ်လုံး ကို ထည့်လိုက်ရာ ရေပေါ်တွင်ပေါ်နေကြောင်း တွေ့ရသည်။

(ကျမ်းကိုး၊ အင်းလေးကန်မှ ထူးခြားသောဆရာတော်၊ ဒေါ်ခင်သန်းလွင် (မန်းဆရာ အတတ် သင်)၊ မြတ်မင်္ဂလာ၊ ၁၉၉၁ ခု၊ မတ်လ အတွဲ ၆၊ အမှတ် ၉၁ ၊ စာမျက်နှာ ၃၄ - ၃၆)

**အရုပ်လေးမျက်နှာ အရိပ်ထွက်ခြင်း**

ထူးခြားချက်မှာ ထိုမျှမကသေးပါ။ မည်သည့်ပစ္စည်းမဆို အလင်းရောင်တွင်ထားပါက အရိပ် တစ်ဖက်သာ ထွက်နိုင်ကြောင်း လူတိုင်းအသိပင် ဖြစ်သည်။ ယခု ခွတ်လုံးကား အရုပ်လေး မျက်နှာလုံး အရိပ်ထွက်သည်ကို အံ့သြစွာတွေ့ခဲ့ရသည်။

**ပရိတ်မေတ္တာဖြင့် ရောဂါများ ပျောက်ကင်းကြခြင်း**

ကျွန်မ၏ သမီးလေး ၁၇ ရက်သားတွင် အထက်လှန်အောက်လျှောဖြစ်ရာ ဆရာဝန်များက ဆေးရုံတင်ခိုင်းသဖြင့် ဆေးရုံတွင် ၃ ရက်ကြာ တက်ခဲ့ရသည်။ သမီးလေး ၁ လခွဲခန့်တွင် အလားတူ ရောဂါမျိုးထပ်မံဖြစ်ရာ ဤအကြိမ်တွင် ပိုမိုဆိုးရွားလာသည်။ ငယ်ထိပ်မှာ ချိုင့်ခွက် နေပြီး အသားအရေမှာ ရှုံ့တွနေသည်။ ကလေးမှာ ဝမ်းသွားရုံသာမက အဖျားကြီးသဖြင့် ကလေး အထူးကု ဆရာဝန်ဆီ ပြေးရသည်။ ဆရာဝန်က ဆေးရုံတင်ခိုင်းပြန်သည်။ ထိုအချိန်က ကလေး များ အသားဝါရောဂါ အဖြစ်များလှသဖြင့် ဆေးရုံတွင် အသားဝါရောဂါ ကူးမည်ကို စိုးရိမ်မိကာ ဆေးရုံမတင်လိုကြောင်း ပြောမိသည်။ ဆရာဝန်က "ရှင့်ကလေးကဖြင့် တဲတဲလေးပဲ ကျန်တော့တာ၊ ဆေးရုံမတင်လို့ မဖြစ်ဘူး" ဟု ပြောသည်။ ထို့ကြောင့် "အခုညနေ မိုးချုပ်ခါနီး ဖြစ်လို့ မနက်ဖြန်မှ တင်ပါရစေ" ဟု တောင်းပန်ရသည်။ အိမ်ပြန်ရောက်တော့ ကျွန်မလည်း စိတ်မထိန်းနိုင်ပဲငိုမိသည်။ တစ်အိမ်လုံးလည်း စိတ်မကောင်းကြပေ။ ရပ်ကွက်ထဲရှိ လူများက တော့ ကလေးကို မြင်ရုံနှင့် သွားရှာတော့မှာပဲဟု တိုးတိုးတိတ်တိတ် မှတ်ချက်ချနေကြသည်။

http://www.dhammadownload.com



**ပရိတ်ရေတန်ခိုး ကိုယ်တွေ့**

ညပိုင်းရောက်တော့ မောင်လေးက "အစ်မသမီးကို ဝက်သကင်ဆရာတော်ရဲ့ ပရိတ်ရေ တိုက်ကြည့်ပါလား" ဆိုသည်။ ကိုယ့်အပူနဲ့ ကိုယ်မို့ ဆရာတော့် ပရိတ်ရေကိုပင် သတိမရပါလားဟု တွေးမိသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၅

**ပရိတ်ရေတော် ရောင်ခြည်ကွန့်**

ဆရာတော် ပရိတ်ရေထဲတွင် ပလတ်စတစ် အလွှာပါးပါးလိုမျိုး (အင်မတန် ပါးလွှာတဲ့ ပုံဆောင်ခဲလိုမျိုး) တွေ ရောင်စုံတွေ့ကြရသည်။ ဓာတ်တော်ရောင်ခြည် ကွန့်မြူးသကဲ့သို့ အဖြူ၊ အနီ၊ အပြာ၊ အဝါ၊ ပန်းရောင်၊ ခရမ်း စသည်တို့ဖြင့် အလွန် လှပလှသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၃၆

**ပရိတ်ရေကို ပူဇော်ကြခြင်း**

မိသားစုအားလုံး သမီးနားတွင် ဝိုင်းထိုင်ကြပြီး ဝက်သကင်ဆရာတော်၏ သီလ၊ သမာဓိ၊ ပညာဂုဏ်များကို ရည်မှန်းပူဇော်ကြပြီး ဆရာတော်၏ မေတ္တာရေကြောင့် သမီးလေး အမြန်ဆုံး ကျန်းမာပါစေဟုဆုတောင်း၍ ပရိတ်ရေကို လျှာမှ ဆွတ်၊ ခေါင်းမှ ခြေထိ ပရိတ်ရေနှင့် တောက်ပေးလိုက်သည်။ အလွန်ပင် အံ့ဩစရာကောင်းလှသည်။ နောက်နေ့မနက်တွင် အဖျားလည်း ကျ၊ ဝမ်းလည်းရပ်သွားသည်ကို တွေ့ကြရသည်။ ပထမအကြိမ် ဆေးရုံတက်စဉ်တုန်းက ဆေးဝါး အစုံအလင်ဖြင့်ပြုစုပါလျက် ဝမ်းမှာ တဖြည်းဖြည်းသာအကြိမ်နည်းလာသည်။ သို့သော်လည်း ဝမ်းမှာ အရည်များပင် ဖြစ်သေးသည်။ အဖျားမှာလည်း တဖြည်းဖြည်းသာ ကျလာသည်။ ၃ ရက်လုံးလုံး ဆေးရုံပေါ်တွင် ပြုစုခဲ့စဉ်က အဖျားကျကာ ဝမ်းအကြိမ်နည်းသွားသည်။ ယခုအကြိမ်တွင်မူ ဆရာတော်၏ ပရိတ်ရေအစွမ်းထက်ပုံမှာ တစ်ညတည်း လုံးဝ ဝမ်းမလျှောတော့ပေ။ ထိုနေ့တွင်ပင် ကလေးအထူးကုကို ထပ်မံသွားပြရာ ဆေးရုံတက်စရာ မလိုတော့ဟု ပြောသည်။ တစ်အိမ်သားလုံး ဝမ်းသာကြသည်မှာ ပြော၍ပင် မပြနိုင်တော့ချေ။ ဆရာတော်၏ သီလ၊ သမာဓိ၊ ပညာကိုလည်း ပို၍ယုံကြည်လေးစားမိကာ သဒ္ဓါတရားများ ပိုမို၍ ထက်သန်လာကြသည်။ ပထမအကြိမ် သမီးလေး ဆေးရုံတက်စဉ်က ဆရာတော်၏ ပရိတ်ရေကို သတိမရခဲ့ခြင်းကိုပင် တွေးမိတိုင်း နောင်တရမိပေသည်။ ဆရာတော်၏ ပရိတ်ရေ အစွမ်းထက်သည်ကို ကိုယ်တွေ့ ကြုံရပေတော့သည်။

(ကျမ်းကိုး၊ အင်းလေးကန်မှ ထူးခြားသောဆရာတော်၊ ဒေါ်ခင်သန်းလွင် (မန်းဆရာအတတ်သင်)၊ မြတ်မင်္ဂလာ၊ ၁၉၉၁ ခု၊ မတ်လ အတွဲ ၆၊ အမှတ် ၉၁ ၊ စာမျက်နှာ ၃၄ - ၃၆)

**ဝက်သကင်ဆရာတော် ခန္ဓာဝန်ချတော်မူကြောင်း သတင်း**

အေဒီ ၂၀၀၃

ရှမ်းပြည်နယ်၊ တောင်ကြီးခရိုင် အင်းလေးဒေသ ဝက်သကင် ကျောင်းတိုက်ကြီး၏ ပဓာနမဟာနာယက ဗုဒ္ဓသာသနာပြုမွေ့ကထိက သာသနဓဇသီရီ ပဝရဓမ္မာစရိယနှင့် ဗုဒ္ဓသာသနာဝိသိဋ္ဌဒီယ ဘာဏကဘွဲ့ရ ဝက်သကင်ဆရာတော်ကြီး ဘဒ္ဒန္တအာစာရာနန္ဒသည် ၁၃၆၅ ခုနှစ် နတ်တော်လပြည့်ကျော် ၁ ရက် (၉-၁၂-၂၀၀၃) မွန်းလွဲ ၂း၃၀ နာရီတွင် ရန်ကုန်တိုင်း တောင်ဥက္ကလာပမြို့နယ်၊ (၁၁)ရပ်ကွက်၊ မေတ္တာလမ်း၊ အမှတ် ၃၃၊ ယာယီစံ ကျောင်းတော်တွင် ဘဝနတ်ထံ ပျံလွန်တော်မူပါသဖြင့် ၁၃၆၅ ခုနှစ်၊ နတ်တော်လပြည့်ကျော် ၆ ရက် (၁၄-၁၂-၂၀၀၃) တနင်္ဂနွေနေ့ နံနက် ၁၀း၃၀ နာရီတွင် ကြွင်းကျန်ရစ်သော ဥတုဇရုပ်ကလာပ်တော်

http://www.dhammadownload.com



ကို ရေဝေးသုသာန် အအေးတိုက်မှ အန္တိမအင်္ဂါ ဈာပန သာဓု ကီဠန ပူဇာသဘင် ဆင်ယင်ကျင်းပမည် ဖြစ်ပါကြောင်း ရဟန်း သံဃာ၊ တပည့်ဒါယကာ၊ ဒါယိကာမ အပေါင်းတို့အား အကြောင်းကြား သိစေအပ်ပါသည်။ (ယာယီစံကျောင်း အမှတ် ၃၃၊ မေတ္တာလမ်း၊ (၁၁) ရပ်ကွက်၊ တောင်ဥက္ကလာပမှ နံနက် ၉း၃၀ နာရီတွင် ကားများစတင် ထွက်ခွာပါမည်။)

ကျမ်းကိုး။ ၁၄၊ ၁၂ ၂၀၀၃ မြန်မာ့အလင်းသတင်းစာ

❖ ❖ ❖

http://www.dhammadownload.com



မုံရွာမြို့ မဟာဗောဓိတစ်ထောင် ဆရာတော်ဘုရားကြီး၏ဆရာရင်း
မန္တလေးတောင် ကျောက်တော်ကြီးအနီးတွင် သီတင်းသုံးခဲ့သော
မပုပ်မသိုးသော ရုပ်ကလာပ်တော်ရှိသော မဟာသုဒဿန သံဃရာဇာ

# နန်းဦး ဆရာတော် ဦးနန္ဒိယသီဟသူရ

(၁၉၆၃-ခုနှစ် စန္ဒာဝန်ချ)



http://www.dhammadownload.com



**မင်းတုန်းမင်းကြီး မြေးတော်**

နန်းဦးဆရာတော်ဘုရားကြီးသည် ဘဝရှင် မင်းတုန်းမင်းတရားကြီး၏ မြေးတော်ဖြစ်ကြောင်းလည်း သိရပါသည်။ ဖွားသက္ကရာဇ်ကို စုံစမ်း၍မရပါ။ ခန္ဓာဝန်ချသောနှစ်ကိုကား မြန်မာသက္ကရာဇ် ၁၃၂၅ ခုနှစ်ဟုမှတ်တမ်းတွေ့ရပါသည်။ ထို့ကြောင့် ခရစ်နှစ် ၁၉၆၃ ဟု မှတ်တမ်းတင်လိုက်ပါသည်။

**နန်းဦးဆရာတော် ဓာတ်ပုံ**

နန်းဦးဆရာတော်ဘုရားကြီး၏ ပုံတော်ကိုမြင်ဖူးချင်၍ ရှာသောအခါ မုံရွာမြို့ ဇောဓိတစ်ထောင်ကျောင်းတိုက်တွင် ပုံတူရေးဆွဲထားသော ပန်းချီကားကြီးအရသာ မြင်ဖူးခြင်းဖြစ်ပါသည်။

အေဒီ ၁၉၆၀ — ၁၃၂၂ ခုနှစ်မှာ မုံရွာမြို့နယ် ခတက္ကန်တောင်ရွာ ယခုလက်ရှိ မဟာဗောဓိတစ်ထောင်မှာ စိုက်ပျိုးတော်မူပါသည်။ မဟာဗောဓိတစ်ထောင်ဆရာတော် ဘုရားကြီး ဟာ ဗောဓိပင်မြေမချခင် ဆရာဖြစ်သူ မန္တလေးသံဃရာဇာ နန်းဦးဆရာတော်ကြီး ဦးနန္ဒိယသိဟသူရ ကိုယ်တော်တိုင် ကြွရောက်ချီးမြှောက်ရန် ပင့်လျှောက်ပုံကို မိဂဒါဝုန် ဆရာတော်က ဗောဓိတစ်ထောင်ဆရာတော်ကြီး၏ ဘဝစာပန်းချီစာအုပ်မှာ ရေးသားထားခဲ့သည်ကို တွေ့ရပါသည်။

ဗောဓိတစ်ထောင်ဆရာတော်ဘုရားကြီးသည် ဓာတ်ကျမ်းဆေးကျမ်း အင်္ဂရတ်ဂမ္ဘီရ အင်းအိုင် မန္တန်ဆေးဝါးပညာကို့ကို နန်းဦးဆရာတော် ဘုရားကြီးထံမှ သင်ယူခဲ့သည်။

နန်းဦး ဆရာတော်ဘုရားကြီးကား ခမည်းတော် မြန်အောင်မြို့စားနှင့် မယ်တော် (မင်းတုန်းမင်းတရားကြီး၏ သမီးအကြီးဆုံး) သုဇာတာမင်းသမီးတို့၏ သားတော် ဖြစ်ပါသည်။

အေဒီ ၁၉၀၉ — ပထမ ကနောင်မင်း ကွယ်လွန်ပြီးနောက် ဒုတိယကနောင်မြို့စားအဖြစ် ၁၂၆၃ ခုနှစ်၌ ပေးသနား ခြင်းခံရသည့်ပြင် ရဟန်းဘဝတက်သွားတော့လည်း သံဃရာဇာသာသနာပိုင်ဘွဲ့ကို အင်္ဂလိပ်မင်း တို့ ဆက်ကပ်အပ်နှင်းလျှုဒါန်းခြင်းလည်း ခံရပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၁

**ကြားဖူးသမျှ**

နန်းဦးဆရာတော်အကြောင်းကို ရှေးအခါက တစ်စွန်းတစ်စကြားဖူးခဲ့ပါသည်။ မန္တလေးတောင် ရသေ့ကြီးဦးခန္တီလက်ထက်က ခေတ်ပြိုင် စံစီခင်လေးဆိုသူနှင့်အမှုအခင်းဖြစ်ကြရာ မန္တလေးတောင်သမိုင်းတွင် အထင်အရှားပါဝင်သော နန်းဦးဆရာတော်ပင် ဖြစ်လေမလားဟု တွေးတောရပါသည်။

**ဗောဓိတစ်ထောင်ဆရာတော်နှင့် ခပ်လျှဉ်း၍သိရ**

၎င်းနောက် နန်းဦးဆရာတော်ဇာတ်လမ်း ပျောက်သလိုလိုဖြစ်သွား၏။ အတန်ကြာ ငုပ်လျှိုးနေရာမှ တစ်ဖန်ပြန်ပေါ်သောအခါ အရှူးကြီးအသွင်မျိုးဖြင့် မျိုးဆက်သစ် ဗောဓိတစ်ထောင်ဆရာတော်ဘုရားကို ပညာအမွေပေးသော ဆရာတော်ကြီးအဖြစ် တစ်ကျော့ပြန် ပြန်ပေါ်လာပြန်ပါသည်။ ဤသို့အကြောင်းဆက်၍ ဖော်ထုတ်ရပါသည်။

**ဗောဓိတစ်ထောင် ဆရာတော်၏ မှတ်တမ်း**

ဗောဓိတစ်ထောင်ဆရာတော်၏ ဆရာသမားမှတ်တမ်းစာအုပ်ထဲ၌ နန်းဦးဆရာတော်ကြီး ဦးနန္ဒိယပါဝင်သော အောက်ပါမှတ်တမ်းလွှာကိုတွေ့ရပါသည်။ ဗောဓိတစ်ထောင်ဆရာတော်၏ ဆရာစဉ်ဆက် စာရင်းဖြစ်ပါသည်။

http://www.dhammadownload.com



**ဖောဓိတစ်ထောင်ဆရာတော်၏ ဆရာများစာရင်း**

ဇာတိရွာမှ ၃ -ပါး၊ ပတ္တမြားမှ ၁-ပါး၊ ဘဏ်စီမှ ၁ပါး၊ ကျီကုန်းမှ ၆-ပါး၊ မုံရွာမှ ၃-ပါး၊ ပခုက္ကူမှ ၅ပါး မန္တလေးဘုရားကြီးတိုက်မှ ၅-ပါး၊ မန္တလေးတောင်မှ ဆရာတော်ကြီး ဦးနန္ဒိယ ၁ ပါး၊ ဆရာသမားပေါင်း ၂၅ ပါး။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၈

**မန္တလေးတောင် ကျောက်တော်ကြီးအနီးမှာ နေ**

မန္တလေးတောင် ကျောက်တော်ကြီးအနီး မဟာသုဒဿန ရွှေကျင်တောကျောင်းသံယရာဇာ နန်းဦးဆရာတော်ကြီး ဦးနန္ဒိယဟာ အကြားအမြင်ထူးခြားကြောင်းသိရ၍ ဆရာတော်ကြီး နေတဲ့ ကျောင်းတိုက်ကိုရောက်အောင်သွားပြီး ဆရာတော်ကြီးနေတဲ့ကျောင်းကိုမေးပြီး ကျောင်းပေါ်တက်သွားသောအခါ စိတ်ပျက်ဖွယ်ရာများတွေ့ရပုံကို ဤသို့ ပွင့်ပွင့်လင်းလင်း မှတ်တမ်းတင်ခဲ့ပါသည်။

**ဖောဓိတစ်ထောင်ဆရာတော် မှတ်တမ်း**

"ကျောင်းပေါ်မှာသက်န်းတွေနဲ့ ရှုပ်ယှက်ခတ်လို့ ဖုန်တွေကလဲပေါ၊ ခွေးကြီးကလဲ ဆရာတော်ကြီး ခုတင်ပေါ်တက်ဝပ်နေတာ၊ ဆရာတော်ကြီးက ခုတင်နဲ့ခပ်လှမ်းလှမ်းနေရာမှာ အပေါ်ရုံ ကေသီကြီးဘေးပုံပြီး လေ့ကားဘက်ကျောကြီးပေးပြီးထိုင်နေတယ်" ဟု ဆို၏။

ကျမ်းကိုး၊ ဖောဓိတစ်ထောင်ဆရာတော်၏ နှစ် ၆၀ ဘဝခရီး၊ မိဂဒါဝုန်ဆရာတော် ပြုစုသည်၊ ပထမအကြိမ်၊ ၁၉၉၂ ခုနှစ်၊ ဖေဖော်ဝါရီလ၊ စာပေပေါင်းကူးစာအုပ်တိုက်၊ ရန်ကုန်။ စာ-၃၄။

**နားလေးသလားဟု အထင်မှားခဲ့**

ဖောဓိတစ်ထောင်ဆရာတော်က မိမိရောက်နေကြောင်းကို သိသာအောင် အသံပြုပြီးဝပ်ချသော်လည်း လှည့်မကြည့်သောကြောင့် ချောင်းသံပေးပြီး ထပ်ဝပ်ချပြန်၏။ သို့သော်လည်း လှည့်မကြည့်ပြန်သောကြောင့် နားများလေးလို့လား၊ ဒါမှမဟုတ် ပြန်မှပါပဲလို့ စိတ်ကူးလိုက်ရော ဖျတ်ခနဲ မိန့်ကြားလိုက်ပုံမှာ လန့်ဖျပ်သွားကြောင်း ဖောဓိတစ်ထောင်ဆရာတော်က မှတ်တမ်းတင်ခဲ့ပါသည်။

**အရူးကြီးဟု ထင်ခဲ့မိမှား**

"မောင်ပဥ္စင်း ငါ့ကို အရူးကြီးနေမှာပါလို့ ပြစ်မှားနေတယ်၊ ကန်တော့၊ ကန်တော့"တဲ့ဟာ တပည့်တော်ဖြင့် ကြက်သီးမွေးညင်းထ ခေါင်းနပန်းကြီးပြီး မျက်စိတွေပြာဝေသွားတာပဲ၊ ဦးပဥ္စင်း ဒါနဲ့ဆောင့်ကြောင့်ထိုင်ပြီး ရှိုရှိုသေသေ ရှိခိုးကန်တော့ပါတယ်၊ အဲဒီမှာ စကားစမြည်ပြော အကျိုးအကြောင်းလဲမေးတော့တယ်၊ တပည့်တော်ဖြင့် ကြည်ညိုသဘောကျပြီး နေချင်တဲ့စိတ်ပေါက်တာနဲ့ နေဖို့လျှောက်ပြီး တစ်လလောက် တပည့်ခံနေခဲ့သေးတယ်" ဟု ဖောဓိတစ်ထောင်ဆရာတော်ကိုယ်တိုင် မိန့်တော်မူခဲ့ကြောင်း သိရ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၄

**ကောသနိက်**

အဲလိုနေတော့ ဆွမ်းခံဖို့ရာလဲ သပိတ်ပေးတာနဲ့ ၂ ပါးအတူပတ္တပိုဏ်ဆွမ်းခံပြီး ကောသနိက် စားကြရတယ်၊ အစ ၃ -၄ ရက်မှာ တပည့်တော်သပိတ်ကိုယူ သူ့သပိတ်ထဲက ဆွမ်းတွေနဲ့ ရောပြီး သူစားပြီး ကျန်မှပေးတယ်။ တစ်ခါတလေလဲ ဟင်းမပါဘဲ ဆွမ်းချည်းပေးတဲ့အခါ

http://www.dhammadownload.com



ပေးတယ်၊ တစ်ခါတစ်ခါလဲ ဟင်းတွေရောပြီး ဇိ-ဇိနဲ့လက်ကြီးနဲ့ နယ်ပြီးပေးတယ်၊ တပည့်တော်လဲ ဘယ်လိုဖြစ်ဖြစ်စားတတ်ပါတယ် စားနိုင်ပါတယ်ဟု ဗောဓိတစ်ထောင်ဆရာတော်က မိန့်တော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၅

**စားလို့ကောင်းခဲ့**

"ဘုန်းကြီးစားတတ်တယ်၊ စားနိုင်တယ်ဆိုတာယုံပါတယ်၊ အခုတပည့်တော်တို့နေ့တိုင်းစားနေတဲ့ ပတ္တပိုဏ်သပိတ်ဆွမ်းကို ဘုန်းကြီးကနေ့တိုင်း စားကောင်းတယ်၊ စားနိုင်တယ်လို့မိန့်တယ်၊ ဆရာတော်ကြီးနယ်ပြီးသားတွေစားဖြစ်တယ်ဆိုတာလဲယုံပါတယ်ဘုရား ဘာလို့လဲဆိုတော့ တပည့်တော်တို့ အခုနေ့တိုင်း စားနေတဲ့ပတ္တပိုဏ် သပိတ် ၂ လုံး သူ့သပိတ်၊ ကိုယ့်သပိတ်မှ မရွေးဘဲဘုန်းကြီးရှေ့ရောက်လာတဲ့ သပိတ်ကိုပဲဘုန်းကြီးက စားတာပဲ"

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၅

**ခွေးသေကောင် စားပွဲပေါ်မှာတင်၍ ဆွမ်းစားသောအခါ**

"အဲဒီလို ၃,၄ရက်တပည့်တော် သပိတ်ကိုယူပြီး နောက်ကျတော့ဆွမ်းခံပြန် ကိုယ့်သပိတ်နဲ့ကိုယ်စားပွဲပေါ်တင်ပြီး စားကြရပါတယ်။ တစ်ရက်မှာ ခွေးသေကောင်လေး စားပွဲပေါ်ဘယ်အချိန်တင်ထားမှန်းမသိဘူး၊ ဖယ်မပစ်ဘဲဒီအတိုင်း ဆွမ်းစားရတာ ၃-ရက်လောက်ကျ အနံ့ကလဲထောင်း အရည်ကလဲထွက် ဒါနဲ့တပည့်တော်မစားနိုင်လို့ သတင်းစာစက္ကူကြီးနဲ့အုပ်လိုက်တာ -"မောင်ပဥ္စင်း ဘာလုပ်တာတုံး"တဲ့။"ဆွမ်းစားမဖြစ်တော့လို့ပါဘုရား"လို့ တပည့်တော်က လျှောက်လိုက်တော့ "မောင်ပဥ္စင်းက အာရုံပြုတာကိုးတဲ့" ဟု နန်းဦးဆရာတော်က မိန့်တော်မူကြောင်း ဗောဓိတစ်ထောင်ဆရာတော်က ပြန်လည်အမိန့်ရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၅

**အာရုံပြု မှားခြင်း**

ဗောဓိတစ်ထောင်ဆရာတော်က နန်းဦးဆရာတော်အား "ဆရာတော့်ဟာ အရည်တွေတောင်ထွက်နေမင့် အာရုံမပြုလဲနံတာပါပဲဘုရား"လို့ရယ်ပြုံးပြီး တပည့်တော်က လျှောက်လိုက်တယ်ဟု ဗောဓိတစ်ထောင်ဆရာတော်က မိန့်တော်မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၅

**စမ်းသပ်သောအဆင့်**

ဗောဓိတစ်ထောင်ဆရာတော်ကဆက်ပြီး အဲဒီနေ့မှလွှင့်ပစ်ပြီး စားပွဲကြီးအဆေးခိုင်းတယ်။ "ဆရာတော်ကြီးက ဆုကြီးပန် ဦးပဥ္စင်းတပည့်တော်တို့အလုပ်လုပ်တယ်ဆိုတာ ဆရာတော်ကြီးကို မမိသေးဘူး ဆရာတော်ကြီးကအဟုတ်လုပ်တာ" ဟု ဗောဓိတစ်ထောင်ဆရာတော်က နန်းဦးဆရာတော်အကြောင်းကို မိန့်တော်မူပါသည်။

**နန်းဦးဆရာတော်အကြောင်း ဓာတ်လမ်းမောင်းများ**

နန်းဦးဆရာတော်၏ သဘောသဘာဝနှင့်စပ်လျဥ်းပြီး အံ့ဖွယ်ဖြစ်ရပ်များကို ဗောဓိတစ်ထောင် ဆရာတော်ကိုယ်တိုင် ပြန်လည်မိန့်တော်မူသဖြင့် သိရှိရခြင်းဖြစ်ပါသည်။

**ဒါနပါရမီ**

ပစ္စည်းပစ္စယဆို ဘယ်လောက်တန်ဖိုးရှိရှိ ဘယ်သူတောင်းတောင်ပေးတာချည်းပဲ။ တစ်ခါများနဂါးဒေါ်ဦးလှူထားတဲ့ သင်္ကလပ်ခြုံထည်အသစ်ကြီးကို ဦးသူရိယဆိုတဲ့ ကိုယ်တော်က

http://www.dhammadownload.com



တောင်းတော့ တစ်ခါတည်းခြံရာကခွာတဲ့ပြီး "ကဲ အရှင်ဘုရား အလိုရှိတဲ့ ဤခြံထည်လှူရသောကြောင့် တပည့်တော်အလိုရှိတဲ့ သဗ္ဗညုတဉာဏ်ကိုရရပါလို၏လို့ ဆုတောင်းပြီး လှူလိုက်တာ" ဟု ဖောဓိတစ်ထောင်ဆရာတော်က မိန့်တော်မူပါသည်။

**ဖောဓိတစ်ထောင်ဆရာတော်၏ အတိတ်ဘဝအကြောင်း ပြန်ပြောခဲ့**

အဲသလောက်တော်တဲ့ ဆရာတော်ကြီး ညဘက်တပည့်တော်နေတဲ့ကျောင်းပေါ်ကြွ ကြွလာပြီး အတိတ်ဘဝက မင်းဆွေမင်းမျိုး တော်ခဲ့ပုံကိုမိန့်တယ်၊ တောင်ပို့မင်းသမီး ကောင်းစားစဉ်က မြရိတ်ဘုရားတည်ခဲ့ပုံလဲမိန့်တယ်ဟု ဖောဓိတစ်ထောင်ဆရာတော်က ဇာတ်လမ်းဟောင်းကို ပြန်လည်မိန့်တော်မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၆

**ဖောဓိတစ်ထောင်ဆရာတော်အား မိန်းကလေးနှင့်စမ်းသပ်ခြင်း**

"နန်းဦးဆရာတော်ကြီး ကြွကြွလာနေကျမို့ မိုးချုပ်မှ တပည့်တော်ကျောင်းပေါက်တံခါးပိတ်တယ်။

ညတစ်ညမှာတော့ ခါတိုင်းလိုပဲ တံခါးဖွင့်သံကြားလိုက်လို့ ဆရာတော်ကြီးကြွလာပြီဟဲ့လို့ အထလိုက် ဒကာမတစ်ဦးဖြစ်နေတာ ဒါနဲ့တပည့်တော် ဒကာမကို ဆင်း ဆင်းလို့ပြောတယ်။

လွယ်လွယ်နဲ့ဆင်းခိုင်းမရတာနဲ့ ဘေးရှိတဲ့ အသားခေါင်းအုံးနဲ့ ဘေးနံရံလှမ်းပြီး ခြောက်ပေါက်ပေါက်လိုက်မှ ဆင်းပြေးတယ်။နောက်တစ်နေ့မနက်မှာလဲ ဒကာမလာပြန်ရော၊ ဒါနဲ့ တစ်ခါ ခြောက်ရ ငေါက်ရ ပေါက်ရပြန်ရော။ ဒုက္ခကိုရောက်လို့" ဟု ဖောဓိတစ်ထောင် ဆရာတော်က ပြန်လည်မိန့်တော်မူပါသည်။ ထိုစဉ်က ဖောဓိတစ်ထောင်ဆရာတော်မှာ နန်းဦးဆရာတော်ထံ ပညာသင်စဉ်ကာလဖြစ်ပါသည်။

ဖောဓိတစ်ထောင်ဆရာတော်ကဆက်ပြီး မိန့်တော်မူသည်မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

"နေ့ဆွမ်းဝိုင်း ဆရာတော်ကြီးနဲ့ ခါတိုင်းလိုဆုံမိကြရာ ဆရာတော်ကြီးက မောင်ပဥ္စင်းကို ရောက်စကတည်းက စမ်းတယ်။ အဲဒီနောက် အစားနဲ့လဲစမ်းတယ်။ အခြားနဲ့လဲစမ်းတယ်။ အကုန်အစမ်းခံနိုင်တယ်။ ခွေးသေတစ်ခုပဲ မရတာ" လို့ မိန့်တော်မူသောအခါမှ ကျောင်းပေါ်ကိုတက်လာတဲ့ ဒကာမကြီးဆိုတာကလည်း နန်းဦးဆရာတော်ကြီးက သမာဓိစမ်းတဲ့ အနေနဲ့ လွှတ်တာနေမှာပဲလို့ အောက်မေ့မိတော့တယ်ဟု ဖောဓိတစ်ထောင်ဆရာတော်က နန်းဦးဆရာတော်ကြီးအကြောင်းကို ပြန်လည်မိန့်တော်မူပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၇

**တစ်သက်မှာ တစ်ပါးသာ တွေ့ဖူးသည်ဟု ဖောဓိတစ်ထောင်ဆရာတော် ဝန်ခံခဲ့**

"ဆရာတော်ကြီးကတော့ တကယ်တော်ပါတယ်၊ ရောက်စ တပည့်တော်စိတ်ထဲက အမှုကြီးနေမှာပါလို့ ပြစ်မှားမိတာလဲသိတာပဲ၊ တခြားအရပ်ကနေပြီးတိုင်တည်တာတို့ ကန်တော့တာတို့လဲသိတာပဲ။ သည်လိုထူးတဲ့ပုဂ္ဂိုလ်များ တစ်သက်သည်တစ်ပါးတည်း တွေ့ဖူးသေးတယ်" ဟု ဖောဓိတစ်ထောင်ဆရာတော်ဘုရားကြီးက နန်းဦးဆရာတော်အကြောင်းကို မိန့်တော်မူပါသည်။

**ခန္တီပါရမီ**

"သည်းခံတဲ့နေရာမှာလဲ မြေကြီးအတိုင်းပါပဲ၊ ရဟန်းရှင်လူ မဆိုထားနဲ့ ခွေးကြောင် စတဲ့

http://www.dhammadownload.com



တိရစ္ဆာန်တွေရဲ့အလိုပါ အကုန်အလိုလိုက်သည်းခံနိုင်တာ ခွေးလဲဘယ်နေရာအိပ်အိပ်၊ ဘာစားစား တကယ်သည်းခံနိုင်တာ၊ အတူနေကြည့်မှုပိုသိတာ၊ ဆုကြီးပန်ဆိုတဲ့အတိုင်း တကယ့်ဘုရားအလောင်းဆုကြီးပန်ပါပဲ၊ ခွေးတွေလဲ အကောင်သုံးဆယ်လောက် နေ့တိုင်းဂရုစိုက်ကျွေးတာ" ဟု နန်းဦးဆရာတော်ဘုရားကြီး၏ ထူးဆန်းသောဘဝဇာတ်လမ်းများကို ဇောတိတစ်ထောင်ဆရာတော်က ပြန်လည်မိန့်တော်မူခဲ့ပါသည်။

**စန္ဒာဝန်ချုပ် ဆန်းကြယ်ခြင်း**

"နန်းဦးဆရာတော်ကြီး ပျံလွန်တော့လဲ ထူးတယ်" ဟု ဇောတိတစ်ထောင်ဆရာတော်က မိန့်တော်မူပါသည်။

**မပုပ်မသိုးသော ရုပ်အလောင်းတော်**

"အလောင်းကြီး ၃-၄ရက်ကြာတာကို တောင့်မနေဘူး၊ ပျော့ပျော့ပျောင်းပျောင်းပဲ" ဟု ဇောတိတစ်ထောင်ဆရာတော်က ပြန်လည်မိန့်တော်မူပါသည်။ နန်းဦးဆရာတော်၏ ကိုယ်တွေ့မပုပ်မသိုးသော ရုပ်ကလာပ်တော်အကြောင်းကို ထို့ကြောင့်ပင် မှတ်တမ်းပြုရခြင်းဖြစ်ပါသည်။

**သဗ္ဗညုတဉာဏ် ဆုတောင်း**

နန်းဦးဆရာတော်ကြီးသည်လည်း သဗ္ဗညုတဉာဏ် ရရန်အတွက် မည်သည့်အရာမျိုးမဆို မဟာပထဝီမြေပမာ သည်းခံလေ့ရှိပါသည်။ "သည်းခံတဲ့နေရာမှာ မြေကြီးလိုပါပဲ" ဟု ဇောတိတစ်ထောင်ဆရာတော်က ပြန်လည်မိန့်ကြားသည်ကို ကြားနာမှတ်သားရပါသည်။

> မှတ်ချက်။ မန္တလေးဆေးရုံရောက်ခဲ့ရပုံနှင့် သံဃာ့ရာဇာနန်းဦးဆရာတော်ဘုရားကြီးနဲ့ တွေ့ပုံတို့ ကို ၁၃၅၂ခု၊ ပြာသိုလဆန်း ၅-ရက်နေ့က ဦးမှတ်ဝင်း-ဒေါ်သိန်းလှကျောင်းတိုက်ပေါ်တွင် မိန့်ကြားခဲ့ခြင်းဖြစ်ကြောင်း မှတ်တမ်းရှိ၏။ (ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၇ ကိုကြည့်)

**နန်းဦးဆရာတော်၏ ပုံတူပန်းချီကား**

ဇောတိတစ်ထောင်ဆရာတော်ထံသို့ နန်းဦးဆရာတော်ကြွလာပုံ ပန်းချီကားကြီးတစ်ချပ်ကို ဇောတိတစ်ထောင် ကျောင်းတိုက်တွင် တွေ့ရှိရသဖြင့် နန်းဦးဆရာတော်၏ ရုပ်ပုံတော်ကို မြင်ဖူးခြင်းဖြစ်ပါသည်။

**နန်းဦးဆရာတော်နှင့် ဇောတိတစ်ထောင်ဆရာတော်တွေ့ခဲ့ပုံ**

၁၃၂၂ ခု၊ ကဆုန်လဆန်း ၁၁ ရက် ဆရာတော် ဦးနာဒရသည် ဇာတိရွာကြပ်ရွာမှ ဇောတိပင်ငယ်များကိုပင့်ဆောင်အပြီး ကျေးဇူးရှင်သံဃာ့ရာဇာ နန်းဦးဆရာတော်ဘုရားကြီး ဦးနန္ဒိယ သီဟသူရ(မန္တလေး) ထံကြွရောက်၍ ဆရာတော်ဘုရားကြီးအား အကျိုးအကြောင်းလျှောက်ထားကာ အကြံဉာဏ်များတောင်းခံခဲ့လျက် ဆရာတော်ဘုရားကြီးပါ ဇောတိပင်မြေချပူဇော်ပွဲဌာနသို့ ကိုယ်တော်တိုင်ကြွရောက်ချီးမြှောက်တော်မူပါရန် ပင့်လျှောက်ခဲ့ပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၈

**နန်းဦးဆရာတော်နှင့်အတူ ဇောတိပင်စိုက်ခဲ့**

ပင့်လျှောက်ချက်အရဆရာတော်ဘုရားကြီးသည် ရက်ကြိုတင်၍ကြွရောက်လာကာ မြန်မာသက္ကရာဇ် ၁၃၂၂ ခု၊ ကဆုန်လဆန်း ၁၁ ရက်နေ့ ၁၁ နာရီ ၅၅ မိနစ်အချိန်

http://www.dhammadownload.com



၎င်းသံဃရာဇာ နန်းဦးဆရာ တော်ဘုရားကြီးဦးစီး၍ ရဟန်းရှင်လူ ဒကာ ဒကာမအများ စည်ကားစွာဖြင့် ကြည်နူးဝမ်းမြောက်ကာ ဗောဓိ ၂၇ ပင်ကို တစ်နေ့တည်းဖြင့် ပူဇော် စိုက်ပျိုးကြရာ နန်းဦးဆရာတော်ဘုရားကြီးနှင့် ဗောဓိတစ်ထောင်ဆရာတော်တို့နှစ်ဦးသည် အစဦးဗောဓိပင်ငယ်ကို ကိုယ်တိုင်ကိုယ်ကျ ကိုင်မကြကာ ဆရာတော်ဘုရားကြီးက ဖုဋ္ဌဿ လောက ဓမ္မေဟိ မင်္ဂလသုတ်ပါဠိတော် ဂါထာကိုရွတ်၍ မြေမှာချပြီး ပူဇော်ကြပါလေတော့ သည်။ ၎င်းပုံကို ဆရာတော်နေသည့် ပတ္တမြားကျောင်းပေါ်၌ ပန်းချီရေး၍ သရုပ်ဖော် ထား၏။

**တီးသူမရှိသော ကြေးစည်ကြီး၏ အသံကိုကြားရခြင်း**

ထိုဗောဓိပင်စိုက်သည့်နေ့က မျက်စိဖြင့် မြင်တွေ့ခြင်းမရှိကြဘဲ နားကသာကြေးစည်ကြီး၏ အသံကို ကြားနေရခြင်းသည်လည်း ထူးခြားလိုက်တာ ဦးပဥ္စင်းဟု ဗောဓိတစ်ထောင်ဆရာ တော်က စာရေးသူအား မိန့်ကြားပါသည်။ လူအများလည်းကြားရသည်ဟု သိရပါသည်။

**ရွှေချထားသော ဗောဓိပင်**

ထိုကျေးဇူးရှင်ဆရာတော်ဘုရားကြီးနှင့် ဗောဓိတစ်ထောင်ဆရာတော်တို့အစကနဦး မြေချ ပူဇော်သော ဗောဓိပင်ကို အမှတ်တရ အထူးဂါရဝပြုကြ၍ ပင်စည်လုံးပတ်ကို ရွှေချထား ပါသည်။ ထိုအပင်ကိုမည်သူမဆို ယနေ့ထက်တိုင်ဖူးတွေ့နိုင်ပါ၏။

**ခန္ဓာဝန်ချတော်မူခြင်း**

အေဒီ ၁၉၆၃ — သံဃာ့ရာဇာ နန်းဦးဆရာတော်ဘုရားကြီး ဦးနန္ဒိယသိဟသူရသည် မြန်မာသက္ကရာဇ် (၁၃၂၅) ခုနှစ်က ပျံလွန်တော်မူပါသည်။

**အရိုးစေတီတော်**

ဆရာတော်ကြီးကို ကျေးဇူးဆပ်မှုဖြင့် ဗောဓိတစ်ထောင်ဆရာတော်သည် ယခုလျောင်းတော် မူကြီး၏ အရှေ့ဘက် ဇမ္ဗူတောင်ထိပ်ထက်၌ ဆရာတော်ဘုရားကြီး၏ အရိုးကိုဌာပနာသွင်း ပြီး ၁၈ တောင်အမြင့်စေတီတည်ထားသည်ကို ကြည်ညိုဖူးတွေ့နိုင်ကြသည့်အပြင် ဆရာ တော်၏ ကြည်ညိုဖွယ်ရာဓာတ်ပုံကိုလည်း ဗောဓိတစ်ထောင် ကျောင်းတိုက်၌ဖူးတွေ့နိုင်ပါ သည်။ အရိုးစေတီတည်စဉ်က ငွေ(၇)ကျပ်သာရှိကြောင်း အမိန့်ရှိပါ၏။

ကျမ်းကိုး၊ ဗောဓိတစ်ထောင်ဆရာတော်၏ နှစ် ၆၀ ဘဝခရီး၊ မိဂဒါဝုန်ဆရာတော် ပြုစု သည်။ ပထမအကြိမ်၊ ၁၉၉၂ ခု ဖေဖော်ဝါရီလ၊ စာပေပေါင်းကူးစာအုပ်တိုက်၊ ရန်ကုန်။

http://www.dhammadownload.com



အံ့ဖွယ်ထူးခြား

# မဟာဗောဓိတစ်ထောင်ဆရာတော် ဦးနာရဒ

၁၉၃၀ – ၂၀၀၆



http://www.dhammadownload.com



ကျွန်ုပ် ဂျပန်မှာ ရှိစဉ်အခါက ဆရာတော်ကို ဖူးမြော်ခဲ့ဖူးပါသည်။ ဆရာတော်သည် ဂျပန်နိုင်ငံရှိ ကမ္ဘာကျော် အုရှိကု ရုပ်တော်မူဘုရားကြီးအား မကြာခဏလာ၍ လေ့လာတတ်ကြောင်း သတင်းရသဖြင့် သွားရောက်ဖူးမြော်ခြင်းဖြစ်ပါသည်။ ထိုအခါမှ ဆရာတော်သည် ကမ္ဘာ့ ဉာဏ်တော်အမြင့်ဆုံး ရုပ်တော်မူဘုရားကြီး တစ်ဆူကို မြန်မာပြည်တွင် တည်ထားကိုးကွယ် နေဆဲကာလဖြစ်ကြောင်း၊ ဉာဏ်တော် ၃၅၃ တောင်ရှိကြောင်း အံ့ဖွယ်သိရှိခဲ့ရပါသည်။ ဆရာတော်သည် ရုပ်ပွားဆင်းတုတော်ပေါင်း ၂၀၀၀ ကျော်ကို လည်းကောင်း၊ စေတီတော်ပေါင်း ၆၀၀ ကျော်ကိုလည်းကောင်း တည်ထားကိုးကွယ်ခဲ့ကြောင်း အံ့ဖွယ်ထပ်မံ သိရှိရပြန်ပါသည်။ ထို့ထက် ပို၍ အံ့ဖွယ်ကောင်းနေသည်မှာ ရွှေတိဂုံပုံတော်ပွား စေတီတော်ကြီးတစ်ဆူ ကိုးကွယ်ရာ ဉာဏ်တော်အမြင့် အတောင် ၁၅၀ ရှိကြောင်း၊ အလျား ဉာဏ်တော် ၂၂၂ တောင်ရှိသော လျောင်းတော်မူ ရုပ်ပွားတော်ကြီးတစ်ဆူကိုလည်း တည်ထားကိုးကွယ်ခဲ့ကြောင်း၊ ၄င်းပြင် ညောင်ဗုဒ္ဓဟေ ဗောဓိပင်ပေါင်း ၃၅၂၈ ပင် စိုက်ပျိုးတော်မူခဲ့ကြောင်း သတင်းကောင်း ရရှိပါ သည်။ ထိုသို့သိရသည်မှာ ၁၉၉၇-ခုလောက်က ဖြစ်ပါသည်။

နောင်တွင် ဆက်လက်၍လည်း မြန်မာ့ သာသနာကို ကမ္ဘာ့သာသနာဖြစ်အောင် ကျယ်ပြန့်စွာ သာသနာပြုလိမ့်ဦးမည်ဖြစ်သဖြင့် တစ်နေ့သောအခါ ထေရဝါဒ ဗုဒ္ဓသာသနာတော်ကြီးသည် အဟောတဝထိပ်သို့ ရောက်မည်ဖြစ်ကြောင်း ဆရာတော်က ဟောကြားခဲ့ပါသည်။

ဗောဓိတစ်ထောင်ဆရာတော်ဘုရားကြီး၏ သီလဂုဏ်၊ သမာဓိဂုဏ်၊ ပညာဂုဏ်တို့နှင့်သာသနာ ပြုဆောင်ရွက်ချက်များကို မြန်မာနိုင်ငံတွင် သာမက ကမ္ဘာတစ်ခွင်လုံး ထင်ရှားကျော်ကြား သိရှိကြလေသည်။ ဆရာတော်ကြီး၏ သာသနာပြုဆောင်ရွက်ပုံများကလည်း အံ့မခန်း ထူးခြား ပြောင် မြောက်လှသည်။

ကျမ်းကိုး၊ ဗောဓိတစ်ထောင်ဆရာတော်ဘုရားကြီး၏ အံ့ဖွယ်ထူးခြား ဖြစ်ရပ်များ၊ အရှင် သုနန္ဒသာရ (မုံရွေး)၊ မြတ်မင်္ဂလာ၊ အမှတ် (၂၃)၊ အတွဲ (၆)၊ ၂၀၀၇ ခုနှစ်၊ ဒီဇင်ဘာလ၊ စာ - ၁၉

**ဇာတိရပ်ရွာနှင့် မွေးသက္ကရာဇ်**

အေဒီ ၁၉၃၀

ဆရာတော်ကြီးသည် မြန်မာသက္ကရာဇ် ၁၂၉၂ ခု၊ တပို့တွဲလဆန်း (၁၄)ရက်ဖွား၊ စနေသားဖြစ်သည်။ ခမည်းတော်ကြီး ဦးထွန်းမြတ်သည်လည်း စနေသား၊ မယ်တော်ကြီး ဒေါ်စောမြိုင်သည်လည်း စနေသမီး၊ ညီဖြစ်သူ ဦးတေဇနိယသည်လည်း စနေသားတည်း။ မွေးဖွားစဉ်က အချင်းစလွယ်သိုင်းနှင့် မွေးဖွားလာသည်။

**ကျီးနိမိတ်**

ပုခက်တွင်း အိပ်နေစဉ် ပုခက်ပေါ် ကျီးလာနားသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

**လင်းတ အစာအန်ချ**

အေဒီ ၁၉၃၃

၃ နှစ်သားအရွယ် ကျောင်းသားဘဝတွင် ကောင်းကင်ပေါ်မှာ ပျံနေသော လင်းတငှက်က ဆရာတော်လောင်းလျာ၏ ဦးခေါင်းပေါ်သို့ အစာအန် ချခဲ့လေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

**ခေါင်းပေါ် ကျီးနား**

ရဟန်းငယ်ဘဝ ကျီးကုန်းရွာ၌ စာဝါလိုက်နေစဉ်က ဆွမ်းခံနေခိုက် ဦးခေါင်းပေါ် ကျီးငှက်လာ နားသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

http://www.dhammadownload.com



ငယ်စဉ်ကတည်းက ပုတီးစိပ်ခဲ့သော ဆရာတော်လောင်းလျာကို အများက "ပုတီးရူး ရူးနေတယ်" ဟု ထူးခြားစွာ ကုသိုလ်အလုပ်ကို သမုတ်ခံရလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၉

## ဉာဏ်တင်ကုတ်

လောကီပညာရှင်တို့ ကီရင်ထားသော ဖြစ်စင်ဖြစ်သည့် ဉာဏ်တင်ကုတ်ကို မရှာမဖွေမဝယ်ရဘဲ အလိုအလျောက် ရခဲ့သည်။ ငှက်ပျောခြံရွာသား ကိုဉာဏ်တင် မြရိတ် ဘုရားဖူးသွားရာ အုတ်ကြားမှရခဲ့၍ ဘုရားစင်ပေါ်တွင် တင်ထားကိုးကွယ်ရာ ညအိပ်မရဘဲ အိပ်မက်ထဲတွင် ဗောဓိတစ်ထောင်ပို့ရမည်ဟု ပြောသဖြင့် ဆရာတော်အား ဆက်ကပ်ရသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၀

## ဆရာတော့်စလေ့

ဆရာတော်ကြီး နေပုံထိုင်ပုံမှာ ဣန္ဒြေရရနှင့် သပ်သပ်ယပ်ယပ်ရှိလှသည်။ စကားကို လိုသည်ထက်ပိုမပြော၊ တစ်ဖက်က လိုအပ်ချက်ကို လိုက်လျောပေးပြီး ဖြစ်ချင်တာ လျှောက်ထားလျှင် "ကောင်းတယ်၊ ကောင်းတယ်" ဟူသော လက်သုံးစကားကိုသာ ပြန်ကြားလေ့ရှိသည်။ မေတ္တာစိတ်ပြည့်ဝသော ဆရာတော်ကြီးပေမို့ စိတ်၏ထွက်ပေါက်ဖြစ်သော ကိုယ်၊ နှုတ်တို့မှာ ယဉ်ကျေးချိုသာလှသည်။ ရင်းနှီးသူ၊ မရင်းနှီးသူ သဘောမကွဲ၊ တစ်သားတည်း ဆက်ဆံတတ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၀

## စိတ်ထဲက တောင်းသောငွေသုံးထောင်

"ဆရာတော်ကြီးထံမှာ တပည့်တော် ကားနဲ့ မြေသယ်လုပ်အားဒါနပြုတာ နှစ်ပတ်ကြာတယ်။ လာတုန်းကတော့ တစ်ပတ်လောက်လို့ မှန်းလာတာ။ ဒီမှာလုပ်ငန်းကလည်း အရေးကြီးနေတော့ နှစ်ပတ်လောက်ကြာသွားတယ်။ ဒီကပြန်ရင် ကားကလည်း နည်းနည်းပြင်ချင်တာနဲ့ ဆရာတော်ကြီးက ဝတ္ထုစွန့်ရင် သုံးထောင်လောက်တောင်းမယ်လို့ စိတ်ကူးထားတယ်။ ပြန်ခါနီးတော့ ဆရာတော်ကြီးက ဦးပဥ္စင်းတစ်ပါးကို ဝတ္ထုစွန့်ဖို့ပြောတော့ ဝတ္ထုငွေထည့်ထားတဲ့အိတ်ကို ဦးပဥ္စင်းက တပည့်တော် ရှေ့ချပေးတယ်။ ဒကာ လိုသလောက်ယူပါလို့ ပြောတယ်။ တပည့်တော်လည်း အိတ်ထဲကနေ တပည့်တော်ပါလာတဲ့ လွယ်အိတ်ထဲကို လက်နဲ့ ၃ - ကုပ် ကုပ်ပြီးထည့်လိုက်တယ်။ (ထိုစဉ်က ၅ိတန်၊ ၁ဝိတန်၊ အကြွေများနှင့် အကြီးဆုံး အစိတ်တန်မျှသာ) တပည့်တော် စိတ်ထဲတော်တော်များမယ်ထင်တာ အိမ်ရောက်တော့ ရေကြည့်တယ်။ သုံးထောင်တိတိပဲရှိတယ်။ အပိုအလို မရှိဘူး။ ကွက်တိပဲ အံ့သြတယ်ဗျာ" ဟု သူ့အတွေ့အကြုံကို ပြောပြလေသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၂၁

## မျက်လုံးတစ်လုံး အလေးချိန် တန် တစ်မတ်ရှိ

အတောင် ၂၀၀ ရှိလျောင်းတော်မူ ဘုရားကြီးတည်စဉ်က အံ့ဖွယ်ဖြစ်ရပ်မှာ လျောင်းတော်မူဘုရားကြီး၏ မျက်လုံးတော်ကိုစက်မှု-၁ ဝန်ကြီးဌာနက လှူဒါန်းသည်။

မျက်လုံးတစ်လုံး၏ အလေးချိန်မှာ တန်တစ်မတ်ရှိသည်။ ၎င်း မျက်လုံးတော်ကြီးကို ချိမ၍တင်ရန် ချင်းတွင်းမြစ် အနောက်ဘက်ကမ်းရှိ အမှတ်-၁ ကြေးနီသတ္တုတွင်းမှ တန် ၆၀ အိုမီဂါကရိန်းကို ငှားရမ်း၍ တင်ရသည်။

အိုမီဂါကရိန်းသည် တန် ၆၀ မ,တင်နိုင်သည်မှာ လက်တံမထုတ်ဘဲသာမ,နိုင်သည်။ လက်တံ

http://www.dhammadownload.com



အားလုံးထုတ်ပြီးသည့်အခါ လေကားပါထုတ်ပါမှ တန်တစ်မတ်မျှသာတင်နိုင်သည်။ မျက်လုံးတော်ကြီး အလေးချိန်ကို မနိုင်ရုံသာဖြစ်သည်။ ထို့ပြင်လျှောင်းတော်မူကြီး မျက်လုံးတော်တပ်မည့် နေရာအမြင့်အထိသာ ကရိန်းလက်တံ ရောက်လေသည်။

**ထီပေါက်သည့် ဖြစ်ရပ်ဆန်း**

သေချာညှိလုပ်ထားသည့်အလား ကိုက်ညီစွာအောင်အောင်မြင်မြင် မျက်လုံးတော်ကြီးကို တပ်ဆင်နိုင်ခဲ့ကြလေသည်။ ထိုစဉ် ဆရာတော်ဘုရားကြီးက ကရိန်းမောင်းသည့် ကိုဇော်ဝင်းအား "ဒကာ အလွန်ကုသိုလ်များတယ်။ ဒီကုသိုလ်တရားကြောင့် ဒီကပြန်ရင် ထီပေါက်လိမ့်မယ်" ဟု မိန့်ဆိုခဲ့လေသည်။

မကြာပါချေ။ ကိုဇော်ဝင်း ကြေးနီသတ္တုတွင်းမှပြန်ရောက်ပြီး ထီဖွင့်ချိန်ရောက်သော် အောင်ဘာလေသိန်းဆုဌာနမှ နှစ်သိန်းဆုပေါက်လေသည်။ ၎င်း၏ သားနှစ်ယောက်ကို ဇောတိတစ်ထောင်ဘုန်းကြီးကျောင်း၌ ရှင်ပြုမင်္ဂလာအလှူတော်ပေးခဲ့သည်။ အခြား ထူးခြားသောဖြစ်ရပ်များ မကြာခဏ ကြုံတွေ့ရဖူးသေးသည်။

ကျမ်းကိုး။ ယင်းကျမ်း။ စာ-၂၂

**မွေးသက္ကရာဇ်နှင့်ဇာတိရပ်ရွာ**

အေဒီ ၁၉၃၀

ဇောတိတစ်ထောင်ဆရာတော်ကို မြန်မာနှစ် ၁၂၉၂ ခု၊ တပို့တွဲ လဆန်း ၁၄ ရက်၊ စနေနေ့တွင် မွေးဖွားခဲ့ကြောင်း ဒီပဲယင်းမြို့နယ် အရာတော်နယ်၏ အစွန်အဖျားတွင်ရှိသော ရွာကြပ်ရွာ၌ မွေးဖွားတော်မူခဲ့ကြောင်း သိရပါသည်။

**သာမဏေဘဝ**

အသက် ၁၃ နှစ်အရွယ်တွင် သာမဏေဖြစ်ခဲ့ကြောင်း၊ ဦးရီး ဆရာတော်မှာ ဦးသုနေယျဖြစ်ကြောင်း သိရပါသည်။ သာမဏေဘဝတွင် ရွှေခြင်္သေ့ဆရာတော် ဦးသူရိယနှင့်အတူ ပြောင်းရွှေ့နေထိုင်ရင်း ပရိယတ္တိဘက် အားထုတ်ခဲ့ကြောင်း သိရပါသည်။

**ရွှေမြင်တင်တောင်ပေါ်မှာ ပုတီးစိပ်ခဲ့**

အသက် ၁၆ နှစ်အရွယ်သို့ရောက်သောအခါ ရွှေမြင်တင် တောင်ပေါ်တွင် ပုတီးစိပ်တရားအားထုတ်ခဲ့ကြောင်း သိရပါသည်။ ဆရာတော်၏ဖခင်ကြီး၏ ဇာတိရွာမှာ ခတက္ကန်ရွာဖြစ်ကြောင်း၊ ထိုရွာအနီးတွင် ရွှေမြင်တင်တောင် ရှိကြောင်း သိရပါသည်။

**၁၈ နှစ်သား အရွယ်မှာ**

အသက် ၁၈ နှစ်အရွယ်သို့သောအခါ ချောင်းဦးမြို့ အနောက်ဘက် ကျီကုန်းရွာ၊ ကျောင်းသစ်ဆရာတော် ဆဋ္ဌသင်္ဂီတိကာရက၊ ဝိနယဂရုက နိုင်ငံတော် ဩဝါဒါစရိယ ဦးကောဏ္ဍညထံတွင် ပရိယတ္တိဘက်မှ အားထုတ်ခဲ့ကြောင်း သိရပါသည်။

**ရဟန်းဘဝ**

ရဟန်းဘဝကိုကား သက်တော် ၂၀ ပြည့်ပြီး ၅ လကျော်သော အခါမှာ ရောက်ရှိခဲ့ကြောင်း၊ ဦးကြီး ဆရာတော်ဦးသုနေယျကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဘဝသို့ ရောက်ခဲ့ကြောင်း သိရပါသည်။

အေဒီ ၁၉၅၂

၁၃၁၄ ခုနှစ်တွင် မဟာဝိသုတာရာမတိုက်တွင် လည်းကောင်း၊ ၁၃၁၆ ခုနှစ်တွင် မန္တလေးမြို့၊ ဘုရားကြီးတိုက်သို့လည်းကောင်း ကြွရောက်၍ ပရိယတ္တိ အားဖြည့်ခဲ့ကြောင်း သိရပါသည်

အေဒီ ၁၉၅၄

၁၃၁၆-ခုနှစ်တွင် မျက်စိများ မှုန်ဝါးဝါးဖြစ်လာပြီး ချောင်းဆိုး ရောဂါကလည်း နှိပ်စက်ပြန်သဖြင့် မန္တလေး ပြည်သူ့ဆေးရုံကြီးသို့ သွား၍ပြသောအခါ တီဘီအဆုတ်ရောဂါက ခရီးလွန်နေပြီ

http://www.dhammadownload.com



ဖြစ်ကြောင်း သိရသဖြင့် ဆေးရုံတက်ခဲ့ရပါသေးသည်။ ဆေးရုံတွင် ၃ လလောက်နေ ပြီးနောက် ပြန်ဆင်းခဲ့ရပြန်ပါသည်။

အေဒီ ၁၉၅၅ ရောဂါနှိပ်စက်သဖြင့် အရိုးပေါ်အရေတင်လျက်ရှိသောအခါ မထူးတော့ပြီဟု လူ့ဘဝကို စိတ်လျှော့တော့ မယောင်ယောင် ဖြစ်၍ ၁၃၁၇ ခုနှစ်တွင် ဇာတိရွာသို့ ပြန်ခဲ့ကြောင်း သိရပြန်ပါသည်။

**ဖောခိပင် ရေသောင်းသည့်အကျိုး**

ထိုအချိန်အခါတွင် အားကိုးအားထားအဖြစ် ဖောခိညောင်ပင်ကို နေ့စဉ်ရေပူဇော်ခဲ့ကြောင်း သိရပါသည်။ ထိုအချိန်အခါတွင် ဖောခိပင် ကြီးအောက်၌ ဖောခိညောင်ပင်ငယ်များ တစ်ရာ မက တစ်ထောင်မက ထူးထူးခြားခြား ပေါက်လာခဲ့သည်ကို တွေ့ရပြန်သောအခါ ထူးခြားမှုများ အနာဂတ်အတွက် တစ်စတစ်စ ပြ၍ လာပါတော့သည်။

**ဖောခိပင်ကြီးအောက် ဖောခိပင်ငယ် ပေါက်**

သာသနာပြုရန် ဖွဲသန်သန်ဖြင့် ဖောခိပင်များကို နေ့စဉ် စောင့်ရှောက်ခြင်း၊ နေ့စဉ်၊ ညစဉ် ပူဇော်ခြင်း၊ ဘုရားရင်ပြင်တော်ကို တံမြက်လှည်းခြင်း စသည်တို့အပြင် အာနာပါနကမ္မဋ္ဌာန်း တရား အားထုတ်ခြင်းကို အားကြိုးမာန်တက်ပြုခဲ့ကြောင်း။ ထိုအခါ ကျန်းမာရေးမှစ၍ လူလည်း ကျန်းမာ၊ စိတ်လည်းကျန်းမာ၍ လာခဲ့ကြောင်း လူလည်းချမ်းသာ၊ စိတ်လည်းချမ်းသာ၍ လာခဲ့ ကြောင်း သိရပါသည်။

**အသိထူး အမြင်ထူးရ**

၁၃၁၇ ခုနှစ်တွင် ပတ္တမြားတောင်သို့ ကြွရောက်၍ ဖွဲသန်သန်ဖြင့် တရားအားထုတ်ခဲ့ပြန် လေသည်။ ထိုအခါမှစ၍ ထူးခြားသော အသိအမြင်များရရှိကာ အသိထူး အမြင်ထူး ဘဝထူး ဖြင့် သာသနာတော်ကြီးကို ပူဇော်ခဲ့ကြောင်း သိရှိရပါသည်။

ဖောခိတစ်ထောင်ကျောင်းကြီးမှာ မြေဧက ၁၅ဝ ကျော်ကျယ်သော သာသနာ့နယ်မြေကြီး ဖြစ်လေသည်။

**မဟာဂန္ဓာရီစရီး**

အေဒီ ၁၉၅၅ ဖောခိတစ်ထောင် ဆရာတော်ကြီးသည် ၁၃၁၇ ခုနှစ်မှ စ၍ မဟာဂန္ဓာရီခရီးအနှံ့ ကြွရောက်၍ အဓိဋ္ဌာန်ဝင်ခဲ့ကြောင်း၊ တစ်နေရာ တစ်နေရာတွင် အကြမ်းဖျင်းအားဖြင့် ၄၅ ရက်လောက် အနေများကြောင်း အဓိဋ္ဌာန် ၃ နှစ်၊ ၁၁လ၊ ၂၅ရက် တိတိ ဝင်ခဲ့ကြောင်း သိရပါသည်။

ဒီပါအေးဘုရားတွင်လည်းကောင်း၊ ဗုဒ္ဓရွှေကျောင်းတော်တို့တွင် လည်းကောင်း၊ ဆရာတော်ကြီး တရားအားထုတ်ခဲ့သော နေရာများဖြစ်ကြလေသည်။ ဒီပါအေးဘုရားနှင့် ဖောခိပင်များမှာ မဝေးလှပါ။

**အောင်မြေ**

ထိုနေရာတွင် ဆရာတော်ကြီး အဓိဋ္ဌာန်ဝင်ခဲ့သော အောင်မြင်ခဲ့သောဂူကို မသိသူများက ကျော်၍ သွားကြပါသည်။ ဆရာတော်ကြီး မူလသီတင်းသုံးခဲ့သော ကျောင်းကြီးကိုလည်း ဖောခိ တစ်ထောင် သာသနာ့နယ်မြေသို့ ဝင်ခဲ့ပါလျှင် ဝင်လာသူ၏ လက်ဝဲဘက်တွင် သတိထားမိ နိုင်ပါသည်။

**ဖောခိတစ်ထောင်ဆရာတော်ဟု ဘွဲ့တော်အလိုလိုရ**

ထိုကျောင်းတွင် ၁၀ ဝါ ရောက်သောအခါမှစ၍ စတင်သီတင်းသုံးခဲ့ကြောင်း သိရပါသည်။

http://www.dhammadownload.com



ဗောဓိတစ်ထောင်ဆရာတော်ဟူသော ဘွဲ့အမည်မှာလည်း ဗောဓိပင်များနှင့် ပတ်သက်၍နေပေသည်။

**နန်းဦးဆရာတော်ကိုယ်တိုင်စိုက်ခဲ့သော ဗောဓိပင်များ**

အေဒီ ၁၉၆၀ ၁၃၂၂ ခုနှစ် ကဆုန်လဆန်း ၁၁ ရက်နေ့တွင် နန်းဦးဆရာတော် ဦးနန္ဒိယသိဟာသူရ ကိုယ်တော်တိုင် ကြွရောက် စိုက်ပျိုးခဲ့သော ဗောဓိပင်များဖြစ်ကြောင်း ထိုဗောဓိပင်များကို ဇာတိရွာဖြစ်သော ရွာကြပ်ရွာမှ ပင့်ဆောင်ခဲ့ကြောင်း သိရပါသည်။ ဗောဓိပင်များစိုက်ပျိုးသော နှစ်များကို အမှတ်ရလွယ်အောင် အောင်စည်ကျော်ခိုက် ဗောဓိစိုက်ဟူ၍ ဆိုရိုးစကားရှိပါသည်။ အောင်စည်ကျော်ခိုက်သည် ၁၃၂၂ ကို ဆိုလိုကြောင်း သိရှိရပါသည်။

**ထူးခြားသော မှတ်တမ်းပန်းချီ**

ဆရာတော်၏ ထူးခြားသောနေရာတစ်ခုမှာ ဆရာတော်ကြီး၏ အတိတ်က ရုပ်ပုံလွှာများကို စိတ်မျက်စိတွင် ထင်ယောင်ယောင် မြင်ယောင်ယောင် ဖြစ်လာစေအောင် သရုပ်ဖော် ရေးဆွဲထားသော မှတ်တမ်းပန်းချီများ ဖြစ်ပါသည်။ ထူးခြားရှားပါးသော ထေရုပ္ပတ္တိ ပန်းချီကားကြီးများကို ပတ္တမြားဗိမာန်တော်တွင် ဝင်ရောက်ဖူးမြော် လေ့လာနိုင်ပါသည်။

**ဆုံးမစကား**

ဆရာတော်ကြီးဆုံးမလေ့ရှိသော ဩဝါဒများမှာ အလွန်မှတ်သားဖွယ်ရာ ကောင်းလှပါသည်။ မှတ်မိသမျှ ကို ကောက်ကာငင်ကာ ပြောဆိုရပါလျှင် နိုင်လိုသူကို အရှုံးပေး နှလုံးအေးတဲ့ဆေး၊ ပြိုင်လာလျှင် အရှုံးပေး နှလုံးအေးတဲ့ ဆေး၊ စိတ်ရှည်သည်းခံ အနေမှန် ဧကန်ချမ်းသာ မည်၊ စိတ်ရှည်ဇွဲသန် အနေမှန် ဧကန်အောင်ရမည်၊ စိတ်ရှည် ဇွဲသန် သည်းညည်းခံ ပြုရန်သာသနာ၊ မနာလိုကင်း ဝန်တိုရှင်း လက်ငင်း ချမ်းသာမည်၊ စသည်အားဖြင့် ဖြစ်ပါသည်။

**အလေ့အထ**

ဆရာတော်ကြီးသည် နေ့စဉ် နံနက် ၃ နာရီတွင် ထ၍ တရား အားထုတ်လျက်ရှိကြောင်း သိရပါသည်။ နံနက် ၅ နာရီတွင် အရုဏ်ဆွမ်းဘုဉ်းပေးကြောင်း သိရပါသည်။

**ဂူဏ်တော် (၄) သောင်း**

ဘုဉ်းပေးပြီး၍ အခန်းအပြင်သို့ ထွက်လာသောအချိန်တွင် ဂုဏ်တော် ၄ သောင်းကျော် အားထုတ်ပွားများပြီးကြောင်း သိရပါသည်။

**ဂူဏ်တော် (၈) သောင်း**

ဆရာတော်ကြီးကို ဖူးမြော်ရန် လာရောက်ကြသော ရပ်ဝေးရပ်နီးမှ ပုဂ္ဂိုလ်အပေါင်းတို့အား နံနက် ၇ နာရီမှ စ၍ ဖူးမြော်ခွင့်ပေးကြောင်း သိရပါသည်။ ထိုအချိန်ကာလအတွင်း ဂုဏ်တော် ပုတီးကို အားထုတ်ပွားများရာ ည (၉) နာရီအထိ ဂုဏ်တော် ၈ သောင်း ကျော်ပြီးစီးကြောင်း တစ်ဆင့် သိရပါသည်။

**နံနက် မေတ္တာ၊ ည မေတ္တာ**

နံနက်ခင်းတွင် မေတ္တာပို့ခြင်း၊ နေ့လယ်ပိုင်းတွင် မေတ္တာပို့ခြင်း၊ ညပိုင်းတွင် မေတ္တာပို့ခြင်းတို့ကို စူးစူးစိုက်စိုက် ကျင့်ကြံအားထုတ်ကြောင်း သိရပါသည်။

အလျဉ်းသင့်သဖြင့် ဆရာတော်ကြီး၏ မေတ္တာပို့နည်းကို တင်ပြရလျှင် အလွန်မှတ်သားဖွယ်ရာ ဖြစ်လိမ့်မည် ထင်ပါသည်။ မေတ္တာပို့နည်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

http://www.dhammadownload.com



**နံနက်ခင်းမေတ္တာပို့နည်း၊**

ဘုရားဂုဏ် တရားဂုဏ် သံဃာဂုဏ်တို့ကြောင့် ဤနေရောင်ခြည်နှင့် ထိမိသမျှသော သတ္တဝါ အားလုံးတို့သည် ကိုယ်စိတ်နှစ်ဖြာ ကျန်းမာချမ်းသာကြပါစေ။

**နေ့လယ်မေတ္တာပို့နည်း**

ဘုရားဂုဏ် တရားဂုဏ် သံဃာဂုဏ်တို့ကြောင့် ဤမြေကြီးပေါ် ရှိသမျှသော သတ္တဝါ အားလုံး တို့သည် ကိုယ်စိတ်နှစ်ဖြာ ကျန်းမာချမ်းသာကြပါစေ။

**ညပိုင်းမေတ္တာပို့နည်း**

ဘုရားဂုဏ် တရားဂုဏ် သံဃာဂုဏ်တို့ကြောင့် ဤလရောင်ခြည်နှင့် ထိမိသမျှသော သတ္တဝါ အားလုံးတို့သည် ကိုယ်စိတ်နှစ်ဖြာ ကျန်းမာချမ်းသာကြပါစေ။

**တစ်နေ့သုံးကြိမ် မေတ္တာပို့**

ဤသို့ ထူးထူးခြားခြား မေတ္တာပို့လေ့ရှိပါသည်။ တစ်ကြိမ် တစ်ကြိမ်လျှင် ၁၀ မိနစ်ခန့်မျှ မေတ္တာဖြန့်၍ တစ်နေ့လျှင် သုံးကြိမ် မေတ္တာပို့ကြရန် ဆရာတော်ကြီးက တိုက်တွန်း တော်မူပါ သည်။

**နေနဲ့လ**

နေနှင့်လကို စူးစူးစိုက်စိုက်ကြည့်၍ ထိုနေ၏အထဲ လ၏အထဲမှာ ဘုရားပေါ်လာအောင် အာရုံ ပြုကြရန် စိတ်ဘုရား၊ ဉာဏ်ဘုရား၊ မနောဘုရား၊ အဓိဋ္ဌာန်ဘုရား ပေါ်လာအောင် အာရုံပြုကြ ရန် ဆရာတော်ကြီးက တိုက်တွန်းလေ့ရှိပါသည်။ ထိုသို့အာရုံပြုကြရင်း ဘုရားရှင်၏ ရောင်ခြည် တော်များနှင့် နေရောင်နှင့်အတူ မိမိ၏ မေတ္တာစိတ်ကို ဖြန့်၍ မေတ္တာပို့ရန် ဆရာတော်ကြီးက တိုက်တွန်းလေ့ရှိပါသည်။

(ကျမ်းကိုး၊ ဇောဓိတစ်ထောင်ဆရာတော်နှင့် အံ့ဖွယ်ဖြစ်ရပ်ဆန်း၊ တင်အောင်သွင်၊ သူရဋ္ဌ မဂ္ဂဇင်း၊ ၂၀၀၇ ခုနှစ်၊ ဩဂုတ်လ၊ စာမျက်နှာ ၆၇)

မဟာဇောဓိတစ်ထောင် ဆရာတော်ကြီး၏ ဘဝဖြစ်စဉ်မှ ထူးခြားချက်များကို တင်ပြလိုပါသည်။

**မြွေကိုအောင်ခြင်း**

တစ်ခါသော် သီးပင်အောက်၌ အာနာပါန ရှုမှတ်နေစဉ် မြွေဆိုးကြီးတစ်ကောင် တင်ပျဉ်ခွေပေါ် တက်လာသည်ကို မကြောက်ဘဲ ဆက်လက်၍ ရှုမှတ်နေရာ မကြာမီ မြွေကြီးပြန်ဆင်းသွား ခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၇

**လူဆိုးကိုအောင်ခြင်း**

တစ်ခါသော် မူလ သီတင်းသုံးသော အသားကျောင်းပေါ်၌နေစဉ် ညတစ်ညတွင် အန္တရာယ်ပြု ရန် လူငါးယောက် လက်နက်ကိုယ်စီဖြင့် လာနေသည်ကို ကျောင်းပေါ်မှ အရှင်းသားမြင်နေ ရသည်။ ၎င်းတို့လာ၍ တံခါးအဖွင့်ခိုင်းလျှင် ဖွင့်ပေးရအခက်၊ မဖွင့်ပေးရအခက် စိတ်အကြံ အိုက်ပြီး ၎င်းတို့အပေါ် မေတ္တာစူးစူးစိုက်စိုက် ပို့လိုက်ရာ ထိုသူတို့သည် ကြောက်အားလန့်အား နှင့် ထွက်ပြေးသွားခဲ့သည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၇

**မြရိပ်တောတွင် ပေါ်တော်မူ**

မွေးရပ်မြေ ရွာကြပ်ရွာနှင့် မဝေးလှသော မြရိပ်တောရတွင် ဆရာတော်ဘုရား အိပ်မက်အရ

http://www.dhammadownload.com



ဖော်ထုတ်တွေ့ရှိသော သမိုင်းဝင် ရွှေဟောင်းပေါ်တော်မူဘုရားကြီး၏ ဗုဒ္ဓပူဇနိယပွဲတော်ကြီးကို နှစ်စဉ် တပေါင်းလပြည့်နေ့ရောက်တိုင်း ပူဇော်ခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၇

**ကောင်းတယ်ဟူသော လက်သုံးစကား**

ဆရာတော်ဘုရားသည် စိတ်မြန် ကိုယ်မြန်ရှိသလို စကားပြောလည်း မြန်ပြီး လုပ်ငန်းလုပ်ရာမှာလည်း မြန်မြန်ဆန်ဆန်ပြီးစေချင်သည်။ မသိ၊ မရှိ ဟူသော စကားကို လက်မခံချင်ပါ။ ပုဂ္ဂိုလ်အသီးသီးက လျှောက်ထားတင်ပြလျှင်လည်း ကောင်းတယ်၊ ကောင်းတယ်ဟုပင် လက်သုံးစကား ချီးမြှင့်တတ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၇

**ဝီရိယသခင်**

စားဝတ်နေရေးတွင် အလိုနည်းသော အကျင့်နှင့် အအိပ်အနေနည်းပြီး အမြဲ နိုးကြားသော ထကြွလုံ့လ ဝီရိယရှိခြင်းနှင့် အံ့သြလောက်ပါသည်။

**အချိန်လေးစား၊ အလုပ်ရှိသေ**

အဘယ်မျှ အချိန်ကို လေးစားသနည်းဆိုလျှင် ညေ့ပရိသတ်များကို နံနက် ၇ နာရီ တစ်ကြိမ်၊ နေ့ ၁ နာရီ တစ်ကြိမ် တွေ့ဆုံ အဖူးမြော်ခံ ကုသိုလ်ပွားစေကာ ဆုံးမစကားများချီးမြှင့်ပြီး ဓာတ်လက်ဆောင်စွန့်သည်။ နာရီစေ့လျှင် ကိုယ့်အလုပ် ကိုယ်လုပ်ကြတော့ဟု ဆိုပြီး ပြောပြောဆိုဆို အခန်းတွင်းသို့ ကြွဝင်သွားပါသည်။ အချိန်ကို လေးစားပြီး မိမိအလုပ်ကို ရိုသေသော ဆရာတော်ကြီး ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၇

**ဗုဒ္ဓေါဂုဏ်တော်အောင်**

ဝိနည်းသိက္ခာပုဒ်ကို ရိုရိုသေသေ ထိန်းသိမ်းသလို ဗုဒ္ဓေါ ဂုဏ်တော်ကိုလည်း အမြဲ လွှမ်းခြုံထုံမွှမ်းပြီး ညေ့ပရိသတ်ကိုလည်း နည်းပေးကာ အချိန်ကို အအားမထား၊ စိပ်ပုတီးလက်ကမချ စိပ်သောလက်သည်ပင် အမြဲကိုက်ခဲသော ဝေဒနာ ဖြစ်လာရ သည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၇

**မေတ္တာပါရမီ**

မေတ္တာ သစ္စာတရားကို အဓိကထားပြီး အလှူအတန်း ပေးကမ်းမှု ရက်ရောသလို သတ္တဝါများ အပေါ်တွင် မေတ္တာတရားကြီးမားပုံ၊ ခွင့်လွှတ်နိုင်စွမ်းကြီးမားပုံမှာ စံတင်လောက်ပါသည်။ သာသနာ့ကိစ္စ ဆောင်ရွက်ရာတွင်လည်း မောရပန်းရမှန်းမသိ ဖွဲကြိုးစွာနှင့် ပြီးမြောက်စေပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၇

**မေတ္တာကမ္မဋ္ဌာန်း**

မိမိကိုယ်တိုင်လည်း မေတ္တာကမ္မဌာန်း နေ့စဉ် စီးဖြန်းသလို ဝေနေယျများကိုလည်း နည်းပေး လမ်းပြ ဆိုဆုံးမကာ စီးဖြန်းစေပါသည်ဟု အမိန့်ရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၇

**ပုတီးလက်က မချ**

အထူးလက်ကိုင်ထား ကျင့်ကြံမှုမှာ ဗုဒ္ဓါနုဿတိဂုဏ်တော်ကို အမြဲမွှမ်းထုံပြီး စိပ်ပုတီး လက်က

http://www.dhammadownload.com



မချ စိပ်သောလက်သည်ပင် အမြဲကိုက်ခဲသော ဝေဒနာဖြစ်လာ၍ ဆရာတော်အနား ရောက်လာသည့် သာဝကများက ဆုပ်ပေးမှု နှိပ်နယ်မှု ပေးနေရပါသည်။

ကျမ်းကိုး၊ ဇာဓိတစ်ထောင်ဆရာတော်၏ နှစ် ၆၀ ဘဝခရီး၊ မိဂဒါဝုန်ဆရာတော် ပြုစုသည်၊ ပထမအကြိမ်၊ ၁၉၉၂ ခု ဖေဖော်ဝါရီလ၊ စာပေပေါင်းကူးစာအုပ်တိုက်၊ ရန်ကုန်။ (ကျမ်းကိုး၊ ယင်းကျမ်း၊ ၄)

**ထူးခြားမှုများ**

(က) သမဂ္ဂသံဃာများအတွက် နေ့စဉ် သောက်ရေ သုံးရေ အမြဲတာဝန် ယူထည့်ပေးခြင်း၊

(ခ) တံမြက်လှည်း၍ နေ့စဉ်သန့်ရှင်းခြင်း၊

(ဂ) သံဃာ ၇၀၀ ကျော်တို့အတွက် ကနုတံကို တာဝန်ယူ ဆေးကြောခြင်း၊

(ဃ) မိမိတို့ ကိုရင်ကလေးများအပေါ် တတ်နိုင်သမျှ ကျွေးမွေးခြင်း ဆုံးမခြင်း စသော ကျင့်ဝတ်များကို မပျက်မကွက် ဆောင်ရွက်လေ့ ရှိပါသည်။

(ကျမ်းကိုး၊ စာမျက်နှာ မာဂဓီ (သာစည်) နိုင်ငံတော် သံဃမဟာနာယကအဖွဲ့၊ ပိဋကတ်တိုက်မှူး၊ ကမ္ဘာအေး၊ ရန်ကုန်မြို့။)

**ကိုယ်တွေ့မှတ်တမ်းများ ကောက်နုတ်ချက်**

ကျွန်တော်ကဲ့သို့ အနီးကပ် ဖူးခွင့်ရသော သူတို့သည်လည်း ကျွန်တော်ထင်မြင် ယူဆသလို ထင်မြင်ယူဆကြလိမ့်မည်ဟု ယုံကြည်မိပါသည်။

**ပဲဆီ၊ နှမ်းဆီများ လုံးသွားခြင်း**

ကျွန်တော်သိသည့် ဆရာတော်၏ ဂုဏ်အနည်းငယ်ကို ထုတ်ပြရလျှင် ပဲဆီ နှမ်းဆီများကို ရွှံ့လုံးကဲ့သို့ ခဲစေနိုင်ခြင်း၊ လုံးစေနိုင်ခြင်း။

**ဆေးလုံး ရေပေါ် ပေါ်ခြင်း**

ပန်းကန်တွင် ထည့်ထားသော ဆီများကို ပန်းကန်ခွက်၌ ဆေးလုံးကို ရေပေါ် ပေါ်စေနိုင်ခြင်း။

**အင်းစက္ကူမှ မီးထွက်ခြင်း**

အင်း စက္ကူလိပ်မှ မီးတောက်ထွက်လာခြင်း

**တီဘီရောဂါပြစ်**

ထိုအခိုက် ပခုက္ကူနေစဉ်က မျက်မှန်းတန်းမိသော ချောင်းဆိုးရောဂါသည် အကျွမ်းတဝင်ဖြင့် ပို၍ ပို၍ နှိပ်စက်လာသည်မှာ မျက်စိက စာလုံးများကိုပင် သဲသဲကွဲကွဲမမြင် မှုန်ဝါးဝါး ဖြစ်လာပါတော့၏။ သို့နှင့် ဆရာတော် ဦးမာနိတ (ယခုထိ မန္တလေးဘုရားကြီး တိုက်၌ရှိနေ) နှင့် မန္တလေး ပြည်သူ့ဆေးရုံကြီးသို့ သွားကြရာ ဆရာဝန်ကြီး ဦးစောမရအောင်သည် ဆရာဝန် ပိုင်းဆိုင်ရာ ကိရိယာများဖြင့် စမ်းသပ်ကြည့်ပါ၏။ ကြည့်သောအခါ တီဘီရောဂါလွန်နေပြီ ဖြစ်သဖြင့် အသက်ရှေးအတွက် အဆုတ်၏ အခြေအနေကို အားမရသဖြင့် ဆေးရုံတက်ခွင့် မပေး၊ စားဆေး အနည်းငယ်သာ ပေးလိုက်၍ ကျောင်းသို့ ပြန်ခဲ့ရပါ၏။

**ဆေးရုံက လက်မခံ၍ ပြန်ခဲ့ရ**

တီဘီရောဂါသည် သူနာ ရဟန်းတော် ကလေး ဦးနာရဒသည် ကျောင်းရောက်၍ စားဆေးကုန်သောအခါ ပင်ပန်းဆင်းရဲစွာ မောဟိုက်နွမ်းလျ လွန်း၍ ဆေးရုံကလက်ခံလို လက်ခံငြား၊ လိုင်းကားစီး၍ တစ်ဖန် ဆေးရုံသို့ အပန်းတကြီးဖြင့် ချောင်းဆိုးကို အဖော်ပြုကာ သွားလိုက်ပြန်ပါ၏။

http://www.dhammadownload.com



သို့သော် ဆေးရုံကလက်မခံ၊ စားဆေးလေးနှင့် ပြန်ခဲ့ရပြီး အမောဒဏ်သာ အနှိပ်စက်ခံရပြန်၍ ဆေးရုံကလက်မခံနှင့် ၄ / ၅ ကြိမ်ရှိလာသောအခါ ဆေးရုံသွားရရှာသော တီဘီရောဂါသည် သူနာရဟန်း ဦးနာရဒသည် "သေလဲ ဒီဆေးရုံပေါ်မှာပဲ သေချင်ပါတယ်၊ ရောဂါကြောင့် ပင်ပန်းနွမ်းဟိုက်တာက တစ်မျိုး၊ သွားလာရတဲ့ ဒဏ်ကြောင့် မောပန်းကာက တစ်မျိုးမို့ ဆင်းရဲလှပါတယ် ဒကာကြီး၊ ကျုပ်ကိုဆေးရုံတက်ခွင့်ပေးပါ" ဟု ဆရာဝန်ကြီးအား အရဲစွန့်ပြီး ပြောကြားလိုက်တော့၏။ အလျှောက်ကောင်း အထောင်းပြေဆိုသကဲ့သို့ တဟွတ်ဟွတ်နှင့် ချောင်းဆိုးနေသောချိန့် နွမ်းနယ်ရောဂါသည်၏ သေလဲ ဆေးရုံမှာပဲ သေချင်ပါတယ် ဟူသော သနားစဖွယ် စကားခွန်းသည် ဆရာဝန်ကြီး၏ နားတွင်းသို့ မိုးကြိုးခွင်းသည့်နှယ် ထိုးနှက်ချက် ပြင်းထန်လှသောကြောင့် ဒီတစ်ခါ ဆေးရုံက ပြန်မလွှတ်ရက်တော့ပါ၊ ဆေးရုံသို့ တက်ခွင့် ပြုလိုက်ပါတော့၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာမျက်နှာ ၃၃

**သေလူအဖြစ် သဘောထား၍ ဘုရားစုံ သွားဖူး**

စားဆေးများနှင့် ဆေးရုံဆင်း လက်မှတ်ကိုယူပြီး ၃ လပြည့်၍ ဆေးရုံက ဆင်းလာသောအခါ ဆရာဝန်ကြီး၏ ကျေနပ်သည့်အဆင့်သို့ကား မရခဲ့ပါ။ တဒင်္ဂနေသာရုံသာ သက်သာ၍ သေရေးရှင်ရေးအတွက် စိတ်မချရခဲ့ရှာ၊ ဖြည်းဖြည်းနှင့်မြန်မြန်ဆိုသကဲ့သို့ အခြေအနေမလှသဖြင့် ရောဂါသည် ဦးနာရဒသည် သေလူအဖြစ် တွက်ထားကာ နောက်ဆုံးခေါက်အနေဖြင့် မန္တလေး ဘုရားစုံကိုလည်း ဖူးမည်စိတ်ကူးပြီး ဖူးပါ၏တဲ့။

**နန်းဦးဆရာတော်နှင့် တွေ့**

ယခုအတွေ့အကြုံတို့ကို ပြောပြပြီး နန်းဦးဆရာတော်ကြီးထံ ရောက်ပုံကိုလည်း စိတ်ဝင်စားဖွယ်ရာ ပြောဆိုချက်များဖြင့် ဆရာတော်ကိုယ်တိုင် ပြောပြပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာမျက်နှာ ၃၃

**သေလူပဲဟု ပုတီးတချောက်ချောက်**

ရဟန်းတော် ဦးနာရဒသည် သံဝေဂကြီးစွာဖြင့် ပိန်ချုံး ချိနဲ့လွန်းလှသော မိမိ၏ ခန္ဓာကိုယ်ကို ကြည့်ပြီး ပလွေရိုးသာသာမျှ ရှိသော မိမိလက်မောင်းလေးတွေကို ဆန့်တန်းကြည့်လိုက် အရိုးပေါ် အရေကပ်နေသော ခြေသလုံးလေးတွေ လက်ဖြင့် ပွတ်လိုက်နှင့် -ငါဟာ သေလူပဲ ငါဟာ သေလူပဲဟု အောက်မေ့ကာ ပုတီးတချောက်ချောက်နှင့် မရဏာနုဿတိ ကမ္မဋ္ဌာန်း စီးဖြန်းနေပါ တော့၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၃၉

**ညောင်ပင်ကြီးအောက် ညောင်ပင်လေးများပေါက်သော နိမိတ်**

ညောင်ပင်ကြီးအောက် ညောင်ပင်လေးမပေါက်ဟု ရှေးဆို ရိုးရှိခဲ့သော်လည်း ယခုမူ ဗောဓိပင်ကြီးအောက်၌ ထောင်ချီ၍ ဗောဓိပင်ငယ်များ အစုလိုက် အပြုံလိုက် ပေါက်ရောက်နေကြပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၄

**ဗောဓိပင် ရေလောင်းတဲ့ ဓာတ်လမ်း**

ရဟန်းတော်လေး ဦးနာရဒက "တပည့်တော် သေလူပါ၊ တပည့်တော် တာဝန်ယူပါမယ်၊ မနုတ်ပါနဲ့" ဟု တောင်းပန်ကာ နုတ်မပစ်ဘဲ ဗောဓိပင်ငယ်များကို အထူးပြုစု စောင့်ရှောက်၍ နေ့စဉ် ရေပူဇော်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၅

http://www.dhammadownload.com



**ဇောခိပင် ပူဇော်တဲ့ အကျိုး**

ဇောခိပင်ငယ်များ အတန်ငယ် ကြီးထွားလာသောအခါ မြူအိုးစသည်များနှင့် သပိတ်များတွင် ရွှေ့ပြောင်း၍ စိုက်ပျိုးပါတော့သည်။ ဆရာတော်နှစ်ပါးသည် တက်ညီလက်ညီ ဟန်ချက် ညီ၍ နေ့စဉ်နေ့တိုင်း မဆိုင်းမတွ ဇောခိပင်ကြီးကို ရေပူဇော်ကြ အပင်ငယ်များကို ပြုစု ရေလောင်းကြ နှင့် ကြည်နူးနေကြသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၅

**ဘုရားတန်ခိုး**

ထိုအချိန်က ဦးနာရဒသည် ကျောင်းတွင်းရှိ သီးပင်ကြီးအောက်၌ ထန်းလက်တဲကြီး ထိုး၍ တရားအား ထုတ်ရင်း ဇောခိပင် ရေပူဇော်နေခြင်း ဖြစ်ပါသည်။ ဘုရားရင်ပြင်ပေါ်၌လည်း တံမြက်လှည်းခြင်း စေတီယင်္ဂဏ ဝတ်ကိုလည်း အမြဲပြုလေ့ ရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၆

**တရားတန်ခိုး**

ထန်းလက်တဲကြီးထဲ တင်ပျဉ်ခွေ၍ အာနာပါန ကမ္မဋ္ဌာန်း အားထုတ်နေစဉ် မြွေကြီးတစ်ကောင် သည် တအိအိနှင့် မိမိ၏ တင်ပျဉ်ခွေပေါ်သို့ တက်လာပါတော့သည်။ တရားထိုင်ရင်း မျက်စိ တစ်ချက် ဖွင့်ကြည့်လိုက်၏။ မြွေမှ မြွေဆိုးကြီး။

တရားထိုင်မပျက်ဘဲ ဆက်လက်၍ အာနာပါန ကမ္မဋ္ဌာန်းကို အားထုတ်လိုက်ရာ မကြာခင် မြွေကြီး ပြန်ဆင်းသွားသည်ဟု အမိန့်ရှိပါ၏။ ငြိမ်ငြိမ်မနေဘဲ လှုပ်ရှားလိုက်လျှင် မြွေကြီးက ကိုက်နိုင်သည်ဟု ဆရာတော်က အမိန့်ရှိပါ၏။ ထပြေးခြင်း လန့်အော်ခြင်း မပြုဘဲ သမာဓိခိုင် ခိုင် စိတ်နိုင်နိုင်နှင့် တရားထိုင်မပျက်သော ဦးနာရဒလို ပုဂ္ဂိုလ်ကို ထူးတဲ့ပုဂ္ဂိုလ်ဟုသာ သတ်မှတ် ရမည် ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၆

**နန်းဦးဆရာတော် အမိန့်**

အေဒီ ၁၉၅၅

နန်းဦးဆရာတော်ကြီး မှာကြားချက်အရ ရပ်ရွာ၌သာ တရားအားထုတ်သည်မဟုတ်၊ ကိုရင် ဘဝက နေခဲ့သော ခတက္ကန်အနီး ပတ္တမြားတောင်ပေါ်၌လည်းပဲ ၁၃၁၇ ခုနှစ်က ကြွရောက်၍ ၃ လ တရားအားထုတ်လိုက်ပါသေး၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၄၆

**မြင်းခွာသံများ ကြားရ**

ယခုကဲ့သို့ သေလူအဖြစ်ဖြင့် အမြဲတရားအားထုတ်ခြင်း၊ ဇောခိပင် ရေပူဇော်ခြင်း ပြုလုပ်နေချိန် ရံခါရံခါညများ၌ ကောင်းကင်မှ မြင်းခွာသံများ ကြားရပြီး မရှေးမနှောင်း မြေပြင်မှလဲ မြင်းခွာ သံများနှင့်အတူ အလင်းရောင်များ ကြားမြင်နေရသည့် အကြားဆန်း အမြင်ဆန်း ဖြစ်ရပ်များ က ရဟန်းတော် ဦးနာရဒ၏စိတ်ကို လှည့်စားသလို ဖြစ်နေပါတော့သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၄၇

**ရေလုံ့ပြုတ်သာသာ**

စားသောက်ရေးမှာ နေ့စဉ် ဆူးပုတ်ရွက် ရေလုံ့ပြုတ် သာသာနှင့်သာ ဆွမ်းကိစ္စကိုလည်း မျှတနေရ၏။ ယခု ဦးတေဇနိယကျောင်း အရှေ့ဘက် ခင်းထားသော နှစ်ခန်းခုတင် (ရှေးခုတင်) ကြီးသည် ထန်းလက်တဲကျောင်းကြီး၏ အပြင်ဘက်မှာထားသည့် ခုတင်ကြီး ဖြစ်ကြောင်း ဆရာ တော် ဦးသောဘိတ မိန့်ကြားပါ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၀၆

http://www.dhammadownload.com



အေဒီ ၁၉၈၀ ၁၃၄၂ ခု သည်ဘက်၌မူ ရှေးကလို ဓာတ်လုံးများ မပေးတော့ဘဲ ပုတီးများနှင့် စာအုပ်ငယ်များကိုရွှေ့တန်းတင်၍ ပေးစွန့်ချီးမြှင့်ကာ ဂုဏ်တော်ကမ္မဋ္ဌာန်း စီးဖြန်းခိုင်းသည်ကို တွေ့ရပါသည်။ ထို့နောက် "မေတ္တာလက်ဆောင်ဆိုတာ ပစ္စည်းပစ္စယမဟုတ်ဘဲ ဒါမှတကယ့်မေတ္တာလက်ဆောင်" ဟု မိန့်မြွက်ကာ လမ်းညွှန်မှုနှင့်တကွ အောက်ပါအတိုင်းချပေး၍ ချီးမြှင့်ပြန်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၂၅

(က) ငါ၏ ကိုယ်တွင် လောဘဝင်၍ ဝင်စဉ်လောဘ အနိုင်ရအောင် လောဘကင်းစင် ဘုရားရှင်ကို ကြည်လင်မြတ်နိုး လက်စုံမိုး၍ ရှိခိုးပါ၏ မြတ်စွာဘုရား။

(ခ) ငါ၏ကိုယ်တွင် ဒေါသဝင်၍ ဝင်စဉ် ဒေါသ အနိုင်ရအောင် ဒေါသကင်းစင် ဘုရားရှင်ကို ကြည်လင်မြတ်နိုး လက်စုံမိုး၍ ရှိခိုးပါ၏ မြတ်စွာဘုရား။

(ဂ) ငါ၏ကိုယ်တွင် မောဟ ဝင်၍ ဝင်စဉ် မောဟ အနိုင်ရအောင် မောဟကင်းစင် ဘုရားရှင်ကို ကြည်လင်မြတ်နိုး လက်စုံမိုး၍ ရှိခိုးပါ၏ မြတ်စွာဘုရား။

**အထူးတရားအားထုတ်ခဲ့သော နေရာများနှင့် ခုနှစ်**

အေဒီ ၁၉၅၅ ၁။ ပတ္တမြားတောင် ဆေးရုံက ဆင်းစအချိန်တွင် ကျောင်းထိုင်မဖြစ်သေး။ ၁၃၁၇ ခုနှစ်မှာ (၃) လ အားထုတ်ခဲ့။

အေဒီ ၁၉၅၆ ၂။ ပတ္တမြားတောင် ရွှေမြင်တင်တောင်မှာ ၁၃၁၈ ခုနှစ်မှာ (၄၅) ရက် အားထုတ်ခဲ့။

အေဒီ ၁၉၅၇ ၃။ ကိုးဆူတိုက်မှာ သီးပင်ကြီးအောက် (၁၃၁၉) ခုနှစ်တွင် (၅) လ အားထုတ်ခဲ့။

အေဒီ ၁၉၅၈ ၄။ ကိုးဆူတိုက် ကန်ပေါင်ပေါ်တွင် (၁၃၂၀) ခုနှစ်မှာ (၅) လ အားထုတ်ခဲ့။

အေဒီ ၁၉၆၂ ၅။ မန္တလေးတောင်တွင် (၁၃၂၄) ခုနှစ်၌ (၄၅) ရက် အားထုတ်ခဲ့။

အေဒီ ၁၉၆၃ ၆။ မန်းစက်တော်နှင့် ပုပ္ပါးတွင် (၁၃၂၅) ခုနှစ်၌ (၅၅) ရက် အားထုတ်ခဲ့။

အေဒီ ၁၉၆၄ ၇။ မင်းဝံတောင် ကန်ကြီးချောင်တွင် (၁၃၂၆) ခုနှစ်၌ (၃) လ အားထုတ်ခဲ့။

အေဒီ ၁၉၆၅ ၈။ ဇာသပြင် ကျိုက်မဆာတွင် (၁၃၂၇) ခုနှစ်၌ (၄၅) ရက် အားထုတ်ခဲ့။

အေဒီ ၁၉၆၆ ၉။ ဇာသပြင် ကျိုက်မဆာတွင် (၁၃၂၈) ခုနှစ်၌ (၄၅) ရက် အားထုတ်ခဲ့။

အေဒီ ၁၉၆၇ ၁၀။ မင်းဝံတောင် သမ္ဗုဒ္ဓေချောင်တွင် (၁၃၂၉) ခုနှစ်၌ (၄၅) ရက် အားထုတ်ခဲ့။

အေဒီ ၁၉၆၈ ၁၁။ ကောင်းမှုတော်တွင် (၁၃၃၀) ခုနှစ်၌ (၄၅) ရက် အားထုတ်ခဲ့။

အေဒီ ၁၉၆၉ ၁၂။ ရွှေမလဲတောင်တွင် (၁၃၃၁) ခုနှစ်၌ (၄၅) ရက် အားထုတ်ခဲ့။

အေဒီ ၁၉၇၀ ၁၃။ ကျောက်ဆည်တောင်တွင် (၁၃၃၂) ခုနှစ်တွင် (၄၅) ရက် အားထုတ်ခဲ့။

အေဒီ ၁၉၇၁ ၁၄။ ဝေပုလ္လတောင်တွင် (၁၃၃၃) ခုနှစ်၌ (၄၅) ရက် အားထုတ်ခဲ့။

အေဒီ ၁၉၇၂ ၁၅။ ကျောက်ကြီးတောင်တွင် (၁၃၃၄) ခုနှစ်၌ (၄၅) ရက် အားထုတ်ခဲ့။

အေဒီ ၁၉၇၃ ၁၆။ အနောက်ပရက္ကမချောင် စစ်ကိုင်းတွင် (၁၃၃၅) ခုနှစ်၌ (၄၅) ရက် အားထုတ်ခဲ့။

အေဒီ ၁၉၇၄ ၁၇။ မြန်အောင်ချောင် စစ်ကိုင်းတွင် (၁၃၃၆) ခုနှစ်၌ (၄၅) ရက် အားထုတ်ခဲ့။

အေဒီ ၁၉၇၅ ၁၈။ ဒီပါအေးဘုရားကြီး ဗောဓိတစ်ထောင်တွင် (၁၃၃၇) ခုနှစ်၌ (၄၅) ရက် အားထုတ်ခဲ့။

အေဒီ ၁၉၇၆ ၁၉။ ကျောက်ဆည်တောင်တွင် (၁၃၃၈) ခုနှစ်၌ (၄၅) ရက် အားထုတ်ခဲ့။

အေဒီ ၁၉၇၇ ၂၀။ ထွင့်ခေါင်ချောင် စစ်ကိုင်းတွင် (၁၃၃၉) ခုနှစ်၌ (၄၅) ရက် အားထုတ်ခဲ့။

အေဒီ ၁၉၇၈ ၂၁။ ဖိုးခေါင်တောင်တွင် (၁၃၄၀) ခုနှစ်၌ (၄၅) ရက် အားထုတ်ခဲ့။

အေဒီ ၁၉၇၉ ၂၂။ ပြင်ဦးလွင်မြို့ ဦးကျော်ဝင်း၏ ခြံတွင် (၁၃၄၁) ခုနှစ်၌ (၄၅) ရက် အားထုတ်ခဲ့။

အေဒီ ၁၉၈၃ ၂၃။ ကံ့ကော်တစ်ထောင် ပြင်ဦးလွင်တွင် (၁၃၄၅) ခုနှစ်၌ (၄၅) ရက် အားထုတ်ခဲ့။

အေဒီ ၁၉၈၄ ၂၄။ ဗိုလ်ကြီးချစ်ဆွေဂူ ဗောဓိတစ်ထောင်တွင် (၁၃၄၆) ခုနှစ်၌ (၄၅) ရက် အားထုတ်ခဲ့။

http://www.dhammadownload.com



အေဒီ ၁၉၉၀

၂၅။ ဗုဒ္ဓရွှေကျောင်းတော် ဦးမှတ်ဝင်း ဒေါ်သိန်းလှ မိသားစု၊ ရန်ကုန်တိုက်၊ ဗောဓိကျောင်းဝင်းတွင် (၁၃၅၂) ခုနှစ်၌ (၄၅) ရက် အားထုတ်ခဲ့။ စုစုပေါင်း (၃) နှစ် (၁၁) လ (၂၅) ရက်။ ဗောဓိတစ်ထောင် ကျောင်းတိုက်ထဲ နေသောအခါ၌မူ အခါခပ်သိမ်းကဲ့သို့ မနီးမဝေး ဘုရားဖူးလာကြသော ပရိသတ်များနှင့် တွေ့ခွင့် အချိန်မပေးတော့ဘဲ ဆွမ်းသပိတ်လာပို့သည့် ပုဂ္ဂိုလ်တစ်ဦးကိုသာ ဆွမ်းပို့ခွင့်ပြုပြီး အချိန်ပြည့် တရားအားထုတ်လေ့ရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၃၁

အေဒီ ၁၉၆၃

၁၃၂၅ ခု မန်းစက်တော်၌ ၅၅ ရက်နေစဉ်က ထူးဆန်းအံ့ဩဖွယ်ရာများစွာ တွေ့ရပုံကို မိန့်ကြားခဲ့ဖူးပါသည်။

**ဗောဓိတစ်ထောင် ဆရာတော်၏ နေ့စဉ်ကျင့်ဝတ်**

ဗောဓိတစ်ထောင် ဆရာတော်သည် နှစ်စဉ် ရက် ၃၀ ဖြစ်စေ ၄၅ ရက် ဖြစ်စေ၊ သီးသန့်သီးခြားနေရာယူ သတ်မှတ်၍သာ တရားအလုပ် အားထုတ်သည် မဟုတ်၊ မိမိနေသော ကျောင်းတိုက်တွင်း၌လည်း အမြဲ တရားအားထုတ်သည်ကို တွေ့ရသည်။ ဆရာတော်သည် အအိပ်အနေလည်း နည်းသည်။ အစားအသောက်လည်း နည်းသည်။ ဆောင်း နွေ မိုးရာသီ သုံးချိန်လုံးမှာ နံနက်တိုင်း ၃ နာရီအချိန် အိပ်ရာမှထလေ့ရှိ၍ ၂အချိန်၌မူ ၉ နာရီအချိန် ကျိန်းလေ့ရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅၀

မနက်တိုင်း ၃ နာရီ အိပ်ရာက ထပုံမှာ စာဖြေကြတဲ့ ရှင်ရဟန်းများနဲ့ ကျောင်းသူ ကျောင်းသားတွေဟာ စာမေးပွဲအတွင်း ရက်တိုလေးအချိန်မှာ သေသေကြေကြေ နံနက် ၂ နာရီ ၃ နာရီ ထထပြီး စာကြိုးစားကြသလို၊ ဆောင်း နွေ မိုး ဘယ်ရာသီ ဖြစ်ဖြစ် နက်ဖြန် စာမေးပွဲ ဖြေမည့်ကိုယ်တော်တွေလိုပဲ မနက်တိုင်း ၃ နာရီဆို ထတာချည်းပဲ၊ တကယ့် အံ့စရာကောင်းတာ မျက်နှာသစ်တာက ၃ နာရီ နိုးတာကတော့ ၂ နာရီ ကတည်းက နိုးပြီး အနိစ္စ ဒုက္ခ အနတ္တတွေ ဆင်ခြင်နေတာတဲ့။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၅၁

အဲဒါ ၃ နာရီထ မျက်နှာသစ်၊ မျက်နှာသစ်ပြီး ဘုရားဝတ်တက်၊ ဝတ်တက်ပြီး တရားအားထုတ်တော့တယ်၊ ခုလို မနက် ၃ နာရီ ထတာဟာ၊ တစ်ရက်တည်း မဟုတ်သလို တစ်နှစ်လည်း မဟုတ်ဘူး၊ ငယ်ငယ် ကိုရင်ဘဝ ကတည်းက ခုထိတဲ့။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅၁

"ဘုန်းကြီး နေ့နေ့ ကျိန်းသေးလား" ဟု မေးလျှောက်ကြည့်ရာ "မျက်စိအကျင့် ဝမ်းအချင့် မကျိန်းပါဘူး" ဟု ဖြေပါသည်။

အေဒီ ၁၉၇၉

၁၃၄၁ ခုနှစ် မတိုင်မီကတော့ တစ်နေ့တာအဖို့ အနီးအဝေး လာကြသူများကို ငဲ့ပြီး အချိန်ပြည့်လိုပဲ၊ တစ်နေကုန် အဖူးမြော်ခံပါသည်။ အနီးအဝေး လာရှာကြတာ အားနာစရာကြီးကိုယ်တော်၊ ဘယ်အချိန်မှာ တွေ့နိုင်တယ်၊ ဘယ်အချိန်မှာ မတွေ့နိုင်ဘူးလို့ မလုပ်တော့ပါဘူး၊ လာကြသူတိုင်း အချိန်ပြည့် တွေ့နိုင်အောင် နေတာပါပဲဟု မိန့်ဖူးပါ၏။

အေဒီ ၁၉၇၉

၁၃၄၁ ခုနှစ်မှ စ၍ ၁၃၅၂ ခုနှစ်အတွင်း နေ့စဉ် ၈ နာရီသာ ပရိသတ်နှင့် တွေ့ဆုံခွင့်ပေးပြီး ကိုယ့်အလုပ်ကိုယ်သာ လုပ်ပါသည်။ နံနက် ၇ နာရီမှ ၁၁ နာရီတစ်ကြိမ်၊ နေ့ ၁ နာရီ မှ ၅ နာရီထိ တစ်ကြိမ်ဖြစ်သည်။

အထက်ပါစာပိုဒ်ကို ဆရာတော်၏ မှတ်တမ်းမှတ်ရာပဒေသာစာအုပ်ထဲမှ မူရင်း

http://www.dhammadownload.com



အတိုင်း ကူးယူဖော်ပြပါသည်။ ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၅၁

**တစ်နေ့လျှင် ဂုဏ်တော် တစ်သိန်းသုံးသောင်း**

ယခုမူ ၎င်းစာပိုဒ်အတိုင်း သူ့အချိန်နှင့်သူ အဖူးမြော်ခံ၍ ကျန်သည့် အချိန်များ၌ အချိန်ပြည့် တရားအားထုတ်ပါသည်။ တစ်နေ့ တစ်နေ့လျှင် ဂုဏ်တော် တစ်သိန်းသုံးသောင်း တစ်သိန်း လေးသောင်းရပါ၏တဲ့။ ပုတီးအပတ်ရေ တစ်ထောင်ကျော် ဖြစ်သည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၅၂

**ဂုဏ်တော်ပေါင်း (၇၄၁,၅၈၃,၇၄၈)**

အေဒီ ၁၉၅၀ အသက် ၂၀ ပြည့် ရဟန်းဖြစ်သည့် အချိန်က စ၍ ရေတွက်ရာ ယနေ့ ၁၃၅၂ ခု၊ သက်တော် ၆၀ အပြည့်မှာ အားထုတ်ခဲ့သော ဂုဏ်တော်ပေါင်း ၇၄၁,၅၈၃,၇၄၈ (ခုနစ်ဆယ့်လေးကုဋေ တစ်သန်း ငါးသိန်း ရှစ်သောင်း သုံးထောင် ခုနစ်ရာ လေးဆယ်ရှစ်) ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၅၂

**တစ်နာရီ အပတ် (၁၅၀)**

ဆရာတော်က တစ်နာရီ ပုတီးအပတ် ၁၅၀ ရ၏ဟု မိန့်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ- ၁၅၂

**မေတ္တာ သုံးကြိမ်**

ဗောဓိတစ်ထောင် ဆရာတော်သည် မေတ္တာကမ္မဋ္ဌာန်းကိုလည်း တစ်နေ့လျှင် နံနက်တစ်ကြိမ် နေ့လယ် တစ်ကြိမ် ညတစ် ကြိမ်အားဖြင့် ၃ ကြိမ် ၃ ကြိမ် အမြဲအားထုတ်ပါသည်။ တစ်ကြိမ် တစ်ကြိမ်အားထုတ်လျှင် ၁၀ မိနစ် ၁၅ မိနစ်ကြာသည်ဟု မိန့်ပါ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅၃

**တစ်နေ့ ငါးနာရီ ကျိန်း**

ဆရာတော်သည် ည ၉ နာရီ၌ ကျိန်းပြီး နံနက် ၂ နာရီမှာ နိုးသည်ဖြစ်၍ တစ်ညနှင့် တစ်နေ့ ၂၄ နာရီ ရှိသည်တွင် ၅ နာရီသာ ကျိန်းလေ့ရှိပါသည်။ အအိပ်အနေ အလွန်နည်းပါးသည်။

**မနက် သုံးနာရီ အမြဲထ**

ရန်ကုန်မြို့သို့ ကြွရောက်သောအခါများ၌မူ အလှူအမျိုးမျိုးသော ပရိသတ်တို့သည် ရောက်လေ ရာတိုင်းမှာ ကြိတ်ကြိတ်တိုး ဖူးတွေ့ကြ၍ ည ၁၁ နာရီ ၁၂ နာရီအထိပင် မကျိန်းရရှာ၊ သို့သော် နံနက် ၃ နာရီမှာတော့ ထမြဲ ထပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၅၃

**စေတီတော်ကြီး**

စေတီတော်ကြီး၏ အရပ်တော်မှာ ပေအားဖြင့် ၂၂၅ ပေ ရှိ၍ အတောင်အားဖြင့် ၁၅၀ ရှိပါသည်။ ဖိနပ်တော်မှာ အတောင်ပေါင်း ၁၄၅၊ ပေပေါင်း ၂၁၆ ပေ၊ ၉ လက်မ၊ ရှိပါသည်။ ဉာဏ်တော် အမြင့် အတောင် ၂၀ ခန့်ရှိ မုခ်ဦး ဘုရား ၄ ဆူအပြင် ပြိုဟ်ဘုရား ၈ ဆူနှင့် အရန်စေတီတော် အဆူပေါင်းမှာ ၁၀၆၀ ရှိပါသည်။ ၎င်းစေတီတော်တို့၏ အတွင်း၌ ကိန်းဝပ်တော်မူကြသည့် ရုပ်ပွားတော်ပေါင်းသည် တစ်ထောင်ကျော်ရှိပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇၁

အေဒီ ၁၉၈၇ ၁၃၄၈ ခု တန်ခူးလဆန်း ၁၄ - ၁၅ (၁၂-၁၃-၄-၈၇) တနင်္ဂနွေနေ့၊ တနင်္လာနေ့ ထီးတော် တင်ပါသည်။ ထီးတော်အမြင့် ၃၅ တောင်၊ မျက်နှာ၁၀ အကျယ် ၈ တောင်၊ ၁ ထွာ၊ ၁၃၄၁

http://www.dhammadownload.com



ခုနှစ်က တည်ထားသည်ကို အလွယ်တကူ အမှတ်ပြုရန် အောင်စည်ရိုက်ဦး စေတီထူးဟု မှတ်တမ်းပြုပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇၂

အေဒီ ၁၉၉၁ ၁၃၅၂ ခုနှစ်၊ ပြာသိုလပြည့်ကျော် ၉ ရက်၊ ၁၉၉၁ ခု၊ ဇန်နဝါရီလ ၈ ရက်၊ အင်္ဂါနေ့ နံနက် ၆ နာရီက ကျောင်းတော်မှုကြီး၏ ပလ္လင်တော်ကြီးကို ပန္နက်ချပြီး နေ့စဉ် ပန်းရန်လုပ်သားပေါင်း ၂၀၀ ကျော်ဖြင့် လုပ်ငန်းဝင်ကြရာ ၁၃၅၃ ခု ဝါခေါင်လဆန်း ၃ ရက်နေ့ ၁၀ နာရီ၌ ကျောင်းတော်မှုကြီးကို ပန္နက်ချနိုင်ခဲ့ပြန်ပါ၏။

အေဒီ ၁၉၉၁ ပလ္လင်တော်ကြီး ပန္နက်ချစဉ်က စာရေးသူသည် ဆရာတော်နှင့် နှစ်ပါး ဗုဒ္ဓရွှေကျောင်းပေါ် အတူနေကြသကဲ့သို့ ကျောင်းတော်မှုကြီး ပန္နက်ပလ္လင်တော်ကြီးမှာ အလျား ၂၁၅ တောင် (၃၂၂ ပေ ၆ လက်မ) အနံ အတောင် ၄၀၊ (၆၀ ပေ ) ကျောင်း တော်မှုကြီးမှာ အလျား အတောင် ၂၀၀ (၃၀၀ ပေ) အနံ ၂၅ တောင်၊ (၃၇- ၆ လက်မ) အတွင်းကွင် အတောင် ၂၀၊ (၃၀ ပေ ) ရှိပါသည်။ ကျောင်းတော်မှုကြီး၏ ဦးခေါင်းတော်ကြီး အမြင့်မှာ အတောင် ၄၀ ( ၆၀ ပေ) ရှိ၍ ကျောင်းတော်မှုကိုယ်တော်ကြီး၏ အတွင်းထဲ၌ တရားထိုင်ခြင်း ဘုရားဖူးခြင်း ပြုလုပ်နိုင်ရန် ခြေသလုံးတော်မှစ၍ လိုဏ်ခေါင်းပြုလုပ်ပြီး ကိုယ်ခန္ဓာတော်ကြီး အတွင်းထဲ၌မူ ဉာဏ်တော် တစ်ပေစီရှိ ဓာတ်သတ္တုဖြင့် ပြီးသော ရုပ်ပွားအဆူပေါင်း ၅၀၀၀ ကိန်းဝပ်ကြမည် ဖြစ်၍ တစ်ဆူလျှင် ၅၀၀ ကျပ်နှင့် ပူဇော်နေကြသည်ကိုလည်း တွေ့ရ၏။ ခြေဖဝါးတော်၌ စက်တော်ရာ များဖော်၍ အလင်းပေါက် လေဝင်ပေါက်များပါ ပြုလုပ်သွားမည်ဟု ၁၃၅၃ ခု ဝါခေါင်လဆန်း ၃ ရက် ၁၀ နာရီ ကျောင်းတော်မှုကြီး ပန္နက်ချစဉ်က ဆရာတော်က မိန့်ပါ၏။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇၃

**မိုးညှင်းဆရာတော်၏ ဗျာဒိတ်**

အေဒီ ၁၉၉၀ "ဘုန်းကြီး မိုးညှင်းဆရာတော်ကြီးက မိုးကုန်လျှင် ခတက်ပွင့်မယ်လို့ မိန့်ကြားတော်မူတယ်ဆိုတာ ဟုတ်ပါသလား ဘုရား" လို့ ဆရာတော်အား ၁၃၅၂ ခု တပေါင်းလဆန်း ၁၂ ရက်က မိဂဒါဝုန် ကျောင်းဒကာ ဦးစိမ်းမောင်၏သမီး မောင်တင်လှိုင် မတင်မာကြည်တို့အလှူ ကြွအလာ စာရေးသူ က လျှောက်ထားရာ -

"တပည့်တော်ကိုတော့ အဲသလို မမိန့်ဖူးပါဘူး၊ ခတက္ကန်ပြောင်းဆန်က ပြောင်းပြန် စီးဦးမှာ" ဟုသာ မိန့်ဖူးကြောင်း ဆရာတော်က မိန့်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇၅

မိုးညှင်းဆရာတော် ဘုရားကြီး၏ ဆိုလိုရင်းမှာ မိုးညှင်း တစ်ခေတ်လုံး ခတက္ကန်သည် ခြောက်သွေ့ ရှားပါး လူသိမများသော တောရွာလေးသာ ဖြစ်ခဲ့သည်။ ကျောက်ငရုတ်ဆုံ လုပ်ငန်းဖြင့် ခတက္ကန်သည် ပေါ်လွင်သလောက်တော့ ပေါ်လွင်ပါ၏။ သို့သော် တစ်ချိန်က ပြောင်းဆန် သဘောမျိုး။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇၅

ယခုအချိန်၌မူ ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီးကို အမှီပြု၍ မုံရွာမြို့သည် ကမ္ဘာက အသိအမှတ်ပြု လာရဘိသို့ ခတက္ကန်ရွာသည်လည်း ဗောဓိတစ်ထောင်ဆရာတော်၏ တန်ခိုး ရှိန်ဝါ အဖြာဖြာကြောင့် တစ်နိုင်ငံလုံးက အသိအမှတ် ပြုလာရချေပြီ။ ယခုအချိန်၌ ခတက္ကန်ရွာသည် စည်စည်ကားကား စီးစီးပိုင်ပိုင် တစ်နိုင်ငံလုံး၏ အားထားရာ မဏ္ဍိုင်ကြီး ဖြစ်နေပါတော့ သည်။

http://www.dhammadownload.com



ယနေ့အခြေအနေကို ကြိုတင်၍ မြင်တော်မူသော ပညာရှိ ကဝိတစ်ဆူ သူတော်သူမြတ် မိုးညှင်း ဆရာတော် မဟာထေရ်မြတ်ကြီးက ခေတ္တကန့်ပြောင်းဆန်က ပြောင်းပြန်စီးဦးမှာဟူ၍ မိန့်တော်မူခဲ့ဟန်တူသည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၇၅

**ဗုဒ္ဓကသိုဏ်း ရှုပုံ**

(က) မိမိအကြိုက်ဆုံး အကြည်ညိုဆုံး ဘုရားပုံတော် တစ်ပုံပုံကို ရွေးချယ်၍ စူးစူးစိုက်စိုက် ကြည့်ကောင်းရုံမျှ ထောင်ထားပါ။

(ခ) ဘုရားဂုဏ်တော် ၉ ပါး အနက်မှ မိမိကြိုက်ရာ ဂုဏ်တော် တစ်ပါးကို ရွေးချယ်၍ ပုတီး စိပ်ပါ။

(ဂ) ပုတီးစိပ်လျှင် ဘုရားပုံတော်ကို မျက်တောင်မခတ် စူးစူးစိုက်စိုက် ရှုပါ၊ ကြည့်ပါ။

(ဃ) မျက်တောင်မခတ်ဘဲ ကြာကြာ ရှုကြည့်နိုင်လေ၊ တရားသား တက်လေပင် ဖြစ်သည်။ ဤသည်ပင်လျှင် ဗုဒ္ဓကသိုဏ်းရှုနည်း ဖြစ်လေတော့သတည်း။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈၃

၁။ နိဗ္ဗာန်လိုလျှင် ဂုဏ်တော်ပင် တွင်တွင် ပွားရမည်။
၂။ စိတ်ကြည်လိုလျှင် ဂုဏ်တော်ပင် တွင်တွင် ပွားရမည်။
၃။ အောင်မြင်လိုလျှင် ဂုဏ်တော်ပင် တွင်တွင် ပွားရမည်။
၄။ ဉာဏ်ကြီးလိုလျှင် ဂုဏ်တော်ပင် တွင်တွင် ပွားရမည်။
၅။ ချမ်းသာ စီးပွား များပြားလိုလျှင် ဂုဏ်တော်ပင် တွင်တွင် ပွားရမည်။
၆။ အပူခပ်သိမ်း အေးငြိမ်းလိုလျှင် ဂုဏ်တော်ပင် တွင်တွင် ပွားရမည်။
၇။ ဘေးရန်ခပ်သိမ်း ကင်းငြိမ်းလိုလျှင် ဂုဏ်တော်ပင် တွင်တွင် ပွားရမည်။
၈။ အဆင်းရူပ၊ ရှုမဝအောင် လှပလိုလျှင် ဂုဏ်တော်ပင် တွင်တွင် ပွားရမည်။
၉။ ရုပ်လက္ခဏာ အင်္ဂါကုံလုံ ပြည့်စုံလိုလျှင် ဂုဏ်တော်ပင် တွင်တွင် ပွားရမည်။
၁၀။ မျိုးနွယ်ဟိတ်ဇာတ် မြင့်မြတ်လိုလျှင် ဂုဏ်တော်ပင် တွင်တွင် ပွားရမည်။
၁၁။ ဘိညာဉ်တန်ခိုး ဈာန်မျိုး ရှစ်ဝ ရလိုပလျှင် ဂုဏ်တော်ပင် တွင်တွင် ပွားရမည်။
၁၂။ ရှိသေခယ ခံလိုကလျှင် ဂုဏ်တော်ပင် တွင်တွင် ပွားရမည်။
၁၃။ စိတ်လိုဆန္ဒ ပြည့်ဝလိုလျှင် ဂုဏ်တော်ပင် တွင်တွင် ပွားရမည်။
၁၄။ လူနတ်ဦးခိုက် စေတီထိုက်လို ဂုဏ်တော်ကို ပိုမို ပွားရမည်။
၁၅။ သူများစိတ်ကြဲ အမှန်သိလို ဂုဏ်တော်ကို ပိုမို ပွားရမည်။
၁၆။ ပစ္စည်းဥစ္စာ ရတနာ ရွှေငွေ မလျော့စေလို ဂုဏ်တော်ကို ပိုမို ပွားရမည်။
၁၇။ ဗုဒ္ဓါနုဿတိ ပွားလုံ့ဘိ သိရှိလာလိမ့်မည်။

ကျမ်းကိုး၊ ယင်းကျမ်း၊ စာ-၁၈၉

ထူးထူးခြားခြားမှတ်မိသည်မှာ ဦးခေါင်းတော်ကြီး ကိစ္စဖြစ်ပါသည်။

**ထူးဆန်းသော ဦးခေါင်းတော်**

ဆရာတော်ကြီးက ဒီဦးခေါင်းတော်ကြီးကို ဒီနှစ်အတွင်းပြီးအောင်လုပ်ရမယ်လို့ မိန့်တော်မူတယ်။ ဖိုင်ဘာပညာရှင်က အချိန်ယူပြီး နှစ်နှစ်လောက်ခွင့်တောင်းတာ ဆရာတော်ကြီး ကခွင့်မပြုဘူး။

http://www.dhammadownload.com



**စန္ဒာဝန်ချတော်မူခြင်း**

အေဒီ ၂၀၀၆ မဟာဗောဓိတစ်ထောင် ဆရာတော်ဘုရားကြီး ဘဒ္ဒန္တ နာရဒ မဟာထေရ်မြတ်သည် ၁၃၆၈ ခုနှစ် နတ်တော်လဆန်း ၃ ရက် ( ၂၀၀၆ ခု နိုဝင်ဘာလ ၂၂ ရက်) ဗုဒ္ဓဟူးနေ့ မွန်းလွဲ ၁၂ နာရီ ၂၅ မိနစ်အချိန်တွင် ဘဝနတ်ထံပျံလွန်တော်မူခဲ့ရှာသည်။

ဆရာတော်ဘုရားကြီး ပျံလွန်တော်မူချိန်၌ သက်တော် ၇၆ နှစ်၊ သိက္ခာတော် ၅၆ ဝါ ရှိပြီ ဖြစ်ပါသည်။

**မီးပုံထဲက ဓာတ်ပုံ**

ဆရာတော်ကြီးပျံလွန်တော်မမူမီ လိုအပ်သည်များကို စီကာပတ်ကုံးမှာကြားသွားခဲ့သည်။ ကြွင်းကျန်ရစ်သော ဥတုဇရုပ်ကလာပ်တော်ကို နတ်တော်လဆန်း ၉ ရက်နေ့၊ ညနေ ၄ နာရီအချိန်တွင် စတင်မီးသဂြိုဟ်သည်။ မီးသဂြိုဟ်၍ ၂ နာရီ ၂၀ မိနစ်ကြာမှ ဓာတ်ပုံရိုက်ကူးရာ ထူးခြားစွာ ဓာတ်ပုံထဲတွင် ဆရာတော်ကြီး၏ ပုံတော်ပေါ်လာသည်။

**ရောင်စုံထွက်**

လောင်တိုက်ပြာသာဒ်မှလည်း အရောင်မျိုးစုံထွက်နေသည်ကို ဖူးတွေ့ကြရသည်။ မီးသဂြိုဟ်ပြီးသည့်အချိန်မှာ ညနေ ၆ နာရီ မိနစ် ၄၅ မိနစ်ရှိပြီဖြစ်သည်။

**သွားတော်၊ သွေးတော်များ ကျန်**

ဆရာတော်ကြီး၏ အရိုးပြာများကို ကောက်ယူကြရာ မီးလောင်ကျွမ်းပြီး ပြာမဖြစ်သော ဆရာတော်ကြီး၏ သွားတော်၊ သွေးတော်များ ကျန်ရစ်ခဲ့လေသည်။ ၎င်းတို့ကို အများပူဇော်ရန် အလို့ငှာ အရိုးစေတီ တည်ထားလေသည်။

**တောကျီးကန်းတစ်အုပ် ယော်ယော်တေုန်းကလိုပဲ**

အေဒီ ၂၀၀၆ ဆရာတော်ဘုရား၏ ရုပ်ကလာပ်တော်ကို ၁၃၆၈ ခု နတ်တော်လဆန်း ၉ရက်နေ့ ညနေ ၄ နာရီတွင် စီစဉ်ထားသော လောင်တိုက်စင်တွင် ဓာတ်ငွေ့ဖြင့် မီးစတင်သဂြိုဟ်ရာ ကျီးကန်းတစ်အုပ် ကောင်းကင်တွင် ဆူညံစွာ ပျံဝဲသွားသည်ဟု ထူးခြားပါ၏။

**သက်န်းရှဲလျက် ပေါ်လာ**

မီးစတင်သဂြိုဟ်နေစဉ် (၂) နာရီ (၂၀) မိနစ်ကြာသောအချိန်တွင် လောင်တိုက်ပေါ်ရှိ အရိုးပြာခံဇလားကို မြေပြင်မှ ဓာတ်ပုံရိုက်ရာ ဆရာတော်ဘုရား၏ ပုံတော်တစ်ပိုင်း သက်န်းရုံ လျက် ဖူးတွေ့ရသည်မှာ အံ့ဖွယ်ဖြစ်ရပ်ပင်။

**အလင်းတန်းတွေပေါ်**

(၂) နာရီ (၃၆) မိနစ် အကြာတွင် လောင်တိုက်တော်ကို မြေပြင်မှ ဓာတ်ပုံရိုက်ကြည့်သည့်အခါ ဓာတ်ပုံတွင် ထူးထူးခြားခြား အလင်းတန်းများပေါ်နေသည်မှာလည်း အံ့ဖွယ်ဖြစ်ရပ်များ ဖြစ်ပါသည်။

**အံတော်နှစ်ဆူ ကျန်ခဲ့**

မွေးရာပါ အံတော်ပွားနှစ်ဆူမှာ လုံးဝ မီးမခဘဲ ကျန်ရစ်ခဲ့သည်မှာလည်း ထူးခြားသော ဖြစ်ရပ်ပင် ဖြစ်ပါသည်။

ကျမ်းကိုး၊ ယင်းကျမ်း စာ ၆၇

http://www.dhammadownload.com



ဓာတ်တော်ကျတော်မူသော

ကချင်ပြည်နယ်၊ မိုးညှင်းမြို့နယ်၊ နမ္မားဒေသ၊ ကြာကြီးကွင်းရွာသား ရဟန္တာ

# ညောင်ပင်သာ ဆရာတော် ဘဒ္ဒန္တနာဂိန္ဒ

၁၉၃၀ – ၂၀၀၈



http://www.dhammadownload.com



**တည်နေရာ**

ညောင်ပင်သာရွာသည် ဟိုပင်မြို့နှင့် နှစ်မိုင် ဝေးပါသည်။

**ဇာတိနှင့် မွေးသက္ကရာဇ်**

အေဒီ ၁၉၃၀ — ဓာတ်တော်ကျသော ညောင်ပင်သာဆရာတော် ဘဒ္ဒန္တနာဂိန္ဒကို ကချင်ပြည်နယ် မိုးညှင်းမြို့နယ်၊ နမွားဒေသ၊ ကြာကြီးကွင်းကျေးရွာ၌ ၁၂၉၂ ခုနှစ် ဝါခေါင်လဆန်း ၂ ရက်၊ စနေနေ့တွင် ဖွားမြင်တော်မူခဲ့ပါသည်။ ငယ်နာမည် မောင်ထွန်းရှိန် ဖြစ်ပါသည်။

ကျမ်းကိုး၊ စွဲ့ကြုကြုအေး မြတ်မင်္ဂလာ၊ အတွဲ ၂၅၊ အမှတ် ၄၊ ၂၀၀၉ခုနှစ် အောက်တိုဘာလ၊ စာ ၁၈။

**ရှင်သာမဏေဘဝ**

အခြေခံပညာကို ညောင်ပင်သာကျောင်း ဆရာတော် ဦးပညာစက္ကထံတွင် သင်ကြားခဲ့၏။ ထို့နောက် ဦးပညာစက္ကထံ ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေဘဝသို့ ရောက်ရှိခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၁၈။

**သူရင်းငှား ဘဝ**

၃ ဝါအရတွင် မိဘများ ကွယ်လွန်သွားသဖြင့် လူထွက်ခဲ့သည်။ မောင်ထွန်းရှိန်သည် စားဝတ်နေရေးအတွက် သူရင်းငှားဘဝဖြင့် နေထိုင်ခဲ့သည်။ ရောက်ရာဘဝ၊ ဖြစ်ရာဘဝတွင် တာဝန်ကျေပွန်စွာ လုပ်ကိုင်၍ လုပ်ငန်းရှင်များ၏ အားရကျေနပ်မှုကိုလည်း ခံခဲ့ရသည်။

ကျမ်းကိုး၊ ယင်းစာ ၁၈။

အေဒီ ၁၉၅၁ — ၁၃၁၃ ခုနှစ် ဟိုပင်မြို့နယ်ခွဲ၊ တစ်ကွင်းကျေးရွာမှ ဒါယိကာမကြီး ဒေါ်ပွင့်၏ ပစ္စယာနုဂ္ဂဟဖြင့် ရဟန်းအဖြစ်သို့ ရောက်ရှိခဲ့သည်။ ထို့နောက် ညောင်ပင်သာကျေးရွာသူ ကျေးရွာသားများ၏ ပင့်လျှောက်ချက်အရ ညောင်ပင်သာကျောင်းသို့ ကြွရောက်ပြီး ကျောင်းထိုင်တော်မူသည်။

ကျမ်းကိုး၊ ယင်းစာ ၁၈။

**ဆရာတော့်ဓလေ့**

ဆရာတော်သည် ရဟန်းအဖြစ်သို့ ရောက်ရှိပြီး ကျောင်းထိုင်သည်မှ စ၍ ရဟန်းဝိနည်းနှင့်ညီအောင် ထိန်းသိမ်းနေထိုင်တော်မူကာ ဘာဝနာကိုသာ အဓိကထား၍ ပွားများကျင့်ကြံအားထုတ်ခဲ့ပါသည်။ စကားများများ မပြောပေ။

ကျမ်းကိုး၊ ယင်းစာ ၁၈။

**အနာဂါမ်ဆရာသက်ကြီး မူအတိုင်း ကျင့်ခဲ့**

ဆရာတော်သည် နေ့စဉ်ဘုရားဝတ်ပြုခြင်းကို ၃ နာရီကြာမျှ ဆောင်ရွက်လေ့ရှိသည်။ နံနက် ၃ နာရီအချိန်မှန် ထပြီး တရားရှုမှတ်တော်မူသည်။ ဆရာတော် ဘဒ္ဒန္တနာဂိန္ဒသည် ပထမ မိုးကုတ် (ဝိပဿနာ) ကို ကျင့်ကြံအားထုတ်တော်မူပြီး နောက်ပိုင်းတွင် အနာဂါမ်ဆရာသက်ကြီးမူ (လယ်တီမူ)ကို ပွားများအားထုတ်တော်မူပါသည်။

ကျမ်းကိုး၊ ယင်းစာ ၁၈။

**ဈာန်မပျံနေသည်ကို တွေ့ဖူးသူများ ရှိခဲ့**

မြက်ရိတ်ရင်း၊ စပါးရိတ်ရင်း၊ ကောက်စိုက်ရင်း၊ ယာခင်း သွားရင်းဖြင့် ဆရာတော် ဈာန်ကြွနေမှုများကို မကြာခဏဆိုသလို ဖူးတွေ့ခဲ့ကြရသည်။

http://www.dhammadownload.com



**ရဟန္တာဆိုပြီး လာဖူးကြ**

ဤသို့ ဆရာတော်၏ ဂုဏ်သတင်းကြောင့် မြို့နယ်၊ ကျေးရွာများမှ ဆရာတော်အား ရဟန္တာဟု သမုတ်ကြပြီး လာရောက်ဖူးတွေ့ကြသည်။ ဆရာတော်က ရဟန္တာမဟုတ်ကြောင်း ငြင်းဆို၍ မလာကြရန် မိန့်သည်။

ကျမ်းကိုး၊ ယင်းစာ ၁၈။

**(၄၂) နှစ်တိုင်တိုင် သာသနာပြု**

အေဒီ ၁၉၆၅ ညောင်ပင်သာကျောင်း၌ ၁၃၂၇ ခုနှစ်မှစ၍ ၁၃၆၉ ခုနှစ်အထိ ၄၂ နှစ်တိုင်တိုင် သာသနာပြု သီတင်းသုံးနေထိုင်ခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၁၈။

**ပျားအုံကြီး ၃၅ အုံ သုံးနှစ်တိတိ**

ဆရာတော်၏ ကျောင်းကြီးပေါ်တွင် ပျားအုံ ၃၅ အုံ၊ ၃ နှစ်တိတိ လာရောက်စွဲခဲ့၏။ ထူးဆန်းသောဖြစ်ရပ်ဟု အသိအမှတ်ပြုကြ၏။

ကျမ်းကိုး၊ ယင်းစာ ၁၈။

**မြွေလာဖူးသတဲ့**

မြွေကြီးတစ်ကောင်လည်း လာဖူးသည်ဟု သိရသည်။

ကျမ်းကိုး၊ ယင်းစာ ၁၈။

**ဆေးမစား**

ဆရာတော် ကျန်းမာရေး ချို့ယွင်းလာသောအခါ ဒကာ ဒကာမများက ဆေးထိုးဆေးစားရန် လျှောက်၏။ သို့သော် ဆရာတော်က လုံး၀ လက်မခံပေ။

ကျမ်းကိုး၊ ယင်းစာ ၁၈။

**ခန္ဓာဝန်ချတော်မူခြင်း**

အေဒီ ၂၀၀၇ ၁၃၆၉ ခုနှစ် တပို့တွဲလဆန်း ၉ ရက် ည ၁၀ နာရီ ၃၀ မိနစ်အချိန် သက်တော် ၇၈၊ ဝါတော် ၅၆ ဝါအရတွင် ခန္ဓာဇာတ်ရုပ်သိမ်းတော်မူခဲ့ပါသည်။

ကျမ်းကိုး၊ ယင်းစာ ၁၈။

**ကလီစာများ မြေမြှုပ်ခဲ့ကြ**

ဆရာတော် ပျံလွန်တော်မူပြီးနောက် ဝမ်းတွင်းကလီစာများကို ယာယီစံကျောင်းတော် ကျောင်းအောက်၌ အိတ်တစ်လုံးနှင့် ထည့်ပြီး မြှုပ်နှံထားခဲ့ကြသည်။

**(၅) လ ကြာသောအခါ ပြန်ဖော်ကြည့်**

၅ လမျှကြာသော် ဝန်းသိုမြို့နယ် ပရိယတ္တိ စာသင်တိုက် တိုက်အုပ်ဆရာတော် ဦးခေမာက လာပြီး အိုးထဲထည့်၍မြှုပ်ရန် မိန့်သဖြင့် ဝါဆိုလပြည့်နေ့တွင် ပြန်ဖော်ကြည့်ရာ ပကတိ အတိုင်း လတ်ဆတ်စွာ မပုပ်မသိုး နီရဲသော အသွေးအရောင်တို့ဖြင့် ဝမ်းတွင်းကလီစာများကို တွေ့ရလေသည်။

ကျမ်းကိုး၊ ယင်းစာ ၁၉။

**မပုပ်မသိုးသော ရုပ်ကလာပ်တော်ကို ပြန်လည်ဖူးမြော်ကြရ**

နိဗ္ဗာန်ကျောင်းတော်၌ ပူဇော်ထားသော ဆရာတော်၏ ရုပ်ကလာပ်တော်သည်လည်း အပုပ်နံ့ ကင်းလျက် နံ့သာနံ့သင်းစွာ မွှေးကြိုင်နေသည်ကို အံ့သြစွာ တွေ့ရှိကြရသည်။

ကျမ်းကိုး၊ ယင်းစာ ၁၉။

http://www.dhammadownload.com



**ကလီစာများကို ပြန်လည်၍ မီးသင်္ဂြိုဟ်**

ဆရာတော်၏ ကလီစာများအား ၁၃၇၀ ပြည့်နှစ်၊ တပို့တွဲလဆုတ် ၃ ရက်၊ ည ၇ နာရီ အချိန်တွင် မီးသင်္ဂြိုဟ်ရာ နောက်နေ့ နေ့လယ် ၁ နာရီထိ မီးမငြိမ်းနိုင်၍ ရေလောင်းပြီး ငြိမ်းသတ် ကြရ၏။

ကျမ်းကိုး၊ ယင်းစာ ၁၉။

**ကလီစာများ ဓာတ်တော်အဖြစ် ပြောင်းလဲခဲ့**

ကလီစာများသည် ပြာမကျဘဲ အညိုနုရောင် အညိုရင့်ရောင် ရွှေဝါရောင် ဓာတ်တော်များ အဖြစ် ပြောင်းလဲကွန့်မြူးနေပါသည်။

ကျမ်းကိုး၊ ယင်းစာ ၁၉။

**ဓာတ်တော်များ တဖွားဖွားကျ**

ထို့အတူ ရုပ်ကလာပ်တော်မှာလည်း အပြာနုရောင် အပြာရင့်ရောင် စိမ်းပြာရောင် လိမ္မော်ရောင် ဓာတ်တော်များ ကြွင်းသည်ကို အံ့ဩဖွယ်ကောင်းစွာ ဖူးတွေ့ကြရပါသည်။

ကျမ်းကိုး၊ ယင်းစာ ၁၈။

**ဓာတ်တော်များ ပွား၍ ပွား၍ လာ**

ဓာတ်တော်များအား လာဖူးသူများက တောင်း၍ပေးလျှင် ဓာတ်တော်များသည် ပြန်ပွားနေသည်ကို အံ့ဩစွာ ဖူးတွေ့ရသည်ဟု မှတ်တမ်းတွေ့ရပါသည်။ ကိုယ်တွေ့ကြုံသူ ဓမ္မမိတ်ဆွေ သုတေသီတို့၏ ကောင်းမှုကြောင့် သိရခြင်းဖြစ်ပါသည်။

ကျမ်းကိုး၊ စွဲကြူကြူအေး၊ မြတ်မင်္ဂလာ၊ အတွဲ ၂၅၊ အမှတ် ၄၊ ၂၀၀၉ခုနှစ် အောက်တိုဘာလ၊ စာ ၁၈။

http://www.dhammadownload.com



မာတ်တော်များ တဖွားဖွားကျတော်မူသော

စစ်ကိုင်းတိုင်း၊ ဝန်းသိုမြို့နယ်၊ ကွေ့ကြီးရွာ ကျွန်းတောကုန်းတိုက်

# ကင်းကျောင်းဆရာတော် ဘဒ္ဒန္တမေဃိယ

၁၉၃၂ – ၂၀၀၆



http://www.dhammadownload.com



စာတ်တော်ကျတော်မူသည်ကို သိရသောအခါမှ ရဟန္တာဖြစ်မှန်းသိရှိရ၍ ကျွန်ုပ်တို့မှာ အခါနှောင်းမှ ကြည်ညိုခွင့်ရသဖြင့် များစွာဝမ်းနည်းဖွယ်ရာ ဖြစ်ပါသည်။

ဤသို့သော ရဟန္တာအရှင်မြတ်များသည် မြန်မာနိုင်ငံ တောင်ပေါ်မြေအောက်မကျန် အနှံ့အပြားတွင် ရှိနေတော်မူသည်ကို ခန္ဓာဝန်မချခင်သိခွင့်ရခြင်းသည် သာသနာ့အမွေကြီးဖြစ်သဖြင့် ကိုယ်သို့သိကြရလေအောင် ရဟန္တာအဆူဆူကို ဤကျမ်းပြုသူက ရှာဖွေစုဆောင်းမှတ်တမ်းတင်ခြင်းသည် သာသနာတော်ကြီးကို ကျေးဇူးဆပ်ခြင်းဖြစ်ပါသည်။

ကျွန်ုပ်တို့နိုင်ငံတွင် ပဌမသင်္ဂါယနာ တင်ခဲ့သည်။ တစ်ဖန် ဆဋ္ဌသင်္ဂါယနာတင်တော်မူခဲ့သည်။ ရဟန္တာ ၁၀၀၀ အလင်းဆောင်၍ သတ္တမသင်္ဂါယနာတင်အံ့သော အကြောင်းတရားကြီး ရှိနေပါသေးသည်။ ကြိုတင်စုဆောင်းကြပါလော့။ ကြည်ညို ကြပါလော။ အားထုတ်ကြပါလော့ဟု တိုက်တွန်းလို၍ ဤစာကို ပြုစုပါသည်။

**စာတ်တော်ကျမှ ရဟန္တာမှန်း သိခဲ့ရသော ဆရာတော်ကြီး၏ ဇာတိ**

စာတ်တော်ကျသောအခါမှာ အခါနှောင်းစွာ ရဟန္တာဟုသိခွင့်ရသော ဆရာတော်လောင်းလျာ မွေးဖွားခဲ့သော ဒေသသည် ဝန်းသိုမြို့နှင့် ၇ မိုင်ခန့် ကွာဝေးသည့် ကျွန်းတောကုန်းတိုက် ငွေကြီးရွာပင် ဖြစ်သည်။

> ကျမ်းကိုး။ ကောင်းကင်ပြာ မိဿလင်ဂျင်း၊ စာတ်တော်ကျသော ကင်းကျောင်းဆရာတော်၊ မြတ်မင်္ဂလာမဂ္ဂဇင်း၊ အတွဲ ၂၄၊ အမှတ် ၁၊ ၂၀၀၈ခုနှစ် ဇူလိုင်လ၊ စာ ၁၆။

**တည်ရာဌာန လမ်းညွှန်**

ငွေကြီးရွာသည် ကင်းဘူတာနှင့် ဂျိုးတောင်ဘူတာကြား မီးရထားလမ်းဘေးတွင် ရှိသည်။ အိမ်ခြေ ၁၀ အိမ်ခန့်သာ ရှိသည်။

> ကျမ်းကိုး၊ ယင်းစာ ၁၆

**အိမ် (၁၀) လုံးမျှသာ ရှိသော ရွာကထွက်သည့် ရဟန္တာ အံ့ဖွယ်သာသနာတော်ကြီး** အလွန်အလွန့်ကို အံ့ဩထူးဆန်းဖွယ်ရာ သာသနာတော်ကြီး ဖြစ်ပါသည်။ အိမ် ၁၀ အိမ်လောက်သာရှိသော မြေပြန့်မဟုတ်သော တောင်ပေါ်ရွာကလေးတစ်ရွာက ပေါ်ပွင့်လာသော ရဟန္တာကြီး ဖြစ်လေသည်။

**ဇာတိ**

အေဒီ ၁၉၃၂ — ဆရာတော်လောင်းလျာကို ခမည်းတော် ဦးစီ၊ မယ်တော် ဒေါ်ညွန့်တို့က ၁၂၉၄ ခု တပို့တွဲ လဆန်း ၈ ရက်၊ ကြာသပတေးနေ့တွင် ဖွားမြင်တော်မူသည်။ ဆရာတော်၏ မိဘများမှာ ငယ်စဉ်ကပင် ကွယ်လွန်ကြောင်း သိရသည်။

**ရှင်သာမဏေဘဝ**

အေဒီ ၁၉၄၅ — အသက် ၁၃ နှစ်အရွယ်တွင် ဘကြီးဖြစ်သူ ဦးကျန်၊ ဒေါ်စောတင်တို့၏ ပစ္စယာနုဂ္ဂဟဖြင့် လေ့ကြီးကုန်းကျောင်းဆရာတော် ဦးဆိုင်ကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေအဖြစ်သို့ ရောက်ရှိသည်။ ဘွဲ့တော်မှာ ရှင်မေဃိယ ဖြစ်သည်။

> ကျမ်းကိုး၊ ယင်းစာ ၁၆။

**စာသင်သားဘဝ**

အေဒီ ၁၉၄၈ — ဆရာတော်သည် လေ့ကြီးကုန်းကျောင်း၌ ရှင်သာမဏေဘဝဖြင့် ၃ ဝါတိတိ ပရိယတ်စာပေ သင်ယူခဲ့သည်။

http://www.dhammadownload.com



**ခေတ်တော်ကျသော ဝန်းသိုမြို့ ခန္တီးဆရာတော်ကြီး စာသင်တိုက်မှာ ရဟန်းဘဝ**

ထို့နောက် ဝန်းသိုမြို့ ခန္တီးစာသင်တိုက်၌ စာပေသင်ကြားနေစဉ် ဘကြီးဖြစ်သူ ဦးကျန်၊ ဒေါ်စောတင်တို့ မိသားစုကပင် ပစ္စည်းလေးပါးဒကာခံ၍ တောင်ဘို့လှကျောင်းဆရာတော် ဦးစိတ္တကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

ကျမ်းကိုး၊ ယင်းစာ ၁၆။

**မန္တလေးမှာ စာသင်ခဲ့**

ဆရာတော် အရှင်မေဃိယသည် မန္တလေးမြို့ ဘုရားကြီးတိုက်နှင့် ရန်ကုန်မြို့ရှိ ညောင်တုန်းတိုက်၊ ပစ္ဆိမာရုံတိုက် ရွှေဟင်္သာတိုက်သစ်တို့တွင် ပရိယတ္တိစာပေများကို သင်ယူဆည်းပူးခဲ့သည်။ အစိုးရဓမ္မာစရိယဘွဲ့ကို ရရှိတော်မူခဲ့သည်။

ကျမ်းကိုး၊ ယင်းစာ ၁၆။

**ကင်း ပဝါရဏာဂိုဏ်း**

အေဒီ ၁၉၈၄

ဆရာတော်သည် ရန်ကုန်မြို့၊ ရွှေဟင်္သာတိုက်သစ်၌ စာပေများပို့ချနေစဉ် ဝန်းသိုမြို့နယ်၊ ကင်း ပဝါရဏာဂိုဏ်း ဆရာတော်များ၏ ပင့်လျှောက်ချက်များအရ ၁၃၄၆ ခုနှစ်၊ နယုန်လတွင် ကင်းကြိမ်ဖူးကုန်းကျောင်းသို့ ကြွရောက်ပြီး ကျောင်းထိုင်တော်မူသည်။

ကျမ်းကိုး၊ ယင်းစာ ၁၇။

**နှစ်နာရီကြာအောင် ဘုရားရှိခိုး**

ဆရာတော်သည် နေ့စဉ် ဘုရားဝတ်ပြုခြင်းကို ၂ နာရီကြာမျှ ဆောင်ရွက်လေ့ရှိသည်။

**နံနက် (၃) နာရီမှာ တရားမှတ်**

နံနက် ၃ နာရီ ပုံမှန် အိပ်ရာကထပြီး တရားရှုမှတ်တော်မူသည်။

**တံမြက်စည်းလှည်းသော ဓလေ့**

အရုဏ်တက်ချိန်တွင် ယာဂုဘုဉ်းပေးပြီး ကျောင်းဝင်းအတွင်း တံမြက်စည်း လှည်းလေ့ရှိသည်။

**သူများကို မခိုင်း**

တစ်ပါးသူအား တာဝန်ပေးခြင်း၊ စေခိုင်းခြင်း အလွန်နည်းလှသည်။ ကျောင်းဝင်းအတွင်း ညို့မှိုင်းအုပ်ဆိုင်းနေသော သစ်ပင်ကြီးများရှိသော်လည်း ခုတ်လှဲခြင်းမပြုရပေ။

ကျမ်းကိုး၊ ယင်းစာ ၁၇။

**အုန်းပင်မှ အုန်းတံဖြင့် တံမြက်စည်းရက်**

ဆရာတော်သည် ကျောင်းဝင်းအတွင်းရှိ အုန်းပင်များမှအုန်းလက်များကို အုန်းတံမြက်စည်းရက်၍ အခြားကျောင်းများသို့ ပေးလှူလေ့ရှိသည်။ တံမြက်စည်းရက်ရာတွင် အုန်းတံ ၅၂၈ ပင်ဖြင့်ရက်သည်။

**မေတ္တာဝါဒီ**

သတ္တဝါများအား မေတ္တာဖြင့်လွှမ်းခြုံကာ မေတ္တာစာတ်ကို အမြဲပို့လွှတ်တော်မူသည်။ မေတ္တာသည် အေးမြခြင်းသဘောကို ဆောင်သည်ဟု အမြဲမိန့်ဆိုလေ့ရှိသည်။

ကျမ်းကိုး၊ ယင်းစာ ၁၇။

**လမ်းပြင်၊ ဘုရားတည်၊ ကန်တူး**

ဆရာတော်သည် ကျေးရွာနှင့် တိုက်နယ်အတွင်း ဘုရားတည်ခြင်း၊ လမ်းပြင်ခြင်း၊ ကန်တူးဖော်ခြင်း စသည့် ဆောင်ရွက်ဖွယ်လုပ်ငန်းများကို သဒ္ဓါတရားထက်သန်စွာ ဂိုဏ်းသံဃာများနှင့် အတူ ဆောင်ရွက်တော်မူသည်။

ကျမ်းကိုး၊ ယင်းစာ ၁၇။

http://www.dhammadownload.com



**သေခြင်းတရား**

တစ်နေ့ ဆရာတော် ကျန်းမာရေးမကောင်းစဉ် ကျေးရွာရှိ ဒကာ ဒကာမများသည် ဆရာတော်အား နေ့ ညမပြတ် အနီးကပ်ပြုစုကြသည်။ ထိုစဉ် ဘုရားခန်းရှေ့၌ ဆီမီးများ၊ သောက်တော်ရေများ ကပ်လှူ၍ ဆရာတော့်အတွက် ရည်မှန်းပြုလုပ်နေသည်ကို မြင်လျှင် "ဘာတွေလုပ်နေကြတာလဲ။ သေချိန်မရောက်သေးလို့ မသေသေးတာ၊ သေချိန်ရောက်ရင် ဘာတွေလုပ်လုပ် ဘယ်လိုကုကု ဘာနဲ့တားတား သေမှာပဲ" ဟု လက်တွေ့တရားပြ မိန့်ကြားတော်မူသည်။

ကျမ်းကိုး၊ ယင်းစာ ၁၇။

**ပရိနိဗ္ဗာန်ပြုတော်မူခြင်း**

အေဒီ ၂၀၀၆ — ဆရာတော်သည် သက်တော် ၇၄နှစ်၊ သိက္ခာတော် ၅၄ ဝါအရ ၁၃၆၈ ခုနှစ် နှောင်းတန်ခူးလပြည့်ကျော် ၁၃ ရက် စနေနေ့ နံနက် ၆ နာရီတွင် ဘဝနတ်ထံ ပျံလွန်တော်မူသည်။

ကျမ်းကိုး၊ ယင်းစာ ၁၇။

အေဒီ ၂၀၀၆ — ၁၃၆၉ ခုနှစ်၊ တပို့တွဲလဆန်း ၁၀ ရက်မှ ၁၂ ရက်အထိ ၃ရက်တိုင်တိုင် စည်ကားသိုက်မြိုက်စွာ ပူဇော်မှုအမျိုးမျိုးဖြင့် ပူဇော်ခဲ့ကြသည်။

**ထူးခြားသော ဈာပနပွဲ**

၁၂ ရက်နေ့ ညဥ္ဉ မီးပူဇော်ရာတွင် သပိတ်လုံးခန့် မီးလုံးကြီးတစ်လုံးသည် မြောက်ဘက်အရပ်ကြိမ်ချောင်းဆရာတော်ကြီးရှိရာသို့ ပျံတက်သွားသည်ကို အဂ္ဂိဈာပနပူဇော်ပွဲလာ ပရိသတ်အားလုံး ဝမ်းပန်းတသာဖူးမြင်ကြရသည်။

ဗီစီဒီခွေဖြင့်လည်း မှတ်တမ်းတင်ထားကြရသည်။
ကျမ်းကိုး၊ ယင်းစာ ၁၇ ကိုကြည့်။

**မီးမလောင်သော အံသွားနှစ်ဆူ**

မီးသဂြိုဟ်ပြီးစီး၍ အရိုးတော်ကောက်ချိန်တွင် မီးမလောင်သော အံသွား ၂ ဆူကို ဖူးတွေ့ကြရသည်။

ကျမ်းကိုး၊ ယင်းစာ ၁၈။

**ဓာတ်တော်များ တဖွားဖွားကျ**

မီးပူဇော်နေချိန်တွင် မိုးရွာသည်ထင်၍ လက်ဝါးဖြင့် ထိုးခံကြည့်ရာ အစိမ်းဖျော့ရောင်၊ အနီရောင်၊ ပုလဲရောင်ရှိသော မုန်ညင်းစေ့အရွယ် ဓာတ်တော်များကျလာကြောင်း သိရသည်။

ကျမ်းကိုး။ ပွဲဈေးတန်းမှ ကင်းကြိမ်ဖူးကုန်းရွာ ဦးအာဂျစ်၏သား (ရာဇာဝင်း၌ ပုဏ္ဏားလုပ်သည်) မောင်မောင်သည် တွေ့ရှိရသည်ဟု သိရပါသည်။
ယင်းစာ ၁၈။

**ဆံတော်များ စေတီပုံဖြစ်သွား**

ဆရာတော် သက်ရှိထင်ရှားရှိစဉ်က ပူဇော်ထားခဲ့သော ဆံတော်များသည်လည်း ပွားပြီး စေတီသဖွယ် တည်နေသည်ကို ဖူးတွေ့ပူဇော်ကြရသည်။

ကျမ်းကိုး။ ကောင်းကင်ပြာ မိဿလင်ဂျင်း၊ ဓာတ်တော်ကျသော ကင်းကျောင်းဆရာတော်၊ မြတ်မင်္ဂလာမဂ္ဂဇင်း အတွဲ ၂၄၊ အမှတ် ၁၊ ၂၀၀၈ခုနှစ် ဇူလိုင်လ၊ စာ ၁၆။

နလုံးတော်တွင် အောင် ဟူသော စကားလုံးနှင့်တကွ
ဓာတ်တော်များ တဖွားဖွား ကျတော်မူသော
ရောဝတီတိုင်း၊ မြန်အောင်မြို့နယ်၊ ကနောင်မြို့၊ အိုးဘိုအုပ်စု၊ ကွမ်းခြံကုန်းကျေးရွာ
ရဟန္တာ အရှင်မြတ်ကြီး

# ဘဒ္ဒန္တ ဝရသီဟ

## ၁၉၃၇ - ၂၀၀၇



http://www.dhammadownload.com



**တည်နေရာ**

ကနောင်မြို့၊ အိုးဘိုအုပ်စု ၊ ကွမ်းခြံကုန်းကျေးရွာတွင် သီတင်းသုံးနေထိုင်တော်မူခဲ့ပါသည်။

**ဇာတိရပ်ရွာ**

အေဒီ ၁၉၇၇

ဆရာတော်လောင်းလျာကို ဧရာဝတီတိုင်း၊ မြန်အောင်မြို့နယ်၊ ကနောင်မြို့၊ အိုးဘိုအုပ်စု ကွမ်းခြံကုန်း ကျေးရွာနေ ခမည်းတော် ဦးတင်လေး၊ မယ်တော် ဒေါ်သိန်းခင်တို့မှ ၁၂၉၉ ခုနှစ်၊ ဝါခေါင်လဆန်း (၁၀)ရက် ဗုဒ္ဓဟူးနေ့တွင် မီးရှူးသန့်စင် ဖွားမြင်တော်မူခဲ့ပါသည်။

**အိပ်မက်ထူး**

ဆရာတော်လောင်းလျာအား သန္ဓေရှိသောအချိန်၌ ခမည်းတော် ဦးတင်လေး၏ပါးစပ်ထဲ၌ အံပွားပေါက်လာပြီး "ငါလိုလူ ဖမ္ဗူရှိသေးလား" ဟု လက်သီးလက်မောင်း ထောင်၍ပြောခဲ့သည်ဟု အိပ်မက်,မက်ခဲ့ပါသည်။

**ငယ်မည် မောင်လှိုင်ဘွား**

မွေးချင်း (၉) ဦး ရှိသည့်အနက် ဆရာတော်လောင်းလျာသည် တတိယမြောက်အတိဇာတ သားရတနာဖြစ်ပြီး ငယ်နာမည်မှာ မောင်လှိုင်ဘွား ဖြစ်ပါသည်။

**ဘွဲ့တော် ရှင်ဝရသီဟ**

အေဒီ ၁၉၄၇

ဆရာတော်လောင်းလျာအား အသက်(၁၀)နှစ်အရွယ်တွင် ကနောင်မြို့၊ ကွမ်းခြံကုန်းကျောင်း ဆရာတော် ဦးကောဏ္ဍညကို ဥပဇ္ဈာယ်ပြု၍ မိဘနှစ်ပါး၏ ချီးမြှောက်မှုဖြင့် ရှင်သာမဏေ ဘဝသို့ ရောက်ရှိခဲ့ပြီး ဘွဲ့တော်မှာ ရှင်ဝရသီဟ ဖြစ်ပါသည်။

**ရဟန်းဘဝ အရှင် ဝရသီဟ**

ဟင်္သာတမြို့ လယ်တီကျောင်းတိုက် ခဏ္ဍသိမ်တော်မြတ်၌ လယ်တီကျောင်းတိုက် ဆရာတော် ဦးကဝိသေဋ္ဌကိုဥပဇ္ဈာယ်ပြု၍ ဟင်္သာတမြို့ ဒေါ်စိန်ကြည်ညီအစ်မတစ်စုတို့၏ ပစ္စယာနုဂ္ဂဟ ကိုခံယူလျက် မြင့်မြတ်သောရဟန်း အဖြစ်သို့ ရောက်ရှိခဲ့ပါသည်။

အရှင်ဝရသီဟသည် ဟင်္သာတမြို့၊ လယ်တီကျောင်းတိုက်မှ ဆရာတော်များဖြစ်ကြသော ဦးကဝိသေဋ္ဌ၊ ဦးခေမာဝုဓတို့ထံ၌ လည်းကောင်း၊ ညောင်တုန်းမြို့၊ ရွှေဟင်္သာတောရကျောင်း တိုက် ဆရာတော်များထံ၌လည်းကောင်း၊ ပထမငယ်၊ ပထမလတ်၊ ပထမကြီးတန်းများကို သင်ကြား အောင်မြင်ခဲ့ပါသည်။

**စျာန်ပျံနေသည်ကို မြင်ဖူးသူ ရှိ**

လွန်ခဲ့သော (၇)နှစ်ခန့်က ထိုရဟန်းတော်စျာန်ဖြင့်ကြွနေသည်ကို ဖူးမြော်ထိုက်သူများ ဖူးမြင်ခဲ့ ကြရသည်ဟု မှတ်တမ်းရှိပါသည်။

**ဒီမှာ ဟိုမှာ ကြွချီတင်ရောက်ရှိ**

နောက်တစ်ဖန် ထိုဆရာတော်ကို လမ်းခရီး၌ တွေ့မြင်ခဲ့ကြရသော်လည်း ရှေ့ခရီးတစ်နေရာ တွင် ကြိုတင်၍ ရောက်နေတတ်ကြောင်း အံ့ဩဖွယ်တွေ့ကြုံဖူးသူများ ရှိကြပါသည်။

**နတ်လမ်းပေါ်တွင် စျာန်ဖြင့်ကြွနေကြောင်း သတင်းထူး**

ထို့နောက် ကျောင်းဝင်းအတွင်း နတ်လမ်းအပေါ်ဘက်တွင် နံနက်(၄)နာရီခန့်အချိန်၌ စျာန် ဖြင့် ကြွနေသည်ကို ဖူးမြင်ခဲ့ရသူများ ရှိနေပါသည်။

**မယုံနဲ့ဟု ဆရာတော်ကိုယ်တိုင် မိန့်ကြားခဲ့**

ထိုထိုသော အကြောင်းများကို ကြားသိနေရ၍ ဆရာတော်၏ တပည့်ဖြစ်သူ ဦးဒီပါလောက,

http://www.dhammadownload.com



က လျှောက်ထားသောအခါ "ငါ့ကို မြှောက်နေတာ၊ အဲဒါတွေမယုံနဲ့" ဟု ပိတ်ပင်တားဆီးခဲ့ပါသည်။

**ကျမ်းပြုအကျော် မဟာဂန္ဓာရုံဆရာတော်ထံမှာ စာကူးဘဝ ခြောက်နှစ်**

ထို့နောက် ပခုက္ကူမြို့ မဟာ ဝိသုတာရာမတိုက်နှင့် အမရပူရမြို့ မဟာဂန္ဓာရုံကျောင်းတိုက်တို့တွင် အထက်တန်းပိဋကတ်စာပေများကိုသင်ကြားတော်မူခဲ့ပြီး ကျမ်းပြုအကျော် မဟာဂန္ဓာရုံ ဆရာတော်ကြီးအား ကျမ်းစာများ ရေးကူးပေးခြင်းဖြင့် (၆) နှစ်တာမျှ ကူညီတော်မူခဲ့ပါသည်။

**မြန်အောင်သို့ ပြန်ရောက်**

အေဒီ ၁၉၇၇ — ဆရာတော်သည် ၁၃၃၉ ခုနှစ်တွင် အမရပူရမြို့ မဟာဂန္ဓာရုံကျောင်းတိုက်မှ ပြန်လည်ကြွရောက်ပြီး မြန်အောင်မြို့နယ် ထူတောင်တန်းပေါ်ရှိ ဘုရားတောင်ကျောင်းတိုက်တွင် ရဟန်းသာမဏေများကို ပရိယတ္တိစာပေများ သင်ကြားပို့ချတော်မူခဲ့၏။

**ကနောင်မြို့မှာ သီတင်းသုံး**

အေဒီ ၁၉၈၁ — (၁၃၄၃) ခုနှစ်တွင် ကနောင်မြို့ ကွမ်းခြံကုန်းကျောင်းတိုက်၌ သာသနာ့တာဝန်များကို ထမ်းဆောင်ခဲ့ပါသည်။

**အိမ်မြှောင်များ၊ ကြွက်များ၊ ခွေးများကို နေ့စဉ် အစာကျွေး**

ဆရာတော်သည် ဆွမ်းဘုဉ်းပေးပြီးတိုင်း အိမ်မြှောင်များ၊ ကြွက်များ၊ ခွေးများ၊ ခိုများ စသည်တို့ကို နေ့စဉ် ထာဝရ ကျွေးပါသည်။

**ဆရာတော်ကြိုက်သော ဟင်း**

သူ၏ ဒကာ၊ ဒကာမများကိုလည်း ချဉ်ဟင်း၊ ဟင်းချို၊ ငါးပိချက်၊ ဟင်းရွက်ပြုတ်တို့ကိုသာ အဓိကထား၍ ဆွမ်းဟင်းအတွက် လှူဒါန်းစေပါသည်။

**နေမကောင်းလျှင် ပရိတ်ရွတ်ပေး**

နေမကောင်းသော လူမမာတို့အား ပရိတ်တရားတော်များ ရွတ်ဖတ်ပူဇော်ပေးလေ့ရှိခဲ့ပါသည်။

**(၃၂) လုံး ပုတီးစိပ်**

ဆရာတော်သည် နေ့စဉ် ပရိတ်ကြီး(၁၁)သုတ်ကို ရွတ်ဖတ်ပူဇော်ခြင်း၊ (၃၂)လုံးရှိသော ပုတီးစိပ်ခြင်း၊ ဆွမ်း၊ ရေချမ်း၊ ပန်းကပ်လှူခြင်း။

**ညစဉ် ဝိပဿနာ**

ညစဉ် ဝိပဿနာဘာဝနာ အားထုတ်ခြင်းတို့ကို မပျက်ကွက်ခဲ့ပါ။

**ဆရာတော် အားထုတ်သောနေရာများ**

ညအချိန် ကျိန်းစက်မှုအလွန်နည်းပါးပြီး ကျောင်းဝင်းအတွင်းရှိ ညောင်ပင်၊ ကံ့ကော်ပင်အောက်နှင့် ရေကန်အနီးတို့တွင် ဝိပဿနာ ဘာဝနာ အားထုတ်ခြင်းဖြင့်သာလျှင် အချိန်ကို ကုန်လွန်စေခဲ့ပါသည်။

**နောက်ဆုံးကန်တော့ခြင်းဟု ဆိုခြင်း**

အေဒီ ၂၀၀၇ — နတ်တော်လဆန်း (၁၃)ရက်နေ့ညတွင် ကနောင်မြို့၊ တောင်ကံဦးကျောင်းတိုက်၌ သီတင်းသုံးနေထိုင်တော်မူသော ဦးအဂ္ဂဝံသ (ဓမ္မာစရိယ) ဝိနယဝိဒူက ဆရာတော်ကြီးအား တရားဓမ္မများဖြင့် နောက်ဆုံးပူဇော်ကန်တော့ခဲ့ပါသည်။

http://www.dhammadownload.com



**လုံး၀ ဆေးကုမခံ**

ဆရာတော်သည် (၉)လတိုင်တိုင် နေမကောင်းခဲ့ရာ တပည့်ဒါယကာများ၏ တောင်းပန်ချက်အရ ရန်ကုန်မြို့သို့ (၂)ကြိမ်တိုင်အောင် သွားရောက်ဆေးကုသမှုခံခဲ့ပါသည်။ ဆရာတော်အနေဖြင့် လုံး၀ဆေးကုမခံလိုပါ။ ဒါယကာများ၏ ဆန္ဒကို လိုက်လျောခြင်း၊ ကုသိုလ်ရစေခြင်းကြောင့်သာ ဖြစ်ပါသည်။

သို့သော် ထိုဆေးများသည် ပိုးသတ်ဆေးဟုဆိုပါလျှင် လုံး၀ဘုဉ်းမပေး။ ပိုးသတ်ဆေးဆိုပါလျှင် ဆေးထိုးမခံပါ။

**ကံ့ကော်ပန်း သုံးပွင့် ထူးဆန်းစွာ ရရှိ**

ဆရာတော်၏ ကျောင်းဝင်းအတွင်းရှိ ကံ့ကော်ပင်တွင် အချိန်အခါမဟုတ် ကံ့ကော်ပန်းရနံ့မွှေးကြိုင်သဖြင့် အပင်ပေါ်သို့ တက်ရောက်ရှာဖွေခိုင်းရာ ကံ့ကော်ပန်း (၃)ပွင့်ကို တွေ့ခဲ့၍ မြတ်စွာ ဘုရားအား လှူဒါန်းခဲ့ပါသည်။

**ကောင်းအောင် နေကြ**

ဦးဒီပါလောကနှင့် ဦးအဂ္ဂဝံသ တပည့်ရဟန်းနှစ်ပါးအား "ကောင်းအောင်နေကြ၊ မည်သူ့ကိုမျှ အပြစ်မပြောကြနဲ့၊ မမေ့မလျော့နေကြ" ဟု နောက်ဆုံး မှာကြားခဲ့ပါသည်။

**ပရိနိဗ္ဗာန်ပြုတော်မူခြင်း**

အေဒီ ၂၀၀၇ ဆရာတော် ဘဒ္ဒန္တဝရသီဟ (ဝိနယဓရ) အရှင်သူမြတ်သည် သက်တော် (၇၀)နှစ်၊ ဝါတော် (၅၀)ဝါအရ ၁၃၆၉ ခုနှစ်၊ နတ်တော်လဆန်း (၁၀)ရက်၊ ဗုဒ္ဓဟူးနေ့ နံနက် (၇)နာရီ (၁၅)မိနစ် အချိန် (၁၉-၁၂-၀၇)တွင် ခန္ဓာဇာတ်သိမ်း ဘဝပြိမ်းအေးတော်မူသွားခဲ့ပါသည်။

**ရုပ်ကလာပ်တော်မှ မီးလုံးကဲ့သို့ အလင်းများ ထွက်ခြင်း**

အေဒီ ၂၀၀၇ နတ်တော်လဆန်း (၁၂)ရက်နေ့ညဥ့် ကျေးရွာတွင်းရှိ ဒကာ၊ ဒကာမကြီးအချို့ ကျောင်းတွင် လာရောက်အိပ်ကြပါသည်။ ထိုည လျှပ်စစ်လမ်းမီး မရှိပါ။ သို့ရာတွင် နံနက် (၃)နာရီအချိန် ဆွမ်းဟင်းချက်ရန်ထသော ဒကာမများသည် ရုပ်ကလာပ်တော်ရှိရာ၌ မီးလုံးကဲ့သို့ အလင်းလုံးများ(၃)ကြိမ်တိုင်တိုင် မှိတ်လိုက်ဖွင့်လိုက် ဖြစ်ပေါ်ခဲ့သည်ကို ထူးဆန်းစွာ ဖူးမြင်ခဲ့ကြရသည်။

**မပုပ်ဆေး မထိုးပါ**

မပုပ်ဆေး (ဖော်မလင်)ကို ထိုးမထားခဲ့သော်လည်း လုံး၀မပုပ်ပါ။

**စန္ဒာဝန်ချတော်မူခြင်း**

အေဒီ ၂၀၀၇ နတ်တော်လပြည့်ကျော် (၁)ရက်နေ့ ညနေ (၄)နာရီတွင် ထိုရုပ်ကလာပ်တော်အား ဒါယကာ၊ ဒါယိကာမများ၏ ရှေ့မှောက်တွင် စည်ကားသိုက်မြိုက်စွာ အဂ္ဂိရှာပန ပြုလုပ်ခဲ့ကြပါသည်။

**ထူးဆန်းသော ဖြစ်ရပ်များ**

ထိုသို့ အဂ္ဂိရှာပနပြုလုပ်ရာတွင် ညော်နံ့ လုံး၀မထွက်ခြင်း၊ မီးခိုးလုံးကြီးများ အပေါ်ဘက်သို့သာ ဦးတည်၍ တက်နေခြင်း၊ မီးခိုးများ ဘေးပတ်ဝန်းကျင်သို့ ပျံ့လွင့်မှုမရှိခြင်း၊ မီးကျီးခဲများ အပေါ်ရှိ အရိုးတော်များကိုလက်ဖြင့် ကိုင်ကြည့်ရာ နွေးရုံသာရှိသဖြင့် လာရောက်ကြည့်ရှု နေကြသူ များအားလည်း လက်တွေ့ကိုင်ကြည့် ပူဇော်စေခြင်း။

http://www.dhammadownload.com



**နှလုံးတော် မီးမလောင်သည်ကို တွေ့ရခြင်း**

အေဒီ ၂၀၀၇ နတ်တော်လပြည့်ကျော် (၂)ရက်နေ့ ညနေ (၃)နာရီခန့်တွင် နှလုံးတော်မီးမလောင်သည်ကို ထူးဆန်းစွာ တွေ့ရှိခဲ့ကြပါသည်။

**နှလုံးတော်တွင် ရုပ်ပုံပေါ်ခြင်း**

ထိုနှလုံးတော်တွင် ဆရာတော်ကြီး၏ ရုပ်ပုံတော်ပေါ်နေသည်။

မှတ်ချက်။ ထူးခြားစွာ ဗီဒီယို မှတ်တမ်းတင်နိုင်ခဲ့ပါသည်။

**အောင် ဟူသော စကားလုံး ပေါ်နေခြင်း**

ဦးခေါင်းတော် အခွံတွင်လည်း "အောင်" ဟူသော စာလုံးပေါ်နေသည်ကို ထူးထူးခြားခြား မှတ်တမ်းတင်နိုင်ခဲ့ပါသည်။

**ဓာတ်တော်များ ကျတော်မူခြင်း**

ကြွင်းကျန်ရစ်သော ဓာတ်တော်များမှာ ဆရာတော်၏ ဘဝတော်ကို အဆုံးအဖြတ်ပေးသော ဓာတ်တော်များဖြစ်ပါသည်။ ထိုဓာတ်တော်များကို အကြောင်းပြု၍ မှတ်တမ်းအလို့ငှာ မမေ့ကောင်းစရာများကို ကျွန်ုပ်တို့ ပူဇော် ရေးသားခြင်းဖြစ်ပါသည်။

**ထူးခြားသော ဓာတ်တော်များ ပူဇော်ခွင့်ရခြင်း**

အေဒီ ၂၀၀၇ ဆရာတော်ကြီး၏ ကြွင်းကျန်ရစ်နေသော ဓာတ်တော်များမှာ ထူးခြားကြောင်း မှတ်တမ်းရှိပါသည်။

(၁) အံတော်လေးဆူ၊
(၂) သွားတော် (၂၁)ဆူ၊
(၃) နှလုံးတော် တစ်ဆူ၊
(၄) လက်ယာဘက် ဒူးခေါင်းရိုးတော်တစ်ဆူ၊
(၅) မေးရိုးတော်တစ်ဆူ၊
(၆) ဦးခေါင်းခွံတစ်ဆူ၊
(၇) ဓာတ်တော်ကြီး(၁၁)ဆူ (အသွေးတော်မှ ဖြစ်ပေါ်လာခြင်း)၊
(၈) ပဲနောက်စေ့အရွယ် ဓာတ်တော်များစွာ (အရိုးတော်မှ ဖြစ်ပေါ်လာခြင်း)တို့ကို တွေ့ရှိခဲ့ရသည်ဟု မှတ်တမ်းတင်ကြရပါသည်။

ကျမ်းကိုး။ ခန္ဓာဇာတ်သိမ်း ဘဝငြိမ်းအေးတော်မူသွားသောဆရာတော်ကြီးတစ်ပါး၊ ဦးအေးရွှေ (ကနောင်)၊ နက္ခတ္တရောင်ခြည်မဂ္ဂဇင်း၊ အမှတ်-၂၆၄၊ ၂၀၀၈ခုနှစ်၊ ဇူလိုင်လ၊ စာ -၄၁။

http://www.dhammadownload.com



ယခုခေတ်တွင် တိုင်းနှင့်ပြည်နယ် ဂျူနီယာလက်ရွေးစင်တစ်ယောက်က
ဓာတ်တော်ကျသော ရဟန္တာဖြစ်သွားသည်ဆိုလျှင် သင်ယုံမည်လားမသိပါ။
ဂျူနီယာ တိုင်းနှင့်ပြည်နယ် လက်ရွေးစင်ဘဝမှ ရဟန်းခံပြီးနောက် ခန္ဓာဝန်ချသောအခါ
ဓာတ်တော်များ တဖွားဖွားကျတော်မူသော အံ့ဖွယ်ကောင်းသည့်
လူအမည် ကိုဆန်နီ၊ ရဟန်းဘွဲ့ အရှင်ဝိသုဒ္ဓ အမည်ခံ
မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ နမ်းကြဲကျေးရွာအုပ်စု၊

# စမ်းကြားကျောင်းဆရာတော် ဦးဝိသုဒ္ဓ

## ၁၉၅၉–၂၀၀၈

အေဒီ ၂၀၀၈

၂၀၀၈ ခုနှစ်၊ မေလ ၂/၃ နေ့များတွင် နာဂစ်မုန်တိုင်းကျသောကြောင့် ရန်ကုန်တစ်မြို့လုံး အမှိုက်ပုံဖြစ်လျက်ရှိစဉ် ကျွန်ုပ်တို့တစ်စုလည်း ဟိုသွားသည်သွား၊ ဟိုကြည့်သည်ကြည့်။ အပင်ကြီးအပင်ကြားသွားရင်း မျက်စိအလုပ်ရှုပ်လျက် ရှိပါသည်။ စိတ်လည်း အလုပ်ရှုပ်လျက် ရှိပါသည်။

ကျွန်ုပ်အလုပ်လုပ်သော ရန်ကုန်မြို့၊ ကန်တော်ကြီး၊ ကရဝိက်နန်းတော်နှင့် ဥယျာဉ်ကြီးမှာလည်း ပြိုလဲနေသောသစ်ပင်များကြောင့် ကသိကအောက်ဖြစ်လျက် ရှိပါသည်။ ထိုအချိန်တွင် ဇေကမ္ဘာကုမ္ပဏီလီမိတက် ဒါရိုက်တာတစ်ဦးဖြစ်သူ ကိုဇေသီဟကလည်း မနန္ဒာလှိုင်နှင့် အကြောင်းဆက်ပြန်သဖြင့် ကျွန်ုပ်တို့တစ်စုမှာ ပို၍ပို၍ အလုပ်လုပ်လျက်ရှိပါတော့သည်။ ထိုစဉ်ကာလမှာ မန္တလေးက ရောက်လာသောသတင်းအရ ဘုန်းကြီးဝတ်သွားသော ကျွန်ုပ်တို့၏မွေးသူရဲကောင်းကြီးဖြစ်သော မိတ်ဆွေကြီး ကိုဂျင်မီသည် ဘုန်းကြီးဝါ (၇) ဝါ အရတွင် ခန္ဓာဝန်ချပါသည်။ ထိုရက်တွင်ပင် မီးသဂြိုဟ်ပါသည်။ ထိုအခါ မည်သို့မှ မထင်မှတ်ထားဘဲ အမှတ်ထင်ထင်ဟု ဆိုရမည်လား။ (သို့တည်းမဟုတ်) အမှတ်မထင်ဟု ဆိုရမည်လားမသိ။ ထိုဦးပဥ္စင်းကြီးသည် (ဝါ) ထိုဆရာတော်ကြီးသည် ဓာတ်တော်များ တဖွားဖွားကျသည်ဟု ဆိုပါသည်။ အလွန်အံ့ဖွယ်၊ ကြည်ညိုဖွယ်ဖြစ်ပါသည်။ ယခုခေတ်တွင် သူလို၊ ငါလို နေ့စဉ်မြင်နေကျ လူတွေထဲက ရဟန္တာဖြစ်သွားသည်ဆိုလျှင် ပြော၍ယုံမည်မထင်ပါ။ ပြောမယုံကြုံမှသိဟူသော စကား၏အဓိပ္ပါယ်ကို ယခုမှ ရှင်းရှင်းကြီး သဘောပေါက်ရကြောင်း ဝန်ခံလိုပါသည်။ ဤသို့ ပါရမီကြီးသော ပုဂ္ဂိုလ်များကို ပူဇော်နေ၍ ဤစာပြုသူသည် ဤပဋိပတ္တိသာသနာဝင်ကျမ်းကြီးကို ပြုစုရခြင်း ဖြစ်ပါသည်။ ဤသို့ဖြင့် ဘုရားကိုလည်း ပူဇော်ပါ၏။ တရားကိုလည်း ပူဇော်ပါ၏။ သံဃာကိုလည်း ပူဇော်ပါ၏။

http://www.dhammadownload.com



အေဒီ ၁၉၉၈ ကိုဂျင်မီ ဘုန်းကြီးဝတ်သည်မှာ ကြာလှပြီမဟုတ်သေး။ ကျွန်တော့်အထင်ပြောရလျှင် ခရစ်နှစ် ၁၉၉၈ ခုနှစ်၊ ဩဂုတ်လ(၆) ရက်နေ့၊ မြန်မာသက္ကရာဇ် ၁၃၆၀ ပြည့်၊ ဝါခေါင်လဆန်း (၁၄) ရက်၊ ကြာသပတေးနေ့က ဝတ်ခြင်းဖြစ်ပါသည်။

**တည်နေရာ**

မန္တလေးတိုင်း၊ ရွှေဟင်္သာကျောင်းမှာ ဖြစ်ပါသည်။ ရွှေဟင်္သာကျောင်းသည် ပုသိမ်ကြီးမြို့နယ်၊ အရှေ့ရွှေးစုရပ်ကွက်တွင် ရှိပါသည်။ ထိုစဉ်က ကိုဂျင်မီသည် သာမဏေသာဖြစ်ပါသေးသည်။

**ရဟန်းဘဝ**

၎င်းနောက် ကိုဂျင်မီသည် မြင့်မြတ်သောရဟန်းဘဝသို့ရောက်ပါသည်။ ဒါယကာမှာ မန္တလေးမြို့၊ မျက်ပါးရပ်က ဦးဝင်းတင်ဖြစ်သည်ဟု သိရပါသည်။ ရွှေဟင်္သာကျောင်းတိုက်ဆရာတော် ဘဒ္ဒန္တ တေဇဝန္တကို ဥပဇ္ဈာယ်ပြု၍ရောက်ခြင်းဖြစ်ပါသည်။

**စာသင်သားဘဝ**

၎င်းနောက် ဦးပဥ္စင်းသည် ပိဋကတ်အခြေခံကျမ်းစာများကို သင်ယူသည်ဟု သိရပါသည်။ ဆရာမှာ စစ်ကိုင်းတိုင်း၊ ကန့်ဘလူမြို့နယ်၊ ကိုးတောင်ဘို့ရွာ၊ ရန်အောင်မင်္ဂလာစာသင်တိုက် ဆရာတော် ဘဒ္ဒန္တဝိနယဖြစ်ပါသည်။

**တရားဘဝ**

၎င်းနောက် ဦးပဥ္စင်းသည် တရားကျင့်သည်ဟု သိရပါသည်။ မန္တလေးမြို့၊ မြို့ဟောင်းမင်္ဂလာ ရိပ်သာတွင် စခန်းဝင်ပါသည်။

**မိုးကုတ်နည်း**

နည်းမှာ မိုးကုတ်ဆရာတော်ဘုရားကြီး၏ နည်းပင်ဖြစ်ပါသည်။

**ကျောင်းထိုင်ဆရာတော် ဘဝ**

အေဒီ ၂၀၀၀ ၎င်းနောက် သိရသည်မှာ ဦးပဥ္စင်းသည် ၂၅-၁-၂၀၀၀ ပြည့်နှစ်မှ စတင်ကာ မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ နှမ်းကြကျေးရွာအုပ်စုတွင် တည်ရှိသော စမ်းကြားကျောင်းတိုက်တွင် ကျောင်းထိုင်ဆရာတော်အဖြစ် တာဝန်ယူသည်ဟု သိရပါသည်။

**ကမ္ဘာအေး ပြည်လုံးချမ်းသာစေတီ တည်တော်မူခြင်း**

ထိုအချိန်တွင် ဆရာတော်သည် ဉာဏ်တော် (၁၈)တောင်ရှိ ကမ္ဘာအေးပြည်လုံးချမ်းသာစေတီ ကို တည်တော်မူပါသည်။

**အောင်ထွတ်ခေါင်စေတီ တည်တော်မူခြင်း**

အေဒီ ၂၀၀၁ ၎င်းနောက် ၆-၅-၂၀၀၁ ခုနှစ်တွင် အောင်သိဒ္ဓိဂူနှင့် အောင်ထွတ်ခေါင်စေတီတော်ကို တည်တော်မူပါသည်။

**နဂါးရုံ ဘုရားကြီးတည်တော်မူခြင်း၊**

အေဒီ ၂၀၀၂ ၎င်းနောက် ၂၄-၇-၂၀၀၂ ခုနှစ်တွင် နဂါးခုနစ်ဖော် နဂါးရုံဘုရားကြီးကို တည်တော်မူပြန်ပါ သည်။

**အဓိဋ္ဌာန်ဝင်တော်မူခြင်း**

ဤသို့ဖြင့် ဆရာတော်သည် အောင်သိဒ္ဓိဂူတွင် အဓိဋ္ဌာန် (၄) ကြိမ်ဆက်တိုက်ဝင်သည်ဟု ဆိုပါသည်။

(၁) ပထမအကြိမ်တွင် သစ်သီးဆွမ်းနှင့် (၉) ရက်အဓိဋ္ဌာန်။

http://www.dhammadownload.com



(၂) သစ်သီးဆွမ်းနှင့် (၉) ရက်အဓိဋ္ဌာန်။
(၃) ဖျော်ရည်ဆွမ်းနှင့် (၉) ရက်အဓိဋ္ဌာန်။
(၄) ရေဆွမ်းနှင့် (၁၁) ရက် အဓိဋ္ဌာန်။
ဤသို့ဖြင့် ရက်ပေါင်း (၃၈) ရက် အဓိဋ္ဌာန်ဝင်ခဲ့ပါသည်။

**အဓိဋ္ဌာန်အောင်ခြင်း**

အဓိဋ္ဌာန်အောင်မြင်ပြီးနောက်တွင်ကား ဘုရားအဆူဆူကို တည်တော်မူပါသည်။ ကမ္ဘာအေး ရွှေစေတီ၊ ပြည်လုံးချမ်းသာစေတီ ဉာဏ်တော် (၉) တောင်၊ ကပ်ကျော်ရွှေစေတီ ဉာဏ်တော် (၉) တောင်။

**သာသနာပြုလုပ်ငန်းများ၊ နယ်စပ်နှင့်တောင်တန်းဒေသအထိ ပေါက်ရောက်ခြင်း**

ဆရာတော်ပြုခဲ့သော သာသနာပြုလုပ်ငန်းများသည် ရှမ်းပြည်နယ် မြောက်ပိုင်းအထိရောက်၏။ သီပေါမြို့၊ မန်ဆိုင်ကျေးရွာအနီး ကျိုင်းရွာရှိ ရှေးဟောင်းစေတီပျက်ကို တင့်တယ်အောင် ပြုပြင်တော်မူ၏။ ထီးချိုဘုရားဟု အမည်တော်ဆက်ကပ်၏။ ၎င်းနောက် ဒီပဲယင်းမြို့နယ်၊ ညောင်လှကျေးရွာတွင် ဇမ္ဗူထွတ်ခေါင် ကိုးနဝင်းစေတီကို တည်တော်မူပြန်၏။ (၉) တောင်ပြည့် စေတီဖြစ်၏။ မုခ် (၄) မုခ်ရှိ၏။ ၎င်းနောက် စစ်ကိုင်းတိုင်း၊ ရေဦးမြို့တွင် နဂါး (၇) ဖော် နဂါးရုံစေတီကြီးတည်တော်မူပြန်၏။ ၎င်းနောက် ရန်အောင်မြင်စေတီဟူ၍ တည်တော်မူပြန်၏။ ဉာဏ်တော် (၂၇) တောင်စေတီရှိ၏။ ၎င်းနောက် စစ်ကိုင်းတိုင်းတွင် ကိုးတောင်ဘို့ ကျေးရွာ၊ ဂုန်ညှင်းလျှိုကျေးရွာတို့တွင် ဇမ္ဗူထွတ်ခေါင် ကိုးနဝင်းရွှေစေတီကြီး တည်ပြန်၏။ ဉာဏ်တော် (၁၈) တောင်ရှိ၏။

**သာသနိက အဆောက်အဦများ**

ထိုမျှသာမကသေး။ စမ်းကြားကျောင်းတိုက်ကြီးအတွင်းတွင်လည်း ဓမ္မာရုံကြီးလည်းတည်၏။ ဇရပ်လည်းဆောက်၏။ သိမ်တော်ကြီးလည်းပြု၏။ ရေကန်တော်ကြီးလည်းတူး၏။ ဤသို့ဖြင့် ကျောင်းဝင်းအတွင်း၌ စေတီတော်များ၊ ရုပ်ပွားတော်များ ပေါ်လာခဲ့၏။

**အသံမစဲ ပဋ္ဌာန်းပွဲတန်ခိုးတော်**

အသံမစဲ မေတ္တာကမ္မဋ္ဌာန်းပွဲများလည်း ရွတ်ဖတ်ပူဇော်ခဲ့ကြ၏။

**သက်သတ်လွတ်ဟင်း**

ရပ်ဝေးရပ်နီး ဧည့်သည်များကိုလည်း သက်သတ်လွတ်ထမင်းဟင်းများ ကျွေးမွေးပြန်၏။ တန်ဆောင်မုန်းဆိုလျှင် ကထိန်ပွဲရှိ၏။ တပေါင်းလဆိုလျှင် ဘုရားပွဲရှိ၏။

**တောင်တန်းနှင့်နယ်စပ်ဒေသ အလှူတော်**

တောင်တန်းနှင့် နယ်စပ်က ရဟန်းသံဃာများကိုလည်း ကထိန်သင်္ကန်းလှူ၏။ ဆွမ်းဆန် စိမ်းလောင်း၏။

**သင်္ကြန်ရက် တရားပွဲများ**

သင်္ကြန်ရက်များတွင်လည်း ဒုလ္လဘရဟန်းသာမဏေများနှင့် ယောဂီများကို ဝိပဿနာအလုပ်ပေး စခန်း (၉) ရက်ကျင်းပ၍ တွင်တွင်ကြီး တရားပြခဲ့၏။

**စမ်းကြားတောရက တရှုတ်ထမင်း၊ တရုတ်ဟင်း**

ဤသို့ဖြင့် စမ်းကြားတောရတွင် သက်သတ်လွတ်ဟင်းများချက်ရာတွင် တရုတ်ထမင်း၊ တရုတ်ဟင်းမျိုးစုံ ထူးထူးခြားခြားပါ၏ဟု ကိုယ်တွေ့ပြောကြပါသည်။

http://www.dhammadownload.com



**လိုရင်းတိုရှင်း တရားဟော**

ဆရာတော်က လိုရင်းတိုရှင်းသာဟော၏။ ကံသည်အလုပ်ဖြစ်၏။ အလုပ်သည် ကံဖြစ်၏။ ကောင်းတာလုပ်လျှင် ကောင်းတာဖြစ်၏။ အနေးနှင့်အမြန်ကောင်းလာလိမ့်မည်။ ကောင်းတာကို သိအောင်လုပ်၊ သိပြီးလျှင် ဆက်လုပ်။ ဤသို့ဆိုမိန့်၏။

**ဆရာတော်ဟောသော တရားအနှစ်ချုပ်**

ဆရာတော်၏တရားများမှာ လိုတိုရှင်းဖြစ်၏။ သီလရှိပါ။ သီလစောင့်ပါ။ အချင်းချင်းမြတ်နိုးပါ။ မေတ္တာထားပါ။ ကြင်နာပါ။ ကရုဏာထားပါ။ ဝမ်းသာတတ်အောင်ကြိုးစားပါ။ မုဒိတာရှိကြပါ။ သည်းခံကြပါ။ အလိုတဏှာ ရပ်စဲချိန်တွင် ချမ်းသာခြင်းသည် စတင်ဖြစ်ပေါ်၏။ စသည် စသည်ဖြင့် ဩဝါဒပေးလေ့ရှိပါသည်။

**ရက်တိုတိုနှင့် မဂ်ဖိုလ်**

ဤသို့ဖြင့် ဆရာတော်၏ဂုဏ်သတင်းမှာ ရပ်ဝေးရပ်နီးကျော်စော၏။ အချိန်တိုတိုနှင့် ခရီးရောက်၏ဟု ဆိုကြ၏။ သမထအားထုတ်သလား၊ ဝိပဿနာအားထုတ်သလားဟူ၍ အချင်းချင်းပင် မေးမြန်းကြသည်ဟု ဆိုကြပါသည်။

**သမထ အလုပ်မှာ ရက်ကန်းစင်တောင် ဆရာတော်**

ဆရာတော်သည် ပုတီးနှင့် တောင်ဝှေးနှင့် ရိုက်ထားသော ဓာတ်ပုံတစ်ပုံကိုလည်း ချိတ်ဆွဲထားပါသည်။ ဘုရားတည်ခြင်း၊ ကျောင်းဆောက်ခြင်းတို့သည် သမထအလုပ်ဖြစ်ပါသည်။ ဆရာတော်ကြီး၏ ဆရာတော်တစ်ပါးသည် ရက်ကန်းစင်တောင် ဦးဩဘာသ ဖြစ်သည်ဟု အသေအချာသိရပါသည်။

**ဝိပဿနာမှာ မိုးကုတ်နည်း**

ဆရာတော်သည် ဝိပဿနာတရားကျင့်ကြံရာတွင် မိုးကုတ်ဆရာတော်ဘုရားကြီး၏ နည်းနာနိဿယအတိုင်း အသေအချာ ကိုယ်တိုင်လည်း လိုက်နာ၏။ ကျင့်ကြံ၏။ အားထုတ်၏။ တပည့်များကိုလည်း ညွှန်ကြား၏။

**ဂျူဒိုဆရာဘဝ တိုင်းနှင့်ပြည်နယ် လက်ရွေးစင်ဘဝ**

ဂျူဒိုဆရာဘဝ၊ တိုင်းနှင့် ပြည်နယ်လက်ရွေးစင်ဘဝ၊ စသည့် ဘဝများမှ မြင့်မြတ်သောရဟန်းဘဝသို့ ရောက်လာခဲ့သော ဤဆရာတော်သည် (ဝါ) ဤအရှင်သည် ဘဝပေါင်းများစွာက ပါရမီကြီးသည်ကို မည်သူမျှမငြင်းနိုင်ချေ။

**ဓာတ်တော်ကျခြင်း ဘဝအဆက်ဆက် ပါရမီတော်သက်သေကို မည်သူမျှ မငြင်းနိုင်**

အဘယ့်ကြောင့်ဆိုသော် ခန္ဓာဝန်ချတော်မူသောအခါ ရုပ်ကလာပ်တော်ကို မီးသင်္ဂြိုဟ်ရာတွင် ဓာတ်တော်များ တဖွားဖွားကျတော်မူလာသောကြောင့် ဖြစ်ပါသည်။

**ပရိနိဗ္ဗာန် ပြုတော်မူခြင်း**

အေဒီ ၂၀၀၈

ဆရာတော်သည် သက်တော် (၄၉) နှစ်မှာ ခန္ဓာဝန်ချသည်။ ဝါတော် (၁၇)ဝါမျှသာရှိသည်။ ခန္ဓာဝန်ချသောနေ့မှာ ၂၉-၄-၂၀၀၈၊ ၁၃၇၀ ပြည့်နှစ်၊ တန်ခူးလပြည့်ကျော် (၉) ရက်၊ အင်္ဂါနေ့နံနက် (၁း၁၅) နာရီတွင်ဖြစ်ပါသည်။

**ကြွင်းကျန်သော ရုပ်ကလာပ်တော်**

ကြွင်းကျန်သောရုပ်ကလာပ်ကို ၃-၅-၂၀၀၈ (စနေနေ့) တွင် အန္တိမသဘင် ကျင်းပခဲ့ပါသည်။

http://www.dhammadownload.com



**နာဂစ်မုန်တိုင်းကျသောနေ့တွင် မီးသင်္ဂြိုဟ်ခဲ့**

ထိုနေ့တွင် ရန်ကုန်တိုင်းနှင့် ဧရာဝတီတိုင်းတို့တွင် နာဂစ်မုန်တိုင်းဒဏ်ခံနေရကြောင်း ပြောဆိုခဲ့ပြီး ဖြစ်ပါသည်။ ထိုနေ့တွင်ပင် မီးသင်္ဂြိုဟ်တော်မူပါသည်။

**ဓာတ်တော်များ တဖွားဖွားကျ**

ဓာတ်တော်များ တဖွားဖွားကျတော်မူပါသည်။ မယုံနိုင်သူတို့ပင် ယုံကြရပါသည်။

**ဘဝစာမျက်နှာများ**

ကျွန်ုပ်သိသလောက် ဇာတ်ကြောင်းမှာ ဤသို့ဖြစ်သည်။

**ပဓာန နာယကဘဝ**

စမ်းကြားဆရာတော်သည် ဘွဲ့တော် ဘဒ္ဒန္တဝိသုဒ္ဓဖြစ်၏။ မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ နှမ်းကျဲကျေးရွာအုပ်စု၊ စမ်းကြားကျောင်းတိုက် ပဓာနနာယကဖြစ်၏။

**ဇာတိဘဝ**

ဇာတိမှာ ထားဝယ်ဖြစ်၏။ အဖမှာ ဦးလှစိန်ဟုလည်းခေါ်၏။ ဦးညွန့်တင်ဟုလည်းခေါ်၏။ အမိမှာ ဒေါ်စွမ်းဖြစ်၏။ တနင်္သာရီတိုင်း၊ ထားဝယ်မြို့၊ ဝဲကျွန်းရပ်မှာ နေကြ၏။

**ငယ်မည် မောင်ဝင်းပိုင် (ခေါ်) ဂျင်မီ**

ငယ်မည်မှာ မောင်ဝင်းပိုင်ဖြစ်၏၊ အများက ဂျင်မီဟူ၍ပင် ခေါ်ကြပါသည်။

**မွေးချင်းပေါက်ဖော်များ**

မွေးချင်းများမှာ (၁) မတင်တင်အုန်း၊ (၂) မောင်တင့်လွင်၊ (၃) မောင်ဝင်းနိုင်တို့ဖြစ်ကြပါသည်။

**ဖွားသက္ကရာဇ်**

မောင်ဝင်းပိုင် (ခေါ်) ဂျင်မီ၏ မွေးသက္ကရာဇ်မှာ ၁၄-၁၀-၁၉၅၉ ခုနှစ်၊ ၁၃၂၁ ခု၊ သီတင်းကျွတ်လဆန်း (၁၃) ရက်နေ့ဖြစ်၏။ ဗုဒ္ဓဟူးသားဖြစ်၏။

**ထားဝယ်မြို့၊ အလယ်တန်းကျောင်းထွက်**

အေဒီ ၁၉၅၉

၁၉၇၄ ခုနှစ်တွင် မူလတန်းစတက်၏။ ထားဝယ်မြို့၊ အမှတ် (၁) အလယ်တန်းကျောင်းထွက်ဖြစ်ပေသည်။

**မော်လမြိုင်မြို့ ရှစ်တန်းကျောင်းထွက်**

(၈) တန်းအောင်ပြီးနောက် မော်လမြိုင်သို့ ပြောင်းလာပါသည်။ မိဘများနှင့်အတူ လိုက်ပါရခြင်းဖြစ်သည်။

**မော်လမြိုင်မြို့ အ.ထ.က ကျောင်းသား**

(၉) တန်းနှင့် (၁၀) တန်းရောက်သောအခါ မော်လမြိုင်မြို့၊ အမှတ် (၁) အထက်တန်းကျောင်းမှာပင် ကျောင်းတက်ခဲ့ရပါသည်။

**တိုင်းနှင့်ပြည်နယ် ရွှေတံဆိပ်ဆုရှင်ဘဝ**

အေဒီ ၁၉၈၂

ကျွန်တော်မှတ်မိသလောက်ပြောရလျှင် ၁၉၈၂ ခုနှစ်တွင် မွန်ပြည်နယ်ကိုယ်စားပြု ဂျူဒိုလက်ရွေးစင်ဖြစ်ခဲ့၏။ တိုင်းနှင့်ပြည်နယ်ပြိုင်ပွဲတွင် ရွှေတံဆိပ်ရခဲ့၏။ ရန်ကုန်မြို့ အောင်ဆန်းကွင်း လက်ရွေးစင်ဖြစ်လာ၏။

http://www.dhammadownload.com



**အရှေ့တောင်တိုင်း စစ်ဌာနချုပ် ဂျူဒိုနည်းပြဆရာ ခုနစ်နှစ်ကြာခဲ့**

ကျွန်တော်ကောင်းစွာမှတ်မိသည်မှာ ကိုဂျင်မီသည် အရှေ့တောင်တိုင်း စစ်ဌာနချုပ်တွင် ဂျူဒိုနည်းပြဆရာအဖြစ် အကြာကြီးလုပ်ခဲ့၏။ (၇) နှစ်တိတိကြာသည်ဟု ဆိုရပါမည်။

**အိမ်ထောင်သည်ဘဝ**

အေဒီ ၁၉၈၁ ကျွန်တော်မှတ်မိသလောက်ပြောရလျှင် ကိုဂျင်မီသည် ၁၉၈၁ ခုနှစ်တွင် အိမ်ထောင်ကျပါသည်။ သားသမီး (၄) ယောက်ရခဲ့ပါသည်။ ဇနီးသည်၏ အမည်မှာ မချိုချိုမြင့်ဖြစ်ပါသည်။ မော်လမြိုင်မြို့၊ မုရမ်းကုန်းရပ်ကွက်တွင်နေပါသည်။ မချိုချိုမြင့်၏အဖေမှာ ဦးပိုင်ဖြစ်၏။ အမေမှာ ဒေါ်ကွမ်မေဖြစ်၏။

**သာမဏေဘဝ**

အေဒီ ၁၉၉၈ ကိုဂျင်မီသည် ၆-၈-၁၉၉၈ ခုနှစ်တွင် ရှင်သာမဏေဖြစ်တော်မူပါသည်။ ထိုနှစ် ထိုလတွင် ကျွန်တော်သည် ဂျပန်ပြည်မှ မြန်မာပြည်သို့ ပြန်လာခဲ့ပါသည်။ ထို့ကြောင့် ကောင်းစွာမှတ်မိနေခြင်းဖြစ်ပါသည်။

**ဦးဝိသုဒ္ဓဘဝ**

ကိုဂျင်မီ ဘုန်းကြီးဝတ်သောအခါ ဦးဝိသုဒ္ဓဟူ၍ ဖြစ်လာ၏။ ကျောင်းထိုင် ပဓာနနာယကကြီးဖြစ်လာ၏။ တရားထူး တရားမြတ် ရတော်မူခဲ့၏။

**မခန့်မှန်းနိုင်သော ကမ္ဘာကမ္ဘေကပါရမီတော်တွေကြောင့် ဓာတ်တော်တွေ တဖွားဖွားကျသော ရဟန္တာကြီး ဖြစ်တော်မူခဲ့**

သံသရာအဆက်ဆက်က ဆည်းပူးလာသောပါရမီတော်များကြောင့် ဓာတ်တော်များ တဖွားဖွားကျတော်မူခဲ့၏။ ငယ်ငယ်တုန်းက မောင်ဝင်းပိုင်၊ ဂျူဒိုလက်ရွေးစင်ဖြစ်ခဲ့သော ကိုဂျင်မီ၊ ၎င်းနောက် ကျွန်ုပ်တို့ ဉာဏ်မမီတော့သော ရဟန္တာအရှင်မြတ်ကြီး ဖြစ်တော်မူခဲ့၏။ ကိုဂျင်မီဘဝမှ တက်လှမ်းခဲ့သော ရဟန္တာအရှင်မြတ်ကြီးကို ကိုဂျင်မီထက် အသက်ကြီးသော ဆရာမောင်ပန်းမွှေး တမ်းတအောက်မေ့ ကြည်ညိုစွာ ကန်တော့လိုက်ပါသည်။

